ပဌမနှိပ်ခြင်း

၁၉၇၅ ခုနှစ်

အုပ်ရေ ၂၀၀၀၀

စာပေဗိမာန်ပုံနှိပ်တိုက်၊ (မှတ်ပုံတင်အမှတ် - ၀၀၃၂) ၃၆၁ - ပြည်လမ်း၊ ရန်ကုန်မြို့တွင်
ဦးခင်မောင်ကြီးက ရိုက်နှိပ်၍
စာပေဗိမာန် အုပ်ချုပ်ရေးမှူး ဦးထင်ကြီး (မှတ်ပုံတင်အမှတ် - ၀၄၇၀) က တာဝန်ခံထုတ်ဝေသည်။



သံဃာတော် အရှင်မြတ်များ ဥဒ္ဒိဿက စေတီတော်ကို အနေကဇာတင်နေကြပုံ

၈၉၁၁

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

## ရုပ်ပြဗဟုသုတဘဏ်



အတွဲ – ၁၄

ဟိုက် – ၃

ရန်ကုန်မြို့

မြန်မာနိုင်ငံ ဘာသာပြန် စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီးဥ္စာကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင် ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေ ဖတ်ရှု နိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ် အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ် အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ် ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ် ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများ အကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ် တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာ တွင် ပြန်လည် ဖတ်ရှု လေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိ အောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ် အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေ သည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်း ရပ်ခေါင်းစည်းသို့၎င်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီ ရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသော အခါတွင်၎င်း၊ (........................ — ရှု။) ဟုညွှန်းသည်။ ပညာသဘော အားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (........................ — လည်းရှု။) ဟု ညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန် လမ်းညွှန်ပင်ဖြစ် သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ် လောက် ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သား ဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ ပြက္ခဒိန်ကို၎င်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကို၎င်း၊ ထည့် သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင် ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာ လှန်လှော ရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါ အကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက် မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကိုအောက်ပါအက္ခရာစဉ်အတိုင်းစီစဉ်ထားသည်

၁။ အ
၂။ အာ
၃။ အား

၄။ အိ
၅။ အီ
၆။ အီး

၇။ အု
၈။ အူ
၉။ အူး

၁၀။ အေ့
၁၁။ အေ
၁၂။ အေး

| | |
|---|---|
| ၁၃။ အဲ့<br>၁၄။ အယ်<br>၁၅။ အဲ | နောက်ပစ် နှင့် ယသတ် |

၁၆။ အော့
၁၇။ အော်
၁၈။ အော

၁၉။ အို့
၂၀။ အို
၂၁။ အိုး

| | |
|---|---|
| ၂၂။ အက်<br>၂၃။ အောက်<br>၂၄။ အိုက် | ကသတ် |
| ၂၅။ အင့်<br>၂၆။ အင်<br>၂၇။ အင်း | ငသတ် |
| ၂၈။ အောင့်<br>၂၉။ အောင်<br>၃၀။ အောင်း<br>၃၁။ အိုင့်<br>၃၂။ အိုင်<br>၃၃။ အိုင်း | ငသတ် |
| ၃၄။ အစ် | စသတ် |
| ၃၅။ အည့်<br>၃၆။ အည်<br>၃၇။ အည်း | ညကြီးသတ် |
| ၃၈။ အဉ့်<br>၃၉။ အဉ်<br>၄၀။ အဉ်း | ဉကလေးသတ် |
| ၄၁။ အတ်<br>၄၂။ အိတ်<br>၄၃။ အုတ် | တသတ် |
| ၄၄။ အန့်<br>၄၅။ အန်<br>၄၆။ အန်း<br>၄၇။ အိန့်<br>၄၈။ အိန်<br>၄၉။ အိန်း<br>၅၀။ အုန့်<br>၅၁။ အုန်<br>၅၂။ အုန်း | နသတ် |
| ၅၃။ အပ်<br>၅၄။ အိပ်<br>၅၅။ အုပ် | ပသတ် |
| ၅၆။ အမ့်<br>၅၇။ အမ်<br>၅၈။ အမ်း<br>၅၉။ အိမ့်<br>၆၀။ အိမ်<br>၆၁။ အိမ်း<br>၆၂။ အုမ့်<br>၆၃။ အုမ်<br>၆၄။ အုမ်း | သေးသေးတင် နှင့် မသတ် |

| | | |
|---|---|---|
| ၆၅။ | ျ | ယပင့် |
| ၆၆။ | ြ | ရရစ် |
| ၆၇။ | ွ | ဝဆွဲ |
| ၆၈။ | ှ | ဟထိုး |
| ၆၉။ | ျွ | ယပင့် ဝဆွဲ |
| ၇၀။ | ြွ | ရရစ် ဝဆွဲ |
| ၇၁။ | ျှ | ယပင့် ဟထိုး |
| ၇၂။ | ြှ | ရရစ် ဟထိုး |
| ၇၃။ | ွှ | ဝဆွဲ ဟထိုး |
| ၇၄။ | ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ | ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။

## ထင်ပေါ်ကျော်ကြား ပုဂ္ဂိုလ်များ



## တီကျသိအပ် အရပ်ရပ်



## သုခမဝင် ကြောင်းစုံလင်



## တမြေရပ်ခြား ဒေသများ



## သစ်ပင်ပန်းမာလ် တိရစ္ဆာန်



## သိပ္ပံအံ့ဖွယ် အသွယ်သွယ်



## လုပ်ငန်းဆောင်တာ အဖြာဖြာ



## အားလပ်ချိန်ဝယ် ပျော်ရွှင်ဖွယ်



## လောကီထုပ္ပတ် လူတို့ဇာတ်

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ ဖတ်ရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဥာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံ စသည်ဖြင့် ဝေဆာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများ ရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှရင်း၊ နယူးယော့မြို့ အီဝင် ဂယ်လိုဝေမှရင်း ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့် ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူး အထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာ နိုင်ငံတော်၊ ပြန်ကြားရေးနှင့် အသံလွှင့် ဦးစီးဌာန | ရန်ကုန်မြို့ | ၂၅၊ ၃၄၊ ၈၉၊ ၁၁၂ (အထက် + အောက်)၊ ၁၁၃၊ ၁၃၃၊ ၁၃၄၊ ၃၁၃၊ ၃၉၄ |
| ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော်၊ ရှေးဟောင်း သုတေသန ဦးစီးဌာန | ရန်ကုန်မြို့ | ၆၀၊ ၆၁၊ ၆၂၊ |
| ဦးကျော်လှ | ရန်ကုန်မြို့ | အနေကဇာတင်ခြင်း(ရောင်စုံပုံ) |
| ဦးကျော်ဝင်း | ရန်ကုန်မြို့ | ၃၃၇ |
| ဦးခင်စန် | ရန်ကုန်မြို့ | ၂၈၃၊ ၂၈၅ |
| ခင်လေးမောင် | ရန်ကုန်မြို့ | ၁၅၂၊ အာနန္ဒာဘုရား (ရောင်စုံပုံ) |
| ဦးထင်ကြီး | ရန်ကုန်မြို့ | ၉၀၊ ၁၀၉၊ ၂၀၅ |
| ဦးထွန်းရည် | ရန်ကုန်မြို့ | ၁၉၊ ၂၁၊ ၃၄ |
| မောင်ပြည်စိုး | ရန်ကုန်မြို့ | ၃၀၈၊ ၃၅၀၊ ၃၅၁ |
| ဦးဘကွန်း | မန္တလေးမြို့ | ၁၉၅ |
| ဦးဘချွန်း | ဟင်္သာတမြို့ | ၂၇ |
| ဦးမောင်မောင်အေးမြင့် | ပေါင်းတည်မြို့ | ၄၇၁ |
| ဦးအုန်းမြင့် | ရန်ကုန်မြို့ | ၂၀ |
| အမေရိကန်သံရုံး၊ ပြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၆၊ ၂၀၁၊ ၂၀၂၊ ၂၀၃၊ ၂၀၄၊ ၂၀၅၊ ၂၀၆၊ ၂၁၇၊ ၂၀၈၊ ၃၂၀၊ ၃၂၃၊ ၃၂၄၊ ၃၂၅ |
| ဆိုဗီယက်သံရုံး | ရန်ကုန်မြို့ | ၃၁၈၊ ၃၁၉၊ ၃၂၆၊ ၃၉၀၊ ၄၃၅၊ ၄၆၉ |
| ကုလသမဂ္ဂ ပြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၇၅ |
| နိုင်ငံပမှ | | |
| ဟောင်ကောင် ညှော်ကြိုလုပ်ငန်းအသင်း (Hongkong Tourist Association) | ဟောင်ကောင်မြို့ (Hongkong) | ၃၀ (အထက် – အောက်)၊ ၃၁ |

# လေထု၏စိုထိုင်းမှုတိုင်းကရိယာ

လေထု၏ စိုထိုင်းမှုကို တိုင်းတာသော ကရိယာမျိုး ဖြစ်သည့် ဟိုက်ဂရိုမီတာသည် ဆိုက်ကရိုမီတာ၊ ကက်တာသာမိုမီတာ စသည်ဖြင့် အမျိုးမျိုးအစားစားရှိသည်။ အောက်ပါအကြောင်းရပ်တွင် ဟိုက်ဂရိုမီတာအစားစားရှိပုံနှင့် ယင်းတို့ကို မည်သို့အသုံးပြုရပုံကို ဖော်ပြအားသည်။

**ဟိုက်ဂရိုမီတာ။** ။လေထု၏စိုထိုင်းမှုအဆကို သိလိုသောအခါ ဟိုက်ဂရိုမီတာခေါ် ကရိယာတမျိုးကို အသုံးပြုကြလေသည်။ ထိုစိုဆိုင်းမှု (လေထု၏ ရေငွေ့ပမာဏ) သည် မိုးလေဝသ ဌာနမှ မိုးလေဝသ အခြေအနေကို ကြိုတင်၍ ခန့်မှန်းရာ၌ အရေးကြီးသော အကြောင်းတရပ် ဖြစ်လေသည်။

ဟိုက်ဂရိုမီတာ အမျိုးမျိုးရှိရာ အသုံးအများဆုံး ဟိုက်ဂရိုမီတာမျိုးမှာ ဆိုက်ကရိုမီတာ၊ သို့မဟုတ် အစိုနှင့် အခြောက် ဖန်သီးဟိုက်ဂရိုမီတာဖြစ်သည်။ ထိုဟိုက်ဂရိုမီတာမျိုးတွင် သာမိုမီတာနှစ်ခုကို အတံတခုတွင် တဖက်တချက်စီဆင်ထားသည်။ ထိုသာမိုမီတာနှစ်ခုသည် တခုနှင့်တခု တသွေမတိမ်းတူသော်လည်း သာမိုမီတာ တခု၏ ဖန်သီးကို ပိတ်ပါးစိုဖြင့် ဖုံးအုပ်သားလေသည်။ ထိုနောက် သာမိုမီတာများကို ဝှေ့ယမ်းပေးသည်၊ သို့မဟုတ် လေယပ်ပေးသည်။ ပိတ်ပါးရှိ ရေငွေ့များ အငွေ့ပျံသွားသောအခါ ဖန်သီးအစိုရှိသော သာမိုမီတာ၏ အပူချိန်ဒီဂရီသည် ကျသွားလေသည်။ ထိုသို့အပူချိန်ကျရာတွင် ထိုနေ့သည် သွေ့ခြောက်နေလျှင် အပူချိန်ကျခြင်းသည် လျင်မြန်၍ ထိုနေ့သည် စိုထိုင်းထိုင်းဖြစ်နေလျှင် အပူချိန်ကျခြင်း နည်းပါးလေသည်။ ဖန်သီးအခြောက်ရှိသော သာမိုမီတာကိုကြည့်ခြင်းဖြင့် လေထု၏ အပူချိန် အစစ်အမှန်ကို သိနိုင်လေသည်။ ထိုသာမိုမီတာနှစ်ခုရှိ အပူချိန်များကို နှိုင်းယှဉ်၍ ကြည့်ခြင်းဖြင့် လေထု၏ စိုဆိုင်းမှုအဆကို သိနိုင်လေသည်။ ထိုသို့သိနိုင်ရန် အသင့်တွက်ချက်ထားသည့် ဇယားတခု ရှိလေသည်။



ဟိုက်ဂရိုမီတာ

ဇီဝကိစ္စဗေဒ ပညာရှင်တဦးဖြစ်သော အင်္ဂလိပ်လူမျိုး ဆာ လီယိုနတ် ဟီးဆိုသူ (၁၈၆၆ ခုနှစ်ဖွား) တီထွင်ခဲ့သည့် ကက်တာသာမိုမီတာလည်း ရှိသေးသည်။ ထိုသာမိုမီတာဖြင့် စိုထိုင်းမှုကို တိုင်းတာနိုင်ပေသည်။ ထို သာမိုမီတာတွင် သာမန် သာမိုမီတာများ၌ ရှိသော့ ရှိသော ဖန်သီးထက် ပို၍ကြီးသော ဖန်သီးရှိသည်။ ထိုသာမိုမီတာကို ရေနွေးတွင် ၉၈ံ ဖာရင်ဟိုက်သို့ အပူချိန်တက်လာသည်အထိ ထားပြီးနောက် ပတ်ဝန်းကျင်ရှိ လေက ယင်း၏အပူချိန်ကို ကျစေသည့်အချိန်ကို မှတ်သားရသည်။ ထိုနောက် ပိုးစဖြင့်ဖန်သီးကိုအုပ်၍ "ဖန်သီးအစို" အမှတ်အသားများကို ပြုလုပ်ရသည်။ ဆိုလိုသည်မှာ ပိုးစကို ရေဆွတ်ပြီးလျှင်လေယပ်ပေးခြင်းဖြင့် ရရှိသည့် အပူချိန်ကို မှတ်သားခြင်းဖြစ်သည်။ ထိုအမှတ်အသားများနှင့် အချိန်မှတ်သားချက်များမှ လေအေးလာသည့် အကျိုးသက်ရောက်မှုကို ခန့်မှန်းနိုင်ပေသည်။

အထည်လုပ်ငန်း၊ စီးကရက်နှင့် ဆေးတန်သောက်ဆေးလုပ်ငန်းကြီးများတွင် လေထု၏ စိုထိုင်းမှုအဆကို သိရှိမှတ်သားထားရန် အထူးလိုအပ်သဖြင့် ထိုလုပ်ငန်းကြီးများရှိရာစက်ရုံ အလုပ်ရုံကြီးများနှင့် ကျောင်းများရုံးများ စသည့် အဆောက်အအုံများတွင် ဟိုက်ဂရိုမီတာကို တပ်ဆင်ထားရှိကြသည်။ ဤသို့အားဖြင့် အပူလွန်၍ လေသွေ့ခြောက်လွန်းနေသော အခါများတွင် လေထုစိုဆိုင်းမှုအဆကို လိုအပ်သလို ပြုပြင်ပေးနိုင်ရန် အလို့ငှာ ရေငွေ့များကို သွင်းပေးနိုင်လေသည်။

**ဟိုက်ဒရဗတ်နယ်။** ။ဟိုက်ဒရဗတ်နယ်သည် ယခင်က အိန္ဒိယနိုင်ငံရှိ တိုင်းရင်းသား စော်ဘွားပိုင် နယ်များတွင် အကြီးဆုံးနှင့် အကြွယ်ဝဆုံးနိုင်ငံ ဖြစ်ခဲ့၍၊ မဒရပ်နှင့် ဘုံဘိုင်ပြည်နယ်တို့၏စပ်ကြား ဒက္ခိဏကုန်းမြေမြင့် အလယ်ပိုင်းရှိ နယ်ဖြစ်လေသည်။ ထိုစဉ်က အုပ်ချုပ်သူစော်ဘွားမှာ "နိဇမ်" ဟု ခေါ်တွင်၍ ဟိုက်ဒရဗတ်နယ်ကို မျိုးရိုးစဉ်ဆက် ပိုင်ဆိုင်ခဲ့လေသည်။ သူပိုင်ဆိုင်သော ရွှေငွေပုလဲစသည့် ကျောက်သံပတ္တမြားတို့မှာ မည်မျှလောက်အဖိုးထိုက်တန်သည်ကို မပြောနိုင်ခဲ့ချေ။

ဟိုက်ဒရဗတ်နယ်သည် လယ်ယာလုပ်ငန်းတွင် ကောင်းစွာ အောင်မြင်၍ ကျောက်မီးသွေးလည်း ထွက်၏။ ဆည်မြောင်းများ ဖောက်လုပ်ထားခြင်း၊ မီးရထားလမ်းများ ဆက်သွယ်ထားခြင်းတို့ကြောင့် စက်မှုလက်မှုလုပ်ငန်းများ

ဖွံ့ဖြိုးလျက်ရှိ၏။ ဟိုက်ဒရဗတ်နယ်သည် ပင်လယ်ရေမျက်နှာပြင်မှ ပေ ၁,၂၀၀ ခန့်မြင့်သော ကုန်းမြေမြင့်ပေါ်တွင် တည်ရှိ၍ ၈၂,၆၉၈ စတုရန်းမိုင်ကျယ်ဝန်းပြီးလျှင် ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၁၈,၆၅၅,၁၀၈ ရှိ၏။ လူး၊ဆပ်၊ ဆန်စပါး၊ ဂျုံ၊ ဆီထွက်သော အစေ့များ၊ ဝါဂွမ်း၊ ဆေးရွက်၊ သကြား၊ ချိတ်၊ တပ်ဆိုပိုးစသော ပစ္စည်းများထွက်သဖြင့် အတော်ပင်ကုံလုံကြွယ်ဝသောနယ် ဖြစ်လေသည်။

ဒေလီမြို့တွင် မဂိုဘုရင်များ နန်းစံစဉ်က ဟိုက်ဒရဗတ်နယ်သည် မဂိုအင်ပါယာတွင် ပါဝင်ခဲ့ဘူးသော်လည်း ၁၈ ရာစုနှစ်တွင် မဂိုအင်ပါယာကြီး ပြိုကွဲသွားသောအခါ နိဇမ်စော်ဘွားသည် လွတ်လပ်သော ဘုရင်တပါး ဖြစ်လာ၏။ နိဇမ်စော်ဘွားများမှာ မွတ်စလင်များဖြစ်၍ အစိုးရအမှုထမ်းများမှာလည်း မွတ်စလင်များသာ ဖြစ်ကြ၏။ သို့ရာတွင် နယ်သူနယ်သားများမှာ များသောအားဖြင့် ဟိန္ဒူလူမျိုးများဖြစ်ကြသည်။ ၁၈၅၇ ခုနှစ်တွင် အိန္ဒိယစစ်သူပုန်အရေး ဖြစ်ပွားခဲ့စဉ်က နိဇမ်စော်ဘွားသည် ဗြိတိသျှတို့အား သစ္စာစောင့်ခဲ့၏။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနိုင်ငံနှင့် ပါကစ္စတန်နိုင်ငံဟူ၍ ခွဲလိုက်သောအခါ ဟိုက်ဒရဗတ်နယ်၏ နိဇမ်စော်ဘွားသည် အိန္ဒိယ လက်အောက်တွင်သော်ငြင်း၊ ပါကစ္စတန်လက်အောက်တွင် သော်ငြင်း မနေလိုပဲ လွတ်လပ်စွာ သီးခြားနေမည်ဟု ကြေညာခဲ့၏။ သို့သော် ၁၉၄၈ ခုနှစ်၊စက်တင်ဘာလတွင် အိန္ဒိယအစိုးရက တိုက်ခိုက်သိမ်းယူလိုက်လေသည်။ ထိုနောက် စစ်အုပ်ချုပ်ရေးအောက်တွင် ခွေထားခဲ့သည်။ ၁၉၄၉ ခုနှစ်တွင်စစ်အုပ်ချုပ်ရေးကိုရုပ်သိမ်းခဲ့ပြီးနောက် ၁၉၅၀ ပြည့်နှစ်တွင် ဟိုက်ဒရဗတ်နယ်သည် အိန္ဒိယနိုင်ငံ၏ ပြည်နယ်တခု ဖြစ်လာခဲ့သည်။ သို့သော် ၁၉၅၆ ခုနှစ်၌ပြည်နယ်များကို ပြန်လည်ဖွဲ့စည်းခဲ့ရာတွင် ဟိုက်ဒရဗတ်ပြည်နယ်တွင် ပါဝင်သော တေလိဂုနဒေသနှင့် အန္ဓရနယ်တို့ကို ပူးပေါင်းကာ အန္ဓရဒေသပြည်နယ်ဟုဖွဲ့စည်းခဲ့သည်။ (အန္ဓရဒေသပြည်နယ် — လည်းရှု။) ဟိုက်ဒရဗတ်မြို့ကို ထိုပြည်နယ်၏ မြို့တော်အဖြစ် ဆက်လက်ထားရှိလေသည်။

ဟိုက်ဒရဗတ်နယ်၏ အနောက်မြောက်ဖက်တွင် တည်ရှိသော အဇန္တနှင့် အယ်လိုရာ လိုဏ်ဂူများမှာ ကျောက်တောင်ကြီးများကို ထွင်းဖောက်ပြီးလျှင် ဆန်းပြားသော



ဟိုက်ဒရဗတ်နယ်သည် အလွန်လှပသော ရှေးဟောင်းအဆောက်အအုံများကြောင့် ကမ္ဘာ့လှည့် ခရီးသည်များသွားရောက်လည်ပတ်ရန်နေရာ ဖြစ်လာသည်။

ပန်းချီ ပန်းပု ရုပ်လုံး ပန်းပြောက်စသည်တို့ဖြင့်ဆန်းကြယ်စွာ ထုလုပ်ထားရကား အလွန်အံ့ဩဖွယ်ရာ ကောင်းသဖြင့် ခရီးသည်များ သွားရောက်လည်ပတ်ရာ နေရာများဖြစ်၏။ အယ်လိုရာရှိ ကေလာသတောင်ယံမှာ ကျောက်တောင်ကို အောက်မှ ထွင်းဖောက်ကာ တိုင်လုံးကြီးများ၊ ပလ္လင်များနှင့် နံရံရှိ ပန်းခက် ပန်းဆိုင်းအမျိုးမျိုးတို့ကို ဆန်းကြယ်စွာ ထုလုပ်ထား၏။ မျက်နှာကြက်ကို ညီညာစွာ ပြုလုပ်လျက် ပန်းများပင် ထွင်းထားခဲ့ရာ ကမ္ဘာပေါ်ရှိ အံ့ဖွယ်အကောင်းဆုံးသော အရာများတွင် တခုအပါအဝင် ဖြစ်လေသည်။ (အဇန္တလိုဏ်ဂူ။ အယ်လိုရာလိုဏ်ဂူ — ရှု။)

ဟိုက်ဒရဗတ်နယ်၏ မြို့တော်ဖြစ်ခဲ့သော ဟိုက်ဒရဗတ်မြို့သည် ကစ္စနားမြစ်၏ လက်တက်ဖြစ်သော မူစီမြစ်ပေါ်၌ တည်ရှိပြီးလျှင် နိဇမ်စော်ဘွား၏ နန်းတော် အဆောက်အအုံများရှိသဖြင့် ထင်ရှားလေသည်။ ထိုမြို့သည်ပင်လယ်မျက်နှာပြင်ထက် ပေပေါင်း ၁၆၇၂ မြင့်၍ ဘုံဘိုင်မြို့၏ အရှေ့တောင်ဖက်မိုင် ၄၀၀ အကွာတွင် တည်ရှိသည်။ ထိုမြို့နှစ်မြို့ကို မီးရထားလမ်းဖြင့် ဆက်သွယ်ထားလေသည်။ အူရဒူဘာသာဖြင့် စာပေသင်ကြားပို့ချရာတွင် အဆင့်အတန်းအမြင့်ဆုံး ပညာရေးဌာနကြီးတခုဖြစ်သည့် အော့စမန်နီယာ တက္ကသိုလ်ကျောင်းသည် ထိုမြို့တွင် တည်ရှိသည်။ ၁၉၇၁ ခုနှစ် သန်ကောင်စာရင်းအရ ဟိုက်ဒရဗတ်မြို့၏ လူဦးရေစုစုပေါင်းမှာ ၁၇,၉၈,၉၁၀ ယောက်ရှိ၏။

**ဟိုက်ဒရိုကလောရစ်အက်ဆစ်။** ။ဟိုက်ဒရိုကလောရစ် အက်ဆစ်၏ ပုံသေရေးနည်းမှာ HCL ဖြစ်သည်။ အက်ဆစ်များရှိသည့်အနက် ဟိုက်ဒရိုကလောရစ်အက်ဆစ်သည် အပြင်းဆုံး အက်ဆစ်တခုဖြစ်၍ စက်မှုလုပ်ငန်းတွင်လည်း အရေးအကြီးဆုံး အက်ဆစ်တခုဖြစ်သည်။ ရေတွင် ဟိုက်ဒရိုဂျင်ကလိုရိုက်ဓာတ်ငွေ့ ပျော်ဝင်သွားသောအခါ ဟိုက်ဒရိုကလောရစ်အက်ဆစ် ဖြစ်လာသည်။ ဟိုက်ဒရိုကလောရစ်အက်ဆစ်ကို မျူရီအက်တစ် အက်ဆစ်ဟူ၍လည်း ခေါ်လေသည်။

ဖြဗ်ပေါင်းအမြောက်အမြားရှိသည့်အနက် ဟိုက်ဒရိုဂျင်ကလိုရိုက်တမျိုးတည်း၌သာ ဟိုက်ဒရိုဂျင်နှင့် ကလိုရင်း နှစ်မျိုးတည်း ပါရှိလေသည်။ ဟိုက်ဒရိုဂျင်ကလိုရိုက်ဓာတ်ငွေ့သည် အနံ့ပြင်းပြီးလျှင် ယင်း၌အရောင်မရှိချေ။ အခိုးလွန်စွာပေါများသော ဓာတ်ငွေ့ဖြစ်သည်။ ထိုဓာတ်ငွေ့သည် လေထက်ငါးဆပို၍ လေးသည်။ အဆိုပါဓာတ်ငွေ့သည် ရေ၌ လွယ်ကူစွာ ပျော်ဝင်နိုင်ရာ ရေတကုဗစင်တီမီတာတွင် ကုဗစင်တီမီတာပေါင်း ၅၀၀ ခန့်ရှိသော ဟိုက်ဒရိုဂျင်ကလိုရိုက် ဓာတ်ငွေ့ ပျော်ဝင်နိုင်လေသည်။

မီးတောင်များ၏ ဓာတ်ငွေ့များနှင့် မီးတောင်များရှိရာဒေသများကို ဖြတ်၍ စီးဆင်းလာကြသော မြစ်ရေများအတွင်း၌ ဟိုက်ဒရိုကလောရစ်အက်ဆစ်ပါရှိသည်။ မှုမှန်အတိုင်းဖြစ်လျှင် အစာအိမ်ရည်အဖွင်း၌လည်း ဟိုက်ဒရိုကလောရစ် အက်ဆစ်သည် ရာခိုင်နှုန်း ၀.၂ မှ ၀.၄ အထိ ပါရှိလေသည်။ ထိုအက်ဆစ် ပါရှိခြင်းကြောင့် လူတို့စားသောက်သည့် အစာတွင် ပါရှိသောဓာတ်သတ္တုပစ္စည်းများကို ကြေစေနိုင်ခြင်း ဖြစ်သည်။ ထိုမျှမကသေး ထိုအက်ဆစ်သည် အပုပ်နိုင်ဆေးအဖြစ်လည်း ဆောင်ရွက်ပေးသေးသည်။ အစာအိမ်ရည် အတွင်း၌ ထိုအက်ဆစ်နည်းပါးသဖြင့် အစာမကြေသူများကို ဆရာဝန်များက ဟိုက်ဒရိုကလောရစ်အက်ဆစ်ပါသော ဆေးများကို ပေးလေ့ ရှိကြသည်။

ဟိုက်ဒရိုကလောရစ် အက်ဆစ်ကို ရောင်းကုန်ပစ္စည်းအဖြစ် ထုတ်လုပ်သောအခါတွင် ဆာလဖျူရစ်အက်ဆစ်နှင့် ဆိုဒီယမ်ကလိုရိုက်ခေါ် ရိုးရိုး အိမ်သုံးဆားကို အသုံးပြုကြလေသည်။ ဟိုက်ဒရိုဂျင်နှင့် ကလိုရင်း တိုက်ရိုက် ပူးပေါင်းသောနည်းကိုလည်း အသုံးပြုကြသည်။

ဟိုက်ဒရိုကလောရစ် အက်ဆစ်ကို အက်ဆစ်များတွင် အပြင်းဆုံး အက်ဆစ်တခုဖြစ်သည်ဟု ပြောခြင်းမှာ ထိုအက်ဆစ်သည် အထကြွဆုံး အက်ဆစ်တခု ဖြစ်ခြင်းကြောင့် ဖြစ်သည်။ သတ္တုအမျိုးအပြားကို ထိုအက်ဆစ်က သက်ဆိုင်ရာ သတ္တုကလိုရိုက်အဖြစ်သို့ ပြောင်းလဲစေပြီးလျှင် ဟိုက်ဒရိုဂျင်ကို လွတ်ထွက်စေသည်။ ဟိုက်ဒရိုကလောရစ်အက်ဆစ် သုံးဆနှင့် နိုက်ထရစ်အက်ဆစ် တဆ ရောလိုက်သောအခါ အက်ကွာရီးဂျား ဖြစ်လာပြီးလျှင် ထိုအက်ဆစ်သည် ရွှေနှင့် ပလက်တီနမ်များကိုပင်လျှင် ပျော်ဖင်စေနိုင်လေသည်။

ဟိုက်ဒရိုကလောရစ် အက်ဆစ်သည် ဆာလဖျူရစ်အက်ဆစ်နောက်တွင် ဈေးအပေါဆုံးဖြစ်သည်။ အခြားဓာတ်ပစ္စည်းများ ပြုလုပ်ရာတွင် ဟိုက်ဒရိုကလောရစ်အက်ဆစ်ကို အနှံ့အပြား အသုံးပြုကြသည်။ သံရည်၊ သို့မဟုတ် သွပ်ရည်စိမ်လိုသော သံထည်နှင့် သံမဏိထည်ပစ္စည်းများကို ပဌမဟိုက်ဒရိုကလောရစ်အက်ဆစ်ဖြင့် စင်ကျယ်သွားအောင် ဆေးကြောပေးကြရသည်။ စတော့ (ကစီ)မှ ဂလူးကို ပြုလုပ်ရာတွင်လည်း ဟိုက်ဒရိုကလောရစ် အက်ဆစ်ကိုပင် အသုံးပြုကြရလေသည်။ ဆေးဆိုးရာနှင့် ဆိုးဆေးလုပ်ရာများတွင်လည်း ထိုအက်ဆစ်ကို အသုံးပြုကြရလေသည်။ အရိုးများမှ ကော်များ ပြုလုပ်ရာ၌လည်း ထိုအက်ဆစ်ကိုပင် အသုံးပြုကြလေသည်။

ရှေးအခါက ဆိုဒါစက်ရုံကြီးများမှ ရိုးရိုးအိမ်သုံးဆားနှင့် ဆာလဖျူရစ်အက်ဆစ်များဖြင့် ဆိုဒီယမ်ဆာလဖိတ်

များကို ပြုလုပ်သောအခါ ဟိုက်ဒရိုကလောရစ် အက်ဆစ် ဓာတ်ငွေ့များကို လေထုအတွင်းသို့ လွတ်ထွက်သွားစေခဲ့ကြသည်။ ထိုသို့ ဟိုက်ဒရိုကလောရစ် အက်ဆစ် ဓာတ်ငွေ့များ လွတ်ထွက်ကုန်ခြင်းကြောင့် အနီးအနားရှိ ဟင်းသီးဟင်းရွက်များကို ပျက်စီးစေသည့်အပြင် လူများကိုလည်း အနှောက်အယှက်ဖြစ်စေသဖြင့် ခေါင်းတိုင်မြင့်မြင့်ကြီးများကို ပြုလုပ်ပြီးလျှင် ထိုခေါင်းတိုင်မြင့်မြင့်ကြီးများမှ ဓာတ်ငွေ့များကို ထွက်စေခဲ့ကြလေသည်။ သို့သော် ထိုနည်းသည်လည်း အဝေးရှိ စိုက်ခင်းများကို ပျက်စီးစေသောကြောင့် ထိုသို့ ဖြစ်ပေါ်လာသော ဓာတ်ငွေ့များကို ရေတွင်ပျော်ဝင်စေပြီးလျှင် ဖြစ်ပေါ်လာသည့် ဟိုက်ဒရိုကလောရစ် အက်ဆစ်များကို နီးရာမြစ်အတွင်းသို့ စွန့်ပစ်ခဲ့ကြလေသည်။ ထိုနည်းသည်လည်း မြစ်အတွင်းရှိ ငါးများကို သေကြေကုန်စေသဖြင့် အကန့်အကွက်ခံကြရပြန်သည်။

မကြာမီအတွင်း ပုံနှိပ်သည့်ဖက်တွင် ပြောင်းလဲမှုများ ရှိလာသဖြင့် စက္ကူကို ပို၍ လိုလာကြလေသည်။ စက္ကူပြုလုပ်ရန် အရောင်ချွတ်ပြီး သစ်သားပျော့ဖတ် ကုန်ကြမ်းများ လိုလာလေသည်။ ကလိုရင်းသည် အရောင်ချွတ်ရာ၌ အလွန်ကောင်းမွန်မှန်းကို သိကြရလေသည်။ ဆိုဒါလုပ်ငန်းကြီးများတွင် ဟိုက်ဒရိုကလောရစ်အက်ဆစ်မှ ကလိုရင်းဒြဗ်စင်ကို ထုတ်ယူရန် ကြိုးပမ်းကြရာ မကြာမီအတွင်း၌ ကလိုရင်းကို ထုတ်ယူနိုင်သည့် စရိတ်မကုန်သောနည်းကို တွေ့လာကြသဖြင့် ဟိုက်ဒရိုကလောရစ် အက်ဆစ်၏ပြဿနာသည် ပြေရှင်း၍သွားလေတော့သည်။

**ဟိုက်ဒရိုဂျင်။** ။ဟိုက်ဒရိုဂျင်သည် ဓာတ်ငွေ့ ဒြဗ်စင်ဖြစ်၍ ယင်းကို ၁၇၆၆ ခုနှစ်တွင် ကဗင်းဒစ်က စတင်တွေ့ရှိခဲ့လေသည်။ ပဌမတွင် ထိုဓာတ်ငွေ့ကို "အလွယ်တကူ မီးလောင်နိုင်သော လေ" ဟု ခေါ်ခဲ့ကြ၏။ နောင်တွင်မှ ထို ဓာတ်ငွေ့ကို လဗွာစီယာက ဟိုက်ဒရိုဂျင်ဟု အမည်ပေးခဲ့လေသည်။ ဟိုက်ဒရိုဂျင်သည် သိရသမျှသော ဒြဗ်စင်များတွင် အပေါ့ဆုံးဖြစ်၍ သိရသမျှသော အလေးဆတို့တွင်လည်း အနည်းဆုံး ဖြစ်သည်။ ပဌမတွင် ဟိုက်ဒရိုဂျင်ကို ဧကမူထားကာ အခြား ဒြဗ်စင်များကို နှိုင်းယှဉ်၍ ပြခဲ့ကြလေသည်။ ယခုအခါတွင်မူ အောက်ဆီဂျင်၏ အလေးဆကို ၁၆ ရှိသည်ဟု ယူဆလာကြသဖြင့် ဟိုက်ဒရိုဂျင်၏ အက်တမ် အလေးဆသည် ၁.၀၀၇၆ ဖြစ်သွားလေသည်။ ရာညီး၏ လက်တွေ့ စမ်းသပ်ချက်များအရ ဟိုက်ဒရိုဂျင်၏ သိပ်သည်းခြင်းသည် အပူချိန်တူ၊ ဖိအားတူနှင့် ထုထယ်တူ လေ၏သိပ်သည်းခြင်းထက် နည်းသည်ကို တွေ့ရလေသည်။

ဟိုက်ဒရိုဂျင်၏ ဓာတု သင်္ကေတမှာ H ဖြစ်သည်။ မီးတောင် ဓာတ်ငွေ့များတွင် ဟိုက်ဒရိုဂျင်သည် သီးခြား တည်ရှိပြီးလျှင် နေနှင့် တည်မြဲ ကြယ် များ အတွင်း၌လည်း သီးခြား တည်ရှိလေသည်။ ကမ္ဘာ့လေထုအတွင်းတွင်လည်း ဟိုက်ဒရိုဂျင်သည် သီးခြား တည်ရှိသေးသည်။ သို့သော် လွန်စွာ နည်းပါးလေသည်။ ရေသည် ဟိုက်ဒရိုဂျင် ပါဝင်သော ဒြဗ်ပေါင်းများအနက် လူသိအများဆုံး ဖြစ်သည့်အပြင် လွန်စွာလည်း ပေါများလေသည်။ ဩဂဲနစ်တစ်သျှူးတိုင်းလိုလိုတွင် ရေသည် အရေးကြီးသော ဖက်စပ်ပစ္စည်း တခုဖြစ်သည်။ ဟိုက်ဒရိုဂျင်ကို နည်းပေါင်းများစွာဖြင့် အလွယ်တကူ ထုတ်လုပ်ယူနိုင်သည်။ ထိုနည်းများအနက် အသုံးများသော အလွန်လွယ်ကူသည့်နည်းမှာ သွပ်စများပေါ်သို့ ဆာလဖျူရစ် အက်ဆစ် အပျော့စားကို ထည့်ပေးခြင်း ဖြစ်သည်။ ထိုအခါ ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ ထွက်လာသည်။


$$Z_n + H_2 SO_4 = Z_n SO_4 + H_2$$

ဤညီမျှကိန်းတွင် $Z_n$ မှာ သွပ်၊ $H_2SO_4$ မှာ ဆာလဖျူရစ် အက်ဆစ်၊ $Z_nSO_4$ မှာ ဇင့်ဆာလဖိတ်နှင့် H မှာ ဟိုက်ဒရိုဂျင်ဖြစ်လေသည်။

ဟိုက်ဒရိုဂျင်သည် များသောအားဖြင့် အက်တမ်နှစ်ခု ပေါင်းပြီးလျှင် မော်လီကျူးအဖြစ် တည်ရှိလေ့ရှိသည်။ အလွန်အေးသည့် အပူချိန်များတွင် ဟိုက်ဒရိုဂျင်ကို အရည်နှင့် အခဲအဖြစ်သို့ ပြောင်းလဲယူနိုင်လေသည်။ ဟိုက်ဒရိုဂျင် အခဲသည် –၂၅၉°C တွင် အရည်ပျော်၍ –၂၅၃°C တွင် ဟိုက်ဒရိုဂျင် အရည်ဆူလေသည်။

ဟိုက်ဒရိုဂျင်သည် လေ၊ သို့မဟုတ် အောက်ဆီဂျင်ထဲ၌ မီးလောင်နိုင်သည်။ ထိုသို့ မီးလောင်သောအခါတွင် မီးတောက်သည် အလွန် ပူ၍ အရောင်မရှိချေ။ အခြားသာမန် ပစ္စည်းများသည် ဟိုက်ဒရိုဂျင်ထဲ၌ မီးမလောင်နိုင်ကြချေ။ ဟိုက်ဒရိုဂျင်သည် အသက်ကို မရှင်စေနိုင်သော်လည်း ယင်းအား ရှူခြင်းဖြင့် တိုက်ရိုက် ဘေးအန္တရာယ် မဖြစ်နိုင်ချေ။

အက်ဆစ်ဂုဏ်သတ္တိရှိသော ဒြဗ်ပေါင်းတိုင်းတွင် ဟိုက်ဒရိုဂျင်သည် အရေးကြီးသော ဒြဗ်စင်အဖြစ်နှင့် ပါဝင်လေသည်။

ဟိုက်ဒရိုဂျင်သည် အောက်ဆီဂျင်နှင့် ပူးပေါင်းနိုင်သည်။ ထိုဓာတ်ငွေ့နှစ်မျိုး ပူးပေါင်းမိသောအခါ ရေဖြစ်လာသည်။ ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်ဓာတ်ငွေ့နှစ်မျိုးကို ရောထားပြီးနောက် မီးတောက်တခု၊ သို့မဟုတ် လျှပ်စစ် မီးပွားဖြင့် မီးလောင်စေသောအခါ ပေါက်ကွဲမှုဖြစ်ပြီးလျှင် ရေပေါက်ကလေးများ ဖြစ်လာသည်ကို တွေ့ရလေသည်။ ဟိုက်ဒရိုဂျင်ကို လျှော့ပစ်နိုင်သည့် ပစ္စည်းဟုလည်း ခေါ်ကြသေးသည်။ ထိုသို့ ခေါ်ကြခြင်းမှာ

အောက်ဆီဂျင် အများအပြား ရှိနေသော ဒြပ်ပေါင်းများ က အောက်ဆီဂျင်အချို့ကို ဟိုက်ဒရိုဂျင်က လျှော့ပစ်နိုင်ခြင်းကြောင့် ဖြစ်သည်။ အပူတိုက်ထားသော သံချေး (အိုင်ယင်း အောက်ဆိုက်) အတွင်းသို့ ဟိုက်ဒရိုဂျင်ကို သွင်းပေးလိုက်လျှင် သံချေးသည် သံအဖြစ်သို့ ပြောင်းလဲသွားသည်ကို တွေ့ရလေသည်။ ထိုသို့ဖြစ်ရသည်မှာ ဟိုက်ဒရိုဂျင်သည် သံချေးရှိ အောက်ဆီဂျင်နှင့် ပူးပေါင်းသွားခြင်းကြောင့် ဖြစ်သည်။

ဟိုက်ဒရိုဂျင်သည် အခြားများစွာသော ဒြပ်စင်များ၊ အထူးသဖြင့် သတ္တုမဟုတ်သော ပစ္စည်းများနှင့် ပူးပေါင်းနိုင်ပြီးလျှင် အရေးကြီးသော အချို့ ဒြပ်ပေါင်းများကို ဖြစ်စေနိုင်သေးသည်။ ဟိုက်ဒရိုဂျင်သည် ကလိုရင်းနှင့် ပူးပေါင်းပြီးနောက် ဟိုက်ဒရိုဂျင် ကလိုရိုက် ဓာတ်ငွေ့ဖြစ်လာနိုင်လေသည်။ ထိုဟိုက်ဒရိုဂျင် ကလိုရိုက် ဓာတ်ငွေ့သည် ရေတွင် ပျော်ဝင်သောအခါ ဟိုက်ဒရိုကလောရစ်အက်ဆစ် ဖြစ်လာလေသည်။ ဟေးဗားနည်းဖြင့် အမ်မိုနီယာ $NH_3$ ပြုလုပ်လိုသောအခါ ဟိုက်ဒရိုဂျင်ကို နိုက်ထရိုဂျင်နှင့် ပူးပေါင်းစေရသည်။ ဆာလဖာ(ကန့်)နှင့် ဟိုက်ဒရိုဂျင် ပူးပေါင်းသောအခါတွင် အရေးကြီးသည့် ဒြပ်ပေါင်းတခုဖြစ်သော ဟိုက်ဒရိုဂျင် ဆာလဖိုက် ဖြစ်လာလေသည်။ ထိုဒြပ်ပေါင်း၌ ဆိုးရွားသော ကြက်ဥပုပ်နံ့ ရှိသည်။

ဟိုက်ဒရိုဂျင်အက်တမ်တခုတွင် ပရိုတွန်တခုနှင့် အီလက်ထရွန်တခုသာ ပါရှိသဖြင့် ဒြပ်စင်များတွင် အရှင်းဆုံး ဒြပ်စင်ဖြစ်သည်။ သာမန် ဟိုက်ဒရိုဂျင်တွင် အခြား ဟိုက်ဒရိုဂျင် တမျိုးသည် ရာခိုင်နှုန်းအားဖြင့် .၀၀၂ ပါရှိနေသေးသည်။ ထိုဟိုက်ဒရိုဂျင်မျိုး၏ အက်တမ် အလေးဆမှာ ရိုးရိုး ဟိုက်ဒရိုဂျင် အက်တမ် အလေးဆထက် နှစ်ဆပို၍ လေးလေသည်။ထိုဟိုက်ဒရိုဂျင်မျိုးကို ဒျူတီရီယမ်ဟုခေါ်သည်။ သာမန် ဟိုက်ဒရိုဂျင်၏ အက်တမ်အလေးဆထက် သုံးဆပို၍ လေးသော ဟိုက်ဒရိုဂျင်မျိုး၏ အစအနကိုပင် ဓာတုဗေဒ ပညာရှင်များက တွေ့ရှိထားကြလေသည်။ ထိုကဲ့သို့သော ဟိုက်ဒရိုဂျင်မျိုးကို ထရီတီယမ်ဟုခေါ်ကြသည်။

ဟိုက်ဒရိုဂျင်ကို ဆီရည်များတွင် ထည့်လိုက်သောအခါတွင် အဆီခဲဖြစ်သွားလေသည်။ ထိုအဆီခဲသည် ကိစ္စအများအပြားအတွက် အသုံးဝင်လေသည်။

ဟိုက်ဒရိုဂျင်သည် လွန်စွာ ပေါ့သဖြင့် ကလေးများ ကစားသည့် မိုးပျံသော ဘောလုံးများနှင့် လေသင်္ဘောများတွင် အသုံးပြုနိုင်လေသည်။ သို့သော် ထိုဟိုက်ဒရိုဂျင် ဓာတ်ငွေ့သည် မီးလောင် ပေါက်ကွဲတတ်သဖြင့် နောင်သော် လေသင်္ဘောများတွင် ယင်းအစား ဟီလီယမ် ဓာတ်ငွေ့ကို အသုံးပြုလာကြလေသည်။

**ဟိုက်ဒရိုဂျင်ဗုံး။** ။၁၉၂၂ ခုနှစ်တွင် အင်္ဂလန်နိုင်ငံမှ ဖရန်စစ် ဝီလျံ အက်စတန်က ဟိုက်ဒရိုဂျင် အက်တမ်မှ ထုတ်လွှတ်သော စွမ်းအင်သည် လွန်စွာ ကြောက်မက်ဖွယ် ကောင်းလိမ့်မည်ဟု ယုံကြည်ကြောင်း ပြောကြားခဲ့လေသည်။ ဟိုက်ဒရိုဂျင် အက်တမ်များသာ အကယ်၍ ပေါက်ကွဲပါက ကွင်းဆက် တုန့်ကန်မှုများ ဖြစ်ပေါ်လာပြီးလျှင် ကမ္ဘာကြီးကိုပင် ပျက်စီးသွားစေလိမ့်မည်ဖြစ်၍ စိုးရိမ်သည်ဟု ဆိုလေသည်။ သို့သော် ထိုကိစ္စသည် ဖြစ်နိုင်ရန် လွန်စွာ ခဲယဉ်းလေသည်။ အဘယ်ကြောင့်ဆိုသော် သဘာဝအလျောက် တွေ့ရှိရသော သာမန် ဟိုက်ဒရိုဂျင်မျိုးသည် ထိုကဲ့သို့သော တုံ့ကန်မှုမျိုးကို မဖြစ်စေနိုင်ချေ။ ပေါက်ကွဲမှုများ ဖြစ်ပေါ်နိုင်ရန်အတွက် တုံ့ကန်မှုသည် လျှင်မြန်ရပေမည်။ တုံ့ကန်မှု လျှင်မြန်ရန်မှာလည်း ဟိုက်ဒရိုဂျင်၏ လေးသော အိုက်ဆိုတုပ်များကို အသုံးပြုမှသာ ဖြစ်နိုင်စရာ အကြောင်းရှိပေသည်။

အိုက်ဆိုတုပ်ဆိုသည်မှာ ဒြပ်စင်တမျိုးတည်း၏ အလေးချိန်တွင် ကွဲလွဲသော အက်တမ်များ ဖြစ်သည်။ အလျူမီနီယမ်၊ ဖော့စဖောရပ်နှင့် ရွှေကဲ့သို့သော ဒြပ်စင်များတွင် အလေးချိန်တမျိုးတည်းသာရှိသော အက်တမ်များ ရှိသည်။ ထိုဒြပ်စင်များ၌ သဘာဝ အိုက်ဆိုတုပ် တမျိုးတည်းသာရှိသည်။ ဟိုက်ဒရိုဂျင်တွင်မူ သဘာဝ အိုက်ဆိုတုပ် နှစ်မျိုးရှိသည်။ မှုမှန်၊ သို့မဟုတ် ပေါ့သော ဟိုက်ဒရိုဂျင်၌ ဒြပ်ထု ၁ ရှိသည်။ ထိုသို့ဖြစ်ရသည်မှာ ပေါ့သည့် ဟိုက်ဒရိုဂျင်၏ နျူကလိယပ်တွင် လျှပ်စစ်အဖိုဓာတ်ရှိသော ပရိုတွန်ခေါ် အမှုန်တခုသာ ရှိခြင်းကြောင့် ဖြစ်သည်။ လေးသော ဟိုက်ဒရိုဂျင်၊ သို့မဟုတ် ဒျူတီရီယမ်တွင် ဒြပ်ထု ၂ ရှိသည်။ သာမန် ဟိုက်ဒရိုဂျင်နှင့် ဒျူတီရီယမ်တို့ ကွဲလွဲချက်မှာ ဒျူတီရီယမ်အတွင်း၌ အမှုန်ပိုတခုပါရှိနေ၍ ထိုအမှုန်သည် လျှပ်စစ်သဘောအရ ကြားနေဖြစ်ကာ ယင်းကို နျူထရွန်ဟု ခေါ်သည်။ ဒြပ်စင် အားလုံး၏ နျူကလိယပ်များတွင် နျူထရွန်နှင့် ပရိုတွန်များ ပါရှိနေလေသည်။ ပရိုတွန် အရေအတွက်ချင်း မတူညီသော အက်တမ်များသည် ဒြပ်စင်ကွဲများ ဖြစ်ကြလေသည်။ အက်တမ်များ၌ အရေအတွက် တူညီသည့် ပရိုတွန်များ ပါရှိသော်လည်း နျူထရွန် အရေအတွက်တွင် မတူညီလျှင် ယင်းတို့ကို အိုက်ဆိုတုပ်များဟု ခေါ်လေသည်။

ဖော်ပြပါ ဟိုက်ဒရိုဂျင် အိုက်ဆိုတုပ်မျိုးကို ဟဲရိုးယူရီက ၁၉၃၂ ခုနှစ်တွင် တွေ့ရှိခဲ့လေသည်။ ရေ၏ အဆပေါင်း ၅,၀၀၀ အနက်မှ ဟိုက်ဒရိုဂျင်တဆကို ခွဲထုတ်ယူနိုင်သည်။ ထိုအိုက်ဆိုတုပ်ကို လေးသော ဟိုက်ဒရိုဂျင်ဟု ခေါ်သည်။ ထိုဟိုက်ဒရိုဂျင်မျိုးသည် ရိုးရိုးဟိုက်ဒရိုဂျင်မျိုးထက် နှစ်ဆပိုလေး၍ ယင်းကို ဒျူတီရီယမ် ဟုလည်း ခေါ်သည်။



နျူကလီယာလက်နက် ဖောက်ခွဲစမ်းသပ်မှုကြောင့် ဖြစ်ပေါ်လာသော မှိုပွင့်သဏ္ဍာန် အစိုင်အခဲကြီးကို အဝေးမှမြင်ရပုံ

၁၉၃၄ ခုနှစ်က လက်တွေ့စမ်းခန်းအတွင်း၌ ပြုလုပ်ခဲ့သည့် ဟိုက်ဒရိုဂျင်တမျိုးရှိသေးသည်။ ထိုဟိုက်ဒရိုဂျင်မျိုးသည် ရိုးရိုး ဟိုက်ဒရိုဂျင်ထက် သုံးဆပိုလေး၍ ယင်းကို ထရစ်တီယမ်ဟု ခေါ်သည်။ လစ်သီယမ်သတ္တုကို နျူထရွန်များနှင့် ပစ်ခွင်းလျှင် ထရစ်တီယမ် ဖြစ်ပေါ်လာသည်။ ဖြစ်ပေါ်ပုံမှာ လစ်သီယမ် အက်တမ်တခုကို နျူထရွန်တခုက ထိမှန်တိုင်း ဟီလီယမ် အက်တမ်တခုနှင့် ထရစ်တီယမ် အက်တမ်တခုဖြစ်ပေါ်လေ့ ရှိသည်။ ထရစ်တီယမ်ကို အချိန်အကန့်အသတ်မရှိ သိမ်းဆည်း၍ကား မထားနိုင်ချေ။ အဘယ်ကြောင့် ဆိုသော် ၁၂ နှစ်ကြာတိုင်း ရေဒီယိုသတ္တိကြွမှု ပျက်စီးသွားသဖြင့် သိမ်းဆည်းထားသော ထရစ်တီယမ်တဝက်မျှ ဆုံးပါးသွားခြင်းကြောင့် ဖြစ်သည်။

ဟိုက်ဒရိုဂျင်ဗုံး ပြုလုပ်ရာတွင် လေးသော ဟိုက်ဒရိုဂျင် (ဒျူတီရီယမ်) အက်တမ်များကိုသော်၎င်း၊ သာ၍ လေးသော ဟိုက်ဒရိုဂျင် (ထရီတီယမ်) အက်တမ်များကိုသော်၎င်း အသုံးပြုနိုင်သည်။ လစ်သီယမ်ကိုလည်း အသုံးပြုနိုင်သည်ဟု အချို့ သိပ္ပံပညာရှင်များက ယုံကြည်ကြသည်။ ဟိုက်ဒရိုဂျင်ဗုံးသည် အက်တမ်များ အပူရှိန်ကြောင့် အရည်ပျော်၍ပေါင်းစပ်သွားသောအခါတွင် ပေါက်ကွဲလေသည်။ ထိုသို့ အက်တမ်များ အရည်ပျော်၍ ပေါင်းစပ် စေရန်မှာ အလွန်မြင့်မားသောအပူချိန်၌သာ ဖြစ်ပွားနိုင်ရာ အပူချိန်ပေါင်း ၅၀,၀၀၀,၀၀၀ (ငါးကုဋေ) ခန့်ရှိရန် လိုလေသည်။ ထိုအပူချိန်သည် နေရှိအပူဆုံးအစိတ်အပိုင်းထက်ပင် ပိုပူသေး၍ ထိုအပူချိန်မျိုးကို ဤကမ္ဘာ၌ အက်တမ်ဗုံး (အနုမြူဗုံး) တလုံးကသာ ဖြစ်ပေါ် စေနိုင်လေသည်။ ထို့ကြောင့် ဟိုက်ဒရိုဂျင်ဗုံးကို ဖောက်ခွဲရာ၌ အက်တမ်ဗုံးကို ခလုတ်အဖြစ် အသုံးချရန် လိုပေသည်။

အက်တမ်ဗုံးက လိုအပ်သော အပူချိန်ကို ဖြစ်ပေါ်စေသောအခါတွင် ဟိုက်ဒရိုဂျင် အက်တမ်များသည် အရည်ပျော်၍ ပေါင်းစပ်သွားကြပြီးလျှင် စွမ်းအင်သည် အပူနှင့်ပြင်းထန်သော ရောင်ခြည်များအဖြစ်ဖြင့် လွတ်ထွက်လာကြသည်။ ဟိုက်ဒရိုဂျင်သည်လည်း ဟီလီယမ်အဖြစ်သို့ ပြောင်းလဲသွားတော့သည်။

ပဌမဆုံး (အက်တမ်ဗုံး) ပေါက်ကွဲပြီးနောက် ငါးနှစ်

မျှအကြာဖြစ်သော ၁၉၅၀ ပြည့်နှစ် ဇန်နဝါရီလ ၃၁ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စု၏ သမတ ဟယ်ရီ၊ အက်(စ)ထရူးမင်းက အမေရိကန် ပြည်ထောင်စု၊အဏုမြူစွမ်းအင်ကော်မရှင်သို့ ဟိုက်ဒရိုဂျင်ဗုံး ဖြစ်မြောက်ရေးကို ဆက်လက် ဆောင်ရွက်ကြရန် ညွှန်ကြားလိုက်သည်။ ထိုကော်မရှင်သည် လိုအပ်သော အစီအစဉ်များကို ပြုလုပ်ပြီးနောက် ၁၉၅၂ ခုနှစ် နိုဝင်ဘာလအတွင်း၌ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ အင်နီဝီဘုတ်ကျွန်းတွင် ဟိုက်ဒရိုဂျင်ဗုံးတလုံးကို အောင်မြင်စွာ စမ်းသပ်ဖောက်ခွဲနိုင်ခဲ့သည်။၁၉၅၃ ခုနှစ် ဩဂုတ်လတွင် ဆိုဗီယက်ယူနီယန်ကလည်း ဟိုက်ဒရိုဂျင်ဗုံးတလုံး စမ်းသပ်ဖောက်ခွဲပြီးကြောင်းကြေညာသည်။

၁၉၅၆ ခု မေလအတွင်း၌ အမေရိကန်ပြည်ထောင်စုက အင်နီဝီဘုတ်ကျွန်းအနီးတွင် စမ်းသပ် ဖောက်ခွဲသောဟိုက်ဒရိုဂျင်ဗုံးတလုံး၏ စွမ်းအင်သည် တီအင်တီခေါ် ပေါက်ကွဲစရာ ပစ္စည်းတန်ချိန် ၁၅,၀၀၀,၀၀၀(တကုဋေခွဲ)နှင့်ညီမျှ၍ ပဌမဆုံး အသုံးပြုခဲ့သော အက်တမ်၏ စွမ်းအင်သည် တီအင်တီ တန်ချိန် ၂၂,၀၀၀ နှင့်ညီမျှသည်ဟု ဆိုလေသည်။

၁၉၆၇ ခုနှစ် ဇွန်လ ၁၇ ရက်နေ့တွင် တရုပ်ပြည်သူ့သမဘနိုင်ငံကလည်း ဟိုက်ဒရိုဂျင်ဗုံးစမ်းသပ်ဖောက်ခွဲပြီးကြောင်းကြေညာသည်။

**ဟိုက်ဒရိုမီတာ။** ။ဟိုက်ဒရိုမီတာဆိုသည်မှာ အရည်များ၏ သိပ်သည်းခြင်းကို သတ်မှတ်ပေးသည့်ကရိယာဖြစ်သည်။ထိုကရိယာမျိုးကိုအာခီမိဒီး၏မူလသဘောတရားပေါ်တွင် အခြေပြု၍ ပြုလုပ်ထားလေသည်။ ထိုမူလ သဘောတရားအရ ပစ္စည်းတခုကိုအရည်တခုတွင် ထည့်လိုက်သောအခါ ထိုပစ္စည်းသည် ပို၍ပေါ့လာပုံရရာ လျော့သွားသော အလေးချိန်သည် ထိုပစ္စည်းက ဖယ်ထုတ်လိုက်သော အရည်၏ အလေးချိန်နှင့်တူညီလေသည်။

ဟိုက်ဒရိုမီတာသည်များသောအားဖြင့်ဖန်ပြွန်သေးသေးတချောင်း ဖြစ်လေ့ရှိပြီးလျှင် ထိုဖန်ပြွန်၏အောက်ခြေတွင် လေးသော ပစ္စည်းတမျိုးမျိုးကို ထည့်ထားလေ့ရှိသည်။ အရည်တမျိုး၏ သိပ်သည်းခြင်းကို သိလိုသောအခါ ထိုအရည်အတွင်းသို့ ဖန်ပြွန်ကလေးကို ထည့်၍ ကြည့်ရလေသည်။ ဖန်ပြွန်ကလေး၏ ဘေးပတ်လည်တွင် အဘိုင်းအတားစကေးများကို ရေးမှတ်ထားသည်။ သာဓကအဖြစ်ဖြင့် ထိုကရိယာကို ရေထဲသို့ ထည့်၍ကြည့်လျှင် ခြောက်စင်တီမီတာ ရောက်သည်အထိ နစ်သွားသည်ဟု ဆိုကြပါစို့။ တဖန် ထိုကရိယာကိုပင် အခြား အရည် တမျိုးအတွင်းသို့ ထည့်၍ကြည့်ပြန်ရာ ရှစ်စင်တီမီတာရောက်သည်အထိ နစ်သွားသည်ကို တွေ့ရလျှင် ဒုတိယအရည်၏ သိပ်သည်းခြင်းသည် ရေ၏သိပ်သည်းခြင်းနှင့်စသော ၃/၄ = .၇၅ ရှိသည်ကို တွေ့ရလေသည်။ သို့မဟုတ် ရေသိပ်သည်းခြင်း၏ လေးပုံသုံးပုံ ရှိသည်ကို တွေ့ရလေသည်။ တိုင်းတာရမည့် အရည်များ၏ သိပ်သည်းခြင်းများကို နှိုင်းယှဉ်၍ ကြည့်ခြင်းအားဖြင့် ရောစပ်ထားသည့် အရည်များ၏ ပမာဏများကို သတ်မှတ်နိုင်လေသည်။

ပစ္စည်းတခု၏သိပ်သည်းခြင်းသည်ယင်း၏အလေးချိန်ကို ထိုနေရာယူသောပစ္စည်းထုထယ်ဖြင့်စားခြင်းနှင့် ညီမျှသည်။ သိပ်သည်းဆမှာ ပစ္စည်းတခု၏ အလေးချိန်ကို ထုထယ်တူရေအေး၏အလေးချိန်ဖြင့် စားခြင်းနှင့် ညီမျှလေသည်။

လက်တိုမီတာခေါ် ဟိုက်ဒရိုမီတာမျိုးကို နို့ကိုတိုင်းတာရာ၌ အသုံးပြု၍ အယ်လကိုဟောလိုမီတာမျိုးကို အယ်လကိုဟောကို စမ်းသပ်ရာ၌ အသုံးပြုကြသည်။ ပင်လယ်ကူးသင်္ဘောများ၏ ဗွိုင်လာများရှိ ဆားရည်၏ အပြင်းအပျော့ကို ဆယ်လီနိုမီတာမျိုးဖြင့် တိုင်းလေ့ရှိကြသည်။

လျှပ်စစ်ဓာတ်အား သိုလှောင်သည့် ဗက်ထရီများကို စမ်းသပ်ရန် အထူးစီမံ ပြုလုပ်ထားသော ဟိုက်ဒရိုမီတာမျိုးကို အက်ဆီဒီမီတာဟု ခေါ်သည်။ ထို ဟိုက်ဒရိုမီတာမျိုးကို ဗက်ထရီများအတွင်းရှိ အက်ဆစ်၏ပမာဏကို သတ်မှတ်ရန် အသုံးပြုကြလေသည်။ ဗက်ထရီအတွင်းရှိ အက်ဆစ်ရည်သည် ပြင်းလေလေ အလေးချိန်ပိုလာလေလေ ဖြစ်သည်။

**ဟင်ဒင်ဗတ်, ပေါဖွန် (ခရစ် ၁၈၄၇-၁၉၃၄)။**

ပေါဖွန်ဟင်ဒင်ဗတ်သည် ပဌမကမ္ဘာစစ်အတွင်းက ထင်ရှားသော ဂျာမန် စစ်သူကြီး ဖြစ်သည့်အပြင် စစ်ပြီးခေတ်၌ ဂျာမနီနိုင်ငံ သမတ အဖြစ် နှစ်ကြိမ်တိုင် ဆက်၍ ရွေးကောက် တင်မြှောက်ခြင်း ခံရသော နိုင်ငံခေါင်းဆောင်ကြီးလည်း ဖြစ်သည်။

ဟင်ဒင်ဗတ်သည် ပရပ်ရှင်း သူကောင်းမျိုးရိုးဆဲမှ ဖြစ်၍ ၁၈၄၇ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့တွင် ဂျာမနီနိုင်ငံ ပိုဇန်မြို့၌ ဖွားမြင်သည်။ အသက် ၁၁ နှစ်အရွယ်တွင် စစ်ပညာကို စတင်သင်ကြားပြီးနောက် ပရပ်ရှားနှင့် ဩစတြီးယားစစ်ပွဲ၊ ဂျာမနီနှင့် ပြင်သစ်စစ်ပွဲစသော စစ်ပွဲအသီးသီးတို့တွင် ထူးချွန်စွာ စစ်မှုထမ်းခဲ့သည်။ စစ်ဖက်၌ အမှုထမ်းနေစဉ် ဗိုလ်ချုပ်ရာထူးသို့ တိုင်အောင် ရာထူးအဆင့်ဆင့် တိုးတက်ခန့်အပ်ခြင်းခံရသည်။ ဗိုလ်ချုပ်ဟင်ဒင်ဗတ်သည် ၁၉၁၁ ခုနှစ်တွင် စစ်ဖက်မှ အနားယူ၍ ဟန်နိုဗာမြို့၌ အေးချမ်းစွာ နေထိုင်ခဲ့လေသည်။

ပဌမကမ္ဘာစစ်ဖြစ်ပွားသည့် ၁၉၁၄ ခုနှစ်တွင် ရုရှားစစ်တပ်များသည် ပရပ်ရှားနိုင်ငံအရှေ့ပိုင်းသို့ ဝင်ရောက်တိုက်ခိုက်လေသည်။ ထိုအခါ ဂျာမန်စစ်ဌာနချုပ်က အသက် ၆၇ နှစ် အရွယ်ရှိ အငြိမ်းစားဗိုလ်ချုပ် ဟင်ဒင်ဗတ်ကို အရှေ့စစ်မျက်နှာတွင် ကွပ်ကဲရန် တာဝန်ပေးအပ်



ဂျာမန်စစ်သူကြီး ပေါ ဖွန် ဟင်ဒင်ဗတ်

ခဲ့လေသည်။ ဗိုလ်ချုပ်ဟင်ဒင်ဗတ်သည် ရုရှားတပ်များကို မဆူရီယန်အိုင်ဒေသ၊ တင်နင်ဗတ် တိုက်ပွဲတွင် တိုက်ခိုက်ချေမှုန်းခဲ့သည်။ ထိုနောက် စစ်သူကြီးရာထူးသို့ တိုးမြှင့်ပေးပြီးလျှင် အရှေ့ဖက်ရှိ ဂျာမန်တပ်များ၏ စစ်သေနာပတိအဖြစ် ခန့်အပ်ခြင်း ခံရသည်။ တဖန် ၁၉၁၆ ခုနှစ်တွင် ဟင်ဒင်ဗတ်သည် ဂျာမန်စစ်တပ်အားလုံး အတွက် သေနာပတိချုပ် ဖြစ်လာလေသည်။

၁၉၁၇ ခုနှစ်တွင် ဟင်ဒင်ဗတ်သည် အနောက်ဖက် စစ်မျက်နှာ၌ ထုံးစံဆင်တိုက်ခိုက်သော မဟာမိတ်တပ်များကိုလည်း "ဟင်ဒင်ဗတ်စစ်ကြောင်း" ဟု အမည်တွင်သည့် ခံတပ် ကတုတ်ကျင်းများမှ ကြံ့ကြံ့ခံခဲ့လေသည်။ ၁၉၁၈ ခုနှစ်တွင် ဂျာမနီနိုင်ငံသည် မဟာမိတ်နိုင်ငံများနှင့် စစ်ရပ်စဲလိုက်ရသဖြင့် ပဌမကမ္ဘာစစ်ပြီးဆုံးလေသည်။ စစ်သူကြီး ဟင်ဒင်ဗတ်သည်လည်း ၁၉၁၉ ခုနှစ်တွင် ဒုတိယအကြိမ် အနားယူလေသည်။

၁၉၂၅ ခုနှစ်တွင် ဂျာမနီနိုင်ငံ၏ ပဌမဦးဆုံး သမတ အီဗတ်ကွယ်လွန်သောအခါ ဂျာမန်ကွန်ဆားဗတစ်ပါတီဝင်တို့က ဟင်ဒင်ဗတ်ကို သမတအဖြစ် ဝင်ရောက် အရွေးခံရန် တိုက်တွန်းကြသည်။ ထိုအချိန်တွင် သူသည် အသက် ၇၈ နှစ်အရွယ် ရှိပြီးဖြစ်၏။ ဟင်ဒင်ဗတ်သည် ရွေးကောက်ပွဲတွင် အနိုင်ရသဖြင့် သမတအဖြစ် နိုင်ငံ၏ တာဝန်ကို ထမ်းဆောင်ရလေသည်။

သမတ ဟင်ဒင်ဗတ်သည် ဘုရင်အုပ်ချုပ်မှု စံနစ်ကို လိုလားသူဖြစ်သော်လည်း ဟိုအင်ဆောလန်း မင်းဆက်ကို ဂျာမန်ထီးနန်း၌ ပြန်လည်ဆက်ခံစိုးစံနိုင်ရန် မကြံစည်ခဲ့သည်သာမက ဂျာမနီနိုင်ငံ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေကို သစ္စာရှိစွာ စောင့်ထိန်းခဲ့သူဖြစ်ပေသည်။ ၁၉၃၂ ခုနှစ်သမတရွေးကောက်ပွဲတွင် အဲဒေါ့ဟစ်တလာနှင့် ပြိုင်၍ အရွေးခံရာ အနိုင်ရရှိသဖြင့် ဒုတိယအကြိမ် သမတအဖြစ် ဆောင်ရွက်ရပြန်သည်။ ထိုအချိန်၌ ဟစ်တလာ ခေါင်းဆောင်သော နာဇီပါတီခေါ် အမျိုးသား ဆိုရှယ်လစ် အလုပ်သမားပါတီသည် အင်အားကောင်းလျက် ရှိသည်။ ထိုကြောင့် သမတ ဟင်ဒင်ဗတ်သည် ၁၉၃၃ ခုနှစ်တွင် ဟစ်တလာကို ဝန်ကြီးချုပ်အဖြစ် ခန့်ရသည်။

ဟစ်တလာခေါင်းဆောင်သော နာဇီအဖွဲ့သည် နိုင်ငံအုပ်ချုပ်ရေး အာဏာကို တဖြည်းဖြည်း သိမ်းယူခဲ့ရာ နောက်ဆုံး၌ ဂျာမနီသည် အာဏာရှင်အုပ်စိုးသော နိုင်ငံအဖြစ်သို့ရောက်ရှိလေသည်။ (ဟစ်တလာ, အဲဒေါ့—လည်းရှု။) ဟင်ဒင်ဗတ်သည်လည်း နိုင်ငံ၏တာဝန်ကို စွန့်လွှတ်၍ နျူးဒက်မြို့တွင် နေထိုင်ခဲ့ရာ ၁၉၃၄ ခုနှစ် ဩဂုတ်လ ၂ ရက်နေ့တွင် ကွယ်လွန်လေသည်။ သူ၏ရုပ်အလောင်းကို အောင်မြေဖြစ်သော တင်နင်ဗတ်မြို့တွင် မြှုပ်နှံခဲ့ကြလေသည်။

**ဟင်နရီဘုရင်များ (ပြင်သစ်)။** ။ပြင်သစ်ပြည့်ရှင်ဘုရင်လေးပါးတို့သည် ဟင်နရီအမည်ဖြင့် ပြင်သစ်ထီးနန်းကို သိမ်းပိုက်စံမြန်းခဲ့ကြ၏။ ထိုဘုရင်လေးပါးအနက် ပဌမ ဟင်နရီဘုရင် (ခရစ် ၁၀၀၈–၁၀၆၀) သည် ရောဗတ်ဘုရင်နှင့် မိဖုရား ကွန်စတန့်တို့မှ ဖွားမြင်သော သားတော်ဖြစ်၍ ၁၀၃၁ ခုနှစ်တွင် ဖခမည်းတော်၏အရိုက်အရာ ပြင်သစ်ထီးနန်းကိုဆက်ခံခဲ့လေသည်။

ဟင်နရီလက်ထက်တွင် ကံကျွေးချစ်နစ် သည် ပြင်သစ်နိုင်ငံ၌ အထွတ်အထိပ်သို့ ရောက်ခဲ့သည်။ သူ၏ နန်းသက်တလျှောက်လုံးလောက်တွင် ဟင်နရီသည် သစ္စာခံနယ်စားများ၏ ခေါင်ထားထကြွမှုတို့ကို နှိမ်နင်း တိုက်ခိုက်နေခဲ့ရ၏။ အထူးသဖြင့် နော်မန်ဒီနယ်စားဝီလျံနှင့်အကြိတ်အနယ် တိုက်ခိုက်ခဲ့ရလေသည်။ ဝီလျံကား နောင်တွင်အင်္ဂလန်ပြည့်ရှင် "ဝီလျံ–သ–ကွန်ကာရားဘုရင်" ဖြစ်လာလေသည်။

၁၀၅၉ ခုနှစ်တွင် သားတော်အကြီးဆုံး ဖိလစ်အား အရံဘုရင်အဖြစ်ဖြင့် ဘိသိက်မြှောက်ခဲ့ပြီးနောက် ၁၀၆၀ ပြည့်နှစ်တွင် ဟင်နရီဘုရင် ကံကုန်လေသည်။

ဒုတိယဟင်နရီဘုရင် (ခရစ် ၁၅၁၉–၁၅၅၉)။ ။ဒုတိယ ဟင်နရီကား ပြင်သစ်ပြည့်ရှင် ပဌမ ဖရန်စစ်ဘုရင်နှင့် ကလော့မိဖုရားတို့မှ ဖွားမြင်သော ဒုတိယသားတော်ဖြစ်၏။

၁၅၇၂ ခုနှစ်တွင် ခမည်းတော်ဘုရင်ကြီးသည် သူ့အား ကက်သရင်း ဒါ မဲဒီချီ နှင့် စုံဖက်ပေးခဲ့လေသည်။ ၁၅၇၆ ခုနှစ်တွင် နောင်တော် ဖရန့်စစ်မင်းသား ကွယ်လွန်သဖြင့် ဒေါဖင်ခေါ် အိမ်ရှေ့မင်းသား ဖြစ်လာလေသည်။

ဟင်နရီသည် ၁၅၄၇ ခုနှစ်ထွင် နန်းတက်ခဲ့၍ သူသည် ရောမကက်သလစ်ဂိုဏ်းဝင်တဦး ဖြစ်သည့်အတိုင်း ပရိုတက်စတန့်ဂိုဏ်းဝင်များအား သူ၏ဖခင်လက်ထက်ကထက် ပိုမို၍ညှဉ်းပမ်းနှိပ်စက်ခဲ့လေသည်။ ထိုအပြုအမူတို့ကြောင့် သူနတ်ရွာစံပြီးသည့်နောက်၌ အယူဝါဒစစ်ပွဲများ ဖြစ်ပွားခဲ့ရလေသည်။

ဟင်နရီသည် ကိုယ်လက် ကြံ့ခိုင်ကာ သန်စွမ်းသူ တယောက်ဖြစ်ပြီးလျှင် သူ၏ဖခင်ကဲ့သို့ပင် အကြမ်းအတမ်း ကစားခုန်စားမှုများ၌ ဝါသနာပါသည်။ သို့သော် ဖော်ရွေသော အမူအရာကင်းလျက် အပြောအဆို ရင့်သီးလှသည်။ သူ၏လက်ထက်တွင် ဘုရင့်ဩဇာသည် ယခင်ခေတ်အခါများကထက် စူးရှပိုင်နိုင်ခဲ့၏။

၁၅၅၉ ခုနှစ်တွင် ကျင်းပသော စီးချင်းတိုက်ပွဲ၌အမတ်ကြီး တဦးနှင့် ယှဉ်ပြိုင်ကာလှံကစားရာတွင် တဖက်လူ၏လှံသွားကျိုးသည် သံခမောက်မျက်ဖိပေါက်မှထိုးဝင်ကာ သူ၏ဦးနှောက်ကို ထိုးဖောက်သွားသဖြင့် နတ်ရွာစံရလေသည်။

သူ၏သားတော်များအနက် ဘုရင်ဖြစ်လာသူများမှာ ဒုတိယ ဖရန့်စစ်၊ နဝမချားနှင့် တတိယ ဟင်နရီတို့ ဖြစ်ကြသည်။

တတိယဟင်နရီဘုရင် (ခရစ် ၁၅၅၁–၁၅၈၉)။ ။ ပြင်သစ်ပြည့်ရှင် တတိယ ဟင်နရီဘုရင်သည် ဒုတိယ ဟင်နရီနှင့် ကက်သရင်း ဒါ မဲဒီချီတို့၏ တတိယသားတော် ဖြစ်သည်။ ၁၅၅၁ ခုနှစ် စက်တင်ဘာလ ၁၉ ရက်နေ့တွင် ဖွားမြင်ခဲ့၍ မယ်တော် ကက်သရင်းမိဖုရားကြီး၏ အချစ်တော်သားတပါးဖြစ်သည်။

၁၅၇၂ ခုနှစ် စိန့်ဗာတောလမျူးနေ့လူသတ်ပွဲကြီး ဖြစ်မြောက်ရန် ဟင်နရီသည် မယ်တော် ကက်သရင်းအား အထူးကူညီခဲ့၏။ ၁၅၇၃ ခုနှစ်တွင် ပိုလန်ဘုရင် ဖြစ်လာစေရန် မယ်တော်ကက်သရင်းက ဆောင်ကြဉ်းပေးခဲ့ လေသည်။ ဟင်နရီသည် ပိုလန်၌ မပျော်ပိုက်ရကား နောင်တော် နဝမချား ကွယ်လွန်၍ ပြင်သစ်ထီးနန်းကို သိမ်းပိုက်လိုက်သည့် ၁၅၇၄ ခုနှစ်တွင် ပိုလန်လူမျိုးတို့အား အသိပင်မပေးပဲ ပိုလန်မှ ပြင်သစ်နိုင်ငံသို့ ပြန်ခဲ့လေသည်။

ဟင်နရီသည် ဘုရင့်အင်္ဂါနှင့်မညီ၊ ပျင်းရိပေါ့တန်သည့်ပြင် အကျင့်သိက္ခာ ဖောက်လွဲဖောက်ပြန်လည်း ရှိသဖြင့် ဟျူးဂျနိုး ဂိုဏ်းဝင်များကိုသာမက ကက်သလစ်ဂိုဏ်းဝင်များကိုပါ မကျေမနပ် ဖြစ်စေခဲ့လေသည်။ သူ၏နန်းသက်ကား ပြည်တွင်းစစ်နှင့် ပြွမ်းနေခဲ့၏။ ၁၅၈၉ ခုနှစ် ဩဂုတ်လ ၃ ရက်နေ့၌ ဟင်နရီသည် အယူဝါဒရေးတွင် အယူသည်းသူတဦး၏ လုပ်ကြံမှုကြောင့် ကံကုန်ခဲ့လေသည်။

စတုတ္ထဟင်နရီ (ခရစ် ၁၅၅၃–၁၆၁၀)။ ။ဗူးဗွန်မင်းဆက်မှ ပြင်သစ်နိုင်ငံကို ပဌမဦးစွာ စိုးမိုးအုပ်ချုပ်သော ဘုရင်မှာ စတုတ္ထဟင်နရီဘုရင်ဖြစ်၏။ ဟင်နရီသည် ဗူးဗွန်အဆက်အနွယ်တဦးဖြစ်သော အန်ထော်နီနှင့် နာဗားဘုရင်မ ဇန်းဒဲလဗတ်၏ သားတော်ဖြစ်၍၊ ၁၅၅၃ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက်နေ့တွင် ဖွားမြင်ခဲ့သည်။ (ဗူးဗွန်မင်းဆက် — လည်းရှု။) မျိုးရိုးအားဖြင့် ပရိုတက်စတန့်ဂိုဏ်းဝင်ဖြစ်၏။ ငယ်စဉ်က ပါရစ်မြို့ရှိ ဘုရင့်နန်းတော်သို့ ပညာတော်သင်သွားခဲ့ရလေသည်။

မယ်တော် နာဗားဘုရင်မကြီးသည် ဟင်နရီ ၁၆ နှစ်သားအရွယ်သို့ရောက်သောအခါ ပရိုတက်စတန့် စစ်ခေါင်းဆောင်ကြီး၏ လက်အောက်တွင် ဟင်နရီအား စစ်မှုထမ်းစေလေသည်။ ၁၅၇၂ ခုနှစ်တွင် မယ်တော် ဘုရင်မကြီး ကွယ်လွန်သဖြင့် ဟင်နရီသည် နာဗားဘုရင် ဖြစ်လာသည်။ ထိုနှစ်၌ပင် ဟင်နရီသည် ပြင်သစ်ဘုရင် နဝမချား၏ နှမတော် မာဂရက်နှင့် လက်ဆက်ခဲ့သည်။

၁၅၇၂ ခုနှစ် စိန့်ဗာတောလမျူးနေ့ လူသတ်ပွဲကြီး ပေါ်ပေါက်လာသောအခါ ဟင်နရီသည် သူသက်ဝင် ယုံကြည်သော ပရိုတက်စတန့် အယူဝါဒကို စွန့်လွှတ်လိုက်ပြီဟူသော ဥပါယ်တံမျည်ကြောင့် အသက်ချမ်းသာရခဲ့လေသည်။ သို့ရာတွင် လေးနှစ်မျှ အကျဉ်းချထားခြင်း ခံခဲ့ရသေးသည်။ ၁၅၇၆ ခုနှစ်တွင် အကျဉ်းမှ လွတ်မြောက်လာသောအခါ၊ ဟျူးဂျနိုးခေါ် ပရိုတက်စတန့် တို့၏ အရေးကို ရှေ့ဆောင်ရှေ့ရွက် ပြုလုပ်ပြန်လေသည်။ (ဟျူးဂျနိုး — လည်းရှု။)



စတုတ္ထမြောက် ဟင်နရီဘုရင်

၁၅၈၉ ခုနှစ်တွင် တတိယ ဟင်နရီဘုရင် လုပ်ကြံခြင်းခံရသောအခါ ဟင်နရီသည် ပြင်သစ်ထီးနန်းကို စတုတ္ထဟင်နရီအဖြစ် ဆက်ခံရလေသည်။ သို့ရာတွင် ပြည်တွင်းရှိ ကက်သလစ်ဂိုဏ်းနှင့်တကွ စပိန်နိုင်ငံတို့၏ ရန်ကို ၁၀ နှစ် တိုင်တိုင် တိုက်ခိုက်နှိမ်နင်းပြီးမှသာလျှင် ပြင်သစ်နိုင်ငံအလုံးကို ထိရောက်စွာ စိုးမိုး အုပ်ချုပ်နိုင်ခဲ့ လေသည်။ ဟင်နရီဘုရင်သည် မိမိသြဇာ ပိုမိုစူးရှစေရန် ရည်သန်လျက် ပြည်သူပြည်သားအများ ကိုးကွယ်သည့် ကက်သလစ် ဂိုဏ်းဖက်သို့ ၁၅၉၃ ခုနှစ်တွင် ကူးပြောင်းခဲ့၏။ သို့သော် ဟင်နရီသည် ယခင်က သူခေါင်းဆောင်ခဲ့သော ဟျူးဂျနိုးများကိုလည်း သတိမမေ့ပဲ ကက်သလစ်များနှင့်အတူ တိုင်းရေးပြည်မှု ဆောင်ရွက်ရာတွင် တူညီသောအခွင့်အရေးကိုပေးခဲ့လေသည်။ ၁၅၉၈ ခုနှစ်တွင် နန်အမိန့်တော်ပြန်တမ်းကို ထုတ်ပြန်ကာ ဟျူးဂျနိုးများအား လွတ်လပ်စွာ ကိုးကွယ်နိုင်မှု အခွင့်အရေးကို ပေးခဲ့လေသည်။

စတုတ္ထဟင်နရီလက်ထက်၌ ပြင်သစ်အမျိုးသားများသည် စည်းလုံးညီညွတ်ခဲ့၏။ လမ်းသစ်များဖွင့်၍ လမ်းပန်းသာယာသဖြင့် ကုန်စည်ကူးသန်းရောင်းဝယ်ရေး စည်ကားခဲ့၏။ ဘဏ္ဍာရေး ပြုပြင်မှုများကို စီမံဆောင်ရွက် ပေးခဲ့သဖြင့် တိုင်းသူပြည်သားများ သက်သာချောင်ချိခဲ့ကြ၏။ ထိုသို့ တိုင်းပြည်သာယာစည်ပင်စေရန် စီမံဆောင်ရွက်ရာတွင် ဟင်နရီအား များစွာအထောက်အပံ့ ဖြစ်စေသော ပုဂ္ဂိုလ်တဦးမှာ ဆာလီနယ်စားဖြစ်သည်။

စတုတ္ထဟင်နရီသည် ပြင်သစ်သမိုင်းတွင် ပြည်သူပြည်သားတို့၏ လေးစားကြည်ညိုခြင်းကို အခံရဆုံးသောဘုရင်တပါး ဖြစ်၏။ သို့သော် အယူဝါဒဆိုင်ရာတွင် အကျိတ်အခဲမကျေနိုင်သူတဦး၏ဓားချက်ဖြင့် ၁၆၁၀ ပြည့်နှစ်မေလ ၁၄ ရက်နေ့တွင် ကံကုန်ရလေတော့သည်။ ထီးနန်းကို သားတော် ၁၃ ဆက်မြောက်လူဝီက ဆက်ခံစိုးစံလေသည်။

**ဟင်နရီဘုရင်များ(အင်္ဂလိပ်)**။ ။ အင်္ဂလန် သမိုင်းတွင် ဟင်နရီအမည်ခံ ဘုရင်ရှစ်ပါး ရှိခဲ့ဘူးလေသည်။

ပဌမ ဟင်နရီ (ခရစ် ၁၀၆၈–၁၁၃၅) သည်ဝီလျံ–သ–ကွန်းကားရား၏ သားတော် အငယ်ဆုံး ဖြစ်သည်။ ထိုမင်းသားသည် ရွယ်တူ အခြား မင်းသားများနှင့် မတူပဲ စာပေကို လေ့လာလိုက်စားကာ ကျနစွာ တတ်မြောက်ခဲ့သူဖြစ်သည်။ သူ၏ ဒုတိယ နောင်တော် ဝီလျံရုဖပ်(စ) သည် အမဲလိုက်စဉ် မြားမှန် ကွယ်လွန်ခဲ့သောကြောင့် ဟင်နရီက ထီးနန်းကို ၁၁၀၀ ပြည့်နှစ်တွင် ဆက်ခံရသည်။ သို့သော် အကြီးဆုံးဖြစ်သော နော်မန်ဒီနယ်စား ရောဗတ်နှင့် ထီးနန်းဆက်ခံခွင့်အတွက် စစ်ပွဲများ ဆင်နွှဲတိုက်ခိုက်ခဲ့ရ၏။ ထိုသို့တိုက်ခိုက်ခဲ့ရစဉ်က ဟင်နရီသည် နော်မန်ဒီရှိ နောင်တော်၏ ပိုင်နက်နယ်ပယ်အချို့ကိုပင် သိမ်းပိုက်ထားနိုင်ခဲ့လေသည်။

ထိုပြင် ဟင်နရီဘုရင်သည် ဆက္ကဆန်တို့၏ ထောက်ခံအားပေးမှုရရှိစေရန် စကော့တလန်မှ အက်ဂါအက်သယ်လင်း၏သမီးတော် မော့(မတီလဒါဟုလည်း ခေါ်၏။) နှင့် လက်ဆက်ခဲ့၏။ သူတို့မှ မြင်သည့် မတီလဒါ မင်းသမီးကို နန်းလျာထားခဲ့လေသည်။ ဟင်နရီဘုရင် လက်ထက်တွင် အင်္ဂလန်ပြည်ရှိ ဆက္ကဆန်နှင့် နော်မန်လူမျိုးတို့ကို သွေးစည်းရေး လုပ်ငန်းမှာ များစွာ တိုးတက်အောင်မြင်ခဲ့၏။ ဟင်နရီဘုရင်သည် ပြင်သစ်ပြည်တွင် နော်မန်တို့နှင့် ယှဉ်ပြိုင် တိုက်ခိုက်ခဲ့သည့် စစ်ပွဲများကြောင့် အင်္ဂလိပ် အမျိုးသားရေးစိတ်ဓာတ် များစွာ တက်ကြွခဲ့လေသည်။

ဒုတိယ ဟင်နရီ(ခရစ် ၁၁၃၃–၁၁၈၉)သည် မတီလဒါ မင်းသမီး (ပဌမ ဟင်နရီဘုရင်၏ သမီးတော်)နှင့် အန်ဂျူးနယ်စား ဂျက်ဖရီပလန်တာဂျင်နက်တို့၏ သားတော် ဖြစ်သည်။ ၁၁၃၅ ခုနှစ်၌ ပဌမ ဟင်နရီ ကွယ်လွန်သောအခါ ဝီလျံ–သ–ကွန်းကားရား၏ မြေးတော် ဗလွား နယ်စား စတီဖင်က ထီးနန်းကို လုယူသည်။ ထိုကြောင့် နှစ်ပေါင်းများစွာ စစ်ဆင်တိုက်ခိုက်ခဲ့ကြပြီးနောက် စတီဖင်သည် ထီးနန်းကို ဆက်လက် ထိန်းသိမ်းထားရမည် ဖြစ်သော်လည်း သူကွယ်လွန်ပြီးသည့်နောက်တွင် ဟင်နရီက ဆက်ခံရန် သဘောတူခဲ့ကြလေသည်။ ဟင်နရီသည် ၁၁၅၄ ခုနှစ်တွင် နန်းတက်ခဲ့ပြီးလျှင် ၃၅ နှစ်တိုင်တိုင် တိုင်းပြည်ကို အုပ်စိုးခဲ့သည်။ သူသည် အင်္ဂလန် တပြည်လုံးသာမက ပြင်သစ်ပြည်၏ အနောက်ဖက် တခြမ်းကိုပါ အုပ်စိုးခဲ့ရသည်။ ထိုမျှသာ မဟုတ်သေး စကော့တလန်ပြည်၊ ဝေလပြည်နှင့် အိုင်ယာလန်ပြည်တို့ကိုလည်း အုပ်စိုးခဲ့ရသေးသည်။

ဒုတိယ ဟင်နရီဘုရင်သည် မှူးမတ်ကြီးများ၏ တန်ခိုးအာဏာများကို ကန့်သတ်ပေးရန် ဟူသော ဝါဒကို ဆက်လက် ကျင့်သုံးခဲ့သည့်အပြင် ခရစ်ယန် သံဃာအဖွဲ့အား ဘုရင်စိုးမင်းတို့၏ သြဇာ အာဏာအောက်တွင် ရောက်ရှိလာရေးအတွက်လည်း ကြိုးပမ်းခဲ့၏။ ဤ အရေးတွင် ကန်တာဗာရီဂိုဏ်းချုပ် ဘောမတ် ဗက်ကက် အသတ်ခံရလေသည်။ ဟင်နရီဘုရင်သည် ဂျူရီလူကြီးများဖြင့် အမှုအခင်းစစ်ဆေးသည့် စံနစ်ကိုရင်း၊ နယ်လှည့်တရားရုံးစံနစ်ကိုရင်း စတင် ကျင့်သုံးစေခဲ့သည်။ အင်္ဂလိပ် ဆက္ကဆန် ဥပဒေများကိုလည်း တိုင်းပြည်၏ လက်သုံး ဥပဒေအဖြစ် သတ်မှတ်ပေးခဲ့၏။ ဒုတိယ ဟင်နရီဘုရင်သည် မိမိ၏နန်းသက် နောက်ပိုင်းတွင် သားတော်များက မိမိအား သစ္စာဖောက်ခြင်း၊ ပုန်ကန် ထကြွခြင်းတို့ကြောင့် စိတ်နှလုံး မချမ်းမြေ့ ဖြစ်ခဲ့ရသည်။ ထိုသားတော်များတွင် သူ၏ နောက် ထီးနန်းကို ဆက်ခံခဲ့ကြသော ခြင်္သေ့ နှလုံးရှိသူ

ရစ်ချတ်နှင့်ဂျွန်တို့လည်း ပါဝင်၏။ ဒုတိယ ဟင်နရီဘုရင်သည် ၁၁၈၉ ခုနှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ပြင်သစ်ပြည်၌ ကွယ်လွန်ခဲ့လေသည်။

တတိယ ဟင်နရီဘုရင် (ခရစ် ၁၂၀၇–၁၂၇၂)။ ။ ဂျွန်ဘုရင် ၁၂၁၆ ခုနှစ်တွင် နတ်ရွာစံသောအခါ သူ၏သားတော် ဟင်နရီသည် ကိုးနှစ် အရွယ်မျှသာ ရှိသေးသည်။ ထိုကိုးနှစ်သား မင်းသားကလေးသည် တတိယ ဟင်နရီ ဘုရင်အဖြစ်ဖြင့် ထီးနန်းကို ဆက်ခံလေသည်။ ဘုရင်ကလေး အရွယ်မရောက်မီ ပင်ဗရုတ် မြို့စားကြီး ဝီလျံ မာရှယ်နှင့် ဟျူးဗတ်ဒါဗတ်ဆိုသူ အမတ်ကြီးတို့က ရင်ခွင်ပိုက် အုပ်ချုပ်ကြရသည်။

၁၂၂၇ ခုနှစ်တွင် ဟင်နရီသည် တိုင်းပြည်ကို ကိုယ်တိုင် အုပ်ချုပ်လေသည်။ ဟင်နရီသည် အသုံးကြီး၍ ဆွေတော်မျိုးတော်တို့နှင့်တကွ သူနှင့် ပလဲနံပ သင့်သူတို့ကို အခွင့်အရေး ပေးလွန်းသည်။ စစ်မက်လိုလား၍ ပြင်သစ်နိုင်ငံရှိ အင်္ဂလိပ်ပိုင် နယ်မြေဟောင်းတို့ကို ပြန်လည် တိုက်ခိုက်ယူရန် အထူးအာသီသ ထားခဲ့သည်။ တိုင်းပြည်ကို အုပ်ချုပ်ရာတွင်လည်း အစဉ်အလာအားဖြင့် ဖိတ်ခေါ် တိုင်ပင်လေ့ရှိသော ကောင်စီကို မခေါ် မဖိတ် မတိုင်ပင်ပဲနေခဲ့သည်။ သို့ဖြင့် ကောင်စီဝင် မြေပိုင်ရှင် အမတ်ကြီးများသည် မကျေမနပ် ဖြစ်လာကြသည်။ ၁၂၅၈ ခုနှစ်တွင် ဆိုင် မွန် ဒီ မွန့် ဖတ် ခေါင်းဆောင်သော မြေပိုင်ရှင် အမတ်ကြီးများသည် သူတို့အား အုပ်ချုပ်မှု လွှဲပြောင်းပေးရန် ဘုရင်အား အကြပ်ကိုင်ကြသည်။ နောက်ဆုံးတွင် ဟင်နရီနှင့် ဆိုင်မွန်တို့ စစ်ခင်းကြတော့၏။ ထိုစစ်ပွဲတွင် ဆိုင်မွန်တို့ဖက်မှ အနိုင်ရကြ၍ ဟင်နရီသည် တနှစ်တာမျှ အကျဉ်းချထားခြင်း ခံရလေသည်။ (မွန့်ဖတ်,ဆိုင်မွန် ဒီ — ရှု။)

စစ်ပွဲပြီးသောအခါ ရှေးယခင်က မြေပိုင်ရှင် အမတ်ကြီးများသာ ပါဝင်ခဲ့ရသော ကောင်စီတွင် မြို့သူမြို့သားများ၏ ကိုယ်စားလှယ်များကိုလည်း ထည့်သွင်း လာလေတော့၏။ ထိုကိုယ်စားလှယ်ပေါင်းစုံ ပါဝင်သော ကောင်စီသည်ပင် နောင်အခါ၌ ပါလီမန် ဖြစ်လာလေသည်။

ဟင်နရီ၏သားတော် အက်ဒွပ်သည် ၁၂၆၅ ခုနှစ်တွင် အီဗရှမ် စစ်ပွဲ၌ ဆိုင်မွန်တို့အား တိုက်ခိုက် နှိမ်နင်းလိုက်ရာ ဆိုင်မွန်လည်း ကျဆုံးလေတော့၏။ ထိုအခါမှစ၍ ဟင်နရီ နတ်ရွာလားသော ၁၂၇၂ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့အထိ ခုနစ်နှစ်တာမျှသောအချိန်တွင် တိုင်းပြည်အေးချမ်းသာယာစွာရှိစေရန် အက်ဒွပ်ကသာ အုပ်ချုပ်ခဲ့လေသည်။

ဟင်နရီသည် အုပ်ချုပ်ရေးဖက်၌ အမှားမှား အယွင်းယွင်း မနိုင်မနင်း ရှိခဲ့သော်လည်း သုခုမပညာနှင့် အခြားအနုပညာရပ်များတွင် အထူးဝါသနာထုံခဲ့သည်။ ဝက်စမင်စတာ ဘုရားရှိခိုးကျောင်းကြီးကို တည်ဆောက်လျက် အယူဝါဒကို အားပေးခဲ့သည့်ပြင် စိတ်နှလုံး သိမ်မွေ့သော ဘုရင်တပါးလည်း ဖြစ်သည်။

စတုတ္ထဟင်နရီဘုရင် (ခရစ် ၁၃၆၇–၁၄၁၃)။ စတုတ္ထ ဟင်နရီသည် လန်ကက်စတာ မင်းဆက်မှ ဦးစွာနန်းတက်သော ဘုရင်ဖြစ်သည်။ လန်ကက်စတာ နယ်စားကြီး ဂျွန် အော့ ဂေါင့်၏ သားတော် အကြီးဆုံး ဖြစ်၍ ၁၃၆၇ ခုနှစ် ဧပြီလ ၃ ရက်နေ့တွင် ဖွားမြင်သည်။ ၁၃၉၈ ခုနှစ်တွင် ဒုတိယ ရစ်ချတ်ဘုရင်သည် ဟင်နရီအား ပြည်နှင်ဒဏ်ခတ်လိုက်ပြီးနောက် ဟင်နရီ၏ဖခင် ကွယ်လွန်သည်တွင် ဟင်နရီ၏ ပိုင်မြေအရပ်ရပ်ကို သိမ်းယူလိုက်သည်။ ၁၃၉၉ ခုနှစ်၌ ရစ်ချတ်ဘုရင်သည် အိုင်ယာလန်ဖက်သို့ ခရီးထွက်နေစဉ် ဟင်နရီသည် နောက်လိုက် ၆၀ ခန့်နှင့် အင်္ဂလန်ပြည်သို့ ပြန်လည်ရောက်ရှိလာလျက် ထီးနန်းကို လုပ်ကြံလေသည်။ ဒုတိယ ရစ်ချတ်ဘုရင်အား အကြည်ညိုပျက်သူများပြားသည့်အလျောက် ဟင်နရီ၏စစ်တပ်သည်အင်အားအဆမတန် တိုးတက်လာကာ စစ်ပွဲတစုံတရာ မတိုက်ခိုက်ရပဲ ရစ်ချတ်ဘုရင်အား လက်ရ ဖမ်းဆီး နိုင်ခဲ့လေသည်။ ဟင်နရီ ထီးနန်းသိမ်းပိုက်လိုက်သည်ကို ပါလီမန်ကလည်း သဘောတူခဲ့သည်။

ဟင်နရီ၏နန်းသက် ၁၄ နှစ်ကား ဆိတ်ငြိမ်သာယာခြင်း မရှိခဲ့ချေ။ နန်းတက်စ နှစ်များတွင် ဟင်နရီသည် နန်းကျဘုရင် ရစ်ချတ်၏ ဖက်တော်သားများဖြစ်သော မှူးမတ်ကြီးများ၏ ပုန်ကန်မှုများကိုင်း၊ ဝေလနယ်နှင့် စကော့တလန်ပြည်တို့၏ ထကြွသောင်းကျန်းမှုများကိုင်း တိုက်ခိုက် နှိမ်နင်းခဲ့ရ၏။ ထိုသို့ ရန်ဆူး ရန်စွယ်တို့ကို ချိုးနှိမ်နေရသဖြင့် သာသနာ့ အဖွဲ့အစည်းတို့နှင့်လည်း အညီအညွတ်ဖြစ်အောင် ဆောင်ရွက်ခဲ့ရ၏။ နန်းတက်စဉ်က အကူအညီပေးခဲ့သော ပါလီမန်အားသည်း အထူး လိုက်လျောခဲ့ရ၏။ ထိုကြောင့် ဟင်နရီ၏ လက်ထက်တွင် ပါလီမန်သည် ပြည်သူ့အခွင့်အရေး ပေါ်လွင်အောင် အကောင်အထည် ဖော်နိုင်ခဲ့သည်။ သို့ဖြင့် အင်္ဂလန်နိုင်ငံတွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ အုပ်စိုးသော(စည်းမျဉ်းခံ) ဘုရင့်စနစ်သည် ဟင်နရီလက်ထက်တွင် ဦးစွာ ပေါ်ပေါက်ခဲ့သည်ဟု ဆိုနိုင်သည်။

ဟင်နရီသည် အုပ်ချုပ်မှုဖက်တွင် တရားမျှတ၍ လိမ်မာသောမင်းဖြစ်သည်။မြို့ရွာများထွန်းကားလာမှုနှင့်အရောင်းအဝယ် တိုးတက်လာမှုတို့အတွက် အထူးအားပေးခဲ့သည်။ ဤမင်းလက်ထက်၌ အနုပညာ နှင့် စာပေပညာရပ်များလည်း အထူးတိုးတက်ခဲ့၏။သို့ရာတွင် ဟင်နရီသည် အယူဝါဒကိုဖောက်ပြန်မှုကို မုန်းတီးသူဖြစ်သဖြင့် လောလတ်ဂိုဏ်းဝင်များအား ရက်စက်စွာ နှိမ်နင်းသုတ်သင်လေသည်။ဟင်နရီသည် ၁၄၁၃ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကံကုန်သည်။

ပဥ္စမ ဟင်နရီ ဘုရင် (ခရစ် ၁၃၈၇ - ၁၄၂၂)။ ။ စတုတ္ထ ဟင်နရီ လွန်သောအခါ သားတော် ဟင်နရီသည် ပဥ္စမ ဟင်နရီအဖြစ် ထီးနန်းဆက်ခံ၏။ ထိုအချိန်က အုပ်စိုးကြသော ဘုရင်များအနက် ဟင်နရီသည် ရဲစွမ်းသတ္တိနှင့်၎င်း၊ ဉာဏ်ပညာ အမြော်အမြင်နှင့်၎င်း အပြည့်စုံဆုံးသော ဘုရင်တပါးဖြစ်သည်ဟု ကျော်ကြားခဲ့လေသည်။

ပဥ္စမ ဟင်နရီသည် ခမည်းတော် စတုတ္ထ ဟင်နရီဘုရင်ကြီးနည်းတူ လောလတ်ဂိုဏ်း နှိပ်ကွပ်ရေးကို ဆက်လက်ဆောင်ရွက်ခဲ့၏။ ၁၄၁၇ ခုနှစ်တွင် လောလတ်ဂိုဏ်းခေါင်းဆောင် ဆာဂျွန်အိုးကတ်ဆယ်ကို ကွပ်မျက်ပစ်လိုက်သည်။

ဟင်နရီသည် ယခင် မင်းများလက်ထက်တွင် ဆုံးပါးခဲ့သော ဥရောပတိုက်ရှိ နယ်ပယ်တို့ကို ပြန်လည်ရရှိရန်သာမက ပြင်သစ်ထီးနန်းကိုပါ သိမ်းပိုက်ရန် ရည်ရွယ်ရင်းရှိသည့်အလျောက် တတိယ အက်ဒွပ်ဘုရင် လက်ထက်က စတင် ဖြစ်ပွားခဲ့သော နှစ်တရာစစ်ပွဲကို ဆက်လက်ဆင်နွှဲခဲ့သည်။ (နှစ်တရာစစ်ပွဲ — လည်းရှု။) အဇန်ကူး တိုက်ပွဲတွင် ဟင်နရီ၏ စစ်တပ်သည် စစ်သား ၁၃,၀၀၀ ခန့်မျှသာ ပါဝင်သော်လည်း လေးသည်တော် အများ ပါဝင်သဖြင့် စစ်သား ၅၀,၀၀၀ ခန့် ပါဝင်သော ပြင်သစ် စစ်တပ်ကို အပြတ်အသတ် အောင်နိုင်ခဲ့လေသည်။ ထိုတိုက်ပွဲအပြီး ဟင်နရီသည် ပြင်သစ်နိုင်ငံ မြောက်ဖက် တခြမ်းလုံးကို သိမ်းပိုက်အုပ်စိုးရလေသည်။

၁၄၂၀ ပြည့်နှစ်တွင် ဟင်နရီနှင့် ပြင်သစ်ဘုရင် ဆဋ္ဌချားတို့သည် ထရွားမြို့၌ ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုကြ၏။ ထိုစာချုပ်အရ ဟင်နရီသည် ဆဋ္ဌချား၏ သမီးတော် ကက်သရင်း မင်းသမီးနှင့် လက်ထပ် ထိမ်းမြား၍ ချားဘုရင် နတ်ရွာစံလွန်သော် ဟင်နရီသည် ပြင်သစ် ထီးနန်းကို ဆက်ခံရမည်ဟု သဘောတူညီကြသည်။ သို့ရာတွင် ၁၄၂၂ ခုနှစ်၌ ငြိမ်းချမ်းရေး ပျက်ပြား၍ စစ်ထပ်မံ ဖြစ်ပွားပြန်သည်။ ဟင်နရီလည်း စစ်ပြင်ဆင်မှုများ ဆောင်ရွက်ယင်း ဝေဒနာစွဲကပ်၍ ကံကုန်လေသည်။ ဟင်နရီလွန်သောအခါ အင်္ဂလိပ်ထီးနန်းနှင့်တကွ ပြင်သစ်ထီးနန်းကိုပါ ဆက်ခံရန် ကိုးလသားအရွယ် ဟင်နရီမင်းသားကလေး ကျန်ရစ်ခဲ့၏။

ဆဋ္ဌဟင်နရီဘုရင် (ခရစ် ၁၄၂၂—၁၄၇၁)။ ။ပဥ္စမ ဟင်နရီဘုရင် နတ်ရွာစံပြီးနောက် တနှစ်သားမျှပင်မရှိသေးသော သားတော် ဟင်နရီမင်းသားငယ်သည် ဆဋ္ဌဟင်နရီအဖြစ်ဖြင့် နန်းတက်၏။

ဟင်နရီဘုရင်ကလေး၏ဦးရီးတော် ဗက်ဖို့ဒ်နယ်စားကြီးသည် ပြင်သစ်နိုင်ငံရှိနယ်မြေတို့ကိုဘုရင့်ကိုယ်စား အုပ်ချုပ်ရ၍ အခြား ဦးရီးတော် တပါးဖြစ်သော ဂလော့စတာနယ်စားကြီးသည် အင်္ဂလန်နိုင်ငံကို ဘုရင့်ကိုယ်စား အုပ်ချုပ်ရလေသည်။ ဟင်နရီ နန်းတက်၍ ရက်သတ္တပတ်အနည်းငယ်မျှ ကြာသောအခါ ပြင်သစ်ပြည့်ရှင် ချားဘုရင်လည်း ကံကုန်ပြန်သည်။ ထိုအခါတွင် ထရွားငြိမ်းချမ်းရေးစာချုပ်အရ ဟင်နရီသည် ပြင်သစ်၏ ထီးနန်းကို ဆက်ခံရတော့သည်။ သို့ရာတွင် ပြင်သစ်တို့သည် ဟင်နရီအား ဘုရင်အဖြစ်ဖြင့် အကြည်အသာ လက်မခံလိုမဲ့ရှိကြသောကြောင့် စစ်ဖြစ်ပွားလေသည်။ ၁၄၂၉ ခုနှစ်တွင် ပြင်သစ် ကျေးတောသူကလေး ဂျုန်းအော့အတ်၏ ရဲရဲတောက် ခေါင်းဆောင်မှုကြောင့် အင်္ဂလိပ်တို့သည် အော်လီယန်းမြို့တွင် အရှုံးကြီး ရှုံးခဲ့ကြရ၏။ (ဂျုန်း အော့ အတ် — လည်းရှု။) ထိုမှစ၍ အင်္ဂလိပ်တို့သည် တစတစ စစ်ရေး နိမ့်ခဲ့ပြီးနောက် ၁၄၅၃ ခုနှစ် ရောက်သည်တွင် ကဲလေးမြို့မှတပါး အခြားသော ပြင်သစ်နယ်ပယ်အားလုံးကို လက်လွှတ်လိုက်ကြရလေသည်။ နှစ်တရာ စစ်ပွဲလည်း ထိုတွင်မှ ရပ်စဲ ပြီးဆုံးသွားလေတော့၏။

၁၄၄၅ ခုနှစ်တွင် ဟင်နရီသည် မာဂရက်ဆိုသူ ပြင်သစ်မင်းသမီးတပါးနှင့် လက်ဆက်ခဲ့သည်။ ဟင်နရီသည် သိမ်မွေ့၍ ဘုရားတရား ကိုင်းရှိုင်းသော်လည်း မင်းအဖြစ်ဖြင့်ကား ပျော့ညံ့လှသည်။ ထိုအတွက် အမတ်ကြီးများသည် အုပ်ချုပ်မှုတွင် ကြိုးကိုင်ကာ ပြည်သူတို့အား ညှဉ်းပန်းလာကြ၏။ မတရားအားကြီးလာသောအခါ မကျေနပ်မှုများ အုံကြွလာပြီးလျှင် ၁၄၅၀ ပြည့်နှစ်တွင် ဂျက်ကိတ်ခေါင်းဆောင်သော သူပုန်မှုကြီး ပေါ်ပေါက်ခဲ့လေသည်။ ထိုနောက် ယော့ မင်းမျိုးနှင့် လန်ကက်စတာ မင်းမျိုးတို့၏ အာဏာလုပွဲကြီး ပေါ်ပေါက်လာသည်။ ယင်းကိုအကြောင်းပြု၍ ၁၄၅၅ ခုနှစ်တွင် နှင်းဆီစစ်ပွဲများ ဖြစ်ပွားကာ တိုင်းပြည်ညက်ညက် ကြေခဲ့ရလေသည်။

ဟင်နရီကား စစ်ရေး၌ စွန်းလွန်းတမံ မဆောင်ရွက်နိုင်ချေ။ မိဖုရားကြီး မာဂရက်သာလျှင် လန်ကက်စတာ စစ်တပ်များကို ဦးစီးကာ ရှပ်ရှပ်ချွံချွံ တိုက်ခိုက်ခဲ့၏။ သို့ရာတွင် ၁၄၅၅ ခုနှစ် စိန်အယ်လဘန် စစ်ပွဲ၌ ဘုရင့်စစ်တပ်များ အရေးနိမ့်ခဲ့ကြသည်။ ၁၄၆၁ ခုနှစ်တွင် ယော့မင်းမျိုးတို့၏ ခေါင်းဆောင်ဖြစ်သော အက်ဒွပ်သည် ဘုရင်အဖြစ်ကို ခံယူလိုက်၏။ ၁၄၇၀ ပြည့်နှစ်တွင် ဟင်နရီသည် ထီးနန်းကို ခေတ္တမျှ ပြန်လည် သိမ်းပိုက်နိုင်ခဲ့သော်လည်း ၁၄၇၁ ခုနှစ်တွင် တဖန် စစ်ရေးနိမ့်သဖြင့် အဖမ်းခံရကာ လန်ဒန် မျှော်စင်ကြီး၌ အကျဉ်းချထားခြင်းခံရလေသည်။ ထိုနောက်များမကြာမီအတွင်း ကွပ်မျက်ခြင်းခံရလေသည်။

ဟင်နရီသည် အီတန်ကောလိပ်နှင့် ဘုရင်ကောလိပ်တို့ကို တည်ထောင်ခဲ့သော ဘုရင် အဖြစ်ဖြင့် ကြည်ညိုလေးစားခြင်း ခံရလေသည်။

သတ္တမ ဟင်နရီဘုရင် (၁၄၅၇—၁၅၀၉)။ ။သတ္တမ ဟင်နရီသည် တျူဒါမင်းဆက်မှ ဦးစွာ နန်းတက်သော



သတ္တမမြောက် ဟင်နရီဘုရင်

ဘုရင်ဖြစ်သည်။ နှင်းဆီစစ်ပွဲများ၏ နောက်ဆုံး တိုက်ပွဲဖြစ်သော ဗော့ဇ်ဝပ်ဖီးတိုက်ပွဲတွင် တတိယ ရစ်ချတ်ဘုရင်အား နှိမ်နင်းခဲ့ပြီးနောက် ၁၄၈၅ ခုနှစ်တွင် ထီးနန်းကို သိမ်းပိုက်လိုက်သည်။

ဟင်နရီသည် လန်ကက်စတာ မင်းမျိုး အဆက်အနွယ်ဖြစ်၏။ ယော့ မင်းသမီး အယ်လစ်ဇဗက်နှင့် စုံဖက်လိုက်ခြင်းအားဖြင့် စစ်ပြိုင်ခဲ့ကြသော ယော့မင်းမျိုးနှင့်လန်ကက်စတာ မင်းမျိုးတို့သည် သွေးချင်းနှောကာ ပူးပေါင်းမိကြသည်။ ဟင်နရီ၏ လက်ထက်တွင် သူပုန် သူကန်များထကြွ သောင်းကျန်းခဲ့ကြ၏။ သို့ရာတွင် အလွယ်တကူ နှိမ်နင်းနိုင်ခဲ့လေသည်။ စစ်မလိုလားသော မင်းတပါးဖြစ်သည့်အလျောက် တိုင်းသူ ပြည်သားများ၏ ကြည်ညိုလေးစားခြင်းကို ခံခဲ့ရသည်။

ဟင်နရီသည် စတားချိန်းဗားခေါ် သော လွှတ်တော်ကြီးကို တည်ထောင်၍ သူကောင်းမျိုးများ၏ အခွင့်အာဏာအသီးအသီးတို့ကို ဖြတ်တောက်ပိတ်ပင်နိုင်ခဲ့သဖြင့် ဘုရင်၏ တန်ခိုးအာဏာ တိုးတက်စေခဲ့၏။ သားတော် အာသာမင်းသားကို စပိန်မင်းသမီး ကက်သရင်းနှင့် လက်ဆက်ပေးခဲ့၏။ အာသာကွယ်လွန်သောအခါ ချွေးမတော်မုဆိုးမကို သားတော်အငယ် ဟင်နရီနှင့် တဖန် လက်ဆက်ပေးခဲ့ပြန်သည်။ သမီးတော် မာဂရက်ကိုလည်း စကော့တလန်မှ စတုတ္ထ ဂျိန်းနှင့် လက်ဆက်ပေးခဲ့၏။ ဤသို့ဖြင့် ဟင်နရီသည် စပိန်နှင့် စကော့လူမျိုးတို့၏ ချစ်ကြည်မှုကို ဖန်တီးခဲ့လေသည်။

ဟင်နရီ၏ လက်ထက်တွင် အင်္ဂလန်နိုင်ငံ၌ ဥက္ကာသစ်အရေးပုံပေါ်ပေါက်ခဲ့၏။ ဝီလျံ ကက်စတန်သည် စာပုံနှိပ်လုပ်ငန်းကို ဦးစွာ တီထွင်ခဲ့၏။ ၁၄၉၇ ခုနှစ်တွင် ဂျွန်ကက်ဗော့သည် ဟင်နရီ၏ အားပေး ချီးမြှောက်မှုဖြင့် မြောက်အမေရိကတိုက်သို့ လှည့်လည် စုံစမ်းရှာဖွေခဲ့၏။ သို့အားဖြင့် အင်္ဂလန်ပြည်သည် ကမ္ဘာ့တန်ခိုးကြီး နိုင်ငံဘဝသို့ ဆောက်စေရန် အခြေတည်ခဲ့လေသည်။

တျူဒါမင်းဆက်တို့အတွက် အဖက်ဖက်မှ ပြည့်စုံအောင် ဆောင်ရွက်ခဲ့သော ဟင်နရီဘုရင်သည် ၁၅၀၉ ခုနှစ် ဧပြီလ ၂၂ ရက်နေ့တွင် ကံကုန်သည်။

အဋ္ဌမ ဟင်နရီ (ခရစ် ၁၄၉၁–၁၅၄၇)။ ။အဋ္ဌမ ဟင်နရီကား မိမိလက်ရှိ မိဖုရားကို ကွာ၍ နန်းတွင်းသူ ပျိုဖြူတဦးကို လက်ထပ်လိုရာမှစကာ ဗရင်ဂျီ ဂိုဏ်းနှင့် အင်္ဂလန်ပြည် သာသနာရေးဂိုဏ်းတို့ကို အဆက်ပြတ်သွားအောင် ပြုခဲ့သော အင်္ဂလိပ်ဘုရင်တပါး ဖြစ်လေသည်။ သူသည် ခမည်းတော် သတ္တမဟင်နရီဘုရင်၏ အရိုက်အရာကို ၁၅၀၉ ခုနှစ်တွင် ဆက်ခံ၏။ ထိုနောက် ပြည်ထောင်ချင်း ဆက်ဆံမှု ကောင်းမွန်စေရန်အတွက် ခမည်းတော်စီမံထားချက်အရ စပိန်မင်းသမီး ကက်သရင်းကို မိဖုရားမြှောက်လေသည်။ ထိုစဉ်အခါ ဟင်နရီမှာ ၁၈ နှစ်အရွယ်မျှသာ ရှိပေးသေးသည်။

မင်းပျို မင်းလွင် ဟင်နရီမှာ နန်းတက်စအခါက ပျော်ပျော်နေတတ်၍ ရက်ရောသော စေတနာ ရှိပြီးလျှင် ကျန်းမာရေးအတွက် ကစားခုန်ကစား ဝါသနာပါသူဖြစ်ပေသည်။ နန်းတက်ပြီးနောက် အနှစ် ၂၀ အတွင်း ယင်းသို့သာ ပျော်ပျော်ပါးပါး နေခဲ့ပြီးလျှင် တိုင်းပြည်အုပ်ချုပ်ရေးကို အဘိုင်ပင်ခံ အမတ်ကြီး ကာဒင်နယ် ဝူလဇီနှင့်သာ လွှဲအပ်ထားလေ့ရှိသည်။ (ဝူလဇီ, ကာဒင်နယ် — လည်းရှု။)

ပဋ္ဌမချားအား ဆောမ သာသနာစောင့် နိုင်ငံတော်ကြီး၏ ကောဆင်အဖြစ် ချွေးကောက် တင်မြှောက်ပြီးသောအခါ ချားနှင့် ချား၏ရန်ဖက် ပြင်သစ်ဘုရင် ပဌမဖရန်စစ်တို့ နှစ်ဦးစလုံးကပင် ဟင်နရီအား မဟာမိတ်ဖွဲ့လိုသကြလေသည်။ ထိုအခါ ဟင်နရီသည် ဝူလဇီ၏ အာဏာမဲဘင်းစံနစ်အရ ဆောင်ရွက်ခဲ့၏။ ၁၅၂၀ ပြည့်နှစ်တွင် ပြင်သစ်ဘုရင်နှင့် ချစ်ကြည်ကြောင်းကိုပြရန် ပြင်သစ်နိုင်ငံသို့ တပ်တောင်တာ ဗိုလ်ထုနှင့် သွားရောက်ပြီးလျှင် ချစ်ကြည်ရေးပျော်ပွဲကြီး ကျင်းပခဲ့လေသည်။ ထိုပွဲကြီးတွင် ဘုရင်များနှင့် သူရဲကောင်း ရဲမက်များသည် အဖိုးထိုက်၍ လုပ ပြောင်လက်သော ဝတ်စားတန်ဆာများကို ဝတ်ဆင်ကြပြီးလျှင် ဘုရင် ဘုရင်ချင်း၊ သူရဲကောင်း သူရဲကောင်းချင်း ချစ်ကြည်စွာ တွဲဖက်ကာ ပျော်ပွဲအမျိုးမျိုး၌ ပါဝင်ဆင်နွှဲကြလေသည်။ ယင်းသို့ဖြင့် ဟင်နရီသည် ဖရန်စစ်နှင့်



အင္ဂမမြောက် ဟင်နရီဘုရင်

ချစ်ကြည်ကြောင်း ပြခဲ့သော်လည်း ကေရာင်ချားကို ကူညီခဲ့လေသည်။

ထိုအတောအတွင်း ဟင်နရီသည် သူ၏မိဖုရား ကက်သရင်းကို ငြီးငွေ့လာ၍ ချောမောလှပသော နန်းတွင်းအပျိုတော် အန်းဗူးလင်းကို မိဖုရား မြောက်လိုသဖြင့် ကက်သရင်းအပေါ် အပြစ်ရှာလေသည်။ (ဗူးလင်း၊ အန်း — လည်းရှ။) မကြာမီ ကက်သရင်းတွင် နန်းမွေဆက်ခံနိုင်မည့် သားတော် မမြင်သောကြောင့်ဟူ၍ရင်း၊ သူသည် သူ့မရီးတော် မုဆိုးမကို လက်ထပ်ခဲ့သည်မှာ တရားတော်နှင့် မညီဟူ၍ရင်း အကြောင်းပြကာ ကွာရှင်းရန် စီစဉ်ခဲ့လေသည်။ ထိုစဉ်က အင်္ဂလန်ပြည်မှာ အယူဝါဒဆိုင်ရာတွင် ရောမ သာသနာပိုင် ပုတ်ရဟန်းမင်း၏ လက်အောက်ခံဖြစ်လေသည်။ ထို့ကြောင့် ဟင်နရီသည် ၁၅၂၇ ခုနှစ်တွင် မိဖုရားနှင့် ကွာရှင်းပေးရန် ပုတ်ရဟန်းမင်း သတ္တမကလီမင့်အား တောင်းဆိုခဲ့လေသည်။

ကက်သရင်း၏ နောင်တော် စပိန် ဘုရင်မှာလည်း တန်ခိုး အာဏာကြီးသူဖြစ်၍ ရဟန်းမင်းကြီးသည် ဟင်နရီ၏အလိုကို မလိုက်လျောခဲ့ပေ။ ထို့ကြောင့် ဟင်နရီသည် ကလားမနိုင် ရခိုင်မဲဆိုသလို ကက်သရင်းနှင့် ကွာရှင်းရေးကို ဖြစ်မြောက်အောင် မဆောင်ရွက်နိုင်ရကောင်းလောဟု ၁၅၂၉ ခုနှစ်တွင် ဝူလဇီအား ရာထူးမှ ထုတ်ပယ်လိုက်လေသည်။ ထိုနောက် ပုတ်ရဟန်းမင်း ရုံးတော်သို့ အယူဝါဒကိစ္စများတွင် အယူခံဝင်ရသည့် အလေ့ကို ဥပဒေဖြင့် ပယ်ဖျက်ခဲ့သည်။ ၁၅၃၃ ခုနှစ်တွင် အန်းဗူးလင်းနှင့် လျှို့ဝှက်စွာလက်ထပ်ခဲ့လေသည်။ ထိုနှစ်တွင်ပင် ကန်တာဗာရီဂိုဏ်းချုပ်အဖြစ် ခန့်ထားခြင်း ခံရသော တောမတ်ကရန်းမားသည် ဟင်နရီနှင့်ကက်သရင်းတို့ လက်ထပ်ခဲ့သည်မှာ တရားတော်နှင့်မညီ၍ တရားမဝင် အထမမြောက်ကြောင်း ကြေညာခဲ့၏။ ထိုနောက်တွင် ဟင်နရီသည် အန်းဗူးလင်းနှင့် လက်ထပ်ခဲ့ပြီးကြောင်းကြေညာ၍အန်းဗူးလင်းအား မိဖုရား မြောက်လေသည်။

ဘုရင့်အလိုကို မပယ်ရှားဝံ့သော ပါလီမန်ကလည်း ဘုရင့်အလိုကျ ဥပဒေနှစ်ရပ် ပြဋ္ဌာန်းပေးခဲ့ရလေသည်။ ဥပဒေ တရပ်အရ အင်္ဂလန်ပြည်တွင် ပုတ်ရဟန်းမင်း၏ အာဏာလွှမ်းမိုးနေမှုကို ပယ်ဖျက်လိုက်ရာ အင်္ဂလန်အယူဝါဒဂိုဏ်းမှာ ရောမဂိုဏ်း၏ လက်အောက်ခံမဟုတ်တော့ပဲ သီးခြား ဂိုဏ်းတခုဖြစ်လာလေ၏။

ထိုအခါ ဘုရားဝတ်ပြု စည်းဝေးပုံ အစီအစဉ်ကို အနည်းငယ် ပြင်ဆင်လိုက်၍ သမ္မာကျမ်းကို အင်္ဂလိပ်လိုပြန်စေပြီးသော်၊ ဘုရားရှိခိုးကျောင်းများတွင် ထိုဘာသာပြန်သမ္မာကျမ်းများကိုသာ ထားရှိစေသည်။အခြားအက်ဥပဒေတရပ်အရမူ ဟင်နရီဘုရင်မှာ အင်္ဂလန်ပြည်ဂိုဏ်း၏ အထွတ်အထိပ် ဖြစ်လာလေသည်။ ထိုသို့အာဏာရလာသောအခါ ဟင်နရီသည် အင်္ဂလန်ပြည်အတွင်းရှိ ဘုန်းကြီးကျောင်းများကို ပိတ်စေ၍ ကျောင်းများပိုင်ပစ္စည်းများကို သိမ်းယူစေသည်။ မိမိ အယူအဆ သဘောတရားများအတိုင်း မလိုက်နာသူများအား ပြင်းထန်စွာ နှိမ်နင်းလေသည်။

ထိုကဲ့သို့ ပြုမူခဲ့ရာတွင် ဟင်နရီအား ထောက်ခံအားပေး ကူညီသူမှာ ဝူလဇီ၏ နေရာတွင် ခန့်ထားခဲ့သော တောမတ်ကရန်းမား ဖြစ်လေသည်။ ဟင်နရီကား ဆောင်းလေကဲ့သို့ စိတ်ပြောင်းမြန်လှသူဖြစ်၏။အန်းဗူးလင်းကို မိဖုရားမြောက်၍ မကြာမီ အခြား အပျိုဖြူတဦးအား ရွှေဘောတော် ကျခဲ့ပြန်လေသည်။ ထို့ကြောင့် ဟင်နရီနှင့်ကရန်းမား တို့သည် အန်းဗူးလင်းအား သစ္စာမရှိသည့် မိဖုရားအဖြစ်မျိုးရောက်အောင် အမှုဆင်၍ ပြစ်မှုထင်ရှားသည်ဆိုကာ ခေါင်းဖြတ်သတ်စေခဲ့သည်။ အန်း မိဖုရားနှင့်နောင်အခါ အင်္ဂလန်နိုင်ငံသမိုင်းတွင် ထင်ရှားလှသောဘုရင်မတဦး ဖြစ်လာမည့် အဲလစ်ဇဗက်မင်းသမီးကို ရရှိခဲ့လေသည်။

အန်းဗူးလင်းအား အဆုံးစီရင်ပြီးနောက် မိဖုရားအဖြစ် တင်မြှောက်ခြင်း ခံရသူမှာ ဂျိန်းဆေးမိုးဖြစ်၍ သူ့တွင် နောင်အခါ ဆဌအက်ဒွပ်ဖြစ်လာမည့်မင်းသားကို မြင်လေသည်။ ထိုမိဖုရားကား သက်ဆိုး မရှည်ရှာပေ။ ဟင်နရီနှင့် လက်ထပ်ပြီးနောက် တနှစ်ကျော်အကြာတွင် ကွယ်လွန်သွားလေသည်။ ထိုကြောင့် ကရန်းမား၏ စီစဉ်ပေးချက်အရ ဟင်နရီသည် ဂျာမန် မင်းသမီး အန်း အော့ ကလိဆိုသူနှင့် လက်ဆက်ပြန်လေသည်။ သို့သော် အချောအလှကြိုက်သော ဟင်နရီမှာ ရုပ်မလှသောသူနှင့် လက်ဆက်ပေးရပါမည်လောဟု ကရန်းမားကို မျက်မာန်တော်ရှကာ အဆုံးစီရင်စေ၍ ထိုမိဖုရားကိုလည်း ကွာရှင်းပစ်ပြန်လေ၏။ ထိုနောက်တွင် အသက် ၁၈ နှစ်မျှသာ ရှိသေး၍ လှပချောမောသော ကက်သရင်း ဟောင်းဝပ်နှင့်လက်ဆက်ပြန်လေသည်။ ထိုမိဖုရားကလေးမှာ သူနှင့် လက်မထပ်မီက အကျင့်မကောင်းခဲ့သည်ကို သိရှိ၍ သဘောမကျပြန်သဖြင့် ခေါင်းဖြတ် သတ်စေပြန်သည်။ နောက်ဆုံးတွင် ၁၅၄၃ ခုနှစ်၌ ကက်သရင်း ပါး အမည်ရှိ မုဆိုးမတဦးကို မိဖုရား မြှောက်ပြန်လေရာ ထိုမိဖုရားသာလျှင် ဟင်နရီ ကွယ်လွန်သည်အထိ မိဖုရားအရာ၌ တည်မြဲခဲ့လေသည်။ အဌမဟင်နရီဘုရင်သည် ၁၅၄၇ ခုနှစ် ဇန္နဝါရီလ ၂၈ ရက်နေ့တွင် လွန်လေသည်။ ယင်းသို့ မိဖုရား ခြောက်ပါးမျှ ယူခဲ့သဖြင့် အဌမဟင်နရီဘုရင်မှာ အင်္ဂလန်နိုင်ငံသမိုင်းတွင် သိမှတ်ရ လွယ်သော ဘုရင်တပါး ဖြစ်ခဲ့ပေသည်။

သို့သော် ထိုဘုရင်ကြီးသည် အင်္ဂလိပ် ရေတပ်ကြီး အင်အားတောင့်တင်း၍ အခြေခိုင်ရန် ကြိုးစားခဲ့လေသည်။ အခြား ဥရောပနိုင်ငံများမှ ဘုရင်များသည် မိမိတို့စစ်တပ်များကို အင်အား တောင့်တင်းအောင် စီမံဖွဲ့စည်းနေကြစဉ် ဟင်နရီကား မိမိ၏ တိုက်သင်္ဘောများကို တိုးတက်ကောင်းမွန်အောင် ဆောင်ရွက်၏။ နောင်အခါ ရေကြောင်းတွင် အင်္ဂလိပ်တို့ ကြီးစိုးနိုင်ရေးအတွက် သူ့လက်ထက်တွင် မျိုးစေ့ချခဲ့သည်ဟု ဆိုနိုင်ပေသည်။ သူ့တွင် ထူးခြားလှသော အရည်အခြင်းနှင့် ပြည့်စုံသည့် သားတော်မထွန်းကားခဲ့သော်လည်း အန်းဗူးလင်းနှင့် ရရှိသည့် သမီးတော် အယ်လစ်ဇဗက်မှာကား အင်္ဂလန်နိုင်ငံသမိုင်းတွင် ထူးခြားလှသော ဘုရင်မတဦးဖြစ်ခဲ့လေသည်။ (အယ်လစ်ဇဗက်ဘုရင်မများ — လည်းရှု။)

**ဟင်နရီ–သ–နယ်ဗီဂေတာ(ခရစ် ၁၃၉၄ – ၁၄၆၀)။** ရှေးအခါက ပင်လယ်ရပ်ခြား တိုင်းတပါးသို့ သွားရောက်၍ နယ်သစ်ပယ်သစ် စွန့်စား ရှာဖွေရေးကို အထူးအားပေးခဲ့သော ပေါ်တူဂီ မင်းသား တပါးမှာ ဟင်နရီ ဖြစ်လေသည်။

ဟင်နရီသည် ပေါ်တူဂီဘုရင် ပဉ္စမဂျွန် ၏ ပဌမသားတော်ဖြစ်၏။ ၁၄၁၅ ခုနှစ်၌ ဂျီဗရော်တာ နှင့် မျက်နှာချင်းဆိုင် အာဖရိကကမ်းခြေပေါ်ရှိ စူးတားမြို့ ကို တိုက်ခိုက်သိမ်းယူရာ၌ နာမည်ထင်ရှားလာခဲ့လေသည်။ အာဖရိကတိုက်၌ မူးအားလူမျိုးများနှင့် တိုက်ခိုက်ခဲ့ရစဉ်က သူသည် ထိုခေတ်က လူသူအရောက်အပေါက် နည်းပါးသော အနောက်ဖက်ရှိ သမုဒ္ဒရာကြီး အကြောင်းကိုရင်း၊ အာဖရိကတိုက်ကြီးအကြောင်းရင်း ပိုမိုသိရှိလိုသောဆန္ဒပြင်းပြခဲ့လေသည်။ သို့ဖြစ်၍ အသက် ၂၄ နှစ်အရွယ်တွင် နန်းတော်ကြီးမှ ထွက်ခွာခဲ့၍ စိန့်ဗင်ဆင့်အငူ အနီးတွင် နက္ခတ်တာရာကြည့် မျှော်စင်တခု ဆောက်လုပ်ခဲ့ပြီးသော် ပညာရှိများ၊ မြေပုံရေးဆွဲသူများနှင့်အတူ မြေပုံများရေးဆွဲခြင်း၊ နယ်ပယ်သစ်များ လှည့်လည်ရှာဖွေရန် စီစဉ်ခြင်း စသည်တို့နှင့်သာ အချိန်ကုန်စေခဲ့ လေသည်။ ထိုနောက် ရေကြောင်း အတတ်သင်ကျောင်းတကျောင်း ဖွင့်လှစ်၍ လူငယ်များကို စုရုံးကာ ရေကြောင်းအတတ်ကို ကျကျနနသင်ပေးပြီးလျှင် နယ်ပယ်သစ်များ ရှာဖွေရန် သင်္ဘောများနှင့် စေလွှတ်ခဲ့သည်။

သူ့လူများသည် တစုပြီးတစု အရဲစွန့်၍ သင်္ဘောလွှင့်သွားကြရာဝယ် အဇိုး၊ မဒီးယား နှင့် ကနေရီကျွန်းစုများကို တွေ့ခဲ့ကြလေသည်။ ထိုမှတပါး ကိပ်ဗတ်(ဒ)ကျွန်းများကို ကျော်လွန်၍ အာဖရိက ကမ်းခြေတလျှောက် ဆီးယားရားလေအွန်းအထိ ရောက်ခဲ့ကြသေးသည်။သူတို့သည် နယ်ပယ်သစ်များ ရှာဖွေရုံသာမက ခရီးသွားဟန်လွှဲ ဆိုသလို အာဖရိကတိုက်ရှိ တိုင်းရင်းသားများကို ဖမ်းဆီးကြပြီးနောက် ရောင်းဝယ်ခြင်းဖြင့် ကျွန်ကုန်ကူးခဲ့ကြလေသေးသည်။

ဟင်နရီမင်းသားသည် သူကိုယ်တိုင် စွန့်စားသွားလာခြင်း မပြုခဲ့သော်လည်း အခြားသူများကို စွန့်စားသွားလာစေရန် ငွေအား လူအားဖြင့် အမြဲကူညီခဲ့၏။ သူ့ငွေကုန်ကြေးကျခံ၍ ဆောင်ရွက်ခဲ့သော လုပ်ငန်းများမှ ဟင်နရီသည်အကျိုးကျေးဇူးခံစားမသွားခဲ့ရချေ။ သူကွယ်လွန်ပြီးနောက်မှ ဒီးအတ်၊ ဗက်စကိုဒါဂါးမ စသော သင်္ဘောသားများသည် အိန္ဒိယသွား ပင်လယ်ခရီးလမ်းကို ရှာဖွေတွေ့ရှိခဲ့၍ သူ၏ရည်မှန်းချက်များ အကောင်အထည်ပေါ်ခဲ့လေသည်။ သူကသာ အားပေးကူညီခြင်း မပြုခဲ့လျှင် ပေါ်တူဂီ သင်္ဘောသားတို့သည် အရှေ့တိုင်းသို့ရေကြောင်းမှ တောက်လျှောက်ရောက်နိုင်ကြမည် မဟုတ်ချေ။ သို့ဖြစ်၍ ဟင်နရီမင်းသားမှာ သူတို့၏ ကျေးဇူးရှင်ကြီး ဖြစ်သည်ဟု ဆိုရပေမည်။

၁၄၆၀ ပြည့်နှစ် နိုဝင်ဘာလ ၁၃ ရက်နေ့တွင် ဟင်နရီမင်းသား ကွယ်လွန်လေသည်။

# ကြာရှည်ခံအနံ့အရသာတိုးစေဖို့

**ရှေးခေတ်ကလူမျိုးတို့သည် ယဉ်ကျေးမှုတစစတိုးတက်လာ၍ နေထိုင်စားသောက်မှုပြောင်းလဲလာသည့်အခါ အစားအစာများကြာရှည်ခံရန်နှင့် ပိုမိုအရသာရှိလာစေရန် ဟင်းခတ်အမွှေးအကြိုင်များ သုံးလာခဲ့ကြ၏။ ဟင်းခတ်အမွှေးအကြိုင်ကို အကြောင်းပြု၍ စစ်ပွဲများဆင်နွှဲခဲ့၏။ နယ်ချဲ့ခဲ့၏။ ပင်လယ်ခရီးလမ်းကြောင်းများပေါ်ပေါက်ခဲ့၏။ နယ်မြေသစ်များလည်း တွေ့ခဲ့လေသည်။**

**ဟင်းခတ်အမွှေးအကြိုင်။** ။ဟင်းခတ်အမွှေးအကြိုင်များဟူ၍ ခေါင်းစဉ်တပ်ထားသော်လည်း ချိုချဉ်ခဲဖွယ်နှင့် မုံ့အမျိုးမျိုးတို့၌ ထည့်သွင်း အသုံးပြုသည့် အမွှေးအကြိုင်များကိုပါ ဆိုလိုပေသည်။ ထိုအမွှေး အကြိုင်များမှာ စားဖွယ်သောက်ဖွယ်များ အနံ့အရသာ တိုးတက်ကောင်းမွန်စေရန် ထည့်ခြင်းဖြစ်၍ အရေးမကြီးဟု ထင်ရသော်လည်း အလွန်အဖိုးတန်လေသည်။

ရှေးခေတ်က ဟင်းခတ်အမွှေးအကြိုင်များကို ရရှိရန်အတွက် မည်မျှ ခဲခဲယဉ်းယဉ်း ဆောင်ရွက်ခဲ့ရကြောင်း မှတ်တမ်းတင်ထားခဲ့သည်မှာလည်း အလွန်စိတ်ဝင်စားဖွယ်ကောင်းလှပေသည်။

အနံ့ကလေးသင်း၍ လျှာပေါ်၌ အရသာတွေ့သွားအောင် စားသောက်ဖွယ်ရာများ၌ ထည့်ပေး ရသော အမွှေးအကြိုင်များ ရနိုင်ရေးအတွက် ရှေးခေတ်ကလူများသည် ပြင်းထန်သော စစ်ပွဲကြီးများ ဆင်နွှဲခဲ့ရ၍ အသက်ပေါင်းများစွာလည်း ဆုံးရှုံးခဲ့ရလေပြီ။ ဥရောပအနောက်ပိုင်း နိုင်ငံကြီးများသည် ထိုအမွှေး အကြိုင် များကို အကြောင်းပြုလျက် နယ်ပယ်ချဲ့ထွင်ခဲ့ကြသဖြင့် လက်အောက်ခံနိုင်ငံအများ သိမ်းယူရရှိခဲ့လေသည်။ ပင်လယ်ခရီးလမ်းကြောင်းများ စတင်ပေါ်ပေါက်ခဲ့ခြင်းမှာလည်း ထိုအမွှေးအကြိုင်များကို ရှာဖွေ၍ သယ်ယူရောင်းချရန် ခရီးလမ်းပန်း အဆက်အသွယ်များ ရှာဖွေကြရာမှ အစတွေ့ခြင်းဖြစ်လေသည်။ ကိုလံဗတ်သည် ဟင်းခတ်အမွှေးအကြိုင်များကို ရရှိနိုင်မည့် နယ်မြေဒေသများကို စုံစမ်းရှာဖွေရာမှ အမေရိကတိုက်ကြီးကို စတင်တွေ့ရှိခဲ့လေသည်။ (ကိုလံဗတ်,စီ — လည်းရှု။)

ထိုအခါက ဟင်းခတ် အမွှေး အကြိုင်များမှာ ရွှေနှင့်စက်၍ ဝယ်ရလောက်အောင် အလွန် ဈေးကောင်း၍ အလွန်ကြီးကျယ်သော အရောင်းအဝယ် လုပ်ငန်းကြီးတခု ဖြစ်လေသည်။ အမွှေးအကြိုင်များကို အရှေ့ဖက်နိုင်ငံများမှ ရရှိနိုင်လေရာ အနောက်နိုင်ငံများသည် အရှေ့နိုင်ငံများနှင့်ဆက်သွယ်၍ အရောင်းအဝယ်လုပ်ငန်းကို လက်ဝါးကြီးအုပ်နိုင်ရန် ကြိုးစားကြလေသည်။

ပင်လယ်ခရီးများ မပေါက်ရောက်မီ အခါကမူ အရှေ့နိုင်ငံများမှ အနောက်နိုင်ငံများသို့ ကုန်းလမ်းမှသာလျှင် ဟင်းခတ် အမွှေး အကြိုင်များကို သယ်ယူ ရောင်း ဝယ် ခြင်း ပြုရလေသည်။ ထိုခေတ်က အာရေဗျပြည် သည် အမွှေးအကြိုင်များကို ဖြန့်ဖြူးရောင်းချရာ ဗဟိုဌာန ဖြစ်ခဲ့သဖြင့် ကမ္ဘာ့အနောက်ပိုင်းနိုင်ငံများ အလယ်၌ မော်နိုင်ခဲ့လေသည်။ မြေထဲပင်လယ်ဖက်တွင်လည်း အမွှေးအကြိုင်ရောင်းဝယ်ရေး ဖွံ့ဖြိုးခဲ့သဖြင့် ဗင်းနစ်မြို့သည် ဂုဏ်ရှိန်ကြီးမား ဝင့်ကြွားနိုင်ခဲ့လေသည်။

ပေါတူဂီနှင့် ဟော်လန်နိုင်ငံ တို့မှာလည်း အမွှေးအကြိုင် ရောင်းဝယ်ရေးအတွက် စွန့်စားလုပ်ကိုင်နိုင်ခဲ့သဖြင့် ချမ်းသာကြွယ်ဝ၍ တန်ခိုးကြီးမားခဲ့လေသည်။ ဗြိတိသျှနိုင်ငံအတွက် အရှေ့ဖက်တသွားတွင် နယ်မြေသစ် တိုင်းပြည်သစ်များ ရရှိအောင် အကျိုးဆောင်ခဲ့သော အရှေ့အိန္ဒိယကုမ္ပဏီသည်လည်း အမွှေးအကြိုင်ရောင်းဝယ်မှုဖြင့်ကြီးပွားတိုးတက်နေသော ဟော်လန်နိုင်ငံကို ချိုးနှိမ်ရန်အတွက် စတင်တည်ထောင်ခဲ့ခြင်း ဖြစ်လေသည်။

ယင်းသို့အားဖြင့် အနောက်ပိုင်းနိုင်ငံများသည် ဟင်းခတ်အမွှေးအကြိုင်များအတွက် အဘယ်ကြောင့် ထိုမျှလောက် အပြိုင် အဆိုင် ဖြစ်လာရသနည်း ဟူသော အကြောင်းမှာ အထူးပင် စိတ်ဝင်စားဖွယ်ရာ ကောင်းပေသည်။

ရှေးအခါက လူများသည် အစားအစာများကို ရိုးရိုးအတိုင်းပင် စားသုံးကြရ၏။ သို့ရာတွင် ယဉ်ကျေးမှုတစတစ တိုးတက်လာလေရာ သူတို့၏ စားသောက်နေထိုင်မှုများလည်း တိုးတက်ပြောင်းလဲလာ လေသည်။ အစာအာဟာရများကို ပိုမို၍ အရသာ ရှိလာစေရန် ဟင်းခတ်အမွှေးအကြိုင်များဖြင့် ပြုပြင်ကြကုန်၏။ အထူးသဖြင့် အေးသော အနောက်နိုင်ငံများမှာ ဆောင်းဘွင်းအခါ၌ အမဲသား ငါးများကို ကြာရှည်ခံအောင် ဆားသိပ်၍စားသောက်ကြရလေရာ နွေဦးပေါက်သောအခါ ထိုဟင်းလျာများမှာ အမွှေးအကြိုင်များ မွှမ်းမံ၍ မထည့်လျှင် စားကောင်းသောက်ဖွယ် မဖြစ်နိုင်တော့ချေ။ ထိုကြောင့်ပင် ဟင်းခတ်အမွှေးအကြိုင်များကို တနေ့တခြား အသုံးများလာ၍ အဖိုးတန်လာလေသည်။

သို့ရာတွင် အရှေ့ပိုင်းနိုင်ငံများမှ ဟင်းခတ်အမွှေးအကြိုင်များ ရနိုင်ရန် အရေးမှာ လွယ်ကူသောအလုပ် မဟုတ်ပေ။ ကုန်းလမ်းခရီးဖြင့်ရင်း၊ ပင်လယ်ခရီးဖြင့်ရင်း အသက်ဆံဖျား စွန့်စားသွားလာကာ ဟင်းခတ် အမွှေးအကြိုင်များကို သယ်ယူ ရောင်းဝယ်ခြင်း ပြုလုပ်ကြရ၏။



ဟင်းများအနံ့အရသာနှင့် ပြည့်စုံစေရန် အသုံးပြုရသော သစ်ကြံပိုးပင်၏ အခက်၊ အရွက်နှင့် အသီးအပွင့်

လမ်း၌ သောင်းကျန်းသူ လူဆိုး ဓားပြဂိုဏ်းကြီးများကို တိုက်ခိုက်ရ၏။ ခရီးလမ်းပန်းများ ကြမ်းတမ်းလှသဖြင့် လူများ သေကြေပျက်စီးရ၏။ ထိုအပြင် အမွှေးအကြိုင်များ ရရှိနိုင်သော ဒေသများမှာ ရောဂါထူပြော၍ တိုင်းရင်းသားများမှာလည်း ရိုင်းစိုင်းကြသည် ဖြစ်သောကြောင့် ဆက်ဆံရာ၌ များစွာ အခက်အခဲ တွေ့ရလေသည်။ သို့ရာတွင် ကံကောင်းထောက်မသဖြင့် အမွှေးအကြိုင်များရ၍ ကိုယ့်နေရပ်သို့ ပြန်ရောက်ရှိလာခဲ့လျှင် ပျက်စီးဆုံးရှုံးသမျှကို ထေမိသည့်ပြင် ထူးထူးကဲကဲ အကျိုးကျေးဇူး ခံစားကြရသဖြင့် ထိုလုပ်ငန်းကို အလုအယက် အပြိုင်အဆိုင် အသက်စွန့်ကာ လုပ်ကိုင်ကြလေသည်။

ဟင်းခတ်အမွှေးအကြိုင်များ ထုတ်ယူရရှိသော အပင်မျိုးသည် များသောအားဖြင့် ပူအိုက်၍ စိုစွတ်သောရာသီဥတုရှိသည့် ဒေသများတွင် ပေါက်ရောက်လေ့ရှိ၏။ အထူးသဖြင့် ပင်လယ်ကမ်းနားဒေသများနှင့် ကျွန်းများပေါ်တွင် ပိုမိုဖြစ်ထွန်းလေသည်။ အရှေ့အိန္ဒိယကျွန်းစုများ၌ အများဆုံး ဖြစ်ထွန်း၍ အနောက်အိန္ဒိယကျွန်းစုများမှလည်း ရရှိနိုင်လေသည်။

ဟင်းခတ် အမွှေး အကြိုင်များအဖြစ် အသုံးပြုသော အသီး၊ အရွက်၊ အမြစ်၊ အစေ့များမှာ အမျိုးပေါင်းများစွာရှိလေသည်။ လေးညှင်း၊ ဇာတိပ္ဖိုလ်၊ သစ်ကြံပိုး၊ စမုန်စပါး၊ ဖာလာ၊ ကရဝေး၊ ချင်း၊ နနွင်း၊ ပင်စိမ်း၊ ငြုတ်ကောင်း၊ နံနံစေ့၊ စမုန်နက် စသည်တို့မှာ လူသုံးများသော ဟင်းခတ် အမွှေး အကြိုင်များ ဖြစ်လေသည်။ အနောက် အိန္ဒိယကျွန်းစုတွင်ကား ဗနီလာ ခေါ် သစ်ခွနွယ်တမျိုးမှာ အထူးလူကြိုက်များလေသည်။ ဟင်းခတ်အမွှေးအကြိုင်များတွင် တခုအပါအဝင် ဖြစ်သော လေးညှင်းမှာ ပန်းဖူးအခြောက်ကလေးများ ဖြစ်လေသည်။ (လေးညှင်းပင် —— ရှု။) လေးညှင်းပင်မျိုးသည် အရှေ့အိန္ဒိယကျွန်းစု၊ ယခင်ဒပ်ချပိုင်မိုလပ်ကာကျွန်းတွင် အလေ့ကျပေါက်လေ့ရှိ၏။ ခရစ်မပေါ်မီ နှစ်ပေါင်း ၂,၀၀၀ ကျော်လောက်မှစ၍ တရုပ်လူမျိုးများသည် လေးညှင်းပွင့်များကို အသုံးပြုခဲ့ကြလေသည်။ ယခုအခါ၌ လေးညှင်းပင်များကို ပီနန်နှင့် ဇန်ဇီဗာတို့၌ အကြီးအကျယ် စိုက်ပျိုးကြလေသည်။

လေးညှင်းပွင့်များမှာ သွေးရောင်ပမာ နီရဲနေသော အဖူးကလေးများကို အပွင့်မပွင့်မီ ခူး၍ အခြောက်လှန်းထားခြင်းဖြစ်သည်။ လေးညှင်းပွင့်များ၌ ပါသော အဆီကြောင့် အစားအသောက်များ၌ ထည့်လိုက်သောအခါ အရသာတမျိုးတိုး၍ မွှေးကြိုင်သွားလေသည်။ အချို့နိုင်ငံများတွင် လေးညှင်းဆီများထုတ်၍ ရေမွှေးလုပ်ငန်း၌ အသုံးပြုကြလေသည်။ လေးညှင်းပွင့်များ ဥရောပတိုက်သို့ ရှစ်ရာစုနှစ်လောက်တွင်မှ ရောက်ရှိသွား၏။ ၁၆ ရာစုနှစ်လောက်၌မူ ဒပ်ချလူမျိုးတို့က အကြီးအကျယ်စိုက်ပျိုး၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချလေသည်။ မြန်မာနိုင်ငံတွင်ကား ရှေးပဝေဏီကပင် အစဉ်အဆက် ဆေးဝါးအဖြစ်သုံးစွဲလာခဲ့ကြပေသည်။ ကွမ်းစားရာတွင်လည်း အမွှေးအကြိုင်အဖြစ်ထည့်၍ အသုံးပြုကြလေသည်။

လေးညှင်းပွင့်ကဲ့သို့ပင် ထင်ရှားသော ဟင်းခတ်အမွှေးအကြိုင်တမျိုးမှာ သစ်ကြံပိုးဖြစ်လေသည်။ (သစ်ကြံပိုးပင် — ရှု။) သစ်ကြံပိုးမှာ သီဟိုဠ်ကျွန်းမှအများဆုံးထွက်၏။ အိန္ဒိယနိုင်ငံနှင့် ဂျားဗားကျွန်းတို့တွင်လည်း သစ်ကြံပိုးကို စိုက်ပျိုးကြသည်။ သစ်ကြံပိုးမှာ အပင်မှ အခေါက်ကိုခွာ၍ အခြောက်လှန်းပြီးမှ အသုံးချကြရလေသည်။ အစပဌမလောက်တွင် သစ်ကြံပိုးပင်သည် အတော်အတန်ကြီးမားသော်လည်း အကိုင်းအလက်များ မကြာခဏ ခုတ်ချသောကြောင့် အပင်များမှာ မကြီးသွားနိုင်တော့ပဲ အပင်ရင်းနားမှ အပင်ပွားများသာ ထွက်လေသည်။ ထိုအပင်ပွားများမှ အခွံများကိုလည်း ခွာယူ၍ အခြောက်လှန်းကြလေသည်။ မြန်မာနိုင်ငံတွင် သစ်ကြံပိုးကို ဟင်းများ အနံ့အရသာနှင့် ပြည့်စုံစေရန် အသုံးပြုသည်သာမက ဆေးဖက်ဝင်သော အခေါက်တမျိုးအဖြစ်နှင့်လည်း သုံးစွဲလေသည်။



ဇာတိပ္ဖိုလ်သီးနှင့်အရွက်

ဥကိုသုံးရသောချင်းနှင့် နနွင်းတို့သည် အရှေ့အိန္ဒိယ ကျွန်းစုနှင့် အခြားပူအိုက်၍ စိုစွတ်သောအာရှတိုက်နိုင်ငံများတွင် ပေါက်ရောက် လေသည်။ (ချင်းပင် — ရှု။) အရှေ့ အာရှတိုက် နိုင်ငံများတွင် ပေါက်ရောက်ကြသော အပင်များထဲတွင် ငြုတ်ကောင်းမှာ ချုံနွယ်ပင်တမျိုးမှရရှိသော အသီးစေ့ကလေးများ ဖြစ်၍ ဖာလာမှာ အပင်ငယ်တမျိုး၏အသီး ဖြစ်လေသည်။ ဇာတိပ္ဖိုလ်သီးမှာလည်း အရှေ့အာရှတိုက်နိုင်ငံများနှင့် အရှေ့အိန္ဒိယ ကျွန်းစုများတွင် ပေါက်လေ့ရှိလေသည်။ (ငြုတ်ကောင်း၊ ဖာလာပင်၊ ဇာတိပ္ဖိုလ်ပင် — ရှု။) ဇာတိပ္ဖိုလ်ပင်၊ လေးညှင်းပင်၊ သစ်ကြံပိုးပင် ပေါက်ရာ ဒေသများကို အနီးကပ် သွားလျှင် အပင်များကိုမမြင်ရမီ သူတို့၏ သင်းပျံ့သော ရနံ့များကို ရှူရှိုက်ကြရခြင်းဖြင့် ထိုပစ္စည်းများရှိကြောင်း သိသာလေသည်။ ကရဝေးပင်မှာ ဥရောပတိုက်နှင့် အာရှတိုက်နှစ်တိုက်စလုံးတွင် ပေါက်ရောက်သော အပင်မျိုးဖြစ်၏။ (ကရဝေးပင် — ရှု။) မြန်မာနိုင်ငံတွင် ကရဝေးရွက်ကို ဟင်းလျာများတွင် အနံ့မွှေးကြိုင်စေရန် အုပ်ထည့်၍ ချက်လေ့ရှိကြ၏။ အနောက်အိန္ဒိယ ကျွန်းစုတွင် ပေါက်လေ့ရှိသော ငြုတ်ကောင်းတမျိုးမှာ သစ်ကြံပိုး၊ လေးညှင်း၊ ဇာတိပ္ဖိုလ်တို့၏ အနံ့အရသာမျိုးရှိ၍ မမှည့်ခင် အသီးကို အသုံးပြုရသည့် အပင်ငယ်တမျိုး ဖြစ်လေသည်။

အနောက်နိုင်ငံများတွင် အစာအာဟာရများ ပိုမို၍ အရသာ ရှိလာစေရန် ထည့်သွင်းအသုံးပြုသော ဗနီလာခေါ် ဟင်းခတ်အမွှေးအကြိုင်တမျိုးမှာ သစ်ခွမွှေး တမျိုးပင်ဖြစ်လေသည်။ ဗနီလာပင်များကို ဥရောပတိုက်၌ မမြင်ဘူးမီကပင် မက္ကဆီကိုတောင်ပိုင်းမှ တိုင်းရင်းသားများသည် ဗနီလာပင်မျိုးကို မည်သို့စိုက်၍ အသုံးချရမည်ကို သိနေကြလေပြီ။ (ဗနီလာ — ရှု။)

ဗနီလာပင်များသည် ပူအိုက်၍ စိုစွတ်သောဒေသများကို နှစ်သက်ရကား အမေရိကန်မှ မျိုးယူ၍ အရှေ့အိန္ဒိယ ကျွန်းစုများတွင် စိုက်ကြည့်သောအခါ ကောင်းမွန်စွာ ဖြစ်ထွန်းသည်ကို တွေ့ရလေသည်။ ဗနီလာပင်သည် နွယ်တက်သော အပင်မျိုးဖြစ်၍ ရှည်လျားသေးသွယ်သော အသီးတောင့်များသီးလေသည်။ အသီးတောင့်များမှ အမွှေးအကြိုင်ကို ထုတ်ယူရလေသည်။ ယခုအခါ တဟီးတီးကျွန်းမှာ ဗနီလာပင်များ အကြီးအကျယ် စိုက်ပျိုးရာဒေသ ဖြစ်သော်လည်း မျိုးအကောင်းဆုံး ဗနီလာကို မက္ကဆီကိုမှသာ ရရှိလေသည်။ သို့ရာတွင် ယခုအခါ ဗနီလာ အမွှေးနံ့ကို သိပ္ပံပညာနည်းဖြင့် စီမံဖော်စပ်ရယူနိုင်သဖြင့် ဗနီလာပင်များ စိုက်ပျိုးလုပ်ကိုင်ခြင်းမှာ ဆုတ်ယုတ်သွားလေသည်။



ဆေးဖက်ဝင်သော ကလားနက်သွေးပင်၏ အကိုင်းအခက်

မြန်မာဟင်းလျာများကို ချက်ပြုတ်စီမံရာ၌ အသုံးများလှသော ဟင်းမွှေးမဆလာ များမှာ အိန္ဒိယနိုင်ငံ၌ပေါက်ရောက်သော အပင်များ၏ အစေ့၊ အရွက်၊ အသီး စသည်တို့ဖြင့် စီမံဖော်စပ်ခြင်း ဖြစ်၏။ မဆလာဖော်စပ်နိုင်သည့် အပင်မျိုးပေါင်းမှာ နှစ်ဆယ်ကျော်ခန့် ရှိလေသည်။ ဟင်းခတ် အမွှေးအကြိုင်များမှာ ဟင်းထဲခတ်ထည့်ရန်အတွက် သာမက ဆေးဝါးစီမံဖော်စပ်ရာ၌လည်း အသုံးဝင်လှပြီးလျှင် ရေမွှေးလုပ်ငန်း၊ ဆပ်ပြာလုပ်ငန်း စသည်တို့၌လည်း အသုံးပြုရလေသည်။ နနွင်းတို့သို့သော ပစ္စည်းမျိုးကို ဆိုးဆေးလုပ်ငန်းများ၌လည်း အသုံးပြုရလေသည်။

ရွှေနှင့်စက်၍ဝယ်ရသည့် ခေတ်အခါနှင့် နိုင်းစာလျှင် ယခုအခါ၌ ခရီးလမ်းပန်း ကောင်းမွန်၍ သယ်ယူပို့ဆောင်ရေး၌ လွယ်ကူသဖြင့်အမွှေးအကြိုင်များဈေးမှာ အတော်ပင် ယုတ်လျော့သွားသည်ဟု ဆိုရပေမည်။ သို့ရာတွင် အမွှေးအကြိုင်များလုပ်ကိုင်ရသည်မှာ အပင်မှ လိုက်လံခူးဆွတ်ရသဖြင့် စက်ဖြင့်ပြုလုပ်သော လုပ်ငန်းများကဲ့သို့ စရိတ်ကုန် မသက်သာလှပေ။ လေးညှင်းကဲ့သို့သောပစ္စည်းမျိုးမှာ အပင်မှ တပွင့်စီ လိုက်လံဆွတ်ခူးရသဖြင့် မည်မျှလက်ဝင်သည်ကို ချင့်ချိန်နိုင်ပေသည်။ ထိုကြောင့်ပင်လျှင် အမွှေးအကြိုင်များကို ယခုထက်တိုင် အတော်အတန်ဈေးပေးဝယ်ယူနေရလေသည်။ သို့ရာတွင် သိပ္ပံပညာရပ်များ တနေ့တခြား တိုးတက်နေရကား နောင်ခေတ်အခါများတွင် ဗနီလာအနံ့မျိုးကို သိပ္ပံပညာဖြင့် စီမံဖော်စပ်နိုင်သကဲ့သို့ အခြား အမွှေးအနံ့များကိုလည်း စီမံဖော်စပ်နိုင်မည်လောဟု တွေးထင်ရပေသည်။

**ဟင်းဂလာ။** ။ဟင်းဂလာသည် ပင်ပျော့မျိုး ဖြစ်သည်။ အကြမ်းအားဖြင့် အယဉ်နှင့်အရိုင်းဟူ၍ ခွဲခြားနိုင်သည်။ အယဉ်မျိုးမှာ အထူးစိုက်ပျိုးယူရ၍ အရိုင်းမျိုးမှာ အလေ့ကျပေါက်သော အပင်မျိုး ဖြစ်သည်။ ရုက္ခဗေဒ အလိုအားဖြင့်လည်း ဟင်းဂလာအမျိုးမျိုးရှိသည်။

ရုက္ခဗေဒ အလိုအားဖြင့် ကွမ်ပိုဇီတီး မျိုးရင်းတွင် ပါဝင်ပြီးလျှင် စပီလန်သီး အကဲမဲလားဟုခေါ်သော ဟင်းဂလာ အယဉ်မျိုးတမျိုးရှိသည်။ ယင်းကို ဟင်းချက်ပြုတ်စားလေ့ရှိသည်။ ချဉ်ဖတ်ပြုလုပ်၍လည်း စားကြသည်။ ဆေးဖက်လည်း ဝင်၏။ဂျီနန်ဒရော့ဆစ် ပင်တာဖိုင်လားနှင့်ကလီအိုမီးဗစ္စကိုးဆားဟုခေါ်သော ဟင်းဂလာမျိုးမှာ ကက်ပရီဒေးစီအီး မျိုးရင်းတွင် ပါဝင်လေသည်။ ပဌမ ဟင်းဂလာမျိုးကို ချက်ပြုတ် စားကြသည်။ အရွက်များကို အရည်ညှစ်၍ နားကိုက်ပျောက်ဆေး အဖြစ်လည်း သုံးကြသည်။ ယင်းတို့မှ အစေ့များရရှိရာ ငါးအဆိပ်ခတ်ရာ၌၎င်း၊ သန်ချဆေး အဖြစ်၎င်း အသုံးပြုကြသည်။ ဒုတိယပင်မျိုးမှ မုန်ညင်းစေ့



ဟင်းဂလာပင်

ကဲ့သို့သောအစေ့များရရှိသည်။ ထိုအစေ့များကို ဟင်းချက်ပြုတ်ရာ၌ အမွှေးအကြိုင်အဖြစ် အသုံးပြုကြသည်။ အရွက်နှင့်အစေ့များကို ဆေးဝါးများ၌လည်း သုံးကြသည်။ ထို့ပြင် ဂီစီကီယာ ဖာနာကွိုက်ဒီးခေါ် ဟင်းဂလာပင်မျိုးတမျိုးလည်းရှိသေးရာ ထိုဟင်းဂလာတို့သည် အေအိုင်ဇိုအေးစီအီး မျိုးရင်းတွင် ပါဝင်လေသည်။ ထိုအပင်မျိုးကို ဂန့်ဂလာဟူ၍လည်းခေါ်သည်။ဟင်းရွက်အဖြစ်ချက်ပြုတ်စားနိုင်သည်။ အရသာ ခါးသည်။ သန်ချဆေးအဖြစ်လည်းသုံးနိုင်သည်။

ဟင်းဂလာပင်များ၌ ပင်ရိုးနှင့် အရွက်များရှိရာ အရွက်များတွင် အနီရောင်ရှိသည်။ အရွက်ကလေးများမှာ သေးငယ်၍ ရှည်မျောမျောပုံသဏ္ဌာန်ရှိသည်။ အချို့ ဟင်းဂလာမျိုးများ၏ အရသာမှာ ခါးသည်။ ယင်းတို့ကို မြန်မာနိုင်ငံအရပ်ရပ်တွင် တွေ့ကြရသည်။

**ဟင်းနုနယ်။** ။ဆေးဖက်လည်းဝင်၊ ပေါပေါများများလည်း ရနိုင်၍ ချိုမြိန်သော ဟင်းတမယ်လည်း ဖြစ်နိုင်သည့် ဟင်းသီး ဟင်းရွက်တမျိုးမှာ ဟင်းနုနယ်ဖြစ်ချေသည်။ မြန်မာ၊ အိန္ဒိယ၊ သီဟိုဠ်ကျွန်း စသော အပူပိုင်းဒေသများ၌ ထိုအပင်တို့ကို ခဲခဲယဉ်းယဉ်း ပင်ပင်ပန်းပန်း စိုက်ပျိုးရန်မလိုပေ။ အလေ့ကျ ပေါက်နိုင်ကြသည်။

ဟင်းနုနယ်သည် မျိုးစိတ် မျိုးပွား အများအပြားရှိသော အပင်မျိုးဖြစ်သည်။ အမ်မရန်သေစီအီး မျိုးရင်း၌ ပါဝင်၍ မျိုးခွဲ၏ အမည်သည် အမ်မရန်တတ် ဖြစ်သည်။ မြန်မာနိုင်ငံ၌ ပေါက်ရောက်ကြသော ဟင်းကန့ယ်၊ ဟင်းနုနယ်ကြီး၊ ဟင်းနုနယ်ဆူးပေါက် ( ဟင်းနုနယ်ဆူးကြီး )၊ ကြက်မောက်ပန်းပင်တို့သည် ထိုမျိုးရင်း မျိုးခွဲ၌ ပါဝင်ကြ

သည်။ မြန်မာနိုင်ငံ၌ ဟင်းနုနယ်ဟု သိမ်းရုံးခေါ်ဝေါ်နေကြသော အပင်သုံးမျိုး လေးမျိုးခန့်မှာ စင်စစ်အားဖြင့် မျိုးစိတ် ကွဲပြားကြသည်။ ဟင်းနုနယ်မျိုးတို့တွင် လယ်မြေခြံ မြေတို့၌ အလေ့ကျပေါက်၍ ပေါင်းပင်များအဖြစ် သုတ်သင်ရှင်းလင်းပစ်ရသော အပင်ရိုင်းများ ရှိသည့်နည်းတူ အပွင့်နှင့် ရွက်လှပင်တို့ကဲ့သို့ အရွက်အရောင် လှသဖြင့် ပန်းခြံဥယျာဉ်များ၌ အလှစိုက်ပျိုးကြသော ကြက်မောက်ပန်းပင်ကဲ့သို့ အယဉ်ပင်မျိုးလည်း ရှိပေသေးသည်။

ဟင်းနုနယ်မျိုးတို့သည် တနှစ်ခံ ပင်နု ပင်ပျော့မျိုးဖြစ်၍ ချောမွတ်သော ပင်စည်နှင့် အကိုင်း အခက်များ ရှိသည်။ ယေဘုယျအားဖြင့် အမြင့်တပေမှ ငါးပေအထိ ရှိတတ်သော်လည်း မြေဩဇာကောင်း၍ ကောင်းစွာပြုစုစိုက်ပျိုးလျှင် ခုနစ်ပေ ရှစ်ပေခန့်ပင် မြင့်နိုင်လေသည်။ အရွက်များသည် ရွက်လွှဲထွက်၍ အနား ညီသည်လည်း ရှိသည်။ အဟိုက်ပါသည်လည်း ရှိသည်။ ထိပ်အနည်းငယ် ချွန်၍ ရွက်ညှာဖက်သို့ ကျဉ်းသွားသည်။ အပွင့်များသည် သေးငယ်လှ၍ အဖို၊ အမ နှစ်မျိုးလုံးပါဝင်သည်။ ပင်တံနှင့် အရွက်ညှာရင်းမှ အစုအခဲလိုက်လည်း ထွက်၍ ပွင့်သည်။



စံနစ်တကျစိုက်ပျိုးထားသော ဟင်းနုနယ်ပင် စိုက်ခင်း

ဖင်တံနှင့် အကိုင်းအခက်များ၏ ထိပ်ဖျားမှလည်း ပွင့်ညှာမဲ့ ပွင့်ဘဲ့များဖြင့်လည်း ထွက်၍ပွင့်သည်။ အသီးများသည် လုံးသယောင်ယောင်ရှိ၍ မအက်ကွဲချေ။ ထိပ်ဘုံးသည်လည်း ရှိသည်။ အချို့ နှစ်ခု သုံးခု ပါသည်လည်း ရှိသည်။ အစေ့များသည် ပဲစေ့ကလေးများနှင့် တူလေသည်။

ဟင်းနုနယ်ဆူးပေါက် (ရုက္ခဗေဒ အမည်အားဖြင့် အမ်မရန်ဘတ် စပိုင်နိုးဆတ်) သည် တပေမှ ငါးပေအထိ မြင့်သည်။ လုံးဝန်းသော ပင်စည်နှင့် အကိုင်းအခက်များသည် အရည်ရွှမ်းသည်။ ဆူးများလည်းရှိသည်။ လွင်သော အစိမ်းရောင် ရှိသည့် အရွက်များသည် အလျား တလက်မခွဲခန့်မှ လေးလက်မခန့် ရှိသည်။ အရင်းပိုင်းကား၍ အဖျားသွယ်ပြီးလျှင် ရွက်ညှာသည် ရွက်ချပ်နီးပါး ရှည်သည်။ အပွင့်ကလေးများသည် သေးငယ်၍ ရွက်ညှာနှင့် ပင်စည်ခွကြားမှ အစုအခဲလိုက် သော်၎င်း၊ ပင်တံနှင့် အကိုင်းများ အဖျားမှ ပွင့်တံများဖြင့် သော်၎င်း ထွက်၍ပွင့်သည်။ ဇူလိုင်လမှ ဧပြီလအတွင်း အပွင့်ပွင့်သည်။ အစေ့များသည် မည်းနက်သည်။ လယ်မြေ ယာမြေများ၌ အလေ့ကျ ပေါက်ရောက်တတ်လေသည်။

ဟင်းနုနယ်နီ (ရုက္ခဗေဒ အမည်အားဖြင့် အမ်မရန်တတ် ဂန်ဂျီတီကတ်) သည် ပင်စည် တုတ်ခိုင်၍ နှစ်ပေမှ သုံးပေအထိ မြင့်သည်။ အရွက်များသည် အစိမ်းရောင် အနီရောင်များ ရှိ၍ ရွက်လှကဲ့သို့ အရောင်စုံ အရွက်မျိုးလည်းရှိသည်။ အရွက်များသည် နှစ်လက်မမှ ငါးလက်မအထိ ရှည်သည်။ ယင်းသည်လည်း ဇူလိုင်လမှ ဧပြီလအတွင်း အပွင့်များပွင့်၍ လယ်မြေ ယာမြေနှင့် လူနေအိမ်ခြေရှိရာ အရပ်များ၌ အလေ့ကျ ပေါက်ရောက်သည်။

ရုက္ခဗေဒ အမည်ဖြင့် အမ်မရန်တတ် မန်ဂိုစတေးနပ်၊ အမ်မရန်တတ် ဗီရီဒီး၊ အမ်မရန်တတ် ဗလီတွမ်ဟု အသီးအသီး ခေါ်တွင်သော အပင်တို့ကို မြန်မာတို့ အခေါ်အဝေါ်အားဖြင့် ဟင်းနုနယ်ဟူ၍ သိမ်းရုံးခေါ်ထားသော်လည်း မျိုးစိတ်ကွဲပြားကြသည်။ အပင်၏အမြင့်၊ အရွက်၊ အပွင့်တို့၌ ခြားနားမှု မတိမ်းမယိမ်းမျှသာ ဖြစ်သော်လည်း ပဌမမျိုးစိတ်သည် အကိုင်းအခက် အထွက်များသည်။ ဒုတိယမျိုးစိတ်သည် တည့်တည့်မတ်မတ် ပေါက်သည်။ တတိယမျိုးစိတ်၏ ပင်စည်တို့သည် ယိမ်းယိုင်၍ မြေပေါ်၌ ပြားဝပ်ပေါက်တတ်သည်။ ပဌမ မျိုးစိတ်သည် ဇူလိုင်လမှ ဧပြီလအတွင်း အပွင့်ပွင့်၍ ဒုတိယ မျိုးစိတ်သည် ဇူလိုင်လမှ ဇန္နဝါရီလ အတွင်း၌၎င်း၊ တတိယမျိုးစိတ်သည် ဇွန်လမှ ဇန္နဝါရီလ အတွင်း၌၎င်း အပွင့်ပွင့်ကြလေသည်။

ဟင်းနုနယ်၏ အရိုးအရွက်တို့၌ အရသာတမျိုးထူးသော အချိုဓာတ် တမျိုးပါရှိသဖြင့် ကြော်ချက်၍ စားသည့်အခါ ချိုဆိမ့်ဆိမ့်နှင့် ခံတွင်းတွေ့စေသည်။ ဗုဒ္ဓနံ၊ ဗုဒ္ဓနံခြောက်၊

အမဲ၊ ကြက်၊ ဝက် စသော နှစ်သက်ရာ အသားတမျိုးမျိုး ဖြင့်လည်း ရောချက်စားကြသည်။ ကျေးရွာများတွင် ဟင်းနုနယ်ကို ငပိစိမ်းစား နည်းနည်းဖြင့် ကြော်ချက်စားကြသည်။ ဟင်းနုနယ်တွင် ဗီတာမင်အေ၊ ဗီတာမင်ဘီ(၁)၊ ဗီတာမင်စီ၊ ထုံးဓာတ်၊ သံဓာတ်တို့ ပါဝင်သဖြင့် လူ၏ ကိုယ်ခန္ဓာဘည်ဆောက်မှု၊ ပြင်ပရောဂါများကို တွန်းလှန်ကာကွယ်မှု၊ ကျန်းမာ ကြံ့ခိုင်မှုတို့ကို အားပေးနိုင်သော ဟင်းသီး ဟင်းရွက်မျိုး ပေတည်း။

မြန်မာဆေးကျမ်းများ၏ အလိုမှာ ဟင်းနုနယ်ရွက်သည် ချို၏။ စဉ်းငယ်ငန်၏။ သွေး၊ သည်းခြေကိုနိုင်၏။ ဆီးဝမ်းရှင်စေတတ်၏။ အဆိပ်သင့်နာ၊ နှုတ်မမြိန်နာတို့နှင့် သင့်၏ဟု ဆိုသည်။

ဝမ်းမီးတောက်ခြင်း၊ အသားမာ ပေါက်ခြင်းကိုင်း၊ တေဇောကြောင့် ဖြစ်ပေါ်သော အပူကိုင်း၊ အောက်သို့ သက်သော လေကိုင်း၊ အထက်သို့ ဆန်တက်သော လေကိုင်း၊ မီးယပ်၌ မွေးဆိပ်နှင့်တူသော သွေးကိုင်း ကြေစေတတ်၏ဟုလည်း ဆိုလေသည်။

ဟင်းနုနယ် ဆူးပေါက်သည် ကြွေလွယ်၏။ အေး၏။ အဆီမရှိ။ ငန်ချိုရသာရှိ၏။ သလိပ်သည်းခြေတို့ကို နိုင်၏။ ကျင်ကြီး ကျင်ငယ်တို့ကို ရှင်စေတတ်၏။ အဆိပ်ကိုနိုင်၏။ ထို့ပြင် ဟင်းနုနယ်ဆူးပေါက်သည် စားရာ၌ ပို၍ အရသာ လေးပြီးလျှင် ပို၍ ဆေးဖက်ဝင်သည်ဟု လူပြောများလေသည်။ ဆူးမရှိသော ဟင်းနုနယ်သည် အအေးများ၏။ ချို၏။ အတန်ငယ်ဖွဲ၏ဟု ဆိုကြလေသည်။

ဟင်းကန္ဒယ်သည် ဟင်းနုနယ်ဆူးပေါက်နှင့် ဆင်တူသည်ဟု ဆိုကြသည်။ ဟင်းနုနယ်ရွက်ကို ချက်ပြုတ်စားသုံးနည်း အတိုင်း အသုံးပြုနိုင်သည်။ အိန္ဒိယနှင့် သီဟိုဠ် နိုင်ငံတို့တွင် ဟင်းကန္ဒယ်မျိုးပြား အမျိုးမျိုးကို စားသုံးရန် ဟင်းသီး ဟင်းရွက် အနေဖြင့်သာ မက၊ အစေ့အလို့ငှာလည်း စိုက်ပျိုးကြသည်။ ယင်း အစေ့တို့သည် အညိုရောင်လည်း ရှိသည်။ အဝါရောင်လည်း ရှိသည်။ သေးငယ် ချောမွတ်သော အစေ့များဖြစ်ကြသည်။ထိုအစေ့တို့ကိုအမှုန့်ပြု၍ တောင်သူ လယ်သမားများ စားသုံးကြလေသည်။

အိန္ဒိယ ဆေးကျမ်းအလိုမှာ ဟင်းနုနယ်သည် သွေးသားကို သန့်ရှင်းစေသည်။ လိပ်ခေါင်းရောဂါ၊ ဆီးရောဂါတို့ အတွက် သင့်သည်ဟု ဆိုလေသည်။

ဟင်းနုနယ်မျိုးဝင် ကြက်မောက်ပင် မျိုးတို့ကား အပွင့်အလို့ငှာ ပန်းခြံ၊ပန်းဥယျာဉ်တို့တွင် အလှစိုက်ပျိုးကြသည်။ အချို့ကြက်မောက်မျိုးတို့၏အပွင့်တို့သည်အပင်မှခူးထား၍ အပွင့် နွမ်းခြောက်သွားသည်တိုင်အောင် အရောင်အဆင်း မပျက်သဖြင့် အနောက်တိုင်းအချို့ စာဆိုတို့သည် သေခြင်းကင်းသည့် တရားကို ကြက်မောက်ပန်းနှင့်ခိုင်းနှိုင်းကြသည်။



ဟင်းနုနယ်ဆူးပေါက်ပင်

အိမ်သုံး ဟင်းခင်းအတွက်ငင်း၊ ရောင်းစားရန်အတွက်ငင်း ဟင်းနုနယ်ကို စိုက်ပျိုးလိုလျှင် အစေ့ကိုပျိုး၍ စိုက်ရသည်။ ဧပြီလမှ ဇူလိုင်လကုန်အထိ စိုက်ပျိုးနိုင်သည်။ ၁၀ ပေ စတုရန်းရှိသော စိုက်ခင်းအတွက် ဟင်းနုနယ်စေ့ လေးအောင်စခန့်ကို ပျိုးရသည်။ ပျိုးခင်းမှ ပြုပြင်ထားသော စိုက်ခင်းသို့ ပြောင်းသည့်အခါ အပင်ငယ်ကလေးများကို တပင်နှင့်တပင် တပေခန့်စီ ခွာ၍ စိုက်ရသည်။ ပူအိုက်ခြောက်သွေ့သည့် ရာသီတွင် ငါးရက်၊ သို့မဟုတ် ခြောက်ရက်တကြိမ်ကျ ရေမြောင်းများဖြင့် ရေသွင်းပေးရသည်။ မိုးဥတုတွင်မူ ပေါင်းသင်ရန်မှတပါး ဟင်းနုနယ်ပင်များကို ဂရုစိုက်ရန် မလိုချေ။ ဟင်းနုနယ်ပင်များ ကြီးထွားရန် တလမှ တလခွဲခန့်အထိ ကြာလေသည်။ မျိုးစေ့ယူလိုလျှင် အသန်စွမ်းဆုံး အပင်မှ အစေ့များကို မှည့်ခြောက်လာသည့်တိုင်အောင် ထား၍ နေသာသည့်နေ့တွင် အစေ့များကို ဆွတ်ခူးရလေသည်။

**ဟင်းမလား** (ခရစ် ၁၈၀၁–၁၈၄၅)။ ။ဟိုင်းနရစ် ဟင်းမလား သည် ဂျာမနီနိုင်ငံ၏ နာဇီခေါင်းဆောင်တဦး ဖြစ်သည်။ ဂျာမနီနိုင်ငံ မျူးနစ်မြို့တွင် ၁၈၀၀ ပြည့်နှစ် အောက်တိုဘာလ ၇ ရက်နေ့၌ ဖွားမြင်၏။ ပဌမကမ္ဘာစစ် အတွင်း အလံကိုင်အဖြစ်စစ်မှုထမ်းခဲ့ဘူး၏။ ထိုနောက်တွင် အဲဒေါ့ဖ်ဟစ်တလာ၏ နောက်လိုက်တဦးဖြစ်လာ၍ မအောင်မမြင် ဖြစ်ခဲ့ရသော ဟစ်ဘာလာ၏ မျူးနစ်တော်လှန်ရေးကိစ္စတွင် ရှေ့တန်းမှ ပါဝင်ခဲ့သည်။ ထိုနောက်တွင် မုန်တိုင်း



ကစ၁၁

တပ်ဖွဲ့ကို ဖွဲ့စည်းခဲ့ရာ ၁၉၂၉ ခုနှစ်တွင် ထိုတပ်ဖွဲ့၏ခေါင်းဆောင် ဖြစ်လာသည်။

ဟင်းမလားသည် ၁၉၃၃ ခုနှစ်တွင် ဗာဗေးရီးယန်း ရဲအဖွဲ့၏ အကြီးအကဲဖြစ်လာပြီးလျှင် ၁၉၃၄ ခုနှစ်တွင် နာဇီတို့၏ လျှို့ဝှက် ရဲအဖွဲ့ဖြစ်သော ဂက်စတာပို အဖွဲ့၏ ခေါင်းဆောင် ဖြစ်လာလေသည်။ ၁၉၃၆ ခုနှစ် ဇွန်လတွင် ဟစ်တလာက ဟင်းမလားကို ဂျာမန်အမျိုးသား ရဲအဖွဲ့၏ အကြီးအကဲအဖြစ် ခန့်ထားခဲ့သည်။ ဟင်းမလားသည် ဤသို့ ရဲအဖွဲ့ကို ကြိုးကိုင်လာနိုင်သောကြောင့် ဟစ်တလာနှင့်ပင် တန်ခိုးအာဏာအရာတွင် ပခုံးချင်း ယှဉ်နိုင်သော အခြေသို့ ရောက်ခဲ့ရသည်။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီကရင်း၊ စစ်ကြီးအတွင်း၌ရင်း ဂျာမန်တို့သည် မိမိတို့၏ ရန်သူများအပေါ် စက်ဆုတ်ဖွယ်ကောင်းအောင် လူမဆံပဲ ပြုမူကျင့်ကြံခဲ့ကြပုံများမှာ သူ၏လက်ချက်ပင် ဖြစ်သည်ဟု အချို့က စွပ်စွဲခဲ့ကြလေသည်။ ဟင်းမလားသည် ၁၉၄၃ ခုနှစ်တွင် ဂျာမနီနိုင်ငံ၏ ပြည်ထဲရေးဝန်ကြီးအဖြစ် ခန့်ထားခြင်း ခံရလေသည်။ ၁၉၄၄ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့၌ ဟစ်တလာကို သေကြောင်းကြံရန် အတွက် တပ်မတော်၏အစီအမံသည် မအောင်မမြင် ဖြစ်ခဲ့ရပြီးနောက် ဟင်းမလားသည် ဂျာမနီနိုင်ငံတွင် တပ်စွဲလျက်ရှိသော တပ်များအားလုံး၏ အကြီးအကဲဖြစ်လာခဲ့၏။ ဟင်းမလားသည် ၁၉၄၄ ခုနှစ်တွင် ပြည်တွင်းကာကွယ်ရေးဝန်ကြီးဖြစ်လာခဲ့၍၊ ၁၉၄၅ ခုနှစ်တွင် စစ်ပြေငြိမ်းရေးအတွက် လျှို့ဝှက်စွာ သွေးတိုးစမ်းကြည့်ခဲ့သေး၏။ ဂျာမန်တို့ စစ်ရှုံးပြီးနောက် မဟာမိတ်တပ်များ ဖမ်းဆီး ချုပ်နှောင်ထားခြင်းခံနေခဲ့ရစဉ် အတောအတွင်း ၁၉၄၅ ခုနှစ် မေလ ၂၄ ရက်နေ့တွင် ဟင်းမလားသည် မိမိကိုယ်မိမိ သတ်သေလိုက်လေသည်။

နာဇီမုန်တိုင်းတပ် အကြီးအကဲအဖြစ်ရင်း၊ ဂက်စတာပို အဖွဲ့ အကြီးအကဲအဖြစ်ရင်း ဟင်းမလား ဆောင်ရွက်နေသည့်အခိုက် ယင်း၏အမိန့်ဖြင့် လူသန်းပေါင်းများစွာ အသက်ဆုံးရှုံးခဲ့ရ၏။ သူ၏အမိန့်ဖြင့် လူများကို အစုလိုက်အပြုံလိုက် သတ်ဖြတ်မှုများမှာ ၁၉၄၃ ခုနှစ် "သွေးဆိုးထုတ်ပွဲ" မှ အစပြုလျက် ဒုတိယကမ္ဘာစစ်အတွင်း သုံ့ပန်းစခန်းများတွင် စံနစ်တကျ သတ်ဖြတ်မှုများဖြင့် အဆုံးသတ်ခဲ့လေသည်။

**ဟင်းမလုပ်ပင်။** ။ဟင်းမလုပ်ပင်သည် နှစ်ပေမှ ခြောက်ပေအထိမြင့်သော အဆိပ်ပင် ဖြစ်သည်။ ယင်းကို ဆေးဝါးဖက်တွင် အသုံးပြုကြလေသည်။ ဟင်းမလုပ်ပင်၌ အကိုင်းများစွာ ရှိပြီးလျှင် ပင်စည်များသည် ခေါင်းပွများ ဖြစ်ကြသည်။ အပွင့်ဖြူကလေး အမြောက်အမြားသည် အခိုင်လိုက် ပွင့်ကြသည်။ ယင်း၏အရွက်များသည် ကရဝေးရွက်များနှင့် အလွန်တူကြသဖြင့် တပင်နှင့်တပင် မှားတတ်သည်။ သို့သော် ဟင်းမလုပ်ပင်၌ မနှစ်မြို့ဖွယ်သော အနံ့ရှိလေသည်။ အထူးသဖြင့် အရွက်နှင့် ပင်စည်များတွင် အနာတရဖြစ်သောအခါတွင် ပို၍ ဆိုးရွားလေသည်။ ထိုအချက်ဖြင့် ကရဝေးနှင့် ဟင်းမလုပ်ပင်ကို ခွဲခြားနိုင်လေသည်။ ထိုပြင် ဟင်းမလုပ်ပင်၏ တောက်ပသော ခေါင်းပွပင်စည်တွင် အနီ၊ သို့မဟုတ် ပန်းရောင် အစက်များနှင့် အကွက်များ ပါရှိသည်။ ဟင်းမလုပ်ပင်၏ အစိတ်အပိုင်း အားလုံးသည် အဆိပ်ကိုဖြစ်စေသည်။



ဟင်းမလုပ်ပင်

ဟင်းမလုပ်သီးသည် တလက်မ၏ ရှစ်ပုံတပုံမျှသာ ရှည်ပြီးလျှင် ကြက်ဉပုံသဏ္ဍာန် ရှိသည်။ အသီးများသည် ဩဂုတ်လ၊ သို့မဟုတ်၊ စက်တင်ဘာလတွင် မှည့်ကြသည်။ ဟင်းမလုပ်ပင်သည် ဂရိတ်ဗြိတိန်၊ ဥရောပတိုက်နှင့် အာရှတိုက်၏ အချို့အစိတ်အပိုင်းများတွင် မူလပေါက်ရောက်သည်။ ထိုဒေသများမှ မြောက်အမေရိကတိုက်နှင့် ချီလီနိုင်ငံတို့သို့ ယူဆောင်၍ စိုက်ပျိုးယူကြသည်။ ဟင်းမလုပ်ပင်သည် နိမ့်ရာနှင့် မြေဩဇာကောင်းရာတွင် အထူးသဖြင့် ပေါက်ရောက်လေသည်။

ဟင်းမလုပ်ပင်မှ အရွက်နှင့် အသီးများတွင် အထူးသဖြင့် သက်သာရာရစေမှုကို ဖြစ်ပေါ်စေနိုင်သည့် ဆေးဝါးများ ပါရှိလေသည်။ ရှေးဂရိလူမျိုးတို့သည် သေစေရန် စီရင်ချက်ချပြီးသူများကို ဟင်းမလုပ်ပင်မှ ချက်ယူထား

သည့် အရည်ဘချိုးကို သောက်စေခြင်းဖြင့် သေစေကြ သည်။ ဒဿနိကဗေဒပညာရှင် ဆိုကရေးတီးသည်° ထို အရည်ချိုးကို သောက်၍ သေသွားခြင်း ဖြစ်သည်။

ဟင်းမလုပ်ပင်သည် အမ်ဗဲလစ်ဖဲမီး မျိုးရင်းတွင် ပါဝင် ၍ ရုက္ခဗေဒအလိုအားဖြင့် ကိုနီယမ် မက်ကျူလေဘမ်ဟု ခေါ်သည်။

**ဟင်းမင်းဝေး, အားနက် (ခရစ် ၁၈၉၈ – ၁၉၆၁)။ ။** ဆရာဝန်တဦး၏သားဖြစ်သော အားနက် ဟင်းမင်းဝေး သည် ၁၈၉၈ ခုနှစ် ဇူလိုင်လ ၂၁ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စု၊ အီလီနွိုင်ပြည်နယ်၊ အုတ်ပတ်တွင် ဖွားမြင် ပြီးလျှင်၊ ထိုနေရာ၌ပင် ကြီးပြင်းလေသည်။ ၁၉၁၇ ခုနှစ် တွင် ထိုဒေသရှိ တန်းမြင့်ကျောင်းမှ နောက်ဆုံး အတန်းကို အောင်မြင်ပြီးသော အခါတွင် "ကန်းဆပ်စီးတီးစတား" စာစောင်တွင် လအနည်းငယ် သတင်းထောက်အဖြစ် အမှု ထမ်းခဲ့လေသည်။ ထိုပြင် နိုင်ငံခြားသတင်းထောက်အဖြစ် လည်း ဆောင်ရွက်ခဲ့သေးသည်။ ပဌမကမ္ဘာစစ် အတွင်း တွင် လူနာတင် မော်တော်ယာဉ်မောင်းသူအဖြစ် ဣတလီ နိုင်ငံသို့ သွားရောက်ခဲ့သည်။ ထိုသို့လူနာတင် ယာဉ်မောင်း သမားအဖြစ် အတွေ့အကြုံများကို မှတ်သည်ပြီးလျှင် ၁၉၂၆ ခုနှစ်တွင် "လက်နက်များကိုနှုတ်ဆက်ခြင်း" ခေါ် ဝတ္ထုကို ရေးသားထုတ်ဝေလိုက်ရာ စစ်အကြောင်းနှင့် စပ်လျဉ်း၍ ထုတ်ဝေသော အမေရိကန်ဝတ္ထုများအနက် အကျော် ကြားဆုံးဖြစ်သည်ဟု သတ်မှတ်ခြင်း ခံရလေသည်။

ဟင်းမင်းဝေးသည် ပြင်သစ်နိုင်ငံ၊ ပဲရစ်မြို့တွင် အတန် ကြာ နေထိုင်ခဲ့ပြီးလျှင် စပိန်နိုင်ငံနှင့် အာဖရိကတိုက် အတွင်း လှည့်လည်သွားလာနေထိုင်ခဲ့လေသည်။ စပိန်ပြည် တွင်းစစ်ဖြစ်ပွားနေချိန်တွင် ဟင်းမင်းဝေးသည် စပိန်နိုင်ငံ ၌နေထိုင်လျက်ရှိရာ၊ ထိုပြည်တွင်းစစ် အတွေ့အကြုံများကို မှတ်သည်၍ "ခေါင်းလောင်းထိုးသံ ဘယ်သူ့ကံ" ကို ရေးသား ခဲ့၏။ ထိုစာအုပ်ကို ၁၉၄၀ ပြည့်နှစ်တွင် ထုတ်ဝေလိုက် သောအခါ အမေရိကန်ပြည်ထောင်စုအတွင်း၌ သူ့အား စာရေးဆရာကြီးအဖြစ် အသိအမှတ်ပြုခြင်း ခံရလေသည်။ သူ၏ အကောင်းဆုံးသောလက်ရာ ဖြစ်သည်ဟုလည်း ဆို လေသည်။

ဟင်းမင်းဝေးသည် ပဌမကမ္ဘာစစ်ကြီးနှင့် ဒုတိယ ကမ္ဘာစစ်ကြီးတို့အကြားတွင် အထက်၌ ဖော်ပြခဲ့ပြီးသော စာအုပ်များနှင့် အခြားနာမည်ကျော် ဝတ္ထုများစွာကို ရေးသားခဲ့သည်။ သူ၏လက်ရာများတွင် သူ၏ဘဝအသေး စိတ်အပိုင်းများ ကဏ္ဍအလိုက် ပါဝင်ခဲ့လေသည်။ စစ်၏ ဒဏ်ရာဒဏ်ချက် ကြောက်မက်ဖွယ် အကြောင်းကို "လက် နက်များကို နှုတ်ဆက်ခြင်း" တွင် အထူးတလည် ဖော်ပြ



အမေရိကန်စာရေးဆရာ အားနက် ဟင်းမင်းဝေး

ထားကာ၊ စပိန်နိုင်ငံ နွားကစားသမားများနှင့် တွေ့ဆုံ ရင်းနှီးခဲ့ပုံကို အကြောင်းပြုလျက် "ညနေခင်းမှာသေသော ခါ" ဝတ္ထုကိုရေးသားခဲ့၍၊ နွားကစားပွဲများအကြောင်း ကို "နေသည်လည်း ထွက်လာပြန်သောအခါ" ဝတ္ထုတွင် တင်ပြထားလေသည်။ အမဲပစ်ခြင်းအကြောင်းကို "ကီလီမန် ဂျရို၏ ဆီးနှင်းများ" ဝတ္ထုတွင် တွေ့ရှိနိုင်ပြီးလျှင် ငါးများ ခြင်း အကြောင်းကို "ပင်လယ်ပြာနှင့်တံငါအို" ဝတ္ထုတွင် အသေးစိတ် ဖတ်ရှုနိုင်လေသည်။ ထို "ပင်လယ်ပြာနှင့် တံငါအို"ဝတ္ထုကိုအကြောင်းပြု၍ဟင်းမင်းဝေးသည် ၁၉၅၃ ခုနှစ်တွင် ပူလစ်ဇာဆုကို ရရှိခဲ့၏။

"ပင်လယ်ပြာနှင့်တံငါအို" ဝတ္ထုမှာ ဟင်းမင်းဝေးရေး သားခဲ့သမျှ ဝတ္ထုတို့တွင် အကြောင်းအရာအားဖြင့် အရိုး ဆုံးဟုပင် ဆိုနိုင်သည်။ တံငါအိုတယောက် လှေငယ်ဖြင့် ငါးဖမ်းထွက်ရာတွင် သူမျှော်လင့်သည်ထက်ပင် ကြီးမားနေ သောငါးကြီးတကောင် ငါးများချိတ်တွင်မိနေသဖြင့် ငါး ကြီးနောက်သို့ ရက်ပေါင်းများစွာမျှောလိုက်ကာ အသေ ဖမ်းယူရပုံ၊ ငါးသေကြီးကို တွဲယူလာရာတွင် လမ်းတ လျှောက် ငမန်းအုပ်ကြီးက လိုက်လံ၍ ငါးသေကြီးကို ကိုက် ဖြတ်ဆွဲယူစားသောက်ကြပုံ၊ ထိုငမန်းအုပ်ကြီးနှင့် အကြိတ် အနယ် တိုက်ခိုက်ရပုံ၊ နောက်ဆုံး ကမ်းသို့ရောက်ချိန်တွင် အလေးချိန်ပေါင် ၁,၀၀၀ ကျော်ရှိသော ငါးကြီးမှာ အရိုး စုမျှသာ ကျန်တော့သည်ကို တွေ့ရ၍ တံငါအိုစိတ်၌ မည် သို့ ခံစားရပုံတို့ကို ဖော်ပြထား၏။ဝေဖန်ရေးဆရာများက ဝတ္ထုတွင်းမှ တံငါအို၏ ခံစားချက်တို့မှာ ဟင်းမင်းဝေး

သည် သူ၏မအောင်မြင်သော "မြစ်ကိုဖြတ်၍ တောတွင်းဆီသို့" ဝတ္ထုထွက်ပြီးနောက် သူကိုယ်တိုင် ခံစားရသော စိတ်နေစိတ်ထားတို့ကို ဖော်ပြထားခြင်းပင် ဖြစ်သည်ဟု ဆိုကြလေသည်။

ဟင်းမင်းဝေးအား ၂၀ ရာစုနှစ်အတွင်း အထူးခြားဆုံးနှင့် အထင်ရှားဆုံးသော အမေရိကန်စာရေးဆရာတဦး ဖြစ်သည် ဟု ဆိုကြလေသည်။ ဟင်းမင်းဝေးသည် ဘဝစုံခြင်း၊ မှတ်ဉာဏ်ကောင်းခြင်း၊ ဒေသန္တရဗဟုသုတ ပြည့်ဝခြင်းစသော အချက်အလက်များနှင့် ပင်ကိုယ်ထူးချွန်ခြင်းတို့ကြောင့် ကမ္ဘာကျော် စာရေးဆရာကြီးအဖြစ်သို့ ရောက်ခဲ့သည်ဟု ဆိုရပေမည်။ ဟင်းမင်းဝေးသည် ၁၉၅၄ ခုနှစ်တွင် နိုဗဲ စာပေဆုကြီးကို ဆွတ်ခူးရရှိခဲ့သည်။

ဟင်းမင်းဝေးသည် ၁၉၆၁ ခုနှစ် ဇူလိုင်လ ၂ ရက်နေ့တွင် သေနတ်ထိမှန် သေဆုံးခဲ့၏။ ဟင်းမင်းဝေး သေဆုံးပုံနှင့်စပ်လျဉ်း၍ သတင်းစာကြီး အများက အမဲပစ်ထွက်ရန် သေနတ်တိုက်ချွတ်နေစဉ် မတော်တဆ ကျည်ဆန်ထွက် ထိမှန်သေဆုံးရသည်ဟု ဖော်ပြကြ၍၊ သတင်းစာကြီးတစောင်ကမူ မိမိကိုယ်မိမိ သတ်သေခြင်း ဖြစ်သည်ဟု ဖော်ပြလေသည်။

ဟင်းမင်းဝေး ရေးသားခဲ့သော အခြားဝတ္ထုများမှာ "ကျွန်ုပ်တို့ခေတ်တွင်" (၁၉၂၄)၊ "နိုင်သူဘာမျှမရ" (၁၉၃၃)၊ "အာဖရိက၏ တောင်စိမ်းများ" (၁၉၃၅) နှင့် "ရှိပြီးမရှိခြင်း" (၁၉၃၇) ဝတ္ထု စသည်တို့ဖြစ်သည်။

**ဟင်းသပြဒါး။** ။မြန်မာနိုင်ငံတွင် ပြုလုပ်သော ယွန်းထည်များရှိ အနီရောင်မှာ ဟင်းသပြဒါးနှင့် ခြယ်ထားခြင်း ဖြစ်သည်။ ထို့ပြင် ဘုရားကျောင်းကန်များရှိ အာရုံခံ တန်ဆောင်းများရှိ သစ်၊ သို့မဟုတ် အုတ်တိုင်များ၌ မှန်စီရွှေချ ပြုလုပ်ရာတွင် အနီရောင် ပါရှိနေခြင်းသည်လည်း ဟင်းသပြဒါးနှင့် ခြယ်ထားခြင်းကြောင့်ပင် ဖြစ်သည်။

ဟင်းသပြဒါးကို ဟင်းသပြဒါးရိုင်းမှ ပြုလုပ်ယူလေ့ရှိကြသည်။ ထိုသို့ မပြုလုပ်လိုလျှင် ပြဒါးနှင့် ကန့်ကို ရောစပ်၍ ကြိတ်ရသည်။ တဖန် ကော့စတစ်ပိုတက် ဖျော်ရည်နှင့် ရောပေးပြီးလျှင် အပူတိုက်ပေးရသည်။ အပူတိုက်ပေးစဉ် မွှေပေးရသည်။ ထိုသို့ မွှေပေးသောအခါ ဆာလဖိုက် အမည်းဖြစ်လာသည်။ ထို ဆာလဖိုက် အမည်းကို ရေနွေးငွေ့ဖြင့် တာရှည် အပူတိုက်ပေးပြန်သောအခါတွင် ဟင်းသပြဒါးခေါ် ဆိုးဆေးတမျိုး ဖြစ်လာလေသည်။

ရှေးမြန်မာလူမျိုးတို့သည် မင်ကြောင်များ ထိုးလေ့ရှိကြသည်။ မင်ကြောင်တွင် အနက်နှင့် အနီဟူ၍ အရောင်နှစ်မျိုးရှိရာ အနီရောင်ဖြင့် မင်ကြောင် ထိုးလိုသောအခါ ဟင်းသပြဒါးကို အသုံးပြုကြသည်။ ဟင်းသပြဒါးတွင် ဆေးထိုး ဟင်းသပြဒါးမှာ အကောင်းဆုံး ဖြစ်သည်ဟု သိရသည်။

**ဟင်းသပြဒါးရိုင်း။** ။မြန်မာနိုင်ငံတွင် လူသုံးများသော ဟင်းသပြဒါးကို ထုတ်လုပ်ယူရာဖြစ်သည့် ဟင်းသပြဒါးရိုင်းသည် စပိန်၊ အမေရိကန် ပြည်ထောင်စု(ကာလီဖိုးနီးယား)၊ ဣတလီ၊ ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စု သမတနိုင်ငံ၊ မက္ကဆီကိုနှင့် တရုပ်နိုင်ငံတို့တွင် ပေါများလေသည်။

ဟင်းသပြဒါးရိုင်းသည် တွင်းထွက်ဖြစ်ပြီးလျှင် ဓာတုဗေဒ သဘောအရ မာကျူရစ်ဆာလဖိုက် ( Hg S )ဖြစ်သည်။ အရောင်မှာ အနီမှ နီညိုအထိ ရှိသည်။ ထိုတွင်းထွက်၌ မာကျူရီခေါ် ပြဒါးသည် ရာခိုင်နှုန်းအားဖြင့် ၈၆ ပါရှိလေသည်။ ဟင်းသပြဒါးရိုင်း ပုံဆောင်ခဲများသည် များသောအားဖြင့် နန္ဒွင်းမကင်းပုံ ဖြစ်လေ့ရှိသည်။ယင်း၏ သိပ်သည်းဆသည် ၈.၁ ဖြစ်သဖြင့် များသည်ဟု ဆိုရပေမည်။ ဟင်းသပြဒါးရိုင်းကို မြေကြီးထဲတွင် ပေ ၁,၅၀၀ မတိုင်မီ အနက်တွင် တွေ့ရလေ့ရှိသည်။ မီးတောင်ရှိရာ ဒေသများရှိ ရေပူစမ်းများ အနီးအပါး၌လည်း တွေ့ရှိတတ်သည်။

**ဟသ်ာ။** ။ဟသ်ာကို မြန်မာနိုင်ငံ၌ မြင်ဘူးသူ နည်းကောင်း နည်းမည် ဖြစ်သော်လည်း ကြားဘူးသူကား များပေသည်။ ဟသ်ာသည် အလျား ၂၅ လက်မခန့်ရှိသည်။ အတောင်တွင် အနက်ပြောက်ကလေးများနှင့် အဖြူကွက်များ ရှိရာ ယင်းတို့ကို နားနေချိန်၌ မမြင်နိုင်၊ ပျံသောအခါ တွင်မှ မြင်နိုင်လေသည်။ ဟသ်ာငှက်မတွင် လည်ပင်း၌ အမည်းရစ် မရှိချေ။ ဟသ်ာငှက်ကလေးများသည် ဟသ်ာငှက်မနှင့် တူကြသော်လည်း အရောင်မှာ ပို၍ ခြောက်ကြသည်။ ယင်းတို့၏ ကျောဖက်တွင် အညိုရောင်နှင့် နီညိုရောင် ဖျော့ဖျော့အရောင်များ လှိုင်းကလေးများသဖွယ် ဖြစ်နေသည်ကို တွေ့ရသည်။ အမြီးတွင်လည်း အစဉ်းကြောင်းကလေး ရှိသည့်အပြင် အနားဖက်တွင် နီညိုရောင်ရှိသည်ကိုပါ တွေ့ရလေသည်။

ဟသ်ာငှက်၏ အသံမှာ သာယာပြီးလျှင် လွတ်လွတ်လပ်လပ်လည်း အော်မြည်တတ်သည်။ ဟသ်ာဖို၏ အသံနှင့် အမ၏ အသံများကို ခွဲခြား၍ သိနိုင်သည်ဟု ဆိုသည်။

သန့်ရှင်းသည့် သဲသောင်ပြင်များကို ဟသ်ာများ ကြိုက်နှစ်သက်ကြ၏။ထိုးအိုင်များတွင် ဟသ်ာများ နေလေ့မရှိကြသော်လည်း တခါတရံတွင်မူ တွေ့နိုင်လေသည်။ ရွှံ့နွံထူထပ်သော ကမ်းခြေများတွင်လည်း ဟသ်ာများကို မတွေ့ရချေ။ ဧရာဝတီမြစ်ကမ်းခြေတွင်မူ ဟသ်ာများကို ဆောင်းဥတုတွင် အများဆုံး တွေ့နိုင်သော ငှက်ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။



ဟင်္သာငှက်သဏ္ဍာန် ပုံဖော်ထားသော ဟင်္သာအုပ်

ပဌမစ၍ ရောက်သောအခါ အုပ်များနှင့် ရောက်လာသော်လည်း ဆောင်းဥတုအတွက် နေထိုင်ရန် နေရာများကို ရွေးချယ်ပြီးသည်နှင့် တပြိုင်နက် စုံတွဲလိုက်သာ နေထိုင်ကြလေသည်။ စုံတွဲလိုက် အမြောက်အမြား နေထိုင်နိုင်ကြသော်လည်း နှစ်ဆဲ့ငါးစုံတွဲ၊ သို့မဟုတ် စုံတွဲပေါင်း ၃၀ ထက် ကျော်လွန်၍ကား မြင်ရခဲလေသည်။

မြန်မာနိုင်ငံ မြောက်ပိုင်းနှင့် အလယ်ပိုင်းရှိ ဧရာဝတီနှင့် ချင်းတွင်းမြစ်များတွင် ဟင်္သာများကို အများဆုံး တွေ့နိုင်လေသည်။ မြန်မာနိုင်ငံ တောင်ဖက်ပိုင်းနှင့် ရခိုင်ပြည်နယ်ဖက်များရှိ မြစ်ကြီးများတွင်လည်း ဟင်္သာများကို တွေ့မြင်နိုင်လေသည်။ တခါတရံတွင် ပြည်တွင်းရှိ အင်းအိုင်များနှင့် ထုံးအိုင်များတွင် စုံတွဲများကို ဖြစ်စေ၊ အုပ်ကလေးများကို ဖြစ်စေ တွေ့ရတတ်သည်။ အောက်တိုဘာလ၊ သို့မဟုတ် နိုဝင်ဘာလ စောစောပိုင်း ရောက်လာစအချိန်တွင် မေမြို့ကန်သို့ စုံတွဲများ၊ သို့မဟုတ် အုပ်ကလေးများ မှန်မှန်လာရောက်သည်ကိုလည်း တွေ့ရသည်။ မြန်မာနိုင်ငံသို့ လာရောက်ကြသော ဧည့်သည်ငှက် ဖြစ်ကောင်း ဖြစ်ပေမည်။ ရခိုင်ပြည်နယ်၌မူ နိုဝင်ဘာလ မကုန်မချင်း ဟင်္သာများကို မြင်ရလေ့ မရှိချေ။ ထိုသို့ အစောဆုံး ရောက်လာပြီးလျှင် မြန်မာနိုင်ငံမှ ထွက်ခွာရာတွင်လည်း နောက်အကျဆုံး ထွက်ခွာသော ငှက်များတွင် ပါဝင်လေသည်။

ပါဏဗေဒ သဘောအရ ဟင်္သာသည် အန်ဆီရီဖောမီးမျိုးစဉ်တွင် အန်နတီဒီး မျိုးရင်းနှင့် တက်ဒေါနိနီးမျိုးရင်းခွဲတို့၌ ပါဝင်၍ ယင်းကို တက်ဒေါနား ဖာရူးဂီနီးဟု ခေါ်သည်။

**ဟင်္သာတမြို့။** ။ဟင်္သာတခရိုင်၏ ရုံးစိုက်မြို့ဖြစ်ခဲ့၍ ယခုဟင်္သာတမြို့နယ်၏ရုံးစိုက်မြို့ဖြစ်သော ဟင်္သာတမြို့သည် ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်းပေါ်တွင် တည်ရှိသည်။ အောက်မြန်မာနိုင်ငံတွင် အရောင်းအဝယ် စည်ကားဖွံ့ဖြိုးသော မြို့ကြီးတမြို့ဖြစ်သည့်ပြင် အရေးပါသော ဧရာဝတီမြစ်ဆိပ်မြို့လည်း ဖြစ်သည်။ စီးပွားကုန်သွယ်မှု စည်ကားဖွံ့ဖြိုးခြင်းမှာ မြို့၏ကျောထောက် နောက်ခံ ဒေသများမှ ကုန်ပစ္စည်း အထွက်ကောင်းခြင်း၊ သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်းသွားလာရေးအတွက် ရေလမ်း ကုန်းလမ်း နှစ်မျိုးလုံးဖက်မှ အဆင်ပြေခြင်းတို့ကြောင့် ဖြစ်သည်။

ဟင်္သာတမြို့သည် ရန်ကုန်မြို့နှင့် မီးရထားလမ်းအားဖြင့် မိုင် ၁၁၀ ကွာဝေး၍ ရေလမ်းအားဖြင့် ၁၄၉ မိုင် ကွာဝေးလေသည်။ မြို့နယ်အတွင်းနှင့် အပသို့ မီးရထားလမ်း၊ မော်တော်ကားလမ်းနှင့် ရေလမ်းခရီးတို့ဖြင့်ဆက်သွယ်နိုင်သည်။ မန္တလေးနှင့်ရန်ကုန် အစုန်အဆန်သွားလာသော မန္တလေးသင်္ဘောကြီးများ ဆိုက်ကပ်ရာဖြစ်၍ အထက်နှင့်အောက် ကုန်ပစ္စည်းများ စုံစုံလင်လင်ရနိုင်လေသည်။

ရာဇဝင်သမိုင်းများ၌ ဟင်္သာတ၏အမည်ကို အလောင်းဘုရားလက်ထက် ကမှ စတင် တွေ့ရှိရသည်။ အင်းဝနှင့် ပဲခူးခေတ်တွင် ထိုနှစ်ပြည်ထောင်တို့ ကူးလူးဆက်ဆံရာ၌ရင်း၊ စစ်မက်ကာလ၌ရင်း ဧရာဝတီမြစ်၏ အရှေ့ဖက်ရှိ တောင်ငူ (စစ်တောင်းမြစ်ဝှမ်း) ကြောင်းနှင့် လှိုင်မြစ်ကြောင်းတို့ကိုသာ အသုံးများခဲ့ကြ၍ ဧရာဝတီမြစ်ကြောင်းအားဖြင့်လည်း ပြည်မြို့အထိသာ စုန်ဆင်းကြသည်။ ပြည်မြို့မှ အောက်ဖက် ဟင်္သာတနယ်ဖက်သို့ကား အရောက်အပေါက် နည်းပါးခဲ့သည်။ ထိုခေတ်က ရေကာတာများလည်း အလုံအလောက် မဆောက်လုပ်ရသေးသဖြင့် ရေလွှမ်းမိုးမှုဒဏ်ကြောင့် လူနေအိမ်ခြေလည်း အလွန်ပင်နည်းပါးခဲ့လေသည်။ ဟင်္သာတဒေသတဝိုက်သည် ရှေးမြန်မာမင်းများလက်ထက်ကဟံသာဝတီပဲခူး၏လက်အောက်ခံဖြစ်ပြီးလျှင် မွန်လူမျိုးများ နေထိုင်ရာ ဒေသဖြစ်ခဲ့သော်လည်း ယခုအခါ မွန်အဆက်အနွယ် ပပျောက်သလောက် ရှိနေခဲ့သည်။

ဟံသာဝတီကို ခရစ် ၁၇၅၅ ခုနှစ်တွင် အလောင်းမင်းတရားကြီး သိမ်းပိုက်သောအခါ ဟင်္သာတနယ်သည်လည်း မြန်မာမင်းတို့ လက်အောက်ခံဖြစ်လာသည်။ ၁၇၅၉ ခုနှစ်တွင် ပဲခူး၌ မွန်တို့ပုန်ကန်ထကြွကြသောအခါ ဟံသာဝတီပဲခူးရှိ မြန်မာဘုရင်ခံသည် ဟင်္သာတသို့ ဆုတ်ပေးရသည်ဟူသော အဆိုကိုထောက်၍ ထိုစဉ်က ဟင်္သာတသည် ခိုင်လုံသော မြို့တမြို့ဖြစ်နေပြီဟု ယူဆရပြီးလျှင် မြန်မာလူမျိုးများသည်လည်း ထိုဒေသတွင် အတော်အတန် အခြေစိုက် နေထိုင်လျက် ရှိဟန်တူပေသည်။

ပဌမ အင်္ဂလိပ်–မြန်မာစစ်ပွဲအတွင်း အင်္ဂလိပ်တပ်များ ပြည်မြို့သို့ ချီတက်လာစဉ်က ဟင်္သာတမှ အခုအခံ မပြုခဲ့ပေ။ ဒုတိယအင်္ဂလိပ်–မြန်မာစစ်ပွဲအတွင်းကမူ ဟင်္သာတနယ်အတွင်း အခြေအနေ မငြိမ်မသက်ရှိလာသည်။ သူကြီးဟောင်းတဦးဖြစ်လေသော ဦးမြတ်ထွန်းဆိုသူ ခေါင်းဆောင်၍ မအူပင်၊ ပုသိမ်၊ ဟင်္သာတ တဝိုက်၌၎င်း၊ ဦးခေါင်းကြီးဆိုသူခေါင်းဆောင်၍ သာယာဝတီတဝိုက်၌၎င်း ဆူပူသောင်းကျန်းမှုများ ကို ဗြိတိသျှအစိုးရသည် အတော်ပင် နှိမ်နင်းယူရလေသည်။

ဟင်္သာတခရိုင်ဟု ဗြိတိသျှအစိုးရတို့ မူလသတ်မှတ်ထားသော နယ်မြေတွင် မအူပင်ခရိုင်၏ တစိတ်တဒေသနှင့် သာယာဝတီခရိုင်တို့ ပါဝင်ခဲ့သည်။ သို့သော် ဆူပူလှုပ်ရှားမှုများကို နှိမ်နင်းရေးအတွက် အုပ်ချုပ်မှု လွယ်ကူစေရန် နှစ်ပေါင်း ၃၀ ခန့်အတွင်း ဟင်္သာတခရိုင် နယ်နိမိတ်ကို အကြိမ်ကြိမ် ပြောင်းလဲသတ်မှတ်ခဲ့ရလေသည်။

သာယာဝတီမင်းလက်ထက်က ဧရာဝတီမြစ်၏ တဖက်တချက်တွင်ရှိကြသော ဟင်္သာတနှင့် သာယာဝတီတို့သည် ထိုမင်း မင်းသားဘဝက အပိုင်စားရသော နယ်မြေများဖြစ်၍ အင်းဝနေပြည်တော်မှနေ၍ တိုက်ရိုက်အုပ်ချုပ်သည်။ နောင်အခါ မြို့ဝယ်၊ တိုက်ဝယ်များ ခွဲခြားအုပ်ချုပ်ခဲ့သည်။

ဗြိတိသျှအစိုးရတို့ အုပ်ချုပ်စအခါက သာယာဝတီမင်းသားအပိုင်စားခဲ့သော နယ်မြေတို့ကို သာရဝေါ်တွင် အရေးပိုင် (ခရိုင်ဝန်) ရုံးစိုက်မြို့ထား၍ အုပ်ချုပ်ခဲ့သည်။ ထိုနယ်မြေ အပိုင်းအခြားမှာ လေးမျက်နှာမြို့နယ်မှလွဲ၍ ယခု ဟင်္သာတခရိုင်၊ သာယာဝတီခရိုင်၊ တရုပ်မော်မြို့နယ်၊ သုံးဆယ်တိုက်နယ်၊ ယခု မအူပင်ခရိုင်မှ ဓနုဖြူမြို့နယ်တို့ ပါဝင်သည်။ နောင်အခါ သူပုန်သူကန်အရေးကြောင့် အုပ်ချုပ်ရေးလွယ်ကူစေရန် ခရစ် ၁၈၅၃ ခုနှစ်မတိုင်မီကာလတွင် သာရဝေါခရိုင်ကို နှစ်ပိုင်းခွဲခြားလိုက်ရသည်။ ဧရာဝတီမြစ်အားဖြင့် ပိုင်းခြားထားသော ထိုခရိုင်သစ်နှစ်ခုမှာ ဟင်္သာတ (ရုံးစိုက်မြို့ ဟင်္သာတ)နှင့် သာယာဝတီ (ရုံးစိုက်မင်းကြီးမြို့) ဖြစ်ကြ၍ ပြည်ခရိုင်အတွင်း၌ ပါဝင်နေသော တရုပ်မော်မြို့နယ်ကို သာယာဝတီခရိုင်အတွင်းသို့ ပေါင်းထည့်ပေးသည်။

၁၉၇၂ ခုနှစ် ဩဂုတ်လတွင် အုပ်ချုပ်ရေးစံနစ်သစ်ဖော်ထုတ်ရေး အစီအစဉ်အရ ခရိုင်အဆင့် ဖျက်သိမ်းလိုက်သည့်အခါ ဟင်္သာတသည် မြို့နယ်အဆင့်သို့ ရောက်ခဲ့သည်။

ဟင်္သာတမြို့သည် မြို့ခင်းမြို့ကွက် အနေ အထား ကောင်းသော်လည်း မြစ်ကမ်းပါးအောက် နိမ့်နေသည်။ ထိုကြောင့် မိုးရာသီအခါ ရေဆင်းမကောင်းသဖြင့် မြို့ထဲတွင် ရေအိုင်ခြင်း၊ ရေဝပ်ခြင်းများ ရှိတတ်သည်။ ဧရာဝတီမြစ်ရေလျှံသည့်ဘေးမှ ကင်းလွတ်နိုင်ရန် မြစ်ဆိပ်ကမ်းပါးတလျှောက် ရေကာတာဖို့ထားသည်။ ကမ်းနားဖက်မှ အတွင်းကျကျ၌လည်း ပြည်သူ့လုပ်ငန်းဌာန ရေကာတာကြီးတထပ် ရှိသေးရာ၊ ထိုရေကာတာရိုးကြီးသည် မြို့ကို အရှေ့မှအနောက်သို့ ဖြတ်သန်းတည်ရှိသည်။ လမ်းကြီးလမ်းကောင်းများ နေအိမ်တိုက်တာ အဆောက်အအုံကောင်းကြီးများ၊ အုပ်ချုပ်ရေးမှူးရုံး၊ ပြည်သူ့ဘဏ်ခွဲ၊ သစ်တောရုံး၊ ကုန်သွယ်ရေးရုံးများ၊ ဘူတာရုံ၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ ပြည်သူ့ရဲတပ်ဖွဲ့ရုံး၊စာတိုက်ကြေးနန်းရုံး၊ ကြိုးမဲ့ကြေးနန်းရုံး၊ ဆေးရုံ၊ အကျဉ်းထောင် စသည်တို့ဖြင့် သိုက်မြိုက်ခမ်းနားစွာ ရှိလေသည်။

ဟင်္သာတမြို့ရှိ မြစ်ကမ်းပါးသည် ၁၉၅၀ ပြည့်နှစ်ခန့်မှစ၍ အပြိုကြမ်းလာသဖြင့် ကမ်းနားနှင့်နီးသော အိုးအိမ်အဆောက်အအုံများစွာတို့သည် ကမ်းပြိုရာထဲသို့ ပါသွားကြသည်။ ရှေးခေတ်က ဟင်္သာတဈေးကြီးသည် အလွန်ကြီးကျယ်ပြီးလျှင် မြန်မာပန်းပုကျော်များ၏ ပန်းတမော့၊ ပန်းတော့လက်ရာများဖြင့် အလွန်လှပ ခမ်းနား၍ မြို့၏ကျက်သရေဆောင်ဖြစ်ခဲ့သည်။ ထိုဈေးကြီးသည် မြစ်ကမ်းပါးအနီး တည်ရှိခဲ့ရာ ကမ်းပြိုရာသို့ လုံးလုံးလျားလျား ပါသွားခဲ့သဖြင့်၊ ထိုဈေးကြီးတည်ခဲ့သောနေရာသည် ယခု မြစ်လယ်ခန့်တွင် ရှိမည်ဟု ခန့်မှန်းကြသည်။ ရွှေ့ပြောင်း၍ရသော အဆောက်အအုံ၊ စေတီဘုရား ကျောင်းကန်တို့ကို ကုန်းပိုင်းသို့ တဖြည်းဖြည်း ပြောင်းရွှေ့ရသည်။ မရွှေ့ပြောင်းနိုင်၍ ကမ်းပြိုရာသို့ ပါသွားသော မြို့၏ အဆောက်အအုံများသည် သုံးပုံ နှစ်ပုံခန့် ရှိလေသည်။

ယခင်က မြို့အလယ်ဟု ခေါ်ဆိုရသော နေရာတွင် မိုင်ဒါကွင်းကျယ်ကြီး ရှိသည်။ ထိုကွင်းကျယ်ကြီး အတွင်း နှစ်စဉ် ဒါဘာပွဲ၊ ပြေးပွဲ၊ ပြိုင်ပွဲ၊ ပျော်ပွဲရွှင်ပွဲများကျင်းပလေ့ရှိသည်။ ထိုကွင်းကြီး၏ တဖက်တွင် ဘောလုံးကွင်း ပြုလုပ်ထားသည်။ ဟင်္သာတဈေးကြီး ကမ်းပြိုရာသို့ ပါသွားသောအခါ ထိုဈေးကြီးအစား တည်ဆောက်ရန်အတွက် ဘဏ္ဍာကြေးငွေ နည်းပါးမှု၊ သင့်လျော်ကျယ်ဝန်းသော မြေကွက်ရမှုစသော ကိစ္စအဝဝတို့ အဆင်မပြေနိုင်သဖြင့် ထိုမိုင်ဒါကွင်းကြီးထဲတွင်ပင် သွပ်မိုးပျဉ်ကာ ဈေးဆိုင်ကနားများတည်ဆောက်၍ ဈေးအဖြစ်အလျင်အမြန် ဆောင်ရွက်ပေးခဲ့ရသည်။ ထိုကြောင့် ယခင်က ဟင်္သာတမြို့လယ်၏ ကျယ်လွင့်သော မိုင်ဒါကွင်းကြီး ပျောက်ကွယ်ခဲ့ရလေသည်။ ယခုဈေးသည် ကမ်းခြေနှင့် အတန်ဝေးပြီးလျှင် မြို့အလယ်၌တည်ရှိ၍ ယခင်ကမြို့နှင့် အလှမ်းကွာကွာတွင် ရှိခဲ့သောဆေးရုံ၊ သစ်တောရုံး၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ အကျဉ်းထောင်၊ အစိုးရရုံးများနှင့် မဝေးလှတော့ချေ။



ဟင်္သာတမြို့၏ ကျက်သရေဆောင် ရွှေမြောင်မြောင်ဘုရား

ဟင်္သာတမြို့၏ အခြားအန္တရာယ်တခုမှာ မီးဘေးဖြစ်သည်။ နွေရာသီတွင် ဟင်္သာတမြို့ပေါ်၌ ရေရှားပါးသည်။ မြစ်ဆိပ်ကမ်းများတွင် မိုးကုန်လျှင် သောင်များထွန်းလာသဖြင့် မြစ်ရေရရန် ခက်ခဲမှု၊ ရေတွင်းများနည်းမှုကြောင့် ရေအခက်အခဲပြဿနာ ရှိပြီးလျှင် နှစ်စဉ် မီးလောင်သည့် ကိစ္စများ ဖြစ်ပေါ်တတ်လေသည်။

မီးဘေးဒဏ်ခံရသူများ၊ ကမ်းပြိုသဖြင့် အိုးအိမ်မဲ့သူများနှင့် နယ်အခြေအနေ မလုံခြုံသဖြင့် တောမှပြောင်းရွှေ့လာသူများအတွက် မြို့၏အရှေ့ဖက် ဘူတာရုံ အနီးတဝိုက်၊ ယခင်က အကျဉ်းထောင်ပိုင် လယ်မြေများကို အကွက်သစ်များရိုက်ကာ နေရာချထားပေးရသည်။ ဘူတာရုံ၏ အရှေ့ကွင်း၊ မြို့၏မြောက်ဖက်ပိုင်း စသည်တို့၌လည်း ကွက်သစ်များ ထူထောင်ပေးရလေသည်။

၁၉၆၃ ခုနှစ်ခန့်မှန်း သန်ကောင်စာရင်းအရ ဟင်္သာတမြို့ပေါ်ရှိ လူဦးရေသည် ၆၇၀၆၄ ယောက်ဖြစ်၍ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့သည် အများစုဖြစ်သည်။ ဒုတိယအများစုသည် ကရင်လူမျိုးများဖြစ်ကြသည်။ မြို့သူမြို့သားများသည် အစိုးရအမှုထမ်းများအပြင် ကုန်သည်ပွဲစားများဖြစ်၍ အထက်အောက် ကုန်စည်ပစ္စည်း မျိုးစုံကို ရောင်းဝယ်ဖောက်ကား လုပ်ကိုင်ကြသည်။

ဗြိတိသျှ အစိုးရတို့ မြန်မာနိုင်ငံအလုံးကို မသိမ်းပိုက်မီ၊ ၁၈ ရာစုနှစ်အတွင်းက ဗြိတိသျှကိုယ်စားလှယ်တော်တဦးဖြစ်သော ကာနယ်ဆိုင်းသည် ရန်ကုန်မှအင်းဝသို့ဆန်တက်ရာတွင် ဟင်္သာတမြို့ကိုလည်း ဖြတ်သန်းသွားသည်။ ကာနယ်ဆိုင်းက ထိုခေတ် ဟင်္သာတမြို့သည် စီးပွားရေးအခြေအနေ တိုးတက်ကောင်းမွန်လျက် မြို့သူမြို့သားတို့သည်လည်း ပြုမူနေထိုင်စားဝတ်ပုံမှအစ ယဉ်ကျေးသိမ်မွေ့ကြပေသည်ဟု ယင်း၏မှတ်တမ်းတွင် ဖော်ပြထားလေသည်။

မြို့တည်သည့် သက္ကရာဇ်ကို အချို့က ၁၃ ရာစုနှစ် အလယ်ပိုင်း၊ အချို့က ၁၆ ရာစုနှစ် စောစောပိုင်းဟု အမျိုးမျိုးပြောဆိုကြသည်။ ရာဇဝင်အထောက်အထားမရသော်လည်း ၁၆ ရာစု နှစ်အတွင်း တည်ခဲ့သည်ဆိုသော အဆိုသည် ပို၍ မှန်ကန်ဖွယ်ရာရှိသည်။

ဟင်္သာတဟူသောအမည်ခေါ်တွင်ခြင်းနှင့် စပ်လျဉ်း၍ အကြောင်းပြချက် သုံးမျိုးရှိသော်လည်း ခိုင်လုံသောအချက်များဟူ၍ကား မဆိုနိုင်ချေ။ ပဌမအကြောင်းပြချက်မှာ အချို့ရှေးသူဟောင်းတို့၏ အဆိုအရ ရှေးအခါက ဟင်္သာတမြို့ တည်ရာအရပ်သည် ဟင်္သာငှက်များ ကျက်စားရာ ညွန်ပျောင်း ထူသော မြေနိမ့်ဒေသတခု ဖြစ်သည်။ အလောင်းစည်သူမင်းသည် ဖောင်စကြာဖြင့် တိုင်းခမ်းလှည့်လည်လာရာ ဟင်္သာတမြို့နေရာသို့ ရောက်လျှင် ဖောင်တော်ကို ရပ်နား၍ စခန်းချသည်။ ယင်းသည့်အခိုက်တွင် မျက်နှာချင်းဆိုင်ရှိ သဲသောင်တခုပေါ်၌ ကျက်စားနေသော ဟင်္သာမောင်နှံအနက် ဟင်္သာဖိုသည် ရုတ်တရက် သေဆုံးသွားလေရာ ဟင်္သာမသည် ဟင်္သာဖိုအား လွမ်းဆွတ်တမ်းတနေသည်ကို ဘုရင်မင်းမြတ် မြင်တော်မူသဖြင့် ထိုအရပ်ကို ဟင်္သာ–တဟု တွင်စေခဲ့သည်ဟု ဆိုကြသည်။

ဒုတိယ အကြောင်းပြချက်မှာ တရုပ်ပြေးမင်း နရသီဟပတေ့သည် တရုပ်တို့၏ရန်ကြောင့် ဧရာဝတီမြစ်ကို စုန်ဆင်းလာရာ၊ ဟင်္သာတမြို့ တည်ရာ အရပ်သို့ ရောက်လျှင် ခေတ္တစခန်းချနေခိုက် ပွဲတော်တည်ရန် ဟင်းမယ် ၃၀၀ မပြည့်သဖြင့် ဟင်းလျာတခြင်းကို အစွဲပြု၍ ဟင်းလျာတဟု ဆိုကြရာမှ ဟင်္သာတသို့ ရွေ့လျော့လာသည်ဟု တမျိုးဆိုကြသည်။

တတိယအကြောင်းပြချက်မှာမွန်တို့ခေတ်က ဟင်္သာတမြို့နေရာတွင် ဓနုန်းပင် အများအပြား ပေါက်ရောက်ရာ မွန်ဘာသာစကားဖြင့် ဓနုန်းပင်ကို ဟမ်းဇဒါးဟု ခေါ်ကြရာ၊ မြန်မာအသံဖြင့် ဟမ်းသဒါးဟု လိုက်၍ ခေါ်ကြရာမှ ဟင်္သာတတွင်လာသည်ဟု ဆိုကြပြန်လေသည်။

ဟင်္သာတမြို့သည် ရှေးခေတ်ဟောင်းမြို့ကြီးတမြို့မဟုတ်သဖြင့် မြို့ပေါ်တွင် ရှေးဟောင်းအဆောက်အအုံကြီးများ မရှိလှချေ။ ကုန်းဘောင်ခေတ် နောက်ပိုင်းတွင်သာ မြို့ဝန်တဦး အုပ်ချုပ်သော မြို့တမြို့ ဖြစ်လာသည်။ သို့သော်

စီးပွားရေးချောင်လည်သူများ များပြားသဖြင့် ခမ်းနား လှပသော စေတီပုထိုး ဘုရားကျောင်းကန်များ ရှိသည်။ ယခင်က မြစ်ကမ်းပါးနှင့်ဝေးသော်လည်း ကမ်းအပြိုကြမ်းသဖြင့် ယခုအခါ မြစ်ကမ်းနဖူးတွင် တဲတဲကလေးမျှကျန်နေသော ရွှေပြောင်ပြောင်ဘုရားနှင့် ဦးဘရဲဘုရားတို့အား ကမ်းပြိုရာသို့ မပါအောင် အထူးကြပ်မ စောင့်ရှောက်နေကြရသည်။ ထို့ကြောင့်ပင် အနီးအနားရှိ အခြားနေအိမ် အဆောက်အအုံများ ကမ်းပြိုရာသို့ ပါသွားသော်လည်း ထိုဘုရားနှစ်ဆူနေရာတွင် ကမ်းသည် ဝိုက်၍ ကျန်နေလေသည်။ ထိုစေတီနှစ်ဆူအနက် ဦးဘရဲဘုရားသည် ဟသ်ာတမြို့၏ မြို့သူကြီး ဦးဘရဲက ခရစ် ၁၈၀၄ ခုနှစ်တွင် တည်ထားသည်။ ရွှေပြောင်ပြောင်ဘုရားမှာမူ ဘုရင်မင်းမြဘ်၏ ဥယျာဉ်တော်အုပ် ဦးပါလူက၊ ၁၈၁၇ ခုနှစ်တွင် တည်ထား၍ ၁၈၄၆ ခုနှစ်တွင် မြို့သူကြီးတဦးဖြစ်သူ ဦးမြတ်သာနေ်က ထပ်မံမွမ်းမံပြုပြင်ခဲ့သည်။

အလောင်းမင်းတရားကြီး၏ ပဌမဆုံး မြန်အောင်မြို့သူကြီးဦးမှုတည်ခဲ့သော ငါးမျက်နှာဘုရားသည် မူလနေရာဟောင်းမှ ကမ်းပြိုရာသို့ ပါမည်စိုးသဖြင့် မိုင်ဒါကွင်းအနီးသို့ ပြောင်းရွှေခဲ့ရသည်။ ထိုဘုရားကို ခရစ်နှစ် ၁၈၁၅ ခုတွင် တည်ခဲ့သည်။ ခရစ်နှစ် ၁၈၁၂ ခုတွင် ပုဂံမင်းမိဖုရား၏ မယ်တော်တည်ခဲ့သည်ဆိုသော မယ်တော်ဘုရားကိုလည်း ကမ်းပြိုရာသို့ ပါမည်စိုးသဖြင့် မူလနေရာမှ ပြောင်းရွှေခဲ့ရသည်။

ကမ်းနှင့်ဝေးကွာ၍ ဆောက်လုပ်ရေးဌာန ရေကာတာ၏ အတွင်းဖက်ကျသော ကျောက်တော်ကြီးဘုရားနှင့် ဆယ်ထပ်ကြီးဘုရားတို့သည် ဗြိတိသျှခေတ်၌ တည်ခဲ့သော ဘုရားများ ဖြစ်ကြပြီးလျှင် အခြံအရံ ဇရပ်တန်ဆောင်းများဖြင့် တင့်တယ်ခန့်ညားစွာ ဖူးတွေ့ကြရသည်။ ထို့ပြင် ဆီစက်နှင့် ဆန်စက်ပိုင်ရှင် ဦးအောင်မြတ်ကျော်၏ကောင်းမှုဖြစ်သော ဦးအောင်မြတ်ကျော် ဘုရားလည်း ရှိပေသေးသည်။

ဟသ်ာတမြို့ပေါ်၌ ယခင်က ကျမ်းဂန်တတ် ဆရာတော်ကြီးများသီတင်းသုံးခဲ့ရာ ထင်ရှားသော ကျောင်းတိုက်ကြီးများမှာ လယ်တီကျောင်းတိုက်၊ မိုးကောင်းကျောင်းတိုက်၊ ရေတံခွန်ကျောင်းတိုက်၊ ပတ္တမြားကျောင်းတိုက်၊ ဘုရားကြီး ကျောင်းတိုက်၊ သပြေပင် ကျောင်းတိုက်တို့အပြင် မြို့အတွင်းပိုင်း၌မူ မြစ်ကွေ့ကျောင်းတိုက်၊ ရန်ကုန်ကျောင်းတိုက်၊ ပိုးစတောကျောင်း စသည်တို့ ရှိကြသည်။ သီလရှင် စာသင်ကျောင်းတိုက်ကြီးများလည်း ရှိပေသေးသည်။

စာတတ် ကျမ်းတတ် ရဟန်း၊ သီလရှင်တို့ များပြားသော မြို့ဖြစ်သည့်ပြင် မြို့သူမြို့သားများ အနေဖြင့်လည်း စာပေပညာ၊ အနုပညာလေ့လာလိုက်စားသူများ အတော်များများရှိသည်။ ပညာရေးအတွက် အစိုးရအထက်တန်းကျောင်း လေးကျောင်းနှင့် စက်မှု အထက်တန်းကျောင်း တကျောင်းရှိသည်ကို ထောက်၍ ပညာရေးအဆင့်အတန်းကို အကဲခပ်နိုင်ပေသည်။

ဟသ်ာတမြို့သည် ဗြိတိသျှအစိုးရလက်ထက် မျူနီစီပယ်အဖွဲ့ အစောဆုံးတည်ထောင်ခဲ့သော မြို့ကြီးခုနစ်မြို့တွင်ပါဝင်၍၊ ထိုအဖွဲ့တည်ထောင်သည့်နှစ်မှာ ခရစ် ၁၈၇၄ ခုနှစ်ဖြစ်လေသည်။

ဟသ်ာတမြို့နယ်သည် ယခင် ဟသ်ာတခရိုင်၏ တောင်ဖက်ပိုင်းတွင် တန်းလျက် တည်ရှိသော မြို့နယ်သုံးနယ်အနက်၊ အလယ်မြို့နယ်ဖြစ်သည်။ မြို့နယ်တခုလုံး၏ မြေမျက်နှာပြင်သည် နုံးတင်မြေနုလွင်ပြင်ကြီးဖြစ်၍ အကျယ်အဝန်းသည် ၃၆၁ စတုရန်းမိုင်ဖြစ်ပြီးလျှင် သူကြီးတပိုင်နယ်ပေါင်း ၁၁၉ ခု ရှိလေသည်။

မြေဩဇာထက်သန်ကောင်းမွန်သော မြို့နယ်ဖြစ်သဖြင့် ဆန်စပါးကို အများဆုံးစိုက်ပျိုးကြသည်။ အချို့ဒေသများတွင် တနှစ်လျှင် နှစ်သီးစိုက်ပျိုးရန် ဆောင်ရွက်နေကြသည်။ ရေဝတီမြစ်အတွင်းရှိ မြေနုကျွန်းများနှင့် ရေကာတာ၏ အပြင်ဖက် သောင်ပြင်များတွင် ပဲအမျိုးမျိုး၊ ပြောင်း၊ ဆေး၊ ငရုတ် စသည်တို့ကို စိုက်ပျိုးသော ကိုင်းခင်းများကို အများအပြား လုပ်ကိုင်ကြသည်။ အခြားလုပ်ငန်းများမှာ အိမ်ထောင်ပရိဘောဂလုပ်ငန်း၊ သင်ဖြူးသင်ဖျာလုပ်ငန်း စသည်တို့ ဖြစ်၍ ချည်ထည်များရက်လုပ်သော စက်ရက်ကန်းရုံများလည်း ရှိသည်။ မြို့၏အနီးအနားတဝိုက်တွင် ဆီစက်များ၊ အုန်းဆီစက်များ ရှိသည်။

ဝင်ငွေကောင်းသော လုပ်ငန်းအမျိုးမျိုးကို လုပ်ကိုင်နိုင်ကြ၍ ဟသ်ာတမြို့နယ်တွင် လူဦးရေ ထူထပ်သည်။ ၁၉၇၂ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ မြို့နယ်လူဦးရေသည် ၃၂၈,၀၀၀ ယောက် ဖြစ်လေသည်။

**ဟင်းသီးဟင်းရွက်။** ။ရှေးခေတ်လူများကပင် ဆန်၊ သို့မဟုတ် ဂျုံကိုသာ စားနေခြင်းဖြင့် လူကျန်းမာနိုင်မည် မဟုတ်ကြောင်းကို သိခဲ့ကြလေသည်။ သိပ္ပံပညာ ထွန်းကားလာသောအခါတွင် ဆန်၊ သို့မဟုတ် ဂျုံသည် ပရိုတင်း၊ သို့မဟုတ် စတာ့(ကစီ)၊ သို့မဟုတ် သကြား ကြွယ်ဝသည်ဟု ဆိုသည်။ သို့သော် ဆန်၊ သို့မဟုတ် ဂျုံချည်းသာ စားနေမည်ဆိုလျှင် သွေးအားနည်းခြင်း၊ သွားနှင့် အရိုးမကောင်းခြင်းများ ဖြစ်နိုင်ပြီးလျှင် နာမကျန်း ဖြစ်တတ်သည်ကို တွေ့ရလေသည်။

ရှေးလူများသည် ဟင်းသီးဟင်းရွက် အရိုင်းများကို စားခြင်းဖြင့် ကျန်းမာနိုင်ကြောင်းကို အကြမ်းအားဖြင့်သာ သိခဲ့ကြလေသည်။ ထိုသို့ သိခဲ့ကြသည့်အတိုင်း ထိုအပင်

ရိုင်း များကို စိုက်ပျိုးလာခဲ့ကြသဖြင့် ကျန်းမာရေးနှင့် ပြည့်စုံ စေရုံသာမက ပို၍ အရသာရှိအောင် ဖန်တီးမွေးရာသို့လည်း ရောက်စေလေသည်။ ယခုအခါတွင် ကျွန်ုပ်တို့၏ ခန္ဓာကိုယ်က မည်သည့်အစာများလိုသည် ဆိုသည်ကို ရှေးလူများ သိခဲ့ကြသည်ထက် ပိုမို၍ သိလာကြလေပြီ။ ဟင်းသီးဟင်းရွက်များသည် လူ၏ခန္ဓာကိုယ်အတွက် အရေးကြီးသည်မှာ ယင်းတို့၌ ဗီတာမင်များနှင့် တွင်းထွက်များ ပါရှိခြင်းကြောင့် ဖြစ်သည်။ ယင်းတို့၌ အထူးသဖြင့် ဗီတာမင် အေ၊ သိုင်ယာမင်း၊ နီယာမင်းနှင့် ဗီတာမင်စီတို့ ကဲ့သို့သော ဗီတာမင်များ ကြွယ်ဝကြလေသည်။ ထို့ပြင် ယင်းတို့၌ လိုအပ်သည့် တွင်းထွက်များဖြစ်သော ကယ်လဆီယမ်၊ ဖော့စဖောရပ်နှင့် သံ စသည်တို့ကဲ့သို့သော တွင်းထွက်များလည်း ပါရှိသေးသည်။ ထို့မျှမကသေး ယင်းတို့က အစာကို ကြေစေရာတွင် အထောက်အကူပြု၍ ပေးကြလေသေးသည်။ ထိုသို့ ဟင်းသီးဟင်းရွက်များသည် ခန္ဓာကိုယ် အတွက် လိုအပ်သော ပစ္စည်းများကို ပေးစွမ်းနိုင်သော်လည်း စွမ်းအင် တန်ဖိုးကိုကား မြောက်မြားစွာ မပေးနိုင်ချေ။ ပဲတောင့်ကဲ့သို့သော ဟင်းသီး ဟင်းရွက်များမှ အပ ကျန် ဟင်းသီးဟင်းရွက်များတွင် ပရိုတင်းဓာတ် များများမပါဝင်ကြချေ။

ဟင်းသီးဟင်းရွက် အမျိုးမျိုးရှိရာ အချို့ကို အစေ့စားရသည်။ပုံစံမှာ ပဲလုံးဖြစ်သည်။ အချို့ကို အရွက်စားရသည်။ ပုံစံမှာ ဆလပ်ဖြစ်၏။ အချို့ကိုမူ ပင်စည်ကို စားရလေသည်။ ပုံစံမှာ ကညွတ်ဖြစ်သည်။

ဂေါ်ဘီပန်း၊ သို့မဟုတ် ပန်းမုန်လာ ဆိုသည်မှာ ဂေါ်ဘီထုပ်၊ သို့မဟုတ် မုန်လာထုပ် မျိုးရင်းဝင်တခုမှ ပွင့်လာသော ပန်းပွင့်တမျိုးဖြစ်သည်။ခရမ်းချဉ်သီးလည်း ဟင်းသီးဟင်းရွက်တွင် အပါအဝင် ဖြစ်သည်။ ကြက်သွန်ဥကြီး (ကြက်သွန်နီ) နှင့် ကြက်သွန်ဖြူတို့သည်လည်း မြန်မာများ ကြိုက်နှစ်သက်သော ဟင်းသီးဟင်းရွက်တွင် ပါဝင်လေသည်။ ခရမ်း၊ ကန်စွန်း၊ ချဉ်ပေါင်၊ ဗူး၊ နံနံ၊ တရုပ်နံနံ စသည့် ဟင်းသီးဟင်းရွက်များလည်း အမြောက်အမြား ရှိသေးသည်။

တိုးတက်နေသော ယာသမားများသည် ဟင်းသီးဟင်းရွက်များ အခါမလပ် ထွက်စေရန် ကြိုတင်ပြင်ဆင်မှု မှန်သမျှကို ပြုလုပ်ထားကြလေသည်။ ထင်ရှားစေရန် ဖော်ပြရလျှင် မိုးခေါင်သောအခါမျိုးတွင် ရေမရရှိမည် စိုးသဖြင့် ကန်ကြီးများမှ ရေကို ပိုက်များဖြင့် လိုလျှင် လိုသလို သွယ်ယူနိုင်ရန် ဖန်တီးထားကြသည်။ ပိုးဖျက်မည်ကို စိုးသဖြင့် လိုအပ်သော ပိုးသတ်ဆေးများကိုလည်း ထားရှိကြသည်။

ထို့မျှမကသေး အမေရိကန် ပြည်ထောင်စုမှ ရက္ခဗေဒ ပါမောက္ခတဦးဖြစ်သူ ဝီလျံ အက်(ဖ) ဂါးရစ် ဆိုသူက ဟင်းသီး ဟင်းရွက်ပင်များကို ရေထဲတွင် စိုက်ပျိုးကြည့်ခဲ့ရာ အောင်မြင်လေသည်။ လွန်ခဲ့သည့်နှစ်ပေါင်း ခုနစ်ဆယ်ခန့်ကပင် အချို့ ပုဂ္ဂိုလ်များက ရေထဲတွင် လိုအပ်သည့် ဓာတ်ပစ္စည်းများသာရှိလျှင် အပင်များ ပေါက်ရောက်နိုင်မည် ဆိုသည်ကို သိခဲ့ကြသော်လည်း စမ်းသပ်ခြင်းကား မပြုလုပ်ခဲ့ကြချေ။ ထို ပါမောက္ခကြီးကသာ လက်တွေ့ စမ်းသပ်ကြည့်ရာ အောင်မြင်သည်ကို တွေ့ခဲ့လေသည်။ သူ စိုက်ပျိုးလိုသော အပင်တပင်ကို လေမရှိသည့် ဗူးတဗူး အတွင်း၌ မီးရှို့ပြီးလျှင် ဖြစ်ပေါ်လာသော ပြာများကို ဓာတ်ခွဲ၍ကြည့်ခြင်းဖြင့် ပါဝင်သည့် ဓာတ်ပစ္စည်းအမျိုးမျိုး၏ အချိုးကို သိနိုင်ခဲ့လေသည်။

မကြာမီအတွင်းတွင် ကေ တရာနှင့် ညီမျှသော ကန်တကန်က တောက်ပသည့် အနီရောင်ရှိသော ခရမ်းချဉ်သီးပေါင်း ၁,၂၂၆ ပေါင် ထွက်စေသည်ကို တွေ့ခဲ့လေသည်။ အခြား ဟင်းသီး ဟင်းရွက်များကို စမ်းသပ်ကြည့်သော အခါတွင်လည်း အလားတူ အောင်မြင်မှုများ ရရှိသည်ကို တွေ့ခဲ့လေသည်။

ရေထဲ၌ စိုက်ပျိုးခြင်းသည် မပင်ပန်းချေ။ ရေကန်ကို သံဆန်ခါတခုဖြင့် ဖုံးပြီးသောအခါတွင် ထို သံဆန်ကာပေါ်တွင် လွှစာ၊ သို့မဟုတ် အခြားသင့်လျော်သည့် ပစ္စည်းတမျိုးမျိုး ဖြူးထားပေးပြီးလျှင် မျိုးစေ့များကို ကြဲပေးရလေသည်။ မျိုးစေ့များမှ အပင်များ ပေါက်လာ၍ ကြီးပြင်းလာသော အခါတွင် ယင်းတို့၏ အမြစ်များသည် အောက်ဖက်ရှိ ရေထဲတိုးဝင်သွားကြပြီးလျှင် လိုအပ်သည့် ဓာတ်ပစ္စည်းများကို ရနိုင်ပေသည်။ ဆောင်းရာသီ၌ ရေများ အေးနေလျှင် လျှပ်စစ်ဓာတ်ဖြင့် လိုအပ်သည့် အပူချိန်သို့ မြင့်လာသည်အထိ ရေကို ဖန်တီးပေးနိုင်လေသည်။ ထိုနည်းဖြင့် စိုက်ပျိုးလျှင် မြေကြီးကို တူးဆွပေးရန် မလိုသည့် အပြင် ပေါင်းပင်များကို ရှင်းလင်း ပစ်ရန်လည်း မလိုချေ။ဟင်းသီးဟင်းရွက် အထွက်မှာလည်း သုံးဆမှငါးဆ အထိ ပို၍ ထွက်နိုင်သည်ကို တွေ့ခဲ့လေသည်။

**ဟောင်ကောင်ကျွန်း ။** ။ ဟောင်ကောင်ကျွန်းသည် တရုပ်ပြည်တောင်ပိုင်း ကန်တုံမြစ်ဝအနီးရှိ ဗြိတိသျှ ကိုလိုနီ တခု ဖြစ်သည်။ ကျွန်း၏ အနောက် မြောက်ထောင့်တွင် ဝိတိုရိယမြို့၊ သို့မဟုတ် ဟောင်ကောင်မြို့ တည်ရှိ၏။ မြို့၏ လမ်းများမှာ ဝိတိုရိယ တောင်ထိပ်ကို ဝိုင်းရံရစ်ပတ်၍ တထစ်ပြီး တထစ် တက်သွား၏။ တောင်မှာ ၁,၈၂၃ ပေ မြင့်လျက် တောင်ထိပ်မှ ကြည့်လျှင် ကျွန်းကို ပတ်လည် ဝိုင်းရံ၍ ဖောက်လုပ်ထားသော ၂၂ မိုင် ရှည်လျားသည့် ကားလမ်းကြီးကို မြင်နိုင်ပေသည်။



ဟောင်ကောင်ကျွန်းတွင် အကွက်ချ၍ လှပစွာတည်ဆောက်ထားသော မိုးမျှော်အဆောက်အအုံများကို တွေ့ရသည်။

ဟောင်ကောင်ကျွန်းသည် ၁၁ မိုင်ခန့် ရှည်လျား၍ အကျယ်ဆုံး နေရာတွင် ငါးမိုင်ခန့်ရှိရာ ကုန်းမကြီးပေါ်တွင် ရှိသော "ကောင်းလွန်း" ကျွန်းဆွယ် နယ်မြေ အပါအဝင် ၄၀၃.၇ စတုရန်းမိုင် ရှိ၏။ လူဦးရေမှာ ခန့်မှန်းခြေ ၄,၀၀,၀၀၀ ခန့်(၁၉၇၂)ရှိရာ ဗြိတိသျှလူမျိုး အနည်းငယ်သာ ပါဝင်၍ တရုပ်လူမျိုးက များလေသည်။ ဤကျွန်းကို ၁၈၄၁ ခုနှစ်တွင် တရုပ်အစိုးရ လက်မှ ဂရိတ်ဗြိတိန်က ရလိုက်၍ "ကောင်းလွန်း" ကျွန်းဆွယ်ကို ၁၈၆၀ ပြည့်နှစ်တွင် ဟောင်ကောင်သို့ ပေါင်းစပ်လိုက်၏။ ဟောင်ကောင်မြို့သည် တရုပ်ပင်လယ်ဖက်တွင် ဗြိတိသျှရေတပ် စခန်းချရာ ဌာနချုပ်ဖြစ်လေသည်။

မြို့ပေါ်ရှိ လမ်းမကြီးများသည် အနောက်နိုင်ငံမှာကဲ့သို့ အကွက်ချ၍ လှပစွာ ဆောက်လုပ်ထားသောကြောင့် အလွန် သာယာသော မြို့တမြို့ ဖြစ်၏။ အလွန် ခိုင်ခံ့ကောင်းမွန်သော သင်္ဘောဆိပ်လည်း ရှိလေသည်။ သို့သော် တခါတရံ လေနီကြမ်းများဒဏ်ကို ခံရတတ်၏။ ဟောင်ကောင် ကျွန်းပေါ်တွင် သင်္ဘော တည်ဆောက်ခြင်း၊ ခြည်ထည်ရက်လုပ်ခြင်း၊ ကြက်ပေါင်စေး ဖိနပ်များ ပြုလုပ်ခြင်း၊ ကြိုးကျစ်ခြင်း၊ သကြားချက်ခြင်း၊ ကျောက်ခွဲခြင်း စသည့်လုပ်ငန်းများ ရှိသည်။ ဟောင်ကောင်သင်္ဘောဆိပ်မှာ ကမ္ဘာပေါ်တွင် အကြီးဆုံးသော သင်္ဘောဆိပ်မြို့များထဲတွင် အပါအဝင် ဖြစ်ပြီးလျှင် တရုပ်နိုင်ငံ တောင်ပိုင်းနယ်၌ ကုန်စည်အမျိုးမျိုး သွင်းရာ ထုတ်ရာ နေရာဖြစ်၍ နိုင်ငံအသီးအသီးမှ သင်္ဘောကြီးများ ဝင်ထွက်သွားလာလျက် ရှိလေသည်။

ဟောင်ကောင်ကျွန်းကို ဘုရင်ခံတဦးက အုပ်ချုပ်၍ အမှုဆောင်ကောင်စီနှင့် ဥပဒေပြု အဖွဲ့တဖွဲ့လည်း ထားရှိသည်။ ပညာရေးစံနစ်မှာမသင်မနေရ မဟုတ်ချေ။ ဟောင်ကောင်ကျွန်းတွင် အစိုးရကျောင်း၊ အစိုးရ အထောက်အပံ့ခံ ကျောင်းနှင့် အလွတ်ပညာသင်ကျောင်း ဟူ၍ သုံးမျိုးရှိသည်။ စာသင်ရာတွင် အင်္ဂလိပ်၊ သို့မဟုတ် တရုပ်ဘာသာဖြင့် သင်ကြားပေးသည်။ ၁၉၇၁ ခုနှစ်တွင် စာသင်ကျောင်းပေါင်း ၂,၈၆၁ ရှိရာ ကျောင်းသူ ကျောင်း



အထပ်ပေါင်း ၅၀ ကျော်ရှိ မိုးမျှော်အဆောက်အအုံကြီးတခုနှင့် ပန်းသင့်လျက် ရွက်လွှင့်သွားနေသော တင်္ကလေ့တစင်း၏ရှုခင်း



ဟောင်ကောင်ကျွန်းနှင့်ကောင်းလွန်းကို ဆက်သွယ်ထားသော ရေအောက်ဥမင်လိုဏ်ခေါင်း လမ်းမကြီး

သားပေါင်း ၁,၂၆၇,၆၆၀ ရှိသည်။ ၁၉၁၁ ခုနှစ်မှ စဖွင့်သည့် ဟောင်ကောင် တက္ကသိုလ်၌ ဆေး၊ အင်ဂျင်နီယာ၊ ဝိသုကာ ပညာ၊ သိပ္ပံနှင့် ဝိဇ္ဇာ မဟာဌာနများ ရှိသည်။ ဆရာ အတတ်သင် ကျောင်းလည်းရှိသည်။ တရုပ်တက္ကသိုလ် ကျောင်းကိုလည်း ၁၉၆၃ ခုနှစ်မှ စတင် ဖွင့်လှစ်ခဲ့သည်။

ဟောင်ကောင်မြို့သည် စစ်တပ်မြို့ကြီး တမြို့ ဖြစ်သည့် အတိုင်း ဝိတိုရိယတောင်ရှိ ကျောက်ကမ်းပါး၊ ကျောက် နံရံများတွင် အမြောက်ကြီးများ တပ်ဆင် ထားရှိ၏။ ပင်လယ်ကမ်းခြေရှိ အကွေ့အကောက် နေရာတိုင်းလိုလို၌ပင် လှေများနေထိုင်သည့် လှေအိမ်နှင့် ဖောင်များရှိရာ၊ ထို လှေ အိမ်များတွင် တရုပ်လူမျိုး တသိန်းခန့် နေထိုင်သည်။

ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၁ ခုနှစ်မှ ၁၉၄၅ ခုနှစ် အထိ ထိုကျွန်းကို ဂျပန်က သိမ်းပိုက်ထားခဲ့ရာ ၁၉၄၅ ခုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့တွင်မှ ဂျပန်တို့သည် ဗြိတိသျှ စစ်တပ်များထံ လက်နက်ချအပ်ခဲ့လေသည်။

ဟောင်ကောင်ကျွန်းကို တရုပ်နိုင်ငံ ကုန်းမကြီးပေါ်ရှိ ကောင်းလွန်းနှင့် ရေအောက်မှ ဆက်သွယ်ထားသော တမိုင်ရှည်လျားသည့် ဥမင်လိုဏ်ခေါင်းလမ်းကြီးကို ၁၉၇၂ ခုနှစ် ဩဂုတ်လ ၂ ရက်နေ့တွင် ဖွင့်လှစ်လိုက်၏။ ယင်းသည် အာရှတိုက်တွင် အကြီးဆုံးသော ဥမင်လိုဏ်ခေါင်းလမ်း ဖြစ်၍ ပေါင်ပေါင်း ၂၄,၀၀၀,၀၀၀ အကုန်အကျခံကာ သုံးနှစ်ကျော် ဖောက်လုပ်ခဲ့ရသည်။

**ဟိုင်ဒြာကောင်။** ။ရေချိုကန်များတွင် ဟိုင်ဒြာကောင် များကို တွေ့ရလေ့ရှိသည်။ ဆဲမြောက်မြားစွာ ရှိသော တိရစ္ဆာန်များ အနက် ဟိုင်ဒြာကောင်သည် အရှင်းဆုံး တိရစ္ဆာန်တမျိုး ဖြစ်လေသည်။ အပ်ချုပ်စက်တွင် အသုံး ပြုလေ့ရှိကြသော ချည်များတွင် ချည်လုံးကြီးကြီး အရွယ် ရှိသော ကိုယ်လုံးကိုယ်ထည်ရှိပြီးလျှင် တလက်မ၏ လေးပုံ တပုံနှင့် လက်မဝက်ခန့်ကြားအထိ ရှည်လေသည်။ ခန္ဓာ ကိုယ်၏ တဖက်စွန်းတွင် တုတ်များ၊ ကျောက်ခဲများနှင့် သစ်ရွက်များတွင် တွယ်ကပ်၍ နေနိုင်သော ခြေထောက်ရှိ ပြီးလျှင် အခြားတဖက်တွင် ပါးစပ်ရှိလေသည်။ ပါးစပ်၏ ပတ်ဝန်းကျင်တွင် စမ်းလက်ဖမ်းလက်ခေါ် အမွေးကလေး များ ရှိသည်။ ထိုစမ်းလက် ဖမ်းလက်များသည် အရေ အတွက်အားဖြင့် ငါးခုနှင့် ၁၂ ခုကြားတွင် ရှိလေသည်။

မိုက်ကရိုစကုပ်ဖြင့် ဟိုင်ဒြာကောင်ကိုကြည့်လျှင် ဟိုင်ဒြာ ကောင်သည် ယင်း၏ပုံသဏ္ဌာန်ကို အမြဲတစေ ပြောင်းလဲ စေသည်ကို တွေ့ရလေသည်။ တခါတရံတွင် ဟိုင်ဒြာကောင် သည် ယင်း၏ စမ်းလက် ဖမ်းလက်များကို ဆန့်ထုတ်လိုက် သဖြင့် ချည်မျှင်သေးကလေးများနှင့် တူသည်။ တခါတရံ တွင်မူ ယင်း၏ စမ်းလက်ဖမ်းလက်များကို ဆွဲယူထားသဖြင့် ဟိုင်ဒြာကောင်သည် ဥကလေး တလုံးနှင့် တူပြီးလျှင် အစွန်းတွင် အဖုကလေးများကို တွေ့ရသည်။ ဟိုင်ဒြာ ကောင်သည် ယင်း၏ ခြေထောက်ကို ကျုံ့ယူခြင်းဖြင့် တ ဖြည်းဖြည်း ရွေ့နိုင်သည်။ တခါတရံတွင်မူ ရေ၏မျက်နှာပြင် တွင် တီကောင်မျိုး ရွေ့ရှားသကဲ့သို့ ရွေ့ရှား၍ သွားသည်။

ဟိုင်ဒြာကောင်သည် ရေသတ္တဝါကလေးများကို မှီဝဲ စားသောက်ကာ နေထိုင်လေသည်။ ဟိုင်ဒြာကောင်၏ စမ်းလက် ဖမ်းလက်များ၌ အဆိပ် ဆဲကလေးများရှိရာ ထိုဆဲကလေးများတွင် မျှားထစ်ကလေးများနှင့် အဆိပ်မျှင် ကလေးများရှိသည်။ ထို အဆိပ်မျှင်ကလေးများကို မှိန်း များအား ပစ်လွှတ်သကဲ့သို့ ရေသတ္တဝါကလေးများရှိရာသို့ ရောက်စေပြီးလျှင် ထိုရေသတ္တဝါကလေးများကို အဆိပ် မှန်၍ မေ့သွားစေသည်။ ထိုသို့ မေ့သွားသော ရေသတ္တဝါ ကလေးများကို စမ်းလက်ဖမ်းလက်များဖြင့် ပါးစပ်အတွင်း သို့ သယ်ဆောင်ယူလေသည်။

ဟိုင်ဒြာကောင်များသည် သားဖွားရာတွင် အဖူး ကလေးများ ထွက်ခြင်းဖြင့် မွေးဖွားလေ့ ရှိကြသည်။ အမိ ဖြစ်သော ဟိုင်ဒြာကောင်၏ခန္ဓာကိုယ်ပေါ်တွင်အဖုကလေး နှင့် တူသော အဖူးကလေးများ ထွက်လာသည်။ ထိုအဖူး ကလေး ကြီးထွားလာသော အခါတွင် ယင်း၌လည်း စမ်းလက် ဖမ်းလက်များ ပေါ်ပေါက်လာပြီးလျှင် ကြီးပြင်း လာသော အခါတွင် ဟိုင်ဒြာကောင် အသစ်အဖြစ်နှင့် ခွဲထွက်ကာ သီးခြားနေထိုင်လေသည်။ သန္ဓေအောင်ပြီး ဥ များမှလည်း ဟိုင်ဒြာကောင်ကလေးများ ပေါက်ဖွားတတ် သေးသည်။ ထိုဥများသည် ယာယီလိင်ဩဂင်အတွင်း၌ တိုးပွား၍လာပြီးနောက် ဟိုင်ဒြာ ကောင်ကလေးများ ပေါက်ဖွားလာသည်။ ထိုပြင် ဟိုင်ဒြာကောင်ကို အပိုင်း ပိုင်း ဖြတ်လိုက်လျှင် အစိတ်အပိုင်းတိုင်းမှ ဟိုင်ဒြာကောင် အသစ်များ ဖြစ်ပေါ်လာလေ့ ရှိသည်။

များသောအားဖြင့် ကမ္ဘာ့အနှံ့အပြားတွင် ရှိတတ်



ရေချိုတွင်သာတွေ့ရလေ့ရှိသည့် ဟိုင်ဒြာကောင်များကို အဆပေါင်းများစွာ ပုံကြီးချဲ့၍ပြထားသည်။

သော ဟိုင်ဒြာမျိုးစိတ် အနည်းငယ်သည် များများရှိလေ့မရှိသည့်အပြင် ယင်းတို့ကို ရေချိုတွင်သာ တွေ့ရလေ့ရှိသည်။

ဟိုင်ဒြာသည် ဆီဖလင်တာရေးတီမျိုးစုတွင် ဟိုင်ဒြိုဒီမျိုးရင်း၌ ပါဝင်လေသည်။ အတွေ့ရ ပို၍များသော ဟိုင်ဒြာ မျိုးစိတ်နှစ်ခုမှာ ဟိုင်ဒြာ ဖတ်စကာ နှင့် ဟိုဒြာ ဗစ်ရစ်ဒစ် အစိမ်းရောင်များ ဖြစ်ကြလေသည်။

ဂရိလူမျိုးတို့၏ ကိုးကွယ်မှုဗေဒအရ ဆိုလျှင် ဟိုင်ဒြာကောင်သည် ဦးခေါင်းခုနစ်လုံးရှိသော အလွန်ကြီးမားသည့် သတ္တဝါကြီး ဖြစ်သည်။ အကယ်၍ ဦးခေါင်းတလုံးကို ဖြတ်လိုက်လျှင် ထိုနေရာ၌ ချက်ခြင်း ဦးခေါင်းနှစ်လုံး ပေါ်လာလေသည်။ ယင်း၏ အလယ်ဦးခေါင်းသည် မသေနိုင်ချေ။ ဟားကျူးလီးသည် အိုင်အိုလော၏ အကူအညီဖြင့် ထိုသတ္တဝါကြီးကို သတ်ပစ်လေသည်။ ဟားကျူးလီးက ဦးခေါင်းတလုံးကို ဖြတ်လိုက်တိုင်းတွင် အိုင်အိုလောက လည်ပင်းကို မီးနှင့်ရှို့လိုက်လေသည်။ ယင်းတို့ နှစ်ဦးသည် မသေနိုင်သော ဦးခေါင်းကို ကျောက်တုံးတလုံးအောက်တွင် မြှုပ်နှံလိုက်ကြလေသည်။ (ဟားကျူးလီး — လည်းရှု။)

**ဟိုင်လေဆီလာဆီး ဘုရင်** (ခရစ် ၁၈၉၁ ဖွား)။ ။ ဟိုင်လေ ဆီလာဆီးဘွဲ့ခံ အီသီယိုးပီးယား (အက်ဗီ ဆီးနီးယား) ဘုရင်တဖာရီ မကုန်နင်သည် ၁၈၉၁ ခုနှစ် ဇူလိုင်လ ၁၇ ရက်နေ့တွင် ဖွားမြင်သည်။ ရှိအာဘုရင်ကြီး ဟိုင်လေမိလီကော့၏ မြေးတော်ဖြစ်၍ ခမည်းတော်မှာ ထင်ရှားသော စစ်သူရဲကောင်းတဦး ဖြစ်သည်။ ဟာရာမြို့ရှိ ပြင်သစ်သာသနာပြု ဆရာတို့ထံတွင် ပညာ သင်ကြားခဲ့ဘူးသည်။ ၁၉၂၁ ခုနှစ်တွင် မင်းသားကြီး မိုက်ခယ်၏ မြေးတော် ဝိုင်ဇီရိုမာနင်နှင့် လက်ထပ်ခဲ့၍ ၁၉၁၆ ခုနှစ် ဇူလိုင်လ ၁၇ ရက်နေ့တွင် သားဦးရရှိလေသည်။

ထိုအချိန်က ဘုရင်ဖြစ်သော လက်ဂျယာစုကို ၁၉၁၆ ခုနှစ် စက်တင်ဘာလ ၂၇ ရက်နေ့တွင် ထီးနန်းမှ ချ၍ အရီးတော် ဇောဒိတူက ကေရီဘုရင်မအဖြစ် ထီးနန်းကို သိမ်းပိုက်လိုက်သောအခါ ဘုရင်မကြီး၏ ဝမ်းကွဲ မောင်တော်သော တဖာရီအား နန်းလျာရင်ခွင်ပိုက် ဘုရင်အဖြစ် ခန့်ထားခဲ့လေသည်။

ထိုပြင် နန်းကျဘုရင် လက်ဂျာယာစု၏ ခမည်းတော် မင်းသားကြီး မိုက်ခယ်သည် ဘုရင်မကို ပုန်ကန်ထကြွလေရာ ထိုနှစ် အောက်တိုဘာလ ၂၇ ရက်နေ့တွင် လုံးဝနှိမ်နင်းခြင်းခံရလေသည်။ ထိုအခါ သားတော်ဖြစ်သူ လက်ဂျာယာစုသည်ဖရိုဖရဲဖြစ်နေသော ခမည်းတော်၏ တပ်များကို စုရုံး၍အင်အားဖြည့်တင်းပြီးလျှင် ပြန်လည်ထကြွရန် ကြိုးစားခဲ့သေး၏။ သို့ရာတွင် သူ၏တပ်များသည် ၁၉၁၇ ခုနှစ် ဒီဇင်ဘာလတွင် မဂ္ဂဒါလာ အရပ်၌ လက်နက်ချလိုက်ကြရလေသည်။

တဖာရီသည် ၁၉၂၃ ခုနှစ်တွင် ကမ္ဘာ့နိုင်ငံပေါင်းချုပ် အသင်းကြီးသို့ အီသီယိုးပီးယား နိုင်ငံ ပါဝင်နိုင်ရန် ဆောင်ရွက် အောင်မြင်ခဲ့သည်။ ၁၉၂၄ ခုနှစ်တွင် ဥရောပ တိုက်ရှိ မြို့ကြီးများစွာသို့ လှည့်လည် သွားလာခဲ့သည်။ သူသည် လုံ့လဝီရိယ ရှိ၍ ဖျတ်လတ်သည်။ ပညာ ဗဟုသုတ နှင့်လည်း ပြည့်စုံ၍ သူ၏ နိုင်ငံကို ခေတ်မီလာစေရန် ပြုပြင်လိုသော ဆန္ဒများစွာ ရှိခဲ့သည်။ အရီးတော် ဧကရီ ဘုရင်မကြီးအား ကျော်လွန်၍ တစုံတရာ ထိရောက်စွာ မဆောင်ရွက်နိုင်သည်ကို သိသဖြင့် မိမိ၏ ဩဇာအာဏာ များ တိုးတက်အောင် ပြုလုပ်ကာ ၁၉၂၈ ခုနှစ် နိုဝင်ဘာလ ၇ ရက်နေ့တွင် သီးခြား ဘုရင်တပါးအဖြစ် ကျေညာခဲ့လေ သည်။ ဧကရီဘုရင်မ ဇောဒိဘူ နတ်ရွာစံသောအခါ ၁၉၃၀ ပြည့်နှစ် နိုဝင်ဘာလ ၂ ရက်နေ့တွင် ပဋမ ဟိုင်လေဆီလာ ဆီး ဟူသောဘွဲ့ဖြင့် အရီးတော်၏ အရိုက်အရာကို ဆက်ခံ စိုးစံခဲ့လေသည်။ ဟိုင်လေသည် မိမိ၏ နိုင်ငံကို ခေတ်မှီ တိုးတက်သော နိုင်ငံတခုအဖြစ်သို့ ရောက်ရှိစေရန် ယခင်က စီစဉ်လာခဲ့သော လုပ်ငန်းများကို ဆက်လက်လုပ်ကိုင်ခဲ့ လေသည်။ ကျွန်စံနစ်နှင့် ကံကျွေးစံနစ်များကို ၁၉၄၂ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့ထုတ် အမိန့်ဖြင့် လုံးဝ ပယ်ဖျက်လိုက် သည်။ သူသည် ပြည်တွင်း တိုးတက်မှုများကိုသာမက နိုင်ငံ ခြားတို့နှင့် ဆက်သွယ်ရေးတွင်လည်း ကောင်းစွာပင် အထ မြောက် အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့သည်။

ဣတလီနိုင်ငံသည် ၁၉၂၈ ခုနှစ်က သဘောတူညီခဲ့သော အနုညာတ ဆုံးဖြတ်ချက်များသာမက၊ ကမ္ဘာ့နိုင်ငံပေါင်း ချုပ်အသင်းကြီးက တားမြစ်ချက်များကို လျစ်လျူရှုလျက် ၁၉၃၅ ခုနှစ် အောက်တိုဘာလ ၃ ရက်နေ့တွင် အီသီယိုးပီး ယား နိုင်ငံကို တိုက်ခိုက်သောအခါ ဧကရာဇ် ဟိုင်လေသည် ခုနစ်လတိတိ တင်းမာစွာ ခုခံကာကွယ်ခဲ့သည်။ သို့သော် အင်အားချင်းမမျှသဖြင့် ၁၉၃၆ ခုနှစ် မေလ ၁ ရက်နေ့ တွင် အဒစ်အဗားဗား မြို့တော်မှ ထွက်ပြေးခဲ့ရလေသည်။ ဣတာလျံ တို့သည် အီသီယိုးပီးယားနိုင်ငံကို သိမ်းပိုက်လိုက် ပြီးနောက် ဗစ်တာ အီမန်နျူယယ်အား ဧကရာဇ်ဘုရင် အဖြစ်ကျေညာကာ ငါးနှစ်တိုင်တိုင် စိုးမိုးခဲ့ကြလေသည်။

စစ်ပြေးဘုရင် ဟိုင်လေသည် ဥရောပတိုက်တွင် ဣတာ လျံတို့က ကျူးကျော်စော်ကား တိုက်ခိုက်ခဲ့သည်ကို ကူညီ တွန်းလှန်ရန်အတွက် အကူအညီ တောင်းဆိုခဲ့သော်လည်း မည်သို့မျှ အကြောင်းမထူးပဲ ရှိနေခဲ့သဖြင့် ဗြိတိသျှတို့ထံ ခိုဝင်ကာ နေထိုင်ခဲ့ရလေသည်။ ဗြိတိသျှ စစ်တပ်များက အီသီယိုးပီးယား နိုင်ငံကို ဣတာလျံတို့လက်မှ ပြန်လည် တိုက်ခိုက် သိမ်းယူပြီးနောက် စစ်ပြေးဘုရင် ဟိုင်လေဆီလာ ဆီးအား အပ်နှင်းသဖြင့် ဟိုင်လေသည် ၁၉၄၁ ခုနှစ် မေလ ၅ ရက်နေ့တွင် မိမိနိုင်ငံသို့ ပြန်လည်ရောက်ရှိသွားလေသည်။



အီသီယိုးပီးယားနိုင်ငံ ဟိုင်လေဆီလာဆီးဘုရင်

ဟိုင်လေဆီလာဆီးသည် ၁၉၄၅ ခုနှစ် ဖေဖွာရီလတွင် ကိုင်ရိုမြို့၌ အမေရိကန် သမတ ရူးဇဗဲ့၊ အင်္ဂလိပ်ဝန်ကြီးချုပ် ချာချီတို့နှင့် တွေ့ဆုံဆွေးနွေးခဲ့၏။ ၁၉၄၆ ခုနှစ်အတွင်းက ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်၌ ကျင်းပခဲ့သော ကမ္ဘာ့ ငြိမ်း ချမ်းရေး ညီလာခံသို့ အီသီယိုးပီးယား ကိုယ်စားလှယ် အဖွဲ့ကို စေလွှတ်ခဲ့သည်။ ထိုညီလာခံတွင် ဣတလီပိုင် ကိုလိုနီနယ်များဖြစ်သော အီရစ်ထရီးယားနှင့် ဆိုမာလီလန် ပြည်နယ်တို့ကို အီသီယိုးပီးယားသို့ ပြန်လည်ပေးအပ်ရန် တောင်းဆိုခဲ့လေသည်။ ထိုတောင်းဆိုချက်ကို ၁၉၄၇ ခုနှစ် က လန်ဒန်မြို့၌ ပြုလုပ်ခဲ့သော နိုင်ငံခြားရေးဝန်ကြီးလေးဦး အစည်းအဝေးတွင်လည်း ထပ်မံတင်ပြခဲ့လေသည်။

၁၉၄၉ ခုနှစ်က ဧကရာဇ် ဟိုင်လေဆီလာဆီးသည် သူ၏ မွေးနေ့တွင် အဒစ်အဗားဗားရှိ ကျောင်းများ၌ ဆုပေးပွဲ များ ကျင်းပခဲ့သည်။ စီးပွားရေးနှင့် လယ်ယာစိုက်ပျိုးရေး ပြပွဲပြိုင်ပွဲကြီးများကိုလည်း ပြန်လည်ဖွင့်လှစ်ခဲ့သည်။ နိုင်ငံ အတွင်း ရေနံတွင်းများ တူးဖော်ရေးနှင့် အခြားကိစ္စများ အတွက် ခရီးထွက်ခဲ့သည်။ အမေရိကန် ပြည်ထောင်စုနိုင်ငံ အီလီနွိုင်ပြည်နယ် ဝှီတန်ကောလိပ်ကျောင်းမှ သူ့အား ဂုဏ်ထူးဆောင် ဥပဒေ ပါရဂူဘွဲ့ဘူးကို အပ်နှင်းခဲ့လေသည်။ ဧကရာဇ် ဟိုင်လေဆီလာဆီးသည် ၁၉၅၉ ခုနှစ်တွင် မြန်မာ နိုင်ငံသို့ လာရောက် လည်ပတ်ခဲ့ဘူးလေသည်။

ဟိုင်း။ ။ဆင် — ရှူ။

ဟိုင်းကြီးကျွန်း။ ။ဟိုင်းကြီးကျွန်းသည်ဧရာဝတီတိုင်း

ပေုတောမြို့နယ်၌ ပုသိမ်မြို့၏တောင်ဖက် မိုင် ၆၀ ခန့်အကွာ ပင်လယ်ဝတွင် တည်ရှိသည်။ ကျွန်း၏အနေအထားသည် သုံးထောင့်ပုံ၊သို့မဟုတ် ဗထက်ချိုင့် ပုံသဏ္ဍာန် ရှိသည်။ လခြမ်းပုံသဏ္ဍာန် အချိုင့်သည် အနေ့ာက်မြောက်ဖက်၌ တည်ရှိသည်။လှေနှင့်သင်္ဘောများ ဆိုက်ကပ်ရန်သင့်လျော်သည်။ အရှေ့မြောက်ဖက်၌ ပြင်ခရိုင်ရွာရှိသည်။ အနောက်နှင့် အနေ့ာက်မြောက်ဖက်တို့၌ ကျောက်ချောင်းရွာ၊ ခမောက်မော်ရွာနှင့် ကန်ကြိုင်ရွာများ ရှိသည်။ ဟိုင်းကြီးကျွန်းနှင့် ခမောက်မော်ရွာတို့၏အကြားရှိ ဝေန်မြစ်ဝသည် ကျဉ်းလေသည်။ ယင်းကို အတွင်းလမ်းဟု ခေါ်ကြသည်။ အရှေ့ဖက်ရှိဝေန်မြစ်ဝမှာ ကျယ်လေသည်။ ယင်းကို အပြင်လမ်းဟု ခေါ်ကြသည်။ ပင်လယ်မှပုသိမ်မြို့သို့ဝင်ထွက်သွားလာကြသော ဆန်တင်သင်္ဘောကြီးများသည် အပြင်လမ်းဖြင့် သွားလာဝင်ထွက်ကြသည်။ ဟိုင်းကြီးကျွန်းတွင် ဆိုက်ကပ်လိုလျှင် အပြင်လမ်းမှ အတွင်းလမ်းသို့ အနည်းငယ်ကွေ့လိုက်ရလေသည်။ထိုအခါ အထက်တွင် ဖော်ပြခဲ့သော လှေသင်္ဘောများဆိုက်ကပ်ရန် သင့်သည့် ဗထက်ချိုင့် နေရာသို့ ရောက်ရှိလေသည်။

ဟိုင်းကြီးကျွန်း၏ တောင်ဖက်သည် ပင်လယ်ပြင်ကြီးဖြစ်သည်။ ကျွန်း၏ အရှေ့တောင်ဖက် တလျှောက်တွင် တောင်တန်းကြီးများ ရှိလေသည်။ ထိုတောင်တန်းကြီးများကပင်လယ်မှ လေပြင်းများကို ကာဆီးပေးသဖြင့် လှေသင်္ဘောဆိပ်နေရာသည် လှိုင်းလေအတွက် စိတ်ချရလေသည်။ ကျွန်း၏ အနေ့ာက်မြောက်ဖက်၌ ညီညာပြန့်ပြူးသော မြေပြင်ရှိရာ ထိုမြေပြင်တွင် ဟိုင်းကြီးရွာကို တည်ထားသည်။ ရွာ၏ပတ်လည်တွင် အုန်းခြံ၊ သစ်ပင်များနှင့် လယ်ကွင်းများရှိလေသည်။

ဟိုင်းကြီးကျွန်းမှ မြန်မာနိုင်ငံ တဝှန်းလုံးသို့ ကုန်ဖြန့်ဖြူးရန် ခရီးလမ်းပန်း လွယ်ကူလေသည်။ ဝေန်မြစ်အတိုင်း ပုသိမ်မြို့သို့ ဆန်တက်သွားနိုင်၍ ပုသိမ်မြို့မှတဆင့် အထက်မြန်မာနိုင်ငံတလွှားသို့ ကုန်ပစ္စည်းများကို တင်ပို့နိုင်သည်။ ထို့ကြောင့်လည်း ၁၈ ရာစုနှစ်အတွင်းက ပုသိမ်မြို့၌အင်္ဂလိပ်လူမျိုးတို့၏ ကုန်တိုက်ခွဲတခုကို ထားရှိခဲ့လေသည်။ တဖန်သက်ကယ်သောင်ချောင်းကိုဝင်၍ လပွတ္တာမြို့သို့သွားပြီးနောက် မြစ်ဝကျွန်းပေါ် တဝှန်းလုံးသို့ ကုန်စည်ဖြန့်ဖြူးနိုင်လေသည်။ ထိုပြင် မော်တင်စွန်းကို ကွေ့လိုက်လျှင် ရခိုင်ပြည်နယ်ဖက်သို့ ရောက်ရှိသွားနိုင်လေသည်။

ထိုသို့စီးပွားရေး၊ စစ်ရေးနှင့် နိုင်ငံရေးအကွက်ကောင်းသဖြင့် ဟိုင်းကြီးကျွန်းပေါ်တွင် အင်္ဂလိပ်တို့သည် ၁၆၈၇ ခုနှစ်ခန့်က စတင်၍ အခြေစိုက်ခဲ့ကြလေသည်။ ထိုအချိန်က မြန်မာဘုရင်မှာ ညောင်ရမ်းဆက် မင်းရဲကျော်ထင်ဖြစ်ပြီးလျှင် အင်းဝမြို့၌ နန်းစံလေသည်။ အင်္ဂလိပ်တို့သည် ၁၆၂၇ ခုနှစ်ခန့်မှစ၍ မြန်မာနိုင်ငံသို့ လာရောက်ကာကူးသန်းရောင်းဝယ်ကြသည်။ ထိုစဉ်က အင်္ဂလိပ်တို့၏ ရွက်သင်္ဘောဆိုက်ကပ်ရာမြို့မှာ သံလျင်မြို့ဖြစ်သည်။ ဟိုင်းကြီးကျွန်း၌ စတင်၍ အင်္ဂလိပ်တို့ အခြေစိုက်ချိန်တွင် သံလျင်



ရေဝတီတိုင်းရှိ ဟိုင်းကြီးကျွန်းမှ ဇင်လယ်ပြင်ကို မျက်နှာပြုထားသော ကျေးရွာတခု၏ ရှုခင်း

မြို့၌လည်း အင်္ဂလိပ်တို့၏ တိုက်ခဲ့သည် ရှိနှင့်ပြီးဖြစ်လေသည်။ ထိုအချိန်က မြန်မာနိုင်ငံ၏ အခြေအနေသည် တောင့်တင်းခိုင်မာခြင်း မရှိလှချေ။ မင်းရဲကျော်ထင်မှ ဟံသာဝတီရောက် မင်းတရားလက်ထက်အထိ ညောင်ရမ်းဆက်နောက်ပိုင်းတွင် နယ်ခြားဒေသများ၌ သူပုန်များခြားနားလျက် ရှိကြလေသည်။ အထူးသဖြင့် မွန်တို့၏အရေးသည်မပြတ်ပေါ်ထွက်နေလေသည်။ ထိုကြောင့် နိုင်ငံရေးရှုပ်ထွေးမှုနှင့် ကင်းလွတ်သည့် ဟိုင်းကြီးကျွန်းကို အခြေခံစခန်းအဖြစ် ရွေးချယ်ခြင်းဖြစ်ဟန် ရှိသည်။

၁၇၅၂ ခုနှစ်တွင် အလောင်းဘုရား မြန်မာနိုင်ငံအောက်ပိုင်းကို သိမ်းသွင်းသောအခါ အလောင်းဘုရားက နိုင်ခြေရှိသဖြင့် ဟိုင်းကြီးကျွန်းမှ အင်္ဂလိပ်တို့သည် တိတ်တဆိတ်တမျိုး၊ ပြောင်တဖုံ အလောင်းဘုရားကို ကူညီခဲ့လေသည်။ သို့သော် မွန်တို့နှင့်လည်း လုံးဝအဆက်မပြတ်ကြချေ။ တိတ်တဆိတ် ဆက်သွယ်လျက်ပင် ရှိကြလေသည်။ ဟိုင်းကြီးကျွန်း၌လည်း မြေကတုတ်များ၊ အုတ်ရင်တားများ၊ လက်နက်တိုက်များ၊ မျှော်စင်များ အခိုင်အမာ ဆောက်လုပ်လျက်ရှိသည်။ ထိုသို့ခံတပ်ကိုဆောက်လုပ်ပြီးလျှင် အမြောက်များတန်လျက် အင်္ဂလိပ်တို့သည် အခိုင်အလုံ နေထိုင်ကြ လေသည်။ တဖက်တွင်လည်း နိုင်ခြေရှိသော အလောင်းဘုရားထံသို့ ချဉ်းကပ်ပြီးလျှင် တရားဝင် ခွင့်ပြုရေးအတွက် ဆောင်ရွက်လေသည်။ ၁၇၅၅ ခုနှစ် အလောင်းဘုရား အထက်မှ စုန်ဆင်း၍ မြန်အောင်၊ ဟင်္သာတ၊ ရန်ကုန်နှင့် ပုသိမ်မြို့များကို သိမ်းပိုက်ပြီးသောအခါတွင် ဟိုင်းကြီးကျွန်း၌ အုပ်ချုပ်လျက်ရှိသော ဟင်နရီ ဗရု(စ) သည် အလောင်းဘုရားအား အမြောက်နှင့် သေနတ်များကို ဆက်သလေသည်။ ထိုနောက် ဗိုလ်ကြီး ဗေကာဆိုသူအား လက်ဆောင်ပဏ္ဏာများနှင့် တကွ သံအရာရှိအဖြစ်နှင့် နေပြည်တော်အထိ ထည့်လိုက်လေသည်။ အင်္ဂလိပ်တို့၏ ရည်ရွယ်ချက်မှာ အင်္ဂလိပ်တို့ ဟိုင်းကြီးကျွန်းတွင် အခိုင်အမာ နေထိုင်နေခြင်းကို တရားဝင် အသိအမှတ်ပြုပေးရေးဖြစ်လေသည်။ အလောင်းမင်းတရားကြီးကလည်း အင်္ဂလိပ်တို့အား ဟိုင်းကြီးကျွန်းတွင် နေထိုင်ခွင့်၊ ပုသိမ်နှင့်ရန်ကုန်မြို့များတွင်လည်း ကုန်တိုက်များဖွင့်လှစ်ခွင့်ကို ပေးလိုက်သည်။ ထိုသို့ အခွင့်ပေးသည့် အတွက် အင်္ဂလိပ်တို့က မြန်မာတို့အား လက်နက်နှင့် ခဲယမ်းမီးကျောက်များကို ဆက်သကြရလေသည်။

၁၇၅၆ ခုနှစ်တွင် ပဲခူးမြို့ကို သိမ်းသွင်းရေးအတွက် ဟိုင်းကြီးကျွန်းရှိ အင်္ဂလိပ်တို့ထံသို့ လက်နက်ခဲယမ်းမီးကျောက်များ ထောက်ပံ့ရန် အကြောင်းကြားရာ အင်္ဂလိပ်တို့က မြန်မာဘုရင်၏ အလိုတော်ကို မဖြည့်ခဲ့ချေ။ ပဲခူးမြို့ကို အောင်မြင်ပြီးနောက် ၁၇၅၇ ခုနှစ်ကျမှသာ အင်ဆိုင်းလက်စတာဆိုသူအား မြန်အောင်မြို့သို့ သွားရောက်၍ အလောင်းဘုရားကို ဖူးတွေ့စေသည်။ အလောင်းဘုရားက သံသယရှိသမျှကို စစ်မေးတော်မူပြီးနောက် အင်္ဂလိပ်မြန်မာ စာချုပ်တရပ်ကို ချုပ်ဆိုလေသည်။ ထိုစာချုပ်တွင် အင်္ဂလိပ်တို့အား နေထိုင်ခွင့်ပေး၍ အင်္ဂလိပ်တို့က မြန်မာတို့၏ ရန်သူတို့ကို အားမပေးရ ဟူသော အချက်လည်း ပါလေသည်။ သို့သော် မကြာမီအတွင်း၌ မွန်တို့ပုန်ကန်သောအခါ အင်္ဂလိပ်တို့က အားကော့ ခေါ်သင်္ဘောဖြင့် လာရောက်၍ မွန်တို့အား တိတ်တဆိတ် အားပေးကြောင်း အထောက်အထား ခိုင်လုံစွာဖြင့် အာမေးနီးယန်းလူမျိုး ဂရေဂိုရီထံမှ သိရှိရလေသည်။ ထိုအခါ မြန်မာဘုရင်က အင်္ဂလိပ်တို့သည် သစ္စာမတည်ကြည်ရုံသာမက ပြည်တွင်းရေး၌လည်း ဝင်ရောက်စွက်ဖက်၍ ပို၍ရှုပ်ထွေးအောင် လုပ်ဆောင်သဖြင့် ရန်ကုန်နှင့် ပုသိမ်ရှိ အင်္ဂလိပ်ကုန်တိုက်များကို သိမ်းယူပြီးလျှင် ဟိုင်းကြီးကျွန်းရှိ အင်္ဂလိပ်တို့၏ အခြေခံစခန်းများကို ၁၇၅၉ ခုနှစ် အောက်တိုဘာလ ၆ ရက်နေ့တွင် အပြီးတိုက်ဖျက် ချေမှုန်းပစ်လိုက်လေသည်။

ထိုစဉ်က အင်္ဂလိပ်တို့အသုံးပြုသော လက်နက်များသည် ထိုအချိန်က ခေတ်အမီဆုံး လက်နက်များ ဖြစ်သည့်အပြင် ဟိုင်းကြီးကျွန်းကိုလည်း စစ်ရေးအတွက် အထူးခိုင်ခံ့အောင် စီမံထားပြီးဖြစ်လေသည်။ ထိုသို့ လက်နက်အင်အား တောင့်တင်းခြင်းနှင့် နေရာအနေအထား ကောင်းခြင်းများရှိလျက်နှင့် မြန်မာတို့က ဟိုင်းကြီးကျွန်းစခန်းကို အပြီးတိုင် ချေမှုန်းပစ်နိုင်သည် ဆိုခြင်းမှာ မြန်မာတို့၏ စစ်ပရိယာယ် သာလွန်ကောင်းမွန်ခြင်းနှင့် မြန်မာများ စည်းစည်းလုံးလုံးရှိကြခြင်းကြောင့် ဖြစ်ကြောင်း ထင်ရှားပေသည်။

**ဟိုင်းဒင်,အက်(ဖ)ဂျေ** (ခရစ် ၁၇၃၂-၁၈၀၉)။ ။ ဖရန့် ဂျိုးဇက် ဟိုင်းဒင်သည် ဆင်ဖနီဂီတ(တူရိယာ သံစုံတီးကွက်) ကို တီထွင်ခဲ့သူအဖြစ် ထင်ရှားသော ဩစတြီးယန်းအမျိုးသား ဂီတာစာဆိုဖြစ်သည်။ ဂီတပညာကျော်များဖြစ်သော မိုးဇတ်နှင့် ဗေးထိုးဗင်တို့က နောင်အခါ၌ ဟိုင်းဒင်ဆင်ဖနီဂီတ (သံစုံတီးကွက်)ကို အချောကိုင်ခဲ့ကြသည်။ ယခုခေတ် အနောက်တိုင်းတူရိယာတီးဝိုင်းသည် ဟိုင်းဒင်ဆင်ဖနီဂီတ(သံစုံတီးကွက်) ကို အခြေခံ၍ ပေါက်ပွားလာသည်ဟု ဆိုနိုင်သည်။ ဂီတပညာလောကမှ အပေါင်းအဖော်များက ဟိုင်းဒင်ကို ဖခင်ကြီးသဖွယ် ချစ်ခင်လေးစားကြသည်။ (မိုးဇတ်။ ဗေးထိုးဗင် — ရှု။)

ဟိုင်းဒင်သည် ၁၇၃၂ ခုနှစ် မတ်လ ၃၁ ရက်နေ့တွင် ဩစတြီးယားနိုင်ငံ၊ ရိုရော့မြို့၌ ဖွားမြင်သည်။ သူ၏ဖခင်



ဩစတြီးယန်း ဂီတစာဆို အက်(ဖ) ဂျေ ဟိုင်းဒင်

သည် ဂီတဖက်တွင် ဝါသနာထုံသူဖြစ်၍ ညနေချိန်များ၌ မိသားစုတို့သည် ဝိုင်းဖွဲ့ကာ ဟန်ဂေရီအမျိုးသား ရိုးရာ တေးသီချင်းများကို သီဆိုလေ့ရှိကြသည်။ ဖခင်က စောင်းကိုတီး၍ မိခင်က သီချင်းများကို သီဆိုပြလေသည်။ ဟိုင်းဒင်သည်လည်း ငယ်စဉ်ကပင် ဂီတပညာဖက်၌ အစွမ်းအစ ထက်မြက်သူဖြစ်ရာ အသက်ရှစ်နှစ်အရွယ်တွင် ဗီယင်းနားမြို့ရှိ နာမည်ကျော် စိန်စတီဖင် ဘုရားရှိခိုးကျောင်း သံပြိုင်သီချင်းသည်အဖွဲ့၌ ပါဝင်သီဆိုခဲ့ရသည်။ အသက် ၁၇ နှစ် အရွယ်တွင် အသံကလည်းပျက်၊ သံပြိုင်သီချင်းသည်အဖွဲ့မှလည်း ထုတ်ပယ်ခြင်းကို ခံရသဖြင့် ၁ဝ နှစ်တိုင်တိုင် ဆင်းရဲငြိုငြင်စွာ နေထိုင်ခဲ့ရသည်။ သို့ရာတွင် ဂီတပညာကိုမူကား လက်မလွှတ်ပဲ သီချင်းများ စပ်ဆိုတီးမှုတ်ခြင်းအားဖြင့် အသက်မွေးခဲ့လေသည်။ ထိုခေတ်က နာမည်ကျော် အဆိုနည်းပြဆရာ ဣတာလျံ အမျိုးသား ပေါ်ပိုရာထံ၌လည်း တပည့်ခံခဲ့သည်။

ထိုနောက် ၁၇၆ဝ ပြည့်နှစ်တွင် ဟိုင်းဒင်သည် ဩစတြီးယားနိုင်ငံ၌ ထိပ်တန်းအကျဆုံးသော တူရိယာတီးဝိုင်း၏ပိုင်ရှင် အက်စတာဟာဇီမင်းသားထံ၌ တီးဝိုင်းလက်ထောက်ဒါရိုက်တာအဖြစ် ဝင်ရောက်အမှုထမ်းသည်။ ဟိုင်းဒင်သည် ထိုတူရိယာတီးဝိုင်းတွင် ဒါရိုက်တာအဖြစ် နှစ်ပေါင်း ၃ဝ မျှ ဆောင်ရွက်ခဲ့သည်။ ထိုအချိန်အတောအတွင်း တေးဂီတပေါင်းများစွာတို့ကို ရေးစပ်ခဲ့ရာ သူ၏ဂုဏ်သတင်းသည်လည်း လိုက်ပဆစ်မြို့၊ ပါရစ်မြို့၊ လန်ဒန်မြို့စသော မြို့ကြီးများသို့ ပျံ့နှံ့ခဲ့ပေသည်။ ထိုအချိန်အတွင်းကပင် နာမည်ကျော်ဂီတစာဆိုဖြစ်သူ မိုးဇတ်နှင့် မိတ်ကျွမ်းဝင်ခဲ့သဖြင့် ဂီတစာဆိုနှစ်ဦးတို့သည် ပညာချင်းဖလှယ်၍ ပေါင်းစပ်မိကြလေသည်။ မိုးဇတ်သည် ဟိုင်းဒင်၏ပညာစွမ်းကို ခြီးကျူးခဲ့သည့်နည်းတူ ဟိုင်းဒင်ကလည်း မိုးဇတ်ထံမှ တီးလုံးတီးကွက်ကို ထိမိအောင်စပ်ဆိုမှုပညာကို ရရှိခဲ့သည်။

အက်စတာဟာဇီမင်းသား ကွယ်လွန်ပြီးနောက် ၁၇၉ဝ ခုနှစ်တွင် ဟိုင်းဒင်သည် အင်္ဂလန်နိုင်ငံသို့ သွားရောက်၍ "အော်ဖီယို" ခေါ် တေးသံစုံဇာတ်ကိုငှင်း၊ ဆင်ဖနီဂီတ (တူရိယာသံစုံတီးကွက်)ကိုးပုဒ်နှင့် အခြားတေးဂီတပေါင်းမြောက်မြားစွာတို့ကိုငှင်း ရေးစပ်ခဲ့လေသည်။ အင်္ဂလန်နိုင်ငံတွင် ဟိုင်းဒင်၏တေးဂီတကို လူကြိုက်များသည်။ အောက်စဖို့ဘက္ကသိုလ်ကလည်း သူ့အား ဂီတပါရဂူဘွဲ့ဖြင့် ဂုဏ်ပြုခြီးမြှင့်သည်။

၁၇၉၇ ခုနှစ်တွင် ဟိုင်းဒင်သည် သမ္မာကျမ်းစာကို အခြေခံ၍ "ဖန်ဆင်းခြင်းခေါ်" တေးသီချင်းကြီးကို စပ်ဆိုခဲ့သည်။ ဩစတြီးယားနိုင်ငံ အမျိုးသားသီချင်းကိုလည်း ရေးစပ်ခဲ့၏။ ဂီတစာဆို ဟိုင်းဒင်သည် တေးသီချင်းများကို စေ့စပ်သေချာစွာ ရေးစပ်လေ့ရှိသည်။ တီးဝိုင်းရှိဆိုင်ရာ တူရိယာနှင့် စပ်အပ်သော တေးသံကိုလည်း စီကုံးလေ့ရှိသည်။ ထိုပြင်တေးသံဖြင့် ဟာသဂုဏ်ကိုလည်း ထုတ်ဖော်နိုင်စွမ်းရှိသည်။ ငယ်စဉ်က ကြားနာမှတ်သားခဲ့ရသော ရိုးရာတေးသီချင်းများကိုလည်း သီချင်းကြီး သီချင်းခန့်များအဖြစ်သို့ ပြောင်းလဲစပ်ဆိုခဲ့သည်။

ဂီတပညာသည်တို့က "ဖခင်ဟိုင်းဒင်" ဟု ကင်ပွန်းတပ်ခေါ်ဝေါ်ခဲ့သော ဂီတစာဆိုကြီးသည် ၁၈ဝ၉ ခုနှစ်၊ မေလ ၃ဝ ရက်နေ့တွင် ဗီယင်းနားမြို့၌ ကွယ်လွန်လေသည်။

**ဟိုင်းန, ဟိုင်းနရစ် ( ခရစ် ၁၇၉၇—၁၈၅၆ )။ ။** ယဟူဒီ (ဂျူး) မိခင်နှင့် ဖခင်တို့မှ ပေါက်ဖွားလာသော ဟိုင်းနရစ် ဟိုင်းနသည် ဂျာမနီနိုင်ငံ၊ ဒူဆဲလဒေါ့မြို့တွင် ၁၇၉၇ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်နေ့၌ ဖွားမြင်သည်။ သူ ဖွားမြင်၍ ကြီးပြင်းလာခဲ့သော ဒူဆဲလဒေါ့မြို့သည် နပိုလီယန်နှင့် စစ်ဖြစ်နေချိန်တွင် ပြင်သစ်လူမျိုးတို့အုပ်ချုပ်ခြင်းကို ခံနေရသဖြင့် စစ်နှင့်သက်ဆိုင်သော ခံစားရချက်များသည်ဟိုင်းန၏ စိတ်ကိုလွန်စွာလွှမ်းမိုးခဲ့လေသည်။

ဟိုင်းနသည် သူ၏ခေတ်တွင် အတော်ဆုံး ကဗျာဆရာကြီးနှင့် စာရေးဆရာကြီးတဦး ဖြစ်လေသည်။ သူ ပြက်ရယ်ပြုကာ သီကုံးထားသော ကဗျာလင်္ကာများတွင် ထိုစဉ်က ဂျာမန်လူမျိုးတို့၏ စိတ်မကျေမနပ် ဖြစ်နေကြပုံနှင့် အငြိမ်မနေ နေထိုင်ကြပုံကို ဖော်ပြထားလေသည်။

ဟိုင်းနကိုတသက်တာလုံး ပြုစုစောင့်ရှောက်လာသူမှာ ဦးလေးတော်သူ ဆယ်လိုမွန် ဟိုင်းန ဖြစ်လေသည်။ ထို ပုဂ္ဂိုလ်ကြီး၌ သမီးနှစ်ယောက်ရှိရာ နှစ်ယောက်လုံးကို ဟိုင်းနက ချစ်ခင်လေသည်။ သို့သော် သူ၏ဝမ်းကွဲ နှမ နှစ်ယောက်လုံးက သူ့အားပြန်၍ မချစ်ခင်ကြချေ။ ထိုသို့ သူ့အားပြန်၍ မချစ်ခင်ကြခြင်းက သူ၏ကဗျာလင်္ကာများ အတွက် အတွေးအခေါ်များ ဖြစ်စေလေသည်။ ထိုအတွေး အခေါ်များဖြင့် လွန်စွာကောင်းမွန်သော ကဗျာလင်္ကာ များကို သီကုံးပြီးလျှင် ၁၈၂၂ ခုနှစ်တွင် ထုတ်ဝေလိုက်သော အခါ လူအများက သူ့ကဗျာလင်္ကာများတွင် အတော်ပင် စိတ်ဝင်စားကြလေသည်။ ၁၈၁၉ ခုနှစ်တွင် ဟိုင်းနအား သူ၏ ဦးလေးက ဗွန်းမြို့၊ ဘာလင်မြို့နှင့် ဂူတင်ဂင်မြို့များတွင် ဥပဒေဘာသာရပ်ကို သင်ကြားစေသည်။ ၁၈၂၅ ခုနှစ်တွင် ဟိုင်းနသည်ဥပဒေဘွဲ့ကို ရခဲ့သည်။ဟိုင်းနသည် ဥပဒေထက် ကဗျာလင်္ကာ သီကုံးခြင်းတွင် ပို၍ စိတ်ဝင်စားခဲ့လေသည်။

သူ့ခေတ်တွင် ယဟူဒီ လူမျိုးနှင့် ဆန့်ကျင်သော ဥပဒေ များ ရှိရာ ထိုဥပဒေများကို ကျော်လွန်နိုင်ပြီးလျှင် တရား ခွင်သို့ တက်ရောက်နိုင်စေရန်အတွက် ဟိုင်းနသည် ယဟူဒီ အယူဝါဒကို စွန့်လွှတ်လိုက်လေသည်။ သို့သော် သူ၏ တော်လှန်လိုစိတ်ရှိမှုနှင့် စပ်လျဉ်းသော ယုံကြည်ချက်များ နှင့် ပုဂ္ဂိုလ်အရ နပိုလီယန်ကို ကြည်ညိုစိတ် ရှိခြင်းတို့ကြောင့် သူ့အား ဂျာမနီနိုင်ငံတွင် လူထုက မကျေနပ် ဖြစ်လာကြ



ယဟူဒီကဗျာဆရာ ဟိုင်းနရစ် ဟိုင်းန

လေသည်။ထို့ကြောင့် ဟိုင်းနသည် ပြင်သစ်နိုင်ငံ၊ပါရစ်မြို့သို့ ပြောင်းရွှေ့ကာ နေထိုင်လေသည်။ ထိုမြို့တွင် လူအများက သူ့ကို နှစ်ခြိုက်ကြသဖြင့် ဟိုင်းနသည် ထိုမြို့တွင် သူကွယ် လွန်သည့် တိုင်အောင် နေထိုင်လေသည်။

သူ၏ အကောင်းဆုံး ကဗျာလင်္ကာများကို တေးသီချင်း ခေါ် စာအုပ်တွင် တွေ့နိုင်လေသည်။ ရောဗတ် ရှူးမန်းနှင့် ဖဲလစ် မင်ဒဲလဇုန်တို့ကဲ့ နောင်တွင် သူ၏ တေးသီချင်း အမြောက်အမြားကို တီးမှုတ်နိုင်ရန် ဖန်တီးပေးခဲ့ကြလေ သည်။ သူ၏အရေးအသား ကောင်းမွန်ခြင်းကို "ဟာ့ ခရီး စဉ်"ခေါ် စာအုပ်တွင် တွေ့နိုင်လေသည်။ ထိုစာအုပ်ကို ဟာ့ တောင်တန်းများသို့ သွားရောက်ပြီးသော အခါတွင် ရေးသားခဲ့လေသည်။ ထိုစာအုပ်တွင် သူ၏ ပြက်ရယ်ပြုချက် များ၊ သူ၏ ဘဝအဖြစ်အပျက်များ၊ အယူဝါဒ ရေးရာနှင့် နိုင်ငံရေးရာ များကို ဆွေးနွေးဖော်ပြ ထားလေသည်။ (ရှူးမန်း, ရောဗတ်။ မင်ဒဲလဇုန်, ဖဲလစ် — လည်းရှု။)

ဟိုင်းန၏ နောက်ပိုင်းအခြေအနေသည် လေဖြတ်ခံရ ခြင်းကြောင့် မကောင်းမွန်ချေ။ သို့သော် ကဗျာလင်္ကာ သီကုံးခြင်းနှင့် စာရေးခြင်းကား မပျက်ချေ။ ထိုအချိန်တွင် တေးသီချင်း အသစ်များ၊ဂျာမနီခေါ် ပြက်ရယ်ပြုထားသည့် နိုင်ငံရေးနှင့်ဆိုင်သော ကဗျာလင်္ကာများနှင့် အထွေထွေ ကိစ္စများကို ရေးသားထားသော စာအုပ်သုံးအုပ်ကို ထုတ် ဝေ နိုင်ခဲ့လေသည်။

၁၈၅၆ ခုနှစ်တွင် ဟိုင်းန ကွယ်လွန်လေသည်။

**ဟိုင်းအီနာကောင်။** ။ဝံပုလွေနှင့် ခပ်ဆင်ဆင်တူသော တိရစ္ဆာန်တမျိုးရှိရာ ထိုတိရစ္ဆာန်ကို ဟိုင်းအီနာကောင်ဟု ခေါ်သည်။ ဟိုင်းအီနာကောင်သည် စိတ်တက်ကြွသော အခါများတွင် ရူးသွပ်နေသူ၏ ရယ်သံကဲ့သို့သော အသံကို ပြုလုပ်တတ်လေသည်။ ဟိုင်းအီနာကောင်သည် ကြည့်၍ နှစ်မြို့ဖွယ်မကောင်းချေ။ ထိုတိရစ္ဆာန်သည် ကြောက်လည်း ကြောက်တတ်သည်။ သို့သော် ယင်း၌ ကြောက်မက်ဖွယ် ကောင်းသော မျက်စိများရှိသည်။ ဟိုင်းအီနာကောင်၏ နားရွက်များသည် ရှည်၍ ထောင်နေကြလေသည်။ နောက် ခြေထောက်များသည် ရှေ့ခြေထောက်များထက် တိုသဖြင့် အကြည့်ရဆိုးပြီးလျှင် ကျော ကုန်းနေပုံ ရလေသည်။ ခြေ ထောက်များတွင် ခြေချောင်းကလေးပေါင်း လေးချောင်းစီ သာ ရှိသည်။

ငြိမ်သက်စွာ ရပ်၍နေသော တိရစ္ဆာန်တကောင်ကိုပင် ဟိုင်းအီနာကောင်သည် ကိုက်ခဲလေသည်။သို့သော် မြင်းနှင့် ကျွဲနွားများသည် ယင်းအား တွေ့ရသောအခါ ကြောက်၍ အားကုန်ပြေးကြလေသည်။ နောက်ဆုံးတွင် အမောဆို့၍ သေကုန်ကြလေသည်။ ထိုကဲ့သို့သော အသေကောင်များ



ဝံပုလွေနှင့် ဆင်တူသော ဟိုင်းအီနာကောင်

နှင့် အခြားတိရစ္ဆာန်များ ကိုက်သတ်ထားသည့် တိရစ္ဆာန်များကို ဟိုင်းအီနာကောင်များ တွေ့သောခါအတွင် စားကြလေသည်။ ရှေးအခါက ထိုတိရစ္ဆာန်များသည် တောင်အာဖရိကတိုက်နေ လူများ၏ အိမ်သို့ ညဉ့်အခါ ဝင်ရောက်ပြီးလျှင် မိဖများ၏ နံဘေးတွင် အိပ်ပျော်နေကြသော ကလေးငယ်ကို ကိုက်ချီ၍ သွားတတ်ကြသည်။ ထိုကြောင့် လူများက ထိုဟိုင်းအီနာကောင်များကို လွန်စွာကြောက်ရွံကြလေသည်။

ထို တိရစ္ဆာန်သည် နေ့အခါများတွင် ဂူနှင့် တွင်းများတွင် အိပ်၍ နေတတ်ကြပြီးလျှင် ညဉ့်အခါများတွင်သာ ထွက်၍ အခြား သားရဲတိရစ္ဆာန်များ ကိုက်သတ်၍ ထားခဲ့သော အသေကောင်များကို ရှာဖွေစားသောက်ကြသည်။

ဟိုင်းအီနာကောင်၌ သန်မာသည့် မေးရိုးကြီးများနှင့် သွားများရှိသည်။ ထို သွားများဖြင့် ကျွဲနွားတို့၏ ခြေထောက်ရိုးများကိုပင် ကွဲအောင် ကိုက်နိုင် လေသည်။ အသားမရှိတော့သော အရိုးများကိုသာ တွေ့ရသော အခါမျိုးတွင် ဟိုင်းအီနာကောင်သည် ထိုနည်းဖြင့် အရိုးတွင်းရှိ ခြင်ဆီကို ထုတ်ယူ၍ စားသောက်လေသည်။

ဟိုင်းအီနာကောင် သုံးမျိုးရှိရာ ဟိုင်းအီနာ အကျား၊ အညိုနှင့် အပြောက်ဟူ၍ ဖြစ်သည်။ ဟိုင်းအီနာ အကျား၏ အရောင်မှာ အညိုရောင်ဖြစ်ပြီးလျှင် ယင်း၏ ဘေးဖက်များ၌ အထက်နှင့်အောက် အမည်းကျားများ ရှိသည်။ ဟိုင်းအီနာ အပြောက်နှင့် အညိုတို့သည် အာဖရိကတိုက်ရှိ ဆဟားရား သဲကန္တာရ၏ တောင်ဖက်တွင် နေထိုင်ကြ၍ ဟိုင်းအီနာ အကျားသည် အာဖရိကတိုက် အရှေ့ပိုင်းနှင့် အာရှတိုက်တောင်ပိုင်းအီသီယိုးပီးယားနိုင်ငံမှ အိန္ဒိယနိုင်ငံအထိ ပြန့်နှံ့နေကြလေသည်။

ဟိုင်းအီနာကောင်သည် ဟိုင်းအင်ဒီးမျိုးတွင် ပါဝင်၍ ဟိုင်းအီနာ အကျားကို ပါဏဗေဒအရ ဟိုင်းအင်နာ ဟိုင်းအင်နာ ဟူ၍ရင်း၊ ဟိုင်းအီနာ အညိုကို ဟိုင်းအင်နီဒီး ဗရွန်နီယာ ဟူ၍ရင်း၊ ဟိုင်းအီနာ အပြောက်ကို ကရိုလူတာ ကရိုလူတာဟူ၍ရင်း ခေါ်လေသည်။

**ဟစ်တလာ,အဲဒေါ့**(ခရစ် ၁၈၈၉–၁၉၄၅)။ ။ခေတ်သစ်အာဏာရှင်များ အကြောင်း ရေးသားရာတွင် ကမ္ဘာတလွှား၌ တချိန်က လူသိများလှသော ဂျာမနီအာဏာရှင် ဟစ်တလာအကြောင်းကို ချန်လှပ်ထားရန် မဖြစ်နိုင်ချေ။ အကြောင်းဟူမူ အာဏာရှင်ထဲတွင် ဟစ်တလာလောက် မည်သူမျှ အာဏာတန်ခိုး မဖွံ့ဖြိုးသောကြောင့် ဖြစ်သည်။ ဟစ်တလာသည် သာမန် အလုပ်သမားဘဝမှ ဂျာမနီနိုင်ငံ၏ အထွတ်အထိပ်အာဏာရှင်အဖြစ်သို့ရောက်ရှိခဲ့သူဖြစ်သည်။

သူကို ဩစတြီးယား နယ်စပ်မြို့ကလေးဖြစ်သော ဗရွန်းနောအမ်အင်းမြို့တွင် ခရစ် ၁၈၈၉ ခုနှစ် ဧပြီလ ၂၀ ရက်နေ့၌ မွေးဖွားသည်။ သူ၏ဖခင်မှာ ဩစတြီးယန်းအကောက်အရာရှိ အလှိုက် ဟစ်တလာဖြစ်၍ မိခင်မှာ ဗိုဟီးမီးယန်းအမျိုးသမီး ကလဲရာ ပိုးလ္ဇ ဟစ်တလာ ဖြစ်သည်။ ဟစ်တလာတွင် မွေးချင်းနှစ်ဦး ရှိလေသည်။

ဟစ်တလာ၏ ငယ်စဉ်တောင်ကျေး ကလေးဘဝက အဖြစ်အပျက်များကို မည်သူမျှ ကောင်းစွာ မသိကြချေ။ အနည်းအကျဉ်း သိရသမျှဆိုလျှင် သူ၏ကလေးဘဝမှာ ဆင်းရဲနွံချာလှ၍ ပျော်ရွှင်မှုကင်းမဲ့ခဲ့လေသည်။ သူ၏ဖခင်သည် မိမိကဲ့သို့ပင် အစိုးရအရာရှိတဦး ဖြစ်စေလိုသဖြင့် သူဝါသနာထုံ၍ ပန်းချီဆရာ ဖြစ်ရမည်ဟူသော ဟစ်တလာ၏ ရည်မှန်းချက်ကို မမြောက်စားခဲ့သည့်ပြင် ပြင်းပြင်းထန်ထန်ကြီးကန့်ကွက်ခဲ့ပေသေးသည်။ သို့ဖြစ်၍ဟစ်တလာသည် သူ၏ဖခင်အားအမုန်းကြီးမုန်းခဲ့သည်။ ဖခင်အားမုန်းတီးသလောက် မိခင်ကို အလွန် ချစ်ခင်ကြည်ညို လေသည်။ ထိုသို့ ဖြစ်ရသည်မှာ သူ၏ မိခင်သည် သူအား ချစ်ခင် ကြင်နာပြီးလျှင် သူ၏အလိုကို တတ်နိုင်သမျှ ဖြည့်စွမ်းပေးသောကြောင့် ဖြစ်၏။ သူမိခင်၏ အကူအညီဖြင့် ရေဆေးပန်းချီပညာကို မတောက်တခေါက် လေ့လာ ဆည်းပူးနိုင်ခဲ့၏။ မိခင်ဖြစ်သူက မည်မျှပင် ကြင်ကြင်နာနာ ပြုစုစောင့်ရှောက်

ပါသော်လည်း လုံးဝ စိတ်ချမ်းမြေ့မှုကိုကား ဟစ်တလာသည် မရခဲ့ချေ။ အမြဲလိုလိုပင် တွေဝေငေးမော စိတ်ကူးရေယာဉ် ကြောတွင် မျောနစ်နေကာ သူရဲကောင်း ဖြစ်လိုသောဆန္ဒ၊ ဂျာမနီနိုင်ငံ၏ ဂုဏ်ကို မြှင့်တင်ပေးလိုသော ဆန္ဒများသာ တဖွားဖွား ပေါ်ပေါက်နေလေသည်။

နုနယ်လုသေးသည့် အသက် ၁၃ နှစ်အရွယ်တွင် သူ၏ ဖခင်ကြီး သေဆုံးသွားလေသည်။ နောက်နှစ်နှစ်ကြာသော အခါ မိခင်သေဆုံးသွားပြန်ရာ လူလားမမြောက်မီ လောက အလယ်တွင် တအားငယ် ကျန်ရစ်ခဲ့လေသည်။ ထိုသို့ ပူဆွေးဝမ်းနည်းဖွယ်ရာ အမျိုးမျိုးနှင့် ဆင့်ကဲဆင့်ကဲ တွေ့ကြုံ ရခြင်း၊ အထီးတည်းနေရခြင်း၊ ဆွေမျိုးများအပေါ် မှီခို နေရခြင်း စသော အချက်များသည် နောင်သောအခါ ဟစ်တလာ၏ အကျင့်စာရိတ္တတွင် များစွာအရာထင်စေခဲ့ လေသည်။

လူဖြစ်လာကတည်းက ဒုက္ခတွေ ပင်လယ်ဝေနေသည် ကိုသာ တွေ့ကြုံခဲ့ရသော ဟစ်တလာသည် အသက် ၂၀ မပြည့်ခင် ဝမ်းရေးအတွက် ဗီယင်နားမြို့သို့ ပန်းချီပညာ သင်ရန် သွားရောက်လေသည်။ သူကား မန္တးမနပ်နှင့် တောဆံလှသည်။ တွေဝေမိန်းမောနေတတ်သည်။ ပိုက်ဆံဟူ၍ လည်း ဗလာနတ္ထိ ဖြစ်ဘိရကား လမ်းများတွင် တံမြက် လှည်းကာ သမုဒ္ဒရာ ဝမ်းတထွာကို ရိက္ခာတော် ဆက်ခဲ့ရ လေသည်။

ပန်းချီကျောင်းတွင်လည်း ကျောင်းဝင် စာမေးပွဲကို ပင် မအောင်မြင်သဖြင့် ဗိသုကာ အတတ်သင်ရန် သူ့အား အကြံပေးကြလေသည်။ နောက်ဆုံးတွင် ဆင်းရဲလွန်းလှ



ဂျာမနီ အာဏာရှင် ဟစ်တလာ

သဖြင့် မတတ်သာတော့သဖြင့် ပန်းရံဆရာကြီး တဦး၏ ထံတွင် အလုပ်သမားအဖြစ် ဝင်ရောက်လုပ်ကိုင်လေသည်။ ဟစ်တလာသည် မိမိဘဝ၏ အောက်တန်းကျလှပုံ၊ ဆင်း ရဲတွင်း နက်လှပုံတို့ကို တွေးတောယင်း အလုပ်သမား သမဂ္ဂများ၊ မတ်ဝါဒီများနှင့် ယဟူဒီ လူမျိုးတို့ကို မုန်းတီး လာလေသည်။ ထိုနောက် သူသည် ပို့စကတ်များ ရေးဆွဲ ခြင်း၊ အရုပ်ကားများ ရောင်းချခြင်းဖြင့် ဆင်းရဲပင်ပန်းစွာ အသက်မွေးခဲ့လေသည်။

၁၉၁၂ ခုနှစ်တွင် ဟစ်တလာသည် မျူးနစ်မြို့တွင် လက်သမားအဖြစ် တမျိုး၊ ပုံတူရေးဆရာအဖြစ် တသွယ်၊ ရေဆေး ပန်းချီဆရာအဖြစ်တဖုံနှင့် လောကဓာတ်ခံတွင် မီးစဉ်ကြည့်ကာ ဝမ်းစာရှာခဲ့ရ၏။ ၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ် ဖြစ်လေရာ ဟစ်တလာသည် စစ်တပ်သို့ဝင်ရောက် အမှုထမ်းလေသည်။ ၁၉၁၄ ခုနှစ်အတွင်း သူ၏ စစ်မှုထမ်း ဘဝမှာ များစွာမထင်ရှားလှသော်လည်း သူ၏ စွန့်စားမှု ကြောင့် သူသည် တပ်ကြပ်ရာထူးသို့ တိုးမြှင့်ခန့်ထားခြင်း ခံရ၍ သံကြက်ခြေတံဆိပ်ကိုပါ ချီးမြှင့်ခြင်း ခံရလေသည်။ ၁၉၁၆ ခုနှစ်တွင် ဆုမ်းတိုက်ပွဲ၌ ဒဏ်ရာရခဲ့သည်။

စစ်ပြေငြိမ်းသည့် အချိန်တွင် ဟစ်တလာသည် ဘာလင် မြို့ အနီးရှိ ဆေးရုံတရုံ၌ ဆေးကုသနေဆဲ ဖြစ်လေသည်။ သူကား ဂျာမန်တို့ လက်နက်ချ အရှုံးပေးသည်ကို အနည်း ငယ်မျှ မကြေနပ်ရကား ချုံးပွဲချ၍ ငိုယိုမိလေသည်။ ဤသို့ ငိုယိုခြင်းကား မိခင်သေဆုံးပြီးနောက် ပဌမဆုံး သူငိုမိခြင်း ဖြစ်သည်ဟု ဆိုလေသည်။ သူသည် စိတ်ပျက်၍ အလွန် အမင်း ဝမ်းနည်း အခဲမကြေဖြစ်ကာ အမျိုးမျိုးစဉ်းစားရာ နောက်ဆုံး၌ နိုင်ငံရေးလောကသို့ဝင်ရန် ဆုံးဖြတ်လိုက်လေ သည်။ ထိုအတောအတွင်း မျူးနစ်မြို့ရှိ စစ်တပ်တွင်ပင် နေထိုင်ယင်း သူလျှိုကလေးသဖွယ် ဆောင်ရွက်ခဲ့လေသည်။

ဟစ်တလာသည် ယဟူဒီများအား ဂျာမနီကို ကျွန် ဖြစ်စေသော နိုင်ငံ၏ ရန်သူများဟု ယူဆလျက် အမုန်းကြီး မုန်းလေသည်။ သူသည် ဗီယာဆိုင်များတွင် ကျင်းပသော နိုင်ငံရေး အစည်းအဝေးများသို့ တက်ရောက်ခဲ့သည်။ ၁၉၁၉ ခုနှစ်တွင် ဟစ်တလာသည် ဂျာမန် အလုပ်သမား ပါတီသို့ဝင်သည်။ ပရိသတ်ကို ဆွဲဆောင်နိုင်အောင် စကား ပြောကောင်းသောကြောင့် မကြာမြင့်မီပင် ခေါင်းဆောင် တဦး ဖြစ်လာလေသည်။

၁၉၂၀ ပြည့်နှစ်တွင် ဟစ်တလာသည် သူ၏ ပါတီ အတွက် စကြာအလံကို ထွင်လေသည်။ နောက်လိုက် အများအပြား စုဆောင်းကာ မုန်တိုင်းတပ်ဖွဲ့များကို ဖွဲ့စည်း သည်။ ပါတီကိုလည်း ''ဂျာမန်လူမျိုးနေရှင်နယ်ဆိုရှယ်လစ် အလုပ်သမားပါတီ''ဟု အမည်သစ် ပေးသည်။ ဂျာမန် ဘာသာ အတိုကောက်အားဖြင့် နာဇီပါတီဟု တွင်သည်။

(နာဇီ — လည်း ရှု။) ထိုပြင် ပါတီ၏ လုပ်ငန်းစဉ်တရပ်ကို ရေးဆွဲ အတည်ပြုပြီးသော် ထိုလမ်းစဉ်အတိုင်း မနားမနေ ကြိုးစား ဆောင်ရွက်လေတော့သည်။

ထိုကြောင့် နာဇီများသည် တနေ့တခြား အင်အား ကောင်းလာလေရာ ၁၉၂၃ ခုနှစ် နိုဝင်ဘာလ ၈ ရက်နေ့ တွင် အစိုးရအာဏာကို သိမ်းပိုက်ရန် ကြံစည်ကြ၏။ ထိုသို့ ကြံစည်ရာ၌ ဗီယာဆိုင်များတွင် *နောက်လိုက်များ စု ဆောင်းသောကြောင့် "ဗီယာဆိုင်မှ တော်လှန်ရေး"ဟု ခေါ်တွင်လေသည်။ နာဇီတို့၏ကြိုးစားကြံစည်မှုမှာမအောင် မြင်ပဲ ဟစ်တလာလည်း အဖမ်းခံရပြီးသော် ထောင်ဒဏ် ငါးနှစ်အပြစ်ပေး ခံရလေသည်။ ထောင်ကျ နေသည့် အတောအတွင်း "ကျွန်ုပ်၏ ကြိုးပမ်းမှု" ခေါ် နာဇီတို့ ကျင့် စဉ်ကို ရေးသားခဲ့လေသည်။ ထောင်ထဲတွင် ရှစ်လမျှသာ နေရပြီးနောက် လွတ်လာလေသည်။

၁၉၂၄ ခုနှစ်မှ ၁၉၂၈ ခုနှစ် အတွင်းတွင်ကား ဂျာမနီ နိုင်ငံသည် စည်ကား ဝပြောနေလေရာ မကြေနပ်မှုများ မရှိသလောက် ဖြစ်သဖြင့် တော်လှန်ရေးများ မပေါ်ပေါက် ခဲ့ချေ။ သို့ရာတွင် ၁၉၂၉ ခုနှစ်လောက်မှ စ၍ ကမ္ဘာနှင့် အဝှန်း စီးပွားရေး ကြပ်တည်းမှု ပေါ်ပေါက်လာသောအခါ နာဇီတို့အဖို့ အခွင့်ကောင်းနှင့် ကြုံရပြန်လေသည်။ ဟစ် တလာသည်လည်း အခွင့်ကောင်းကို ယူ၍ ဂျာမန်လူထုအား မိမိတို့ စစ်ရှုံးရခြင်းမှာ ယဟူဒီများနှင့် မတ်ဝါဒီများကြောင့် ဖြစ်သည်ဟု အပြစ်ဖို့ကာ ဟောပြောပြီးလျှင် သူ့ဖက်သို့ ဆွဲဆောင်လေသည်။ စက်မှုလုပ်ငန်း အရင်းရှင်ကြီးများက လည်း သူ့ကို အားပေးထောက်ခံလာကြသည်။

နာဇီပါတီသည် တဖြည်းဖြည်း အားကောင်းလာရ ကား ၁၉၃၀ ပြည့်နှစ်တွင် ဂျာမန်လွှတ်တော်၌ နာဇီပါတီဝင် အမတ် ၁၀၇ ယောက်မျှရှိနေပြီဖြစ်သည်။ ၁၉၃၂ ခုနှစ်တွင်မှု ၁၉၆ အထိ တိုးတက်လာပြီးလျှင် ဂျာမနီနိုင်ငံတွင် အင်အား အတောင့်ဆုံး ပါတီဖြစ်လာလေသည်။ ထိုနှစ်တွင် ဟစ် တလာသည် ဟင်ဒင်ဗတ်နှင့် ယှဉ်ပြိုင်၍ သမတ ရာထူးကို အရွေးခံရာ ရှုံးနိမ့်သွား၏။ (ဟင်ဒင်ဗတ်၊ ပေါ်ဖွန် — လည်း ရှု။) သို့သော် ဖွန် ပေပင်တို့လူစုက စွမ်းဆောင်မှုကြောင့် ၁၉၃၃ ခုနှစ် ဇန္နဝါရီလ ၃၀ ရက်နေ့တွင် ဟစ်တလာသည် ဂျာမန် လွှတ်တော်၏အဓိပတိ (ဝန်ကြီးချုပ်) ဖြစ်လာသည်။ ၁၉၃၄ ခုနှစ်တွင် သမတ ဟင်ဒင်ဗတ် ကွယ်လွန်သောအခါ ဟစ်တလာသည် အဓိပတိ ရာထူးနှင့် သမတရာထူး နှစ်ခုလုံး ကို ပူးတွဲထမ်းရွက်လေသည်။

ဟစ်တလာသည် သူ၏ ရည်မှန်းချက်အတိုင်း ဂျာမနီ နိုင်ငံ၏ အထွတ်အထိပ်အဖြစ်သို့ ရောက်ပြီဖြစ်ရာ သူ၏ လုပ်ငန်းစဉ်ကို ချမှတ်ကာ စတင် ဆောင်ရွက်လေတော့ သည်။ နိုင်ငံ စည်းလုံးတောင့်တင်းမှုအတွက် ရှေးဦးစွာ သူသည် အတိုက်အခံပါတီများကို နှိပ်ကွပ်တိုက်ဖျက်သည်။ သူ၏ ပါတီဝင်များထဲမှ သူနှင့် သဘောချင်း မတိုက်ဆိုင်သူ များကိုလည်း "ပါတီ သန့်ရှင်းရေး"ဟု အကြောင်းပြကာ သုတ်သင်ပစ်လေသည်။ နာဇီပါတီမှသာလျှင် တရားဝင်ပါတီ ဖြစ်သည်ဟု ကျေညာပြီးသော် တပါတီစနစ်ကို ထူထောင် လေသည်။ နိုင်ငံရေး အာဏာများကိုလည်း သူ၏လက်ဝယ် ထားရှိပြီးနောက် သူ၏ လူယုံများမှတဆင့် နိုင်ငံကိုအုပ်ချုပ် သည်။ ဂျာမနီနိုင်ငံကို မည်ကဲ့သို့ အသွင်ပြောင်းလိုက် သနည်းဟူမူ ဂျာမန်လူများစုသည် ဟစ်တလာကို မိမိတို့ အား ကယ်တင်မည့်သူ ဟူ၍ပင် မှတ်ထင်လာကြတော့၏။ ထိုပြင် အတိုက်အခံ ပါတီများကို နှိပ်ကွပ်သည်ထက်ပင် ယဟူဒီများကို အနည်းငယ်မျှ သွေးစပ်သူများကိုပင် မချန်ပဲ ပိုမိုပြင်းထန်စွာ နှိပ်ကွပ် ညှဉ်းပန်းသည်။ နိုင်ငံမှလည်း နှင်ထုတ်ခဲ့လေသည်။

ထိုနောက်တွင် ဂျာမနီနိုင်ငံ၏ ဂုဏ်သရေကို ပြန်ဆယ် သည့် လုပ်ငန်းစလေတော့သည်။ နာဇီတို့သည် ဂျာမနီ နိုင်ငံသည် စစ်ရှုံးနိုင်ငံအဖြစ် ကမ္ဘာ့အလယ်တွင် မျက်နှာ ငယ်နေရသည်ကို မျက်နှာရှိရှိနှင့် တင့်တင့်တယ်တယ်ဖြစ် အောင် ဆောင်ရွက်ပေးမည်ဟု ဂျာမန်လူထုကို ကတိပေး ခဲ့သည်။ ထိုကတိအတိုင်း ဆောင်ရွက်ဖို့ပင် ဖြစ်သည်ဟု ယုံကြည်လေသည်။ သို့ဖြစ်၍ ပဌမတွင် လျှို့ဝှက်စွာ လက် နက်များကို တပ်ဆင် လေသည်။ နောင်အခါတွင်ကား အတိအလင်း လက်နက်များကို ပြုလုပ် တပ်ဆင်လေတော့ သည်။ ထိုသို့ လက်နက်အင်အား ဖြည့်တင်းကာ နိုင်ငံ တကာနှင့် ယှဉ်ပြိုင်သာအောင် ကြိုးပမ်းမှုမှာ နောက်ဆုံး စစ်မက်ဖြစ်ပွားသည့် အခြေသို့ ဆိုက်ရောက်တတ်သည့် အတိုင်း ဟစ်တလာ ခေါင်းဆောင်သော နာဇီတို့သည် တနည်းအားဖြင့် စစ်ဖြစ်ပွားရန် ကြိုးပမ်းမှုကို စတင် ဆောင်ရွက်သည်ဟု ဆိုနိုင်ပေသည်။ စင်စစ်သော်ကား အင်အားဖြည့်တင်းပြီးသော် နောက်တကြိမ် စစ်ပွဲကြီးတရပ် ကို ဆင်နွှဲကာ အနိုင်ယူလိုက်လျှင် ယခင်က ဂျာမနီနိုင်ငံ အသရေမဲ့ခဲ့သည်ကို သင်ပုန်းချေရာ ရောက်မည်ဟု နာဇီ တို့သည် တထစ်ချ မှတ်ယူထားကြ၏။

ဤသို့ဖြင့် လက်နက်များ တပ်ဆင်ပြီးနောက် ဂျာမန် အမျိုးသားများ စစ်ထဲမဝင် မနေရ ဥပဒေကို ပြန်လည် ပြဋ္ဌာန်းလိုက်လေသည်။ နိုင်ငံပေါင်းချုပ် အသင်းကြီးမှ နှုတ်ထွက်လိုက်၏။

၁၉၃၆ ခုနှစ်တွင် ရိုင်းလန်းနယ်ကို ချီတက် သိမ်းပိုက် လိုက်သည်။ ထို့နောက် ၁၉၃၈ ခုနှစ်တွင် ဂျာမနီနိုင်ငံမှ သိမ်းယူထားသော ဂျာမန် ကိုလိုနီနယ်များကို ပြန်လည် ပေးအပ်ရမည်ဟု တောင်းဆိုလေသည်။

၁၉၃၈ ခုနှစ်မှာပင် ဟစ်တလာသည် ဩတလီ အာဏာ

ရှင် မူဆိုလီနီနှင့် နားလည်မှုရယူကာ သူတို့၏ အကူအညီဖြင့် စပိန် ပြည်တွင်းစစ်ပွဲတွင် အနိုင်ရ၍ အာဏာသိမ်းပိုက်ခဲ့သော ဖရန်ကိုအစိုးရကို အသိအမှတ်ပြုလေသည်။ (မူဆိုလိုနီ–ဗင်နီတို။ ဖရန်ကို — လည်းရှု။) ၁၉၃၇ ခုနှစ်တွင် ဣတလီနှင့် မဟာမိတ်စာချုပ် လက်မှတ်ရေးထိုးလေသည်။ ၁၉၃၈ ခုနှစ်ဦးတွင် နာဇီတပ်များသည် ဩစတြီးယားနိုင်ငံကို သိမ်းပိုက်လိုက်သည်။ ချက်ကိုစလိုဗားကီးယား နိုင်ငံမှ ဆူဒက်တန်နယ်ကို မျူးနစ် စာချုပ်အရ ရရှိပြန်သည်။ ၁၉၃၉ ခုနှစ်တွင် ချက်ကိုစလိုဗားကီးယား နိုင်ငံရှိ ကျန်နယ်များကို သိမ်းယူ၏။ ထိုနှစ် ဩဂုတ်လတွင် ရုရှနိုင်ငံနှင့် ရန်မပြုရေး စာချုပ်ချုပ်ဆိုပြီးနောက် စက်တင်ဘာလတွင် ပိုလန်နိုင်ငံကို တိုက်ခိုက်လေသည်။ ထိုအခါကစ၍ ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်လေတော့သည်။ (ကမ္ဘာစစ်ကြီး၊ ဒုတိယ — လည်းရှု။)

ဒုတိယကမ္ဘာစစ် အစတွင် နာဇီဂျာမနီနှင့် အပေါင်းပါ နိုင်ငံများသည် အောင်ပွဲအလီလီ ခံခဲ့ရသော်လည်း မကြာမီ တရှုံးထဲ ရှုံးရသည့် အခြေနှင့် ရင်ဆိုင်ခဲ့ကြရလေသည်။ ထိုသို့ တရှုံးထဲ ရှုံးနေသဖြင့် နိုင်ငံအလုံး ပြုတ်ပြုတ်ပြုန်း ရတော့မည့် အရေးကို ကြိုတင်သိရှိလာကြသော အထက်တန်း စစ်ဖက်ဆိုင်ရာ အရာရှိကြီးများသည် နိုင်ငံကို ကယ်တင်ရန်အတွက် ဟစ်တလာကို ၁၉၄၄ ခုနှစ်တွင် လုပ်ကြံလေသည်။ သို့သော် အထ မမြောက်ခဲ့ချေ။

၁၉၄၅ ခုနှစ်တွင် ဘာလင်မြို့တော်ကြီးတွင် နေရာအတော်များများ၌ ရုရှစစ်တပ်များက သိမ်းပိုက်တပ်စွဲမိပြီးသောအခါ ဂျာမန် ရေတပ်ဗိုလ်ချုပ် ဒိုးနက်က ဟစ်တလာ ကျဆုံးသွားပြီဖြစ်၍ သူက ဟစ်တလာ့နေရာကို ဆက်ခံကြောင်း ကြေညာလေသည်။

ဟစ်တလာ၏ ဘဝဇာတ်သိမ်းခန်းမှာ မရေရာလှချေ။ ရုရှဗိုလ်ချုပ်ကြီး မာရှယ် ဇူးကော့ကမူ ဟစ်တလာသည် အီဗာ ဗရွန်း ဆိုသူအမျိုးသမီးကို လက်ထပ်ပြီးနောက် လေယာဉ်ပျံဖြင့် လွတ်မြောက်ကောင်း လွတ်မြောက်သွားမည်ဟု ဆို၏။ သို့သော် ၁၉၄၅ ခုနှစ် နိုဝင်ဘာလတွင် ထုတ်ပြန်သော မဟာမိတ် အုပ်ထိန်းရေးကောင်စီ၏ ပြန်တမ်းအရမူ ဟစ်တလာနှင့် အီဗာ ဗရွန်းတို့သည် ၁၉၄၅ ခုနှစ်ဧပြီလ ၂၉ ရက်နေ့တွင် လက်ထပ်ကြပြီးသော် ၃၀ ရက်နေ့ ၂ နာရီခွဲ ကျော်ကျော်တွင် ကိုယ့်ကိုယ်ကို သတ်သေကြသည်။ သူတို့၏ အလောင်းများကို မီးရှို့လိုက်ကြသည်ဟု ဆိုလေသည်။ သို့ဖြင့် မည်သူမျှ တပ်အပ်သေချာစွာ မပြောနိုင်သေးသည့်ပြင် ထိုသို့ တတ်အပ်သေချာစွာ မပြောနိုင်သည်နှင့် အမျှ ဟစ်တလာသည် တနေ့သော် ပြန်လာ၍ သူတို့ကို ကယ်တင် လိမ့်ဦးမည်ဟု ယုံကြည်နေကြသူတို့ကား အများအပြားပင် ရှိနေကြသေးသည်။ ၁၉၅၆ ခုနှစ်တွင် ရုရှတို့၏ အချုပ်ထောင်မှ လွတ်မြောက်လာခဲ့သော ဟစ်တလာ၏ ကိုယ်ရံတော်တဦးဖြစ်သူ ဗိုလ်မှူး အော့တိုး ဂွန်းရှေးက ဟစ်တလာသည် မိမိကိုယ်ကိုမိမိ သေနတ်နှင့်ပစ်၍ အဆုံးစီရင်ကြောင်း၊ ကြင်ယာတော် အီဗာဗရွန်းကမူ အဆိပ်သောက်၍ အဆုံးစီရင်ခဲ့ကြောင်း၊ ထို့နောက် သူတို့၏ အလောင်းများကို အော့တိုးနှင့် အပေါင်းပါတို့က ဓာတ်ဆီဖျန်း၍ မီးရှို့လိုက်ကြကြောင်း၊ သို့သော် ရုရှတပ်များ ချဉ်းကပ်လာသည်နှင့် မီးကောင်းစွာ လောင်သည် အထိ မစောင့်နိုင်တော့ပဲ မြေမြှုပ်သင်္ဂြိုဟ်ရန် တပည့်များကို မှာကြားခဲ့ကြောင်းနှင့် သတင်းစာဆရာများကို ပြောကြားခဲ့လေသည်။

**ဟစ်တိုက်လူမျိုး။** ။ရှေး ဘီစီ ၂၅၀၀ ခန့်က ပင်လယ်နက်တောင်ဖက်တွင် အနောက်ဖက်၌ အီဂျီးယန်း ပင်လယ်နှင့် အရှေ့ဖက်၌ ကက်စပျန် ပင်လယ်အတွင်းရှိ အာရှမိုင်းနားခေါ် ဒေသတွင် ဟစ်တိုက်ခေါ် လူတမျိုးနေထိုင်ခဲ့လေသည်။ ထိုလူမျိုး၏ အဆက်အနွယ် ဖြစ်သော အာမီးနီးယန်းလူမျိုးသည် ယခုတိုင် ထိုဒေသ၌ နေထိုင်လျက်ရှိသေးသည်။

ဟစ်တိုက် လူမျိုးသည် မည်သည့်လူမျိုးဖြစ်သည်ဆိုသည်ကို အတိအကျ မပြောနိုင်ချေ။ ထိုလူမျိုးသည် လူမျိုးချင်း ရောနှောနေသော လူမျိုးဖြစ်နိုင်သော်လည်း အဆီးရီးယန်း၊ ဗက်ဗီလုံးနီးယန်းနှင့် ဖီနီရှန်းလူမျိုးတို့ကဲ့သို့ ဆီးမိုက်လူမျိုးကား မဖြစ်တန်ရာ။ ဟီဗြူလူမျိုးလည်း ဖြစ်နိုင်ပုံမရချေ။ သို့သော် ဟစ်တိုက်လူမျိုးသည် ဟီဗြူလူမျိုးနှင့် စိတ်ဝင်စားဖွယ် ကောင်းလောက်သော အဆက်အသွယ်များကား ရှိခဲ့လေသည်။ ဟစ်တိုက်လူမျိုးတို့ အသုံးပြုသော ဘာသာစကားသည် ဂရိနှင့် ပါးရှင်းလူမျိုးတို့ အသုံးပြုသော အင်ဒိုယူရိုပီယန် ဘာသာစကားဖြစ်ကြောင်းကို ယခုအခါတွင် သိနိုင်လေသည်။ ထို့ပြင် ထိုဟစ်တိုက်လူမျိုးတို့သည် ဂရိနှင့် ပါးရှင်းလူမျိုးတို့ကဲ့သို့သော လူမျိုးဖြစ်သည်ဟု အချို့က ယုံကြည်ကြလေသည်။

ရှေးလွန်ခဲ့သည့် ဘီစီ ၂၀၀၀ ခန့်က အဆီးရီးယားမြို့သည် ယခုကဲ့သို့ မထင်ရှားသေးချေ။ မြို့၏ အမည်မှာလည်း အဆီးရီးယားဟု မတွင်သေးပဲ အဆာဟုသာ တွင်သေးပြီးလျှင် မြို့မှာလည်း မြို့ကလေးမျှသာ ရှိသေးသည်။ ထိုအခါက ဟစ်တိုက်လူမျိုးနှင့် ဗက်ဗီလုံးလူမျိုးတို့သည် ထိုမြို့ကလေးကို တလှည့်စီ အုပ်စိုးခဲ့ကြလေသည်။ အဆီးရီးယန်းလူမျိုးသည် ဟစ်တိုက်တို့ထံမှ နန်းတော်ကို မည်ကဲ့သို့ ဆောက်တည် ရသည်။ ကျောက်များကို ပုံဖြစ်အောင် မည်ကဲ့သို့ ဆစ်ယူရသည် စသည့် အချက်အလက် အမြောက်အမြားကို ရယူလိုက်ကြလေသည်။ ဟစ်တိုက်လူမျိုးတို့က ယင်းတို့၏ နန်းတော်အဝင်ဝ တဖက်တချက်တွင် ခြင်္သေ့ရုပ်



ရှေးဟောင်း ဟစ်တိုက်လူမျိုးတို့၏ ရုပ်တုတခု

ဖြစ်ကောင်းဖြစ်နိုင်သော အရုပ်များကို ထုလုပ်၍ထားကြသဖြင့် နန်းတော်ကြီးကို ပို၍ ထယ်ဝါလာစေပုံကို အဆီးရီးယန်း လူမျိုးတို့က သဘောကျပြီးလျှင် ယင်းတို့၏အဆောက်အအုံ အဝင်ဝများတွင် အရုပ်များကို ထုလုပ်၍ ထားခဲ့ကြလေသည်။ ထိုပြင် ဟစ်တိုက်တို့သည် ဦးခေါင်းနှစ်ခုရှိသော လင်းယုန်ငှက်ပုံကိုလည်း ထုလေ့ရှိကြသည်။ ထိုဦးခေါင်းနှစ်ခုရှိသော လင်းယုန်သည် နောင်တွင် သုံးစွဲခဲ့ကြသည့် အချို့ ကြေးငွေနှင့် အမျိုးသား အထိမ်းအမှတ်ပုံအဖြစ် ပေါ်ပေါက်လာမည့် ရှေ့ပြေးပုံ ဖြစ်ခဲ့လေသည်။

သံကို စတင်၍ အသုံးပြုခဲ့သောလူမျိုးများတွင် ဟစ်တိုက်လူမျိုးလည်း အပါအဝင်ဖြစ်သည်။ ထို ဟစ်တိုက်လူမျိုးသည် ပင်လယ်နက် ကမ်းခြေတလျှောက်တွင် သံသတ္တုတွင်းများကို တူးဖော်ကြပြီးလျှင် ဓားကို သံဖြင့် ပြုလုပ်ခဲ့ကြသည်။ သံသည် အလွန်မာကျောပြီးလျှင် ကြေးညိုထက် ပို၍ ခိုင်ခံ့လေသည်။ ထိုကြောင့် ကြေးညိုဖြင့် ပြုလုပ်သည့် ဓားနှင့် တိုက်ခိုက်သူအား သံဓားဖြင့် တိုက်ခိုက်သူက လွယ်ကူစွာနှင့် အနိုင်ယူနိုင်လေသည်။ ဟစ်တိုက် လူမျိုးသည် ထိုကဲ့သို့ သံကို လက်နက်အဖြစ် အသုံးပြုနိုင်သောအခါ သူတို့နေထိုင်သည့် ဒေသမှ တောင်ဖက်သို့ နယ်ချဲ့ကြရာ ဘီစီ ၁၄၀၀ ခန့်တွင်အာမီးယန်းများ နေထိုင်သော ဆီးရီးယားကို တိုက်ခိုက်ယူနိုင်ခဲ့ရုံမက ထိုဒေသတဝိုက်ကို အီဂျစ်ဘုရင်များ မသိမ်းယူ နိုင်အောင်လည်း ဟန့်တားနိုင်ခဲ့လေသည်။

ဟစ်တိုက်လူမျိုး အမြောက်အမြားသည် ဆီးရီးယားထက် တောင်ဖက်ကျသော ဒေသများသို့ ဆောက်အောင်ဆက်၍ ချီတက်ကြပြီးလျှင် ပယ်လက်စတိုင်တွင် အတည်တကျ နေထိုင်ကြပြီးနောက် ဟီဗြူနှင့်အခြားဆီးမိုက်လူမျိုးများနှင့် ရောနှောကာ အိမ်သောင်ဖက်များ ပြုလုပ်၍ နေထိုင်ကြလေသည်။

ဘီစီ ၁၉၂၅ ခုနှစ်တွင် ဟစ်တိုက်လူမျိုးတို့ ဗက်ဗီလုံကို ဝင်ရောက်တိုက်ခိုက်ပြီးလျှင် ဗက်ဗီလုံ မင်းဆက်ကို ဖျက်ဆီးပစ်လိုက်လေသည်။ ဆပ်ဗီလူလီယူမာ ဆိုသည့် ဟစ်တိုက်တို့၏ ဘုရင်လက်ဘက် ဘီစီ ၁၄၀၀ ခန့်တွင် ဗက်ဗီလုံထီးနန်းကို သိမ်းပိုက်လိုက်ပြီးလျှင် ဟစ်တိုက်ဘို့၏ အင်ပါယာကြီး အတွင်းသို့ နယ်သစ်များကို ထပ်မံ၍ ထည့်သွင်းပေးနိုင်ခဲ့လေသည်။ ထိုဘုရင် လက်ဘက်ဘွင် အီဂျစ်တို့ပိုင်ဆိုင်သော အင်ပါယာ၏ အစိတ်အပိုင်းကို ဟစ်တိုက်ဘို့၏ အင်ပါယာအတွင်းသို့ ထည့်သွင်းနိုင်ခဲ့လေသည်။ သို့သော်နောက်ပိုင်းဘွင် အီဂျင်ဘုရင်နှင့် မဟာမိဘ် ဖွဲ့ရသည်ကို တွေ့ရသည်။

ဘီစီ ၁၄၀၀ မှ ၁၂၀၀ ခုနှစ်များအတွင်းတွင် ဟစ်တိုက်လူမျိုးတို့၏ ဘုန်းတန်ခိုးသည် အထွတ်အထိပ်သို့ ဆိုက်ရောက်ချိန် ဖြစ်သည်။ ဟစ်တိုက်တို့ တိုင်းပြည်၏မြို့တော်မှာ ခတ်တိမြို့ဖြစ်၍ ထိုမြို့သည် ပင်လယ်နက်၏ တောင်ဖက်တွင် တည်ရှိလေသည်။

ဘီစီ ၁၄၀၀ မတိုင်မီက ဟစ်တိုက်တို့သည် အီဂျစ်တို့နှင့် မိတ်ဆွေအဖြစ်ဖြင့်၎င်း၊ ရန်သူအဖြစ်ဖြင့်၎င်း၊ မိတ်ဆွေနှင့် ရန်သူအဖြစ်ဖြင့်၎င်း တွေ့ဘူးခဲ့ကြသည်။ အီဂျစ်တို့သည် သူတို့မြင်သမျှသော အရာဝတ္ထုနှင့် သူတို့ စိတ်ဝင်စားသမျှတို့ကို ရုပ်ပုံများ ဆွဲလေ့ရှိသူများ ဖြစ်သည်။ အီဂျစ်လူမျိုးတို့ ရေးဆွဲသည့် ရုပ်ပုံများတွင် ဟစ်တိုက်လူမျိုးတို့၏ ရုပ်ပုံများကိုလည်း တွေ့နိုင်သည်။ ဟစ်တိုက်လူမျိုး၌ ထူးခြားသည့် နှာခေါင်းရှိသည်။ ထို နှာခေါင်းသည် လင်းယုန်၏ နှုတ်သီးနှင့် ခပ်ဆင်ဆင်တူလေသည်။ ဟစ်တိုက်လူမျိုးမှ ဆင်းသက်လာသည့် အာမီးနီးယန်းလူမျိုးတွင် ထိုကဲ့သို့သော နှာခေါင်းမျိုးရှိသည်။

အာရှမိုင်းနားကို ရောက်ဖူး၍ လှည့်လည်ကြည့်ရှုမည်ဆိုလျှင် ကျောက်များတွင် တွင်းထုထားသော ထူးဆန်းသည့် အရုပ်များကို မြင်နိုင်ပေလိမ့်မည်။ ထိုအရုပ်များတွင် ရှေး အီဂျစ်လူမျိုးတို့ အသုံးပြုခဲ့ဘူးသော ရုပ်ပုံစာများကိုပါ မြင်နိုင်ပေလိမ့်မည်။ ထိုရုပ်ပုံစာများသည် ရှေး ဟစ်တိုက်လူမျိုးတို့ ရေးထိုးထားခဲ့သော ရုပ်ပုံစာများ ဖြစ်ကြလေသည်။ ထိုရုပ်ပုံစာများသည် တနည်းတဖုံ ရေးထိုးထားခြင်း ဖြစ်သဖြင့် ထို ရေးထိုးထားချက်များကို အချိန်အတော်ကြာသည်အထိ မည်သူမျှ မဖတ်နိုင်ခဲ့ချေ။

ထိုကဲ့သို့သော ရေးထိုးထားခြင်းများကိုသာ တွေ့ရသည်မဟုတ်သေး၊ ဗက်ဗီလုံလူမျိုးတို့ အသုံးပြုခဲ့သော သပ်ပုံသဏ္ဌာန် အက္ခရာများကိုလည်း တွေ့ရပေဦးမည်။ ထိုသို့ ရေးထိုးရာတွင်လည်း ဟစ်တိုက်တို့သည် ဗက်ဗီလုံလူမျိုးတို့ အသုံးပြုခဲ့သကဲ့သို့ တသွေမတိမ်းတူအောင် အသုံးမပြုခဲ့ချေ။ မိမိတို့၏ ကိုယ်ပိုင်လက္ခဏာ အမြောက်အမြားကို ထည့်၍ အသုံးပြုထားခဲ့ကြသည်ကို တွေ့ရပေမည်။ဟစ်တိုက်လူမျိုးတို့၏ ဥပဒေများမှာ ထင်ရှားကျော်ကြားလေသည်။ ဟစ်တိုက်လူမျိုးတို့၏ ယဉ်ကျေးမှုသည် အီဂျစ်နှင့် ဗက်ဗီလုံလူမျိုးတို့၏ ယဉ်ကျေးမှုများနှင့် စာလျှင် ရည်ရည်မွန်မွန်မရှိလှသည်ကို တွေ့ရပေလိမ့်မည်။

၁၉၁၆ ခုနှစ်တွင် ဩစတြီးယန်း လူမျိုးတဦးက ဟစ်တိုက်လူမျိုးတို့ ရေးထိုးထားခဲ့သည်များကို ဖတ်နိုင်သဖြင့် ဂရိလူမျိုး ဟိုးမား ရေးစပ်ထားသည့် လင်္ကာတွင် ပါရှိသော ထရွိုင်းမြို့ကြီး၏ အကြောင်းကို ရေးထိုးထားခြင်း ဖြစ်သည်ကို သိရလေသည်။ ထို့ပြင် ဒုတိယ ရမ်မီးဆီးခေါ် အီဂျစ်ဘုရင်က တခါတွင် ဟစ်တိုက်ဘုရင်ထံသို့ သံသန့်သန့် တင်ပို့ပေးရန် မှာထားသည့်အကြောင်းနှင့် ဟစ်တိုက်ဘုရင်က သံဓားတလက်ကို ပဌမ တင်ပို့ပေးပြီးသည့်နောက်တွင် သံများကို တင်ပို့ပေးသည့်အကြောင်းကိုပါ သိရလေသည်။

ဟစ်တိုက်ဘုရင်သည် အီဂျစ်ဘုရင်နှင့် မဟာမိတ် ဖွဲ့ရသည့်နောက်ပိုင်းတွင် အဆီးရီးယန်းလူမျိုးနှင့် ပင်လယ်မှလူများက ဟစ်တိုက် လူမျိုးတို့အား တိုက်ခိုက်ကြသဖြင့် ထိုလူမျိုး၏ ဘုန်းတန်ခိုးသည် သေးသိမ်၍ သွားရုံမက ဘီစီ ၇၁၇ ခုနှစ်တွင် ဒုတိယ ဆာဂွန်ဘုရင်က ဟစ်တိုက်တို့၏ မြို့တော်ကို သိမ်းပိုက်လိုက်လေသည်။ ထို အချိန်မှ စ၍ ဟစ်တိုက်လူမျိုးတို့၏ တိုင်းပြည်နှင့် တိုးတက်မှုများသည် ပြိုကွဲကုန်ပြီးလျှင် သူတို့၏အကြောင်းအရာများသည်လည်း မေ့မှိန်သည်ထက် မေ့မှိန်၍သွားတော့ လေသည်။

ဟစ်တိုက်လူမျိုးတို့သည် ထွန်ယက်စိုက်ပျိုးသည့် လုပ်ငန်းတွင် ဝါသနာပါပြီးလျှင် ကျွဲနွားများ မွေးမြူရာတွင်လည်း လွန်စွာကျွမ်းကျင်လေသည်။ ပျားများကို မွေးမြူကြသည့်အပြင် မြင်းများကိုလည်း မွေးမြူပြီးလျှင် ယဉ်ပါးအောင် လုပ်ယူကြလေသည်။ ဟစ်တိုက် လူမျိုးသည် နတ်များကို ကိုးကွယ်လေ့ ရှိကြလေသည်။

**ဟဒ်ဆန်,ဟင်နရီ** (ခရစ် ၁၆၁၁ ခုလွန်၊)။ ။အရှေ့မြောက် ပင်လယ်ခရီးဖြင့်၎င်း၊ အနောက်မြောက် ပင်လယ်ခရီးဖြင့်၎င်း အာရှတိုက်သို့ ပေါက်ရောက်သွားနိုင်အောင် ကြိုးစားခဲ့သော လူစွန့်စားအင်္ဂလိပ်လူမျိုး သင်္ဘောကပ္ပတိန်တဦးကား ဟင်နရီ ဟဒ်ဆန် ဖြစ်လေသည်။၁၆၀၇ ခုနှစ်တွင် ငွေရေးကြေးရေး တောင့်တင်းလှသော မတ်စကိုဗီကုမ္ပဏီက တရုပ်နိုင်ငံသို့ အရှေ့မြောက် ပင်လယ်ခရီးဖြင့် စမ်းသွားကြည့်ရန် စေလွှတ်သည့်အခါမှ စတင်၍ ဟင်နရီ ဟဒ်ဆန်၏ အကြောင်းကို သိရလေသည်။ ထိုအလျှင်က ဟဒ်ဆန်၏ အကြောင်းကို မသိကြရချေ။

ထိုစဉ်က အရှေ့ဖက်နိုင်ငံများသို့ သွားရာ တခုတည်းသော လမ်းကို တူရကီတို့က ကြီးစိုးခြယ်လှယ်နေကြသဖြင့် တရုပ်နိုင်ငံ စသည့် ထိုအရှေ့နိုင်ငံများနှင့် ကူးသန်းရောင်းဝယ်နိုင်မည့် လမ်းပေါက်ရရန် ထိုခေတ်က လူများကြိုးစားခဲ့ကြလေသည်။ ထိုလမ်းပေါက်သာ ရှာဖွေ တွေ့ရှိပါက များစွာ အကျိုးဖြစ်ထွန်းနိုင်ဖွယ် ရှိသဖြင့် အင်္ဂလိပ်၊ ဒပ်ချ စသည့် ဥရောပ နိုင်ငံများမှ ကုန်သည် ကြီးများသည် လမ်းပေါက်ရှာရန် အဖွဲ့များ စေလွှတ်ခဲ့ကြလေသည်။

သို့ဖြစ်၍ ၁၆၀၇ ခုနှစ်တွင် မတ်စကိုဗီ ကုမ္ပဏီက ဟဒ်ဆန်အား ထိုသို့ လမ်းပေါက်ရှာရန် စေလွှတ်ခဲ့၏။ ပဌမအကြိမ်တွင် ဟဒ်ဆန်သည် အရှေ့မြောက်ဖက်သို့ ခရီးထွက်ခဲ့ရာ ဂရင်းလန်း ကမ်းခြေတလျှောက်နှင့် စပစ်ဇဗာဂင် ကျွန်းစုများသို့ ရောက်ခဲ့၏။ ထိုအကြိမ်တွင် ဟဒ်ဆန်မှာ



ဟဒ်ဆန် ပင်လယ်အော်ကို စတင်တွေ့ရှိခဲ့သူ ဟင်နရီ ဟဒ်ဆန်

သူ၏ ရည်မှန်းချက် မပေါက်ခဲ့သော်လည်း ထို ဒေသများတွင် ဝေလငါးကြီးများ ပေါ်များလှသဖြင့် ဝေလငါးဖမ်းလုပ်ငန်းအတွက် အလားအလာများ ရှိကြောင်းကိုကား တွေ့ခဲ့လေသည်။

ထိုကုမ္ပဏီအတွက်ပင် နောက်တနှစ်တွင် ဒုတိယအကြိမ် ခရီးထွက်ခဲ့ပြန်သည်။ ထိုအကြိမ်တွင် ရေခဲများ ပိတ်ဆို့နေသော ကာရာ ရေလက်ကြားကို ဖြတ်ကျော်ရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်သောကြောင့် ပဌမအကြိမ်ကဲ့သို့ပင် မည်သို့မျှ အကြောင်းမထူးပဲ ပြန်ခဲ့ရလေသည်။ ၁၆၀၉ ခုနှစ်တွင် ဒပ်ချ အရှေ့အိန္ဒိယကုမ္ပဏီက စေခိုင်းချက်ကြောင့် အာရှတိုက်သို့ ပေါက်သော အနောက်မြောက် လမ်းခရီးကိုရှာရန် ခရီးထွက်ရပြန်၏။ ထို အကြိမ်တွင် ဒပ်ချတို့ပေးသော ''လခြမ်း''အမည်ရှိ သင်္ဘောကလေးဖြင့် ခရီးထွက်ခဲ့ရာ မြောက်အမေရိကတိုက်၏ အရှေ့မြောက်ဖက် ဒေသရှိ မြစ်တမြစ်ကို ဆန်တက်ခဲ့လေသည်။ ထိုမြစ်အား သူ့အမည်ကို အစွဲပြု၍ ဟဒ်ဆန်မြစ်ဟု အမည်ပေးခဲ့လေသည်။ ဟဒ်ဆန်သည် ထိုမြစ်ကို ယခု နယူးယော့ပြည်နယ်ရှိ အော်လဗနီ မြို့နားအထိ ဆန်တက်နိုင်ခဲ့၏။ ယခုခေတ် လူများအဖို့ ဟဒ်ဆန်သည် ဟဒ်ဆန်မြစ်ကြောင်းကိုလိုက်ကာ တရုပ်နိုင်ငံသို့သွားရန် လမ်းပေါက်ရှာခဲ့ခြင်းမှာ ရယ်စရာလို ဖြစ်နေသော်လည်း ထိုခေတ်က မြေပုံလည်း မပေါ်သေးပဲ မှန်းဆချက်ဖြင့်သာ တခါမျှ မသွားဘူးသေးသော ခရီးကို စွန့်စားကာ ထွက်ခဲ့ရခြင်းဖြစ်၍ မှန်းဆသည့်နေရာကို ရောက်ချင်မှ ရောက်ပေမည်။ သို့သော် ထိုသို့ စွန့်စားသွားလာခဲ့သည့်အတွက် ခြီးကျူးရမည် ဖြစ်၏။ တရုပ်နိုင်ငံသို့ မရောက်ခဲ့သော်လည်း ဟဒ်ဆန် ရောက်ခဲ့သည့် ဒေသများတွင် သားမွေး လုပ်ငန်းကို လုပ်ကိုင်နိုင်သည့်အတွက် ဒပ်ချ ကုန်သည်များမှာ တနည်းတဖုံ အကျိုးရှိခဲ့ပေသည်။ ဒပ်ချတို့သည် ထိုဒေသများတွင် လာရောက်အခြေတည်ကာ နေထိုင်၍ သားမွေး အရောင်းအဝယ်ကို လုပ်ကိုင်ခဲ့လေသည်။

ဟဒ်ဆန်သည် နောက်ဆုံးဖြစ်သော စတုတ္ထအကြိမ်တွင် အင်္ဂလိပ်ကုမ္ပဏီ တခုအတွက် ခရီးထွက်ခဲ့ရလေသည်။ ထိုအကြိမ်တွင် သူသည် နောင်အခါ၌ သူ့အမည်ကို အစွဲပြုကာ ဟဒ်ဆန်ရေလက်ကြားဟု ခေါ်ဝေါ်နေသော ရေလက်ကြားနှင့်ဟဒ်ဆန်ပင်လယ်အော်ဟုခေါ်နေသောပင်လယ်အော်တို့ရှိရာသို့ရောက်ခဲ့လေသည်။ (ဟဒ်ဆန်ပင်လယ်အော်—ရှု။)

သို့သော် သူတို့လူစုသည် ဆိုးရွားလှသော ရာသီဥတု၏ ဒဏ်ကို ခံစားခဲ့ရပြီးလျှင် ရိက္ခာပြတ်ခြင်း စသည့် အခက်အခဲ များစွာတို့နှင့်လည်း တွေ့ကြုံခဲ့ရလေ၏။ ထိုကြောင့် သူ၏ သင်္ဘောသားများသည် ပုန်ကန်ကြ၍ ဟဒ်ဆန်နှင့် သူ၏သားငယ်တို့ကို အခြားသစွာရှိ သင်္ဘောသားအချို့နှင့် အတူ လှေငယ်တစင်းပေါ် တင်ကာ ပင်လယ်ပြင်တွင် မျှော လိုက်ကြလေသည်။ ထိုနောက်၌ သူတို့၏ သတင်းကို မကြားရတော့ချေ။

ဟဒ်ဆန်၏ စွန့်စားမှုများသည် ပထဝီဝင် ဆိုင်ရာ အတွက်သာ အကျိုးများသည် မဟုတ်သေး စပစ်စဗာဂင် ကျွန်းစုတွင် ငါးဖမ်းသည့် လုပ်ငန်းနှင့် ဟဒ်ဆန်ပင်လယ် အော် တဝိုက်တွင် သားမွေးလုပ်ငန်းကိုပါ ဖြစ်ထွန်းစေခဲ့လေသည်။

**ဟဒ်ဆန် ပင်လယ်အော်။** ။ဟဒ်ဆန် ပင်လယ်အော်သည် ကနေဒါနိုင်ငံ၏အရှေ့မြောက်ဖက်တွင် ရှိသော ကုန်းတွင်းပင်လယ်ကြီး ဖြစ်သည်။ ထိုပင်လယ်အော်သည်အရှေ့ဖက်တွင် ဟဒ်ဆန်ရေလက်ကြားဖြင့် အတ္တလန္တိတ် သမုဒ္ဒရာနှင့် ဆက်စပ်လျက်ရှိ၍၊ မြောက်ဖက်တွင် အာတိတ် သမုဒ္ဒရာနှင့် ဖောက် ရေလက်ကြားကြီးဖြင့်၎င်း၊ ဖျူရီနှင့် ဟက်ကလာ ရေလက်ကြားတို့ဖြင့်၎င်း ဆက်စပ်လျက်ရှိသည်။ ထိုပင်လယ်အော်၏ တောင်ဖက်အစွန်းကို ဂျိမ်းပင်လယ်အော်ဟူ၍ ခေါ်သည်။ ထိုကုန်းတွင်း ပင်လယ်အော်ကြီးသည် မိုင်ပေါင်း ၅၉၀ ကျယ်၍ တောင်နှင့်မြောက်သည် မိုင် ၃၅၀ ရှည်သော ဂျိမ်းပင်လယ်အော်အပါအဝင် မိုင်ပေါင်း ၁,၃၀၀ ရှည်သည်။ ဖောက်ရေလက်ကြားကြီးကပင် မိုင် ၃၅၀ ကျယ်ဝန်းလေသည်။ ထိုပင်လယ်အော်၏ ပျမ်းမျှ အနက်မှာ မိုင်ပေါင်း၇၀ ခန့် ဖြစ်၍ ဟဒ်ဆန်ရေလက်ကြား

အဝင်ဝတွင်အလံ ၁၀၀ အထိ နက်သွားလေသည်။ ဂျိမ်းပင်လယ်အော်သည် ပို၍တိမ်သဖြင့် သင်္ဘောများသွားလာရန် မသင့်ချေ။ သို့သော် မုစ မြစ်ဝအထိ ရေလက်ကြားကြီး၏ အလယ်တွင်မူ သင်္ဘောများသွားလာနိုင်သည်။ အဓိကပင်လယ်အော်၏ဗဟိုနှင့် အနောက်ဖက်ပိုင်းတို့တွင် သောင်တိမ်များ၊ ကျောက်ဆောင်များ၊ သို့မဟုတ် ကျွန်းများ လုံးဝမရှိသော်လည်း အရှေ့ဖက်ကမ်းခြေတလျှောက်တွင်မူ ကျွန်းကလေးများ နှစ်တန်း တန်းလျက် ရှိသည်။ ကျွန်းတတန်းသည် ကမ်းခြေနှင့်ကပ်လျက်ရှိ၍ အခြားတတန်းကမူ ကမ်းခြေနှင့် မိုင်ပေါင်း ၇၀ မှ ၁၀၀ အထိ အကွာတွင် တည်ရှိသည်။ ထိုပြင် အခြားပြန့်ကြဲလျက်ရှိသော ကျွန်းစုများကလည်း ရှိသေးသည်။ ဟာဒ်ဆန် ပင်လယ်အော်သည် ကမ္ဘာတွင် တတိယအကြီးဆုံး ကုန်းတွင်းပင်လယ် ဖြစ်သည်။

ထိုကုန်းတွင်းပင်လယ်ကြီး၏ အရှေ့ဖက်တွင် ကွီဗက်နှင့် အွန်တေရီယို ပြည်နယ်များရှိ၍ အနောက်ဖက်တွင် မနီတိုဗားနှင့် အနောက်မြောက်နယ်များ ရှိသည်။ ထိုပင်လယ်အော်ကြီး၏ ရေိယာမှာ စတုရန်းမိုင်ပေါင်း ၄၄၃,၇၅၀ ခန့်ရှိသည်။

ဟာဒ်ဆန်ပင်လယ်အော်အတွင်းသို့ မြစ်ပေါင်း ၃၀ ခန့် စီးဝင်လျက်ရှိရာ ထိုမြစ်များအနက် အကြီးဆုံးများမှာ နယ်လဆင်နှင့် ချာချီ မြစ်များ ဖြစ်သည်။ ထိုမြစ်နှစ်မြစ်၏ အဝများတွင် အလွန်ကောင်းမွန်သော သင်္ဘောဆိပ်များ ရှိသည်။ ဟာဒ်ဆန်ပင်လယ်အော် မီးရထားလမ်း ရှိသဖြင့် ကနေဒါပြည်၏ အနောက်ပိုင်းတွင် ထွက်သော ကျွဲနွားများနှင့် ဂျုံ၊ စပါးတို့ကို ပင်လယ်အော်သို့ သယ်ဆောင်ပေးနိုင်သည်။

ဆောင်းရာသီအတွင်း၌ ဟာဒ်ဆန် ပင်လယ်အော်အတွင်း သွားလာရေးသည် ဘေးမကင်းချေ။ ခြောက်လကျော်ကျော်မျှ ရေလက်ကြား၌ရေခဲများရှိသည်။ ထိုပြင် ပင်လယ်အော်သည် မြောက်သံလိုက်ဝင်ရိုးစွန်း အနီး၌ တည်ရှိသဖြင့် သင်္ဘောများသွားလာရာတွင် အိမ်မြှောင်များအား အသုံးပြုရာ၌ အခက်အခဲနှင့် တွေ့ကြရသည်။ သံလိုက်ဝင်ရိုးစွန်းက အိမ်မြှောင်များကို ဆွဲယူသဖြင့် မြောက်အရပ်မှန်ကို သိနိုင်ရန် ခဲယဉ်းလေသည်။

ပင်လယ်အော်၏အရှေ့နှင့် အရှေ့မြောက်ဖက်ရှိ ကမ်းစောက်များမှလွဲလျှင် ကမ်းခြေသည် နိမ့်သဖြင့် သားကောင်များကို တွေ့နိုင်သည်။ အမဲထောင်သူများ၊ မုဆိုးများ၊ ရွှေရှာသူများနှင့် သတ္တုရှာသူများ အနေအထိုင်များသည်။

ဟာဒ်ဆန် ပင်လယ်အော်၏ ရာသီဥတုမှာ ပြင်းထန်၍ အေးသောဆောင်းရာသီသည် တာရှည်သည်။ ပင်လယ်သို့ အဓိကထွက်ပေါက်ဖြစ်သော ဟာဒ်ဆန် ရေလက်ကြားသည် ဇူလိုင်လမှ နိုဝင်္ဘာလအထိသာ ရေခဲများ ကင်းရှင်းသည်။

တိုတောင်းသည့် နွေရာသီများတွင် သင်္ဘောများသည် ထိုကုန်းတွင်းပင်လယ်အတွင်းသို့ ဝင်လာကြပြီးလျှင် ငွေကြေး မြောက်မြားစွာတန်သော သားမွေးများကို တင်ဆောင်ကာ သွားကြလေသည်။ ကမ်းရိုးတန်း အနီးနေ တိုင်းရင်းသားများနှင့် အက်စကီးမိုးလူမျိုးတို့ကလည်း ပင်လယ်ဖျံများ၊ လင်းပိုင်ခေါင်းတိုများနှင့် ဝါးလရုပ်ဖျံများကို ဖမ်းယူကြလေသည်။ ထိုပြင် ကော့ဒငါးနှင့် ဆာမန်ငါးများအပြင် အခြားစားနိုင်သော ငါးများကိုလည်း ဖမ်းယူကြလေသည်။

ဟာဒ်ဆန် ပင်လယ်အော်တွင် ရေခဲများ အရည်ပျော်ခြင်းသည် အချိန်ကြာမြင့်ခြင်းနှင့် မြေဆီလွှာများပေါ်တွင် ရေခဲများဖုံးလွှမ်းနေခြင်းကြောင့် မြေသြဇာညံ့သဖြင့် အစာရေစာများကို များသောအားဖြင့် အခြားနေရာများမှ တင်သွင်းယူရသည်။ ထိုကြောင့် သားကောင်များကို ထောင်၍ ဖမ်းယူခြင်းနှင့် သတ္တုတွင်းများ တူးဖော်ခြင်းတို့က လယ်ယာလုပ်ကိုင်ခြင်းထက် ပို၍အရေးပါလေသည်။ မြေခွေး၊ ပင်လယ်ဖျံ၊ မြေပါမြီးတိုနှင့် အချိုကြောင်မြီးတိုတို့ကဲ့သို့ သားမွေးရှိ တိရစ္ဆာန်များသည် လယ်ယာများထက် ပို၍ အရေးကြီးလေသည်။ ထိုပြင် ထိုပင်လယ်အော်အတွင်း၌ ဝေလငါးဖြူနှင့် အာတိတ် ဆာမန်ငါးများကိုပါ ဖမ်းယူနိုင်လေသည်။ ယခုအခါတွင် သတ္တုတွင်းလုပ်ငန်းက သားမွေးလုပ်ငန်းထက် ပို၍ အရေးကြီးလာ လေသည်။ ရွှေ၊ ငွေ၊ ကြေးနီ၊ ခဲ၊ သွပ်၊ စကျင်ကျောက် (ထုံးကျောက်နု) နှင့် သစ်များသည် အရေးကြီးသည့် ထွက်ကုန်များ ဖြစ်ကြသည်။

ထိုသို့ သတ္တုများ တူးဖော်ရရှိသဖြင့် လမ်းပန်းဆက်သွယ်ရေးသည်လည်း အရေးကြီးလာသည်။ ထိုကြောင့် မီးရထားလမ်း၊ မော်တော်ကားလမ်းနှင့် လေယာဉ်လမ်းများ ပို၍များပြားလာသည်။

ဟာဒ်ဆန် ပင်လယ်အော်ဟု ခေါ်ကြခြင်းမှာ ၁၆၁၀ ပြည့်နှစ်တွင် ထိုပင်လယ်အော်ကို ဟင်နရီ ဟာဒ်ဆန် က စတင်၍ စူးစမ်းလေ့လာခဲ့ခြင်းကြောင့် ဖြစ်လေသည်။ (ဟာဒ်ဆန်,ဟင်နရီ — လည်းရှု။)

**ဟိတ်၊ လေဘ့** (ခရစ် ၁၈၆၁–၁၉၂၈)။ ။အားဘွဲရ ဒေါက်ဂလပ် ဟိတ်သည် ပဌမကမ္ဘာစစ် (၁၉၁၄–၁၈) အတွင်းက ပြင်သစ်နိုင်ငံရှိ ဗြိတိသျှစစ်တပ်ကို ဦးစီးကွပ်ကဲခဲ့သော သေနာပတိဖြစ်သည်။ ဟိတ်သည် ၁၈၆၁ ခုနှစ်ဇွန်လ ၁၉ ရက်နေ့တွင် စကော့တလန်ပြည် အက်ဒင်ဗာရာမြို့၌ ဖွားမြင်သည်။ အောက်စဖို့တက္ကသိုလ်တွင် ပညာသင်ပြီး



ဗြိတိသျှ စစ်သေနာပတိချုပ် ဒေါက်ဂလပ် ဟိတ်

နောက် ၁၈၈၅ ခုနှစ်၌ ဆင်းဒဟတ်ဘုရင့်စစ်ကောလိပ်ကျောင်းသို့ ဝင်ရောက်သင်ကြားသည်။ ၁၈၈၉ ခုနှစ်၌ အမှတ် (၇) မြင်းတပ်တွင် ဗိုလ်ရာထူးဖြင့် စတင်အမှုထမ်းသည်။ ၁၈၉၁ ခုနှစ်တွင် ဗိုလ်ကြီးရာထူးသို့ တိုးတက်ခြီးမြှင့်ခြင်းခံရလေသည်။ ထို့နောက် ၁၈၉၈ ခုနှစ်တွင် အာဖရိကတိုက် နိုင်းမြစ်ရိုးတိုက်ပွဲများ၌ ဗိုလ်ချုပ် လော့ကစ်ချနာအောက်တွင် ထူးချွန်စွာအမှုထမ်းခဲ့ရာ ဗိုလ်မှူးအဆင့်သို့ တိုးမြှင့်ခြင်း ခံရသည်။ တဖန် ၁၈၉၉ ခုနှစ်မှ စတင်ဖြစ်ပွားသော အာဖရိကတောင်ပိုင်း ဗိုးဝါးစစ်ပွဲ၌လည်း ပါဝင်တိုက်ခိုက်ခဲ့သည်။ (ကစ်ချနာ၊ လော့။ဗိုးဝါးစစ်ပွဲ—လည်းရှု။)

ဟိတ်သည် အိန္ဒိယနိုင်ငံတွင် ၁၉၀၃ ခုနှစ်မှ ၁၉၀၆ ခုနှစ်အထိ မြင်းတပ်စစ်ဆေးမှူးချုပ်အဖြစ်၎င်း၊ ထို့နောက် အိန္ဒိယတပ်မတော်တွင် စစ်ဦးစီးချုပ်အဖြစ်၎င်း အမှုထမ်းခဲ့သည်။ ပဌမကမ္ဘာစစ် စတင်ဖြစ်ပွားချိန်တွင် ဟိတ်သည် အင်္ဂလန်နိုင်ငံ၌ အကြီးဆုံးစစ်လေ့ကျင့်ရေး ဌာနချုပ်ဖြစ်သော အောလဒါရှော့ စခန်းတွင် ဗိုလ်ချုပ်ကြီးအဖြစ် ဆောင်ရွက်လျက်ရှိသည်။ ၁၉၁၄ ခုနှစ် ဩဂုတ်လ၌ ဟိတ်သည် ဂျာမန်တပ်များကိုတိုက်ရန် အမှတ် ၁ တပ်မကြီးကို ဦးစီး၍ ပြင်သစ်နိုင်ငံသို့ စစ်ချီခဲ့သည်။ ဗိုလ်ချုပ်ဟိတ်သည် တိုက်ပွဲများတွင် သူရသတ္တိရှိသော စစ်ခေါင်းဆောင်တဦးဖြစ်သည်သာမက မိမိလက်အောက်ငယ်သားတို့၏ စိတ်ဓာတ်ကြံ့ခိုင်ရအောင် စွမ်းဆောင်နိုင်သူလည်း ဖြစ်ပေသည်။

ထို့ကြောင့် ၁၉၁၅ ခုနှစ် ဒီဇင်ဘာလတွင် ဗိုလ်ချုပ်ဟိတ်ကိုဆာဂျွန်ဖရင့်၏နေရာ၌ ဗြိတိသျှတပ်ပေါင်းစု၏ သေနာပတိအဖြစ် ခန့်အပ်ခဲ့သည်။ မဟာမိတ်တပ်များ၏ သေနာပတိချုပ်မာရှယ်ဖော့ဦးစီး၍ တိုက်စစ်ဆင်ရာ၌ဗိုလ်ချုပ်ဟိတ်ကွပ်ကဲသော တပ်များက ထူးချွန်စွာ ကူညီခဲ့ကြသည်။ ၁၉၁၈ ခုနှစ်တွင် ဟင်ဒင်ဗတ်စစ်ကြောင်းကို ထိုးဖောက်နိုင်ခဲ့ကြသည်။ ဟိတ်သည် ထိုအချိန်က အကြီးဆုံးသော ဗြိတိသျှတပ်ကို ဦးစီးရသော စစ်သူကြီး ဖြစ်သည်။ အနောက် စစ်မျက်နှာတွင် ဗြိတိသျှတပ်များ နောက်ဆုံး၌ စစ်ရေးသာခဲ့ရခြင်းသည် ဗိုလ်ချုပ်ဟိတ်၏ စွမ်းရည်နှင့် အမြော်အမြင်ကြီးမှုကြောင့် ဖြစ်သည်ဟုဆိုရသည်။

၁၉၁၉ ခုနှစ်တွင် ဗြိတိသျှအစိုးရက ဗိုလ်ချုပ်ဟိတ်ကို အားဘွဲ့ဖြင့် သူကောင်းပြု၍ ဆုငွေများပေးကမ်းချီးမြှင့်သည်။ အခြားဘွဲ့ထူးဂုဏ်ထူးများကိုလည်း အပ်နှင်းသည်။ ၁၉၂၁ ခုနှစ်တွင် စစ်မှုထမ်းအဖြစ်မှ နုတ်ထွက်ပြီးနောက် စစ်ပြန်ရဲဘော်ဟောင်းများ သက်သာချောင်ချိရေးအတွက် ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ ဗြိတိသျှလီဂျင်ခေါ် စစ်ပြန်ရဲဘော်ဟောင်းများပါဝင်သော အသင်းကိုလည်း ဖွဲ့စည်းတည်ထောင်၍ ထိုအသင်း၏ ပဌမဦးဆုံး ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည်။ ထို့ပြင် နှစ်စဉ်စစ်ပြေငြိမ်းသည့် နိုဝင်ဘာလ ၁၁ ရက်နေ့၌ ပေါ်ပီပန်းများကိုရောင်း၍ အသင်းရံပုံငွေရှာခြင်းကိုလည်း အားပေးခဲ့သည်။ ဗိုလ်ချုပ်ဟိတ်သည် ၁၉၂၈ ခုနှစ်ဇန္နဝါရီလ ၂၉ ရက်နေ့တွင် လန်ဒန်မြို့၌ကွယ်လွန်ခဲ့ရာ ပုံတူမြင်းစီးကြေးရုပ် သွန်းလုပ်၍ ဝက်စမင်စတာ အရပ်တွင် အထိမ်းအမှတ်အဖြစ် စိုက်ထူထားကြလေသည်။

**ဟိတ်မြို့တော်** ။ ။ ဟိတ်မြို့သည် နယ်သာလန်နိုင်ငံ အစိုးရ ရုံးစိုက်ရာမြို့ ဖြစ်သည်။ နယ်သာလန် နိုင်ငံ၏ မြို့တော်သည်ကား အမ္မစတာဒမ်မြို့ ဖြစ်သည်။ (အမ္မစတာဒမ်မြို့—လည်းရှု။) ဟိတ်မြို့သည် မြောက်ပင်လယ်ကမ်းခြေမှ နှစ်မိုင်ကွာတွင် တည်ရှိသည်။ မြို့တွင်း၌ လမ်းမကျယ်များ တလျှောက် တဖက်တချက်တွင် သစ်ပင်များ ခြံရံလျက် ရှိသည့်အပြင် ထိုလမ်းမတို့ကို တူးမြောင်းများက ဖြတ်သန်းလျက် ရှိသဖြင့် သာယာသော မြို့ကြီးတမြို့ ဖြစ်ပေသည်။ ဒပ်ချ ဗိသုကာနှင့် ပြင်သစ် ဗိသုကာတို့၏ လက်ရာဖြစ်သော ရှေးဟောင်း အဆောက်အအုံများ၊ ပါလီမန်လွှတ်တော်၊ အစိုးရရုံးများ၊ တရားရုံးချုပ်၊ နန်းတော်၊ အနုပညာပြခန်း စသည်တို့နှင့်တကွ ပန်းဥယျာဉ်တို့ဖြင့် စည်ကားတင့်တယ်သော မြို့ကြီးလည်း ဖြစ်ပေသည်။ ထို့ပြင် ဟိတ်မြို့သည် အပြည်ပြည်ဆိုင်ရာ ညီလာခံများ ကျင်းပရာ

ဌာနဖြစ်၍၎င်း၊ ဥရောပနိုင်ငံများနှင့် ဆိုင်သည့် အရေးကြီးသော စာချုပ်များ ချုပ်ဆိုရာဌာန ဖြစ်၍၎င်း ဥရောပတိုက်၏ နိုင်ငံရေးရာ မြို့တော်ကြီးအဖြစ် ထင်ရှားခဲ့ပေသည်။

၁၇၉၉ ခုနှစ်ကတည်းက ဟိတ်မြို့တွင် အနုညာတ စီရင်ရေးတရားခုံရုံးကို တည်ထောင်ဖွင့်လှစ်ထားခဲ့ကြသည်။ ကမ္ဘာပေါ်တွင် စစ်ကို တားဆီး၍ ငြိမ်းချမ်းရေးကို တည်ဆောက်ရန် အတွက် ပြည်ထောင်ချင်းချင်း အငြင်းပွားမှုများကို ထိုရုံးတော်သို့ တင်ပြ၍ ဆုံးဖြတ်စေခဲ့ကြသည်။ ထို တရားခုံ ရုံးတည်ရှိရာ အဆောက်အအုံကို သဋ္ဌေးကြီး အင်ဒရူး ကာနက်ဂီ၏ အထောက်အပံ့ဖြင့် ဆောက်လုပ်ခဲ့ပြီးလျှင် ငြိမ်းချမ်းရေး နန်းတော်ဟု အမည်ခေါ်တွင်စေခဲ့ကြသည်။ အပြည်ပြည်ဆိုင်ရာ အမြဲတမ်း တရားရုံးတော်ကိုလည်း ၁၉၂၀ ပြည့်နှစ်မှ စ၍ ဟိတ်မြို့တွင် တည်ထားခဲ့လေသည်။ တဖန် ၁၉၄၆ ခုနှစ်တွင် ကုလသမဂ္ဂတရားရုံးကို ထိုမြို့တော်၌ ဖွင့်လှစ်ခဲ့ကြသည်။

ဟိတ်မြို့တွင် ထိုကဲ့သို့ အပြည်ပြည်ရေးရာ ဆိုင်ရာ ရုံးအဆောက်အအုံများအပြင် ရမ်းဗရန့်၊ ရူးဗင်၊ ဗန်ဒိုက်၊ ဗားမီးယားအစရှိသော နာမည်ကျော် ဒပ်ချ် အမျိုးသားပန်းချီဆရာတို့၏ လက်ရာများနှင့် ခေတ်ပန်းချီကားများကို ပြသထားသော ပန်းချီပြခန်းသည် အထူးထင်ရှားပေသည်။

ဟိတ်မြို့သည်ရှေးဦးအစတွင်နယ်သာလန်နိုင်ငံမှ ကောင့်ဘွဲ့ခံ မင်းညီမင်းသားတို့၏ တောကစားရာ စခန်းဖြစ်၏။ ထိုအခါက မြို့သည် တောတွင်း၌ တည်ရှိသည်။ ၁၂၅၀ ပြည့်နှစ်တွင် ဘုရင်တို့ စံမြန်းရာဌာန ဖြစ်လာသည်။ ထိုနောက် ဟိတ်မြို့သည် နိုင်ငံချင်းချင်း မဟာမိတ် စာချုပ်များ ချုပ်ဆိုရာဌာန အဖြစ်၎င်း၊ ငြိမ်းချမ်းရေး ညီလာခံများကျင်းပရာဌာန အဖြစ်၎င်း ထင်ရှားလာလေသည်။

ဒုတိယကမ္ဘာစစ် အတွင်းက ဂျာမန်တို့သည် ထိုမြို့ကို ၁၉၄၀ ပြည့်နှစ် မေလ ၁၅ ရက်နေ့မှ ၁၉၄၅ ခုနှစ် မေလ ၈ ရက်နေ့အထိ သိမ်းပိုက်ခဲ့ကြသည်။ ဟိတ်မြို့ရှိ လူဦးရေမှာ ၇၁၉,၄၂၆ ယောက်(၁၉၇၀)ဖြစ်လေသည်။

**ဟန်ကောင်မြို့။** ။ဟန်ကောင်မြို့သည် တရုပ်ပြည်သူ့သမတနိုင်ငံ ဟူပေ့ပြည်နယ်အတွင်း ပင်လယ်ကမ်းခြေမှ မိုင် ၆၀၀ အကွာတွင် တည်ရှိ၏။ ထိုမျှ ပင်လယ်နှင့် ဝေးကွာသော်လည်း အပြည်ပြည်မှ သင်္ဘောများသည် ရှန်ဟဲမြို့ကို ကျော်ဖြတ်ကာ ယန်စီမြစ်တလျှောက်တွင် ခုတ်မောင်းပြီးလျှင် ဟန်ကောင်မြို့သို့ သွားနိုင်ကြလေသည်။ ဟန်ကောင်မြို့သည် ယန်စီနှင့် ဟန်မြစ်တို့ ဆုံရာတွင်တည်ရှိ၏။ ဟန်မြစ်၏ တဖက်ကမ်းတွင် ဟန်ယန်မြို့ တည်ရှိ၍ ယန်စီမြစ်၏ တောင်ဖက်ကမ်းတွင် ဝူချန်မြို့ တည်ရှိသည်။ ထိုဟန်ကောင်၊ ဟန်ယန်နှင့် ဝူချန်မြို့ သုံးမြို့ကို စုပေါင်း၍ ဝူဟန်မြို့ဟု ခေါ်သည်။ ထိုသုံးမြွှာပူးမြို့သည် တရုပ်နိုင်ငံ အလယ်ပိုင်း၏ စက်မှုနှင့်ကူးသန်းရောင်းဝယ်မှုဆိုင်ရာ မြို့ကြီးတမြို့ ဖြစ်လေသည်။

ရှန်ဟဲမြို့မှ ရေစူးပေ ၃၀ ရှိသော သင်္ဘောများသည် ဟန်ကောင်မြို့အထိ သွားနိုင်ကြသည်။ ကန်တုန်မြို့နှင့် ပီကင်းမြို့သွား မီးရထားလမ်း၏ အလယ်လောက်တွင် ဟန်ကောင်မြို့ တည်ရှိ၍ ထိုမြို့မှ ယန်စီလွင်ပြင်တလျှောက်လုံးသို့ ကုန်းလမ်းနှင့် ရေလမ်းများ ဆက်သွယ်လျက် ရှိသည်။ ဟန်ကောင်မြို့ရှိ စက်ရုံများသို့ သားရေ၊ ဂျုံ၊ ဆေးရွက်ကြီး၊ ပိုးမျှင်၊ ဆန်စပါး၊ ပဲ၊ လက်ဖက်ခြောက်၊ သံရိုင်း၊ ကျောက်မီးသွေးနှင့် ခနောက်စိမ်း(အင်တီမိုနီ)များ ရောက်လာကြသည်။

ထိုသို့ မြို့သုံးမြွှာပူး ရှိသည့်အနက် အရေးအကြီးဆုံးသော မြို့မှာ ဟန်ကောင်မြို့ ဖြစ်သည်။ ထိုမြို့၌ နိုင်ငံခြားနှင့် ကူးသန်းရောင်းဝယ်ခြင်းကို ၁၈၅၈ ခုနှစ်တွင် ဖွင့်လှစ်ခဲ့လေသည်။ အဓိက လုပ်ငန်းမှာ ပြည်ပသို့ ကုန်များကို တင်ပို့ပေးခြင်းဖြစ်သည်။ ရှေးမြို့ဟောင်းဖြစ်သော ဝူချန်မြို့မှာ ပြည်တွင်းသို့ ကုန်များကို ဖြန့်ဖြူးပေးရန် ကုန်များကို လက်ခံသောမြို့ ဖြစ်သည်။ ဟန်ယန်မြို့မှာ စက်မှုလက်မှုကို တည်ထောင်သော မြို့ဖြစ်သည်။ တရုပ်နိုင်ငံ၏ ပဌမ ခေတ်မီ သံရည်ကျိုစက်ကို ထိုဟန်ယန်မြို့တွင် ၁၈၉၀ ပြည့်နှစ်က တည်ထောင်ခဲ့လေသည်။ ထိုနောက် သံမဏိစက်ရုံ တရုံကို တည်ဆောက်ပြန်သည်။ ထိုနောက် နှစ်အတော်ကလေး ကြာသည်အထိ ထိုမြို့မှ သံနှင့် သံမဏိ အမြောက်အမြားကို ထုတ်လုပ်နိုင်ခဲ့ပြီးလျှင် နောင်တွင်လည်း ထိုထက်ပိုမို၍ ထုတ်လုပ်နိုင်ကြလိမ့်မည်ဟု ထင်မှတ်ခဲ့ကြလေသည်။ သို့သော် ငွေကြေး အခက်အခဲနှင့် တွေ့လာသဖြင့် ထုတ်လုပ်မှုကို ရပ်ဆိုင်းထားလိုက်ရသည်။ ၁၉၃၈ ခုနှစ်တွင် ဂျပန်တို့က ထိုသုံးမြွှာပူး မြို့ကို တိုက်ခိုက်ကြသော အခါ လူဦးရေ ၁,၅၀၀,၀၀၀ ခန့်သည် ထွက်ပြေး သွားကြရာ စက်ရုံ အမြောက်အမြားကို ဖျက်ဆီးသွားကြလေသည်။

နန်ကင်းမြို့ကို ဂျပန်တို့က သိမ်းပိုက်လိုက်သော အခါ ဟန်ကောင်မြို့သည် တရုပ်နိုင်ငံ၏ ယာယီမြို့တော် ဖြစ်ခဲ့သည်။ ၁၉၃၈ ခုနှစ်တွင် ဂျပန်တပ်များသည် ဟန်ကောင်မြို့သို့ ဝင်ရောက်လာကြသောအခါ တရုပ်အစိုးရက ချုန်ကင်းမြို့သို့ ဆုတ်ခွာပေးလိုက်သည်။ ဒုတိယကမ္ဘာစစ်အတွင်း မဟာမိတ်တပ်များက ဟန်ကောင်မြို့ကို လေကြောင်းမှ တိုက်ခိုက်ခဲ့သည်။ သို့သော် ဂျပန်တို့က ထိုမြို့ကို ၁၉၄၅ ခုနှစ်တိုင်အောင် ထိန်းသိမ်းထားကြလေသည်။ ဂျပန်တို့ စစ်ရှုံးသောအခါတွင်မှ တရုပ်တို့က ထိုမြို့ကို ပြန်လည်သိမ်းပိုက်နိုင်ကြလေသည်။ တရုပ် ပြည်သူ့သမတနိုင်ငံ လက်ထက်တွင် ဟန်ကောင်မြို့အစား သုံးမြွှာပူးမြို့ဖြစ်သည့် ဝူဟန်မြို့

အဖြစ်နှင့် လူသိများသည်။ ဟန်ကောင်မြို့၏ ၁၉၄၈ ခုနှစ် သန်ကောင်စာရင်း အရ လူဦးရေမှာ ၈၀၀,၀၀၀ ခန့် ရှိလေသည်။

**ဟန်ချောင်မြို့။** ။ဟန်ချောင်မြို့သည် တရုပ်သမိုင်းတွင် ဇာတိမာန် တက်စေသော ရှေးဟောင်းမြို့ဖြစ်၍ ကမ္ဘာ ပေါ်တွင် အကြွယ်ဝ အချမ်းသာဆုံးသော မြို့တမြို့ဖြစ် သည်။ ပင်လယ်မှ မိုင် ၅၀ ဝေးသောနေရာတွင် တည်ရှိ၍ ရှန်ဟဲမြို့၏ အနောက်တောင်ဖက် မိုင် ၁၁၀ ခန့် အကွာတွင် တည်ရှိသည်။ ၁၂ မိုင်ခန့် ရှည်လျားသော မြို့ရိုးကြီးဖြင့် ဝန်းရံထားသော မြို့ဟောင်းဖြစ်သည်။ ယခုမူ ချီကျန်ပြည် နယ်၏ မြို့တော်ဖြစ်၍ ၁၉၄၈ ခုနှစ် လူဦးရေမှာ ၆၀၀,၀၀၀ ခန့် ဖြစ်၏။

တရုပ် တူးမြောင်းကြီး၏ တောင်ဖက်စွန်းတွင် ဟန် ချောင်မြို့ တည်ရှိသဖြင့် မွန်ဂိုဘုရင်များ လက်ထက်မှစ၍ ၁၉ ရာစုနှစ်များတိုင်အောင် ယန်စီ မြစ်ဝကျွန်းပေါ်နှင့် ပီကင်းမြို့တော်သို့ ကူးသန်းသွားလာရာ စခန်းကြီးတခု ဖြစ်ခဲ့သည်။ တာတာလူမျိုးတို့ရန်ကြောင့် တရုပ်ဘုရင်များ တောင်ဖက်သို့ ဆုတ်ခွာရပြီးနောက် ဆွန်မင်းများ လက် ထက် ဟန်ချောင်မြို့တွင် နန်းစိုက်ခဲ့သဖြင့် စာပေဂန္ထဝင် ထွန်းကားရာ မြို့တော်ဖြစ်ခဲ့လေသည်။ ၁၂၉၇ ခုနှစ်လောက် မှပင် မြို့တော်ကို ပီကင်းသို့ ပြောင်းသွားလေသည်။ သို့ရာ တွင် ဟန်ချောင်မြို့ကား စည်မြဲ စည်လျက်ရှိ၏။

ဟန်ချောင်မြို့ကို ရှေးက ကင်ဇ်မြို့ဟု ခေါ်သည်။ ဆန် စပါး စိုက်ပျိုးရာ ဒေသ၏ ဗဟိုတွင် တည်ရှိသဖြင့် ဆန်စပါး ရောင်းဝယ်ရေး ဗဟိုဌာန ဖြစ်သည်။ ဆန်စက်ကြီးများ အများအပြားပင် ရှိသည့်ပြင် ပိုးလုပ်ငန်းကိုလည်း အကြီး အကျယ် လုပ်ကိုင်သည်။

မြို့၏ တည်နေရာသည် အလွန် လှပသော တောင်တန်း ကလေးများ၏ ခြေရင်းတွင် တည်ရှိနေ၍ ထိုမြို့၏ အနောက် ဖက်စွန်းတွင် နာမည်ကျော် အနောက်ရေအိုင်ခေါ် စီဟု ရေအိုင်ကြီး တည်ရှိလေသည်။ မြို့၏ ပတ်ဝန်းကျင်တွင် တောင်တန်း၊ ချောင်းစခန်းများလည်း ပေါလှ၍ ထို တောင်ကြို၊ ချောင်းကြားများ၌လည်း အထွတ်အဆင့်တို့ ဖြင့် လှပစွာ တည်ဆောက်ထားသော ဘုန်းကြီးကျောင်း များ ရှိရာ အလွန်ပင် သာယာလှသဖြင့် ကျော်ကြား ပေသည်။ ကဗျာဆရာ ပန်းချီဆရာတို့၏ ဥာဏ်ကျက်စားရာ ဌာနလည်း ဖြစ်၏။ ထို့ကြောင့် "အထက်မှာ ကောင်းကင် ဘုံ၊မြေပေါ်မှာ ဆူချောင်နှင့်ဟန်ချောင်ဘုံ" ဟူ၍ တရုပ်တို့ ဆိုစမှတ်ပြုကြသည်။

ထိုမြို့ ကောင်းစားစဉ် ၁၂၇၃ ခုနှစ်လောက်က ဣတာ လျံ ခရီးသည်ကြီး မာကိုပိုလို ရောက်ရှိသွားရာ ထိုမြို့၏ သာယာလှပပုံကို အံ့ဩမကုန်ဖြစ်ကာ သူ၏ မှတ်တမ်း၌ ဟန်ချောင်မြို့ကို ကမ္ဘာပေါ်တွင် မနှိုင်းယှဉ်လောက်အောင် လှပသော မြို့ဖြစ်သည်ဟုပင် ရေးသားခဲ့လေသည်။

ဟန်ချောင်မြို့၏ လမ်းများမှာ ကျောက်ခင်းထား၏။ လမ်းဆုံများ၌ ထင်ရှားသော ပုဂ္ဂိုလ်ကြီးများ၏ ရုပ်တုကြီး များ၊ အထိမ်းအမှတ် မော်ကွန်းတိုင်များ စိုက်ထူထားရာ အလွန်လှပသည်။ လမ်းများမှာလည်း အတန်ပင် သန့်ရှင်း လေသည်။ ဆီအင်တန်မြစ်ကို ဖြတ်လျက် မီးရထား တန်တားတခုကို ၁၉၃၇ ခုနှစ်က ဆောက်လုပ်ပြီးစီးခဲ့သော် လည်း ဂျပန်တို့ သိမ်းပိုက်ပြီးနောက် ထိုတန်တားကြီးမှာ ပျက်စီးသွားလေသည်။

**ဟန်ဂေရီနိုင်ငံ။** ။ဟန်ဂေရီနိုင်ငံသည် ဥရောပတိုက် အလယ်ပိုင်းရှိ ကုန်းတွင်းနိုင်ငံ ဖြစ်သည်။ တချိန်က ဥရော ပတိုက်၏ တန်ခိုးကြီး နိုင်ငံတနိုင်ငံဖြစ်ခဲ့၍ ဩစတြီးယား– ဟန်ဂေရီ အင်ပိုင်ယာနိုင်ငံကြီး၏ တစိတ်တဒေသ ဖြစ်ခဲ့ သည်။ အနှစ် ၁,၀၀၀ ခန့် စိုးမိုးခဲ့သော ဘုရင်အုပ်ချုပ်မှု စနစ်ကို ၁၉၄၆ ခုနှစ် ဖေဖွာရီလ ၁ ရက်နေ့မှ စ၍ ပယ် ဖျက်ကာ သမတနိုင်ငံ ထူထောင်လိုက်ရာ၊ ယခုအခါ ဟန် ဂေရီယန် ပြည်သူ့သမတနိုင်ငံဟု တွင်သည်။ မက်ဂျာ ဘာ သာနှင့်မူ မက်ဂျာ ရောစာဆက် နိုင်ငံဟု ခေါ်လေသည်။

ဟန်ဂေရီနိုင်ငံသည် မြောက်လတ္တီတွဒ် ၄၅° ၄၈' မှ ၄၈° ၃၁' အကြားနှင့် အရှေ့လောင်ဂျီတွဒ် ၁၆° ၁' မှ ၂၂° ၅၈' အကြားတွင်တည်ရှိသည်။ ဗော်လကန်ကျွန်းဆွယ်၏မြောက် ဖက်တွင် အရှေ့ဖက်၌ ရူမေးနီးယားနိုင်ငံနှင့် ၁၉၆ မိုင်၊ တောင်ဖက်၌ ယူဂိုစလားဗီးယား နိုင်ငံနှင့် ၃၁၀ မိုင်၊ အနောက်ဖက်၌ ဩစတြီးယားနိုင်ငံနှင့် ၁၁၂ မိုင်၊ မြောက် ဖက်၌ ချက်ကိုစလိုဗားကီးယား နိုင်ငံနှင့် ၃၅၃ မိုင် နယ်နိ မိတ်ခြင်းစပ်လျက်ရှိသည်။ ပင်လယ်ကမ်းရိုးတန်း ဟူ၍ကား လုံးဝ မရှိချေ။ ပဌမကမ္ဘာစစ် အပြီး ချုပ်ဆိုသော တြီ အနွန် စာချုပ်အရ ဟန်ဂေရီနိုင်ငံ၏ အကျယ်အဝန်းသည် ၃၅,၉၁၈ စတုရန်းမိုင်သာ ကျန်တော့သည်။

ဟန်ဂေရီနိုင်ငံ၏ မြေမျက်နှာပြင်သည် များသောအား ဖြင့် လွင်ပြင်ကြီးများဖြစ်၍ ပျမ်းမျှခြင်းအားဖြင့် ရေမျက် နှာပြင်အထက် ၃၃၀ ပေမြင့်သည်။ မြောက်ဖက်ရှိ ပေ ၃,၃၃၀ မြင့်သော မတြာ တောင်တန်းနှင့် အရှေ့မြောက် ဖက်ရှိ ပေ ၂,၂၈၀ မြင့်သော ဗာကိုနီ ဖောရက် ဒေသမှ လွဲ၍ ပိုမိုမြင့်သော တောင်တန်း ဟူ၍ မရှိချေ။ အခြား ထင်ရှားသော တောင်များမှာ ဗတ်၊ တိုကစ်၊ မက်ဆက် စသည့် တောင်ဘန်းများ ဖြစ်ကြသည်။

မြောက်ဖက်တွင် ဟန်ဂေရီဘာသာဖြင့် ဒူးနောခေါ် ဒန်းချူးမြစ်သည် ဟန်ဂေရီနှင့် ချက်ကိုစလိုဗားကီးယား




ဟန်ဂေရီနိုင်ငံ တည်နေရာပြမြေပုံ

နိုင်ငံအကြားတွင် နယ်နိမိတ်သဖွယ် ပိုင်းခြား စီးဆင်း၍ တဖန် တောင်ဖက်သို့ ချိုးကာ စီးဆင်းသွားသည်။ ဟန်ဂေရီနိုင်ငံ၏ အခြားထင်ရှားသော မြစ်တခုမှာ အရှေ့ပိုင်းကို မြောက်မှ တောင်သို့ ဖြတ်စီးသော တစ်ဇာမြစ်ခေါ် သီစမြစ် ဖြစ်သည်။ ယင်းသည် ဒန်းညူမြစ်၏ မြစ်လက်တက် ဖြစ်သည်။

ဥရောပတိုက်၏ အကြီးဆုံးသော ကုန်းတွင်းရေအိုင်ကြီး ဖြစ်သည့် ဗာလတန်အိုင်သည် ဟန်ဂေရီနိုင်ငံ အနောက်ပိုင်းတွင် တည်ရှိသည်။ အခြားထင်ရှားသော ရေအိုင်တခုမှာ ဩစတြီးယားနိုင်ငံနှင့်စပ်လျက်ရှိသောနေရာ၌ တည်ရှိသည်။ ဟန်ဂေရီဘာသာဖြင့် ဖားတောအိုင်ဟုခေါ်သော နျူဆေဒလာ ရေအိုင်ဖြစ်သည်။

ဒန်းညူမြစ်၏အရှေ့ဖက်တွင် ဥရောပတိုက်၌ အကြီးဆုံးသော လွင်ပြင်ကြီးဖြစ်သည့် ဟန်ဂေရီလွင်ပြင်ကြီး ခေါ် အယ်လဖိုး လွင်ပြင်ကြီး ရှိသည်။ ဗာကိုနီ ဖောရက်၏ အနောက်ဖက်တွင်မူ ဟန်ဂေရီလွင်ပြင်ကလေး ခေါ် အောလဖိုး လွင်ပြင်ကလေး ရှိသည်။

ဟန်ဂေရီနိုင်ငံသည် နွေအခါများ၌ ခြောက်သွေ့ပူပြင်း၍ဆောင်းအခါများ၌ အလွန်အေးသည်။ ဆောင်းကူးရာသီနှင့်ဆောင်းရာသီများတွင် မိုးအများဆုံး ရွာသွန်းတတ်သည်။ တောင်ကုန်းဒေသများတွင် တနှစ်အတွင်း ပျမ်းမျှမိုးရေချိန် လက်မ ၄၀ ခန့် ရွာသွန်း၍ လွင်ပြင်ကြီး၏ အရှေ့ဖက်ပိုင်းတွင် ပျမ်းမျှမိုးရေချိန် ၁၅ လက်မခန့်သာ ရွာသွန်းသည်။ အချုပ်ဆိုရသော် ဟန်ဂေရီနိုင်ငံ အရှေ့ပိုင်းသည် အနောက်ပိုင်းလောက် မိုးမရချေ။

၁၉၇၂ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ဟန်ဂေရီနိုင်ငံ၏လူဦးရေသည် ၁၀,၄၀၀,၀၀၀ ဖြစ်သည်။ လူဦးရေ ၉၃ ရာခိုင်နှုန်းမှာ မက်ဂျာခေါ် ဟန်ဂေရီယန် လူမျိုးများဖြစ်၏။ ယင်းတို့သည် တူရကီလူမျိုးနှင့် ဖင်းလူမျိုးတို့ ပြောဆိုသော ဘာသာ စကားများနှင့်တူသော ဘာသာစကားကို ပြောဆိုကြသည်။ သူတို့သည် မွန်ဂိုလူမျိုးများနှင့် သွေးစပ်ဟန်တူလေသည်။ ဒန်းညူမြစ်ကမ်းခြေ တလျှောက်တွင် လာရောက်မနေထိုင်မီက သူတို့သည် ရုရှနိုင်ငံတောင်ပိုင်းတွင် နေထိုင်ခဲ့သည်ဟု ထင်မြင်ယူဆရန် အကြောင်းလည်းရှိ၏။ သူတို့၏ ရှေးဟောင်းပုံပြင်များအရ ဆိုသော် သူတို့သည် ဟန်ဂေရီနိုင်ငံသို့ ဟန်းလူမျိုးများနှင့်အတူ ရောက်လာကြ

လက်ထက်တွင် အခွန်ကောက်ခံပုံ စံနစ်ကို လွယ်ကူအောင် ပြုပြင်ခဲ့ရုံမက ကူးသန်းသွားလာရေးနှင့် ခရီးလမ်းများကို တိုးတက်ကောင်းမွန်အောင် ပြုလုပ်ပေးခဲ့သဖြင့် နိုင်ငံ၏ ကုန်သွယ်မှု တိုးဘက်ဖွံ့ဖြိုးလာ၏။ ထို မင်းနှစ်ပါးလုံးသည် ရောမ ပုပ်ရဟန်းမင်းနှင့် မဟာမိတ်များ ဖြစ်ကြ၍ တန်ခိုးအာဏာကြီးမားကြ၏။ ကရိုးအေးရှားနှင့် ဒါလမေးရှန်းနယ်တို့ကိုလည်း ဟန်ဂေရီနိုင်ငံအတွင်းသို့သွတ်သွင်းနိုင်ခဲ့သည်။

၁၂၃၅ ခုနှစ်တွင် နန်းဘက်သော စတုတ္ထ ဗီလာဘုရင် လက်ထက် ၁၂၄၂ ခုနှစ်တွင် တာတာ လူမျိုးတို့သည် ဟန်ဂေရီ နိုင်ငံသို့ ဝင်ရောက်တိုက်ခိုက် ဖျက်ဆီးကြ၏။ ဗီလာဘုရင်သည် တာတာတို့၏ ရန်ကို ကာကွယ်ရန်အတွက် ရဲတိုက်များ၊ ခံတပ်များ တည်ဆောက်ခြင်း၊ လူအင်အားများအောင် တိုင်းတပါးသားတို့အား နိုင်ငံတွင်းသို့ ဝင်ရောက် နေထိုင်စေခြင်းတို့ကို ပြုလေသည်။ သို့ရာတွင် ရန်ကို ကာကွယ်ရန် တည်ဆောက်ခဲ့သော ရဲတိုက်များ၊ ခံတပ်များသည် နောင်အခါတွင် မှူးမတ်များ ပုန်ကန်ခြားနားရန်အတွက် နေရာကောင်းကြီးများ ဖြစ်သွားသည်။ ပုန်ကန်ခြားနားကြသော မှူးမတ်များကို မနှိမ်နင်းနိုင်သဖြင့် ၁၃၀၁ ခုနှစ်မှ စတင်၍ ဟန်ဂေရီနိုင်ငံ၌ ပြည်တွင်းစစ် ရှစ်နှစ်ကြာမျှ ဖြစ်ပွားခဲ့လေသည်။ ထိုအခါတွင် ဟန်ဂေရီ ထီးနန်း၌ မက်ဂျာမင်းဆက်ပြတ်၍ အန်ဇူမင်းသား ချားရောဗတ်သည် ပဥ္စမ ချား ဟူသော အမည်ဖြင့် အုပ်ချုပ်လေသည်။

အန်ဇူမင်းများ စိုးစံသောအခါမှ ဟန်ဂေရီ နိုင်ငံကို ပြန်လည် ထူထောင်နိုင်ကြလေတော့သည်။ ပြည်တွင်းစစ်ဖြစ်ပွားစဉ်က ဆူပူထကြွခဲ့သော မှူးမတ် လူကုံထံ များစွာ အသတ်ခံခဲ့ရလေရာ၊ အန်ဇူမင်းများသည် အတိုက်အခံမရှိပဲ လွယ်ကူစွာ အုပ်စိုးနိုင်ခြင်းကြောင့် ဖြစ်သည်။ သို့ရာတွင် ၁၃၄၇ ခုနှစ်မှ ၁၃၆၀ ပြည့်နှစ်အထိ ကြောက်မက်ဖွယ်ရာ ကပ်ရောဂါကြီး နှိပ်စက်သဖြင့် ဟန်ဂေရီနိုင်ငံ၏ လူဦးရေ လေးပုံတပုံခန့် ပျက်စီးခဲ့၍ နိုင်ငံအခြေမှာလည်း ယိမ်းယိုင်ခဲ့ရလေသည်။

၁၃၈၂ ခုနှစ်တွင် အန်ဇူမင်း ပဥ္စမ ချား၏ သားတော် လူဝီဘုရင် နတ်ရွာစံသဖြင့် လူဝီ၏ သမီးတော် မေရီအား ဘုရင်မအဖြစ် တင်မြှောက်ကြလေသည်။ မေရီသည် လပ်ဇင်ဗူး မင်းသား ဆစ်ဂျစ်စမန်းနှင့် လက်ထပ်လိုက်သဖြင့် ဟန်ဂေရီ ထီးနန်းကို ဆစ်ဂျစ်စမန်းသည် ၁၃၈၇ ခုနှစ်မှ ၁၄၃၇ ခုနှစ်တိုင် စိုးစံခဲ့လေသည်။ ထိုအတွင်း ၁၄၁၀ ပြည့်နှစ်၌ သာသနာစောင့် ရောမ ဧကရာဇ်အဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံခဲ့ရသေး၏။ ဤမင်း လက်ထက်တွင်လည်း ဟန်ဂေရီနိုင်ငံသည် တူရကီတို့၏ ဘေးရန်နှင့် ရင်ဆိုင်နေရသောကြောင့် တောင်ပိုင်းနယ်ခြားတွင် တောင့်တင်းခိုင်မာသော ခံတပ်များကို ဆောက်လုပ်ထားရ လေသည်။ ပြည်တွင်း၌ ညီညွတ်သွေးစည်းမှု ရရှိရန် ကြိုးစားခဲ့သော်လည်း အကြောင်းကြောင်းတို့ကြောင့် မအောင်မြင်ခဲ့ချေ။

ထိုအချိန်တွင် အနောက်ဖက်မှ လူတန်းစား ညီမျှရေး၊ အခွင့်အရေးတူ ခံစားရေး ဝါဒများ ဝင်ရောက်လာကာ ၁၄၃၃ ခုနှစ်မှ စ၍ ပြည်တွင်းမငြိမ်မသက်မှုများ ပေါ်ပေါက်လာလေသည်။ ၁၄၃၆ ခုနှစ်တွင်မှ အေးငြိမ်းသွား၏။

၁၄၃၇ ခုနှစ်တွင် ဆစ်ဂျစ်စမန်းလွန်ခဲ့သဖြင့် သားတော် ပဥ္စမ အဲလဗတ် နန်းတက်လေသည်။ နှစ်နှစ်မျှ စိုးစံပြီးနောက် အဲလဗတ် နတ်ရွာစံသောကြောင့် ၁၄၄၀ ပြည့်နှစ်တွင် ပိုလန်ဘုရင် တတိယ ဗလာဒစ္စလာအား ဟန်ဂေရီ ထီးနန်းကို အပ်ကြလေသည်။ ထို အချိန်တွင် အဲလဗတ်၏ မိဖုရား အယ်လစ်ဇဗက်တွင် ကိုယ်ဝန် အရင့်အမာနှင့် ကျန်ရစ်၍ အချိန်စေ့သဖြင့် သားယောကျ်ားဖွားမြင်လေရာ ပဥ္စမ လဒစ္စလ ဘုရင်အဖြစ် ကျေညာခဲ့၏။ ထိုအခါ၌ ပြည်တွင်းစစ် ဖြစ်ပွားရပြန်လေရာ ၁၄၄၃ ခုနှစ်တွင် အယ်လစ်ဇဗက် ကွယ်လွန်၍ ၁၄၄၄ ခုနှစ်တွင် တတိယဗလာဒစ္စလာဘုရင် စစ်ပွဲ၌ ကျမှ ပြီးဆုံးသွားသည်။

ထို အတောအတွင်း တောင်ပိုင်းမှ တူရကီတို့ကလည်း အပြင်းအထန် ဖိလျက်ရှိလေ၏။ သို့ရာတွင် ဇိုရင်နီ ဘုရင်ခံ ဂျွန် ကော်ဗီနပ် ဟွန်ယော်ဒီသည် တူရကီဘို့အား ရှုပ်ရှုပ်ချွချွ ခုခံတွန်းလှန် အောင်မြင်လျက် ရှိသဖြင့် တူရကီဘို့ ဟန်ဂေရီနိုင်ငံထဲသို့ မဝင်နိုင်ပဲ ရှိ၏။

၁၄၄၆ ခုနှစ်တွင် ဂျွန် ဟွန်ယော်ဒီအား ပဥ္စမ လဒစ္စလ ဘုရင်ကလေး ကိုယ်စား ဟန်ဂေရီနိုင်ငံကို အုပ်ချုပ်ရန် ဥပဒေပြု လွှတ်တော်က အပ်ခဲ့သော်လည်း ကရိုးအေးရှား မှူးမတ်တို့က သဘောမတူကြချေ။ သို့ရာတွင် ဟွန်ယော်ဒီ၏ ဇွဲလုံ့လဖြင့် ၁၄၅၆ ခုနှစ်တွင် တူရကီတို့ ရန်မှ လွတ်မြောက်ခဲ့ရပြန်သည်။ ထိုနှစ်တွင်ပင် ဂျွန် ဟွန်ယော်ဒီ ကွယ်လွန်၍ သူ၏ သားအကြီးဆုံး လက်ဇလိုလည်း ၁၄၅၇ ခုနှစ်တွင် ကွယ်လွန်ပြန်ကာ နောက် ခြောက်လခန့် အကြာတွင် ပဥ္စမ လဒစ္စလပါ ကွယ်လွန်သွားပြန်သောကြောင့် ဟွန်ယော်ဒီ၏ သားငယ် မတ်သီးယတ် ဟွန်ယော်ဒီအား ၁၄၅၈ ခုနှစ်တွင် ဟန်ဂေရီ ဘုရင်အဖြစ် တင်မြှောက်လိုက်ကြ၏။

မတ်သီးယတ်သည် ၁၀ နှစ်ခန့်အတွင်း တိုင်းပြည် တည်တံ့ခိုင်မြဲမှုကို အားထုတ် ဆောင်ရွက်ခဲ့ပြီးနောက် ဟန်ဂေရီနိုင်ငံ၏ ဥပဒေ စည်းမျဉ်းများကို ပြုပြင်ပေးခဲ့လေသည်။ ထိုပြင် အုပ်ချုပ်ရေး၊ စီးပွားရေးနှင့် ကာကွယ်ရေးများကို တိုးတက်ကောင်းမွန်အောင် ဆောင်ရွက်နိုင်ခဲ့၍ ပညာရေးအတွက် တက္ကသိုလ် ကျောင်းဟောင်းကြီးများကို အသက်ဆက်ပေးပြီးလျှင် ပရက်စဗူး တက္ကသိုလ်ကိုလည်း ၁၄၆၇ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ ဤမင်းသည် မြို့ပြ ပြည်ရွာ တိုးတက် စည်ပင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေး ကောင်း

မွန်ရန်တို့အတွက် မနေမနား အားထုတ်ဆောင်ရွက်ခဲ့သည်။ သူ၏ လက်ထက်တွင် တူရကီတို့လည်း တိုက်ခိုက်ရန် သီရိမျှ မသိဝံ့တော့ချေ။ ၁၄၅၇ ခုနှစ်တွင် ဗီယင်းနားမြို့ကိုတိုက်ခိုက် အောင်မြင်ပြီးနောက် ဩစတြီးယား၊ စတိုင်းရီးယားနှင့် ကာရင်သီးယား နယ်တို့ကို သိမ်းသွင်းခဲ့လေသည်။ ဗီယင်းနားမြို့သို့ နန်းတော်ကို ပြောင်းရွှေ့ပြီးနောက် ၁၄၉၀ ပြည့်နှစ်တွင် နတ်ရွာစံလေရာ သူ၏သားတော် ဂျေနေ့ ကောဗီနပ်က ထီးနန်းကို ဆက်ခံလေသည်။

မတ်သီးယတ် ဘုရင်လက်ထက်၌ ဟန်ဂေရီနိုင်ငံသည် အထွတ်အထိပ်သို့ ရောက်ခဲ့သည်ဟု ဆိုရပေမည်။ သူ့နောက်မင်းများကား တိုင်းပြည် အုပ်ချုပ်ရန် အရည်အခြင်း ပြည့်ဝသူ တဦးတယောက်မျှ မရှိချေ။ မတ်သီးယတ် လက်ထက်က သိမ်းသွင်းခဲ့သော ဩစတြီးယန်း နယ်ပယ်များကိုလည်း နောက်မင်းများ လက်ထက် ပြန်လည်ပေးအပ်ရရုံ မက စစ်လျော်ကြေးကိုလည်း အဆမတန် ပေးလိုက်ရလေသည်။

၁၅၁၆ ခုနှစ်တွင် နန်းတက်သော ဒုတိယ လူဝီဘုရင်သည် အလွန် ငယ်ရွယ်ရကား ပြည်ရေးပြည်ရာတို့ကို ကာဒင်နယ် ဗကော့က ကြိုးကိုင်ခဲ့၏။ ကာဒင်နယ် ဗကော့သည် ၁၅၂၁ ခုနှစ်တွင် ကွယ်လွန်သောအခါ အုပ်ချုပ်ရေး အာဏာလုမှုများ ပေါ်ပေါက်ခဲ့၏။ ယင်းသို့ရှိစဉ် ဟန်ဂေရီနိုင်ငံ တောင်ပိုင်းကို တူရကီတို့ ဝင်ရောက်တိုက်ခိုက်သောအခါ ပြည်တွင်း အာဏာလုမှုများကြောင့် အကွဲကွဲ ဖြစ်နေသော ဟန်ဂေရီတို့သည် ၁၅၂၆ ခုနှစ်တွင် မိုဟက် စစ်မြေပြင်၌ စစ်ရှုံးသဖြင့် ဟန်ဂေရီနိုင်ငံ အလုံး တူရကီတို့ လက်အောက်သို့ ကျရောက်ခဲ့လေသည်။

တူရကီတို့၏ လက်အောက်တွင် ဟန်ဂေရီနိုင်ငံသည် နှစ်ပေါင်း ၁၅၀ ခန့် နာလန်မထူနိုင်ပဲ အချုပ်အချယ် ခံခဲ့ရပြီးနောက် ၁၆၇၇ ခုနှစ်တွင် ဟန်ဂေရီမြောက်ပိုင်းရှိ ဗရင်ဂျီဂိုဏ်းသားတို့ သွေးစည်းကာ တူရကီတို့ကို တွန်းလှန်ရန် ကြိုးစားခဲ့ကြသည်။ သူတို့၏ ခေါင်းဆောင်မှာ ကောင့် တိုကိုလီ ဖြစ်၏။ သို့ရာတွင် အင်အား မမျှသောကြောင့် မအောင်မြင်ခဲ့ကြချေ။ တူရကီတို့၏ ရက်စက်စွာ နှိပ်ကွပ် အုပ်ချုပ်ခြင်းကိုသာ ခံကြရသည်။

၁၆၉၉ ခုနှစ်တွင် ဗရင်ဂျီ အယူဝါဒီ နိုင်ငံများ ဖြစ်ကြသော ဩစတြီးယား၊ ရုရှနှင့် ပိုလန်နိုင်ငံတို့၏ အကူအညီဖြင့် တူရကီတို့ကို ဟန်ဂေရီနိုင်ငံတွင်းမှ အပြီးသတ် မောင်းထုတ်လိုက်ကြလေသည်။ သို့သော် ဟန်ဂေရီနိုင်ငံကား လွတ်လပ်ရေး မရခဲ့ချေ။ ဩစတြီးယန်း ဟက်စဗတ် မင်းဆက်၏ သက်ဦးဆံပိုင် အုပ်စိုးခြင်းကိုသာ ခံကြရလေသည်။

လွတ်လပ်ရေးကိုသာ လိုလားသော ဟန်ဂေရီ နိုင်ငံသားတို့သည် အခွင့်ကောင်းကို စောင့်နေခဲ့ကြလေရာ၊ ၁၇၀၄ ခုနှစ်တွင် စပိန်နန်းလုစစ်ပွဲ၌ ဩစတြီးယား ပါဝင်ရသည့် အခါ ထကြွ ပုန်ကန်ကြလေသည်။ ယင်းသည့် တော်လှန်မှုကြီးသည် ခုနစ်နှစ်မျှ ကြာမှ ပြီးဆုံးသွားသော်လည်း ဟန်ဂေရီသည် ရည်မှန်းသည့် လုံးဝ လွတ်လပ်ရေးကိုကား မရခဲ့ကြသေးပဲ အခွင့်အရေးများသာ ရှေးကထက် တိုးတက်ပိုမို ရရှိခဲ့ကြလေသည်။

၁၇၄၀ ပြည့်နှစ်တွင် ဩစတြီးယန်း နန်းလုစစ်ပွဲ၌ ဟန်ဂေရီ မှူးမတ်တို့သည် ဩစတြီးယန်း ဘုရင်မ မရီးယာ တရီးဇားဖက်မှ အင်တိုက်အားတိုက် ကူညီခဲ့ကြသည်။ ထိုအချိန်တွင် ဟန်ဂေရီနိုင်ငံနှင့် ဩစတြီးယား နိုင်ငံတို့သည် အတော်ပင် သင့်မြတ်လာခဲ့ကြပေသည်။ သို့သော် မရီးယာ တရီးဇား၏ မြစ်တော် ဒုတိယ လီယိုပိုဘုရင် လက်ထက် ၁၇၈၉ ခုနှစ်တွင် ပြင်သစ်အရေးတော်ပုံကြီး ဖြစ်ပွားခဲ့ရာ ယင်းသည့် အရေးတော်ပုံ မီးတောက်သည် လွတ်လပ်ရေးကို များစွာ လိုလားလျက်ရှိသော ဟန်ဂေရီ နိုင်ငံအတွင်းသို့ ကူးစက်လာခဲ့လေသည်။ (မရီးယာတရီးဇား — လည်းရှု။)

၁၈၁၅ ခုနှစ် နောက်တွင် ဟန်ဂေရီနိုင်ငံ၌ လူဝီ ကော့ရှပ်တို့ ခေါင်းဆောင်သော လစ်ဗရယ် အဖွဲ့သည် အင်အားကောင်းလာပြီးလျှင် ဩစတြီးယန်း ဟက်စဗတ်မင်းတို့ကို အပြင်းအထန် အတိုက်အခံပြုလေတော့သည်။ ၁၈၄၈ ခုနှစ်တွင် ဟန်ဂေရီ တနိုင်ငံလုံး လူဝီ ကော့ရှပ်ကို ခေါင်းဆောင် အဖြစ်တင်မြှောက်၍ ပုန်ကန်တော်လှန်ကြလေတော့သည်။ အခိုက်အတန့်အားဖြင့် တော်လှန်ပုန်ကန်သူတို့ အရေးသာခဲ့ရာ ခေါင်းဆောင်ကြီး လူဝီ ကော့ရှပ်ကို သမတ အဖြစ်တင်မြှောက်ကာ လွတ်လပ်သော ဟန်ဂေရီ သမတနိုင်ငံကို တည်ထောင်လိုက်ကြ၏။

သို့ရာတွင် ယင်းသည့် လွတ်လပ်ရေးကား မတည်မြဲခဲ့ချေ။ မက်ဂျာနှင့် ဆလဗ လူမျိုးတို့သည် ဘာသာစကားကွဲလွဲမှုတွင် အငြင်းပွားသည်မှ အစ သွေးကွဲလာကြသောကြောင့် တကြောင်း၊ ထို ဆလဗတို့နှင့် ရုရှတို့၏အကူအညီဖြင့် တော်လှန်မှုကြီးကို နှိမ်နင်း နိုင်ခဲ့သောကြောင့် တကြောင်း များမကြာမီအတွင်းမှာပင် အသက်ပေါင်း များစွာ အသေခံ၍ တိုက်ယူခဲ့ရသော လွတ်လပ်ရေးကို အဆုံးခံလိုက်ရ ပြီးလျှင် ဩစတြီးယန်း ဘုရင် ဖရန်စစ်ဂျိုးဇက်၏ လက်အောက်သို့ တဖန် ပြန်၍ ရောက်ခဲ့ရလေသည်။ (ဖရန်စစ် ဂျိုးဇက် — လည်းရှု။)

၁၈၆၆ ခုနှစ်တွင် ဩစတြီးယား နိုင်ငံသည် ပရပ်ရှားနိုင်ငံ၊ ဣတလီနိုင်ငံတို့နှင့် စစ်ဖြစ်ပွားရ ပြန်လေသည်။ ထိုအခါတွင် ပြည်တွင်းရန်ကို စိုးရိမ်သောကြောင့် ဖရန်စစ်ဂျိုးဇက်သည် ၁၈၆၇ ခုနှစ်တွင် ဟန်ဂေရီနိုင်ငံကို ဩစတြီးယား နိုင်ငံနှင့် တန်းတူ အခွင့်အရေးများ ပေးကာ ဟန်ဂေရီ လွှတ်တော်အား တာဝန်ခံရသော သီးခြား အစိုးရအဖွဲ့

ဖွဲ့စည်းအုပ်ချုပ်ခွင့် ပြုလေသည်။ နှစ်ပြည်ထောင် အုပ်ချုပ်ရေးကိုမူ ဩစတြီးယန်းဘုရင်က ကိုင်၍ နိုင်ငံတော်ကိုလည်း ဩစတြီးယား ဟန်ဂေရီ နိုင်ငံတော်ဟု ခေါ်တွင်စေသည်။ (ဩစတြီးယား–ဟန်ဂေရီ —ရှု။)

သို့ဖြင့်လည်း ဟန်ဂေရီနိုင်ငံ၏ ပြဿနာရပ်များမှာ မပြေလည်ခဲ့သေးပေ။ လုံးဝ လွတ်လပ်ရေးကို ရမှသာ ပြေလည်မည် ဖြစ်သောကြောင့် ခေါင်းဆောင်ကြီး လူဝိ ကော့ရှုပ်ပင်လျှင် ဦးစီးကာ လုံးဝ လွတ်လပ်ရေးအတွက် လှုံ့ဆော်ကြရပြန်သည်။ ပဌမ ကမ္ဘာစစ်အတွင်း မက်ဂျာ လူမျိုးတို့သည် ဩစတြီးယန်းတို့နှင့် ပူးပေါင်းကာ တိုက်ပွဲဝင်ခဲ့ကြလေသည်။ ပဌမ ကမ္ဘာစစ် ပြီးဆုံးသောအခါ ဩစတြီးယား–ဟန်ဂေရီနိုင်ငံသည် စစ်ရှုံးနိုင်ငံ ဖြစ်ခဲ့၍ ဟက်ပစဗတ် မင်းဆက်လည်း ပြတ်သွားလေသည်။ ဟန်ဂေရီနှင့် အခြား ဩစတြီးယား လက်အောက်ခံ နိုင်ငံများသည်လည်း လွတ်လပ်ရေး ရရှိခဲ့ကြ၏။ ထရန်ဆီလဗေနီးယန်း လူမျိုး၊ ဆလိုဗက် လူမျိုးနှင့် ကရုတ်လူမျိုးတို့သည် ဟန်ဂေရီနိုင်ငံတွင်းမှ ခွဲထွက်သွားလေသည်။ ပဌမဦးစွာ ဟန်ဂေရီတော်လှန်ရေး သမားများသည် ဟန်ဂေရီသမတ နိုင်ငံ တည်ထောင်ခဲ့လေသည်။

ထရီယေးနွံ (ဗာဆေး)စာချုပ်အရ ဟန်ဂေရီနိုင်ငံပိုင် နယ်သုံးပုံ နှစ်ပုံခန့်ကို ရုမေးနီးယား၊ ချက်ကိုစလိုဗားကီးယားနှင့် ယူဂိုစလားဗီးယား နိုင်ငံများသို့ ဖဲ့ပေးလိုက်ရသည်။ ပြဒါး၊ ကြေးနီ၊ ရွှေ၊ ငွေ၊ ဆား စသော သတ္တုတွင်းအားလုံး ကျောက်မီးသွေးတွင်း သုံးပုံတပုံ၊ သံတွင်းများ၊ သစ်တော ငါးပုံ လေးပုံခန့်ကို စွန့်လွှတ်ခဲ့ရသဖြင့် ဆိုရှယ်လစ်နှင့် ကွန်မြူနစ်တို့ မကျေမနပ်ဖြစ်ကာ အုပ်ချုပ်ရေးအာဏာကို ရယူပြီးသော် ဆိုဗီယက် သမတနိုင်ငံအဖြစ် ကြေညာ၏။ ကွန်မြူနစ် ခေါင်းဆောင်ကြီး ဗေးလားကွန်အား သမတအဖြစ် တင်မြှောက်ခဲ့ကြလေသည်။ သို့ရာတွင် အခြေမခိုင်မီ ဟန်ဂေရီ ရေကြောင်းဗိုလ်ချုပ် ဟော့ထေး ခေါင်းဆောင်သော စစ်တပ်များက နိုင်ငံခြားအကူအညီဖြင့် တော်လှန်တိုက်ခိုက်ပြန်လေရာ၊ ဗေးလားကွန် အစိုးရ ပျက်လေသည်။ ထိုနောက် ဘုရင်အစိုးရမျိုးကို ပြန်လည်တည်ထောင်၍ ဟောထေးက နန်းစောင့်အဖြစ် အုပ်ချုပ်ခဲ့၏။၁၉၂၂ ခုနှစ်တွင် ကောင့် စတီဖင် ဗေးသလင်အား ဝန်ကြီးချုပ်အဖြစ် တင်မြှောက်ရာ ဟန်ဂေရီနိုင်ငံ အခြေအနေ တိုးတက် ကောင်းမွန်လာသည်။

ဥရောပတိုက်တွင် ဖက်ဆစ်ဝါဒ ပေါ်ပေါက်လာသောအခါ ဟန်ဂေရီနိုင်ငံမှာ ကြီးလေးခက်ခဲသော ပြဿနာများနှင့် ရင်ဆိုင်ခဲ့ရလေသည်။ ၁၉၃၂ ခုနှစ်တွင် ဟန်ဂေရီ ဖက်ဆစ် ခေါင်းဆောင် ဂွန်ဗိုသည် ဝန်ကြီးချုပ် ဖြစ်လာသည်။ ထိုအခါမှ စ၍ ဟန်ဂေရီနိုင်ငံသည် ဣတလီနိုင်ငံ၊ ဂျာမနီနိုင်ငံတို့နှင့် တဖြည်းဖြည်း ရင်းနှီးသည်ထက် ရင်းနှီးလာခဲ့သည့်ပြင် အထူးသဖြင့် စီးပွားရေးအားဖြင့် ဂျာမနီနိုင်ငံ အပေါ်တွင် မှီခိုရသော အခြေသို့ ရောက်သွားလေသည်။ ၁၉၃၉ ခုနှစ် မတ်လတွင် ချက်ကိုစလိုဗားကီးယားနိုင်ငံကို အပိုင်းပိုင်း ခွဲဝေလိုက်သောအခါတွင် ဟန်ဂေရီနိုင်ငံသည် ပဌမ ကမ္ဘာစစ် မဖြစ်မီက ယင်းပိုင်နယ် အချို့ကို ပြန်လည်ရရှိခဲ့၏။

ဒုတိယကမ္ဘာစစ် ဖြစ်စက ဟန်ဂေရီနိုင်ငံသည် ကြားနေနိုင်ငံအဖြစ် နေလိုသော်လည်း မိမိ ယခင်က ပိုင်ခဲ့သော ထရန်ဆီလဗေးနီးယား ပြည်နယ်ကို ပြန်လည်ပေးအပ်မည်ဟူသော ဂျာမန်တို့၏ကတိကြောင့် ဝင်ရိုးတန်း အုပ်စုဖက်သို့ ပါသွား၏။ ဟန်ဂေရီနိုင်ငံသည် ဝင်ရိုးတန်း နိုင်ငံများနှင့် ပူးပေါင်း ခဲ့သော်လည်း ဖက်ဆစ်ဝါဒကို ဆန့်ကျင်သော မက်ဂျာလူမျိုး များစွာပင် ရှိ၏။ ဒုတိယကမ္ဘာစစ်အတွင်း၌ စစ်တလင်း ဖြစ်နေသော ဟန်ဂေရီနိုင်ငံတွင်းရှိ မက်ဂျာလူမျိုးတို့သည် ပြေးလွှား ပုန်းအောင်းကာ ဒုက္ခဆင်းရဲကြီးစွာနှင့် နေခဲ့ကြရလေသည်။ ၁၉၄၄ ခုနှစ်တွင် ရုရှ စစ်တပ်များက ဝင်ရောက် တိုက်ခိုက်ကြသောအခါ ဝင်ရိုးတန်း စစ်တပ်များသည် ဟန်ဂေရီနိုင်ငံမှ တဖြည်းဖြည်း ခံစစ်တိုက်ရင်း မီးရှို့ ဖျက်ဆီးကာ ထွက်ပြေးခဲ့လေသည်။

ထိုနှစ် ဒီဇင်ဘာလတွင် ဗိုလ်ချုပ် ဗေလာမစ် ကလော့ရှ ခေါင်းဆောင်သော ယာယီအစိုးရအဖွဲ့ တခုကို ဖွဲ့စည်းခဲ့သည်။ ၁၉၄၅ ခုနှစ် ဇန္နဝါရီလ ၂၀ ရက်နေ့တွင် ကမ္ဘာ့ကုလသမဂ္ဂ အဖွဲ့ဝင် နိုင်ငံများနှင့် ယာယီစစ်ပြေငြိမ်းရေး စာချုပ် လက်မှတ်ရေးထိုးကာ ထိုနှစ် နိုဝင်ဘာလ၌ ပြည်သူ့ ရွေးကောက်ပွဲကြီး တရပ် ကျင်းပခဲ့၏။ ထိုရွေးကောက်ပွဲတွင် မြေပိုင်ရှင် ကလေးများ အဖွဲ့မှ အမတ်အများဆုံး ရွေးကောက် တင်မြှောက်ခြင်း ခံရလေသည်။ မြေပိုင်ရှင် ကလေးများ အဖွဲ့မှ ဇယ်ရွန် ဇိုလတန် တစ်လဒီ ခေါင်းဆောင်ကာ အစိုးရအဖွဲ့ကို ဖွဲ့စည်းနိုင်ခဲ့သော်လည်း နိုင်ငံတွင် ဖြစ်ပေါ်နေသော အခြေအနေများကြောင့် လက်ဝဲသမား အတော်အသင့် ပါသော ညွန့်ပေါင်းအစိုးရ အဖွဲ့တခု ဖွဲ့စည်းလိုက်ရသည်။ ၁၉၄၆ ခုနှစ် ဖေဖွာရီ ၁ ရက်နေ့တွင် ကျင်းပသော အမျိုးသား လွှတ်တော် ညီလာခံတွင် ဟန်ဂေရီ သမတနိုင်ငံ တည်ထောင်ရန် အများသဘောတူ ဆုံးဖြတ်ကြ၍ ဒေါက်တာ ဇိုလတန် တစ်လဒီအား သမတအဖြစ် တင်မြှောက်ကြလေသည်။

ထိုအချိန်မှ စ၍ ဟန်ဂေရီနိုင်ငံ၏ ပြန်လည် ထူထောင်ရေးကို အားတိုက်အင်တိုက် ဆောင်ရွက်ကြသည့်အပြင် မြေပိုင်ရှင်ကြီးများ လက်ဝယ်ရှိ မြေယာများကို တောင်သူလယ်သမား ဆင်းရဲသား အလုပ်သမားများအား တဦးလျှင် မြေတကေခွဲခန့်စီ ဝေပေးလေသည်။ ထိုနောက် ငွေကြေး

တန်ဖိုး ယုတ်လျော့သွားပြန်သဖြင့် လူလတ်တန်းစားများ အနေအထိုင် ကျပ်တည်းခဲယဉ်းသည့်အခြေသို့ ရောက်ရှိပြန်လေသည်။ သို့ဖြင့်ပင် ၁၉၄၇ ခုနှစ်သို့တိုင်အောင် ဟန်ဂေရီနိုင်ငံကိုညွန့်ပေါင်းအစိုးရက အုပ်ချုပ် ကြိုးကိုင်ခဲ့လေသည်။

ထိုနှစ်တွင် သမတကြီး တစ်လဒီ ရာထူးမှ နုတ်ထွက်သောအခါ အလုပ်သမား သမဂ္ဂဥက္ကဋ္ဌဟောင်း အာပတ် ဇာကစ်အား သမတအဖြစ် တင်မြှောက်ကြလေသည်။ အမျိုးသား လွှတ်တော်တွင် မြေပိုင်ရှင်ကလေးများ အဖွဲ့က အင်အား ကောင်းလျက်ပင် ရှိသော်လည်း သမတ အစိုးရအဖွဲ့၏ အချက်အခြာ ဌာနများကို ကွန်မြူနစ်များက ကြိုးကိုင်ထားလေသည်။ ၁၉၄၉ ခုနှစ်တွင် ပြည်သူ့သမတနိုင်ငံ အခြေခံဥပဒေကို ရေးဆွဲ အတည်ပြုခဲ့ကြသည်။ ယင်းဥပဒေကား ဆိုဗီယက် အုပ်ချုပ်မှု စံနစ်အတိုင်း ဖြစ်သည်။ စက်ရုံအလုပ်ရုံများကို ပြည်သူပိုင် ပြုလုပ်ခြင်း၊ စုပေါင်းလယ်ယာလုပ်ငန်းများပြုလုပ်ခြင်းတို့ ပေါ်ပေါက်လာသည်။ ၁၉၅၆ ခုနှစ် အောက်တိုဘာလတွင် ကွန်မြူနစ် အစိုးရအုပ်ချုပ်ရေးကို ဟန်ဂေရီ ပြည်သူပြည်သားများ ထကြွပုန်ကန်ကြသော်လည်း ရုရှစစ်တပ်များ အကူအညီဖြင့် ပုန်ကန်သူများကို နှိမ်နင်းနိုင်ခဲ့လေသည်။

**ဟန်နီဗော** (ဘီစီ ၂၄၇ ခန့်–၁၈၃)။ ။ဟန်နီဗောသည် ရှေးကားသေ့နိုင်ငံမှ စစ်ပညာ၌ အထူးကျွမ်းကျင်သော ဗိုလ်ချုပ်ကြီးဖြစ်သည်။ စစ်ရေးစစ်ရာနှင့်စပ်လျဉ်း၍ ဆိုင်ပြိုင်ရသော အခက်အခဲတို့ကို စစ်ပရိယာယ် ဆင်လျက်ကျော်နင်းခဲ့ပုံများမှာ အံ့ချီးဖွယ်ရာ ဖြစ်လေသည်။ ဟန်နီဗောသည် အကျပ်အတည်းနှင့် တွေ့ကြုံနေရသည့် အခါမိမိဖက်သို့ အရေးသာလာအောင် ထိုအခြေ အနေကိုပြောင်းလဲနိုင်သော အရည်အခြင်းရှိသူဖြစ်၏။ မိမိတို့ဖက်ကထက် အင်အားပို၍ ကြီးမားသော ရန်သူတပ်များကိုလည်း နိုင်အောင်တိုက်နိုင်သော စစ်သူရဲကောင်းဖြစ်သည်။ ထို့ကြောင့် ဟန်နီဗောသည် သူရသတ္တိ ရှိသောဗိုလ်ချုပ်ကြီး ဖြစ်ရုံမျှမက သေနင်္ဂဗျူဟာ အရာ၌လည်း ထက်မြက်သူ ဖြစ်ပေသည်။ ဟန်နီဗောသည် ရောမတို့၏ကြီးစိုးမှုကို ချိုးနှိမ်ရန် ရည်ရွယ်ချက် မအောင်မြင်ခဲ့သော်လည်း သူ၏ဇွဲသတ္တိကိုမူကား ကမ္ဘာ့သမိုင်းတွင် ရှေးခေတ်စစ်ခေါင်းဆောင်တို့နှင့် ယှဉ်ပြိုင်၍ မှတ်တမ်းတင်ခဲ့ကြရလေသည်။

ထိုအချိန်က မြေထဲပင်လယ်ဒေသတွင် ရောမတို့နှင့်ကားသေ့တို့ အားပြိုင်နေကြသည်။ ရောမတို့က ဣတလီကျွန်းဆွယ်တခုလုံးကို သိမ်းပိုက်အုပ်စိုးလျက်ရှိသည်။ ကားသေ့တို့က အာဖရိကတိုက်မြောက်ပိုင်းနှင့် မြေထဲပင်လယ်အနောက်ပိုင်းတွင် ကြီးစိုးလျက်ရှိသည်။ ပဌမပျူးနစ်စစ်ပွဲ (ဘီစီ ၂၆၄–၂၄၁) တွင် ကားသေ့တို့ အရေးနိမ့်ခဲ့ကြသည်။ ကားသေ့တို့သည် ရောမတို့ကို အခဲမကြေသဖြင့် ကားသေ့ဗိုလ်ချုပ်ကြီး ဟမီးလကား ဗားကားသည် စပိန်ကိုနယ်သစ်အဖြစ် သိမ်းသွင်းရန် စစ်ချီလေသည်။ ဗိုလ်ချုပ်ကြီးဟမီးလကား၏ ကိုးနှစ်သားအရွယ်ရှိ ဟန်နီဗောကလည်း နောင်တနေ့တွင် ရောမတို့ရန်စွယ်ကို အပြီးအပိုင် ချိုးနှိမ်ပါမည်ဟူသော အဓိဋ္ဌာန်ဖြင့် စစ်ရေးစစ်ရာကို လေ့လာရန် ဖခင်နှင့်အတူ လိုက်ပါခဲ့လေသည်။ (ကားသေ့နိုင်ငံ — လည်းရှု။)

ဟန်နီဗောသည် ဖခင်ဗိုလ်ချုပ်ကြီး လက်အောက်တွင် စစ်ပညာကို စေ့စေ့စပ်စပ်လေ့လာခဲ့ရလေသည်။ ဖခင်ကွယ်လွန်လေသော် ယောက်ဖတော်သူ ဟက်ဇဒြူးဗော လက်အောက်တွင် ဆက်လက်၍ စစ်မှုထမ်းသည်။ တဖန်ဘီစီ ၂၂၁ ခုနှစ်တွင် ဟက်ဇဒြူးဗောကွယ်လွန်သဖြင့် အသက် ၂၅ နှစ်အရွယ်မျှသာရှိသော ဟန်နီဗောကို ကားသေ့ စစ်ဗိုလ်ချုပ်အဖြစ် တင်မြှောက်ကြသည်။ ဟန်နီဗောသည် ငယ်စဉ်ကတည်းက စစ်တိုက်ခိုက်ရေးဖက်တွင် အတွေ့အကြုံများခဲ့သူဖြစ်သည့်အပြင် ပင်ကိုယ်တိုက်ရည်ခိုက်ရည်လည်း ရှိသူဖြစ်၍ မိမိပြုခဲ့သော အဓိဋ္ဌာန်အတိုင်း ရောမတို့ကို နှိမ်နင်းတိုက်ခိုက်ရန် ဒုတိယ ပျူးနစ်စစ်ပွဲ (ဘီစီ ၂၁၈–၂၀၁) ကို ပြင်ဆင်လေသည်။

ဟန်နီဗောသည် ရောမတို့ကို ဣတလီမြေပေါ်တွင် နှိမ်နင်းအောင်မြင်ရမည်ဟု စွဲမြဲစွာ ယုံကြည်သူဖြစ်ရာ ရာဇဝင်တွင်သည့် စစ်ကြောင်းဖြင့် ရောမမြို့တော်သို့ ချီတက်ခဲ့လေသည်။ ဗိုလ်ချုပ်ကြီးဟန်နီဗောသည် ခြေလျင်စစ်သား ၅၀,၀၀၀၊ မြင်းသည်တပ်သား ၉,၀၀၀ နှင့် ဆင်များလည်းပါဝင်သော ကားသေ့စစ်တပ်ကို ဦးစီးလျက် စပိန်အရှေ့ဖက်ကမ်းခြေတလျှောက်မှ ပီးရနီးတောင်တန်းကို ဖြတ်ကျော်၍ ဂေါလ (ပြင်သစ်) နိုင်ငံသို့ ဝင်ရောက်ခဲ့သည်။ ထိုအရပ်မှတဖန် ရုန်းမြစ်ကိုဖြတ်ပြီးလျှင် ဣတလီမြောက်ပိုင်း အဲလပတောင်ခြေသို့ ဆောင်းရာသီတွင် ဆိုက်ရောက်လေသည်။ အပူပိုင်းအရပ်များ၌ နေသားကျခဲ့သော ကားသေ့စစ်သားတို့သည် နှင်းဖုံး၍ မြင့်မားမတ်စောက်သော အဲလပတောင်တန်းကို ခဲယဉ်းပင်ပန်းစွာ ဖြတ်ကျော်ကြရလေသည်။ ထိုကဲ့သို့သော ခရီးကြမ်းကို ချီတက်လာကြရာ၌ ရာသီဥတု အအေးဒဏ်ကြောင့်သော်၎င်း၊ တောင်စောင်းမှ မတော်တဆ ခြေချော်လက်ချော် ကျဆုံးခြင်းကြောင့်သော်၎င်း၊ အနာရောဂါကြောင့် သော်၎င်း တပ်သားမြောက်မြားစွာနှင့် ဆင်ပေါင်းများစွာ ဆုံးရှုံးခဲ့ရသည်။ ဣတလီမြောက်ပိုင်းလွင်ပြင်ပေါ်သို့ ခြေချမိသောအခါ ဟန်နီဗောတွင် တပ်သားပေါင်း သုံးပုံတပုံမျှလောက်သာ ကျန်တော့သည်။



ကားသေ့နိုင်ငံ ဗိုလ်ချုပ်ကြီး ဟန္နီဗော

ဗိုလ်ချုပ်ကြီးဟန္နီဗောသည် မြင်းတပ်သားများကို တွင်ကျယ်စွာ အသုံးချ၍ ရောမတပ်များကို ထရက်ဗီယာမြစ် တိုက်ပွဲနှင့် ထရပ်စီမီးနပ်အိုင် တိုက်ပွဲတို့တွင် တိုက်ခိုက်အောင်မြင်ခဲ့လေသည်။ ထိုအခါ ရောမတို့သည် ကားသေ့စစ်တပ်၏ရန်ကို ဖြိုဖျက်ရန်အတွက် ကွင်းတပ် ဖေးဗီးယပ် မက်ဆီမပ် ဆိုသူကို ခေါင်းဆောင်အဖြစ် အပ်နှင်းခဲ့ကြသည်။ ဖေးဗီးယပ်သည် တောင်ဖက်သို့ ဆင်းလာသော ကားသေ့တို့၏တပ်နှင့် ရင်ဆိုင်တိုက်ခိုက်ခြင်းမပြုပဲ နောက်ဆွယ်မှလိုက်၍ အနှောင့်အရှက် အမျိုးမျိုးဖြင့် ရန်သူပန်းရိုနွမ်းနယ်လာအောင် ပြုလုပ်သည်။ ဘီစီ ၂၁၆ ခုနှစ်တွင် တပ်သားပေါင်းခုနစ်သောင်းနီးပါးမှ တသိန်းနီးပါးမျှပါဝင်သော ရောမစစ်တပ်နှင့် ဟန္နီဗော၏ တပ်တို့သည် ဣတလီ အရှေ့တောင်ဖက်ကမ်းခြေအနီးရှိ ကန္နီးမြို့၌ ရင်ဆိုင်တိုက်ခိုက် ကြလေသည်။ ဟန္နီဗော၏ တပ်များသည် လူအင်အားချင်းမမျှသော်လည်း ကန္နီးတိုက်ပွဲတွင် ရောမတို့ကို တပ်လုံးနီးပါးမျှပြုတ်အောင် ချေမှုန်းနိုင်ခဲ့ကြသည်။ ထိုတိုက်ပွဲ၌ ရောမတို့ဖက်တွင် ထိပ်တန်းအရာရှိများ၊ သူကောင်းမျိုးနွယ်များ မြောက်မြားစွာ ကျဆုံးခဲ့လေသည်။ သို့ရာတွင် ရောမတို့က ပင်လယ်ကို ကြီးစိုးလျက်ရှိသဖြင့် ဟန္နီဗောထံသို့ ကားသေ့မှ စစ်ကူမပို့နိုင်ချေ။ ဘီစီ ၂၀၇ ခုနှစ်တွင် ဟန္နီဗော၏ညီ ဟက်ဇဒြူးဗောသည် စပိန်ဖက်မှ စစ်ကူလာခဲ့သော်လည်း ရောမတို့က ဆီးကြိုတိုက်ခိုက်သဖြင့် တပ်ပျက်သွားလေသည်။

ရောမတို့သည် စစ်ပရိယာယ်ကိုပြောင်း၍ အာဖရိက တိုက်ရှိ ကားသေ့နိုင်ငံဖက်သို့ စစ်ဦးလှည့် ကြသည်။ ရောမတပ်များကို ဗိုလ်ချုပ်ဆစ်ပီယိုက ခေါင်းဆောင်သည်။ ထိုအခါ ဣတလီနိုင်ငံ၌ရှိနေသေးသော ဗိုလ်ချုပ် ဟန္နီဗောကို ကားသေ့သို့ ပြန်ခေါ်ရသည်။ ဘီစီ ၂၀၂ ခုနှစ်တွင် ရောမတပ်များနှင့် ဇေးမားအရပ်၌ ယှဉ်ပြိုင်တိုက်ခိုက်ရာ ကားသေ့တို့ အရေးနိမ့်၍ စစ်ရှုံးလေသည်။ ကားသေ့တို့သည်လည်း ရောမတို့ထံ၌ အညံ့ခံ၍ စစ်ပြေငြိမ်းရလေသည်။ ထိုသို့အားဖြင့် ဒုတိယပျူးနစ်စစ်ပွဲ ပြီးဆုံးသည်။

ဗိုလ်ချုပ် ဟန္နီဗောသည် စစ်မှုထမ်းအဖြစ်မှ ထွက်၍ ကားသေ့နိုင်ငံ ပြန်လည်ထူထောင်ရေးကို စွမ်းလွန်းတမံဆောင်ရွက်လေသည်။ ဟန္နီဗော၏ ကြိုးပမ်းမှုကြောင့် ကားသေ့နိုင်ငံသည် စီးပွားရေးတိုးတက်လာပြန်ရာ ရောမတို့က မိမိတို့အား အန်တုမည်ကို စိုးရွံ့ကြသည်။ ထိုကြောင့် ခေါင်းဆောင်ဟန္နီဗောကို ယင်းတို့၏လက်သို့ပေးအပ်ရန် တောင်းဆိုသည်။ ထိုအခါ ဟန္နီဗောသည် အာရှမိုင်းနားသို့ ထွက်ပြေးတိမ်းရှောင်ခဲ့ရလေသည်။ ဦးစွာ၌ ဆီရီးယားဘုရင်နှင့် ပူးပေါင်း၍ ရောမတို့၏ရန်ကို တိုက်ဖျက်ရန် အားထုတ်သည်။ သို့ရာတွင် အရေးမသာသောကြောင့် ဗစ်သီးနယား နိုင်ငံသို့ ထွက်ပြေးရပြန်သည်။ တဖန် ရောမတို့သည် ဟန္နီဗောကို လက်ရဖမ်းမိရန် ကြိုးစားကြလေသည်။ ဟန္နီဗောလည်း လွတ်မြောက်ရန်လမ်းမရှိတော့သဖြင့်၊ မိမိလက်စွပ်၌ ဝှက်၍ အစဉ်ဆောင်ထားသည့် အဆိပ်ကိုသောက်ကာ သူ၏ဘဝကို အဆုံးသတ်သွားလေသည်။

**ဟန်နိုဗာမင်းဆက်။** ။ဂျေ့ဘုရင်များ (အင်္ဂလိပ်)—ရှု။

**ဟန်နိုဗာနယ်။** ။ဟန်နိုဗာနယ်သည် ဂျာမနီနိုင်ငံ အနောက်မြောက်ပိုင်း၊ မြောက်ပင်လယ် ကမ်းတလျှောက်တည်ရှိသော နယ်ဖြစ်သည်။ နယ်တောင်ဖက်ပိုင်းသည် တောင်ထူထပ်၍၊ အလယ်ပိုင်းနှင့် မြောက်ဖက်ပိုင်းတို့သည် မြေပြန့်ဖြစ်၏။ အဲလဗမြစ်၊ ဗေဇာမြစ်၊ အမ်းမြစ်များ ဖြတ်သန်းစီးဆင်းသည်။ အထူးသဖြင့် ဗေဇာမြစ်သည် ဟန်နိုဗာနယ်တွင် စီးပွားရေးအဓိကခရီးလမ်း ဖြစ်သည်။ နယ်အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၄,၉၇၀ ရှိသည်။

အင်္ဂလန်နိုင်ငံသမိုင်းတွင် ဟန်နိုဗာမင်းဆက်ဟူ၍ရှိခဲ့ရာ

ထိုမင်းတို့သည် အင်္ဂလိပ်နန်းထက်၌ နှစ်ပေါင်း ၁၂၀ ကျော်မျှ စိုးစံခဲ့ကြသည်။ ၄ (ဟန်နိုဗာမင်းဆက် — လည်းရှု။) ၁၇၁၄ ခုနှစ် တွင် ဟန်နိုဗာနယ်စား ဂျာမန်မင်းသားသည် ပဌမဂျော့ဘုရင်ဘွဲ့ခံ၍ အင်္ဂလိပ်ထီးနန်းကို ဆက်ခံခဲ့လေသည်။ ဝိတိုရိယဘုရင်မနန်းတက်သော ၁၈၃၇ ခုနှစ်အထိ ဟန်နိုဗာနယ်သည် အင်္ဂလိပ်ဘုရင်တို့၏ လက်အောက်တွင် တည်ရှိခဲ့သည်။ ပရပ်ရှားနှင့် ဩစတြီးယားစစ်ပွဲပြီးဆုံးသည့် ၁၈၆၆ ခုနှစ်တွင် ဟန်နိုဗာနယ်ကို ပရပ်ရှားက သိမ်းယူခဲ့သည်။ တဖန် ဒုတိယကမ္ဘာစစ် (၁၉၃၉–၄၅) ပြီးသည့်နောက် ၁၉၄၆ ခုနှစ်တွင် ဟန်နိုဗာနယ်ကို ဆက္ကဆွန်နီအောက်ပိုင်းဟူသော နယ်သစ်ထဲသို့ ထည့်သွင်းခဲ့ကြသည်။ ဆက္ကဆွန်နီအောက်ပိုင်းနယ်သည် အနောက်ဂျာမနီနိုင်ငံ (ပြည်ထောင်စု ဂျာမနီနိုင်ငံ) ၌ ပါဝင်သော နယ်တနယ်ဖြစ်သည်။

ဟန်နိုဗာမြို့သည် ဆက္ကဆွန်နီအောက်ပိုင်းနယ်၏ မြို့တော်ဖြစ်၍ ဗရီးမင်းဆိပ်ကမ်းမြို့ အရှေ့တောင်ဖက် မိုင် ၆၀ ခန့်အကွာတွင် တည်ရှိသည်။ စက်မှုလုပ်ငန်းထွန်းကားသော မြို့ကြီးဖြစ်၍ လူဦးရေ ၄၉၄,၅၀၀ ယောက်ခန့် နေထိုင်သည်။

**ဟန်ပ၊ ဦး** (မြန်မာ ၁၂၅၀–၁၃၂၈)။ ။မြန်မာ့ လွတ်လပ်ရေးခေတ်၌ ဆိုင်းလောက၏ မီးရှူးတန်ဆောင်လည်းဖြစ်၍ ဂီတဖခင်ကြီးတဦးလည်းဖြစ်သော အလင်္ကာကျော်စွာဆရာကြီးဦးဟန်ပသည် မြန်မာအနုပညာတရပ်ဖြစ်သော ဆိုင်းပညာကို ဂုဏ်သိရ်မြင့်မြင့်ဖြင့် ပွဲလယ်တင့်အောင် ဆောင်ရွက်ခဲ့သော အနုပညာရှင်ကြီးပေတည်း။ ဆရာကြီးသည် ဆိုင်းပညာကို ဝါသနာအလျောက် လေ့လာလိုက်စားခဲ့ရာမှ အမျိုးသားယဉ်ကျေးမှု ပညာတရပ်ကို ထိန်းသိမ်းမိလျက်သားဖြစ်ခဲ့ပေသည်။ နယ်ချဲ့အစိုးရ လက်အောက်တွင် မြန်မာ့ရိုးရာ ဆိုင်းပညာရှင်တို့သည် ထိုက်တန်သောနေရာကို မရခဲ့ပေ။ ထိုခေတ်ကတော်ရုံဇွဲသတ္တိတို့ဖြင့် မိမိ၏ ဝါသနာ၊ မိမိ၏ယုံကြည်ချက်အတိုင်း ရပ်တည်သွားနိုင်အောင် အားထုတ်ရန် မလွယ်လှချေ။ သို့သော် ဆရာကြီးသည် မလျော့သောဇွဲသတ္တိတို့ဖြင့် မိမိဝါသနာပါရာ အလုပ်ကို ပေါက်မြောက်အောင်မြင်စွာ လုပ်ကိုင်ခဲ့၍ ဆိုင်းအတီးပညာတွင် ပါရဂူတဆူ ဖြစ်နိုင်အောင် ကြိုးပမ်းခဲ့သည်။ ဆိုင်းပညာဝါသနာရှင် လူငယ်လူရွယ်ကလေးများ စိတ်ဓာတ်ခိုင်မာရင့်ကျက်စွာဖြင့် မိမိတို့ဝါသနာပါရာ လုပ်ငန်းကို ဆောင်ရွက်နိုင်အောင် အစဉ်နှိုးဆော်တိုက်တွန်း၍ မိမိ၏ပညာကို ဖြန့်ဝေပေးခဲ့လေသည်။

ယင်းသို့ မြန်မာ့ဆိုင်းပညာကို မတိမ်မြုပ်စေပဲ ပွဲလယ်တင့်အောင် ကြိုးပမ်းခဲ့သူ ဆိုင်းအနုပညာရှင်ကြီး ဦးဟန်ပ၏ မျိုးရိုးစဉ်ဆက်သည် ဆိုင်းလောကနှင့် ဆက်စပ်ခဲ့ပေသည်။ အဖိုးဖြစ်သူ ဦးရွှေဖောင်သည် မင်းတုန်းမင်းတရားကြီး၏လက်ထက်က ရေကင်းနဲ့ဆရာတဦးဖြစ်သည်။ ဦးရွှေဖောင်၏သားဖြစ်၍ ဦးဟန်ပ၏ဖခင်ဖြစ်သူ ဆရာမှင်သည် မျှားသောအားဖြင့် နှဲမှုတ်ခဲ့သည်။ သို့သော် ပတ္တလား၊ ပတ်တီးတို့၌လည်း ကျွမ်းကျင်သည်။ ရုပ်သေးမင်းသမီးကြီး ဆရာပု၏ တပည့်တဦးလည်းဖြစ်သဖြင့် ဆရာမှင်သည် စင်တော်မင်းသား၊ မင်းသမီးအဖြစ် သေတ္တာမှောက်အသုံးတော်ခံနိုင်သည်။

ဆရာမှင်နှင့်ဇနီးသည်ဒေါ်မေတို့မှ နောင်အခါ ဦးဟန်ပဟု ကျော်ကြားလာမည့် မောင်သာထွန်းကို မန္တလေးမြို့၌ သက္ကရာဇ် ၁၂၅၀ ပြည့်နှစ် ကဆုန်လပြည့်ကျော် ၃ ရက်၊ သောကြာနေ့တွင် မွေးဖွားခဲ့လေသည်။ မောင်သာထွန်း သုံးနှစ်သားအရွယ်တွင် ဆရာမှင်နှင့် မိသားစုသည် ရန်ကုန်သို့ ဆင်းလာသည်။ မင်းသမီးကြီး ဒေါ်ဆင်ခိုးမလေးတည်ထောင်သော ဆိုင်းအဖွဲ့တွင် ဆရာမှင်ဝင်၍တီးမှုတ်နေခဲ့သည်။ ထိုစဉ်က ဆရာမှင်၏အစ်ကို ဦးဘိုးဆင်လည်း ပါလာသည်။ ဦးဘိုးဆင်သည် မြန်မာမင်းလက်ထက်က အိုးစည်တော်တီးတဦး ဖြစ်လေသည်။ ဆရာမှင်တို့မိသားစုသည် ရန်ကုန်၌ ကြာရှည်မနေကြပဲ မန္တလေးသို့ပြန်ခဲ့ကြလေသည်။

ထိုနောက် မင်းတုန်းမင်းတရားကြီး အသုံးတော်ခံ၊ ဆီဆုံဆယ်ရွာစား ဆိုင်းတော်တီး ဆရာဖေကြီး၏ တပည့်ရင်းတဦးဖြစ်သူ ဆရာပေသည် မန္တလေးမြို့၌ ဆိုင်းပညာရှင်များလှသဖြင့် မြေလတ်ပိုင်းသို့ ပြောင်းရွှေ့အခြေစိုက်ရန် ပြည်မြို့သို့ စုန်ဆင်းလာသည်။ ထိုအခါ မိတ်ဆွေရင်းတဦးဖြစ်သော ဆရာမှင်နှင့် မိသားစုကိုလည်း မိမိနှင့်တွဲဖက်လုပ်ကိုင်ရန် ခေါ်ဆောင်လာသဖြင့် ဆရာမှင်တို့မိသားစုသည် မန္တလေးမှ ခွာခဲ့ကြရသည်။ ဆရာပေသည်မန္တလေးဆိုင်းဆရာကြီးများအနက် ကျော်ကြားလှသော ဆရာကြီးတဦးဖြစ်သူ ဦးကျော်ဇံကိုပါ ပင့်ခေါ်လာခဲ့သည်။ ဦးကျော်ဇံသည် ရွှာစားကြီးစိန်ဗေဒါ၏ ဆရာလည်းဖြစ်ပေသည်။

ဦးကျော်ဇံသည် ဆိုင်းတီးသည့်အခါ မောင်သာထွန်း၊ မောင်သာထွန်း၏ညီ မောင်လှဖေ၊ ဆရာပေ၏သား မောင်ဘဇံတို့ကလေးသုံးဦးကို မိမိရင်ခွင်ထဲ၌ ထားလေ့ရှိသည်။ ထို့ကြောင့် မောင်သာထွန်းသည် ကလေးဘဝကပင် ဆိုင်းသဘောကို နားရည်ဝခဲ့လေသည်။ ကိုးနှစ်သားအရွယ်တွင် ကျောင်းနေ၍ ကျောင်းပညာကို သင်ကြားဆည်းပူးနေခဲ့ရသော်လည်း မောင်သာထွန်းသည် တူရိယာဂီတဖက်သို့ ပို၍ စိတ်အားသန်နေခဲ့သည်။ အဖိုးနှင့် အဖဖြစ်သူတို့ကလည်း တူရိယာဂီတပညာကို တစတစ သင်ကြားပေးခဲ့ကြသည်။ ၁၃ နှစ်သားအရွယ်တွင် ကျောင်းထွက်၍ ဆရာပေ

၏ထံတွင် ဆိုင်းအတီးပညာကို ထိထိရောက်ရောက် သင်ယူသည်။ ၁၆ နှစ်သားအရွယ်တွင် ဆိုင်းအတီးပညာကို ကျွတ်လွတ်ပေါက်မြောက်စွာ တတ်ကျွမ်းလာသဖြင့် ဇာတ်၊ ရုပ်သေးတို့နှင့် တွဲဖက်၍ ဆိုင်းတီးခဲ့သည်။ ဇာတ်နှင့်တွဲသည်ထက် ရုပ်သေးနှင့် တွဲရသည်မှာ ဆိုင်းဆရာတို့အဖို့ မလွယ်လှချေ။ ထွက်လာသော ရုပ်သေးအရုပ်နှင့်ဆီလျော်ရာ တေးသီချင်းများကို စုံစုံလင်လင်ရထားဖို့ လိုအပ်သောကြောင့်တည်း။ ထိုကြောင့် တော်ရုံအခြေခံ ပညာဖြင့် ဆိုင်းဆရာတို့သည် ရုပ်သေးနှင့်မတွဲဝံ့ချေ။ အသက်အရွယ်နုပျိုလှသေးသော မောင်သာထွန်းသည် ရုပ်သေးနှင့်တွဲနိုင်သည်ကို ထောက်ဆ၍ မောင်သာထွန်း၏ဆိုင်းပညာအခြေခံခိုင်မာပုံကို ရိပ်စားမိနိုင်ပေသည်။ စောစောပိုင်း၌ မောင်သာထွန်းတွဲခဲ့ရသော ရုပ်သေးနှင့်ဇာတ်တို့တွင် ပခန်းဆရာညိုကြီး၏ ရုပ်သေးအဖွဲ့နှင့် ယောကျ်ားမင်းသမီး ဗလညွန့်၏ဇာတ်အဖွဲ့လည်း ပါဝင်သည်။

ဆရာကောင်းများ၏ တပည့် ပီသစွာ ပွဲအမျိုးမျိုး၌ ခေါင်းဆောင်၍တီးခဲ့ရာ "နှဲမှာအသံ၊ ပတ်မှာဟန်" ဆိုသည့် အတိုင်း မောင်သာထွန်း၏ ကိုယ်နေဟန်ထားကောင်းသည်ကို တွေ့မြင်ကြရသော ဆိုင်းပရိသတ်များက "ဟန်ပဗျာ၊ ဟန်ပ" ဟု ပြောဆိုချီးကျူးခဲ့ရာမှ၊ ယင်းမည် မောင်သာထွန်းပျောက်၍ "ဟန်ပ" ဟူသောအမည်ဖြင့် ခေါ်တွင်လာခဲ့သည်ဟု ဆိုကြလေသည်။

မောင်ဟန်ပ ၁၈ နှစ်သားအရွယ်တွင် ဖခင်ဖြစ်သူကွယ်လွန်သည်။ သို့သော် ဆရာပေက ဆက်လက်စောင့်ရှောက်ထားသည်။ အသက် ၂၀ ကျော်အရွယ်တွင် ဟင်္သာတမှ ဆိုင်းထောင် ဒေါ်ပုက လာရောက်ခေါ်သဖြင့် ဆရာပေ၏ ခွင့်ပြုချက်အရ ဟင်္သာတသို့လိုက်ခဲ့ရ၍ ပလာဆိုင်းတီးနေခဲ့သည်မှာ ခြောက်နှစ်ခန့်ကြာသည်။ ထိုစဉ်က ဟင်္သာတတွင် ဦးဖိုးမြ၊ ဦးဖိုးဝဲ၊ ဦးဖိုးထွားတို့ကဲ့သို့ နာမည်ကျော် ဆိုင်းဆရာကြီးများရှိသော်လည်း မောင်ဟန်ပ၏ အမည်သည် တစတစဖြင့် ထိုးဖောက်ကျော်ကြားလာသည်။

ကိုဟန်ပ၏ လက်သံပြောင်မြောက်မှုကြောင့်လည်း နာမည်ကျော်မင်းသား ကိုစိန်ကတုံးနှင့် တွဲမိကြလေသည်။ ထိုစဉ်က ကိုဟန်ပသည် အသက် ၂၇ နှစ်အရွယ်ရှိလေပြီ။ ဆိုင်းကလည်းကောင်း၊ မင်းသားကလည်း တော်သဖြင့် စိန်ကတုံးဇာတ်အဖွဲ့သည် ပိုမိုထင်ရှား ကျော်ကြားလာသည်။ ထိုစဉ်က ကိုဟန်ပ၏ဆိုင်းအဖွဲ့တွင် နာမည်ကျော် နှဲဆရာကြီးများဖြစ်ကြသော ဦးသာကျင်၊ ဗိလတ်ပြန်ဦးချစ်ဖေ၊ ဦးညွန့်၊ ဦးစိုးမောင်၊ ဦးထီအောင်တို့ ပါဝင်တီးမှုတ်ခဲ့ကြသည်။ ကိုဟန်ပသည် အသက် ၂၇ နှစ်အရွယ်၌ ပင် ဇာတ်မင်းသမီး တွံတေးဆံတောက် မငွေသင်နှင့် အကြောင်းပါ၍ သားတယောက် ရရှိခဲ့သည်။ (မငွေသင်



**အလင်္ကာကျော်စွာဘွဲ့ဖြင့် ချီးမြှောက်ခြင်းခံရသော ရှာစားကြီး ဦးဟန်ပ**

သည် ယခင်က အိမ်ထောင်တဆက်ရှိခဲ့ဘူး၍ နောင်အခါ အငြိမ့်မင်းသမီး ပလိုတီယာဟု အမည်တွင်လာမည့် သမီးတယောက်ရှိသည်။)

ကိုဟန်ပသည် မင်းသားကျော် စိန်ကတုံးနှင့် နောက်လေးနှစ်ကြာမျှ တွဲဖက်၍ တီးမှုတ်ပေးခဲ့သည်။ နောက်ထပ်နှစ်ကြိမ်တွဲဖက်ခဲ့သေးရာ ဒုတိယအကြိမ်ပြန်တွဲမိစဉ် ၁၉၁၆ ခုနှစ်အတွင်း မန္တလေးမှဆိုင်းဆရာကြီး ဆရာစိမ့် (စိန်ဗေဒါ၏အစ်ကို) ကွယ်လွန်သဖြင့် ဆရာစိမ့်၏ဇနီး ဒေါ်တိုးက မိမိ၏ဆိုင်းဝိုင်းကို ဦးဆောင်ပေးရန် လာခေါ်သည်။ ထို့ကြောင့် ကိုဟန်ပ မန္တလေးသို့ လိုက်ပါခဲ့ရသည်။ အသက် ၃၀ ကျော်မှ မွေးရပ်ဌာနေသို့ ပြန်ရောက်ခဲ့ရာ ဇနီးဖြစ်သူ မငွေသင်ပါ လိုက်ပါခဲ့ရသည်။

ဒေါ်တိုး၏ဆိုင်းအဖွဲ့ကို သုံးနှစ်တိုင်တိုင် ခေါင်းဆောင်၍ တီးပေးခဲ့စဉ် ဆရာစိမ့်၏ညီဖြစ်သူ ဗေဒါမောင်လေး (စိန်ဗေဒါ) နှင့်လည်း ရင်းနှီးခင်မင်ခဲ့သည်။ ဆိုင်းလောက၌ စိန်ဗေဒါနှင့် ဦးဟန်ပတို့သည် တဖုံတနည်းစီ တော်ကြသော ဆိုင်းဝိဇ္ဇာကြီးများပေတည်း။ မန္တလေးတွင်ရှိနေစဉ် နှဲဆရာကြီး မြန်မာညွန့် ဦးချစ်မောင်နှင့်လည်း တွဲခဲ့ရသည်။

မန္တလေး၌ သုံးနှစ်ကြာပြီးနောက်တွင် မြစ်ဝကျွန်းပေါ်ဒေသ၊ ဝါးခယ်မမြို့သို့ ရွှေ့ပြောင်းလာ၍ အခြေစိုက်ခဲ့သည်။ ဝါးခယ်မ၌ ၁၇ နှစ်ကြာမျှ နေထိုင်စဉ်အတွင်း

ဇနီးဖြစ်သူ ဒေါ်ငွေသင် ကွယ်လွန်သည်။ ဦးဟန်ပသည် တူရိယာဂီတပညာရှင်တို့ စောင့်ထိန်းအပ်သော စည်းကမ်းတို့ကို အမြဲရှိသေ၍ ဇာတ်ပို့ကောင်းသူဖြစ်သဖြင့် နာမည်ကျော်ဇာတ်မင်းသားများက ဦးဟန်ပအား အလုအယက်ခေါ်ယူကြသည်။ နိုင်ငံကျော်မင်းသား ဦးအောင်မောင်း၊ မင်းသမီး လေဘာတီခင်ညွန့်တို့ဇာတ်အဖွဲ့နှင့်လည်း တွဲဖက်ခဲ့သေးသည်။ ထိုစဉ်က လူရွှင်တော် ဦးပုလဲစိန်၏သမီး မကြိုင်နှင့် အိမ်ထောင်သစ် ထူထောင်ခဲ့ရာ၊ သားတယောက် သမီးတယောက် ရရှိခဲ့သည်။ ဦးဟန်ပသည် ဒေါ်ကြိုင်နှင့်ပင် ကွယ်လွန်သည်အထိ ပေါင်းသင်း နေထိုင်ခဲ့လေသည်။

ဆရာကြီးသည် ပလာဆိုင်းတီးရာ၌လည်း ကျော်ကြားလူကြိုက်များလှသည်။ ဆရာကြီး၏ ဆိုင်းတီးပုံ ဟန်အမူအရာကို ပရိသတ်က အလွန်နှစ်ခြိုက်ကြသည်။ ဆိုင်းတီးနေရာမှ ကသကဲ့သို့ လက်ကလေးကိုမြှောက်ကာ ကွေးပြတတ်သည်။ တခါတရံ သီချင်းအချ၊ တီးလုံးအချ၌ ကပြီးမှ အဆုံးသတ်ချတတ်သည်။ တီးလုံးအဆုံးချရာ၌လည်း နောက်ဆုံးချရမည့် ပတ်လုံးကို ချက်ခြင်းမချသေးပဲ လက်ကို ဆိုင်းဝိုင်းအပေါ်သို့ ကျော်အောင် မြှောက်လိုက်ပြီးလျှင် တီး၍ချရမည့် ပတ်လုံးကို ပြာပြာသလဲ ရှာဟန်ပြုသည်။ ကြေး၊ မောင်း၊ နှဲနှင့် စည်းဝါးဆရာတို့ကလည်း မည်သည့်အသံနှင့်ချရမည်ကို သိနေကြသော်လည်း ခေါင်းဆောင်၏လက်ကို သတိနှင့် စောင့်ကြည့်နေကြရသည်။ ဆိုင်းပရိသတ်တို့မှာ မည်သို့ဖြစ်မည်နည်းဟု ရင်တဖိုဖိုနှင့် စောင့်နေကြရစဉ်၊ အဆုံးသတ်ပတ်လုံးကို ရုတ်တရက်ရှာတွေ့ဟန်ဖြင့် ဖြုံးကနဲ တပိုင်နက်ချလိုက်လျှင် ပရိသတ်များမှာလည်း ဟင်းကနဲ သက်ပြင်းချနိုင်ကြရတော့သည်။ ယင်းသို့ဖြင့် ဆရာကြီးသည် ပရိသတ်ကို ဆွဲဆောင်နိုင်ခဲ့၍ ပရိသတ်က ဆရာကြီးအား နှစ်ခြိုက်ကြခြင်းဖြစ်လေသည်။

ဆရာစိမ့်နှင့် စိန်ဗေဒါတို့သည် မောင်းဆိုင်းတွင် မောင်းငါးလုံးသာ အသုံးပြုခဲ့သည်။ ဦးဟန်ပနှင့် ညီဖြစ်သူ ဦးလုဖေတို့က သံစဉ်ကိုက်ညီအောင် ခုနစ်လုံးမောင်းအဖြစ် ဖြည့်စွက် တီးခဲ့ကြသည်။ ဦးဟန်ပသည် ဆိုင်းတီးလုံးအမြောက်အမြားကိုလည်း တီထွင်ခဲ့ရာ ယခုခေတ် ဆိုင်းလောကတွင် ရေပန်းစားနေသော ဆိုင်းတီးလုံးများလည်း ပါဝင်သည်။

ဆရာကြီးသည် အောက်မြို့ကျေးရွာတို့၌သာ ကျက်စားနေခဲ့သည်မှာ အသက် ၆၀ အရွယ်အထိ ဖြစ်သည်။ ထိုအသက်အရွယ် ရောက်မှ မန္တလေးသို့ ပြောင်းရွှေ့ကာ ကျက်စားခဲ့ပြန်ရာ ငါးနှစ်ခန့် ကြာခဲ့သည်။ မြန်မာနိုင်ငံလွတ်လပ်ရေးခေတ်တွင် ယဉ်ကျေးမှုဌာနဟူ၍ ပေါ်ပေါက်လာသောအခါ အသက်လည်းအကြီးဆုံး၊ တူရိယာဂီတဖက်တွင်လည်း ပညာအရင့်ကျက်ဆုံးဖြစ်သော ဆရာကြီး ဦးဟန်ပအား မြန်မာနိုင်ငံဆိုင်းအဖွဲ့၏ ဦးစီးခေါင်းဆောင်အဖြစ် ခန့်ထားသည်။ ထိုစဉ်က ဆရာကြီးသည် အသက် ၆၆ နှစ်ရှိနေပေပြီ။ ပန်တျာမှုမှန် ပြုပြင်ရေး အဖွဲ့ဝင်တဦးအဖြစ်လည်း ဆရာကြီးဆောင်ရွက်ခဲ့သည်။ ထိုစဉ်က မင်းပွဲစိုးပွဲ ညှော်ခံပွဲများတွင် ဦးဟန်ပခေါင်းဆောင်သော ဆိုင်းအဖွဲ့ကသာ ညှော်ခံရသည်။ မြန်မာနိုင်ငံသို့ လာရောက်ကြသော နိုင်ငံခြားညှော်သည်တော်များအားလည်း ဦးဟန်ပဆိုင်းအဖွဲ့ကပင် ညှော်ခံရ၍ မြန်မာ့ဆိုင်းပညာဖြင့် ဂုဏ်ယူဝင့်ကြွားခဲ့ရသည်။ နိုင်ငံခြားများသို့ မြန်မာ့ယဉ်ကျေးမှုအဖွဲ့ သွားရောက်ကပြတိုင်းလည်း ဆရာကြီး၏ဆိုင်းအဖွဲ့ ပါခဲ့ရသည်။ ယိုးဒယားနိုင်ငံ၊ တောင်ဗီယက်နမ်နိုင်ငံ၊ တရုပ်ပြည်သူ့သမတနိုင်ငံ၊ ဆိုဗီယက် ပြည်ထောင်စု နိုင်ငံ၊ ယူဂိုစလားဗီးယားနိုင်ငံ၊ ချက်ကိုစလိုဗားကီးယားနိုင်ငံများသို့ ဆရာကြီးနှင့်ဆိုင်းအဖွဲ့သည် မြန်မာ့ယဉ်ကျေးမှုအဖွဲ့နှင့် လိုက်ပါ၍ နိုင်ငံခြားတိုင်းပြည်များက ရင်သပ်အံ့သြရလောက်အောင် ဆိုင်းပညာစွမ်းကို ပြသခဲ့သည်။ ဆရာကြီးဦးဟန်ပသည် ၁၉၅၂ ခုနှစ်တွင် အလင်္ကာကျော်စွာဘွဲ့ကိုရရှိခဲ့လေသည်။

လွတ်လပ်သော မြန်မာနိုင်ငံ၏ ယဉ်ကျေးမှုတာဝန်ကို အနုပညာစွမ်းရည်ဖြင့် တဖက်တလမ်းမှ စွမ်းအားရှိသမျှ ထမ်းဆောင်နေစဉ် အသက် ၇၀ ကျော်လာသောအခါ အစိုးရ အမှုထမ်းတို့၏ အသက်ကန့်သတ်ချက် ဥပဒေကြောင့် အလုပ်မှ အနားယူလိုက်ရသည်။ အငြိမ်းစားလစာကိုမူ ဆက်လက်ရရှိသည်။ သို့သော် ဆရာကြီးအသက်ရှင်သမျှ ဆရာကြီး၏ အနုပညာစွမ်းကို လေးစားတန်ဖိုးထားသော ဆိုင်းဆရာကြီးဦးဘမောင်က သူ၏ဆိုင်းအဖွဲ့ကို ခေါင်းဆောင်ပေးရန် ပင့်ဖိတ်သည်။ ထိုကြောင့် ဆရာကြီးသည် တိုင်းချစ်သန်းစိန်သဘင်အဖွဲ့နှင့် တွဲဖက်ထားသော ဦးဘမောင်၏ဆိုင်းအဖွဲ့ကို ခေါင်းဆောင်၍ မိမိလက်စွမ်းကို ဆက်လက်ပြသနေခဲ့လေသည်။ ရဲဖန်ရံခါ ဝင်းသိင်္ဂီတူရိယာအဖွဲ့တွင် ပါဝင်၍၎င်း၊ ဦးဟန်ပတူရိယာအဖွဲ့ဟူ၍၎င်း ဆရာကြီးသည် ဆိုင်း ပတ္တလားတို့ကို ကိုယ်တိုင်တီး၍ မြန်မာ့အသံမှ လွှင့်တတ်သည်။

၁၉၆၂ ခုနှစ်တွင် တော်လှန်ရေးကောင်စီအစိုးရ တက်လာသောအခါ ဆရာကြီးအား ယဉ်ကျေးမှုကောင်စီဝင်တဦးအဖြစ် ခန့်ထားသည်။ ယဉ်ကျေးမှုကဇာတ်အတွက် ဆိုင်းအကြံပေးအရာရှိ အဖြစ်လည်း ဆောင်ရွက်ရသည်။ ဆရာကြီးသည် တိမ်မြုပ်နေသော အမျိုးသားယဉ်ကျေးမှုအမွေအနှစ်များကို ပြန်လည်ဖော်ထုတ်ရာ၌ တဖက်တလမ်း ကူညီနိုင်ခဲ့သည်။ ပုဂ္ဂိုလ်အနေအားဖြင့် ခင်မင်ဖွယ်ရာကောင်းသော ဆရာကြီးသည် မိမိကိုယ်ကို နှိမ့်ချစွာဖြင့် ဆက်ဆံတတ်သည်။ နှစ်ချောင်းတည်းသာရှိသော သွား

ငုတ်တုတ်ကလေးများပေါ်အောင် ပြုံးကာ ရယ်ကာနှင့် ပြောင်လှောင်ကျီစယ်ယင်း တပည့်တပန်းတို့အား ခင်မင် ရင်းနှီးစွာ ပညာဖြန့်ဝေပေးတတ်သဖြင့် ဆိုင်းလောကတွင် ဆရာကြီး၏တပည့်တပန်းတို့ကား လက်ညှိုးထိုးမလွဲအောင် ပေါ်များလှသည်။ ဆရာကြီးဦးဟန်ပသည် မိမိဝါသနာပါ၍ လေးစားမြတ်နိုးသော တာဝန်ဝတ္တရားများကို ဇရာ ထောင်းလာသောအခါ မိမိ၏အခြေအနေကို မငဲ့ပဲဆောင် ရွက်ပေးနေခဲ့ရာ ၁၃၂၈ ခုနှစ် ပဌမဝါဆိုလပြည့်ကျော် ၁၂ ရက်နေ့(၁၄-၇-၆၆) တွင် လူကြီးရောဂါဖြင့် ရန်ကုန်မြို့၌ ကွယ်လွန်သွားလေသည်။

**ဟန်လင်းမြို့ဟောင်း။** ။ဟန်လင်း (ဟလင်းကြီး) မြို့ဟောင်းသည် စစ်ကိုင်းတိုင်း (ယခင်ရွှေဘိုခရိုင်) ဝက် လက်မြို့နယ် အတွင်း၌ ရွှေဘိုမြို့၏ အရှေ့တောင်ဖက် ကိုးမိုင် ခန့်အကွာတွင် တည်ရှိသည်။ မန္တလေးမှ မြစ်ကြီးနားသို့ သွားသော မီးရထားလမ်းပေါ်ရှိ မုဆိုးချုံ ဘူတာရွာမှ အရှေ့ဖက် ငါးမိုင်ခွဲခန့်ကွာဝေး၍ ကျောက်လမ်းဖြင့် ဆက် သွယ် ထားသည်။ ဟန်လင်းမြို့ဟောင်းသည် ယခုခေတ် ဟန်လင်းကြီးရွာ၏မြောက်ဖက် နှစ်ဖာလုံခန့် အကွာတွင် ရှိသည်။

ကျုံးနှင့် မြို့ရိုးပတ်ရံလျက်ရှိသော ဟန်လင်းမြို့ဟောင်း သည် တကြိမ်က ကြီးကျယ်ခမ်းနားစွာ ထွန်းကားခဲ့သော မြို့ကြီးတမြို့ဖြစ်ကြောင်း သိသာလေသည်။ မြို့ရိုး၏တောင် မြောက် အလျားမှာ နှစ်မိုင်နီးပါးမျှ ရှိ၍ အရှေ့ အနောက် အနံမှာ တမိုင်ကျော်မျှ ရှိလေသည်။ သို့သော် ကာလ ကြာမြင့်ပြီဖြစ်၍ အုတ်မြို့ရိုးမှာ မထင်မရှား ကုန်းတန်းမို့မို့ သာ ကျန်ရှိတော့၍ ကျုံးမှာလည်း လုံးဝကောလျက် ရှိ ချေသည်။ ထို မြို့ရိုး၏ အတွင်းပိုင်း အလယ်ဗဟိုမှ အရှေ့ တောင် ယွန်းသွန်းနေရာတွင် နန်းတော်ကုန်းဟု ခေါ်စမှတ် ပြုသော နေရာရှိ၏။ ထို နန်းတော်ရာသည်လည်း ရှေးက အုတ်မြို့ရိုး ကာရံလျက်ရှိရာ ယခုအခါ မြေမို့မို့ကိုသာ တွေ့ရ တော့သည်။ စတုရန်းပုံ ရှိသော အတွင်းမြို့ရိုး၏ အနံမှာ ပေ ၁,၄၀၀ ခန့် ရှည်လေသည်။

ရှေးဟောင်းသမိုင်းများတွင် ဤမြို့ကို မဟာသမ္မတမင်း လက်ထက်တွင် သားတော်လတ် ကရပေါ် မင်းသားက စတင် တည်ထောင်ခဲ့၍ ဟံသာဝတီ မည်တွင်ကြောင်း၊ မင်းဆက် ၇၉၉ ယောက်မြောက်အဖြစ် ပျူမင်းဗန္ဓဝ စိုးစံ ကြောင်း စသည်ဖြင့် လာရှိ၏။ ကကုသန်ဘုရား လက်ထက် တွင် ပစ္ဆိမ နဂရ ဟူ၍ရင်း၊ ကဿပဘုရား လက်ထက်တွင် ကာမဝတီ ဟူ၍ရင်း၊ ဂေါတမဘုရား လက်ထက်တွင် ဟလ္လမ ခေါက်ဟူ၍ရင်း ခေါ်တွင်ကြောင်းလည်း ဖော်ပြထားသည်။ သို့သော် ကြွင်းကျန်သမျှသော ယဉ်ကျေးမှု အင်္ဂါ ရှေး



ဟန်လင်းမြို့ဟောင်း ကုန်းအမှတ် ၃ ကို တူးဖော်အပြီး တွေ့ရပုံ

ဟောင်း ဝတ္ထုပစ္စည်းများကို ထောက်ရှု၍ ပျူယဉ်ကျေးမှု ထွန်းကားခဲ့သော သရေခေတ္တရာနှင့် ဗိဿနိုးမြို့ဟောင်း များနှင့် မရှေးမနှောင်း စတင်တည်ထောင်ခဲ့သည်ဟု ယူဆ ရသည်။ (သရေခေတ္တရာ၊ ဗိဿနိုး — လည်းရှု။)

ဟန်လင်းမြို့ဟောင်းတွင် တံခါး ၂၄ ပေါက် ရှိသည်ဟု အဆိုရှိသော်လည်း ယခုအခါ အရှေ့ဖက်တွင် ငပိအိုးတံခါး၊ အနောက်ဖက်တွင် ပျားကြီးတောင့် တံခါး၊ တောင်ဖက် တွင် တံခါးတော်၊ မြောက်ဖက်တွင် တကန်သာ စသော တံခါးများသာ ကျန်ရစ်တော့သည်။ မြို့ဟောင်းအတွင်း တွင် ရှေးဟောင်း အဆောက်အဦနှင့် အုတ်ကုန်း မို့မို့ မောက်မောက်များကို လုံးဝမတွေ့ရချေ။ အနောက်ဖက် မြို့ရိုး၌ ကပ်၍ တည်ထားသော တောရဂူကြီးမှာ လွန်ခဲ့ သော နှစ်ပေါင်း ၁၀၀ ကျော်ခန့်ကမှပင် မြို့ရိုးအုတ်များကို အသုံးပြု၍ တည်ဆောက်ထားဟန် တူသည်။ ဟန်လင်း မြို့ဟောင်း၏ တောင်ဖက်၌ရှိသော ဟန်လင်းရွာကြီးနှင့် ပတ်ဝန်းကျင်တွင်မူ ရှေးဟောင်းဘုရားများကို ဖူးတွေ့နိုင် သည်။ယင်းတို့အနက် သီရိဓမ္မာသောကမင်း၏ ကောင်းမှုဟု အဆိုရှိသော ရွှေကူကြီးစေတီ၊ကျန်စစ်သားမင်း၏ကောင်းမှု ဖြစ်သော ရွှေအင်ပင်စေတီ၊ အလောင်းစည်သူ မင်း၏ ကောင်းမှုဖြစ်သော ရွှေယပ်တော်စေတီ၊ ဒါတင်္ဂါချာ အမတ် ကြီး၏ကောင်းမှုဖြစ်သော ရွှေဂူသာစေတီနှင့် သမန္တဘဒ္ဒရာ




ဟန်လင်းမြို့ဟောင်း တည်နေရာပြမြေပုံ



တကြိမ်က ကြီးကျယ်ခန်းနားစွာ ထွန်းကားခဲ့သော မြို့ကြီးတမြို့ဖြစ်ကြောင်း တူးဖော်တွေရှိသော ဟန်လင်းမြို့ဟောင်း ကုန်းအမှတ် ၉ က သက်သေပြလျက်ရှိသည်။

အမတ်ကြီး၏ ကောင်းမှုဖြစ်သော ရွှေပန်းနှော(ယခုအခါ ရွှေပန်းတော)စေတီများမှာ ထင်ရှားကျော်ကြားလျက် ရှိလေသည်။ သမန္တဘဒ္ဒရာ ရေးထိုးသော ကျောက်စာကို ထောက်ရှု၍ ပုဂံခေတ်တွင် ဟန်လင်းမြို့ကို မြို့စားကြီး အုပ်ချုပ်ရကြောင်း သိသာသည်။

ပုဂံခေတ်ထက် စောသော ယဉ်ကျေးမှု အထောက်အထားများအနေဖြင့် ပျူကျောက်စာများ၊ ပျူဒင်္ဂါးများနှင့် အရိုးအိုးများကို တွေ့ရသည်။ ၁၉၀၄ ခုနှစ်တွင် မြို့ရိုးအပြင်ဖက် အရှေ့တောင်ထောင့် အနီးဘွင် ကျောက်စာတချပ် တွေ့ရှိခဲ့သည်။ စာကြောင်းနှစ်ကြောင်းသာ ပါရှိသော ယင်း ကျောက်စာသည် သရေခေတ္တရာမှ ကျောက်အရိုးအိုးကြီးများတွင် ရေးထိုးထားသည့် ပျူစာများနှင့် အက္ခရာ ပုံပန်းသဏ္ဍာန် တူညီသည့်အပြင် စာကြောင်းတကြောင်းစီ အောက်၌ ဗြဟ္မီ အက္ခရာဖြင့် စာလုံးအနည်းငယ် ရေးထိုးပါရှိလေသည်။ ထိုကျောက်စာသည် ကွယ်လွန်သူ ပုဂ္ဂိုလ်တဦး၏ အရိုးများ မြှုပ်နှံရာ နေရာကို မှတ်သားထားသည့် ကျောက်စာတိုင်ဖြစ်ကြောင်း အဓိပ္ပါယ်ဖော်ထုတ် ယူဆရသည်။ ထိုကျောက်စာကို တွေ့ရှိသည့်နှစ်ကပင် ပုဂံပြတိုက်သို့ရွှေပြောင်း ထိန်းသိမ်းထားလေသည်။

ဒုတိယ ပျူ ကျောက်စာတချပ်ကို ၁၉၂၉ ခုနှစ်တွင် ပဌမကျောက်စာ တွေ့ရှိသော နေရာ၏ တောင်ဖက်တွင် ဖော်ထုတ်ရရှိသည်။ ဤ ကျောက်ချပ်တွင် စာကြောင်းရှစ်ကြောင်းပါရှိ၍ ထိပ်ပိုင်း၌ လခြမ်းသဏ္ဍာန် အမှတ်လက္ခဏာ ထွင်းထုထားသည်။ ကျောက်စာ၏ အဓိပ္ပါယ်ကို အတိအကျ မဖော်ထုတ်နိုင်သော်လည်း မဟာဒေဝီတဦး အကြောင်း ရေးထိုးထားသည်ကို သိသာ၏။

တတိယ ကျောက်ချပ်မှာ အမြင့်လေးပေ၊ အလျားလေးပေခွဲရှိ၍ အထက်ပိုင်းနှင့် အောက်ပိုင်းတို့တွင် ရုပ်ကြွများထုလုပ်ထားကာ အလယ်တွင် ပျူစာများ ရေးထိုးထားသည်။ ထိုရုပ်ကြွကျောက်ချပ်မှာ ပျက်စီးပြုန်းတီးလျက်ရှိရာ အထက်မှ အကျိုးအပဲ့တပိုင်းမှာ ပျောက်ဆုံးနေ၍ စာကြောင်းများမှာ ဖတ်မရအောင် မှေးမှိန်လျက်ရှိချေပြီ။ အထက်ပိုင်းမှ ရုပ်ထုမှာ ဗောဓိသတ်ပုံ ဖြစ်ဟန်တူသည်။ ဒူးပေါ်တင်၍ ဆန့်တန်းထားသော လကျာလက်နှင့် အနည်းငယ် ကွေးထားသော လကျာခြေထောက်သာ ကျန်ရှိတော့၏။ ကျောက်ချပ်၏ အောက်ပိုင်းတွင် လက်အုပ်ချီ၍ ထိုင်နေကြသော လူရုပ်များ စီတန်းနေသည်ကို တွေ့ရ၏။ ရှေ့ဆုံးတန်းမှ လူများမှာ တကိုယ်လုံးပေါ်၍ နောက်တန်းများတွင် အချို့မှာ ကိုယ်တပိုင်း ပေါ်၍ရင်း၊ အချို့မှာ ခေါင်းပိုင်းသာ ပေါ်၍ရင်း တွေ့မြင်ရသည်။ ထိုလူရုပ်များတွင် ပုတီး လည်ဆွဲများနှင့် နားဋောင်းများ ဆင်ယင်ထားသည်။ ပျူ ကျောက်စာ ရေးထိုး ထားသည်ကို ထောက်၍ ထိုလူရုပ်များသည် ပျူလူမျိုးများ၏ ပုံသဏ္ဍာန်ကို ထုလုပ်ထားသည်ဟု ယူဆရသည်။ ထိုကျောက်ချပ်နှင့်

ဒုတိယ ကျောက်စာတိုင်တို့ကို ဟန်လင်း ကျောက်စာရုံတွင် ထိန်းသိမ်းထားရှိ၏။

ဟန်လင်းမြို့တွင်းနှင့်ပတ်ဝန်းကျင် တဝိုက်တွင် လယ်ယာထွန်ယက်ရာမှ ပျူဒင်္ဂါးများ မကြာခဏ ပေါ်ပေါက်တွေ့ရှိရသည်။ ယင်းတို့မှာ မတ်စေ့အရွယ်မှ ကျပ်ပြားအရွယ်ထိ ပမာဏရှိ၍ သရေခေတ္တရာ ဒင်္ဂါးနှင့် ကွာခြားချက်မှာ ဒင်္ဂါးတဖက်တွင် ဘဒ္ဒပီဌပုံအစား တက်နေဝန်းသဏ္ဍာန် ပါရှိခြင်းပင် ဖြစ်သည်။ အခြားတဖက်၌ သီရိဝစ္ဆပုံခပ်နှိပ်ထားခြင်းမှာ သရေခေတ္တရာ ဒင်္ဂါးနှင့် တူယောင်ယောင်ရှိသော်လည်း အခြံအရံ အမှတ်လက္ခဏာများမှာ ကွဲပြားလေသည်။ သို့သော် သရေခေတ္တရာတွင် ဟန်လင်း ဒင်္ဂါးပုံ အတိုင်း ရံဖန်ရံခါ တွေ့သည့်နည်းတူ ဟန်လင်း၌လည်း သရေခေတ္တရာ ဒင်္ဂါးပုံအတိုင်း တခါတရံ တွေ့ရတတ်သည်။

မြေပုတီးများနှင့် ရောင်စုံ ကျောက်ပုတီးများကိုလည်း သရေခေတ္တရာနှင့် ဗိဿနိုး မြို့ဟောင်းမှာ ကဲ့သို့ပင် မြေအောက်၌ နစ်မြုပ်နေရာမှ ဖော်ထုတ်ရရှိပေသည်။ မြေအိုးမြေခွက် အပိုင်းအစများနှင့် အမှတ်တံဆိပ်များ ခပ်နှိပ်ထားသော အိုးခြမ်းကွဲများ၏ ပုံသဏ္ဍာန်တို့မှာ ဗိဿနိုးမှ ပုံစံများနှင့် တူညီသည်ကို လေ့လာတွေ့ရှိရ၏။

အထက်ပါ အချက်အလက်များကို ထောက်ထား၍ ဟန်လင်းမြို့ဟောင်းသည် ပျူယဉ်ကျေးမှု ထွန်းကားရာဒေသတရပ် ဖြစ်ခဲ့သည့် အလျောက် သရေခေတ္တရာနှင့် ဗိဿနိုးမြို့များနှင့် ခေတ်ပြိုင်သော်ငြား၊ မရှေးမနှောင်းသော်ငြား အဆက်အသွယ် ရှိခဲ့မည်ဟု ယူဆထားသည်။ တရုပ်ရာဇဝင် မှတ်တမ်းများတွင် ညွှန်းသော ပျူမြို့တော်သည် ဟန်လင်းမြို့ ဟုတ်မဟုတ် ပြဿနာကို ဖြေရှင်းရန်နှင့် ဟန်လင်းမြို့၏ ရှေးဟောင်းယဉ်ကျေးမှု အင်္ဂါရပ်များကို အသေးစိတ် ထုတ်ဖော်ရန်တို့ကို သုတေသန ပြုဆဲပင် ရှိသေးသည်။

ဦးအောင်သော်

**ဟန်းဒယ်, ဂျီ၊ အက်ဖ** (ခရစ် ၁၆၈၅ – ၁၇၅၉)။ ။ ဂျော့ ဖရီးဒရစ် ဟန်းဒယ်အား ၁၆၈၅ ခုနှစ် ဖေဖွာရီလ ၂၃ ရက်နေ့တွင် ဂျာမနီနိုင်ငံ၊ ဆက်ဆွန်နီနယ်၊ ဟဲလီမြို့၌ မွေးဖွားသည်။ စကားမပြောတတ်မီကပင် ဟန်းဒယ်သည် အသံဟူသမျှကို စိတ်ဝင်စားသူဖြစ်လေသည်။ ခေါင်းလောင်းကလေးများ၊ ချူကလေးများ ဂျောက်ဂျက်ကစားစရာ ကလေးများကို အထူးနှစ်သက်၏။ သူ၏ ဖခင်သည် ဂျာမန် ဆရာဝန်တဦး ဖြစ်၏။ ဟန်းဒယ်အား ရှေ့နေဖြစ်စေလိုသော သူ၏ ဖခင်သည် ဟန်းဒယ် ဂီတတွင် စိတ်ဝင်စားသည်ကို သိ၍ အသံမြည်သောကစားစရာများကိုတားမြစ်ထားခဲ့၏။

သို့ရာတွင် အလုပ်များလှသော သူ၏ ဖခင်သည် ဟန်းဒယ်အား အမြဲစောင့်ကြည့်၍ မနေနိုင်ချေ။ ဟန်းဒယ်၏ အဒေါ် တယောက်က ဟန်းဒယ်အား အလိုလိုက်လျက် အကူအညီ ပေးခဲ့လေသည်။


နာမည်ကျော် ဂီတပညာရှင် ဂျီ၊ အက်(ဖ) ဟန်းဒယ်

သူ၏ အဒေါ်သည် သူ၏ ဖခင်မသိစေပဲ ရှေးခေတ် စန္ဒယားတမျိုးဖြစ်သော ကလာဗီခေါ့ယ်တလုံးကို ဟန်းဒယ် အတွက် ဝယ်ယူခဲ့ပြီးလျှင် အိမ်အပေါ်ဆုံးထပ်တွင် တင်ထားကာ မည်သူမျှ မကြားရအောင် ဟန်းဒယ်အား တီးခိုင်းလေသည်။ ထို ကလာဗီခေါ့မှာ ယခုခေတ်ကဲ့သို့ အသံမမြည်လှသဖြင့် အဝေးက မကြားနိုင်ပေ။ ဟန်းဒယ်သည် သူ၏ အဒေါ်ထံမှ သီချင်းအနည်းငယ်ကို သင်ယူ၍ အားလပ်တိုင်း ကြိုးစား၍ တီးလေသည်။

တနေ့သောအခါ သူ၏ဖခင်သည် မိုင် ၄၀ ခန့်ဝေးသော ဝိုင်ဆန်ဖဲ့မြို့သို့ ခရီးထွက်စရာ ပေါ်ပေါက်လာလေသည်။ ထိုခေတ်က မိုင် ၄၀ ဆိုသော ခရီးကို သွားလာရန်မှာ မလွယ်ကူလှချေ။ အထူးသဖြင့် ကလေးသူငယ်များအတွက် ပင်ပန်းလှပေသည်။ ဟန်းဒယ်သည် သူ၏ ဖခင်နှင့်အတူ လိုက်သွားလိုသော်လည်း ထိုမြို့တွင် မြို့စားကြီးနှင့်တွေ့ဆုံရန် ရှိသော သူ၏ဖခင်သည် အလုပ်ရှုပ်မည်ဖြစ်၍ ဟန်းဒယ်ကို ခေါ်မသွားလိုချေ။ သို့ရာတွင် သူ၏ ဖခင်သည် မြင်းရထားပေါ်တွင်တက်၍ ရထားမောင်းနှင် ထွက်ခွာသွားသောအခါ ဟန်းဒယ်သည် လက်သီးကိုဆုပ်လျက် ရထားနောက်မှ ပြေးလိုက်ခဲ့လေသည်။ မြို့ပြင်ဖက် အတော်ဝေးသောနေရာ ရောက်သောအခါကျမှ သူ၏ဖခင်က ဖုံအလိမ်းလိမ်းကပ်နေသော သားကိုမြင်သဖြင့် သူ့အား အိမ်ပြန်ပို့ရန် မတတ်နိုင်တော့ပဲ ရထားပေါ်သို့တင်၍ ခေါ်သွားရလေတော့သည်။

မြို့စားကြီး၏အိမ်၌ သူ၏ဖခင်သည် မြို့စားကြီးနှင့်တကွ အခြားအရေးပါ အရာရောက်သော လူကြီးများနှင့် စကား

ပြောဆိုကြေစဉ် ဟန်းဒယ်သည် ထိုအိမ်ရှိ တီးဝိုင်းကိုသာ အာရုံစိုက်နေလေတော့သည်။ တီးဝိုင်း အဖွဲ့သားများက လည်း သူငယ်ကလေးနှင့် ချစ်ကျွမ်း ဝင်လာကြပြီးလျှင် ဟန်းဒယ် ဂီတ၌ စိတ်ထက်သန်ကြောင်း တွေ့ရှိရလေသည်။ ထိုမျှမက ဟန်းဒယ်သည် တူရိယာအကြောင်း အတော် အတန် နားလည်ပြီး ဖြစ်နေ၍ ပိုမို အံ့သြကြရလေသည်။ ဟန်းဒယ်အား တီးစေသောအခါ လူတိုင်းပင် နှစ်သက် သဘောကျ၍ မြို့စားကြီးကိုယ်တိုင်က ဟန်းဒယ်၏ လက်သံ ကို အထူးသဘောကျလှသဖြင့် ဟန်းဒယ်၏ ဖခင်အား ဤသို့သော သားကောင်းတယောက် ရှိသည့်အတွက် ဂုဏ် ရှိကြောင်းဖြင့် ချီးကျူးပြောဆိုကာ ဟန်းဒယ်အား ဂီတ ပညာ ဆက်လက်သင်ကြားပေးသင့်သည်ဟု အကြံပေးလေ သည်။ ဟန်းဒယ်၏ ဖခင်ကသူ့အား ဥပဒေပညာသင်စေရန် ရည်ရွယ်ကြောင်းကို ပြောကြားသောအခါ မြို့စားကြီးက သူငယ်အား ဂီတပညာသာ ဆက်လက်သင်ကြားပေးရန် တိုက်တွန်းခဲ့၏။ နောက်ဆုံးတွင် မြို့စားကြီး၏ တိုက်တွန်း ချက်ကို ဖခင်က လက်ခံသောကြောင့် ဟန်းဒယ်သည် ဂီတ ပညာကို မှန်မှန်သင်ခွင့်ရသည်တွင် ပညာကို လွန်စွာ ကြိုးစားသူ ဖြစ်သဖြင့် အသက် ၁၇ နှစ်တွင် အော်ဂန်တီးသူ တယောက် ဖြစ်လာလေသည်။

ဟန်းဒယ်သည် ဂျာမနီ၊ ဣတလီ စသော တိုင်းပြည်များ တွင် အတော်ကြာအောင် လှည့်လည် သွားလာနေခဲ့ပြီး နောက် ၁၇၁၀ ပြည့်နှစ်တွင် လန်ဒန်သို့ လာရောက်နေထိုင် လေသည်။ ဣတလီနိုင်ငံတွင် နေခဲ့စဉ်က ဣတလီ အော်ပရာ ဇာတ်ပွဲများကို လေ့လာခဲ့သဖြင့် လန်ဒန်မြို့သို့ ရောက်သော အခါ ဣတလီအော်ပရာ ဇာတ်ပွဲမျိုးများကို ရေးသား ကပြစေခဲ့ရာ လွန်စွာလူကြိုက်များ၍ ကျော်ကြားလာလေ သည်။ အသက် ၄၁ နှစ်တွင် ဟန်းဒယ်သည် ဂျာမနီနိုင်ငံ သားအဖြစ်မှ အင်္ဂလန်နိုင်ငံသားအဖြစ် ခံယူခဲ့လေသည်။ သူ ၏ဇာတ်ပွဲများကို ဘုရင်နှင့်မိဖုရားမှအစ နန်းတွင်းသူများက ပါ လွန်စွာနှစ်သက်ကြသဖြင့် ဘုရင်ကိုယ်တိုင် မကြာမကြာ ကြွရောက်အားပေးလေသည်။ ဟန်းဒယ်သည် အင်္ဂလိပ် ဘာသာကို ကောင်းစွာ မတတ်သောကြောင့် တခါတရံ သူ၏သီချင်းများတွင် ဘာသာစုံ ပါဝင်တတ်လေရာ ရယ်ဖွယ် ဖြစ်နေသော်လည်း ပရိသတ်ကမူ သီချင်းထက် တီးကွက်ကို သာ အာရုံခံကြလေသည်။ ဟန်းဒယ်သည် လန်ဒန်မြို့တွင် နှစ်ပေါင်းများစွာပင် နှစ်စဉ် ဂီတပြဇာတ် အမျိုးမျိုး ရေးသားပြသပြီးနောက် လောကဓံတရားနှင့် တွေ့ကြုံရလေ တော့သည်။ သူ၏ ဇာတ်ပွဲများကို လန်ဒန်မြို့တွင် တဖြည်း ဖြည်း လူကြိုက်နည်းလာသောအခါ ၁၇၄၂ ခုနှစ်တွင် ဒဗ္ဗလင်မြို့သို့ သွားရောက်၍ "မဆိုင်ယာ" ခေါ် ခရစ်တော် အကြောင်း ဖွဲ့ဆိုသော ဂီတတီးလုံးများကို ရေးသားခဲ့လေ သည်။ ယနေ့တိုင် ခရစ္စမတ်ပွဲတိုင်း ဟန်းဒယ်၏ မဆိုင်ယာ တေးသီချင်းကို တီးမှုတ်လေ့ ရှိကြ၏။ မဆိုင်ယာ ဓမ္မ သီချင်းမှာ အကဇာတ်သီချင်း မဟုတ်ပဲ ခရစ်တော် အကြောင်း ဖွဲ့ဆိုတီးမှုတ်သော တီးကွက်သက်သက်ဖြစ်၍ ယနေ့တိုင် ကျော်ကြားလျက် ရှိပေသည်။ မဆိုင်ယာ ဂီတ ကား ဟန်းဒယ်၏ တသက်တာတွင် အကြီးဆုံး အောင် မြင်မှု ဖြစ်၏။ သံပြိုင်သီဆို၍ တီးဝိုင်းကြီးများနှင့် တွဲဖက် တီးမှုတ်သောအခါ ထို မဆိုင်ယာ သီချင်းမှာ အင်္ဂလန် တပြည်လုံး၏ စိတ်ဓာတ်ကို ဆွဲယူနိုင်လောက်အောင်ပင် ကောင်းလှပေသည်။ တခါသော် ပဋ္ဌမဂျော့ဘုရင်သည် မဆိုင်ယာ သီချင်းကို နားထောင်နေစဉ် စိတ်နှလုံးကြည်နူး လှသဖြင့် သံပြိုင်ဆိုစန်းတွင် မတ်တတ်ထလိုက်မိ၍ ပရိသတ် အားလုံး မတ်တတ်ထလိုက်ရလေသည်။ ထိုအခါက စ၍ သံပြိုင်ဆိုခန်းတွင် အားလုံးမတ်တတ် ထရပ်ရသည့် အစဉ် အလာပင် ဖြစ်ခဲ့လေသည်။

ဟန်းဒယ်သည် အသက်ကြီးရင့်လာသောအခါ မျက်စိ ကွယ်ခဲ့ပြီးနောက် ၁၇၅၉ ခုနှစ် ဧပြီလ ၁၄ ရက်နေ့တွင် လူပျိုကြီးအဖြစ်နှင့် အနိစ္စ ရောက်လေသည်။ သူ၏ သေ တမ်းစာတွင် မဆိုင်ယာ သီချင်းမှ ရရှိသော အမြတ်ငွေ မှန်သမျှကို လန်ဒန်မြို့ရှိ မိဘမဲ့ ကလေးများကျောင်းသို့ လှူဒါန်းရန် ရေးသားထားခဲ့လေသည်။အမှန်အားဖြင့်ကား မဆိုင်ယာ သီချင်းသည် နောင်လာနောက်သား အားလုံး အတွက် အဖိုးမဖြတ်နိုင်သော အမွေအနှစ်တရပ် ဖြစ် လေသည်။

**ဟန်းလူမျိုး။** ။အာရှတိုက်ဖက်မှ လေးရာစုနှစ်အတွင်း လာရောက်၍ ဥရောပတိုက်ကို ဝင်ရောက်တိုက်ခိုက်ခဲ့ကြ သော လူမျိုးများအနက် လူတမျိုး၏ အမည်မှာ ဟန်း ဖြစ်သည်။ ထိုလူမျိုးသည် ယောကျ်ားများကို ယဉ်ရွယ် သည့် ကလေးဘဝမှ စတင်ကာ တင်းကျပ်၍ ရက်စက် ကြမ်းကြုတ်သောနည်းများဖြင့် အုပ်ချုပ်ပြီးလျှင် ကြီးပြင်း လာစေသည်ဟု ထိုခေတ်၊ သို့မဟုတ် ထိုခေတ် နောက်လူ များ၏ မှတ်တမ်းများအရ သိရသည်။

အာရှတိုက် အလယ်ပိုင်းဘက်တွင် နေထိုင်ကြသော မွန်ဂိုလီ ယန်၊ တူရန်နီယန်နှင့် တာတာအနွယ် လူမျိုးတို့သည် အုပ်နှင့်ချီ၍ ဥရောပတိုက်အတွင်းသို့ အချိန်မှန်မှန် ဝင် ရောက် တိုက်ခိုက်လေ့ ရှိခဲ့ကြသည်။ ထိုကဲ့သို့သော အုပ်စု တစုမှာ မွန်ဂိုအနွယ် ဟန်းလူမျိုး အုပ်စုဖြစ်၏။ ယင်းတို့ သည် အေဒီ ၄၇၄ ခုနှစ်တွင် အာရှတိုက် အလယ်ပိုင်းရှိ မိမိတို့နေထိုင်ရာ ဒေသမှ ဥရောပတိုက်ကို ပဌမအကြိမ် ဝင်ရောက်တိုက်ခိုက်ကြပြီးနောက် ပင်လယ်နက်၏ မြောက် ဖက်နှင့် အနောက်ဖက်ရှိ ဒေသများကို သိမ်းပိုက်နေထိုင်



မွန်ဂိုအနွယ် ဟန်းလူမျိုးအုပ်စုတစု အပြင်းချီတက်လာကြစဉ်

ခဲ့ကြလေသည်။ ထိုဒေသများတွင် နှစ်ပေါင်း ခုနစ်ဆယ် ကျော် နေထိုင်ကြပြီးနောက် ထိုလူမျိုးသည် ပဌမ အကြိမ်ထက် ပိုမိုပြင်းထန်သော ဒုတိယအကြိမ် တိုက်ခိုက်မှုကို စတင်ပြုလုပ်ကြပြန်သည်။ ၄၅၁ ခုနှစ်တွင် ယင်းလူမျိုးတို့သည် အတ္တီလာဆိုသူ၏ ခေါင်းဆောင်မှုဖြင့် ဂျာမနီနိုင်ငံကို ဝင်ရောက်တိုက်ခိုက်ကြပြီးသော် ရိုင်းမြစ်ကို ဖြတ်ကျော်လျက် ယခုအခါ ပြင်သစ်နိုင်ငံဟု ခေါ်တွင်သော ဒေသကို သိမ်းပိုက်လိုက်ကြလေသည်။

သို့ရာတွင် ရှာလွန်စစ်ပွဲ(၄၅၁ ခုနှစ်)၌ ဟန်းလူမျိုးတို့ ရှုံးနိမ့်သဖြင့် ဣတလီနိုင်ငံဖက်သို့ ဆင်းသွားကြပြီးလျှင် ထိုနိုင်ငံကို ဖျက်ဆီးပစ်ကြလေသည်။ ပုပ်ရဟန်းမင်း ပဌမ လီယိုသာ သတ္တိမဲ့ပြီးလျှင် အတ္တီလာနှင့် တွေ့ဆုံရာ၌ အတ္တီလာအား မလွှမ်းမိုးနိုင်ခဲ့လျှင် ထိုဟန်းလူမျိုးသည် ရောမမြို့ကိုပင် သိမ်းပိုက်ကောင်း သိမ်းပိုက်ပေလိမ့်မည်။ သို့သော် ရဟန်းမင်းက ယင်းတို့၏ ခေါင်းဆောင်အပေါ် လွှမ်းမိုးနိုင်ခဲ့သဖြင့် သူတို့သည် ရောမမြို့ကို မသိမ်းပိုက်ရုံသာမက ဣတလီနိုင်ငံမှပင် ဆုတ်ခွာထွက်သွားကြလေသည်။ ၄၅၃ ခုနှစ်တွင် အတ္တီလာ ကွယ်လွန်သွားရာ ဟန်းလူမျိုးတို့၏ အင်ပါယာကြီးသည်လည်းလျှင်မြန်စွာပြိုကွဲလေတော့သည်။ ထိုအင်ပါယာကြီးတွင် ဗော်လဂါမြစ်မှ ရိုင်းမြစ်အထိ ရှိသော ဒေသများ ပါဝင်သည်။ ထိုကဲ့သို့ ပြိုကွဲကုန်သော ဟန်းလူမျိုးတို့သည်လည်း နောက်ဥရောပတိုက်ကိုဝင်ရောက် တိုက်ခိုက်လာကြသူများနှင့် ရောနှောကောင်း ရောနှောသွားကြပေလိမ့်မည်။

ယခုအခါတွင် ဟန်ဂေရီဟု ခေါ်တွင်လျက်ရှိသော နိုင်ငံ၌ နောင်နှစ်ပေါင်းများစွာ အကြာတွင် လာရောက်နေထိုင်ကြသည့် မက်ဂျာလူမျိုးတို့သည် ဟန်းလူမျိုး၏ အဆက်အနွယ်များဖြစ်ကြလေသည်။ (ဟန်ဂေရီနိုင်ငံ — လည်းရှု။)

**ဟိန္ဒူအယူဝါဒ ။** ။ဟိန္ဒူလူမျိုးတို့သည် မိမိတို့ ယုံကြည်ကိုးကွယ်သည့် အယူဝါဒကို သနာတနဓမ္မ (ထာဝရ တည်မြဲနေသော ဘာသာတရား) ဟု ခေါ်ကြသည်။ အကြောင်းမှုကား ဟိန္ဒူအယူဝါဒသည် ထာဝရ တည်မြဲနေသော အဆုံးအမဟု ယူဆထားသည့် ဝေဒကျမ်း၌ ပါရှိသော အဆုံးအမများကို အခြေခံပြုထားသောကြောင့် ဖြစ်လေသည်။

ဟိန္ဒူအယူဝါဒသည် အခြားသော ဝါဒများကဲ့သို့ ပုဂ္ဂိုလ်တဦးတယောက်က စတင် တည်ထောင် ထားသည့် အယူဝါဒ မဟုတ်ပေ။ သို့ဖြစ်၍ ဟိန္ဒူအယူဝါဒ ဟူသော အမည်နာမသည် ဗုဒ္ဓအယူဝါဒ၊ ခရစ်ယန် အယူဝါဒ စသည် တို့၌ကဲ့သို့ စတင်တည်ထောင်သူ၏ အမည်နာမကိုစွဲ၍ တွင်နေသောအမည်နာမမျိုး မဟုတ်ပေ။

ဟိန္ဒူအယူဝါဒ၏ အရင်းအမြစ်ကို စိစစ်လေ့လာကြည့်လျှင် မှုန်ဝါးဝါးသာ တွေ့မြင်ရလိမ့်မည်။ သို့ရာတွင် ဟိန္ဒူအယူဝါဒသည် ခရစ်နှစ်မစမီ ရှေးယခင့် ယခင်က အာရိယန်လူမျိုးများ အိန္ဒိယသို့ ပြောင်းရွှေ့လာကြစဉ် သူတို့နှင့် တပါတည်းပါလာသည့် ဗြဟ္မဏ အယူဝါဒမှ ကြီးထွား ဖွံ့ဖြိုးလာသည့် အယူဝါဒ ဖြစ်သည် ဟူ၍ကား လက်ခံ ယုံကြည်ကြသည်။ ဟိန္ဒူအယူဝါဒသည် သမိုင်းခေတ်မတိုင်မီက ပေါ်ပေါက်ခဲ့သော ရှေးအကျဆုံးအယူ

ဝါဒဖြစ်သည်ဟု ယူဆထားကြသည်။ လွန်ခဲ့သည့်နှစ်ပေါင်း နှစ်ထောင်ကျော် အတွင်း ဟိန္ဒူ အယူဝါဒ လောက၌ သူတော်စင် ရသေ့များ၊ တမန်တော်များ၊ ဒဿနဗေဒ ပညာရှင်များ အမြောက်အမြားပေါ်ထွက်ခဲ့သည်။ ယင်းပုဂ္ဂိုလ်များသည် ဟိန္ဒူအယူဝါဒ၏အဆုံးအမ၊ဓလေ့ထုံးစံ၊ အစဉ်အလာများကို ထွန်းကား ပြန့်ပွားအောင် ပြုမူဆောင်ရွက်ခဲ့ကြလေသည်။

ဟိန္ဒူအယူဝါဒ၏ ဒဿန (အဘိဓမ္မာ) သည် ကျယ်ပြန့်သည်။ ထွေပြားသည်။ ဟိန္ဒူအယူဝါဒ၌ ဒဿနခြောက်မျိုးကွဲပြားနေသည်။ ယင်းခြောက်မျိုးကို ဆဒဿန (ဒဿနခြောက်မျိုး) ဟုခေါ်သည်။ ယင်းဒဿနခြောက်မျိုးသည် ဘီ စီ ငါးရာစုနှစ် မတိုင်မီကပင် စတင်ပေါ်ပေါက်သည်ဟု အဆို ရှိသည်။ ယင်း ခြောက်မျိုးကား ဉာယ၊ ဝိသေသိက၊ သံခယာ၊ ယောဂ၊ ပုဗ္ဗမိမံသာ၊ သို့မဟုတ် မိမံသာ၊ ဝေဒန္တ တို့ဖြစ်သည်။ ဉာယ ဒဿနကို တီထွင်သူမှာ ဂေါတမ မဟာရသေ့ဖြစ်သည်။ ဉာယဒဿနသည် စူးစမ်းဆင်ခြင်မှုအရ ပေါ်လာသည့် ယထာဘူတကျသော အတွေးအခေါ်ဖြစ်သည်။ ဝိသေသိက ဒဿနကို စတင်သူမှာ ကဏာဒ မဟာရသေ့ဖြစ်သည်။ ဝိသေသိက ဒဿန၏ ရည်ရွယ်ချက်မှာ သတ္တဝါများအား လွတ်မြောက်ငြိမ်းချမ်းမှု ရရှိစေရန် ဖြစ်သည်။ သံခယာဒဿနကို စတင် တီထွင်သူမှာ ကပိလ မဟာရသေ့ဖြစ်သည်။ သံခယာဒဿနသည် ထာဝရ ဘုရားသခင်တည်ရှိမှုကို အယူမရှိသော ဒဿနဖြစ်သည်။ ယောဂဒဿနကိုစတင်သူမှာဇေမိနီ မဟာရသေ့ဖြစ်သည်။ မိမံသာကို ပုဗ္ဗမိမံသာ ဟုလည်း ခေါ်သည်။ မိမံသာဒဿန၏ အဓိကရည်ရွယ်ချက်မှာ ဝေဒကျမ်းများ၌ ပါရှိသည့် အယူဝါဒရေး ဓလေ့ထုံးစံများကို အကာအကွယ် ပေးရန်နှင့် ထောက်ခံ အားပေးရန် ဖြစ်သည်။ ဝေဒန္တဒဿနသည် ဉပနိသျှဒ်မှ ဖြစ်ထွန်း ပေါ်ပေါက်လာခြင်း ဖြစ်သည်။ ဉပနိသျှဒ်၌ ဝေဒအယူအဆသည် တိုးတက်မှု အထွတ်အထိပ်သို့ ရောက်ခဲ့သည်။ ထို့ကြောင့် ဉပနိသျှဒ်ကို ဝေဒ၏ အဆုံး (ဝေဒန္တ) ဟုခေါ်ခြင်း ဖြစ်လေသည်။

ဟိန္ဒူအယူဝါဒအရ နတ်၊ လူ၊တော၊တောင်၊ရေ၊မြေစသောရှိရှိသမျှအရာဝတ္ထုများသည် ပရမတ္တမာခေါ် ဘုရားသခင်၏ အစိတ်အပိုင်းမျှသာ ဖြစ်သည်။ ထို့ပြင် ဤမျက်မှောက်ကမ္ဘာလောကသည် မာယာ (အထင်အမှတ်မှားနေခြင်း) မျှသာ ဖြစ်သည်။ မလွဲမသွေ ပျက်စီးသွားရမည်။ မသိအပ်သည့်၊ မသိရသည့် ပရမတ္တမာခေါ် ဘုရားသခင်သည်ကား ပြောင်းလဲခြင်းမရှိပဲ နိစ္စထာဝရ တည်မြဲနေသောအရာ ဖြစ်သည်။

ဟိန္ဒူလူမျိုးတို့သည် အတ္တမာ (ဝိဉာဉ်) ကိုယုံကြည်ကြသူများ ဖြစ်၏။ ဟိန္ဒူအယူဝါဒအရ အတ္တမာသည် ကံတရား၏ အရှိန်အဟုန် မကုန်မချင်း၊ ပရမတ္တမာနှင့် သွားရောက် ရောနှောပေါင်းဆုံမှု မဖြစ်မချင်း၊ အသခၤေျ အနန္တဘဝသံသရာ၌ ထပ်ခါထပ်ခါ ပဋိသန္ဓေ တည်နေရပေလိမ့်မည်။ လူတဦးတယောက်သည် မိမိကိုယ်ကို မိမိမြင့်ရာသို့လည်း တက်စေနိုင်သည်။ နိမ့်ရာသို့လည်း ကျစေနိုင်သည်။ လူတဦးတယောက်သည် မကောင်းမှုကို ပြုလုပ်လျှင် ကွယ်လွန်သွားပြီးသည့်နောက်၌ အတိဒုက္ခ ရောက်ရလေသည်။ သို့မဟုတ် ငရဲခံရလေသည်။ ကုသိုလ်ကောင်းမှုကို ပြုလုပ်လျှင်ကား နတ်ရွာသို့လားရလေသည်။ ငရဲပြည်၌ခံရသည့် ဒုက္ခသည်၎င်း၊ နတ်ပြည်၌စံရသည့် သုခသည်၎င်း အစဉ်ထာဝရတည်မြဲမနေပေ။ အတ္တမာ (ဝိဉာဉ်) သည် မောက္ခ (လွတ်ငြိမ်းမှု) ကို မရမချင်း၊ မိမိ၏မူရင်း အိမ်ဂေဟာဖြစ်သည့် ဗြဟ္မာနှင့် သွားရောက် မပေါင်းမချင်း ဘဝအသစ် ဖြစ်မြဲ ဖြစ်နေ ပေလိမ့်မည်။ မောက္ခ (လွတ်ငြိမ်းမှု) သည် ယုံကြည်ကိုးကွယ်မှုဖြင့် ရရှိသည့်အရာမဟုတ်။ လက်တွေ့ ကျင့်ကြံအားထုတ်မှ ရရှိနိုင်သည့်အရာ ဖြစ်သည်။

ဟိန္ဒူအယူဝါဒ၌ နတ်ဘုရားများကို ကိုးကွယ်သည့် အလေ့အထရှိသည်။ ဝေဒကျမ်းဂန်၏ ဓမ္မဂီတများ၌ ပါရှိသည့် နတ်ကြီးများအနက် ဣန္ဒရ၊ အဂ္ဂနိ၊ သူရိယစသော နတ်အများအပြားသည် ခေတ်သစ်ဟိန္ဒူအယူဝါဒ၌ ခေတ်မစားတော့ပေ။ဗြဟ္မမှာမူ ခြွင်းချက်ဖြစ်သည်။ ဟိန္ဒူအယူဝါဒသည်ဗြဟ္မဏအယူဝါဒမှ ပရမတ္တမာခေါ် ဣဿရအယူဝါဒကိုအမွေအနှစ်အဖြစ် လက်ခံရယူထားလေသည်။ယင်း ဣဿရသည် နိစ္စထာဝရတည်ရှိနေသည်။အရာဝတ္ထုဟူသမျှ၏မူလဘူတအကြောင်း တရားဖြစ်သည်။အရာဝတ္ထုဟူသမျှ အပြီးသတ်အချိန်တွင် ပြန်သွားရသည့် နောက်ဆုံးအိမ်ဂေဟာလည်းဖြစ်သည်။ပရမတ္တမာခေါ်သည့်ယင်းဣဿရသည် "တရိမုရတိ" ခေါ်သည့် နတ်သုံးပါးအစု၌တည်ရှိနေသည်ဟူ၍၎င်း၊ နတ်သုံးပါးအစုမှတဆင့် ပြုဖွယ်ကိစ္စကို ပြုလုပ်သည်ဟူ၍၎င်း အယူရှိကြသည်။ နတ်သုံးပါးကား လောကကို ဖန်ဆင်းသူ ဗြဟ္မာ၊ လောကကိုထိန်းသိမ်းစောင့်ရှောက်သူ ဗိရှနု(ဗိသနိုး)၊ လောကကို ဖျက်ဆီးပြီး လောကအသစ် ဘဝအသစ်တခုကို ထပ်မံဖန်ဆင်းသူ ရှိဝ (သိဝ) တို့ဖြစ်ကြသည်။ ယင်းနတ်သုံးပါးအနက် ဗြဟ္မာကို ပူဇော်ပသသည့် ဓလေ့ထုံးစံအလွန်နည်းသည်။ အိန္ဒိယတနိုင်ငံလုံး၌ ဗြဟ္မာကို ရည်စူး၍ ဆောက်လုပ်ထားသည့် နတ်ကွန်းအရေအတွက်သည် အလွန်တရာနည်းပါးသည်။ ဗိရှနုနှင့် ရှိဝကိုမူ ခေတ်အဆက်ဆက်ကစပြီး ကျယ်ကျယ်ပြန့်ပြန့် ပူဇော်ပသလေ့ရှိကြသည်။ ယင်းအဓိကနတ်ဘုရားများအပြင် အခြားနတ်များ၊ မြင့်မြတ်သည်ဟုယူဆသည့် အရာများကိုလည်း ကိုး

ကွယ်ကြလေသည်။ ဟိန္ဒူလူမျိုးတို့သည် နွားမကိုလည်း အလေးအမြတ် ပြုကြလေသည်။

ဟိန္ဒူအယူဝါဒလောက၌ ရှိဝကိုကိုးကွယ်သူ(ရှိက်ဝ) နှင့် ဗိရှနုကိုကိုးကွယ်သူ (ဗိုက်ရှနဝ) တို့သည် မူဝါဒအခြေခံအရ နှစ်ဂိုဏ်းကွဲနေသည်။ ရှိဝကိုးကွယ်သူများကို ရှံကရက ဦးဆောင်ပြီးလျှင် ဗိရှနုကိုးကွယ်သူများကို ရာမနုဇက ဦးဆောင်သည်။ ရှံကရ (အေဒီ ၁၉ ရာစု) သည် ဗြဟ္မဏတို့၏ ရှေးဟောင်းဝေဒဿဒဿနကို ကိုယ့်နည်းကိုယ့်ဟန်ဖြင့် အဓိပ္ပါယ်ဖွင့်လျက် ရှိဝကိုးကွယ်မှုထွန်းကားပြန့်ပွားအောင် ပြုလုပ်ခဲ့သည်။ ရှိဝကိုးကွယ်သူများက ရှံကရအား သူတို့နတ်ဘုရား၏ ကိုယ်ပွားဖြစ်သူ လူသားဟု ထင်မှတ်ယူဆကြသည်။ ရှံကရသည် အသိပညာကို အောက်တန်း အသိပညာနှင့် အထက်တန်းအသိပညာဟူ၍ နှစ်မျိုးခွဲခြားပြထားသည်။ အောက်တန်း အသိပညာသည် ဤကမ္ဘာလောကအား တကယ်အမှန် (ပရမတ်) ဟု ထင်မြင်ယူဆသည်။ အထက်တန်းအသိပညာကမူ ဤကမ္ဘာလောကအား မာယာ (ပညတ်) ဟုထင်မြင်ယူဆသည်။ အထက်တန်းအသိပညာအဆင့်သို့ ရောက်ရှိရေးအတွက် ဝေဒကို သင်အံလေ့လာခြင်း၊ ဘာဝနာ ပွားများအားထုတ်ခြင်း လိုအပ်သည်ဟု ဆိုထားသည်။ ရှံကရသည် ဗုဒ္ဓ၏ နည်းနိသျှည်းကို အတုယူပြီးလျှင် ဟိန္ဒူအယူဝါဒဆိုင်ရာ ဘုန်းကြီးလောကနှင့် ဘုန်းကြီးကျောင်းများကို အိန္ဒိယအနှံ့အပြားတွင် တည်ထောင်ခဲ့သည်။ ရှံကရ၏ဂိုဏ်းသည် ရှိဝကိုးကွယ်သည့်ဂိုဏ်းဖြစ်သည်။

အခြားဂိုဏ်းတခုကား ဗိရှနုကို ကိုးကွယ်ပူဇော်သည့် ဂိုဏ်းဖြစ်သည်။ လူ့ပြည်လူ့လောကသို့ လူသားအဖြစ်ဆင်းသက်လာသော ဗိရှနု၏ကိုယ်ပွားများအနက် ကရိရှန သည် အထင်ရှားဆုံးဖြစ်သည်။ ဗိရှနုဝါဒကိုဖြန့်ဖြူးသူကား ရာမနုဇ(အေ ဒီ ၁၃ ရာစု) ဖြစ်သည်။ ရာမနုဇကို ဆက်ခံသူများအနက် မာဓဝ (အေ ဒီ ၁၃ ရာစု)၊ ရာမနန္ဒ (အေ ဒီ ၁၄ ရာစု)တို့သည် ထင်ရှားသူများ ဖြစ်ကြသည်။ ယင်းဂိုဏ်းကြီးနှစ်ဂိုဏ်းကား ဟိန္ဒူ အယူဝါဒ၏ အဓိက ဂိုဏ်းကြီးနှစ်ဂိုဏ်းဖြစ်လေသည်။

ဟိန္ဒူအယူဝါဒ၌ အခမ်းအနားကျင်းပမှုနှင့် ပူဇော်ဝတ်ပြုမှုများကို ဗြဟ္မဏ(ပုဏ္ဏား)များက ဦးဆောင်ပြုလုပ်ကြသည်။ ဟိန္ဒူလူမျိုးတို့၏ အယူဝါဒနှင့် ပတ်သက်ဆက်နွယ်နေသောအခမ်းအနားများကို "ဆံဆကာရ်"ဟု ခေါ်သည်။ အခမ်းအနားများအနက်အချို့မှာ ဗြဟ္မဏ၊ ခတ္တိယအမျိုးဇာတ်များနှင့်သာ သက်ဆိုင်ပြီးလျှင် အချို့ကား အားလုံးနှင့်သက်ဆိုင်သည်။ မမွေးဖွားခင် အမိဝမ်းတွင်း၌ ပဋိသန္ဓေ တည်နေစဉ်က စပြီးလျှင် ကွယ်လွန်ပြီးသည့်နောက်အထိ အခမ်းအနားအမျိုးမျိုးကို ကျင်းပပြုလုပ်ကြသည်။ ယင်းအခမ်းအနားထဲတွင် နာမည်ပေးအခမ်းအနား၊ စလွယ်ချည်ကြိုးသိုင်းအခမ်းအနား၊ လက်ထပ်မင်္ဂလာအခမ်းအနားစသည်တို့ပါဝင်သည်။ နှစ်စဉ်ကျင်းပသည့် အယူဝါဒရေးရာ ပွဲသဘင်များလည်းရှိသည်။ ယင်းပွဲသဘင်များအနက် တန်ဆောင်မုန်းလကွယ်နေ့၌ ကျင်းပသော ဒီဝါလီ (ဒေဝါလီ)၊သို့မဟုတ်ဒီပါဝလီခေါ် မီးထွန်းပွဲသည် ထင်ရှားသော ပွဲသဘင်တခု ဖြစ်သည်။ ဒီဝါသီပွဲသည် လက္ခမီနတ်သမီးကို ပူဇော်သည့် ပွဲသဘင်ဖြစ်သည်။

မြို့ပြများ၌ရှင်း၊ ကျေးရွာများ၌ရှင်း ဟိန္ဒူဘုရားကျောင်းများအများအပြား ရှိလေသည်။ ဘုရားကျောင်းဟူသည်မှာ နတ်ရုပ်ဘုများ ကိုးကွယ်တည်ထားသည့် နတ်ကွန်းပင်ဖြစ်လေသည်။ နတ်များကိုပူဇော်ပသရာ၌ ပူဇော်ဖွယ်ပစ္စည်းများမှာ များသောအားဖြင့် ပန်း၊ သစ်သီး၊ သစ်ရွက်စသည်တို့ဖြစ်ကြသည်။ တခါတရံ တိရစ္ဆာန်သတ်၍လည်းပူဇော်ကြသည်။ ကာလီနတ်ကွန်း၌ ဆိတ်ကိုသတ်၍ပူဇော်ပသလေ့ရှိသည်။

ဟိန္ဒူအယူဝါဒ၌ သက္ကတဘာသာဖြင့် ရေးသားထားသည့် ဓမ္မကျမ်းဂန်များ ရှိလေသည်။ ဟိန္ဒူလူမျိုး တို့သည် ယင်းကျမ်းဂန်များအနက် ဝေဒကျမ်းများကို ဘုရားသခင်၏ မုခပါဌ်ဟု ယူဆပြီးလျှင် အထူးသဖြင့် လေးစားမြတ်နိုးကြသည်။ ဝေဒသည် ရိဂ်ဝေဒ၊ ယဇုဝေဒ၊ သာမဝေဒ၊ အထဗ္ဗဝေဒဟူ၍ လေးမျိုးပြားသည်။ ယင်းလေးမျိုးအနက် ရိဂ်ဝေဒသည် ရှေးအကျဆုံးလည်း ဖြစ်သည်။ အရေး အကြီးဆုံးလည်း ဖြစ်သည်။ ဝေဒ ကျမ်းများ၌ သံဟိတာ၊ ဗြာဟ္မဏ၊ အာရညက၊ ဥပနိသျှဒ်ဟူ၍လည်း အပိုင်း လေးပိုင်း ခွဲခြားထားသည်။ဝေဒကျမ်းများအပြင် ပုရာဏ်ကျမ်းများ၊ မဟာကဗျာကျမ်းများလည်း ရှိသည်။ ရာမာယဏနှင့် မဟာဘာရတသည် ဟိန္ဒူ အယူဝါဒနှင့် စာပေလောက၌ ထင်ရှားကျော်ကြားသော မဟာကဗျာကျမ်းကြီး နှစ်စောင်ဖြစ်သည်။ ရာမာယဏကို ဝါလမိကိ (ဝမ္မိကိ)ရသေ့ကရေးသားပြီးလျှင်မဟာဘာရတကို ဗျာသရသေ့ရေးသားသည်။ရာမာယဏ၌ အယုဒ္ဓယပြည့်ရှင်ဘုရင်ဒသရထ၏သားတော် ရာမအကြောင်းကို သက္ကတဘာသာကဗျာအဖွဲ့ဖြင့် ရေးသားထားသည်။ မဟာဘာရတ၌ကား ဓတရဋ္ဌ၏ သားတော် တရာနှင့် ပဏ္ဍု၏သားတော် ငါးပါးတို့၏ စစ်ပွဲအကြောင်းကို ရေးသား ဖွဲ့ဆိုထားလေသည်။ မဟာဘာရတ၌ ဟိန္ဒူအယူဝါဒ၏ အမြင့်မြတ်ဆုံး ပိဋကတ်တခုအနေဖြင့် လေးစားမြတ်နိုးအပ်သည့် ဘဂဝတ်ဂီတာလည်း ပါရှိလေသည်။ (မဟာဘာရတ။ ရာမာယဏလည်း — ရှု။)

ရှေးဟောင်း စဉ်လာအရ ဟိန္ဒူလူမျိုးတို့သည် မိမိတို့၏ဘဝကို လေးပိုင်းခွဲထားကြလေသည်။ ယင်းလေးပိုင်း

ကို "အာရှရမ်" ဟု ခေါ်သည်။ ပဌမပိုင်းမှာ "ဗြဟ္မာစရိယ" ဟု ခေါ်ပြီးလျှင် သူငယ်ဘဝကစသည်။ ယင်းအရွယ် အတွင်း သူငယ်သည် ဗြဟ္မစာရီဂုရု၏ သင်္ခမ်း ကျောင်းတွင် သွားရောက် ပြီးသော် ပညာကို သင်ကြားဆည်းပူးသည်။ အသက် ၂၄ နှစ်ပြည့်သောအခါ လက်ထပ် ထိမ်းမြားသည်။ ထိုအချိန်မှ ဒုတိယပိုင်းဖြစ်သည့် "ဂရိဟတ်ဆထ" အရွယ်စသည်။ ယင်းအရွယ်၏ အဓိကတာဝန်မှာ အိမ်ထောင်ရေး တာဝန်ကို ထမ်းရွက်ရန်ဖြစ်သည်။ အသက် ၅၀ အရွယ် ရောက်သောအခါ အိမ်ထောင်၏တာဝန်ကို မိမိ၏ သားအပေါ် လွှဲပြောင်းပေးပြီးလျှင် တရားအကျင့်ကျင့်ရန် တောသို့ထွက်လေသည်။ ယင်းအပိုင်းကို "ဝနပရဆထ" ဟုခေါ်သည်။ တခါတရံတွင် မိန်းမများသည်း မိမိ၏ ယောကျ်ားနှင့်အတူ လိုက်ပြီးလျှင် တရားအကျင့်ကို ကျင့်ကြလေသည်။ အသက် ၇၅ နှစ် အရွယ် ရောက်သော အခါ၌ကား "ဆန်နျာဆီ" ခေါ် ရသေ့ရဟန်း ဝတ်ရလေသည်။ ယင်းအပိုင်းကို "ဆံနျာဆ" ဟု ခေါ်သည်။ ရသေ့ရဟန်း ဝတ်ပြီးသောသူသည် တနေရာတည်းတွင် မနေတော့ပဲ အရပ်ဘက်ာလည်ပြီးနောက်ဆွမ်းခံစားသောက်လေသည်။ လူအပေါင်းတို့အားလည်း တရား အဆုံးအမ ညွှန်ကြားဟောပြလေသည်။

ဟိန္ဒူလူမျိုးတို့၏အဘွင်း၌ အဓိကအားဖြင့် ဗြဟ္မဏ၊ ခတ္တိယ၊ ဝေဿ၊ သုဒ္ဒဟူ၍ ဇာတ်လေးမျိုး ကွဲပြားခြားနားနေသည်။ ယင်းလေးမျိုးအနက် ဗြဟ္မဏအမျိုးဇာတ်ကို အမြတ်ဆုံးဟုယူဆပြီးလျှင် သုဒ္ဒကို အနိမ့်ဆုံးဟု ယူဆကြသည်။ ဗြဟ္မဏအမျိုးဇာတ်၏ အလုပ် တာဝန်မှာ ယဇ်ပူဇော်မှုကို ဦးဆောင်ရန်နှင့် တရားဓမ္မကို ဟောကြားရန် ဖြစ်သည်။ ခတ္တိယအမျိုးဇာတ်၏ အလုပ် တာဝန်မှာ တိုင်းပြည်ကို အုပ်ချုပ်ရန်ဖြစ်သည်။ ဝေဿအမျိုးဇာတ်၏ အလုပ်တာဝန်မှာ ကုန်သွယ်မှု၊ လယ်ယာ စိုက်ပျိုးမှု ဖြစ်သည်။ သုဒ္ဒ၏အလုပ်ကား အထက်က အမျိုးဇာတ်များ စေခိုင်းသည့်တာဝန်ကို လုပ်ကိုင် ဆောင်ရွက်ရန်ဖြစ်သည်။ ဟိန္ဒူလူမျိုးတို့၏ အတွင်း၌ အမြစ် တွယ်လာခဲ့သော ယင်းဇာတ်စံနစ်၊ ဇာတ်ဆုံးစံသည် နောက်ပိုင်းတွင် မဟာတ္တမဂန္ဒီ စသော အယူဝါဒရေး၊ လူမှုရေး၊ နိုင်ငံရေး ခေါင်းဆောင်တို့၏ ကြိုးပမ်းမှုကြောင့် အထိုက်အလျောက် လျော့ပါး အားနည်း သွားခဲ့လေသည်။ ပါရဂူ

**ဟပ်စ, ဂျွန်** (ခရစ် ၁၃၆၉ ခန့် – ၁၄၁၅)။ ။ သာသနာပြုပြင်ရေး ခေါင်းဆောင်ကြီးတဦး ဖြစ်သော ဂျွန်ဟပ်စ သည် ၁၃၆၉ ခုနှစ်ခန့်တွင် ဗိုဟီးမီးယားပြည်နယ်၌ မွေးဖွားလေသည်။ သာမန် ဆင်းရဲသားမျိုးနွယ်မှ ဆင်းသက် ပေါက်ဖွားလာသူ ဖြစ်သော်လည်း ပင်ကိုယ်ဉာဏ်



သာသနာပြုပြင်ရေးခေါင်းဆောင် ဂျွန် ဟပ်စ

ထက်သန်သူဖြစ်၍ ပရာဟာမြို့တော်ရှိ တက္ကသိုလ်တွင် ပညာသင်ကြားနိုင်ခဲ့လေသည်။ တက္ကသိုလ်၌လည်း စာပေတွင် သူမတူအောင် ထူးချွန်ခဲ့၏။

စာပေသင်ကြား တက်မြောက်ပြီးသည့်နောက် အဆိုပါ ပရာဟာတက္ကသိုလ်တွင်ပင် ဒဿနိကဗေဒ ပညာရပ်ဆိုင်ရာ ကထိကအဖြစ် စာပေပို့ချခဲ့လေသည်။ ထိုနောက် ၁၄၀၁ ခုနှစ်တွင် သာသနာ့ဘောင်သို့ ဝင်ခဲ့ပြီးလျှင် ထိုဒဿနိကဗေဒဌာန၏အကြီးအမှူးအဖြစ်၎င်း၊ တက္ကသိုလ်အဘွက် တရားဟောဆရာအဖြစ်၎င်း ဆောင်ရွက်ခဲ့ရလေသည်။ ထိုအချိန်တွင် တက္ကသိုလ်ကြီးတခုလုံးကို ဂျာမန်လူမျိုးတို့က ကြီးစိုးခြယ်လှယ်နေသဖြင့် စိတ်ဓာတ်တက်ကြွနေသည့် ဗိုဟီးမီးယန်းအမျိုးသားများအား သူကိုယ်တိုင် ခေါင်းဆောင်ကာ ဂျာမန်တို့၏ ဩဇာလွှမ်းမိုးခြင်းမှ ကာကွယ်ပေးခဲ့၏။ ထို့ကြောင့် ပရာဟာ တက္ကသိုလ်၌ မတွင်ကျယ်နိုင်ကြတော့သော ဂျာမန်တို့သည် လိုက်ပဆစ်မြို့၌ တက္ကသိုလ်တခုကို ဒွဲ၍တည်ဆောက်ကြလေသည်။

ဂျွန်ဟပ်စသည် ခရစ်ယန် သာသနာအရေးကို နက်နက်နဲနဲ တွေးတောကြံဆခဲ့သူ ဖြစ်ပေသည်။ ပရာဟာတက္ကသိုလ်တွင် ဒဿနိကဗေဒ ပညာရပ်ဆိုင်ရာ အကြီးအမှူးအဖြစ် ဆောင်ရွက်နေစဉ် ဗိုဟီးမီးယန်း လူထုအား ခရစ်ယန်

တရားကို အချက်ကျကျ ဟောပြောခဲ့၏။ ထိုအချိန်တွင် ဥရောပတတိုက်လုံး၌ လက်တင်ဘာသာဖြင့် ရေးသားဆားသော ကျမ်းစာအုပ်များသာ ရှိသော်လည်း ဂျွန်ဟပ်စသည် ဗိုဟီးမီးယန်း လူထုအား တရားဟောပြောရာတွင် နားလည်လွယ်စေရန် တိုင်းရင်းဘာသာစကားဖြင့်သာ ဟောပြောခဲ့သည်။

ဂျွန်ဟပ်စ၏ ဟောကြားချက်များမှာ လက်ရှိ ခရစ်ယန်သာသနာ့ဝန်ထမ်းအဖွဲ့၏ အပြစ်အနာအဆာများကို ဖော်ပြသော သာသနာ ပြုပြင်ပြောင်းလဲရေး တရားများ ဖြစ်လေသည်။ ၁၃၈၄ ခုနှစ်တွင် ကွယ်လွန်သွားသော သာသနာပြုပြင်ရေးသမားအင်္ဂလိပ်လူမျိုး ဂျွန် ဝစ်ကလစ်၏ ယူဆချက်များကိုလည်း ဂျွန်ဟပ်စသည် အထူးပင်နှစ်သက်ယုံကြည်ခဲ့လေသည်။ ထိုမျှမကလေး သူသည် ဝစ်ကလစ်ပြုစုခဲ့သော ကျမ်းများကို ဗိုဟီးမီးယန်း ဘာသာသို့ ပြန်ဆိုပြီးသော် ထိုဘာသာပြန် ကျမ်းများကို ဗိုဟီးမီးယန်း ပြည်နယ်တွင် အနှံ့အပြား ထုတ်ဝေခဲ့လေသည်။ (ဝစ်ကလစ် — လည်းရှု။)

ဗိုဟီးမီးယား ပြည်သူပြည်သားတို့သည် ဂျွန်ဟပ်စ ၏ ဟောပြောချက်များကို အထူးပင်နှစ်သက်ကြသော်လည်း သာသနာပြုပြင် ပြောင်းလဲရေးကိုမူ လက်ခံရန် အဆင်သင့်မရှိကြသေးသည့်အပြင် သာသနာ့ဝန်ထမ်းအဖွဲ့နှင့်ရောမပုပ်ရဟန်းမင်းတို့၏ ဘုန်းတန်ခိုးမှာလည်း ကြီးမားလျက် ရှိနေပြန်သဖြင့် ဂျွန်ဟပ်စသည် မကြာမီပင် ဒုက္ခနှင့်ရင်ဆိုင်တိုးရလေသည်။

ဂျွန်ဟပ်စ၏ဟောပြောချက်များကိုရောမပုပ်ရဟန်းမင်းကြားသောအခါ ဝစ်ကလစ် ရေးသားထားသော စာအုပ်စာတမ်းများကို မီးရှို့ဖျက်ဆီးပစ်ရမည်ဟု အမိန့်ထုတ်လေသည်။ သို့ရာတွင် ဂျွန်ဟပ်စသည် ထိုအမိန့်ကို မနာခံသဖြင့် မိစ္ဆာဒိဋ္ဌိဟု စွပ်စွဲခံရသည့်ပြင် တရားဟောပြောခြင်း မပြုရဟု တားမြစ်ပိတ်ပင်ခြင်းလည်း ခံရလေသည်။

မိမိမှန်သည်ဟု ထင်သော ကိစ္စအတွက် အသက်ပင်စွန့်ရဲသူဖြစ်သော ဂျွန်ဟပ်စမှာကား ပုပ်ရဟန်းမင်း၏ အမိန့်ကို အနည်းငယ်မျှ ဂရုမထားချေ။ သူ၏နောက်တွင် ဗိုဟီးမီးယန်း လူထုကြီးရှိသောကြောင့်လည်း ထိုသို့ ဂရုမထားပဲ နေနိုင်ခြင်း ဖြစ်လေသည်။ ထိုမျှသာမက သူ၏ဟောပြောချက်များကို ဗိုဟီးမီးယား တပြည်လုံးနှင့် ဘုရင်ကပါ ထောက်ခံ၍ ပရာဟတက္ကသိုလ်ကြီးကလည်း သူ၏ ဟောပြောချက်များကို လေးစားလျက်ရှိသဖြင့် ပုပ်ရဟန်းမင်း၏ မတရားအမိန့်ကို ရဲဝံ့စွာ ဖီဆန်လိုက်ခြင်း ဖြစ်ပေသည်။ ထိုကြောင့် နေ့စဉ်နှင့်အမျှ သူ၏ ယုံကြည်ချက်များကို မရပ်မနား ဟောပြောခဲ့လေသည်။ ပုပ်ရဟန်းမင်းသည်လည်းသူ့အား အာဏာဖီဆန်လျက် တန်ခိုးကြီးမားစ ပြုလာသော ဂျွန်ဟပ်စအား ချိုးနှိမ် ဖျက်ဆီးပစ်ရန် အတိအလင်းကြိုးစားလေတော့သည်။ သို့ဖြစ်၍ ၁၄၁၀ ခုနှစ်တွင် ဂျွန်ဟပ်စနှင့် သူ၏ နောက်လိုက်များသည် သပိတ်မှောက် ကံပြုခြင်း ခံရလေသည်။ သို့သော်လည်း ဆက်လက်၍ပြောဟောမြဲပြောဟောနေခဲ့ရာ သူနေထိုင်ရာ ပရာဟာမြို့တွင် ဘုရားဝတ်ပြုစည်းဝေးပွဲများမလုပ်ရဟု ပုပ်ရဟန်းမင်းက ပညတ်ချက်ထုတ်ပြန်ခဲ့လေသည်။ ထိုအခါ ဗိုဟီးမီးယားပြည့်ရှင် ဘုရင်က မြို့သူမြို့သားတို့၏ အကျိုးကို မြော်ကိုး၍ ပရာဟာမြို့မှ ခေတ္တရှောင်နေပြီးလျှင် အေးအေးဆေးဆေးသော နေထိုင်ပါရန် တောင်းပန်သဖြင့် ဂျွန်ဟပ်စသည်နှစ်နှစ်မျှ တရားမဟောပဲ ကျမ်းများပြုစုရေးသား၍သာ နေထိုင်ခဲ့လေသည်။

သို့ရာတွင်ပုပ်ရဟန်းမင်းနှင့် သာသနာ့ဝန်ထမ်း အဖွဲ့ဝင်တို့ကမူ ဂျွန်ဟပ်စအား မည်သည့်နည်းနှင့်မျှ ခွင့်မလွှတ်လိုကြပဲ ထိရောက်စွာ အရေးယူ အပြစ်ပေးရန် အချက်ကောင်းကိုသာ ရှာခဲ့ကြလေရာ ၁၄၁၄ ခုနှစ်တွင် ဆွစ်ဇာလန် နယ်စပ်ရှိ ကွန်စတင့်မြို့၌ ကျင်းပမည်ဖြစ်သော သာသနာရေး အစည်းအဝေးကြီးသို့ လာရောက် ဖြေရှင်းရန် ဂျွန်ဟပ်စအား ဆင့်ခေါ် လေသည်။ ထိုအချိန်တွင် သာသနာစောင့် ရောမကေရာဇ် ဆစ်ဂျစ်စမန်းကလည်း ဂျွန်ဟပ်စ ၏ အန္တရာယ်ကို ကာကွယ်ပေးမည့်အပြင် အစည်းအဝေးပြီးလျှင် ဗိုဟီးမီးယားပြည်သို့ ကောင်းမွန်စွာ ပြန်ပို့ပါမည်ဟုကတိပြုလေသည်။

ဂျွန်ဟပ်စသည် သူ၏ယုံကြည်ချက် ယူဆချက်များကို သေချာစွာ ရှင်းလင်းပြလိုသောကြောင့်တကြောင်း၊ရောမကေရာဇ်၏ ကတိကို ယုံကြည်သောကြောင့် တကြောင်း နောက်ပါ ၃၀ နှင့်အတူ ကွန်စတင့်မြို့သို့ လာခဲ့လေသည်။ သူ့အား ကြည်ညိုလေးစားသူ လူအများသည် သူသွားရာ လမ်းတလျှောက်တွင် မျက်ရည်စက်လက်ဖြင့် နှုတ်ခွန်းဆက်ယင်း ကျန်ရစ်ခဲ့ကြလေသည်။

အမှန်အားဖြင့် ဆိုသော် ကေရာဇ် ဆစ်ဂျစ်စမန်း၏ ကတိမှာ ဂျွန်ဟပ်စအား ကွန်စတင့်သို့ လာရောက်စေရန် သွေးဆောင်ဖြားယောင်းချက်မျှသာ ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် ကွန်စတင့်မြို့သို့ ဆိုက်ရောက်၍ မကြာမီပင် ဂျွန်ဟပ်စအား ဖမ်းဆီး၍ အကျဉ်းချထားသောကြောင့်ပင်တည်း။ ပုပ်ရဟန်းမင်း၏ဖက်တော်သားများသည် ဂျွန်ဟပ်စအား သံခြေကျဉ်းခတ်ကာ တိုက်ပိတ်၍လှောင်ထားပြီးလျှင် အမျိုးမျိုး ညှဉ်းပမ်းနှိပ်စက်ကာ သူ၏ဟောပြောချက်များ လုံးဝ မှားယွင်းကြောင်းကို ဝန်ခံစေလေသည်။ မည်မျှပင် ဆိုးရွားသော နှိပ်စက်ညှဉ်းပမ်းခြင်းကို ခံစားရစေကာမူ ဂျွန်ဟပ်စသည် သူ၏ ပြောဟောချက်များ မှားယွင်းသည်ဟု ဝန်မခံသည့်အပြင် တရားနည်းလမ်းကျသည်ဟူ၍သာ အတိအလင်း ပြောဆိုခဲ့လေသည်။

နောက်ဆုံးတွင် ဂျွန်ဟပ်စအား ထောင်မှထုတ်ယူ၍ တရားသူကြီးများရှေ့တွင် စစ်ဆေးလေသည်။ ဂျွန်ဟပ်စသည် သူ၏ သန့်ရှင်းသော ယုံကြည်ချက်များကို လူသိရှင်ကြား ပြောဆိုရမည် ဖြစ်သဖြင့် သူခံစားခဲ့ရသော ညှဉ်းပမ်းနှိပ်စက်မှုများ၏ ဒဏ်ချက်များကိုပင် ခေတ္တမေ့လျော့ထားကာ လုံးဝပေါ့ပေါ့ စိတ်အားထက်သန်စွာ ပြောပြလေသည်။သူအား စစ်ဆေးသည့် အချိန်တွင် ပုပ်ရဟန်းမင်းက ဂျွန်ဝစ်ကလစ်၏ စာအုပ် စာတမ်းများကိုအတိအလင်း ရှုတ်ချပြစ်တင်ထားပြီးဖြစ်သဖြင့် ဂျွန်ဝစ်ကလစ်၏ ယူဆချက်များကို ဂျွန်ဟပ်စက စိတ်အားထက်သန်စွာကာကွယ်နေ၍ အကြောင်းမထူးတော့ချေ။ ထိုအကြောင်းကို ဂျွန်ဟပ်စကိုယ်တိုင် သိသော်လည်း မည်သို့မျှ သဘောမထားပဲ သူ၏ယုံကြည်ချက်များကို စစ်ဆေးသော တရားသူကြီးများအား အတိအလင်း ရှင်းလင်းပြလေ၏။

သို့ရာတွင် တရားသူကြီးများ ကိုယ်တိုင်ကလည်း ဂျွန်ဟပ်စ၏ အမှုကို အမှန်အတိုင်း စစ်ဆေးနေရန် မလိုပဲ သေဒဏ်ပေးရန်ကိုသာ ကြိုတင်စဉ်းစား ဆုံးဖြတ်ပြီး ဖြစ်သဖြင့် ဂျွန်ဟပ်စ၏ ရှင်းလင်းချက်များကို အော်ဟစ် လှောင်ပြောင်၍ နှောင့်ယှက်ကြလေ၏။ ထောင်တွင်း၌ ညှဉ်းပမ်းနှိပ်စက်ခြင်း ခံခဲ့ရသော ဒဏ်ချက်များသည် တဖြည်းဖြည်းနာကျင်လာသည့်အပြင် သူ၏ ဖြေရှင်းချက်များမှာ သဲထဲရေသွန်သကဲ့သို့သာဖြစ်ကြောင်း သိလာသော ဂျွန်ဟပ်စသည် ဆက်လက်မရှင်းလင်းတော့ပဲ ဘုရားကိုသာ အာရုံပြုလျက် ဆိတ်ဆိတ်နေလေတော့သည်။

စီရင်ချက်ကို ကြိုတင်စဉ်းစားထားပြီးဖြစ်သော တရားသူကြီးများသည် ဂျွန်ဟပ်စအား သာသနာဖျက်ဆီးမှုထင်ရှားသည်ဟု သေဒဏ်ပေးစီရင် လိုက်ကြလေသည်။

၁၄၁၅ ခုနှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ဂျွန်ဟပ်စအား လူအများရှေ့၌ အရှင်လတ်လတ် မီးရှို့သတ်လေသည်။ ဘုရားကိုသာ အာရုံပြုလျက်ရှိသော ဂျွန်ဟပ်စသည် မီးတောက်မီးလျှံများ တက်လာ၍ သူ့အား ဝါးမြိုလိုက်သည့်အထိ မတုန်မလှုပ်ပဲ တည်ငြိမ်စွာပင်အသေခံလိုက်လေသည်။သူ၏ ပြာများကို ရိုင်းမြစ်အတွင်း ပစ်ချမျှောပစ်လိုက်လေသည်။

ဂျွန်ဟပ်စအား မတရားသက်သက် သတ်ဖြတ်ကြောင်းကို ကြားသည်နှင့် တပြိုင်နက် ဗိုဟီးမီးယားပြည်နယ်ရှိ ဂျွန်ဟပ်စအား ချစ်ခင်ကြည်ညိုသူ အပေါင်းတို့ မခံမရပ်နိုင်ဖြစ်ကာ လက်နက်စွဲကိုင်၍ ရောမဧကရာဇ် ဆစ်ဂျစ်စမန်းအား တော်လှန်ပုန်ကန်ခဲ့ကြလေသည်။

ယခုအခါ ဂျွန်ဟပ်စကို အမျိုးသားသူရဲကောင်းတဦးဟု အသိအမှတ်ပြုကာ သူ၏ ရုပ်တုတခုကို ပရာဟာမြို့တွင် စိုက်ထူထားကြလေသည်။

**ဟပ်စလေ,တီ၊အိပ်**(ခရစ် ၁၈၂၅–၁၈၉၅)။ ။တောမတ် ဟင်နရီ ဟပ်စလေသည် ၁၈၂၅ ခုနှစ် မေလ ၄ ရက်နေ့၌ လန်ဒန်မြို့တွင် ဖွားမြင်သည်။ သူ၏ဖခင်သည် ကျောင်းဆရာတယောက်ဖြစ်သော်လည်း ဟပ်စလေသည် ဆရာနှင့် စည်းကမ်းတကျ ပညာမသင်ကြားခဲ့ရချေ။ ပညာရပ်များကို ကိုယ်တိုင်လေ့ကျက် ဆည်းပူးခဲ့ရ၏။ အစပဌမ၌ သူသည် အင်ဂျင်နီယာတယောက်ဖြစ်အောင် စိတ်ထက်သန်ခဲ့သော်လည်း အသက် ၁၃ နှစ်လောက်တွင် မမာမကျန်းဖြစ်သဖြင့် လက်လျှော့လိုက်ရလေသည်။ အသက် ၁၇ နှစ်သို့ရောက်သော် ဆေးပညာများကို သူ့အစ်ကို ဂျိမ်းနှင့် ချားရင်းခရော့စ ဆေးရုံ၌ လေ့လာ၍ ၁၈၄၅ ခုနှစ် အသက် ၂၀ တွင် ဆေးဒီဂရီဘွဲ့ကို ရရှိလေသည်။ ထိုနှစ်တွင် ဟပ်စလေသည် သိပ္ပံပညာရပ်နှင့်စပ်ဆိုင်သော မွေးသွင်းအတွင်းရှိ အမြှေးလွှာအကြောင်းကို ရေးသား၏။ ၁၈၄၆ ခုနှစ်တွင် ရက်တဲလ်စနိတ်ခေါ် သင်္ဘောပေါ်၌ ဆရာဝန်အဖြစ်ဖြင့် ဩစတြေးလီးယားတိုက်ဖက်သို့ လေးနှစ်ကြာမျှ ခရီးထွက်ခဲ့၏။ ယင်းသို့ခရီးထွက်နေစဉ် ဒါဝင်ကဲ့သို့ ဗိုင်ဩလိုဂျီပညာရပ် သုတေသနလုပ်ငန်းများကို စတင်ဆောင်ရွက်ခွင့်ရလေသည်။

ဟပ်စလေသည် မိမိရှာဖွေ တွေ့ရှိသော အကြောင်းအရာများကိုရေးသားတင်ပြခဲ့၍ တော်ဝင်အသင်းဝင်တဦးအဖြစ် အသိအမှတ်ပြုခြင်း ခံရလေသည်။

ဟပ်စလေ၏ သုတေသနလုပ်ငန်းများမှာ သိပ္ပံပညာဖက်တွင် အလွန်အဖိုးတန် အသုံးကျ၍ သူ၏ကြိုးစားမှုကို ချီးကျူးသော အနေဖြင့် အသက် ၂၅ နှစ်အရွယ်တွင် ဘုရင့်တံဆိပ်ဘော် ချီးမြှင့်ခြင်း ခံရလေသည်။ ထိုနောက် ဟပ်စလေသည် ကျောင်းများ၌ ဗိုင်ဩလိုဂျီပညာရပ်ကို သင်ကြားပို့ချယင်း သုတေသနလုပ်ငန်းကို ဆက်လက်



သိပ္ပံပညာရှင်တဦးဖြစ်သူ တောမတ် ဟင်နရီ ဟပ်စလေ

ဆောင်ရွက်မြဲ ဆောင်ရွက်နေ၏။ သိပ္ပံပညာရပ်များကို လည်း ရေးသားမြဲရေးသား ထုတ်ဝေနေ၏။ မျိုးစိတ်ဇာစ်မြစ် အကြောင်းကို တိုင်းပြည်သို့ ၁၈၅၉ ခုနှစ်တွင် တင်ပြကျေညာလိုက်၏။

ဒါဝင်က လူတို့သည် မျောက်များမှဆင့်ကဲ ပြောင်းလဲလာသည်ဟုဆို၏။ အယူဝါဒ (ယုံကြည်ချက်) နှင့် ဆန့်ကျင်နေသော ဒါဝင်၏ အဆိုကို လူများကြားသိလာသည့်အခါ၌ တတိုင်းပြည်လုံး လှုပ်လှုပ်ရွရွ ဖြစ်လာလေသည်။ ဒါဝင်၏အဆိုကို ထောက်ခံသူများ တဖက်၌ရှိသကဲ့သို့ အဆိုကို ပြင်းပြင်းထန်ထန်ကန့်ကွက်သူများလည်း ရှိလေသည်။ သာသနာ့ဂိုဏ်းအုပ်ကြီးများသည် ဒါဝင်၏အဆိုကို ကြားသည့်အခါ အမျက်ထွက်ကြ၏။ သိပ္ပံပညာရှင်များနှင့် ဒဿနိကဗေဒပညာရှင်များသည် ဇဝေဇဝါဖြစ်ကုန်၏။ အိမ်သားအချင်းချင်းပင် သဘောကွဲလွဲကြကုန်၏။ တဖက်ကလည်း ဒါဝင်သည် ဘုရားမဲ့ဖြစ်သောကြောင့် ယင်းသို့ ယုတ္တိမတန်သော အချက်ကို ထုတ်ဖော်ရဲသည်ဟု စွပ်စွဲ၏။ ထောက်ခံသည့်ဖက်ကမူ ဒါဝင်သည် ကမ္ဘာလောကတခုလုံးကို သိကျွမ်းသူဖြစ်သည်ဟု မြှောက်ပြောကြ၏။

ဟပ်စလေသည် ဒါဝင်၏အဆိုကို ထောက်ခံသူဖြစ်သော်လည်း တိုင်းပြည်သို့ ဟုတ်မှန်သည့်အတိုင်းသာ ရှင်းလင်းဖော်ပြလေသည်။ သိပ္ပံပညာရပ်၏ ဆန်းကြယ်မှုများကို လူပြိန်းများ နားလည်လာအောင် ဟောပြောနိုင်၏။ ဟပ်စလေရေးသားသော စာစောင်များကလည်း လူတို့၏ သိပ္ပံမျက်စိကို ဖွင့်ပေးသည်ဟု ဆိုရပေမည်။ ယင်းကဲ့သို့ လူများ သိပ္ပံပညာရပ်ဖက်တွင် စိတ်ဝင်စားလာကြသဖြင့် ယခုအခါ၌ စာသင်ကျောင်းတိုင်း၌ သိပ္ပံပညာရပ်ကို သင်ကြားပို့ချလျက် ရှိလေပြီ။

ဟပ်စလေသည် မှန်သည်ထင်သည့်အရာကို အမှန်ဟူ၍ရင်း၊ မှားသည်ထင်သည့်အရာကို အမှားဟူ၍ရင်း ပြောရမည်ကို လုံးဝမကြောက်သူဖြစ်၍၊ မှန်သည့်ဖက်က အတိုက်အခံပြောရမည်ဆိုလျှင် အလျှော့ပေးလိုသူ မဟုတ်ချေ။ သစ္စာရှိရှိနှင့် မှန်ကန်စွာပြောရမည့်အခါတွင် ဟပ်စလေသည် ရှေ့ဆုံးမှ ထွက်ပြောဝံ့သူ တိုက်ဝံ့သူတယောက်ဖြစ်၏။ သူ့အလိုအားဖြင့် လူတိုင်းသည် ဟုတ်မှန်သည့်အတိုင်း ပြောနိုင်ရန် လွတ်လပ်ရပေမည်။ အမြင်မှန်သည့်အတိုင်း ဖွင့်ပြောသူကို ကဲ့ရဲ့ရှုတ်ချဆဲရေးခြင်း မရှိစေရ။ ဟပ်စလေသည်နိုင်ငံပြုသုခမိန်ဂလက်စတုန်း၊ သာသနာ့ဂိုဏ်းအုပ် ဝီလဗာဖို့ကဲ့သို့သော ပုဂ္ဂိုလ်ကျော်များနှင့် ဒါဝင်၏အဆိုနှင့် စပ်လျဉ်း၍ အတိုက်အခံပြောဆိုခဲ့လေသည်။

ဟပ်စလေသည် သိပ္ပံပညာဖက်၌ အရေးပါအရာရောက်သော ပုဂ္ဂိုလ်တဦးဖြစ်သည့်အလျောက် ၁၈၈၃ခုနှစ်မှ ၁၈၈၅ ခုနှစ်အထိ တော်ဝင်အသင်းဘွင် ဥက္ကဋ္ဌဖြစ်ခဲ့၏။ သူ့အား ဂုဏ်ထူးဘွဲ့ထူးအမျိုးမျိုးဖြင့် ချီးမြှင့်သော်လည်း လက်မခံပဲ ငြင်းပယ်ခဲ့လေသည်။ ၁၈၉၂ ခုနှစ်၌ ပရိဗီကောင်စီလူကြီးအဖြစ် ချီးမြှောက်ခြင်းကိုကား လက်ခံခဲ့၍၊ သုံးနှစ်ကြာသောအခါ အနားယူလိုက်လေသည်။ ထိုသို့အနားယူချိန်တွင် သူ၏နာမည်မှာ သိပ္ပံပညာဖက်၌ရင်း၊ ပညာရေးဖက်၌ရင်း၊ အယူဝါဒဆိုင်ရာဖက်၌ရင်း၊ လူမှုရေးရာ ပြုပြင်ပြောင်းလဲမှုဖက်၌ရင်း• အထင်အရှား ကျန်ရစ်လေသည်။

သူ၏ ဥာဏ်ရည်မျိုးကို သားစဉ်မြေးဆက် များထဲမှ အချို့ဆက်ခံနိုင်ကြ၏။ သူ့သားကြီးဖြစ်သူ လီယိုနတ် ဟပ်စလေသည် သူ့ဖခင်အကြောင်းအပြင် ထိပ်တန်းကျသော ကဗျာအချို့ကိုဖွဲ့ဆိုရေးသားခဲ့၏။ သူသည်ကွန်းဟီးမဂ္ဂဇင်းအယ်ဒီတာဖြစ်၏။ ဟပ်စလေ၏မြေးများဖြစ်သော ဂျူလီယန် နှင့် အောဒပ်ဟပ်စလေတို့သည် ပါဏဗေဒ ပါမောက္ခနှင့် အင်္ဂလိပ်ပုံဝတ္ထုရေးဆရာများ အသီးအသီးဖြစ်ကြလေသည်။ တောမတ် ဟင်နရီ ဟပ်စလေသည် ၁၈၉၅ ခုဇွန်လ ၂၉ ရက် နေ့၌ အီးစဗုန်းမြို့တွင် ကွယ်လွန်လေသည်။

**ဟပ်စလေ့ အောဒပ် လီယိုနတ်**(ခရစ် ၁၈၉၄ ဖွား)။ ။ အောဒပ် လီယိုနတ်ဟပ်စလေသည် အင်္ဂလန်နိုင်ငံ၊ဆားရေးနယ်၌ ၁၈၉၄ ခုနှစ်တွင် ဖွားမြင်ခဲ့လေသည်။ အောဒပ်သည် ကမ္ဘာကျော် သိပ္ပံပညာရှင် တောမတ် ဟင်နရီ ဟပ်စလေ၏ သားဖြစ်သူ လီယိုနတ် ဟပ်စလေ၏ တတိယသားဖြစ်သည်။ သူသည် အီတန် ကောလိပ်ကျောင်းနှင့် အောက်စဖို့တက္ကသိုလ်တို့ဘွင် ပညာသင်ကြားခဲ့လေသည်။ ဦးစွာ၌ သိပ္ပံပညာရှင်တဦးဖြစ်ရန် ရည်ရွယ်ခဲ့သော်လည်း မျက်စိအားမကောင်းသဖြင့် ထိုရည်ရွယ်ချက်ကို ဖျက်ပြီးလျှင် စာရေးဆရာအလုပ်ကို လုပ်ကိုင်လေသည်။ သူ၏ပဌမဝတ္ထုများသည် ပဌမကမ္ဘာစစ်ကြီးပြီး၍ မကြာမီအတွင်း၌ ထွက်ပေါ်လာခဲ့သည်။ ထိုဝတ္ထုများတွင် လူ့လောက ပျက်စီးယိုယွင်းနေပုံများကို ပေါ်လွင်စွာ ဖော်ပြထားလေသည်။ သူသည် စာမွန်များနှင့် ကဗျာများကိုလည်း ရေးသားခဲ့၏။

ဟပ်စလေသည် သူ့ခေတ်ကမ္ဘာကြီးကို မနှစ်မြို့သဖြင့် "ရဲရင့်သည့်ကမ္ဘာသစ်" ခေါ် ဝတ္ထုကို ရေးသားခဲ့၏။ ထိုဝတ္ထုတွင် စက်ဖြင့်ပြီး၍ ဝိဉာဉ်ကင်းမဲ့သည့် စိတ်ကူးယဉ်ကမ္ဘာကို ဖန်တီးထားလေသည်။ ၁၉၃၀ ပြည့်လွန်နှစ်များအတွင်းတွင် ဟပ်စလေသည် အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယား ပြည်နယ်သို့ ပြောင်းရွှေ့နေထိုင်ခဲ့သည်။ ထိုအချိန်မှစ၍ သူသည် အယူဝါဒနှင့် ဒဿနိကဗေဒဖက်တွင် စိတ်ပါဝင်စားလာခဲ့လေသည်။

**ဟမ္ပဒန်၊ ဂျွန်** (ခရစ် ၁၅၉၄–၁၆၄၃)။ ။တိုင်းပြည်ပြုလုပ်ငန်း၌ရင်း၊ စစ်ဆင်မှုရေးရာ၌ရင်း အရည်အချင်းနှင့်



ဗြိတိသျှ ပါလီမန်ဂိုဏ်းခေါင်းဆောင် ဂျွန် ဟမ္ပဒန်

ပြည့်စုံလှသောကြောင့် သက်ဆိုးသာရှည်ခဲ့ပါမူ အင်္ဂလန်ပြည်၏ ဝါရှင်တန်တဦး ဖြစ်ကောင်းဖြစ်လာမည်ဟု ပြောဆိုခြင်းကျူးခြင်းခံရသူကား ဂျွန် ဟမ္ပဒန် ဖြစ်လေသည်။

ဟမ္ပဒန်ကား ကြွယ်ဝချမ်းသာသော မြေပိုင်ရှင်တဦး၏ သားဖြစ်၍ အော်လစ်ဗား ကရွမ်းဝဲနှင့် သားချင်းတော်စပ်သူလည်းဖြစ်၏။ သူသည် ၁၅၉၄ ခုနှစ်တွင် လန်ဒန်မြို့၌ မွေးဖွားခဲ့ဟန်တူသည်။ သူသည် အောက်စဖို့ရှိုင်ယာနယ်ရှိ သဒ္ဒါကျောင်းတွင် ပညာစတင်သင်ကြားပြီးနောက် အောက်စဖို့တက္ကသိုလ် မေ့ဂဒါလင်းကောလိပ်တွင် ဆက်လက်သင်ကြားခဲ့လေသည်။ ၁၆၂၁ ခုနှစ်၊ ၁၆၂၅ ခုနှစ်နှင့် ၁၆၂၆ ခုနှစ်များတွင် ဆင့်ခေါ်သည့်ပါလီမန်များသို့ အမတ်အဖြစ် တက်ရောက်ခဲ့၏။ ၁၆၂၇ ခုနှစ်တွင်ကား ပဌမချားဘုရင်၏ ဥပဒေနှင့်လည်းမညီ၊ အကြောင်းလည်းမလျော်ပဲ ငွေ ချေးသည်ကို ငြင်းဆန်လိုက်သဖြင့် ထောင်ချခြင်းခံရသောကြောင့် လူသိများလာလေသည်။ ၁၆၃၅ ခုနှစ်တွင် ချားဘုရင်သည် သင်္ဘောအခွန်တော်ကို ကုန်းတွင်းပိုင်းကျသော ဒေသများတွင် ကောက်ခံခဲ့ရာ၌ ပါလီမန်သဘောတူညီချက်လည်းမရ၊ အကြောင်းလည်းမလျော်သဖြင့်အပြင်းအထန် ကန့်ကွက်ခဲ့လေသည်။ ထိုကြောင့် သူ့ကို ရုံးတင်တရားစွဲဆိုခဲ့သည်တွင် သူကိုယ်တိုင် ခုခံလျှောက်လဲခဲ့သော်လည်း တရားသူကြီး ၁၂ ဦးအနက် ခုနစ်ဦးကသူ့ကို အရှုံးပေးလိုက်လေသည်။ သို့သော် ထိုဆုံးဖြတ်ချက်ကို ပါလီမန်က ပယ်ဖျက်ခဲ့၏။

မည်သို့ဖြစ်စေ အာဏာရှင်ဆန်လွန်းသော ဘုရင်ကို မူအားဖြင့် ရဲရဲဝံ့ဝံ့ ကန့်ကွက်ပြောဆိုခဲ့သောကြောင့် လူထုက ကြည်ညိုလေးစားခြင်း ခံလာရသည့်ပြင် ပါလီမန်ဂိုဏ်းတွင် ခေါင်းဆောင်တဦးဖြစ်လာလေသည်။

သူသည် သက်တမ်းတိုပါလီမန်သို့ရင်း၊ သက်တမ်းရှည်ပါလီမန်သို့ရင်း တက်ရောက်ခဲ့လေသည်။ သက်တမ်းရှည်ပါလီမန်သို့တက်ရောက်ခဲ့စဉ် ရဲရင့်လှသော ပျူရီတန်တို့၏ ခေါင်းဆောင် ပင်း၏ညာလက်ရုံးအဖြစ် ထင်ရှားလေသည်။ ၁၆၄၂ ခုနှစ် ဇန္နဝါရီလအတွင်း ချားဘုရင်ဖမ်းဆီးရန်ကြံစည်ခဲ့သော အမတ်ငါးဦးတွင် ဟမ္ပဒန်လည်း တဦးအပါအဝင်ဖြစ်၏။

ပြည်တွင်းစစ်ငြိဖြစ်ပွားသောအခါ ဟမ္ပဒန်သည် ကရွမ်းဝဲနှင့်အတူ ပါလီမန်စစ်တပ်တွင် ဝင်ရောက်အမှုထမ်းခဲ့၍ ရက်ရက်ရောရော အကူအညီပေးခဲ့လေသည်။ ထိုပြင် သူကိုယ်တိုင် အကုန်အကျခံပြီးလျှင် ခြေလျင်တပ်တတပ် ဖွဲ့စည်းကာ ဘုရင်ဂိုဏ်းသားများအား ခုခံတိုက်ခိုက်ခဲ့လေသည်။ တိုက်ပွဲများတွင်လည်း ရဲစွမ်းသတ္တိနှင့်ပြည့်စုံစွာ ရှပ်ရှပ်ချချတိုက်ခိုက်ခဲ့၍ စစ်တပ်များကို ကွပ်ကဲစီမံရာ၌ ထူးခြားလှသော အရည်အခြင်းနှင့် ပြည့်စုံသူဖြစ်ကြောင်းလည်း တွေ့ရှိရလေသည်။ ယင်းသို့ ထူးခြားသော အရည်အခြင်းများနှင့် ပြည့်စုံသူ ဂျွန်ဟမ္ပဒန်မှာ ၁၆၄၃ ခု ဇွန်လ ၁၈ ရက်နေ့တွင် ရှားလဂ်ရို့ကွင်းပြင်တိုက်ပွဲ၌ ရရှိသော ဒဏ်ရာဖြင့် ဇွန်လ ၂၄ ရက်နေ့တွင် ကွယ်လွန်သွားရှာလေသည်။

**ဟံသာဝတီရောက်မင်းတရားကြီး** (မြန်မာ ၁၀၉၅–၁၁၁၃) ။ ။အင်းဝပြည့်ရှင် သီရိပဝရမဟာဓမ္မရာဇာဓိပတိဘွဲ့ခံ တနင်္ဂနွေမင်း၏သားတော်ဖြစ်၍၊ ခမည်းတော်၏ အရိုက်အရာကို ၁၀၉၅ ခုနှစ်တွင် ဆက်ခံစိုးစံသည်။ မဟာဓမ္မရာဇာဓိပတိဘွဲ့ခံ၍ လောကသရဖူ ဒါယကာ ဟူ၍ရင်း၊ ကြာသပတေးမင်း ဟူ၍ရင်း တွင်၏။ ညောင်ရမ်းဆက်နောက်ဆုံးမင်းလည်း ဖြစ်၏။

ထိုမင်းသည် ရာဇဝင်၊ ပုံပြင်၊ ဗေဒင်၊ ဂဏန်း၊ ဗဟုသုတ၊ စောင်းညှင်း စသော အတီးအမှုတ် တို့နှင့်တကွ ကဗျာလင်္ကာရေးသားစပ်ဆိုရာ၌ များစွာ ကျွမ်းကျင်တော်မူ၏။ သို့သော် တိုင်းရေး ပြည်မှုတို့ကို များစွာ ဂရုမစိုက်၊ သောက်စားပျော်ပါးမှုတို့နှင့်သာ အချိန် ကုန်တတ်၏။

ယေစဉ်က ဆရာဖြစ်ခဲ့ဘူးသူ ရာဇနန္ဒဆိုသူကို နန္ဒမိတ်ကျော်ထင်အမည်နှင့် အတွင်းဝန် ခန့်၍ မြှောက်စားရာ ထိုသူ၏ ဂုံးချော စကားကြောင့် အချို့ ဝန်ကြီး များကို အထင်မှား၍ သတ်လေသည်။ ထို့ပြင်လည်း ပျော်ပါးဖက်မူးမတ်ယော်များကိုသာ အရေးတယူ ပြုမူသောကြောင့် ကာယ၊ ဉာဏ အရည်အချင်းပြည့်ဝသည့် မှူးကြီးမတ်ကြီးတို့ လွတ်ရာ ရှောင်တိမ်း နေကြရသည်။ ဤသို့အားဖြင့် နိုင်ငံတော်သည် များစွာ အင်အား ချိတဲ့လျက် ရှိသည်သာမက မငြိမ်မဝပ် အစားအစာ ရှားပါးလေသည်။

ထိုအခါ ရှေးမင်းများလက်ထက်က စိုးပိုင်ခဲ့ဘူးသည့် ယိုးဒယား၊ဇင်းမယ်၊ရှမ်းနယ်၊ မွန်ပြည်နယ်တို့သည် မြန်မာမင်းအား ပမာမထား ခြားနား ထောင်ထားကြလေ၏။

မဏိပူရ ကသည်း တို့ကလည်း နှစ်နှစ် တကြိမ်၊ သုံးနှစ် တကြိမ် ထိုမင်းလက်ထက် ကုန်ဆုံးသည့်တိုင် မြန်မာ နိုင်ငံ တော်သို့ ဆက်ကာဆက်ကာ လာရောက်ထိပါး နှောက် ယှက်ခဲ့ရာ တကြိမ်တွင် အင်းဝမြို့အနီးတိုင် ရောက်လာကြ ပြီးလျှင် များစွာ ဖျက်ဆီးသွားကြလေသည်။

ဟံသာဝတီကလည်း ၁၁၀၁ ခုနှစ်မှ အစပြု၍ ပုန်ကန် ခြားနားလာခဲ့ရာ၊ အင်းဝ လက်အောက်ခံအဖြစ်မှ လွတ် မြောက်ကာ အင်အား တဖြည်းဖြည်းတိုးတက်လာပြီးလျှင် အင်းဝတပ်များကိုပင် တွန်းလှန်နိုင်ခဲ့သည်။

သက္ကရာဇ် ၁၁၀၉ ခုနှစ်ခန့်တွင် ဇေယျကိုင် အရှေ့အုတ်ဖို တောင်ခြေ၌နေသော ကျွေးရှမ်းတို့သည် မိမိတို့အကြီးအကဲ ဂုဏ္ဏအိန်နှင့်တကွ မတ္တရာ၊ အုတ်ဖိုစသော အညာမြစ်စင် တလျှောက်တွင် ချထား နေထိုင်ရသော မွန်ဟူသမျှနှင့် ညီညွတ် ပုန်ကန်ကြသည်။

သက္ကရာဇ် ၁၁၁၃ ခုနှစ်တွင် ဟံသာဝတီဘုရင့်ညီတော် အိမ်ရှေ့ဥပရာဇာနှင့် ညီတော် ဗညားဒလတို့ ရေကြောင်း၊ ကြည်းကြောင်း အလုံးအရင်းနှင့်တကွ ချီတက်လာပြီး လျှင် အင်းဝမြို့ကို ဝန်းရံ လုပ်ကြံသည်။ အင်းဝမှာလည်း ဆယ်နှစ် ကိုးနှစ်အတွင်း နိုင်ငံမငြိမ်မသက်ရှိ၍ ဆင်းရဲသား တို့ကောင်းစွာမလုပ်ဆောင်ကြရသောကြောင့် ဆန်ရေစပါး ပါးရှား တော်မွတ်သည်နှင့် ရဲမက်တော်တို့ ကောင်းစွာမခုခံ မတိုက်ခိုက်နိုင်သဖြင့် တမြို့လုံး မွန်တို့လက်သို့ ရောက်ရလေ သည်။ ထိုအခါ မင်း၊ မိဖုရား၊ သားတော် သမီးတော်၊ မှူးမတ်၊ သူဌေးသူကြွယ်မှစ၍ ပိဋကတ်စာပေမကျန် သိမ်း ယူပြီးသော် ဟံသာဝတီသို့ ဆောင်ယူလေ၏။ ဤတွင် မဟာဓမ္မရာဇာဓိပတိမင်းကို ဟံသာဝတီရောက် မင်းတရား ကြီးဟု တွင်လေသည်။ မှူးမတ်များတွင်လည်း ကဗျာ အရာတွင် အလွန်ကျော်ကြားသော ဝန်ကြီး ပဒေသရာဇာ လည်း ပါဝင်၏။ (ပဒေသရာဇာ — လည်းရှု။)

ဟံသာဝတီသို့ရောက်၍ ၁၁၁၆ ခုနှစ်တွင် ကျေးကျွန် မှုထမ်းဟောင်းတို့နှင့် မသင့်မတင့်ကြံသည်ဟူ၍ မင်းတရား ကြီးနှင့်တကွ သားတော် သမီးတော်များကို ရေတွင် ဖျောက်လေသည်။ ဤကဲ့သို့ မရှုမလှ အသက်ဆုံးရှုံးရမည် ကို လက်ဦးမဆွကပင် သိပြီးဖြစ်သော မင်းတရားကြီးသည် အသတ်မခံရမီကပင် —

“ပုဂ္ဂိုလ် ခြောက်မည်၊ သန္ဓေတည်သား၊ ဤသည် ပရိတ်၊ ရှစ်ဆယ်စိတ်တွင်၊ ခု—တိတ် နောင်လျှဉ်၊ သံယော ဇဉ်လည်း၊ အယဉ်စိစိ၊ တိထိ သာခန်း၊ ပျော်မမြန်းခဲ့၊ တဆန်းကြူးလွန်၊ ဘုံသုံးတန်တွင်၊ နှိုင်းရန်တူကြောင်း၊ ရွေးချယ်ပေါင်းသော်၊ သောင်းကလုတ်ခွာ၊ ရာကာ ကင်း ဝေး၊ ကိုးယောက် ရွေးလျှင်၊ ရှင်ထေးလုခေါင်၊ လုတန် ဆောင်သည်။ ရှင်အောင်ကိုသာ လွမ်းမိခဲ့”

အစရှိသော ရတုပိုဒ်စုံကို စပ်ဆိုခဲ့လေသည်။ ထို့ပြင် ဟံသာဝတီ၌ အကျဉ်းခံနေရစဉ် အင်းဝမြို့ မျက်စိအောက် တွင် ပျက်စီးယိုယွင်း၍ သွားပုံကို နှမြောလှ၍

“လုဇ္ဇတိပလုဇ္ဇတီတိ လောကော၊ သဘောနိယံ၊ လောကဓံနှင့်၊ ဆက်ဆံကြုံကြိုက်၊ ကိန်းခန်းလိုက်ဖြင့်၊ ရစ်ဝိုက် မြစ်ဆုံ၊ ရွှေဘုံအဝ၊ ပုရိန္ဒကား၊ နရသနင်း၊ မင်းလည်း ကင်းကွာ၊ ပြည်ရွာပျက်စီး၊ တောကြီးဟူလောက်၊ မျက် မှောက်လက်ာ၊ သာသနာလည်း၊ ရောင်ဝါမလင်း၊ သို့ဖြစ် ခြင်းကို၊ မြော်တင်းစေ့စေ့၊ ကြံအောက်မေ့သော်၊ ပျောင်း ခွေညွတ်ခွေ၊ လွမ်းတာဝေခဲ့”

အစရှိသော တမ်းချင်းတပုဒ်ကိုလည်းရေးသားထား ခဲ့လေသည်။

**ဟမ်းဗတ်မြို့။** ။မိုင်ပေါင်းများစွာ ကုန်းတွင်းကျသော မြို့တမြို့ဖြစ်သော်လည်း ထင်ရှားသော ပင်လယ်ဆိပ်ကမ်း မြို့တမြို့ မဟုတ်ဟု မဆိုနိုင်ချေ။ ဟမ်းဗတ်မြို့သည် ဂျာမနီ နိုင်ငံ၏ အကြီးဆုံး ပင်လယ်ဆိပ်ကမ်းမြို့ ဖြစ်သော်လည်း မြောက်ဖက်ပင်လယ်ကမ်းခြေမှ ၇၅ မိုင်မျှ အတွင်းကျပြီး လျှင် အဲ့လဗမြစ် မြောက်ဖက်ကမ်းပေါ်၌ တည်ရှိသည်။ သောင်ခုတ်စက်ဖြင့် မြစ်ကိုနက်အောင် တူးယူထားပြီးလျှင် ရေအိုင်ကြီးနှစ်ခုကိုလည်း တမံများတုတ်၍ ဆိပ်ကမ်းကြီး ပြုလုပ်ထားသဖြင့် ပင်လယ်ကူးသင်္ဘောကြီးများပင် ဒီရေ တက်သောအခါ၌ မြို့တွင်းသို့ ကောင်းစွာ ဆန်တက်နိုင် လေသည်။

တဆဲ့နှစ်ရာစု နှစ်အတွင်းက ပဌမ ဖရက်ဒရစ်ဘုရင် ကြီးသည် ဤမြို့ကို အဲ့လဗမြစ်အတွင်း လွတ်လပ်စွာ ရေ ကြောင်း ခရီးသွားလာခွင့်နှင့် နိုင်ငံခြား သင်္ဘောများမှ အခွန်အကောက် ယူနိုင်ခွင့် ပေးလိုက်သောအခါမှ စ၍ အရောင်းအဝယ် တိုးတက်လာပြီးလျှင် တဖန် ဟန်ဆိယက် တစ် အသင်းကြီး၏အခြေစိုက်မြို့ဖြစ်လာပြန်သောအခါ ပိုမို စည်ကားလာပြန်၏။ ၁၈၀၆ ခုနှစ်မှစ၍ ၁၈၁၄ ခုနှစ်အထိ နပိုလီယန်လက်အောက်တွင် ပြင်သစ်တို့ပိုင် ဖြစ်ခဲ့ဘူး၏။

မြောက်ဖက်ပင်လယ်၏ အရှေ့တောင်ဖက် အစွန်ဆုံး၌ တည်ရှိသည့်အပြင် ဂျာမနီနိုင်ငံတွင်းသို့ ကုန်ပစ္စည်းများကို သယ်ယူရန်လည်း ရေလမ်း၊ ကုန်းလမ်းနှစ်ဖက်စလုံးမှပင် အလွန် လမ်းသာသောကြောင့်တကြောင်း၊ တနှစ်လုံးလုံး ရေမခဲသဖြင့်တကြောင်း ဟမ်းဗတ်မြို့သည် ဂျာမနီနိုင်ငံ၌ သာမဟုတ် ဥရောပတိုက်တခုလုံး၏ အရေးကြီးသော ဆိပ် ကမ်းမြို့ကြီးဘမြို့ ဖြစ်လာလေသည်။ မြို့၏ စက်မှုလက်မှု လုပ်ငန်းများမှာ သင်္ဘောဘည်ဆောက်ခြင်း၊ စက်ကိရိယာ များ ပြုလုပ်ခြင်း၊ သကြားချက်ခြင်း၊ ဓာတ်ဆေးများ ပြုလုပ်ခြင်း စသည်တို့ ဖြစ်၏။ ဆီကြိတ်ခြင်းနှင့် အထည်



ဟမ်းဗတ်မြို့၏ ရှုခင်းတကွက်

အဝတ် ရက်လုပ်သော လုပ်ငန်းများလည်း ရှိလေသည်။

မြင့်မားသော ဘုရားရှိခိုးကျောင်းကြီးများနှင့် ပြွတ်သိပ်စွာ ဆောက်လုပ်ထားသော အိမ်များကို နောက်ခံထားကာ ခုနစ်မိုင်မျှရှည်သော သဘော်ဆိပ်၏ ရှုမျှော်ခင်းမှာ အလွန် ကြီးကျယ်ခမ်းနားပြီးလျှင် သဘော်ကြီးငယ်တို့ဖြင့် ပြည့်နှက်လျက်ရှိ၏။ ထင်ရှားသော အဆောက်အအုံကြီးများမှာ စိန့်နိကောလပ် ဘုရားရှိခိုးကျောင်းဖြစ်ရာ ၄၇၃ ပေမြင့်၍ ကမ္ဘာပေါ်တွင် တတိယအမြင့်ဆုံးသော ကိုးကွယ်မှု အဆောက်အအုံဖြစ်၏။ အက်ပင်ဒေါ့ အရပ်ရှိ ဆေးရုံမှာလည်း ဥရောပတိုက်တွင် အလှပဆုံး ဆေးရုံတရုံဖြစ်၏။ ထို့ပြင် ကမ္ဘာပေါ်ရှိ တိရစ္ဆာန်ရိုင်းများထားရာ တိရစ္ဆာန်ရုံကြီး၌ ယခုခေတ်တွင် ပျောက်ကွယ်သွားပြီဖြစ်သော ရှေးခေတ် တိရစ္ဆာန်ရိုင်းကြီးများ၏ ပုံတူများကို ယင်းတို့၏ အသက်ရှင်စဉ်က အရွယ်အစားအတိုင်း ပြုလုပ်ထားရှိ၏။

ဟမ်းဗတ်မြို့သည် ယခုအခါတွင် ပြည်ထောင်စုသမတဂျာမနီနိုင်ငံခေါ် အနောက်ဂျာမနီနိုင်ငံ ဟမ်းဗတ်ပြည်နယ်အတွင်း၌ တည်ရှိသည်။ ဟမ်းဗတ်ပြည်နယ်သည် မြေဩဇာလွန်စွာ ကောင်းမွန်သဖြင့် ရိုင်းစပါး၊ မုယော၊ ဂျုံနှင့် အာလူးကောင်းများထွက်သည်။

ဒုတိယ ကမ္ဘာစစ်အတွင်း၌ ဟမ်းဗတ်မြို့သည် ထပ်တလဲလဲ ဗုံးကြဲတိုက်ခိုက်ခြင်းခံရ၍ အတော်ပျက်စီးသွားခဲ့လေသည်။ လူဦးရေ ၁,၈၁၇,၀၇၃ (၁၉၆၉)ရှိလေသည်။

**ဟမ္မားရှိုး,ဒက်** ( ခရစ် ၁၉၀၅–၁၉၆၁ )။ ။ဒက် ဟမ္မားရှိုးသည် ပဋ္ဌမကမ္ဘာစစ် အတွင်းက ဆွီဒင်နိုင်ငံ၏ ဝန်ကြီးချုပ်အဖြစ် ထမ်းဆောင်ခဲ့သော ဟာချမာ ဟမ္မားရှိုး၏ စတုတ္ထ သားဖြစ်သည်။ ဆွီဒင်နိုင်ငံ ယွန်ချုးပင်မြို့၌ ၁၉၀၅ ခုနှစ် ဇူလိုင်လ ၂၉ ရက်နေ့တွင် ဖွားမြင်၏။ ဟမ္မားရှိုးသည် ၁၉၂၅ ခုနှစ် အသက် ၂၀ အရွယ်တွင် အပ်ဆားလား တက္ကသိုလ်မှ ဘွဲ့ရခဲ့၍ ၁၉၃၀ ပြည့်နှစ်တွင် ဥပဒေဘွဲ့ရခဲ့သည်။

ဟမ္မားရှိုးသည် ၁၉၃၀ ပြည့်နှစ်မှ ၁၉၃၄ ခုနှစ်အထိ ဆွီဒင်အစိုးရက ဖွဲ့စည်းထားသော အလုပ်လက်မဲ့ရေးရာ ကော်မတီတွင် အတွင်းရေးမှူးအဖြစ် အမှုထမ်းခဲ့၏။ ၁၉၃၃ ခုနှစ်တွင် စတော့ဟုမ်း တက္ကသိုလ်တွင် နိုင်ငံရေးဘောဂဗေဒ တွဲဖက်ပါမောက္ခအဖြစ် ဆောင်ရွက်ခဲ့သည်။ ၁၉၃၆ ခုနှစ်တွင် ဆွီဒင်နိုင်ငံ အစိုးရ၏ ဘဏ္ဍာရေးဌာနတွင် လက်ထောက် အတွင်းဝန်အဖြစ် အမှုထမ်းခဲ့ပြီးလျှင် ၁၉၃၇ ခုနှစ်တွင် စီးပွားရေးအကြံပေး အရာရှိအဖြစ်လည်း ဆောင်ရွက်ခဲ့လေသည်။ ၁၉၄၁ ခုနှစ်မှ ၁၉၄၈ ခုနှစ်အထိ ဆွီဒင်နိုင်ငံတော်ဘဏ် ဒါရိုက်တာအဖွဲ့၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့၍၊ ၁၉၄၆ ခုနှစ်တွင် ဘဏ္ဍာရေး ပါရဂူအဖြစ် နိုင်ငံခြားရေး ဝန်ထမ်းအဖွဲ့တွင် ဝင်ရောက် အမှုထမ်းလေသည်။ ဤသို့ အမှုထမ်းနေစဉ် ၁၉၄၇ ခုနှစ်တွင် ဝါရှင်တန်သို့ သွားရောက်ခဲ့ရ၏။ ၁၉၄၈ ခုနှစ်တွင် ဥရောပ စီးပွားရေးပူးပေါင်းကူညီမှုအဖွဲ့သို့ ဆွီဒင် ကိုယ်စားလှယ်အဖွဲ့ကို ခေါင်းဆောင်တက်ရောက်ခဲ့ရသည်။ ၁၉၄၈–၄၉ ခုနှစ်၌ ထိုအဖွဲ့၏ အမှုဆောင် ကောင်စီတွင် ဒု-ဥက္ကဋ္ဌ ဖြစ်လာခဲ့၏။ ၁၉၄၉ ခုနှစ်တွင် လက်ထောက်နိုင်ငံခြားရေးဝန်ကြီး ဖြစ်လာ၍၊ ၁၉၅၁ ခုနှစ်တွင် ကက်ဗိနက် အစိုးရအဖွဲ့ဝင်အဖြစ် ဒု-နိုင်ငံခြားရေးဝန်ကြီး ဖြစ်လာခဲ့လေသည်။

၁၉၅၁ ခုနှစ်မှစ၍ ဒက် ဟမ္မားရှိုးသည် ကုလသမဂ္ဂအဖွဲ့ကြီးနှင့် အဆက်အသွယ် ပြုလုပ်ခဲ့သည်။ ထိုနှစ်တွင် ပါရစ်မြို့၌ ကျင်းပသော ခြောက်ကြိမ်မြောက် အထွေထွေညီလာခံကြီးသို့ ဆွီဒင်ကိုယ်စားလှယ်အဖွဲ့၏ ဒုတိယခေါင်းဆောင်အဖြစ် တက်ရောက်ခဲ့ရသည်။ ၁၉၅၂ ခုနှစ်နှင့် ၁၉၅၃ ခုနှစ်များတွင် နယူးယော့မြို့၌ ကျင်းပသော ကုလသမဂ္ဂအထွေထွေညီလာခံများသို့ ဆွီဒင်နိုင်ငံ ကိုယ်စားလှယ်အဖွဲ့၏ ခေါင်းဆောင်အဖြစ် တက်ရောက်ခဲ့ရသည်။ ၁၉၅၃ ခုနှစ်



ကုလသမဂ္ဂ၏ ဒုတိယမြောက် အတွင်းရေးမှူးချုပ် ဟမ္မားရှိုး

ဧပြီလ ၇ ရက်နေ့တွင် နုတ်ထွက်သွားခဲ့သော ထရစ်ဂဗီလီး၏ နေရာတွင် ဆက်ခံသူအဖြစ် ဟမ္မားရှိုးအား ကုလသမဂ္ဂ၏ အတွင်းရေးမှူးချုပ်အဖြစ် ရွေးချယ်ခန့်အပ်ခဲ့လေသည်။ (လီး,ထရစ်ဂဗီ — လည်းရှု။)

ကုလသမဂ္ဂ အထွေထွေညီလာခံကြီးက ဟမ္မားရှိုးအား အတွင်းရေးမှူးချုပ်အဖြစ် ရွေးချယ် ခန့်အပ်ပြီးနောက် ၁၉၅၅ ခုနှစ် ဒီဇင်ဘာလအတွင်း၌ ဟမ္မားရှိုးသည် ပီကင်းမြို့သို့ သွားကာ ကိုရီးယားစစ်ပွဲတွင် ဖမ်းမိထားခဲ့သော အမေရိကန် လေသူရဲများ လွတ်မြောက်ရေး ကိစ္စကို ဆောင်ရွက်ခဲ့လေသည်။ ဆူးအက်တူးမြောင်း အရေးတော်ပုံတွင် အင်္ဂလိပ်၊ ပြင်သစ်နှင့် ဗြိတိန်တို့၏ ပူးပေါင်းဆောင်ရွက်ချက်များကို မနှစ်သက်သဖြင့် ပွင့်လင်းစွာ ဝေဖန်ခဲ့လေသည်။

၁၉၅၈ ခုနှစ် နိုဝင်ဘာလအတွင်း ဖြစ်ပေါ်ခဲ့သော ဟန်ဂေရီနိုင်ငံ အရေးတော်ပုံတွင် ဟမ္မားရှိုး၏ ကြိုးစားဆောင်ရွက်မှုများသည် မအောင်မြင်ခဲ့ချေ။ ထိုအချိန်က ဟန်ဂေရီနိုင်ငံတွင် ဆိုဗီယက်တို့၏ ဝင်ရောက်စွက်ဖက်မှုများကို ဖော်ပြထားသော အစီရင်ခံစာတခုကို ဝေလိုက်သဖြင့် ဆိုဗီယက်ယူနီယန်၏ အငြိုးအငြင်ကို ခံခဲ့ရလေသည်။

၁၉၆၀ ပြည့်နှစ် ဇူလိုင်လအတွင်း ဖြစ်ပေါ်ခဲ့သော ကွန်ဂို ပြဿနာနှင့် စပ်လျဉ်း၍ ဆိုဗီယက်ဝန်ကြီးချုပ် မစ္စတာ ကရူးရှက်က ဟမ္မားရှိုးအား အပြင်းအထန် ဝေဖန်ရှုတ်ချခဲ့လေသည်။ ၁၉၆၁ ခုနှစ် ဖေဖွာရီလတွင် ဆိုဗီယက်ယူနီယန်က ကုလသမဂ္ဂ အတွင်းရေးမှူးချုပ်ကြီးအား အသိအမှတ်ပင် မပြုတော့ချေ။

သို့သော် ဟမ္မားရှိုးကား စိတ်ဓာတ်မကျခဲ့ချေ။ ကွန်ဂိုနိုင်ငံ ဗဟိုအစိုးရ ဖွဲ့စည်းရေးအတွက် ဆက်လက်၍ ကြိုးစားဆောင်ရွက်ခဲ့ရာ နောက်ဆုံးတွင် ကတန်ဂါ ပြည်နယ်တခုတည်းက ခွဲထွက်၍ ကျန်ရစ်ခဲ့လေသည်။ ထိုပြည်နယ်ကို ကွန်ဂိုပြည်မကြီးထဲသို့ ပြန်လည်၍သွတ်သွင်းနိုင်ရေးအတွက် ကွန်ဂိုနိုင်ငံသို့ ကိုယ်တိုင်သွားရောက်ပြီးလျှင် ကွန်ဂိုနိုင်ငံ၏ ညီညွတ်ရေး ရရှိရန် ကြိုးစားဆောင်ရွက်ဆဲတွင် ဟမ္မားရှိုး စီးနင်းလိုက်ပါသွားသော လေယာဉ်ပျံသည် ၁၉၆၁ ခုနှစ် စက်တင်ဘာလ ၁၈ ရက်နေ့တွင် အာဖရိကတိုက် မြေပေါ်၌ ပျက်ကျသွားသဖြင့် ကုလသမဂ္ဂ၏ အတွင်းရေးမှူးချုပ်ဖြစ်သူ ဟမ္မားရှိုးသည် ကွယ်လွန် အနိစ္စရောက်သွားရ ရှာလေသည်။

ဟမ္မားရှိုး၏ ကိစ္စမှာ ကတန်ဂါပြည်နယ် သမတချွန်ဗီနှင့် တွေ့ဆုံရန်ဖြစ်၏။ သူ၏ လေယာဉ်ပျံသည် ၁၉၆၁ ခုနှစ် စက်တင်ဘာလ ၁၇ ရက်နေ့ မွန်းလွဲအချိန်တွင် လီယိုပိုဗီးမြို့မှ ထွက်ခွာခဲ့၍ ထိုနေ့ညတွင် အင်ဒိုလာလေဆိပ်၌ ဆင်းသက်ရန် ဖြစ်သည်။ ဟမ္မားရှိုး၏ လေယာဉ်ပျံသည် အကယ်၍သာအင်ဒိုလာလေဆိပ်တွင်ဆင်းသက်ဖြစ်သော် ယခုကဲ့သို့ လေယာဉ်ပျံပျက်ပြီးလျှင် သေကောင်းမှ သေပေလိမ့်မည်။ ယခုမူ ဟမ္မားရှိုးသည် သန်ကောင်ကျော်အချိန်တွင် ထိုလေဆိပ်တွင် ဆင်းသက်ရန် အကြောင်းကြားပြီးမှ လေယာဉ်ပျံကို အခြားတနေရာသို့ ဆက်လက်၍ မောင်းနှင်စေခဲ့ရာ အင်ဒိုလာ လေဆိပ်နှင့် ခုနစ်မိုင်ခွဲခန့် အကွာတွင် လေယာဉ်ပျံသည် လေထဲ၌ ပေါက်ကွဲ၍ ပျက်ကျသွားလေသည်။ လေယာဉ်ပျံ ပျက်ကျရာတွင် ဟမ္မားရှိုးနှင့်အတူ ထိပ်တန်းအကြံပေး အရာရှိကြီးများ အပါအဝင် အခြားအဖွဲ့ဝင် ခုနစ်ဦးနှင့် လေကြောင်းသား ငါးဦးပါ စုစုပေါင်း ၁၄ ဦး သေဆုံးသွားလေသည်။ ဒက် ဟမ္မားရှိုး၏ နေရာတွင် မြန်မာနိုင်ငံမှ ဦးသန့်က ကုလသမဂ္ဂ အတွင်းရေးမှူးချုပ်အဖြစ် ဆက်ခံခဲ့လေသည်။

မစ္စတာဒက် ဟမ္မားရှိုးသည် ကွယ်လွန်ချိန်၌ အသက် ၅၆ နှစ် ရှိ၍ လူပျိုကြီး ဖြစ်လေသည်။ သူ၏ ရုပ်အလောင်းကို သူ၏ ဇာတိနိုင်ငံဖြစ်သော ဆွီဒင်နိုင်ငံသို့ ယူဆောင်ပြီးလျှင် သင်္ဂြိုဟ်လိုက်ကြလေသည်။

**ဟုမ်း, အော်လစ်ဗာ ဝင်းဒဲ** (ခရစ် ၁၈၀၉ – ၁၈၉၄)

။ ။အမေရိကန်စာရေးဆရာကြီး အော်လစ်ဗာဝင်းဒဲ ဟုမ်းသည် ၁၈၀၉ ခုနှစ်တွင် မက်ဆချူးဆက်ပြည်နယ် ကိမ်းဗရစ်မြို့၌ မွေးဖွားလေသည်။ ဟုမ်းသည် စာရေးဆရာအဖြစ်နှင့်သာမက ဆရာဝန်အဖြစ်ဖြင့်၎င်း၊ ကထိကအဖြစ်ဖြင့်၎င်း၊ ကျောင်းဆရာအဖြစ်ဖြင့်၎င်း နာမည်ကျော်ကြားခဲ့လေသည်။ ဟားဗတ် ကောလိပ် ကျောင်းမှ ဒီဂရီရ



အော်လစ်ဗာ ဝင်းဒဲ ဟုမ်း

ပြီးသောအခါတွင် တနှစ်ကြာမျှ ဥပဒေပညာကို သင်ကြားပြီးမှဆေးပညာကိုပြောင်း၍ သင်ကြားလေသည်။ပြင်သစ်နိုင်ငံ ပါရစ်မြို့သို့လည်း သွားရောက်ကာ သုံးနှစ်ကြာမျှ ဆေးပညာကို ဆည်းပူးခဲ့လေသည်။ ထိုနောက် အမေရိကန် ပြည်ထောင်စုသို့ပြန်ကာ ဆေးပညာကို ဆက်၍ သင်ကြားပြန်ရာ ၁၈၃၆ ခုနှစ်တွင် အမ်ဒီဘွဲ့ကို ရရှိလေသည်။ ဟုမ်းသည် ဒါ့တမောက်ကောလိပ်တွင် အနာတမိပညာရပ်များပို့ချသောပါမောက္ခအဖြစ်၎င်း၊ဟားဗတ်ဆေးကျောင်းတွင် အနာတမိပညာဖက်ဆိုင်ရာ အကြီးအမှူး အဖြစ်၎င်း အမှုထမ်းခဲ့ဘူးလေသည်။ ဆေးပညာဖြင့် အသက်မွေးဝမ်းကျောင်းနေရသော်လည်း ဟုမ်းသည် စာရေးဆရာအလုပ်ကိုလည်း လက်မလွှတ်ချေ။

ဟုမ်း၏ နာမည်အကျော်ကြားဆုံးသော စာအုပ်မှာ "ထမင်းစားပွဲဝိုင်းက အရှင်သခင်" ဖြစ်သည်။ ရှေးဦးစွာ မဂ္ဂဇင်းတခုတွင် ဆောင်းပါးတိုများအဖြစ်ဖြင့် ပါရှိရာ လူကြိုက်များခဲ့လေသည်။ ထိုစာအုပ်မှာ ဟာသဉာဏ် ရှင်သော ပညာရှိကြီး၏ စပ်မိစပ်ရာ ပြောဆိုချက်များကို စုဆောင်းထားသည့် စာများဖြစ်သည်။ ထိုစာအုပ်မှာ တွေ့ရာလေးပါး အကြောင်း အမျိုးမျိုး တို့ကို ရေးသားထားသည့်အထဲတွင် စဉ်းစားဖွယ်ရာ ပညာရှိ စကားများ ပါရှိလေ်သည်။ တခါတရံတွင် ကဗျာဆံသော စာသားကလေးများကြားညှပ်ကာ စာဖတ်သူတို့၏စိတ်ကို ကြည်နူးစေလိုက်သေးသည်။

ဟုမ်း၏ စာသားများတွင် ဖြတ်ထိုးဉာဏ်ကောင်းပုံ၊ စဉ်းစားဉာဏ်ရှိပုံ၊ဟာသဉာဏ်ကွန့်မြူးပုံတို့မှာ ထင်ရှားပေါ်လွင်လေသည်။ စာရေးရာတွင် ရယ်ရွှင်ဖွယ်ရာ အခန်းကလေးများပါအောင် ရေးတတ်ပုံမှာ ဟုမ်း၏ ထူးခြားချက်ဖြစ်သည်။ အသက် ၂၁ နှစ်အရွယ်တွင် ဟုမ်းသည် ကဗျာတပုဒ်ကို စ၍ရေးခဲ့၏။ ထိုနောက် ဆေးပညာ နှင့် သက်ဆိုင်သော စာများလည်း ရေးသားခဲ့သေး၏။ စိတ်ပညာရပ်နှင့်ဆိုင်သည့် ပြဿနာအမျိုးမျိုးကို သုံးသပ်ထားသောဝတ္ထုများလည်း ရေးသားခဲ့၏။

ဟုမ်းသည် အခြားဝတ္ထုများအပြင် ဥရောပနိုင်ငံသို့ လှည့်လည်သွားလာသည့် အကြောင်းများကိုလည်း ရေးသားခဲ့လေသည်။ အမေရိကန်စာရေးဆရာကြီး အီမာဆင်၏ အတ္ထုပ္ပတ္တိကိုလည်း ရေးခဲ့သည်။ ဟုမ်းသည် ၁၈၉၄ ခုနှစ် အသက် ၈၅ နှစ်ကျော်တွင် ကွယ်လွန်သွားလေသည်။

**ဟုမ္မလင်းမြို့။** ။ဟုမ္မလင်းမြို့သည် စစ်ကိုင်းတိုင်း၊ ခန္တီးခရိုင်အတွင်း ပါဝင်ခဲ့၍ ချင်းတွင်းမြစ်၏ လက်ဝဲဖက် ကမ်းပေါ်တွင် ကင်းတပ်မြို့မှ မိုင် ၁၃၀ အကွာ၌ တည်ရှိသည်။ မိုးအခါတွင် ချင်းတွင်းမြစ် တလျှောက် မီးသင်္ဘောများသည် ဟုမ္မလင်းအထိ ဆန်တက်နိုင်ပေသည်။ မြစ်လမ်းအားဖြင့် ပခုက္ကူမြို့မှ ၃၉၇ မိုင်ကွာဝေးသည်။ ခန္တီးခရိုင်အတွင်း ပါဝင်ခဲ့သည့် ဟုမ္မလင်းတိုင်းခွဲ၏ ရုံးစိုက်မြို့လည်းဖြစ်ခဲ့သည်။ ယခုအခါ စစ်ကိုင်းတိုင်းအတွင်း၌ ပါဝင်သော ဟုမ္မလင်းမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။

၁၈၉၉ ခုနှစ်တွင် နောင်ပကျစ်ရွာ အပါအဝင် ဟုမ္မလင်းရွာကို မြို့အဖြစ် အစိုးရက သတ်မှတ် ကြေညာခဲ့၏။ ဟုမ္မလင်းဟူသည် ရှမ်းဘာသာ ဝေါဟာရဖြစ်၍ "ညောင်ပိန္နဲ" ဟု အဓိပ္ပာယ်ရလေသည်။

ဟုမ္မလင်းမြို့တွင် မြို့နယ်အုပ်ချုပ်ရေးဆိုင်ရာ အကြီးအကဲများ၏ ရုံးများ၊ မြို့နယ် ပညာရေးမှူးရုံး၊ ကုန်သွယ်ရေးရုံး၊ ပြည်သူ့ရဲတပ်ဖွဲ့ စခန်း၊ သစ်တောရုံး၊ သမဝါယမမြို့နယ်မှူးရုံး၊ လူဝင်မှုကြီးကြပ်ရေးမှူးရုံး စသည်တို့ရှိသည်။

ဟုမ္မလင်းမြို့နယ်၏ လူဦးရေမှာ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေအရ ၉၁,၀၀၀ ဖြစ်၏။

**ဟျူးဂိုး,ဗစ်တာ မာရီ (ခရစ် ၁၈၀၂–၁၈၈၅)။** ။ ပြင်သစ်စာဆိုတော် ဝတ္ထုစာရေးဆရာကြီး ဗစ်တာ မာရီ ဟျူးဂိုးသည် ဥရောပ စာဆိုတို့၏ အလယ်တွင် မားမားမတ်မတ် ရပ်နိုင်ခဲ့သူ ဖြစ်လေသည်။ သူသည် တသက်လုံး



ပြင်သစ် စာပေပညာရှင် ဗစ်တာ မာရီ ဟျူးဂိုး

ကြိုးကြိုးပမ်းပမ်း စာရေးသွား၏။ သူရေးသော စာများမှာ အရေအတွက်အားဖြင့်လည်း များ၏။အဆင့်အတန်းအားဖြင့်လည်း မြင့်၏။ အမျိုးအစား အားဖြင့်လည်း များပြား၏။ ထိုကြောင့် ဤမျှ မြောက်မြားလှသော စာကောင်း ပေကောင်း အမျိုးမျိုးကို ရေးစွမ်းနိုဖ်သူ ဗစ်တာ ဟျူးဂိုးသည် အခြား စာရေးဆရာများနှင့် မယှဉ်သာအောင် ဖြစ်နေတော့၏။

ဟျူးဂိုးသည် ပြင်သစ်နိုင်ငံအရှေ့ပိုင်းရှိ ဗီဆန်ဆွန်မြို့၌ ၁၈၀၂ ခုနှစ် ဖေဖွာရီလ ၂၆ ရက်နေ့တွင် ဖွားမြင်၍ ဣတလီနိုင်ငံ၊ စပိန်နိုင်ငံများသို့ လှည့်လည်ခဲ့ဘူး၏။မဒရစ်မြို့တော်နှင့် ပါရစ်မြို့တော်တို့၌ပညာသင်ကြားခဲ့၍ အသက် ၁၆ နှစ်အရွယ်သို့ ရောက်သောအခါ ဟျူးဂိုး၏ ပညာအရည်အခြင်းကိုကြည့်၍ သူသည် မုချစာရေးဆရာကြီးတဦး ဖြစ်ရမည်ဟု လူတိုင်း အကဲဖြတ်နိုင်၏။ အသက် ၁၇ နှစ်အရွယ်တွင် ကဗျာတပုဒ် ရေးခြင်းဖြင့် ပြင်သစ်နိုင်ငံပညာတံခွန်အသင်းကြီး၏ ဆုကို ဆွတ်ခူး နိုင်ခဲ့လေသည်။ ဟျူးဂိုးသည် ပညာရေး၌သာမက နိုင်ငံရေး ဖက်တွင်လည်း အရေးပါ အရာရောက်သူတဦး ဖြစ်လေသည်။ ၁၈၄၃ ခုနှစ်မှ ၁၈၅၃ ခုနှစ်ထိ ၁၀ နှစ်လောက် အတွင်းတွင် နိုင်ငံရေးကို အတော် လိုက်စား၏။ ၁၈၄၆ ခုနှစ်တွင် ပြင်သစ် ပါလီမန် အထက်လွှတ်တော်၌ ပဋမဦးဆုံးအကြိမ်မိန့်ခွန်းစကားပြောကြားခဲ့၏။ သူသည် ဒီမိုကရက်တစ်ပါတီ၏ ခေါင်းဆောင်တဦး ဖြစ်၍ လူပီ နပိုလီယန် လက်ထက်၌ ပြင်သစ်နိုင်ငံမှ ဗရပ်ဆဲသို့ ထွက်ပြေးခဲ့ရလေသည်။ ထိုမှ ဂျာဆီကျွန်း၊ ဂန်ဇီကျွန်းတို့သို့ သွားရောက် နေထိုင်ခဲ့၏။ ဤသို့ တကျွန်းတမြေ၌ အေးဆေးစွာ နေထိုင်ယင်း သူဝါသနာပါသော စာများကို ရေးသားခဲ့လေသည်။

ဗစ်တာ ဟျူးဂိုး၏ ကဗျာများကို စာဆိုတော်ကြီးတဦးက ဤသို့ ချီးကျူးထားသည်။ "ဗစ်တာဟျူးဂိုး၏ ကဗျာသစ်တပုဒ် ပေါ်လာသည်နှင့် တပြိုင်နက် သူ၏ တေးကဗျာကို ပွဲတင်ခတ်ကြသည်။ သံယောင်လိုက်ကာ တေးချင်းညည်းကြသည်။ သီဆိုကြသည်။ သူ၏ ရွှန်းရွှန်းပသော တေးကဗျာ၊ ချိုအေးသာယာသော တေးကဗျာ၊ နှစ်လိုဖွယ်ကောင်းသော တေးကဗျာသည် တူရိယာသံစုံ တခဲနက် တီးမှုတ်လိုက်ဘိသကဲ့သို့ အသံမျိုးစုံ စီရရီထွက်ကာ လူတို့၏စိတ်ကို ပီတိလွှမ်းမိုးစေနိုင်သည်။"

ဟျူးဂိုးသည် ပြဇာတ်နှင့် ဝတ္ထုများလည်း ရေးသားခဲ့ရာ သူ၏ဝတ္ထုများသည် ပြင်သစ် စာပေနယ်၌သာမက ဥရောပရှိ အခြား စာပေနယ် များ၌ပင် ထင်ရှားကျော်စောလေသည်။ဟျူးဂိုး၏ ကဗျာများမှာ ဘာသာတခုမှ တခုသို့ ပြန်ဆိုရာတွင် ကဗျာ့ အရသာ ပေါ့ပျက်သွားရန် ရှိသဖြင့် စကားပြေစာများကိုသာ ဘာသာပြန်ဆိုကြသည်က များလေသည်။

ဟျူးဂိုး၏ ဝတ္ထုများထဲတွင် အကျော်စောဆုံးမှာ "လာမီဇာရေးဗဲ" (အပယ်ခံများ) နှင့် "နိုထရာဒမ်မှ ခါးကုန်းကြီး" တို့ဖြစ်သည်။ ထိုဝတ္ထုနှစ်ခုစလုံး၌ တဏှာမဖက် စင်ကြယ်သော မေတ္တာသက်သက်နှင့်အနစ်နာခံခြင်း၊ စွန့်စားခြင်းတို့ကို ဂုဏ်တင် ရေးသား ထားလေသည်။ "အပယ်ခံများ" ဝတ္ထု၌ ရာဇဝတ်ပြစ်မှုများအတွက် အဆမတန်ကြီးလေးသည့်အပြစ်ဒဏ်များ ပေးခြင်းမှာ လူတို့ကို ပြုပြင်ရာမရောက် ဆိုးသူကို ပို၍ဆိုးစေသည့် အကြောင်း၊ အကျဉ်းထောင် စံနစ်များကို ပြုပြင်သင့်ကြောင်းတို့ကို ရည်ရွယ်၍ ရေးသားထားလေသည်။ ထိုဝတ္ထုဇာတ်လိုက်မှာ ငတ်နေသော နှမငယ်နှင့် ကလေးများ အတွက် ပေါင်မုန့်ခိုးမိသဖြင့် ထောင်ဒဏ် ၁၉ နှစ်ခံရသည်။ ထောင်မှ လွတ်လာသောအခါ ထောင်ထွက်ဟူ၍ မည်သူကမျှ လက်မခံ၊ ပိုက်ဆံပေး ဝယ်စားချင်၍မျှ ရောင်းမည့်သူမရှိ၊ မောင်းထုတ်ခြင်းကိုသာ ခံရလေသည်။ ထိုအခါ ဘုန်းကြီးတပါးက အစားအစာကျွေးမွေး၍ တညဥ့်အဖို့ လက်ခံထားလေသည်။ လောကကြီးကို စိတ်နာမုန်းတီးနေသော ထောင်ထွက်သည် ကျေးဇူးရှင်ကိုပင် သတ်မည်ဟု ကြံပြီးမှ နောက်ပြန်တုံ့၍ ပစ္စည်းများ ခိုးယူထွက်ပြေးလေသည်။ ပုလိပ်များက လမ်းမှာတွေ့၍ ဖမ်းကာ ဘုန်းတော်ကြီးထံသို့ ခေါ်ဆောင်လာရာ ဘုန်းတော်ကြီးက ထိုပစ္စည်းများကို သူက ပေးလိုက်ကြောင်း ပြောလိုက် သဖြင့် ချမ်းသာခွင့် ရလေသည်။ သူ၏ဘဝတွင် ဤကဲ့သို့ ဆင်းရဲသူတဦးအား သနားညှာတာ ခွင့်လွှတ်လိုက်ခြင်းကို ပဋမ

ဦးစွာ တွေ့ကြုံရသဖြင့် ထိုအချိန်မှစ၍ လူကောင်းဖြစ်ရန် စိတ်ပိုင်းဖြတ်လိုက်လေသည်။ "လောကတွင် ကိုယ်ကသာ အနာခံရမည်" ဟူသော ဆုံးမစကားနှင့် ဘုန်းတော်ကြီးက ငွေဖယောင်းတိုင်ခွက်တစုံကို ပေးလိုက် လေသည်။ ထိုအခါမှစ၍ ထောင်ထွက် ယောကျ်ားသည် နောက်ကြောင်းဖြစ်သော လူဆိုးဘဝကို ဇာတ်မြှုပ်၍ လူကောင်းတဦးအဖြစ်သို့ ရောက်ခဲ့လေသည်။ သနားကြင်နာခြင်း၏ အရသာကို လက်တွေ့ ခံစားခဲ့ရသော ထိုသူသည် မိဖမဲ့ဖြစ်၍ သူတပါးအိမ်၌ ကျွန်ခံနေရသော ကလေးမကလေး တယောက်ကို မွေးစားကာ သမီးရင်းပမာ ချစ်ခင်နေလေသည်။ ထိုကလေးမကလေး အရွယ် ရောက်သောအခါ လူငယ်ပျိုတဦးနှင့် ချစ်ခင်နေကြောင်း သိရသောအခါ မိမိ၏အထီးကျန်ဘဝ၌ တဦးတည်းသောအဖော်ကလေးကို မခွဲနိုင်ပဲ ရှိလေသည်။ သို့သော် "ကိုယ်ကသာအနာခံရမည်" ဟူသော ဩဝါဒအတိုင်း အနူးအညွတ် ခွင့်လွှတ်သည်သာမက ထိုသူငယ်ပျိုအား အဓိကရုဏ်းကြားထဲမှ အသက်စွန့်ကာ ကယ်ယူပေးခဲ့လေသည်။ ထိုဝတ္ထုကြီး၌ ဇာတ်လိုက်ဖြစ်သူ ထောင်ထွက်ယောကျ်ား၊ သူ့အားပြုပြင်ပေးသူ ဘုန်းတော်ကြီးနှင့် ထောင်ထွက်အား အမြဲလိုက်နေသူ ပုလိပ်အရာရှိ၊ ဤသုံးဦး၏ ပတ်ဝန်းကျင်တွင် ဇာတ်အိမ်တည်ထားသည်။ ပုလိပ်အရာရှိမှာလည်း သူ့နေရာနှင့်သူ အလွန်ဆီလျော်သော ဇာတ်ကောင်တဦး ဖြစ်သည်။ "ဥပဒေနှင့်ညီအောင်လုပ်ရမည်" ဟူသော ဝါဒကို ရိုးတွင်းခြင်ဆီအထိ စွဲမြဲပုံကို သရုပ်ဖော်ထားသည်မှာ စာဖတ်သူတို့၏စိတ်ကို ထိခိုက်စေသည်။

ထိုဝတ္ထုတွင် စိတ်ထိခိုက်ဖွယ် အကောင်းဆုံးသော အခန်းမှာ ထောင်ထွက်ယောကျ်ားသည် သူမွေးစားသမီး၏ ချစ်သူကို အဓိကရုဏ်း ထဲမှနေ၍ ပါရစ် မြို့တော်၏ မြေအောက် အညစ်အကြေးရေမျှားသွားရာ လိုဏ်မြောင်းလမ်းကြောင်းအတိုင်း ထမ်းယူကယ်ဆယ်သော အခန်းဖြစ်သည်။ ထိုအခန်းမှာ သူတို့လာရသောခရီး၏ စက်ဆုပ်ရွံရှာဖွယ်ကောင်းပုံကို ဝိဘစ္ဆရသပေါ် အောင်၎င်း၊ ဇာတ်လိုက်၏ အံ့ဩဖွယ်ကောင်းလောက်အောင် ဝီရိယစိုက်ပုံကို အဗ္ဘူတရသပေါ် အောင်၎င်း၊ ချစ်သမီးအတွက် အသက်ကြီးရင့်မှ အသက်စွန့်ရရှာသောဇာတ်လိုက်အားသနားဘွယ်ကောင်းပုံကို ကရုဏာရသပေါ် အောင်၎င်း သရုပ်ဖော်ရေးသားခြင်းမှာ ကြက်သီးမွေးညှင်းထဖွယ် ကောင်းလေသည်။

ဗစ်တာဟျူးဂိုးသည် အံ့ဩဖွယ်ကောင်းသည့် အဖြစ်အပျက်မျိုးကို သနားဖွယ်ကြောက်မက်ဖွယ်နှင့် ရောစပ်ရေးသားရာတွင် သူမတူအောင် ကောင်းမွန်လေသည်။

"နိုဒထရာဒမ်မှ ခါးကုန်းကြီး" ဝတ္ထု၌ နိုဒထရာဒမ် ဘုရားရှိခိုးကျောင်း မြှော်စင်ကြီးပေါ်၌နေသော ရုပ်ရည်ရုပ်ကာယ အလွန် ဆိုးရွားစက်ဆုပ်ဖွယ် ကောင်းသောသတ္တဝါကြီးကို ဇာတ်လိုက်အဖြစ်နှင့် ရေးသားခဲ့သည်။ ထိုသတ္တဝါကြီးသည် ဝတ္ထုဖတ်သူတို့၏ စိတ်တွင် အခြားအခြားသော ဝတ္ထုများ၌တွေ့ရသော ဇာတ်လိုက်များထက်ပင် စွဲလမ်းစိတ်ထိခိုက် စေခဲ့သည်။ ထိုဝတ္ထုတွင် ဇာတ်လိုက်မင်းသမီးကို ကြိုးပေး ကွပ်မျက်မည့်ဆဲဆဲတွင် ခါးကုန်းကြီးက ပွေ့ယူကာ ဘုရားရှိခိုးကျောင်းကြီးခေါင်မိုးပေါ် သို့ "သာသနာ့မြေ…သာသနာ့မြေ" ဟု ဟစ်အော်တက်ပြေးသည့်အခန်းမှာ တအုပ်လုံးတွင် အကောင်းဆုံးသောအခန်းတခု ဖြစ်သည်ဟု ဆိုကြသည်။ ထိုခေတ်က ဘုရင့်အမိန့်သည် သာသနာ့မြေထဲသို့ မလိုက်နိုင်သဖြင့် မင်းသမီးအား သယ်ယူပြေးခြင်း ဖြစ်ရာ ထိုအခန်းမှာ အသည်းထိတ်ဖွယ်ကောင်းလှသည်။

ဗစ်တာဟျူးဂိုးသည် ၁၈၇၀ ပြည့်နှစ်တွင် နိုင်ငံခြားမှ မိမိ၏ဇာတိ ပြင်သစ်နိုင်ငံသို့ ပြန်ရောက်လာကာ လူအများ၏ ချီးမွမ်းခြင်းကို ခံယူရလေသည်။ ယခင်က မထုတ်ရဟု တားမြစ်ပိတ်ပင်ထားသော ပြဇာတ်များကို ထိုအခါမှ တဖန်ပြန်လည်ထုတ်ဝေကာ စင်တင်ကပြရလေသည်။ သူ၏ ကဗျာများကိုလည်း သီချင်းများအဖြစ် တီးမှုတ် သီဆိုကြလေသည်။ ၁၈၈၅ ခုနှစ် မေလ ၂၂ ရက်နေ့တွင် အသက် ၈၃ နှစ်အရွယ်၌ ဗစ်တာဟျူးဂိုး ကွယ်လွန်ရာ ပြင်သစ်နိုင်ငံ၏ ကျော်စောထင်ရှားသော ပုဂ္ဂိုလ်ကြီးများ မြှုပ်နှံရာ သင်းချိုင်း၌ ခမ်းနားကြီးကျယ်စွာ မြှုပ်နှံသင်္ဂြိုဟ်လိုက်ကြလေသည်။

**ဟျူးဂျနိုး။** ။ဟျူးဂျနိုး ဟူသော အမည် သည် ၁၆ ရာစုနှစ်အတွင်းက ပြင်သစ်နိုင်ငံရှိ ပရိုတက်စတန့်ဂိုဏ်းဝင်များကို ခေါ် သောအမည်ဖြစ်သည်။ဟျူးဂျနိုးတို့သည် ဂျွန် ကယ်လဗင်၏ အယူဝါဒဆိုင်ရာ သဘောတရား များကို ယုံကြည်လက်ခံသူများဖြစ်သောကြောင့် ဗရင်ဂျီဂိုဏ်းဝင်တို့နှင့် ယှဉ်ပြိုင်တိုက်ခိုက်မှုများပြင်းထန်စွာဖြစ်ပွားခဲ့ကြလေသည်။ ထိုအချိန်က ပြင်သစ် နိုင်ငံတွင် ဗရင်ဂျီ ဂိုဏ်းဝင်များ ကြီးစိုးလျက်ရှိကြသည်။ အထူးသဖြင့် ပါရစ်မြို့တွင် ဗရင်ဂျီဂိုဏ်းဝင်များ အင်အား ကောင်းလျက်ရှိရာ ဟျူးဂျနိုးတို့ကို စက်မှု လက်မှု လုပ်ငန်း ထွန်းကားသည့် မြို့များ၌နေထိုင်ကြသော လူတန်းစား၌ တွေ့ရသည်။ဟျူးဂျနိုးတို့သည် မိမိတို့၏ယုံကြည်ချက်အတိုင်း လွတ်လပ်စွာ ကိုးကွယ်ခွင့်ကိုမရရှိကြချေ။ ထိုကြောင့် အချင်းချင်းသွေးစည်း၍လွတ်လပ်စွာကိုးကွယ်ခွင့်ကို မရ ရအောင် ကြိုးပမ်းရာမှ နိုင်ငံရေး အဖွဲ့အစည်းအဖြစ်သို့ ရောက်ရှိခဲ့ကြသည်။

ဒုတိယ ဟင်နရီဘုရင် (၁၅၄၇–၁၅၅၉) လက်ထက်တွင် ဟျူးဂျနိုးတို့သည် အင်အား ကြီးမား လာသဖြင့်

ဗရင်ဂျီဂိုဏ်းဝင်တို့က ထိတ်လန့်လာကြသည်။ ထိုကဲ့သို့ အင်အားကောင်းလာသည်နှင့်အမျှ ဗရင်ဂျီဂိုဏ်းဝင်တို့ ကြီးစိုးသော အစိုးရကလည်း ဟျူးဂျနိုးတို့ကို တိုး၍ နှိပ်ကွပ်ခဲ့လေသည်။ ဒုတိယ ဖရန့်စစ်ဘုရင် လက်ထက် ၌ မူကား ဟျူးဂျနိုးတို့သည် နိုင်ငံရေးရာဖက်တွင် သြဇာ တိုးတက်လာသည်။ နာဗားဘုရင် အန်ထော်နီ၊ ကွန်ဒေး မင်းသား လူဝီ၊ရေကြောင်းဗိုလ်ချုပ် ကိုလေးညီ အစရှိသော ပုဂ္ဂိုလ်ကြီးတို့သည် ဟျူးဂျနိုးဂိုဏ်းဝင်များ ဖြစ်ကြသည်။ ဗရင်ဂျီဂိုဏ်းဝင်တို့၏ ခေါင်းဆောင်မှာ ဂူအက် နယ်စား ဖြစ်သည်။ ထိုသို့ဖြင့် ဗရင်ဂျီဂိုဏ်းဝင်များနှင့် ဟျူးဂျနိုးတို့သည် စောင်မာန်တင်းလျက်ရှိကြရာ တခါသော် ကျီတခုထဲ၌ ဘုရားဝတ်ပြုရန် စုဝေးရောက်ရှိနေသော ဟျူးဂျနိုးတို့ကို ဂူအက်နယ်စားနှင့် နောက်ပါ တို့က တိုက်ခိုက်ကြလေသည်။ ထိုအချိန်မှအစပြု၍ ပြည်တွင်းစစ် ဆက်လက်ဖြစ်ပွားခဲ့သည်မှာ ၁၅၆၀ ပြည့်နှစ်မှ ၁၅၉၈ ခုနှစ် အထိ ကြာရှည်သည်။ တတိယ ပြည်တွင်းစစ်ပွဲ ပြီးသည့် နောက် ၁၅၇၂ ခုနှစ် ဩဂုတ်လ ၂၄ ရက် စိန့်ဗာသောလမျူး နေ့ကြီးတွင် ဗရင်ဂျီ ဂိုဏ်းဝင်တို့က ဟျူးဂျနိုးတို့ကို ရက်စက်စွာ သတ်ဖြတ်ခဲ့ကြသည်။ ထိုလူသတ်ပွဲကြီးတွင် ဟျူးဂျနိုးမြောက်မြားစွာ အသက်ဆုံးရှုံးခဲ့လေသည်။

၁၅၉၈ ခုနှစ်တွင် ပြည်တွင်းစစ်ပွဲများ ပြီးဆုံးသည်။ စတုတ္ထဟင်နရီဘုရင်(၁၅၇၉–၁၆၁၀)သည် ယခင်က ဟျူးဂျနိုးတို့၏ ခေါင်းဆောင်ဖြစ်ခဲ့ဘူးသော်လည်း ရောမကက်သလစ် (ဗရင်ဂျီ)ဂိုဏ်းသို့ ကူးပြောင်းခဲ့သည်။ သို့ရာတွင် ၁၅၉၈ ခုနှစ်၌ နန့်အမိန့်ပြန်တမ်းကို ထုတ်ပြန်၍ ဟျူးဂျနိုးတို့အား လွတ်လပ်စွာ ကိုးကွယ်ခွင့်နှင့် နိုင်ငံရေး ဆိုင်ရာ အခွင့်အရေးတို့ကို ပေးခဲ့လေသည်။

တဆဲ့သုံးဆက်မြောက် လူဝီဘုရင်လက်ထက်သို့ ရောက်သောအခါ ဟျူးဂျနိုးတို့သည် အယူဝါဒကို ဗန်းပြကာ နိုင်ငံရေးအာဏာရရန် ကြိုးစားလာကြသဖြင့် ဝန်ကြီးချုပ်ကာဒင်နယ် ရစ်ရှလျူးက ယင်းတို့၏ခံတပ်မြို့များကို တိုက်ခိုက်သိမ်းယူခဲ့သည်။(ရစ်ရှလျူး,ကာဒင်နယ်—လည်းရှု။) ထိုသို့အားဖြင့် ဟျူးဂျနိုးတို့သည် နိုင်ငံရေးဆိုင်ရာ အခွင့်အရေးများကို လက်လွတ် ခဲ့ရသော်လည်း လွတ်လပ်စွာ ကိုးကွယ်မှုကို ဆက်၍ရရှိခဲ့ကြသည်။ သို့ရာတွင် ၁၆၈၅ ခုနှစ်၌ ၁၄ ဆက်မြောက် လူဝီဘုရင်က နန့်အမိန့်ပြန်တမ်းကို ရုပ်သိမ်းလိုက်သဖြင့် ဟျူးဂျနိုးတို့သည် ဥပဒေအရ ခံစားခဲ့ရသော အခွင့်အရေးအားလုံး ဆုံးရှုံးခဲ့လေသည်။ ထိုကြောင့် ပြင်သစ်နိုင်ငံတွင် မနေနိုင်သဖြင့် နိုင်ငံခြားသို့ ထွက်ပြေး ကြရလေသည်။ ထွက်ပြေး ကြသူများ ထဲတွင် လက်မှုပညာသည် အမြောက်အမြားပါရှိရာ ဟျူးဂျနိုးတို့ သွားရောက်နေထိုင်ရာဖြစ်သော အင်္ဂလန်၊ ဂျာမနီ၊ ဟော်လန်၊ အမေရိကတိုက်စသော နိုင်ငံများ၌ ပြင်သစ် လက်မှုပညာရပ်တို့ ထွန်းကားလာကြလေသည်။

**ဟွတ်,ရောဗတ်** (ခရစ် ၁၆၃၅–၁၇၀၃)။ ။ရောဗတ် ဟွတ်သည် ၁၆၃၅ ခုနှစ် ဇူလိုင်လ ၈ ရက်နေ့တွင် အင်္ဂလန်ကျွန်း၏ တောင်ဖက်ကမ်းခြေအလွန်တွင်ရှိသော ဝိုက်ကျွန်းရှိ ဖရက်ရှဝါတားမြို့၌ ဖွားမြင်သည်။သူသည်အောက်စဖို့ရှိ ဝက်စမင်စတာနှင့် ခရိုက်စချပ်တို့တွင် ပညာသင်ကြားခဲ့သည်။ သူသည် ဒဿနိကဗေဒ ပညာရှင် ဖြစ်သည့်အပြင် လက်တွေ့ ဆောင်ရွက်သော သိပ္ပံပညာရှင်တဦးလည်း ဖြစ်သည်။ ဆာ အိုင်ဇပ် နျူတန်ခေါ် သိပ္ပံပညာရှင်ကြီးတဦးနှင့် တခေတ်တည်း ပေါ်ပေါက်ခဲ့သူ ဖြစ်ပြီးလျှင် နျူတန်နှင့် မကြာခဏ အငြင်းပွားခဲ့သူလည်း ဖြစ်သည်။ (နျူတန်,ဆာအိုင်ဇပ် — လည်းရှု။) ၁၆၆၅ ခုနှစ်တွင် ဂရက်ရှမ်ကောလိပ်ကျောင်းတွင် ဂျီဩမေတြီ ဘာသာရပ်အတွက် ပါမောက္ခအဖြစ်ဆောင်ရွက်လေသည်။ အကယ်၍ သာဟွတ်သည် စိတ်ရှည်ရှည်ထားနိုင်မည်ဆိုလျှင် သိပ္ပံပညာရပ်အဖို့ နျူတန်ကဲ့သို့ပင် အသုံးဝင်သူ ဖြစ်လာနိုင်ပေမည်။

တော်ဝင်အသင်းကို စတင် တည်ထောင်သူများတွင် ဟွတ်လည်း အပါအဝင် ဖြစ်သည်။ ခပ်ငယ်ငယ် ကပင် ဟွတ်သည် လက်တွေ့စမ်းသပ်သောအဖွဲ့တွင် ခေါင်းဆောင်အဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ဂျီဩမေတြီ ဘာသာရပ်အတွက် ပါမောက္ခအဖြစ် ခန့်အပ်ခြင်းခံရသောနှစ်၌ပင် ရုက္ခဗေဒနှင့်ဆိုင်သော သူ၏ "မိုက္ကရိုဂရပ်ဖီးယား" ခေါ် စာစောင်ကို ထုတ်ဝေနိုင်ခဲ့သည်။ ထိုစာစောင်တွင် လှပ၍ တိကျသော တိရစ္ဆာန်ပုံများနှင့် ဟင်းသီးဟင်းရွက်များ တည်ဆောက်ဖွဲ့စည်းထားပုံများကို တွေ့နိုင်လေသည်။

ဗြိတိန်နိုင်ငံ လန်ဒန်မြို့တွင် မီးကြီးလောင်ပြီးသော အခါတွင် ဟွတ်က လန်ဒန်မြို့၌ အိမ်များ မည်ကဲ့သို့ တည်ဆောက်သင့်ပုံကို နမူနာရေးဆွဲ၍ပြသရာ မြေတိုင်း အရာရှိအဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ဗက်သလီဟမ် ဆေးရုံအသစ်နှင့် မွန်တေဂူ အဆောက် အအုံများအတွက် ပုံစံများကိုလည်း သူပင်ရေးဆွဲပေးခဲ့သည်။

ရှန်းကန်သတ္တိနှင့်ဆိုင်သော သီအိုရီကိုလည်း ဟွတ်သည် ရှင်းလင်းဖော်ပြခဲ့သည်။ ဟွတ်သည် ပဋ္ဌမဂရီဂေါ်ရီယန် အဝေးကြည့်မှန်ပြောင်းကိုလည်း ပြုလုပ်ခဲ့သေးသည်။ သံလိုက်ဓာတ်၊ လေ၏ဖိအားနှင့် နာရီများကို အချိန်မှန်စေသည့်နည်းများကိုပါ စမ်းသပ်ပြုလုပ်ခဲ့လေသည်။ ထိုစမ်းသပ်ချက်များသည် အရေးကြီးသော်လည်း လူသိမများချေ။ နာရီကလေးများကို အချိန်မှန်စေရန် ပြုလုပ်ရာတွင် ခရုပတ်စပရင်ကို စတင်၍ အသုံးပြုခဲ့သူမှာလည်း ဟွတ်ပင်ဖြစ်လေသည်။

၁၆၇၁ ခုနှစ်တွင် ဟွတ်သည် နျူတန်၏ အရောင်များနှင့် စပ်လျဉ်းသော သီအိုရီကို ဝေဖန်ခဲ့သည်။ ထိုသို့ဝေဖန်သဖြင့် သူသည် နာမည်ကျော်ကြားသူများကို မနာလို၍ တကြောင်း၊ သူတို့ကဲ့သို့ ထင်ပေါ်လိုသဖြင့်တကြောင်း ဝေဖန်ခြင်း ဖြစ်သည်ဟူ၍ အစွပ်စွဲပင် ခံခဲ့ရလေသည်။ သို့သော် ထိုသို့ဖြစ်ရသည်မှာ သူ၏ကျန်းမာရေးချို့တဲ့မှုနှင့် မနားတမ်း သုတေသနပြုမှုတို့ကြောင့် စိတ်ထိခိုက်လာ၍ ဖြစ်ရကြောင်းကို သူ၏နေ့စဉ်မှတ်တမ်း (ရော်ဗင်ဆန်နှင့် အက်ဒမ်တို့က ၁၉၃၅ခုနှစ်တွင် တည်းဖြတ်ထုတ်ဝေသည်။) ကို ဖတ်ရသောအခါတွင်မှ အကြောင်းမှန်ကို သိကြရလေသည်။ ၁၆၇၇ ခုနှစ်တွင် တော်ဝင်အသင်း၏ အမြဲတမ်း အတွင်းရေးမှူး ဖြစ်ခဲ့လေသည်။

ရောဗတ်ဟုဘ်သည် ၁၇၀၃ ခုနှစ် မတ်လ ၃ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဟွန်ဒူးရပ်၊ ဗြိတိသျှ။** ။ဗြိတိသျှ ဟွန်ဒူးရပ်နယ်သည် အမေရိကတိုက် အလယ်ပိုင်းတွင် တည်ရှိသော ဗြိတိသျှပိုင် ကိုလိုနီနယ်ဖြစ်သည်။ ယခင်က ဗဲလဇ္ဇဟု အမည်တွင်သည်။ မြောက်ဖက်တွင် မက္ကဆီကိုနိုင်ငံ၊ အနောက်ဖက်နှင့်တောင်ဖက်တွင် ဂွာတီမားလနိုင်ငံ၊ အရှေ့ဖက်တွင် ကယ်ရစ်ဗျန်ပင်လယ်တို့အသီးအသီး တည်ရှိကြသည်။ ၈,၈၆၇ စတုရန်းမိုင် ကျယ်ဝန်း၍၊ လူဦးရေ ၁၃၀,၀၀၀ ခန့် (၁၉၇၂) ရှိသည်။

ဗြိတိသျှဟွန်ဒူးရပ်နယ် ပင်လယ်ကမ်းခြေမြေနိမ့်ပိုင်းဒေသသည် စိမ့်ဝှမ်းရပ်ဖြစ်၍၊ အနောက်ပိုင်းနှင့်တောင်ပိုင်းတွင် တောင်များရှိသည်။ ကုန်းမြင့်ပိုင်းရှိသစ်တောများမှ မဟောဂနီ၊ ဆီဒါနှင့် အခြားအဖိုးတန်သစ်များထွက်သည်။ ထင်ရှားသော ထွက်ကုန်များမှာ ငှက်ပျော၊ ကြံ၊ ရှောက်မျိုးဝင်သီးနှံများ ဖြစ်သည်။ အဓိက ထုတ်ကုန်များမှာ သကြား၊ ရှောက်မျိုးဝင်သီးနှံများ၊ မဟောဂနီနှင့် အခြားသစ်မာများ၊ ပုဇွန်နှင့်ငါးတို့ ဖြစ်၏။ ရာသီဥတုမှာ များသောအားဖြင့် ပူပြင်းစိုစွတ်သည်။ ဗဲလမိုပန်မြို့သည် မြို့တော်ဖြစ်သည်။ ၁၉၇၀ ပြည့်နှစ် ခန့်မှန်းခြေအရ လူဦးရေ ၃,၀၀၀ ခန့် နေထိုင်လျက်ရှိ၏။ ယခင်က မြို့တော်ဖြစ်ခဲ့သော ဗဲလဇ္ဇမြို့သည် အကြီးဆုံးမြို့ ဖြစ်၍ ၁၉၇၀ ပြည့်နှစ် ခန့်မှန်းခြေအရ လူဦးရေ ၃၇,၀၀၀ နေထိုင်လျက်ရှိသည်။

တဆဲ့ခုနှစ်ရာစုနှစ်အတွင်းက ဂျမေးကားကျွန်းမှ သစ်ခုတ်သမားများသည် ဗြိတိသျှဟွန်ဒူးရပ်သို့ လာရောက်၍ အခြေစိုက် နေထိုင်ခဲ့ကြသည်။ ၁၈၆၂ ခုနှစ်တွင် ဗြိတိသျှအစိုးရက ထိုနယ်ကို ဂျမေးကားကျွန်း အုပ်ချုပ်ရေးအောက်၌ထားရှိခဲ့သည်။ ၁၈၈၄ ခုနှစ်တွင် သီးခြား ကိုလိုနီနယ်ဖြစ်လာသည်။ ထိုနောက် ၁၉၅၄ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံစည်းမျဉ်းသစ်အရ လူထုက ဥပဒေပြုလွှတ်တော်အတွက် ကိုယ်စားလှယ်များကို ရွေးကောက်တင်မြှောက်ခွင့်ရရှိခဲ့လေသည်။ ၁၉၆၄ ခုနှစ်တွင် ပြည်တွင်းအုပ်ချုပ်ခွင့်ကို ရရှိခဲ့သည်။ ယခုအခါ ဗဲလဇ္ဇဟု ခေါ်တွင်လေသည်။

**ဟွန်ဒူးရပ်နိုင်ငံ။** ။ဟွန်ဒူးရပ် နိုင်ငံသည် အမေရိကတိုက် အလယ်ပိုင်းရှိ လွတ်လပ်သော နိုင်ငံတခု ဖြစ်သည်။ မူလက အမေရိကတိုက် အလယ်ပိုင်း ပြည်နယ်များ အဖွဲ့တွင် ပါဝင်ခဲ့၍ ၁၈၃၈ ခုနှစ်တွင် လွတ်လပ်သော သမတနိုင်ငံအဖြစ်သို့ ရောက်ရှိခဲ့သည်။ မြောက်ဖက်တွင် ကယ်ရစ်ဗျန် ပင်လယ်၊ တောင်ဖက်တွင် နစ်ကရားဂွါ နိုင်ငံနှင့် အယ်ဆယ်လဗာဒေါ်နိုင်ငံ၊ အနောက်ဖက်တွင် ဂွာတီမားလ နိုင်ငံတို့ အသီးအသီး တည်ရှိကြသည်။ ယင်းနိုင်ငံသည် ၄၃,၂၇၇ စတုရန်းမိုင် ကျယ်ဝန်း၍ လူဦးရေ ၂,၆၉၀,၀၀၀ ခန့် (၁၉၇၂)ရှိသည်။

ဟွန်ဒူးရပ် နိုင်ငံသည် များသောအားဖြင့် တောတောင် ထူထပ်၍ လမ်းပန်းဆက်သွယ်ရေးမကောင်းချေ။ မြောက်ဖက် ပင်လယ်ကမ်းရိုးတန်း တလျှောက် မြေနိမ့်လွင်ပြင်ပိုင်းတွင် ရာသီဥတုမှာ ပူပြင်းစိုစွတ်သည်။ မေလမှ နိုဝင်ဘာလအထိသည် မိုးရာသီ ဖြစ်၏။ အတွင်းဖက်ကျသော ကုန်းမြင့်ပိုင်း၌မူကား ရာသီဥတုသင့်ဘင့်ချတသည်။ အချို့သော ဘောင်ဆိပ်များသည် ပေ ၁၀,၀၅၀ အထိ မြင့်သည်။ သို့ရာတွင် မီးတောင်များ မရှိချေ။ မြောက်ဖက် မြေနိမ့်ပိုင်းတွင် မြစ်များ ချောင်းများ ရှိသည်။

ဟွန်ဒူးရပ်နိုင်ငံမှ အဓိကထွက်ကုန်မှာ ငှက်ပျောသီး ဖြစ်သည်။ မြောက်ဖက် ကယ်ရစ်ဗျန်ကမ်းခြေ မြေနိမ့်ပိုင်းတွင် ငှက်ပျောပင်ကို အကြီးအကျယ် စိုက်ပျိုးသည်။ ပြောင်း၊ ပဲ၊ ကြံ၊ အုန်းပင်၊ ဆေးပင်နှင့် ကာဖီပင် တို့ကိုလည်း စိုက်ပျိုးသည်။ ကုန်းမြင့်ပိုင်းတွင် နွားနှင့် ဝက်ကို မွေးမြူကြသည်။ ရွှေ၊ ငွေ၊ ကြေးနီ၊ သံ၊ ခနောက်စိမ်း၊ သွပ်၊ ကျောက်မီးသွေးစသော တွင်းထွက် ပစ္စည်း များကို တူးဖော် ရရှိသည်။ သစ်တောများမှ မဟောဂနီ၊ ဆီဒါ၊ ထင်းရှူးနှင့် အခြားအဖိုးတန် သစ်များထွက်သည်။ ဟွန်ဒူးရပ် နိုင်ငံသည် ထိုကဲ့သို့ သဘာဝပစ္စည်း အားကောင်းသော်လည်း စက်မှုလုပ်ငန်းဖက်၌ မတိုးတက်လှသေးသဖြင့် ချဲ့ထွင် လုပ်ကိုင်နိုင်ခြင်း မရှိသေးချေ။

ဟွန်ဒူးရပ်နိုင်ငံတွင် မီးရထားလမ်း မိုင်ပေါင်း ၇၀၀ ကျော်မျှသာရှိ၍၊ မော်တော်ကားလမ်း ၁,၂၃၈ မိုင်ခန့် ရှိသည်။ ငှက်ပျောပင် စိုက်သော မြောက်ဖက် ကမ်းခြေအရပ်၌သာ မီးရထားလမ်းရှိသည်။ ပစိဖိတ် သမုဒ္ဒရာဖက်သို့ရင်း၊ မြို့တော်ဖြစ်သော တဲဂူးစီဂယ်လပါ မြို့သို့ရင်း မီးရထားလမ်း မပေါက်ချေ။ ထိုကြောင့် နိုင်ငံတွင်း၌ တနေ




ဟွန်ဒူးရပ်နိုင်ငံ တည်နေရာပြမြေပုံ

ရာမှ တနေရာသို့ လေကြောင်းခရီးဖြင့် အလွယ်တကူ ကူးသန်း သွားလာကြရလေသည်။

၁၅၀၂ ခုနှစ်တွင် ကိုလံဗပ်သည် ဟွန်ဒူးရပ်သို့ စတင်ရောက်ရှိသွားခဲ့သည်။ ဟွန်ဒူးရပ်သည် ထိုအချိန်မတိုင်မီ ရှေးရာစုနှစ်ပေါင်းများစွာက မာယာယဉ်ကျေးမှု ဗဟိုဌာနတခုဖြစ်ခဲ့သည်။ ၁၅၂၄ ခုနှစ်မှ ၁၈၂၁ ခုနှစ် အထိ စပိန်အစိုးရ၏ ကိုလိုနီနယ်အဖြစ် တည်ရှိခဲ့သည်။၁၈၂၁ ခုနှစ်တွင် စပိန်လက်အောက်မှ လွတ်မြောက်ခဲ့ပြီးနောက် အခြားသော အမေရိက အလယ်ပိုင်းတိုင်းပြည်လေးခုနှင့် အတူ မက္ကဆီကိုနိုင်ငံတွင်း သွတ်သွင်းခြင်းခံရလေသည်။ သို့သော် ၁၈၂၅ ခုနှစ်တွင်ဟွန်ဒူးရပ်သည် မက္ကဆီကိုနိုင်ငံမှခွဲထွက်လာခဲ့ပြီးနောက် အမေရိကအလယ်ပိုင်းပြည်ထောင်စုတွင် ပါဝင်ခဲ့သည်။ ၁၈၃၈ ခုနှစ်တွင် အမေရိက အလယ်ပိုင်း ပြည်ထောင်စုမှ ခွဲထွက်ခဲ့၍ လွတ်လပ်သောနိုင်ငံဖြစ်လာခဲ့သော်လည်း ပြည်တွင်းပြည်ပစစ်ပွဲများ၊ တော်လှန်ပုန်ကန်မှုများ မကြာခဏ ဖြစ်ပွားခဲ့လေသည်။

၁၉၆၅ ခုနှစ်တွင် အသစ်ပြဋ္ဌာန်းလိုက်သော ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရ နိုင်ငံတော်သမတကို ပြည်သူလူထုကခြောက်နှစ်တကြိမ် ရွေးကောက်တင်မြှောက်သည်။ ဥပဒေပြုလွှတ်တော် တခုတည်းရှိ၍ ပြည်သူ့ကိုယ်စားလှယ် အမတ် ၆၄ ဦးပါဝင်သည်။ ယင်းတို့ကိုလည်း ခြောက်နှစ်တကြိမ်ကျ ရွေးကောက်ရသည်။

ဟွန်ဒူးရပ် နိုင်ငံသား တို့သည် များသော အားဖြင့် စပိန်လူမျိုးနှင့် တိုင်းရင်းသား အင်ဒီးယန်း လူမျိုးတို့၏ အဆက်အနွယ်များ ဖြစ်ကြသည်။ မြောက်ဖက် ကမ်းခြေပိုင်းတွင် ကာပွလီလူမျိုးများလည်း နေထိုင်သည်။ ဟွန်ဒူးရပ် နိုင်ငံသားတို့သည် များသောအားဖြင့် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြသည်။ စာသင်ကျောင်းများတွင် အခမဲ့ပညာသင်ကြားခွင့်ရှိ၍ အသက် ခုနစ်နှစ်မှ ၁၅ နှစ် အရွယ်အထိ ပညာမသင်မနေရဟူ၍ ပြဋ္ဌာန်းထားသည်။ တဲဂူးစီဂယ်လပါမြို့တော်တွင် အမျိုးသားတက္ကသိုလ်ကျောင်းရှိသည်။ ရုံးသုံးဘာသာစကားမှာ စပိန်ဘာသာစကား ဖြစ်သည်။

ဟွန်ဒူးရပ်နိုင်ငံ၏ မြို့တော် တဲဂူးစီဂယ်လပါမြို့တွင် လူဦးရေ ၂၃၂,၂၇၆ ယောက် (၁၉၇၂) ရှိသည်။

ဟွန်ဒူးရပ်နိုင်ငံသည် ကုလသမဂ္ဂ အဖွဲ့ဝင်လည်းဖြစ်၍ အမေရိကန်နိုင်ငံများ အဖွဲ့ဝင်လည်းဖြစ်သည်။



မြန်မာဗျည်း ၃၃ လုံးတွင် ဠ သည် ၃၂ ခုမြောက် အက္ခရာဖြစ်သည်။ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ ဟူသော အဝဂ်တွင် ပါဝင်၍ ဠ အသံ၏ဖြစ်ရာဌာနမှာ မုဒ္ဓဌာန် လျှာထိပ်အရပ်ဖြစ်သည်။ အက္ခရာ၏အရွယ်ကိုလိုက်၍ ဠကြီးဟု အမည်တွင်သည်။ လ ဟူသော အက္ခရာလည်း ရှိသေးရာ အကြီးအငယ်ခွဲခြားလို၍ ဠကြီးဟု ခေါ်တွင်ခြင်း ဖြစ်၏။ က၊ ဃ၊ ဏ၊ ဠ ဟူသော ကြီးလေးကြီးတွင် ပါဝင်သည်။ ဠ အရေးအသား၏ မူလမှာ ကုသနအက္ခရာ ဖြစ်သည်။ ကုသန မှ ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဠ ဟု ရေးသားသည်ကို တွေ့ရသည်။ ကုသန မှ တဆင့် ပြောင်းလဲလာသော ကဒံဗ တွင် ထိပ်မှ အတွန့်တက်နေသော မျဉ်းကိုဖြုတ်၍ ရေးသည်တွင် မြန်မာအက္ခရာ ဠ ဖြစ်ပေါ်လာလေသည်။ ဠ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။



မြန်မာဗျည်း ၃၃ လုံးတွင် အ သည် ၃၃ ခုမြောက် နောက်ဆုံးအက္ခရာ ဖြစ်သည်။ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ ဟုသော အဝဂ်တွင်ပါဝင်၍ အ အသံ၏ ဖြစ်ရာဌာနမှာ ကဏ္ဍဌာန် လည်ချောင်းအရပ်ဖြစ်သည်။ အ ကို အ ဟူ၍ပင် အသံထွက်သည်။ အ အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီအက္ခရာ မှ မြန်မာအက္ခရာ အ သို့ အဆင့်ဆင့် ပြောင်းလဲလာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ ပြထားသည်။

**အကရေ့ပလစ်**။ ။ရှေးခေတ်ဂရိမြို့များတွင် ဂရိတို့သည် အမြင့်ဆုံးသောကုန်းထိပ်ပိုင်းကို ခံတပ်အဖြစ်ဖြင့် အသုံးပြုကြ၏။ ထိုကုန်းထိပ်ပိုင်းကို ဂရိဘာသာဖြင့် "အကရေ့ပလစ်"ဟု ခေါ်သည်။ အကရေ့ပလစ်ကုန်းထိပ်ပိုင်းသည် ပတ်ဝန်းကျင်ကိုစီး၍ မြင်နိုင်သော နေရာများဖြစ်ကြ၍ ခံတပ်အတွက် အထူးကောင်းမွန်ကြသဖြင့် ရှေးဂရိတို့သည် အကရေ့ပလစ်တို့ကို ဗဟိုပြုကာ မြို့တည်လေ့ရှိကြသည်။ ဤသို့ဖြင့်ရှေးနှစ်ပေါင်း ၂,၄၀၀ကျော်ခန့်က ထင်ရှားခဲ့ကြသော ကော်ရင့်၊ အားဂိုး၊ သီးဗီး၊ အက်သင်းစသည့် ဂရိမြို့များတွင် အကရေ့ပလစ်ခေါ် ကုန်းထိပ်ပိုင်းများကို တွေ့ရှိရသည်။ ယင်းတို့အနက် အက်သင်းမြို့ရှိ အကရေ့ပလစ်မှာ ခမ်းနားထင်ရှားဆုံး ဖြစ်လေသည်။

အက်သင်းမြို့ရှိ အကရေ့ပလစ်သည် ကျောက်တောင်ကြီးဖြစ်၍ မြို့အထက် ပေ ၂၆၀ ခန့်မြင့်သည်။ အ



အကရော့ပလစ်ပေါ်ရှိ ပါးသိနွန်ခေါ် ကျောက်ဖြူတန်ဆောင်း

လျားပေ ၁,၀၀၀၊ အနံပေ ၄၆၀ ရှိ၍ အကျယ်အဝန်းမှာ ရှစ်ဧကနီးပါးမျှရှိသည်။ ရှေးအထက်ကျော် ကာရီကပင် ဂရိတို့သည် ထိုအကရော့ပလစ်ပေါ်၌ ကျောက်ဖြူတန်ဆောင်းကြီးများကို တည်ဆောက်ခဲ့ကြ၏။ ဘီစီ ၄၈၀ ပြည့်နှစ်တွင် ပါးရှင်းလူမျိုးတို့သည် ဂရိနိုင်ငံသို့ ဝင်ရောက်တိုက်ခိုက်ကာ အက်သင်းမြို့ အကရော့ပလစ်ပေါ်၌ရှိသော အဆောက်အအုံများကို ဖျက်ဆီးပစ်လိုက်ကြသည်။ ဂရိ–ပါးရှားစစ်ပွဲအပြီးတွင် သီးမစ္စတိုကလီးသည် အပျက်အစီးများကို ရှင်းလင်းပြင်ဆင်ခဲ့၏။ ပဲရီးကလီးလက်ထက်သို့ ရောက်လာသောအခါ ပဲရီးကလီးသည် ဘီစီ ၄၄၇ ခုနှစ်တွင် အကရော့ပလစ်ကို ပြန်လည်ပြုပြင်မွမ်းမံစေရန် ဂရိရုပ်လုံးထုဆရာကြီး ဖီးဒီးအက်အား တာဝန်လွှဲအပ်ခဲ့လေသည်။ (ပဲရီးကလီး။ ဖီးဒီးအက်—လည်းရှု။)

အကရော့ပလစ် တောင်ထိပ်၌ တည်ဆောက်ထားသော အဆောက်အအုံကြီးများမှာ ဗိသုကာအတတ်တွင် စံထားလောက်အောင်ပင် ခန့်ညားကောင်းမွန်ကြပေသည်။ ယင်းတို့အနက် ထင်ရှားသည်တို့ကား ပါးသိနွန်၊ အာရက်သီးအမ်း၊ နိုင်းကီးအက်ပတာရာ့နှင့် ပရော့ပီလီးအားတို့ဖြစ်ကြ၏။

ပါးသိနွန်တန်ဆောင်းကြီးသည် အလျား ၂၂၈ ပေ၊ အနံ ၁၀၁ ပေ၊ အမြင့် ၆၅ ပေရှိ၍ ဘီစီ ၄၃၈ ခုနှစ်တွင် ဆောက်လုပ်ပြီးစီးခဲ့၏။ ထိုတန်ဆောင်းကြီးမှာ အချိုးအစား ကျနကောင်းမွန်သည့်ပြင် ရှေးဂရိတို့၏ လက်ရာအကောင်းဆုံးသော ရုပ်လုံးရုပ်တုများကြောင့် ထင်ရှားကျော်ကြားလှပေသည်။ ဂရိရုပ်လုံးထုအကျော် ဖီးဒီးအက်ထုလုပ်ထားသော ဆင်စွယ်နှင့် ရွှေတို့ဖြင့်ပြီးသည့် "အသီးနား" နတ်သမီးရုပ်တုကြီးလည်း ထိုတန်ဆောင်းကြီးအတွင်း၌ရှိ၏။ တန်ဆောင်းကြီး၏ နဖူးစည်းများတွင် ဂရိနတ်ရုပ်များ၊ ဂရိတို့တွေ့ကြုံခဲ့သော အဖြစ်အပျက်များကို ရုပ်လုံးထုကာ တန်ဆာဆင်ထားလေသည်။ တန်ဆောင်းတိုင်လုံးကြီးများသည်လည်း စီကာစဉ်ကာ အတန်းအတန်းဖြင့် ဖွေးဖြောင့်နေကြသည်။

အာရက်သီးအမ်း တန်ဆောင်းကြီးမှာ ပါးသိနွန်တန်ဆောင်းကြီး၏ မြောက်ဖက်တွင်ရှိ၍ လှပသောအဆောက်အအုံတခုပင်ဖြစ်သည်။ ထိုတန်ဆောင်းကြီးသည် အလျား ၆၇ ပေ၊ အနံ ၃၇ ပေရှိ၍ ဘီစီ ၄၂၁–၄၀၇ ခုနှစ်များအတွင်း ဆောက်လုပ်ပြီးခဲ့၏။ ထိုအဆောက်အအုံတွင် ထင်ရှားသော အစိတ်အပိုင်းမှာ "အပျိုတော်စမုတ်" ဖြစ်သည်။ အကရော့ပလစ်တောင်ထိပ်ပေါ်မှနေ၍ အက်သင်းမြို့ကြီးကိုကြည့်ကာ စောင့်ရှောက်ပေးနေသကဲ့သို့ရှိသော အသီးနားနတ်သမီး၏ ကြေးရုပ်ကြီးလည်း ရှိပေသေး၏။ ထိုရုပ်တုကြီးမှာ ပါးသိနွန်နှင့် အာရက်သီးအမ်းတန်ဆောင်းကြီးနှစ်ခု၏ အကြားတွင်ရှိ၍ ပေ ၃၀ မြင့်သည်။ ထိုကြေးရုပ်ကြီး၏ မောက်တိုနှင့် လှံတံတို့ နေရောင်ဟပ်၍ တပြက်ပြက် လက်နေသည်ကို အက်သင်းမြို့သို့ ပင်လယ်ဖက်မှ လာကြသော ရေကြောင်းခရီးသည်များသည် ၁၅ မိုင် အကွာမှလှမ်း၍ မြင်နိုင်ကြလေသည်။

နိုင်းကီးအက်ပတာရာ့တန်ဆောင်းမှာ အကရော့ပလစ်တောင်ထိပ်တွင် အငယ်ဆုံးသော တန်ဆောင်းဖြစ်သည်။ ပန်းကြွ ပန်းပုလက်ရာများရှိခြင်းကြောင့် ကျော်ကြား၏။ ဘီစီ ၅ ရာစုနှစ်အတွင်းတွင် ဆောက်လုပ်ပြီးစီးခဲ့၍ အေဒီ ၁၆၈၇ ခုနှစ်ခန့်တိုင်အောင် မပျက်မစီး တည်ရှိခဲ့သည်။ ထိုနောက် တူရကီလူမျိုးတို့က ဖျက်ဆီးခဲ့ကြသည်။ အပျက်အစီးများကို ခရစ် ၁၈၃၅ ခုနှစ်တွင်တကြိမ်၊ ၁၉၄၀ ပြည့်

နှစ်တွင်တကြိမ် ပြန်လည်ပြုပြင်ကာ မွမ်းမံခဲ့ကြ၏။ အကရေဘုပလစ်တောင်ထိပ်၏ အနောက်ဖက်စွန်းတွင် ပရေဘုပီလီးအားခေါ် အဝင်မုတ်ဝ တန်ဆောင်းရှိ၏။ ယင်းကို ဘီစီ ၄၃၇–၄၃၂ ခုနှစ်များ အကြားတွင် ဆောက်လုပ်ခဲ့သည်။

ပရီးကလီးခေတ်တွင် ထိုကဲ့သို့ ခမ်းနားကြီးကျယ် တင့်တယ်စွာရှိခဲ့သော အကရေဘုပလစ်သည် စစ်ကြောင့်ရှင်း၊ ခေတ်ပြောင်းခေတ်လွဲကြောင့်ရှင်း၊ သဘာဝအဖျက်အဆီးကြောင့်ရှင်း၊ ရှေးဟောင်းပစ္စည်း စုဆောင်းသူတို့ကြောင့်ရှင်း များစွာ ပျက်စီးယိုယွင်းခဲ့လေသည်။ အထူးသဖြင့် အက်သင်းမြို့ကို တူရကီတို့ သိမ်းပိုက်ထားစဉ်က များစွာ ပျက်စီးခဲ့ကြသည်။ အလှဆုံးဖြစ်သည့် ပါးသီနွန် တန်ဆောင်းမှာ တူရကီတို့ သိုလှောင်ထားသော ယမ်းဘီလူးများပေါက်ကွဲသဖြင့် အေဒီ ၁၆၈၇ ခုနှစ်တွင် အမိုးအကာနှင့် တိုင်လုံးကြီးအချို့ ပျက်စီးခဲ့လေသည်။ ယခုအခါ အက်သင်းမြို့၌ ဗဟိုဌာနထားရှိသော ရှေးဟောင်း အဆောက်အအုံနှင့် ကျောက်စာဌာနများက ဦးစီးလျက် ရှေးဂရိတို့၏ လက်ရာပုံစံများ တိမ်မြုပ်မသွားစေခြင်းငှာ ရှေးဟောင်းလက်ရာအတိုင်း ဖြစ်နိုင်သမျှဖြစ်စေရန် ပြန်လည်ပြုပြင်ဆောက်လုပ် ထားရှိကြလေသည်။

**အကီးလီး။** ။ဂရိဘာသာနှင့် စာပေ — ရှု။

**အကေးရှားပင်။** ။အကေးရှားပင်သည် လီဂူမီနိုးစီး မျိုးရင်းတွင် မိုင်မိုစေစီအီးမျိုးရင်းခွဲ၌ ပါဝင်သော ထနောင်းမျိုးဖြစ်သည်။ ကမ္ဘာပေါ်တွင် အကေးရှားပင် အမျိုးပေါင်း ၄၅၀ ခန့်ရှိရာ ယင်းတို့အားလုံးကို စုပေါင်း၍ အကေးရှားပင်ဟု ခေါ်ဆိုခြင်းဖြစ်သည်။ အကေးရှားပင်မျိုးကို ကမ္ဘာပေါ်ရှိ ပူနွေးသောအပိုင်း၊ အထူးသဖြင့် ဩစတြေးလီးယားတိုက်၊ အာဖရိကတိုက်၊ တောင်အမေရိကတိုက်၊ အမေရိကတိုက်အလယ်ပိုင်း၊ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့၌ တွေ့ရသည်။ မြန်မာနိုင်ငံတွင် လူသိများ၍ ထင်ရှားသော အကေးရှားပင်မျိုးမှာ ထနောင်း၊ သဘော်ထနောင်း၊ ရှားထနောင်း၊ ထနောင်းဆူးဖြူ၊ ရှား၊ ကင်ပွန်းချဉ်၊ နန်းလုံးကြိုင်ဆူးဖြူ၊ ဆူးမန်ကျည်း၊ ဆူးပုပ်ကြီး၊ ဆူးရစ်စသောအပင်မျိုးဖြစ်၍ ယင်းတို့အားလုံးတွင် ဆူးများပြည့်လျက်ရှိပြီးလျှင် သီးတောင့်ရှည်များ သီးကြသည်။ ခြောက်သွေ့သော ဒေသများတွင် အကေးရှားပင်များသည် ချုံပင်လောက်သာရှိ၍ ရေများစွာရသော ဒေသများတွင်ကား အပင်ကြီးများဖြစ်လာကြသည်။ အချို့အကေးရှားပင်မျိုးကို ဥယျာဉ်များတွင် အလှစိုက်ပျိုးကြသည်။

အာဖရိကတိုက်မြောက်ပိုင်းရှိ အကေးရှားပင်မျိုးမှ အဖိုးတန်သော အစေး (ကော်စေး)များရ၍ ဩစတြေးလီးယားတိုက်ရှိ အကေးရှားပင်များမှ အခေါက်ကို သားရေနယ်ရာတွင် အသုံးပြုသည်။ အာဖရိကတိုက်ရှိ အချို့သောအကေးရှားပင်များ၏ အစေးများသည်လည်း သားရေနယ်ဖန်ရည်များစွာပါသည်။ တောင်အမေရိကတိုက်ရှိ အကေးရှားပင်တမျိုးမှ ရရှိသော အစေးများကို လှော်ပြီး ထောင်း၍ရသောအမှုန့်ကို နှာချေဆေးအဖြစ် အသုံးပြုကြသည်။ အခြားအကေးရှားပင်မျိုးကို ဘယဆေးအဖြစ် အသုံးပြု၍ အချို့အပင်မျိုးမှ အဖိုးတန်သစ်များရရှိသည်။

မြန်မာနိုင်ငံ၌ ပေါက်ရောက်သော အကေးရှားမျိုးဝင် ထနောင်းပင်သည် လူသိအများဆုံးဖြစ်၍ မြန်မာနိုင်ငံ မိုးပါးသည့်အရပ်တို့၌ ပေါများသည်။ အပင်အမြင့် ပေ ၃၀ မှ ၅၀ အထိနှင့် ပင်စည်လုံးပတ်သုံးပေမှ လေးပေအထိ ရှိသည်။ ကောက်ကွေး၍ အမျက်ထူသော ပင်စည်ပင်လုံးများ ရှိတတ်သည်။ ကန်များနှင့် တူးမြောင်းများနံဘေး၌ပေါက်သော ထနောင်းပင်တို့သည် အခြားအရပ်၌ပေါက်သော အပင်တို့ထက် ကြီးထွား သန်စွမ်းသည်။ အခေါက်မှာ သစ်ပင်သက်ငယ်စဉ်တွင် ရေညှိရောင်ရှိ၍ အသက်ကြီးသည့်အခါ အုန်းခွံရင့်ရောင်သို့ ပြောင်းသွားသည်။ ပပ်သေးပပ်ကြောင်းတို့ကြောင့် အခေါက်မှာ မညီမညာရှိသည်။ ထနောင်းပင်ကို ရုက္ခဗေဒ အလိုအားဖြင့် အကေးရှား လူကိုဖလိုအီးဟု ခေါ်သည်။

ဆောင်းရာသီ အကုန်နှင့် နွေဦးပေါက် အချိန်တွင် ထနောင်းပင်ရွက်ဟောင်းများ ကြွေ၍ ရွက်သစ်များ ထွက်လာသည်။ ရွက်သစ်များနှင့် စိုစိုလင်လင်ရှိသော်လည်း အရိပ်ကောင်း ပေးနိုင်သော သစ်ပင်ဟူ၍ မဆိုနိုင်ချေ။ သို့သော် အခြား အရိပ်ကောင်းသည့်အပင်များ မပေါက်နိုင်သော အရပ်မျိုး၌ ထနောင်းပင်များ ပေါက်နိုင်သဖြင့် မိုးပါးသည့်အရပ်တို့တွင် လမ်းနံဘေးတလျှောက်၌ ယင်းတို့ကို စိုက်ထားကြသည်။ အစေ့ကိုစိုက်ပျိုးခြင်းအားဖြင့် အပင်သစ်ပွားအောင် ပြုလုပ်နိုင်သည်။

ထနောင်းသားမှာ နီ၍ အစင်းကြောင်းများ ပါသည်။ မာ၍ ခိုင်ခံ့သော သစ်သားပင်ဖြစ်သော်လည်း အသုံးပြုရာ၌ တာရှည်မခံချေ။ ဆီကြိတ်ဆုံများ၊ အိမ်တိုင်နှင့်ထွန်လျှောက်များ၊ ထယ်များ အစရှိသည်တို့ကို ပြုလုပ်ရန်နှင့် ပွတ်ခုံရန် အသုံးဝင်သည်။ ထနောင်းခေါက်ကို လမုလမ့်ခေါက်၊ ငုခေါက်တို့ကဲ့သို့ သားရေနယ်ရာ၌ အသုံးပြုကြသည်။ ထနောင်းပင်မှရသောအစေးကို မီးခြစ်အိမ်ကပ်ရန် စမ်းသပ်အသုံးပြုခဲ့သည်။

ရှားထနောင်းပင်သည်လည်း မြန်မာနိုင်ငံတွင် လူသိများသောအပင် ဖြစ်သည်။ ရှားထနောင်းပင် နှစ်မျိုး

ရှိသည်။ မိုးပါးသောသရက်မြို့နယ်၊ ပျဉ်းမနားမြို့နယ်နှင့် ရမည်းသင်း မြို့နယ်တို့တွင် မြေကောင်းသော သစ်တောများ၌ ပေါက်သည့် ရှားထနောင်းပင်တို့သည် အမြင့် ပေ ၆၀ မှ ၇၀ အထိပင်လုံးရှိသည်။ ဤအပင်တို့တွင် တည့်မတ်ညီညာသော ပင်စည် ပင်လုံးများ ရှိသည်။

မေမြို့အနီးတဝိုက်၌ ပေါက်သည့် ရှားထနောင်းပင်တို့၏ အမြင့်မှာ ပေ ၅၀ ထက် မကျော်ပေ။ အသားရောင်မှာ နီကြန်ကြန်ဖြစ်၍ မာလျက် သာမန်ထနောင်းပင်၏အသားနှင့် ဆင်ဆင်ဘူသည်ဟု ဆိုနိုင်ပေသည်။ ရှားထနောင်းပင်ကို ရုက္ခဗေဒအလိုအားဖြင့် အကေးရှား မာကရိုစီဖားလား ဟု ခေါ်သည်။

ဆူးဖြူပင်သည် ထနောင်းမျိုးဝင်အပင်မျိုး ဖြစ်သည်။ ရုက္ခဗေဒအလိုအားဖြင့် ယင်းကို အကေးရှား အာရာဗီးက ဟုခေါ်သည်။ ထိုအပင်မျိုး စတင်ပေါက်ရာ မူလဒေသမှာ အာဖရိကတိုက်၊ အိန္ဒိယနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့ ဖြစ်ကြသည်။ မြန်မာနိုင်ငံ ပူသောအရပ်များ၌ များစွာပေါက်ရောက်သည်။ အမြင့် ၁၅ ပေ မှ ၃၀ အထိ ရှိသည်။ ယင်းအပင်မှ အစေးများရသည်။

**အကယ်ဒမီ။** ။ပလေးတိုခေတ် မတိုင်မီက စိတ်အားထက်သန်သော အက်သင်းမြို့သား လူငယ်များသည် အထက်တန်းပညာရပ်ကို ဆည်းပူးရာ၌ ဒဿနိကဗေဒ ပညာရှင်များ ဖြစ်ကြသည့် ဆိုးဖစ်များကိုသာ အားကိုး အားထားပြုကြရသည်။ ထိုဆိုးဖစ်များသည်လည်း ဒဿနိကဗေဒနှင့် စကား အပြောအဟောအတတ်ပညာကို တမြို့မှ တမြို့သို့လှည့်လည်ကာ သွန်သင်ပြသကြလေသည်။ ဤခရီးသည် ဆရာများအဖို့ မိမိတို့ သွန်သင်ပြသသည့် ပညာရပ်များကို လက်ခံသင်ယူမည့် ပရိသတ် မရှိဟူ၍ မည်သည့်အခါမျှ မရှိခဲ့ချေ။ အက်သင်းမြို့ ဆင်ခြေဖုံးရပ်ကွက်များရှိ လူထု အားကစားရုံများ၌ လူငယ်များ ကစား ခုန်စား လေ့ကျင့်မှုများ ပြုလုပ်လျက် ရှိရာ ဤလူငယ်များသည် ထိုခရီးသည် ဆရာများ၏ သွန်သင်ပြသမှုကို လက်ခံသင်ယူရန် အမြဲရှိနေလေသည်။ လှပစွာ ကာရံထားသော ကွင်းများ၌ အားကစား ရုံများ၊ ရေချိုးကန် များကို ဆောက်လုပ်ထား၏။ ထို့ပြင် အမိုးရှိသော စင်္ကြံများနှင့် အရိပ်ရှိသော သစ်ပင်အုပ်များသည်လည်း ဆရာနှင့်တပည့် တွေ့ဆုံရာနေရာများ ဖြစ်လာကြလေသည်။

ပလေးတိုသည် ဘီစီ ၃၈၇ ခုနှစ် လောက်တွင် ခရီးထွက်နေရာမှ အက်သင်းမြို့သို့ ပြန်ရောက်လာသော အခါ ယင်းမြို့၏ အနောက်မြောက် တမိုင်ခန့်အကွာရှိ "အကယ်ဒမီ" ဟုခေါ်သော အားကစားရုံအနီး အိမ်တအိမ်တွင် နေထိုင်လေသည်။ (ပလေးတို—လည်းရှု။)ထိုအားကစားရုံ၏ မူလပိုင်ရှင်မှာ အာဇာနည် အကယ်ဒီးမတ် ဆိုသူဖြစ်ရာ ထိုသူ၏ အမည်ကို အစွဲပြု၍ အားကစားရုံကို အကယ်ဒမီ ဟု ခေါ်လေသည်။ ပလေးတိုသည် ကျောင်းသားဦးရေ ကန့်သတ်ထားသော ကျောင်းတကျောင်းကို တည်ထောင်ပြီးလျှင် တပည့်များအား တခါတရံ အကယ်ဒမီ ဥယျာဉ် စင်္ကြံများ၌၎င်း၊ တခါတရံ သူ၏အိမ်၊ သို့မဟုတ် ဥယျာဉ်၌၎င်း ဒဿနိကဗေဒဆိုင်ရာ ပညာများကို ဟောပြောပြသလေသည်။ အခြားဆရာများလည်း ပလေးတို၏ အတုကိုယူ၍ တနေရာရာကို ရွေးချယ်ပြီးလျှင် သင်တန်းများ၊ ဆွေးနွေးပွဲများ ကျင်းပပြုလုပ်ကြ၏။ ပလေးတို၏ တပည့်ဖြစ်သော အရစ္စတိုတယ်ကလည်း အက်သင်းမြို့၏ အရှေ့ဖက်ရှိ လိုက်ဆီယမ်တွင် ကျောင်းတကျောင်း တည်ထောင်လေသည်။ (အရစ္စတိုတယ် — လည်းရှု။)

ဤရှေးဂရိကျောင်းများ၊ ဆွေးနွေးပွဲ အဖွဲ့အသင်းများနှင့် စပ်လျဉ်းသည့် နာမည်များသည် အခိပ္ပါယ် အမျိုးမျိုးဖြင့် ယခုခေတ် တိုင်အောင် ဆင်းသက်ခဲ့လေသည်။ အကယ်ဒမီ ဟူသောစကားသည် အင်္ဂလန်နှင့် အမေရိကန် ပြည်ထောင်စု နိုင်ငံတို့၌ အလွတ်ပညာသင် အလယ်တန်း ကျောင်းများနှင့် မြင်းစီး အတတ်သင်ကျောင်း၊ ကြည်းတပ်ဆိုင်ရာ သိပ္ပံကျောင်း၊ ရေတပ်ဆိုင်ရာ သိပ္ပံကျောင်းတို့ကဲ့သို့သော အထူးအတတ်ပညာသင်ကျောင်းများကို ဆိုလိုသည်။ ထို့ပြင် ဘာသာစကားအမျိုးမျိုးတွင် အကယ်ဒမီဆိုသည်မှာ ယေဘုယျအားဖြင့် အသိ ပညာနှင့် ယဉ်ကျေးမှုတို့ကို၎င်း၊ တစုံတခုသော အထက်တန်းသိပ္ပံပညာ၊ သို့မဟုတ် ဝိဇ္ဇာပညာရပ်ကို၎င်း အားပေးမြှင့်တင်ရေးအတွက် ဖွဲ့စည်းထားသော ပညာရှင် အသင်းအဖွဲ့များကိုလည်း ဆိုလိုသည်။

ဤပညာရှင် အသင်း အဖွဲ့များအနက် အကျော်ကြားဆုံးအသင်းကား ပြင်သစ် အကယ်ဒမီ (ပညာတံခွန်အသင်း) ဖြစ်၏။ ယင်းအသင်းသည် ခရစ် ၁၆၃၅ ခုနှစ်က ကာဒင်နယ် ရစ်ရှလျူး စတင်တည်ထောင်ခဲ့သော စာပေပညာရှင်တို့၏ အသင်း ဖြစ်သည်။ (ရစ်ရှလျူး၊ ကာဒင်နယ် — လည်းရှု။) အသင်း တည်ထောင်ပြီးသည့်နောက် လေးနှစ်အကြာတွင် အသင်းဝင်များသည် အဘိဓာန်တအုပ်ကို စတင်ပြုစုကြသည်။ အဘိဓာန်ဖြင့် သူတို့သည် ပြင်သစ်ဘာသာစကားကို ကောင်းစွာ ထိန်းသိမ်းသွားနိုင်ကြသည်။ ကျော်စောကိတ္တိရှိသော အသင်းဝင် ၄၀ ရှိသည့်အနက် တဦးတယောက် သေဆုံးခဲ့သည်ရှိသော် ကျန်အသင်းဝင်များက အသင်းသားသစ် တဦးကို မဲဖြင့် ရွေးကောက်တင်မြှောက်ရသည်။ ယင်းအသင်းဝင် ၄၀ ထဲသို့ ဤသို့ မဲဖြင့် ရွေးကောက် ဝင်ရောက်ရသော ဂုဏ်မှာ စာရေးဆရာအသစ်အတွက် အကြီးဆုံးသော ဂုဏ်ပြုခံရ

ခြင်းတရပ် ဖြစ်သည်ဟု ယူဆကြသည်။ ၁၉ ရာစုခေတ်တွင် ပြင်သစ်အကယ်ဒမီသည် အခြားအကယ်ဒမီ လေးခုနှင့်ပေါင်းကာ ပြင်သစ်တော်ဝင်အသင်းဟူ၍ ဖွဲ့စည်းလိုက်လေသည်။ ထိုအကယ်ဒမီလေးခုတို့မှာ ကမ္ဘည်းကျောက်စာဆိုင်ရာ အကယ်ဒမီ၊ သိပ္ပံပညာဆိုင်ရာ အကယ်ဒမီ၊ အနုသုခုမ ပညာဆိုင်ရာ အကယ်ဒမီ၊ စာရိတ္တနှင့် နိုင်ငံရေးသိပ္ပံပညာဆိုင်ရာ အကယ်ဒမီတို့ ဖြစ်ကြ၍ အနုသုခုမပညာဆိုင်ရာ အကယ်ဒမီသည် ယင်း၏ အနုသုခုမပညာသင်ကျောင်းကြောင့် အကျော်ကြားဆုံး ဖြစ်သည်။

ထင်ရှားသော ခေတ်သစ်အကယ်ဒမီတခုမှာ အင်္ဂလန်နိုင်ငံ၏ အနုသုခုမပညာဆိုင်ရာ တော်ဝင်ပညာတံခွန်အသင်းဖြစ်သည်။ ယင်းအသင်းသည် ပန်းချီ၊ ပန်းပုနှင့် ဗိသုကာပညာများကိုသာ အားပေးရွက်ဆောင်၍ ဗာလင်တန်အိမ်တော်ရှိ ယင်း၏ ကျောင်းများတွင် သင်ကြားပေးလေသည်။ ဤပညာတံခွန် အသင်း၌လည်း အသင်းသားဦးရေကို ၄၀ ကန့်သတ်ထားသည်။ အနုပညာသည်တဦးကို ရွေးကောက်လိုက်သည့်အခါ ထိုသူသည် အသင်းသို့ သူ၏လက်ရာဖြစ်သော အနုပညာ နမူနာ တခုကိုတင်သွင်းရရာ ယင်းအတွက် ဘုရင်မင်းမြတ် လက်မှတ်ရေးထိုးထားသည့် ဒီပလိုမာလက်မှတ်ကို ရရှိလေသည်။

အမေရိကန် ပြည်ထောင်စု၏ အလားတူ အလွန်ရေးကျသော အကယ်ဒမီတခုမှာ အမျိုးသား ဒီဇိုင်းပုံစံဆိုင်ရာ အကယ်ဒမီဖြစ်သည်။ ယင်းအသင်းသည် နယူးယော့မြို့၌ ဒီဇိုင်းပုံစံဆိုင်ရာ ကျောင်းတကျောင်းဖွင့်ထားသည်။ ထိုအသင်းကို ၁၈၂၅ ခုနှစ်က တည်ထောင်၍ ၁၈၂၈ ခုနှစ်တွင် တရားဝင်ဖွဲ့စည်းခဲ့သည်။ အသင်းဝင်များကို ပန်းချီ ၁၂၅ ယောက်၊ ရုပ်လုံးထု ၂၅ ယောက်၊ ဗိသုကာနှင့် ပုံသွင်းသူ ၂၅ ယောက်အထိ ကန့်သတ်ထားသည်။

အမေရိကန် အနုသုခုမပညာနှင့် စာပေ ဆိုင်ရာ အကယ်ဒမီ (ပညာတံခွန် အသင်း)ကို ၁၉၀၄ ခုနှစ်က တည်ထောင်၍ ၁၉၁၆ ခုနှစ်၌ ကွန်ဂရက် အက်ဥပဒေအရ တရားဝင် ဖွဲ့စည်းခဲ့သည်။ အသင်းသားများကို ၅၀ အထိ ကန့်သတ်ထားရာ ယင်း၏ ရည်ရွယ်ချက်များမှာ အနုသုခုမပညာနှင့် စာပေကို တိုးတက် ပြန့်ပွား အောင်ဆောင်ရွက်လုပ်ကိုင်ရန် ဖြစ်သည်။

**အကောက်ခွန်။** ။တိုင်းတပါးမှဝင်လာသောကုန်နှင့် တိုင်းတပါးသို့ ထုတ်သောကုန်များပေါ်တွင် စည်းကြပ်သော အခွန်များကို အကောက်ခွန်ဟု ခေါ်သည်။ ယခုခေတ်တွင် တိုင်းတပါးမှ ဝင်လာသော ဝင်ကုန်များပေါ်တွင် များသောအားဖြင့် အခွန်စည်းကြပ်တတ်ကြရာ ယင်းအခွန်ကို သွင်းကုန် ကောက်ခွန်ဟု ခေါ်သည်။ တိုင်းတပါးသို့ ထုတ်သော ကုန်များပေါ်တွင် အကောက်ခွန် ယူသည့် တိုင်းပြည်များမှာ အနည်းငယ်မျှသာရှိရာ ယင်းအခွန်မျိုးကို ထုတ်ကုန်ကောက်ခွန်ဟု ခေါ်သည်။ ထုတ်ကုန်များများ ထုတ်နိုင်အောင် အားပေးသော အနေဖြင့် တိုင်းပြည်အများအပြားသည် ထုတ်ကုန်များပေါ်တွင် အကောက်ခွန်ယူလေ့မရှိချေ။ ထုတ်ကုန် အမြောက်အမြား ထုတ်နိုင်မှ နိုင်ငံခြားငွေများစွာ ရရှိနိုင်သည်။ အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါ နိုင်ငံတို့တွင် ထုတ်ကုန်ခွန် ယူသည့်စနစ်ကို ဥပဒေဖြင့်ပင် တားမြစ်ထားလေသည်။ မြန်မာနိုင်ငံသည်လည်း ထုတ်ကုန်များပေါ်တွင် အခွန်ကောက်ခံခြင်းမရှိချေ။ သို့သော် အချို့တိုင်းပြည်များတွင် ပြည်တွင်း၌ အထူး လိုအပ်သော ကုန်ပစ္စည်းများ ပြည်ပသို့ မထုတ်နိုင်အောင် ထုတ်ကုန်ခွန်များ စည်းကြပ်ကာ သွယ်ဝိုက်၍ တားမြစ်ထားတတ်သည်။ ကာဖီအမြောက်အမြား စိုက်၍ ကမ္ဘာ့အနှံ့အပြားသို့ ပို့နေသော ဗရာဇီးနိုင်ငံသည် အခွန်ဝင်ငွေ မှန်မှန်ရရှိစေရန် ထုတ်သောကာဖီများပေါ်တွင် အကောက်အခွန်စည်းကြပ်သည်။

အကောက်ခွန်သည် နိုင်ငံ အစိုးရအတွက် အလွန်မှန်သော ဝင်ငွေဖြစ်ရကား တိုင်းပြည်အသီးအသီးတို့သည် မိမိတို့၏ ဥပဒေ စည်းမျဉ်း အရ သွင်းကုန်များ ပေါ်တွင် အကောက်ခွန်စည်းကြပ်ကြသည်။ စည်းကြပ်ပုံ စည်းကြပ်နည်းမှာ တတိုင်းပြည်နှင့် တတိုင်းပြည် မတူကြချေ။ ခရစ် ၁၈၆၀ ပြည့်နှစ်လောက်မှစ၍ပဋ္ဌမကမ္ဘာစစ်ပြီးသည့်နောက် ဆယ်နှစ် ကျော်ကျော်တိုင်အောင် အကောက်မရှိ၊ လွတ်လပ်စွာ ကုန်သွယ်မှုရှိခဲ့သော အင်္ဂလန်နိုင်ငံသည် တိုင်းပြည်ပြန်လည်ထူထောင်ရန် ငွေကြေး ရရှိရေး အတွက်ကြောင့်သာ သွင်းကုန်များ ပေါ်တွင် သွင်းကုန် ကောက်ခွန်ကို ကောက်ခံခဲ့လေသည်။ အခြားတိုင်းပြည်များ သည်လည်း မိမိတို့၏ အစိုးရဘဏ္ဍာတော် ဖြည့်သွင်းရန်အတွက် သွင်းကုန် ကောက်ခွန်များ ကောက်ကြသည်။ မြန်မာနိုင်ငံ အပါအဝင် အချို့တိုင်းပြည်များတွင် ရည်ရွယ်ချက် နှစ်မျိုးဖြင့် သွင်းကုန် ကောက်ခွန်များ စည်းကြပ်ကြသည်။တမျိုးမှာ အစိုးရ ဘဏ္ဍာတော် ဖြည့်တင်းရန်နှင့် တမျိုးမှာ ပြည်တွင်း လုပ်ငန်းကာကွယ်ရန်အတွက်ဖြစ်သည်။ ဤတိုင်းပြည်များသည် နိုင်ငံခြားမှ တင်သွင်းသော ကုန်များ အဖိုးနှုန်းတက်သွားစေရန် သွင်းကုန် ကောက်ခွန်များ စည်းကြပ်ကြသည်။ ဤသို့ စည်းကြပ်ရခြင်းမှာ ပြည်တွင်း ကုန်ထုတ်လုပ်သူများအား အခွင့်အရေး ပေးလိုသောကြောင့် ဖြစ်၍ ဤနည်းသည် ပြည်တွင်း လုပ်ငန်း ကာကွယ်ရန်ကောက်သော နည်းဖြစ်သည်။ အဘယ်ကြောင့် ဆိုသော် နိုင်ငံခြားမှ တင်သွင်းလာသော ကုန်များကို ပြည်တွင်း

ဖြစ်ကုန်များနှင့် ယှဉ်ပြိုင်မရောင်းနိုင်အောင် စီစဉ်ပေးခြင်း ကြောင့်ဖြစ်သည်။

သွင်းကုန် အရေအတွက်ပေါ်တွင် မူတည်၍ကောက်သော အကောက်ခွန်ကို ပမာဏလိုက် အကောက်ခွန် ဟု ခေါ်သည်။ သွင်းကုန်များ၏ တန်ဖိုးပေါ်တွင် တွက်ချက်၍ ကောက်သော အကောက်ခွန်ကို တန်ဖိုးလိုက်အကောက်ခွန်ဟု ခေါ်သည်။ အချို့ကုန်များပေါ်တွင် ကောက်သော နည်းမှာ အထက်ပါ နည်းနှစ်နည်းကို ပေါင်း၍ ကောက်သော နည်းဖြစ်သည်။

**အကျဉ်းထောင်။** ။ဤလောကကြီး အတွင်း၌ လူကောင်းနှင့် လူဆိုးများ ရောနှောနေထိုင်လျက်ရှိကြသည်။ လူကောင်းများသည် သူတို့နေထိုင်ရာနိုင်ငံ၏ ဥပဒေများ၊ လူမှုပေါင်းသင်းဆက်ဆံရေး စည်းကမ်းများကို လိုက်နာကြသူများ ဖြစ်ကြသဖြင့် သူတို့၏ အသက်စည်းစိမ် အိုးအိမ်တို့ကို သက်ဆိုင်ရာအစိုးရက ကာကွယ်စောင့်ရှောက်ပေးရလေသည်။ လူဆိုးများမှာကား အစိုးရကပြဋ္ဌာန်းထားသော ဥပဒေများကို ကျူးလွန်ချိုးဖျက်ကာ နိုင်ငံ၏ ငြိမ်ဝပ်ပိပြားရေးနှင့် စည်ပင်သာယာရေးကို ဖျက်ဆီးသူများ ဖြစ်ကြသဖြင့် အစိုးရက သူတို့အား နှိပ်ကွပ်အပြစ်ပေးရလေသည်။ အထူးသဖြင့် တရားဥပဒေကို ရိုသေလေးစားသော တိုင်းသူပြည်သားများအား ဥပဒေကိုချိုးဖောက်သည့် လူဆိုးသူဆိုးများ နှိပ်စက်ခြင်းမပြုနိုင်စေရန် အစိုးရတို့က တာဝန်ယူရလေသည်။ ဥပဒေများကိုချိုးဖဲ့၍ လူကောင်းများအား အနှောင့်အရှက်ပေးလေ့ရှိသော လူဆိုးများ၏ခြေကိုချုပ်ထားရန် အစိုးရတို့သည် လေးဖက်လေးတန် တန်တိုင်းများ၊ အုတ်နံရံများ ကာရံ၍ အခိုင်အမာ တည်ဆောက်ထားသော အကျဉ်းထောင် များကို ထားရှိရလေသည်။

အရွယ်ရောက်၍ သာမန်အသိဉာဏ်နှင့် ပြည့်စုံသော လူတိုင်းသည် ရာဇဝတ်မှုကို မကောင်းသောအမှု၊ ပွင့်ပွင့်လင်းလင်း မဆောင်ရွက်နိုင်သော ကိစ္စဟု သိနားလည်ထားကြသည်။ ကမ္ဘာပေါ်တွင် ခိုင်မြဲသောအစိုးရ တည်ထောင်ပြီးစ လွန်ခဲ့သည့်ရာစုပေါင်းများစွာကပင် ရာဇဝတ်မှုသည် နိုင်ငံ၏ အန္တရာယ် ဖြစ်သည်ဟု လူတို့၏စိတ်ဝယ် သဘောပိုက်မိကြသည်။ သို့အတွက် နိုင်ငံတော်အား နိုင်ငံသားများက အာဏာနှင့်တာဝန်ကို ပေးအပ်ကြ၍ နိုင်ငံက တဖန် နိုင်ငံသားများ၏ အသက်၊ အိုးအိမ် စည်းစိမ်များကို ကာကွယ်ပေးရလေသည်။ လူသတ်မှုကျူးလွန်သူ၊ သူတပါး၏ ပစ္စည်းကို ခိုးယူသူ စသည်တို့သည် ပြည်သူ့ရန်သူဖြစ်၍ ယင်းတို့အား နိုင်ငံက အပြစ်ဒဏ်ခတ်ရလေသည်။

ရှေးခေတ်က "ကိုယ်လုပ်လျှင် ကိုယ်ခံရမည်" ဟူသော သဘောတရားကို လက်ကိုင်ထား၍ ရာဇဝတ်မှု ကျူးလွန်သူများအား မိမိတို့၏ပြစ်မှုများအတွက် ကာယကံမြောက် ခံစားစေသည်။ "မျက်စိကိုမျက်စိနှင့်၊" "သွားကို သွားနှင့်" ဟူသော စကားပုံများလည်း ရှိလေသည်။ အဓိပ္ပါယ်မှာ သူတပါး၏မျက်စိတလုံးကို ဖောက်လျှင် မိမိ၏မျက်စိတလုံး အဖောက်ခံရမည်။ သူများ၏ သွားတချောင်းကို ချိုးလျှင် မိမိ၏သွားတချောင်း • အချိုးခံရမည်ဟု ဆိုလိုပေသည်။ အမှန်မှာကား ကလဲ့စားချေသည့်သဘောပင် ဖြစ်၏။

ယခုအခါတွင်ကား ကျွန်ုပ်တို့သည် ရှေးကကဲ့သို့ ကြမ်းကြုတ်ရက်စက်သော သဘောတရားများကို လက်မခံကြတော့ချေ။ ရာဇဝတ်မှုကို မကောင်းမှုမှန်းသိ၏။ လူတိုင်း ရှုတ်ချ၏။ ရာဇဝတ်မှုကျူးလွန်သူအား အပြစ်ဒဏ်ခတ်ရမည်ကို လူတိုင်းနားလည်၏။ သို့ရာတွင် ရာဇဝတ်မှုကျူးလွန်သူများအားအပြစ်ပေးရာ၌ကလဲ့စားချေသည့်သဘောကိုမူ လုံးဝလက်မခံကြတော့ပေ။

ခေတ်မှီ၍ ယဉ်ကျေးသောနိုင်ငံများ၌ အပြစ်ကျူးလွန်သူတို့အား ဆုံးမရာတွင် ယေဘုယျအားဖြင့် အလားတူပြစ်မှုများ နောက်ထပ်မကျူးလွန် မပေါ်ပေါက်ရန် အဓိကထားလေသည်။ ရာဇဝတ်မှုပြုသော သူများအား အဆုံးစီရင်ခြင်းဖြင့်၎င်း၊ ထောင်သွင်း အကျဉ်းချခြင်းဖြင့်၎င်း ပြည်သူလူထုကြီးအား ရာဇဝတ်မှုကျူးလွန်သူများ၏ ဘေးဆိုးရန်စွယ်မှ ထိရောက်စွာ ကာကွယ်ပေးသည်။ ပြည်သူပြည်သားများအားလည်း ရာဇဝတ်မှု ကျူးလွန်ပါက မလွဲမသွေ တွေ့ဆုံရမည့် ဘေးဆိုး ဒုက္ခအမျိုးမျိုးကို ပြသ၍ ရာဇဝတ်မှု ပြုလိုသောစိတ် ကုန်ခန်းအောင် ဆောင်ရွက်ပေးသည်။ ထို့အပြင် ရာဇဝတ်မှုကျူးလွန်၍ ထောင်ကျနေသော သူများ၏ အကျင့်စာရိတ္တ စိတ်နေစိတ်ထားများကိုလည်း ပြုပြင်ပေးလေသည်။

"ကိုယ်လုပ်လျှင် ကိုယ်ခံရသည်" ဟူသော စကားအတိုင်း နိုင်ငံ၏ဥပဒေကို ချိုးဖောက်သူများ၊ ရာဇဝတ်မှုကို ကျူးလွန်သူများ၊ သူတပါးအား မတော်မတရား စော်ကားသူများသည် မည်သို့ပင် ရှောင်တိမ်းနေစေကာမူ နောက်ဆုံးတနေ့တွင် ဖမ်းဆီးခြင်းခံရ၍ ထိုက်သင့်သော အပြစ်ဒဏ်ကို ရရှိလေသည်။ ရှေးကမူ ရာဇဝတ်မှုကျူးလွန်သူများအား မှတ်လောက်သားလောက်အောင် ရက်ရက်စက်စက် အပြစ်ဒဏ်ပေးလေသည်။ သေဒဏ် စီရင်ချက်ချမှတ်ခံရသူများကိုလည်း စိတ်ကူးထဲ၌ မထည့်ဝံ့လောက်အောင် ဝေဒနာခံစားရသော နည်းများဖြင့် အဆုံး စီရင်လေသည်။ ၁၈ ရာစုခေတ်တိုင်အောင်ပင် အချို့ပြစ်မှုများအတွက် တိုင်တွင်တုတ်နှောင်၍ မီးရှို့သတ်ခြင်း ခံကြရသည်။ အကျဉ်းသမားတို့အားလည်း မသတ်မီ အမျိုးမျိုး ညှဉ်းပန်းနှိပ်စက်လေသည်။

ယခုခေတ်တွင်ကား သေဒဏ်ရရှိသူများကို ကြိုးပေး၍ သတ်သည်။ တချို့နိုင်ငံတွင်မူ လျှပ်စစ်ခုံတင်ဖြင့် သတ်သည်။ ထို့ပြင် စက်ဖြင့် ခေါင်းဖြတ်သတ်ခြင်း၊ သေနတ်ဖြင့် ပစ်သတ်ခြင်းများကိုလည်း အသုံးပြုကြသည်။ အင်္ဂလန်နှင့် မြန်မာနိုင်ငံတို့တွင် ကြိုးပေး၍သတ်နည်းကို အများဆုံး အသုံးပြုသည်။ လျှပ်စစ်ခုံတင်ဖြင့် သတ်ခြင်းကို အမေရိကန်ပြည်ထောင်စု နိုင်ငံရှိ ၊ အချို့ ပြည်နယ်များတွင် အသုံးပြုသည်။ စက်ဖြင့် ခေါင်းဖြတ် သတ်သော နည်းကို ပြင်သစ်နိုင်ငံတွင် သုံးလေ့ ရှိသည်။ သေနတ်ဖြင့် ပစ်သတ်ခြင်းကိုကား လက်တင် အမေရိကန်နိုင်ငံများတွင် အသုံးပြုကြလေသည်။

လူတို့၏ယဉ်ကျေးမှုနှင့် အသိဉာဏ်တိုးတက်နေသော ယခုခေတ်တွင် ရာဇဝတ်မှုများမှာ တနေ့တခြား ယုတ်လျော့လာသည်။ အသက်နှင့်လဲ၍ အပြစ်ဒဏ် ခံရမည့် ရာဇဝတ်မှုမျိုး နည်းပါး လာသည်။ ယဉ်ကျေးသော ခေတ်မီနိုင်ငံများ အားလုံး၌ လိုလိုပင် နိုင်ငံတော်သစ္စာဖောက်မှုနှင့်လူသတ်မှုနှစ်ခုတွင်သာ သေဒဏ်ပေးလေသည်။

ရာဇဝတ်မှုကြီးများအပြင် အသေးအဖွဲ အမှုကလေးများကိုလည်း ထိုက်သင့်သလို အရေးယူသည်။ ရှေးကမူ ရိုက်နှက်ခြင်း၊ သံပူဖြင့်ကပ်ခြင်း၊ အသားကို ဖြတ်လှီးခြင်းများဖြင့် အပြစ်ဒဏ်ပေးလေသည်။ ဆူဆူပူပူ လုပ်တတ်သော မိန်းမများကိုကား ထုတ်ပေါ်တွင် ဆွဲထားသော ကုလားထိုင်တွင် ချည်၍ ရေတွင် နှစ်လေသည်။

လူတယောက်၏ ဂုဏ်သရေကို ထိခိုက်အောင် သွားပုပ်လေလွင့် ပြောဆိုခြင်း၊ အလေး တင်းတောင်း ခိုးခြင်း၊ ရန်ဖြစ်ခြင်းများကိုလည်း အရေးယူသည်။ အင်္ဂလန်တွင် ထိုပြစ်မှုမျိုး ကျူးလွန်သူများအား လည်ပင်းနှင့် လက်ကောက်ဝတ်များကို မဘတ်တတ် ထိဘ်ခတ်တိုင်တွင် ချည်ထား၍ တွေ့ရှိသော လမ်းသွား လမ်းလာများက ကဲ့ရဲ့ပြောင်လှောင် ကြလေသည်။ သေးငယ်သော အမှုများအတွက်လည်း ထိတ်ခတ်တိုင်ကို အသုံးပြုလေသည်။

တဆဲ့ရှစ်ရာစုနှစ် မတိုင်မီက အင်္ဂလန်နိုင်ငံတွင် ပြစ်မှုကျူးလွန်သူတို့ကို များသောအားဖြင့် ကြိုးဒဏ်ပေးခြင်း၊ ကိုယ်လက်အင်္ဂါ ချတ်ယွင်းအောင် ပြုလုပ်ခြင်း၊ တကျွန်းသို့ပို့ခြင်းစသော အပြစ်ဒဏ်များ ကိုသာ ပေးလေ့ရှိ၏။ ထောင်သွင်း အကျဉ်းချထားသည့် အလေ့မှာ ခေတ်မစားလှသေးချေ။ ထိုစဉ်က အကျဉ်းထောင်များမှာ ပြစ်မှုကျူးလွန်သူများအား အမှုစစ်ဆေးနေစဉ် ခေတ္တချုပ်နှောင်ထားရာနှင့် နိုင်ငံရေးကြောင့် အချီသောသူများအား ချုပ်နှောင်ထားရာ ဌာနများလောက်သာ ဖြစ်ခဲ့သည်။ အကျဉ်းထောင်များ၏ အခြေအနေမှာ အလွန်တရာ စိတ်ပျက်ဖွယ်ရာ ကောင်းလှပေသည်။ အကျဉ်းထောင်များမှာ အလင်းရောင်နှင့် လေကောင်းကောင်း မဝင်နိုင်သော အခန်းကျဉ်းကလေး များသာ ဖြစ်၏။ ညစ်ပတ်ပေရေနေသောကြောင့် အကျဉ်းသမားများမှာ အနာရောဂါ ထူပြောလှ၏။ ထိုသို့သော အခန်းကျဉ်းကလေးများထဲတွင် မိန်းမ–ယောကျ်ား ကလေးအားလုံးကို ရောနှောပြွတ်သိပ်၍ ထားလေ့ရှိသည်။ အစားအစာကိုလည်း စံနစ်တကျ ကျွေးမွေးခြင်းမရှိချေ။ အကျဉ်းသားများသည် အပြင်မှ မိတ်ဆွေများက ပေးကမ်းသည့် အစာနှင့် လာဘ်စားသော ထောင်မှူးများက ပေးသွင်းသည့် အစာများကိုသာ မဝရေစာ စားရ လေသည်။ အချုပ်ဆိုရသော် ထိုခေတ်က အကျဉ်းထောင် များမှာ လောကငရဲခန်းကလေးနှင့် အသွင် တူလေတော့သည်။



ရှေးခေတ် အကျဉ်းထောင်တွင်းမှ အကျဉ်းသားများ

ထိုသို့ အင်္ဂလိပ်အကျဉ်းထောင်များ၏ ဆိုးရွားလှသော အခြေအနေကို မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ရသူ အင်္ဂလန် နိုင်ငံ ဗက်ဖို့ရှိုင်ယာ နယ်မှ ဂျွန် ဟောင်း ဝပ် (၁၇၂၆–၉၀)သည် အကျဉ်းသမားများ၊ အကျဉ်းထောင်များ ပြုပြင်ရေး၊ သက်သာ ချောင်ချိရေးတို့ကို မနားမနေ လုံးပန်းခဲ့ပေသည်။ သူသည် အကျဉ်းသမားများ၏

လောကငရဲခန်းများကို ကွက်ကွက်ကွင်းကွင်း ဖော်ပြကာ လူထု၏ ကရုဏာစိတ်ကို အုံကြွ လာအောင် လှုံ့ဆော် ပေးခဲ့သည်။ သူကြောင့်ပင်လျှင် တပြည်လုံး အကျဉ်းထောင် ပြုပြင်ရေးတွင် စိတ်ဝင်စားလာခဲ့လေသည်။ ထိုမျှမကသေး ပါလီမန်ကလည်း ၁၇၇၈ ခုနှစ်တွင် အကျဉ်းထောင်ဆိုင်ရာ ဥပဒေတရပ်ကို ပြဋ္ဌာန်းခဲ့၏။ ထိုအက် ဥပဒေအရ အကျဉ်းသား များကို တခြားစီ နေရာချထားပေး၍ အလုပ်များလည်း လုပ်ကိုင်စေသည်။ အကျင့်စာရိတ္တကောင်းမွန်လာစေရန်နှင့် အယူဝါဒတွင် စိတ်ဝင်စားလာစေရန် အတွက်လည်း သင်တန်းများ ဖွင့်လှစ်ပေးစေသည်။

အယ်လစ်ဇဗက်ဖရိုင်း(၁၇၈၀–၁၈၄၅) ဆိုသူအင်္ဂလိပ် အမျိုးသမီးတဦးသည်လည်း ဟောင်းဝပ်ကဲ့သို့ပင် အကျဉ်းထောင် ပြုပြင်ရေး လုပ်ငန်း များကို စိတ်ရောကိုယ်ပါ ဆောင်ရွက်ခဲ့ လေသည်။ (ဖရိုင်း, အယ်လစ်ဇဗက် — လည်းရှု။)

ဂျွန် ဟောင်းဝပ်နှင့် အယ်လစ်ဇဗက်ဖရိုင်း တို့ကဲ့သို့သော ပြုပြင်ရေးသမားများ၏ ကြိုးပမ်းမှုကြောင့် အကျဉ်းထောင်များ၏ အခြေ အနေမှာ တဖြည်းဖြည်း ကောင်းမွန် လာလေသည်။ ပြစ်မှု ကျူးလွန်သူများကို ထောင်သွင်း အကျဉ်းချ ထားခြင်းမှာ ထိုက်သင့်သော အပြစ်ဒဏ်ကို ခံရန်သာမဟုတ်ပဲ၊ ပြစ်မှုများ နောက်ထပ် မကျူးလွန်ရအောင် ပြုပြင် ပေးရန်အတွက်လည်း ဖြစ်သည်ဟု သဘောပေါက်လာကြ၏။ သို့ဖြစ်၍ အကျဉ်းသားများ၏ အကျင့် စာရိတ္တနှင့် စိတ်ဓာတ်ကို ပြုပြင်ပေးရန် ရည်ရွယ်လျက် အကျဉ်းထောင်စနစ်ကို အနည်းနည်းအဖုံဖုံ ပြုပြင်ခဲ့လေသည်။ အချုပ်ဆိုရသော် လူကောင်းသူကောင်းများနှင့် အတူ ရောနှော နေထိုင်ရန် မသင့်လျော်ဟု ယူဆခြင်း ခံရသူများကို လူကောင်းသူကောင်း များထဲတွင် ပြန်၍ ဝင်ဆန့်အောင် ပြုပြင်ပေးခဲ့လေသည်။

**အချက်ပြဆက်သွယ်ရေး။** ။ယခုအခါတွင် ထောင်ပေါင်းများစွာ ဝေးကွာသောအရပ်၌ ဖြစ်ပွားသည့်အခြင်းအရာတခုကို နာရီပိုင်းအတွင်း၌ သိနိုင်ကြပေပြီ။ အဘယ်ကြောင့်ဆိုသော် ရေဒီယို ကြေးနန်း စသည်တို့သည် ထိုသတင်းများကို ဆောင်ကြဉ်းပေးကြသောကြောင့်ဖြစ်၏။ ထိုရေဒီယို ကြေးနန်းစသည်တို့ မပေါ်ပေါက်သေးမီ ကာလက မည်သို့ သတင်းများ ပေးပို့ကြ၍ တမြို့နှင့်တမြို့ တရွာနှင့်တရွာ မည်သို့ ဆက်သွယ်ကြသည်ကို သိလိုကြပေလိမ့်မည်။ ထိုအဆက်အသွယ်များ ပြုလုပ်ရန်မှာ အတော်ပင်ခက်ခဲသော ပြဿနာတရပ် ဖြစ်ခဲ့လေသည်။ သို့ရာတွင် လိုလျှင်ကြံဆ နည်းလမ်းရ ဆိုသကဲ့သို့ သူ့ခေတ်နှင့်သူ အလိုက်အထိုက် ဆီလျော်အောင် အဆက်အသွယ်များ ပြုလုပ်လာကြလေသည်။ ရှေးအခါက ခရီးသည်များ အချက်ပေးကြပုံမှာ နေ့အခါဖြစ်ပြီး ခရီးတိုလျှင် ကိုယ်အမူအရာ လက်အမူအရာများဖြင့် အချက်ပေးကြသည်။ ညဉ့်အခါဖြစ်ပြီး ခရီးအတော်အတန် ဝေးလျှင် မီးမြားများဖြင့် အချက်ပေးကြလေသည်။

အလံဖြင့် အချက်ပြနေပုံ

ဓမ္မပဒအဋ္ဌကထာ အပ္ပမာဒဝဂ်လာ သာမာဝတီ ဝတ္ထု၌ အလ္လကပ္ပမင်းနှင့် ဝေဋ္ဌဒီပကမင်းတို့သည် ရသေ့ရဟန်းပြုကာ ဟိမဝန္တာ တောအရပ်တွင် တောင်တလုံးစီ၌ နေထိုင်ကြရာဝယ် "ငါတို့သည် လခွဲ တိုင်းသော ဥပုသ်နေ့၌ သာလျှင် တပေါင်းတည်း တွေ့ဆုံခြင်း ဖြစ်ကြကုန်အံ့၊ (ဥပုသ်နေ့ကြုံကြိုက်လျှင်) သင်သည်လည်း သင်၏တောင်မှ မီးကိုညှိထွန်းလေလော့၊ ငါသည်လည်း ငါ၏တောင်၌မီးကိုညှိထွန်းပေအံ့၊ ထိုသို့သော အမှတ်ဖြင့် ရှိသည်၏အဖြစ်ကို သိကြကုန်အံ့"ဟု တိုင်ပင်စကားကို ပြောကြား၍ နေကြကုန်၏" ဟူ၍ ပါရှိရာ ယင်းမှာ အချက်ပြဆက်သွယ်ခြင်း သဘောဟု ဆိုနိုင်လေသည်။

ထိုသို့ မီးဖြင့် အချက်ပြခြင်းထက် တိုးတက်လာသော အခါတွင် အမှာ်အသားဖြင့် သဘင်းပေးပို့ခြင်းကို ပြုလုပ်ခဲ့ကြလေသည်။ ထို့ပြင် မီးခိုးများကို အလိပ်လိုက် အလိပ်



ပင်လယ်ပြင် တနေရာ၌ လေမုန်တိုင်း ကျရောက်နေပြီ ဖြစ်ကြောင်း ရန်ကုန်ဆိပ်ကမ်း၌ အချက်ပြထားပုံ

လိုက် ကန့်သတ်ခွဲခြား၍ အချင်းချင်း နားလည်ပြီးဖြစ်သည့် အမှတ်အသားများဖြင့် ပေးပို့ကြလေသည်။ စစ်ဖြစ်နေသောအခါများတွင် အချင်းချင်း နားလည်ထားသည့် အချက်ပြချက်များကို အလံများဖြင့်ဖြစ်စေ၊ မီးများဖြင့်ဖြစ်စေ ပြပြီး ဆက်သွယ်ခဲ့ကြလေသည်။

ရှေးခေတ်အချက်ပေးခြင်းများသည် ယခုခေတ်အချက်ပေးခြင်းများနှင့်နှိုင်းယှဉ်လျှင် အကြမ်းစားများသာ ဖြစ်ခဲ့သော်လည်း စစ်ပွဲတို့တွင် ထိုအချက်ပြချက်များ ဖြင့်ပင် ရန်သူများအား အောင်နိုင်ခဲ့ပုံ သာဓကများကို တွေ့ရပေသည်။ အာဖရိကတိုက်၌ အသုံးပြုသည့် အာဖရိကလူမျိုးတို့၏ သတင်းဆက်သွယ်ပေးပို့ပုံမှာ စိတ်ဝင်စားဖွယ်ဖြစ်သည့်ပြင် ဆက်သွယ်ရာ၌လည်း အတော်ပင် ခရီးရောက်ခဲ့လေသည်။ ထိုဆက်သွယ်ပုံမှာ ဗုံတီးဆက်သွယ်ခြင်းပင်ဖြစ်၏။ သူတို့သည် ဗုံချက်တို့ကို အမှတ်အသား ထား၍ တီးခြင်းဖြင့် တရွာမှ တရွာသို့ သတင်းများကို လက်ဆင့်ကမ်းနိုင်ကြလေသည်။

ကြေးနန်းနှင့် ရေဒီယိုတို့မှအပ စစ်အတွင်း၌ရင်း၊ ငြိမ်းချမ်းနေစဉ် ကာလ၌ရင်း ယနေ့တိုင် အသုံးပြုလျက်ရှိသည့် အချက်ပြဆက်သွယ်နည်းမှာ အလံပြဆက်သွယ်ခြင်း ဖြစ်၏။ တိုင်းပြည်တိုင်းတွင် အပြည်ပြည်ဆိုင်ရာ အချက်ပြဆက်သွယ်ရေး အမှတ်အသားများအရ အရောင်မျိုးစုံ ခြယ်လှယ်ထားသည့် အလံငယ်များကို အသုံးပြုကြသည်။ အလံတခုစီ၌ အက္ခရာတလုံးစီအဓိပ္ပါယ်ရှိ၍ အက္ခရာတိုင်းတွင် သက်ဆိုင်ရာ အဓိပ္ပါယ်အကျယ်များ ရှိသည်။ ပုံစံအားဖြင့် အဝါနှင့် အပြာထောင်လိုက် နှစ်ရောင်ခြယ်ထားသော လေးထောင့်ပုံအလံမှာ K အက္ခရာကိုပြသော အလံဖြစ်၍ အဓိပ္ပါယ်မှာ သင်္ဘောချက်ခြင်းရပ်လိုက်ပါ ဆိုသည့် အဓိပ္ပါယ် ဖြစ်၏။ ထို့ကြောင့် ထိုအလံမျိုးနှင့် ဆက်သွယ်ပုံကို ဘာသာမရွေး လူမျိုးတိုင်းက နားလည်နိုင်ပေသည်။

သို့သော် ထိုအလံတို့မှာ ဝေးကွာသော အရပ်တွင် အရောင်များ ထွေပြားနိုင်သဖြင့် ဆင်မဖိုးခေါ် အချက်ပြတိုင်တမျိုးကို အသုံးပြုကြသည်။ ထိုနည်းကို ရေတပ်နှင့် မီးရထားဖက်တွင် အထူးအသုံးပြုကြသည်။

အထက်ပါ ဆက်သွယ်ပုံတို့မှာ နေ့အခါ၌ အသုံးပြုသောနည်းများ ဖြစ်ကြသည်။ ညဥ့်အခါတွင် အလင်းရောင်များကို ခွဲခြား ပြသခြင်းဖြင့်ရင်း၊ မီးသေနတ်နှင့် အချက်ပြခြင်းဖြင့်ရင်း၊ မီးမောင်းများကို အမှတ်အသားနှင့် ထိုးပြခြင်းဖြင့်ရင်း ဆက်သွယ်ကြသည်။ မီးပြတိုက်များတွင်လည်း အမှတ်အသားဖြင့်ပင် ခရီးသွားသင်္ဘောများကို သတိပေးရလေသည်။ မီးရောင်နှင့် အချက်ပြသည့် နည်းမှာ ညဥ့်အခါ၌သာမဟုတ်၊ မုန်တိုင်းများ၊ မြူနှင်းများ ကျရောက်နေစဉ်တွင်လည်း အသုံးကျပေသည်။

အလင်းရောင်ဖြင့် အချက်ပြဆက်သွယ်ရာ၌ ဟီလီယိုဂရပ်သည် အလွန်အရေးပါ အရာရောက်သော ကရိယာဖြစ်သည်။ ဟီလီယိုဂရပ်တွင် မှန်နှစ်ချပ်ပါ၍ ထိုမှန်နှစ်ချပ်စလုံးကို နေမည်သည့်နေရာ၌ ရှိသည်ဖြစ်စေ နေမှအလင်းတန်းကို ပို့လိုသည့်ဖက်သို့ ပို့နိုင်ရန် စီစဉ်ထားသည်။ အလင်းတန်း အတိုအရှည်ကိုကြည့်၍ သတင်းကို မော့အက္ခရာဖြင့် ဖတ်ယူသည်။ နေ၏အလင်းကို ကောင်းစွာ ရနိုင်သည့် အိန္ဒိယနိုင်ငံနှင့် အခြားတိုင်းပြည်များတွင် ထိုအချက်ပြဆက်သွယ်ခြင်းသည် လွန်စွာ အရေးပါခဲ့ပေသည်။ သို့ရာတွင် ထိုကရိယာမျိုးသည် နေကို အားကိုးရသည် ဖြစ်၍ နေမှအလင်းကို ကောင်းစွာ မရနိုင်သည့် ဥရောပတိုက်ကဲ့သို့သော ဒေသများတွင်ကား များစွာ အသုံးမဝင်လှချေ။

ယခုအခါတွင် လျှပ်စစ်ဓာတ်၊ ရေဒီယိုဓာတ်များထွန်းကားလာပြီဖြစ်၍ ဝိုင်ယာလက် ကြေးနန်းတို့ဖြင့် အစစအရာရာတွင် ပိုမိုလွယ်ကူ ကောင်းမွန်စွာ ဆက်သွယ်နိုင်ကြပြီဖြစ်၏။ ကြေးနန်းဖြင့် သတင်းပို့ရာတွင် မော့အချက်ပြစံနစ်ကို အသုံးပြုကြသည်။ ရေပေါ်တွင် သွားလာသည့်

သင်္ဘောအချင်းချင်းသာမက ရေအောက်၌သွားလာသည့် ရေငုပ်သင်္ဘောအချင်းချင်းလည်း ဆက်သွယ်နိုင်ကြပြီ ဖြစ်သည်။ ရေငုပ်သင်္ဘော၏ ဦးတွင် ရေပြင်ထက်က လှိုင်းများ၏ လှုပ်ရှားချက်များမှ ကင်းဝေးသည့် နေရာနားတွင် ခေါင်းလောင်းကဲ့သို့ စက်ကလေးတမျိုးကို တပ်ဆင်ထားသည်။ ထိုစက်ကလေးအားဖြင့် ဖန်တီးပေးလိုက်သော ဂယက်များကို အခြားရေငုပ်သင်္ဘောမှ မိုက္ကရိုဖုန်းနှင့် နားထောင် မှတ်သားကာ သတင်းယူခြင်းဖြင့် ရေငုပ်သင်္ဘောအချင်းချင်း ဆက်သွယ်ကြသည်။ ယခုအခါတွင် နိုင်ငံကြီးတိုင်း၌ အချက်ပြဆက်သွယ်ရေးကို အထူးဂရုပြု၍ စစ်တပ်များတွင် အချက်ပြ ဆက်သွယ်ရေး တပ်မကြီးများဟူ၍ သီးသန့်ထားရှိကြလေသည်။

**အချိန်။** ။အချိန်ကိုတိုင်းတာရာ၌ လက်တွေ့အကျဆုံးနည်းမှာ ဝင်ရိုးပေါ်၌ ကမ္ဘာလည်နေခြင်းကို အကြောင်းပြု၍ တိုင်းသော နည်းပင် ဖြစ်သည်။ ကျွန်ုပ်တို့သည် ယခုအခါ ဝင်ရိုးပေါ်၌ ကမ္ဘာလည်နေသည့် အချက်ကို သက်သေ ထုတ်ပြနိုင်ရုံမက ကမ္ဘာလည်၍ ကြာသော အချိန်ကာလကိုလည်း တွက်ယူနိုင်ကြပေပြီ။

အချိန်ကို တိုင်းရာတွင် နေရက်နှင့် ကြယ်ရက်၊ လ (စန္ဒရမာသ)နှင့် ကြယ်လ၊ နေနှစ်နှင့် ကြယ်နှစ်တို့ဖြင့် တိုင်းပြလေ့ရှိကြသည်။ နေ၊ လ၊ ကြယ်ဟူသော အသုံးအနှုန်းများမှာ နေကိုရင်း၊ လကိုရင်း၊ ကြယ်ကိုရင်း အသီးအသီး အကြောင်းပြုထားခြင်း ဖြစ်ပေသည်။ ရှေးခေတ်က လူတို့သည် လနှင့် နှစ်ကို စတင်၍ သတ်မှတ်ကြသည်။ ထိုနောက်မှ လူတို့၏အသုံးကိုလိုက်၍ ရက်သတ္တပတ်၊ ရက်၊ နာရီ၊ မိနစ်၊ စက္ကန့်စသည်တို့ကို အသေးစိတ် ခွဲခြား သတ်မှတ်လာခဲ့ကြသည်ဟု ဆိုလေသည်။ နေရက် တရက်မှာ နေမွန်းတည့်အချိန်မှ နောက်တခါ နေမွန်းတည့်ချိန်အထိ ကြာသောအချိန် ဖြစ်သည်။ သို့သော် နေရက် တရက်၏ ကြာသောအချိန်သည် တနှစ်အတွင်း ပြောင်းလဲလျက်ရှိသည်။ ဒီဇင်ဘာလ၊ ဇန်နဝါရီလများတွင်ရှိသော နေရက်တာတို့သည် ဇွန်လ၊ ဇူလိုင်လများတွင်ရှိသော နေရက်တာတို့ထက် အချိန်ပို၍ ကြာသည်။ နေရက်တို့သည် အချိန်ကာလအားဖြင့် တရက်နှင့်တရက် မတူညီကြသောကြောင့် တနှစ်တွင်ဖြစ်သော နေရက်တို့၏ ပျမ်းမျှခြင်းကို သတ်မှတ်ထားကြရ၍ ထိုပျမ်းမျှ နေရက်တရက်၏ အချိန် ကာလသည် ကြယ်နှင့် တွက်ချက်ထားချက်အရ အချိန် ၂၄ နာရီ ၃ မိနစ် ၅၆.၅၅ စက္ကန့် ဖြစ်လေသည်။

သတ်မှတ်ထားသော ကြယ်တလုံးသည် ကြည့်ရှုသူ၏ မီရီဒီယန်ကို ပဌမဖြတ်သည်မှ နောက်တခါ ဖြတ်သည်အထိ ကြာသောအချိန်ကာလမှာ ကြယ်ရက်ဖြစ်သည်။ တနည်းအားဖြင့်ဆိုသော် ကမ္ဘာသည် ဝင်ရိုးပေါ်၌ တပတ်တိတိ၊ သို့မဟုတ် ဒီဂရီ ၃၆၀ လည်၍ ကြာသောအချိန်ဖြစ်သည်။ ကမ္ဘာသည် နေ့စဉ် အနောက်မှ အရှေ့ဖက်သို့ ရွေ့ရှားလျက် ရှိ၏။ သို့ရာတွင် ကြယ်တို့သည် ကမ္ဘာမှ အလွန့်အလွန်ဝေးကွာသည့်အတွက် သတ်မှတ်ထားသောကြယ်ကို အကြောင်းပြု၍ ဖြစ်သော ကမ္ဘာ၏ တည်နေရာသည် ရွေ့ပြောင်းခြင်း မရှိပေ။ ကြယ်ရက် တရက်၏ အချိန်ကာလသည် ပျမ်းမျှနေအချိန်၏ ၂၃ နာရီ ၅၆ မိနစ် ၄.၀၉ စက္ကန့်နှင့် တူညီလေသည်။

နေသွားလမ်းနှင့် အီကွေတာ စက်ဝိုင်းတို့ ဖြတ်သွားရာ အချက်နှစ်ခုဖြစ်သော နေ့နှင့် ည ညီမျှချိန် နှစ်ခုမှာ မတ်လ ၂၁ ရက်နှင့် စက်တင်ဘာလ ၂၂ ရက်တို့ ဖြစ်သည်။ (နေ့ညညီချိန်နှင့်ယဉ်စွန်းချိန် — လည်းရှု။)ပဌမ မတ်လ ၂၁ ရက်နေ့မှ ဒုတိယ မတ်လ ၂၁ ရက်နေ့အထိ၊ သို့မဟုတ် ပဌမ စက်တင်ဘာလ ၂၂ ရက်နေ့မှ ဒုတိယ စက်တင်ဘာလ ၂၂ ရက်နေ့အထိ ကြာသောအချိန်တွင် ကမ္ဘာသည် နေကို တပတ်တိတိ ပတ်မိရပေမည်။ သို့ရာတွင် နေ့ ညညီချိန် ဖြစ်သော အီကွေတာနှင့် နေသွားလမ်းတို့ဖြတ်ရာ အချက်နှစ်ခုသည် အရှေ့ဖက်မှ အနောက်ဖက်သို့ တရွေ့ရွေ့နှင့် ရွေ့နေသည့်အတွက် ကမ္ဘာသည် နေကို အနောက်မှ အရှေ့သို့ လှည့်ပတ်ရာတွင် တပတ်တိတိ မပြည့်မီ မိနစ် ၂၀ စက္ကန့် ၂၃ ခန့်အလိုမှာပင် နေကို အကြောင်းပြုထားသော အနေအထားအရ၊ တပတ် ပြည့်သကဲ့သို့ ဖြစ်သွား လေသည်။ အဓိပ္ပါယ်မှာ ပဌမ မတ်လ ၂၁ ရက်နေ့၌ဖြစ်သော နေ့ညညီချိန်အမှတ်မှ ဒုတိယ မတ်လ ၂၁ ရက်နေ့၌ဖြစ်သော နေ့ညညီချိန်အမှတ်သို့ရောက်ရန်အချိန်မှာ မိနစ် ၂၀၊စက္ကန့် ၂၃ ခန့် လျော့သွားသည်ဟုဆိုလိုသည်။ ဤကဲ့သို့ နေ့ညညီချိန်အမှတ်တခုမှ ထိုနေ့ည ညီချိန်အမှတ်သို့ နောက်တခါဆိုက်ရောက်သည်အထိ ကြာသော အချိန်ကာလ အပိုင်းအခြားကို နေနှစ်ဟု ခေါ်၍ နေနှစ်၏ အချိန်တာမှာ ၃၆၅ ရက် ၅ နာရီ ၄၈ မိနစ် ၄၅.၅၇၅ စက္ကန့် ဖြစ်လေသည်။ ကြယ်နှစ်မှာ သတ်မှတ်ထားသော ကြယ်ကို ကမ္ဘာ့ ဗဟိုချက်က ပဌမဖြတ်သည်မှ နောက်တခါ ဖြတ်သည်အထိ ကြာသော အချိန်ကာလဖြစ်၍၊ ထိုအချိန်ကာလမှာ ၃၆၅ ရက်၊ ၆နာရီ ၉ မိနစ် ၈.၉၇ စက္ကန့် ဖြစ်လေသည်။

လောင်ဂျီတွဒ်တခုတည်းပေါ် တွင်ရှိသော နေရာများသာလျှင် ပျမ်းမျှနေအချိန်ကို တညီတည်း သတ်မှတ်နိုင်ကြသည်။ အဘယ်ကြောင့်ဆိုသော် နေသည် တနာရီလျှင် လောင်ဂျီတွဒ် ၁၅ ဒီဂရီကျ အနောက်ဖက်သို့ ရွေ့သွားနေရာ ဒေသတိုင်းတွင် နေအချိန်ကို အသုံးပြုကြမည် ဆိုပါက တဒေသနှင့် တဒေသတွင် အရှေ့ အနောက် ကွဲလွဲပုံကို လိုက်၍ အချိန်ချင်း တူညီကြမည်မဟုတ်ပေ။ ထိုအခါ

အထူးသဖြင့် ခရီး အသွား အလာများ အတွက် အချိန် သတ်မှတ်ရန် ခက်ခဲပေလိမ့်မည်။ ထို့ကြောင့် နိုင်ငံ အသီး အသီးတွင် ဒေသတခုလုံးအတွက် တချိန်တည်း သတ်မှတ်ထားသော စံတော်ချိန်ကိုသာ အသုံးပြုကြ လေသည်။ မြန်မာနိုင်ငံရှိ စံတော်ချိန်အရဆိုလျှင် ရန်ကုန်မြို့တွင် ၁၂ နာရီအချိန်သည် မော်လမြိုင်မြို့၊ စစ်တွေမြို့တို့တွင်လည်း ၁၂ နာရီအချိန်ပင် ဖြစ်သည်။ နေရာအလိုက် အချိန်ကိုသာ အသုံးပြုမည် ဆိုပါက ရန်ကုန်နှင့် မော်လမြိုင်တို့တွင် နေအချိန်ချင်း တူညီကြမည် မဟုတ်ပေ။

နိုင်ငံတိုင်းသည် လန်ဒန်မြို့ ဂရင်းနစ် စံတော်ချိန်ကို ဗဟိုစံတော်ချိန် အဖြစ် အသုံးပြုကြသည်။ ဂရင်းနစ်ကို ဖြတ်သော လောင်ဂျီတွဒ်မျဉ်းကို သုညဒီဂရီအဖြစ် သတ်မှတ်ကြသည်။ ဂရင်းနစ် အရှေ့ဖက် ၁ ဒီဂရီ ကျသော လောင်ဂျီတွဒ်မျဉ်းတွင် နေထွက်ချိန် ၄ မိနစ်စော၍ ဂရင်းနစ် အနောက်ဖက် ၁ ဒီဂရီကျသော လောင်ဂျီတွဒ် မျဉ်းတွင် နေထွက်ချိန် ၄ မိနစ် နောက်ကျသည်။ ထိုနည်းဖြင့် နိုင်ငံတိုင်းသည် ဂရင်းနစ် လောင်ဂျီတွဒ်မှ ကွာဝေးသော ဒီဂရီများအတိုင်း စံတော်ချိန်များကို သတ်မှတ်ကြသည်။ ပုံစံအားဖြင့် ဂရင်းနစ်မီရီဒီယန်၌ မွန်းတည့် ၁၂ နာရီ ဖြစ်လျှင် အရှေ့ဖက် လောင်ဂျီတွဒ် ၁၀၅ ဒီဂရီ၌ ညနေ ၇ နာရီ ဖြစ်မည်ဟူ၍ရင်း၊ အနောက်ဖက် လောင်ဂျီတွဒ် ၉၀ ဒီဂရီ၌ နံနက် ၆ နာရီ ဖြစ်မည်ဟူ၍ရင်း သိမှတ်ကြလေသည်။

ရှေးက အချိန်ကို ပိုင်းခြားသတ်မှတ်ရန်အတွက် နေနာရီ၊ သဲနာရီ၊ ရေနာရီများကို အသုံးပြုခဲ့ကြသည်။ သို့ရာတွင် စက်မှုလက်မှုနှင့် သိပ္ပံပညာ ထွန်းကားလာပြီး နောက်တွင်ကား သံပတ်စက်ဖြင့် အချိန်မှန်သွားလာသော နာရီများကိုသာ ကမ္ဘာအနှံ့ သုံးစွဲလာကြလေတော့သည်။

**အချိန်ခလုတ်။** ။အချိန်ခလုတ် ဆိုသည်မှာ အချိန်ကျရောက်သောအခါ လှုပ်ရှားလာပြီးလျှင် လျှပ်စစ်ဆာကစ်ကို ပွင့်အောင်ဖြစ်စေ၊ ပိတ်မိအောင်ဖြစ်စေ ပြုလုပ်ပေးသည့် ခလုတ်ကိုဆိုသည်။ ဤခလုတ်နှင့် စပ်လျဉ်း၍ အရိုးဆုံးကရိယာမျိုးမှာ နာရီနှိုးစက်ဖြစ်သည်။ နံနက်တိုင်း အချိန်ကျသောအခါ ချိတ်ဆက်နှစ်ခုကို ပိတ်သွားစေ၍ လျှပ်စစ်ခေါင်းလောင်း၊ သို့မဟုတ် ရိုးရိုးနှိုးစက်ကို မြည်လာစေသည်။ အခြားအသုံးအဆောင်မျိုးမှာ လှေကားတွင် မီးကို ထိန်းသိမ်းရန်အတွက် တိုက်များ၌ အသုံးပြုသော စက်မျိုးဖြစ်သည်။ ကျွန်ုပ်တို့သည် လှေကားပေါ် သို့မတက်မီ မီးခလုတ်ကို ဖွင့်လိုက်သည်။ ထိုသို့ဖွင့်ထားသည့်မီးသည် နာရီစက်ဖြင့်လည်သော ကရိယာတခုကြောင့် အချိန် အတန်ငယ် ကြာသောအခါ အလိုအလျောက် ပိတ်သွားသည်။

ဤထက်ပို၍ ရှုပ်ထွေးသော စက်မျိုးသည် အချိန်ကျရောက်သည့်အခါ သတ်မှတ်ထားသည့်အချိန်အထိလည်သွားနိုင်သည်။ ကျောင်းများတွင် "အချိန်စာရင်းနာရီ" သည် ၄၅ မိနစ်လျှင်တကြိမ်ကျစီ တီးလေ့ရှိသည်။ ထိုနာရီသည် မုံ့စားချိန်ဘနာရီလုံးတွင်ဖြစ်စေ၊စနေနေ့နှင့်တနင်္ဂနွေနေ့များတွင် ဖြစ်စေ အလုပ် မလုပ်ပဲနေသည်။ အခြားစက်မျိုးသည် အချိန်တန်လျှင် ဝိုင်ယာလက်စက်ကို ပိတ်လိုက်ဖွင့်လိုက် ပြုလုပ်ပေးသဖြင့် ဝိုင်ယာလက်စက်မှ ကျွန်ုပ်တို့ကြားချင်သော သတင်းများကိုသာ ကြားစေသည်။ လမ်းမီးများနှင့် ဆိုင်များတွင် မီးများကို အချိန်အတန်ကြာလျှင် ပိတ်ရန်နှင့် ဖွင့်ရန်အပြင် မီးရောင်ပေး၍ ရိုက်ရသော ဓာတ်ပုံရိုက် ကရိယာတွင် အချိန်ကို တိုင်းတာရန်အတွက် ဤခလုတ်မျိုးကိုပင် အသုံးပြုလေသည်။

အချိန်အတိုင်း လှုပ်ရှားသော စက်မျိုးကို မက္ကင်းနီကယ်၊ ဆိုင်ကရိုနပ်နှင့် အီလက်ထရွန်နစ်ဟူ၍ သုံးမျိုးခွဲခြားထားနိုင်သည်။ မက္ကင်းနီကယ် အမျိုးတွင် နာရီစက်ကိုသုံးသည်။ နာရီစက်ဖြင့် လည်နေသည့် ချပ်ဝိုင်းပေါ်ရှိ အပ်များသည် မောင်းတံများကို လှုပ်ရှားသွားစေသောအခါ ခလုတ်ကို လှုပ်ရှားသွားစေသည့် စက်သည်လည်း လည်သွားသည်။ ဆိုင်ကရိုနပ်အမျိုးတွင် အလားတူအလုပ်လုပ်ပုံ သဘောကို အသုံးပြုထားသည်။ ဤစက်နှစ်မျိုးတွင် အဓိက ခြားနားချက်မှာ စက်ကို ခုတ်မောင်းရာတွင် နာရီစက်ကို အသုံးမပြုပဲ လျှပ်စစ် ဓာတ်ဖြင့်သွားသော နာရီများတွင် ကဲ့သို့ ဆိုင်ကရိုနပ် မိုတာကို အသုံးပြုခြင်းဖြစ်သည်။ ဤနှစ်မျိုးလုံးတွင် ချွတ်ယွင်းချက်များရှိသည်။ ဥဒါဟရုဏ် အားဖြင့် လျှပ်စစ်ဓာတ်တွင် အချိန်ကြာမြင့်စွာ ပြတ်တောက်မှုရှိလျှင် စည်းချက်မကျပဲ ရှိတတ်သည်။ နာရီစက်များတွင်မူကား အနည်းဆုံး ရက်သတ္တတပတ်လျှင် တကြိမ်၊ သို့မဟုတ် နှစ်ပတ်လျှင်တကြိမ် သော့ပေးရန်လိုသည်။

လမ်းများတွင် မီးထွန်းရန်အတွက် သုံးသောအခါ ခလုတ် နှစ်မျိုးစလုံးကိုပင် နေဝင်၍ နာရီဝက်ခန့် ကြာသောအခါ မီးကို ထွန်းပေးရန်နှင့် နေမထွက်မီ နာရီဝက်ခန့် ကြိုတင်၍ မီးငြိမ်းပစ်ရန် စီစဉ် ပေးလေ့ ရှိသည်။ ဤသို့ပြုလုပ်နိုင်စေရန် ဤခလုတ်များတွင် ဆိုလဒိုင်ယမ်ခေါ် ဒိုင်ခွက်တမျိုးကို တပ်ဆင်ပေးထားသည်။ ဤကရိယာသည် နေ့စဉ် ချိတ်ဆက်ကို အနည်းငယ်ပြောင်းသွားအောင် ပြုလုပ်ပေးသည်။ ထိုသို့ ပြုလုပ် ပေးရခြင်းမှာ နွေနှင့် ဆောင်းတွင် နေထွက်ချိန်နှင့် နေဝင်ချိန်သည် တချိန်နှင့်တချိန် မတူသောကြောင့် ဖြစ်သည်။

အလွန် တိုတောင်းလှသည့် ကြားကာလ အချိန်ကို လိုသောအခါ စက်ဖြင့် လည်သွားစေသည့် ခလုတ်မျိုး

သည် အချိန်မမှန်တတ်ပေ။ ဤကိစ္စအတွက် အချိန်ကို တိကျမှန်ကန်စေရန် အီလက်ထရွန်နစ် ကရိယာများကို အသုံးပြုသည်။ သတ္တုကို ဆက်ယူသော လုပ်ငန်းများတွင် အချိန်ကို အလွန်မှန်ကန်စေရန် အီလက်ထရွန်နစ်ကရိယာ မျိုးကို အသုံးပြုကြသည်။

**အချိန်မှန်တိုင်း။** ။ခရိုနိုမီတာ — ရှု။

**အခွင့်အရေးဥပဒေကြမ်း။** ။အင်္ဂလန်ပြည် သမိုင်းတွင် ၁၆၈၈ ခုနှစ် သွေးမြေမကျ တော်လှန်မှုကြီးအားဖြင့် ဒုတိယ ဂျိမ်းဘုရင်၏နေရာတွင် တတိယဝီလျံနှင့် မေရီတို့သည် ထီးနန်းဆက်ခံခဲ့လေသည်။ ဝီလျံနှင့်မေရီမင်းနှစ်ပါးတို့ ထိုသို့ အင်္ဂလိပ်ထီးနန်းကို မဆက်ခံရသေးမီ အောက်လွှတ်တော်သည် အခွင့်အရေး ကျေညာစာတမ်းတရပ်ကို ရေးဆွဲအတည်ပြုကာ ထီးနန်းဆက်ခံမည့် နန်းလျာများထံ တင်ပြ၍ သဘောတူစေခဲ့၏။ ထိုအခွင့်အရေးကျေညာစာတမ်းကိုပင် ၁၆၈၉ ခုနှစ်တွင် ဥပဒေကြမ်းအဖြစ် ရေးဆွဲကာ ပါလီမန်လွှတ်တော်တွင် တင်ပြအတည်ပြုခဲ့လေသည်။ (ဝီလျံဘုရင်များ (အင်္ဂလိပ်) — လည်းရှု။)



အခွင့်အရေး ဥပဒေကြမ်းကို တတိယဝီလျံနှင့် မေရီတို့ထံ တင်ပြနေစဉ်

ထိုဥပဒေကြမ်းတွင် နန်းကျဘုရင် ဒုတိယ ဂျိမ်း၏ ဥပဒေလက်လွတ် ပြုမူပုံများနှင့် ဤသို့ပြုမူသဖြင့် လူထုမကျေနပ်သောကြောင့် ထီးနန်းစွန့်ရပုံများကို ဖော်ပြ၍ လူတို့၏ လွတ်လပ်ခွင့်ကို ကာကွယ် ထားသည့် အပိုဒ်များကို ထည့်သွင်းထားလေသည်။ ပါလီမန်၏ သဘောတူညီချက်မရပဲ ဘုရင့်အမိန့်ဖြင့် တရားဥပဒေများ အကျိုးသက်ရောက်ခွင့်ကို ရပ်ဆိုင်းထားခြင်း၊ တရားဥပဒေများကို သုံးရန်ဖြစ်ပါလျက် မသုံးပဲနေနိုင်ခွင့်အာဏာ (တရားလက်လွတ် ပြုမူခြင်း)၊ အထူးတရားရုံးတော်များ ဖွင့်လှစ်ခြင်း၊ ပါလီမန်၏ သဘောတူညီချက်မရပဲ ဘုရင့် အထူးအခွင့်အရေးအရ အခွန် ကောက်ခံခြင်း၊ နိုင်ငံ ငြိမ်းချမ်းနေသည့်အခါတွင် ပါလီမန်၏ သဘောတူညီချက်မရပဲ နိုင်ငံတွင်း စစ်တပ် ဖွဲ့စည်း တည်ထောင်ခြင်း စသည်တို့မှာ တရားဥပဒေအရမဟုတ်ဟု ဖော်ပြထား၏။ ထိုပြင် ဘုရင်ထံသို့ အလွှာတင်သွင်းခွင့်၊ လွတ်လပ်စွာ ပါလီမန်ရွေးကောက်ပွဲများ ကျင်းပနိုင်ခွင့်၊ ပါလီမန်အတွင်း လွတ်လပ်စွာ အချေအတင် စကားပြောဆိုခွင့်၊ ပါလီမန်ကို မကြာခဏ ဆင့်ခေါ်နိုင်ခွင့် စသည်တို့ကိုလည်း ဤအခွင့်အရေးဥပဒေကြမ်းတွင် အတိအလင်း ဖော်ပြထည့်သွင်းထားလေသည်။

အင်္ဂလန်ပြည်သမိုင်းတွင် မဂ္ဂနာကာတာ စာချုပ်ကြီးပြီးခဲ့သည့်နောက် အင်္ဂလိပ်လွတ်လပ်ရေး၏ အကွယ်အကာကြီးတခုပင် ဖြစ်ပေသည်။ (မဂ္ဂနာကာတာ — လည်းရှု။) ဤမျှ လူ့အခွင့်အရေးကို တရားမျှတစွာ ကာကွယ်ခဲ့သဖြင့် အမေရိကန် ပြည်ထောင်စု နိုင်ငံ ဖွဲ့စည်း အုပ်ချုပ်ပုံအခြေခံဥပဒေတွင် "အဆမတန် အာမခံ တောင်းမှု" နှင့် "ရက်စက်၍ ပေးရိုးပေးစဉ်မဟုတ်သည့် အပြစ်ဒဏ်များ" နှင့် ဆိုင်ရာပြင်ဆင်ချက်များ အပါအဝင် ပဌမပြင်ဆင်ချက် ၁၀ ခုမှာ ထိုအင်္ဂလိပ် အခွင့်အရေး ဥပဒေကြမ်းကို မှီးခဲ့ရလေသည်။

**အခွန်အတုတ်။** ။ယခုခေတ်တွင် နိုင်ငံအသီးအသီး၌ ပြည်သူလူထု၏ ကျန်းမာရေး၊ ပညာရေး၊ ကာကွယ်ရေး၊ အေးချမ်းစွာ နေထိုင်နိုင်ရေးနှင့်တကွ အထွေထွေအကျိုးစီးပွား တိုးတက်ရေး စသည်တို့အတွက် အစိုးရကတာဝန်ယူ၍ ဆောင်ရွက်ပေးရိုး ဖြစ်သည်။ ပြည်သူတို့၏ ကျန်းမာရေးအတွက် အမြို့မြို့တွင် ဆေးရုံများ ဖွင့်ပေးရသည်။ ပညာရေး အတွက် စာသင်ကျောင်းများ တည်ထောင်ပေးရသည်။ ကာကွယ်ရေးအတွက် စစ်တပ်များ၊ ရဲအဖွဲ့များ ဖွဲ့စည်းထားရလေသည်။ ယင်းကဲ့သို့ ပြည်သူတို့အတွက် ဆောင်ရွက်ပေးရသောကြောင့် ကုန်ကျသော စရိတ် ကြေးငွေများကို ကာမိရန် နိုင်ငံအစိုးရသည် တိုင်း

သူပြည်သားတို့ထံမှ အခွန်အတုတ်များကို ကောက်ခံရလေသည်။ သို့ဖြစ်လေရာ နိုင်ငံတကာရှိ အစိုးရများသည် အခွန်အတုတ် ကောက်ခံခြင်းကို လုပ်ငန်းတရပ် အနေနှင့် တာဝန်ယူကာ ဆောင်ရွက်ရသည်။ စင်စစ်အားဖြင့် အခွန်အတုတ်များ မကောက်ခံပဲနှင့်လည်း ပြည်သူ လူထုအတွက် ငွေကြေး စိုက်ထုတ်ကာ နိုင်ငံကို ချောမောပြေပြစ်စွာ အုပ်ချုပ်နိုင်မည်မဟုတ်ချေ။

အခွန်အတုတ်များသည် နိုင်ငံ၏ ဘဏ္ဍာရေးကို ဖြည့်တင်းပေးသည်။ ဘဏ္ဍာရေး တောင့်တင်းမှသာ နိုင်ငံကို ချောမောပြေပြစ်စွာ အုပ်ချုပ်နိုင်၏။ အုပ်ချုပ်ရေး စက်ယန္တရားကြီးလည်း မှန်မှန် လည်နိုင်ပေမည်။ ထို့ကြောင့် ကမ္ဘာပေါ်တွင် ခေတ်မှီ၍ စံနစ်ကျသည့် အုပ်ချုပ်ရေး ရှိသော နိုင်ငံအသီးအသီး၌ အခွန်အတုတ်များကို နည်းစံနစ်အမျိုးမျိုးဖြင့် ကောက်ခံလေ့ရှိကြသည်။ ကောက်ခံသော နည်းစံနစ် များမှာကား တနိုင်ငံနှင့် တနိုင်ငံ မတူညီကြချေ။ တဖန် နိုင်ငံ တခုအတွင်း၌ပင်လျှင် အခွန်အတုတ်များကို စံနစ်အမျိုးမျိုး၊ နာမည် အစားစားနှင့် ကောက်ခံကြလေသည်။

အခွန်အတုတ် ကောက်ခံပုံနှင့် စပ်လျဉ်း၍ အင်္ဂလန်ပြည်တွင် ရှေးဦးစွာ ပေါ်ပေါက် ခဲ့သော ဘောဂဗေဒ ပညာရှင် အဒမ် စမစ်က အခွန်တော် ကောက်ခံရာတွင် ပေးနိုင် မပေးနိုင်ကို စဉ်းစားပြီးနောက် ပေးနိုင်သည့် အချိုးအစားအလိုက် တိုင်းသူပြည်သားတို့က လွယ်လင့်တကူ ပေးဆောင်နိုင်အောင်နှင့် စရိတ် နည်းနည်းနှင့် ကောက်ခံနိုင်အောင် အခွန်အတုတ်ကို အတိအကျ သတ်မှတ်ကောက်ခံသင့်သည်ဟုဆို၏။ ( စမစ်၊ အေ — လည်းရှု။ )

နာမည်ကျော် ပြင်သစ် ဘဏ္ဍာရေးဝန်ကြီး ကိုးလဗားကမူ "ငန်းကို အမွေးနှုတ်ရာတွင် သိပ်မအော်စေပဲ အမွေးများများ ရနိုင်သမျှ ရအောင်နှုတ်ပါ" ဟု ပြောခဲ့ဘူးလေသည်။ (ကိုးလဗား၊ ဂျေဗီ — လည်းရှု။) ဆိုလိုရင်းမှာ တိုင်းသူပြည်သားများထံမှ အခွန်အတုတ် ကောက်ခံရာတွင် ဆူပူမှု နည်းနိုင်သမျှ နည်းစေပြီးလျှင် အခွန်ငွေ ရနိုင်သမျှရအောင် ကောက်ပါဟူ၍ ဖြစ်သည်။

နိုင်ငံအစိုးရသို့ ပေးဆောင်ရသော အခွန် အတုတ်များကို ယေဘုယျအားဖြင့် တိုက်ရိုက် ပေးဆောင်ရသော တိုက်ရိုက်ခွန်နှင့် သွယ်ဝိုက်၍ ပေးဆောင်ရသော သွယ်ဝိုက်ခွန်ဟု နှစ်မျိုး ခွဲခြားထားသည်။ သွယ်ဝိုက်၍ ပေးဆောင်ရသော အခွန်တမျိုးမှာ နိုင်ငံခြားမှ တင်သွင်းသော ကုန်များပေါ်တွင်စည်းကြပ်သည့် အကောက်ခွန်ဖြစ်သည်။ နိုင်ငံခြားမှ ကုန်များကို တင်သွင်းသော ကုန်များသည် အစိုးရအား အကောက်ပေးဆောင်ရသည်။ (အကောက်ခွန်—လည်းရှု။) သူတို့ကတဖန်ထိုသို့အကောက်ပေးဆောင်ရသည့်အတွက်ကုန်များပေါ်တွင် အကောက်အတွက်ကာမိအောင် ဈေးတင်၍ ရောင်းချသည်။ သို့ဖြစ်လေရာ နောက်ဆုံးတွင် ကုန်များကို ဝယ်ယူသုံးစွဲသော တိုင်းသူပြည်သားများကသာ ပေးဆောင်ရသည့် အဖြစ်သို့ ရောက်သွားလေသည်။ ပွဲခွန်နှင့် ရောင်းခွန်စသည်တို့မှာလည်း သွယ်ဝိုက်၍ ပေးဆောင်ရသော အခွန်တော်မျိုးပင် ဖြစ်၏။ အချို့က ထိုကဲ့သို့သောအခွန်မျိုးသည် လူချမ်းသာများထက် ဆင်းရဲသားများကို ပို၍ထိခိုက်စေသည်ဟု ဆိုကြသည်။ သို့ဖြစ်၍ ယခုအခါ တိုက်ရိုက် ခွန်များကိုသာ တိုး၍ကောက်ခံလေသည်။

တိုက်ရိုက် ခွန်မှာကား သွယ်ဝိုက်ခွန်ကဲ့သို့ တိုင်းသူပြည်သားများအပေါ်သို့ လွှဲချ၍ မရချေ။ တိုက်ရိုက် ခွန်သည် အခွန် စည်းကြပ်ခံရသူ၏ ပိုင်ငွေနှင့် တိုက်ရိုက်သက်ဆိုင်နေသော အခွန်မျိုးဟု ဆိုနိုင်ပေသည်။ အမြတ်ခွန်၊ အပိုခွန်၊ အမွေခွန်၊ အမွေဆက်ခံခွန် စသည်တို့သည် တိုက်ရိုက် ပေးဆောင်ရသော အခွန်များဖြစ်သည်။

ထို့မှတပါး ဝင်ငွေတိုးတက်လာသည်နှင့်အမျှ နှုန်းပို၍ ပေးဆောင်ရသော အခွန်မျိုးနှင့် ဝင်ငွေ တိုးတက်လာသည်နှင့်အမျှ နှုန်း လျော့၍ ပေးဆောင်ရသော အခွန်မျိုးဟူ၍ နှစ်မျိုးခွဲခြားပြန်သေးသည်။

အမြတ်ခွန်အပါအဝင် တိုက်ရိုက် အခွန်များမှာ ပဌမအခွန် အမျိုးအစားဖြစ်ပေသည်။ အထက်ပါ အခွန်များအပြင် အခြားအခွန်အတုတ်မျိုးများလည်း ရှိပေသေးသည်။ အချို့သောလုပ်ငန်းနှင့် အကြောင်းကိစ္စများအတွက် အမိန့်လိုင်စင်ထုတ်ပေးရသောကြောင့် အခွန်အတုတ်ကောက်ခံသည်။ ရုပ်ရှင်ရုံလိုင်စင်ခများ၊ ပျော်ပွဲစားရုံ လိုင်စင်ခများ၊ သေရည်သေရက်ဆိုင် လိုင်စင်ခများ၊ မော်တော်ကား လိုင်စင်ခများသည် ထိုကဲ့သို့သော ကောက်ခံသော အခွန်အတုတ်များ ဖြစ်၏။ သေရည် သေရက် ချက်လုပ်ခွင့်လိုင်စင်ခများနှင့် ရောင်းချခွင့် လိုင်စင်ခများသည် အစိုးရဘဏ္ဍာတော်ကို အလွန်တိုးတက်စေသော အခွန် အတုတ်များ ဖြစ်ကြသည်။ အကြောင်းမှာ ထိုသေရည် သေရက် ချက်လုပ် ရောင်းချခွင့်လိုင်စင်များကို လေလံတင်၍ အများဆုံး ပေးနိုင်သူများကိုသာ ရောင်းချလေ့ ရှိသောကြောင့် ဖြစ်၏။

ထို့မှတပါး လောင်းကစားခြင်းများပေါ်တွင်ကောက်ခံသော လောင်းကစားခွန်နှင့် ကုန်စည်ကူးသန်းရောင်းဝယ်ရေးနှင့်အလုပ်အကိုင်များပေါ်တွင် စည်းကြပ်သော အခွန်အတုတ်များလည်း ရှိသေးသည်။ နိုင်ငံတွင်း၌ ပြုလုပ်သော ကုန်ပစ္စည်းများ အပေါ်တွင်လည်း နိုင်ငံဖြစ် ပစ္စည်းခွန် (ယစ်မျိုးခွန်) စည်းကြပ် လေသည်။ (ယစ်မျိုးခွန် — လည်းရှု။)

ထိုပြင် ကျန်အခွန်အတုတ်အချို့ မှာ လူခွန်၊ မြေခွန်၊ သဿမေဓခွန်နှင့် လယ်မြေများပေါ်တွင် စည်းကြပ်သော လယ်ခွန်များဖြစ်ကြသည်။

အစိုးရသို့ ပေးဆောင်ရသော အခွန် အတုတ်များ အပြင်၊ ဒေသန္တရအုပ်ချုပ်ရေးအဖွဲ့များသို့ ပေးဆောင်ရသော အခွန်အတုတ်များလည်း ရှိပေသေးသည်။ ယင်းတို့မှာ မြေခွန်၊ အိမ်ခွန်၊ မီးခွန်၊ ရေခွန်၊ အမှိုက်သရိုက်ခွန်၊ မိလ္လာခွန် စသည်တို့ ဖြစ်ကြသည်။

များစွာသော လူတို့သည် အခွန်အတုတ်ကို ကြည်ဖြူစွာ မပေးဆောင်လိုကြချေ။ အခွန် ပေးဆောင်ရာတွင်လည်း အချိန် ဆွဲနိုင်သမျှ ဆွဲထားတတ်ကြ၏။ တချို့ကလည်း စာရင်းအင်း အမှန်ကိုမပြပဲ အခွန်စည်းကြပ်ခြင်းမှ ကင်းလွတ်အောင်၊ သို့မဟုတ် အခွန်အပေးရ နည်းနိုင်သမျှနည်းအောင် ဥာဏ်နီဥာဏ်နက် အမျိုးမျိုးထုတ်ကြသည်။ သူတို့၏စိတ်တွင် အစိုးရကရင်း၊ ဒေသန္တရ အုပ်ချုပ်ရေးအဖွဲ့များကရင်း ထိုသို့ အခွန် စည်းကြပ်ခြင်း များမှာ မတရား ခေါင်းပုံဖြတ်ခြင်း ဖြစ်သည်ဟု ထင်နေ တတ်ကြသည်။ စင်စစ် အားဖြင့်ကား ထိုသို့မဟုတ်ချေ။ အစိုးရ တည်းဟူသော အုပ်ချုပ်ရေး စက်ယန္တရားကြီး အမြဲတစေ လည်ပတ် နေနိုင်ရန်အတွက် ဘဏ္ဍာရေး တောင့်တင်းရပေမည်။ အစိုးရတွင် အခြားဝင်ငွေလည်းမရှိသဖြင့် အခွန်အတုတ် မကောက်ခံပဲ မည်သည့် နည်းနှင့်မျှ ဘဏ္ဍာရေးကို ဖြည့်တင်းပေးနိုင်လိမ့်မည် မဟုတ်ချေ။ သို့ဖြစ်လေရကား နိုင်ငံကြီးသား ပီသ၍ ပြည်သူ့ဝတ်တရားကို သိသော နိုင်ငံသူ နိုင်ငံသားတိုင်းသည် အစိုးရအား အခွန်အတုတ် ပေးဆောင်ရန် မနှောင့်နှေးသင့်ချေ။

**အဂူးတီကောင်။** ။အဂူးတီကောင်သည် အနောက်အိန္ဒိယကျွန်းစုနှင့် မက္ကဆီကိုနိုင်ငံဘောင်ပိုင်းမှ တောင်ဖက်တောင်အမေရိကတိုက်တလျှောက်ရှိ ပူနွေးသောတောနက်များ၌နေ၍ ထိုဒေသရှိ ကြွက်ခင်းများ၊ ငှက်ပျောခင်းကြီးများကို အလွန်ဖျက်ဆီးတတ်သည့် ကိုက်ဖြတ်သတ္တဝါမျိုးဖြစ်သည်။ ပူးများကဲ့သို့ ဒက်စီပရော့တီဒီး မျိုးရင်းတွင်ပါဝင်၍ ဇီဝဗေဒအလိုအရ ဒက်စီပရော့တား အဂူးတီဟုခေါ်သည်။ ယုန်နှင့် အတော်အတန်တူသည်။ သို့သော်နားရွက်မှာ တို၍ဝိုင်းသည်။ ကိုယ်အလျား ၁၈ လက်မခန့်ရှည်သည်။ အမြီးမှာ မရှိသလောက် တိုသည်။ ခြေလက်များသည် ရှည်၍သေးသွယ်သည်။ ပြေးသောအခါ သမင်ကလေးပြေးသည်နှင့် တူသည်ဟု ဆိုသည်။

အဂူးတီကောင်သည် နီညိုညိုအရောင်ရှိ၍ အသားမှာ ဖြူ၏။ စား၍ကောင်းသဖြင့်လူကြိုက်များသည်။ အခြားမျိုးတူ ရွက်စား သတ္တဝါကလေးများကဲ့သို့ ညဥ့်အခါ အကောင် ၂၀ လောက်အုပ်ဖွဲ့၍ လှည့်လည် ကျက်စားတတ်ကြသည်။ တောကြောင်၊ ကျား၊ ကျားသစ်များက ဖမ်းဆီးသတ်ဖြတ်စားခြင်းကို ခံကြရသည်။ နေ့အချိန်တွင် သစ်ခေါင်းများ၌ ဖြစ်စေ၊ မြေတွင်းများ၌ဖြစ်စေ ပုန်းအောင်းနေတတ်ကြသည်။ အဂူးတီကောင်သည် သစ်မြစ်များ၊ အရွက်များ၊ အသီးမှာများကို စားသည်။ အလွန်ရေကူးကောင်းသည်။



ကိုက်ဖြတ်သတ္တဝါထမျိုးဖြစ်သော အဂူးတီကောင်များ

**အငွေ့ခဲခြင်း။** ။ခဲခြင်း — ရှု။

**အငွေ့ပျံခြင်း။** ။ရေကို ဆူအောင် ကျိုသောအခါ ရေမျက်နှာပြင်မှ အငွေ့တထောင်းထောင်း ထပြီးနောက် မကြာမီပင် ရေအားလုံး ခန်းခြောက်သွားသည်။ ဤသို့ အရည်ဘဝမှ အငွေ့ဖြစ်ပြီး လွင့်ပျံသွားခြင်းကို အငွေ့ပျံသည်ဟု ဆိုစမှတ် ပြုကြသည်။ သို့ရာတွင် ရေတခွက်ကို လေသလပ်ခံထားလျှင် တဖြည်းဖြည်း ခန်းခြောက်သွားခြင်း၊ ဖွပ်လျှော်ပြီးအဝတ်များကို လှန်းထားစဉ် တဖြည်းဖြည်းခြောက်သွေ့သွားခြင်းတို့ကို ထောက်လျှင် ရေသည် ဆူပွက်သောအခါမှ အငွေ့ပျံသည်မဟုတ်၊ သာမန်အချိန်များ၌လည်း အငွေ့ပျံလျက်ရှိသည်မှာ ထင်ရှားလေသည်။ တဖန်ရေနှင့်စာလျှင် အရက်၊ အရက်ပျံ၊ ရေနံ၊ ဓာတ်ဆီ စသော အရည်များက သာ၍ပင် အငွေ့ပျံလွယ်ကြပေသေးသည်။

အမှုမဲ့အမှတ်မဲ့တွေးလျှင် အငွေ့ပျံခြင်းသည် ဘာမျှ အရေးပါအရာရောက်လိမ့်မည်ဟု မထင်ရပေ။ သို့ရာတွင် ကျွန်ုပ်တို့ နေထိုင်လျက်ရှိသော ဤကမ္ဘာကြီးတွင် အထူးသဖြင့် ရေငွေ့ပျံခြင်းသာ မရှိဟုဆိုပါက ကျွန်ုပ်တို့နှင့်တကွ တိရစ္ဆာန်ရော သစ်ပင်တို့ပါ အသက် ရှင်နေနိုင်ကြရန် လမ်းရှိမည်မဟုတ်ပေ။ ကျွန်ုပ်တို့ ပတ်ဝန်းကျင်ရှိ လေထုထဲ၌ လိုအပ်သော ရေငွေ့ အလုံအလောက် ရနေခြင်း၊ နေ့နှင့်ညဉ့်အပြောင်းအလဲ၊ ရာသီဥတုအပြောင်းအလဲတို့၌ အပူချိန်အတက်အကျ မျှတလျက်ရှိခြင်း၊ မိုးသားတိမ်လိပ်များတက်ကာ ကျွန်ုပ်တို့ မှီခိုစားသောက်နေရသည့် အသီးအနှံပင်များအတွက် မိုးနှင့်ဆီးနှင်းတို့ရွာသွန်းခြင်းအားလုံးတို့မှာ အမှန်စင်စစ် သမုဒ္ဒရာ အင်းအိုင် ချောင်းမြောင်းတို့မှ ရေငွေ့ပျံလျက်ရှိခြင်းကြောင့်သာလျှင် ဖြစ်ပေသည်။

ရေငွေ့ပုံခြင်းသည် လေထု၏ ရေငွေ့မည်မျှမည်မျှကို လက်ခံနိုင်သည်ဟူသော အင်အားအပေါ်တွင် အမှီပြု၍ လေထု၏ ရေငွေ့ကိုလက်ခံနိုင်သည့် အင်အားက အပူချိန် အပေါ်တွင် တဖန် အမှီပြုပြန်လေသည်။ ပင်လယ်ရေမြှုပ်သည် ရေကိုစုတ်ယူထားနိုင်သကဲ့သို့ လေသည်လည်း ရေငွေ့ကိုစုတ်ယူလက်ခံထားနိုင်သည့်သတ္တိ ရှိသည်။ ဤသို့စုတ်ယူရာတွင် လေမှာ ပူ၍ခြောက်သွေ့လေလေ ရေငွေ့ကို လျင်မြန်စွာနှင့် အများအစား စုတ်ယူနိုင်လေလေ ဖြစ်သည်။ စိုထိုင်းသောလေသည် ရေငွေ့ကို ခပ်ဖြည်းဖြည်းသာ စုတ်ယူနိုင်သည်။ သဲကန္တာရဒေသများတွင် အမှန်အားဖြင့် မိုးရွာသည့်အခါများရှိ၏။ သို့သော် အလွန်ပူပြီး ခြောက်သွေ့လျက်ရှိသောလေက စုတ်ယူလိုက်သဖြင့် ရွာချလာသော မိုးရေတို့မှာ မြေပေါ်သို့ မရောက်မီပင် တစက်မျှမကျန်အောင် အငွေ့ပျံပြီး ခန်းခြောက်သွားလေသည်။

ရေငွေ့ကို သစ်ပင်ဝါးပင်တို့မှလည်းထုတ်ပေး၍ သစ်ပင်တပင်ရှိအရွက်များမှ တနေ့တည်းတွင် ရေါသံပေါင်းများစွာကိုပင် ရေငွေ့အဖြစ် ထုတ်ပေးနိုင် လေသည်။ စိုစွတ်သောဒေသများတွင် အပင်များမှ ရေငွေ့အမြောက်အမြား ထွက်နိုင်စေခြင်းငှါ ရေငွေ့ထွက်ရာ မျက်နှာပြင်ဖြစ်သော အရွက်များကို ကြီးအောင် သဘာဝက ဖန်တီးပေးထားသည်။ သဲကန္တာရကဲ့သို့ ပူပြင်းခြောက်သွေ့သော ဒေသများတွင် သစ်ရွက်များသည် သေးငယ်၍ နည်းပါးစွာရှိတတ်သည်။ ရှားစောင်းပင်များမှာဆိုလျှင် အပင်တွင်းရှိ ရေငွေ့များ မလွတ်မြောက်နိုင်ရလေအောင် ထူထဲသော အကာများဖြင့်ပင် ဖုံးလွှမ်းထားပေသေးသည်။

အငွေ့ပျံခြင်း၏ အဓိကအကျိုးထူးတရပ်မှာ အပူချိန်ကိုလျော့ကာ အေးစေသော သတ္တိပင် ဖြစ်သည်။ အလွန်ခြောက်သွေ့သော ရာသီတွင် ကျွန်ုပ်တို့၏အသားအရေသာမက နှာရောအာပါ ခြောက်သွေ့ပြီးလျှင်မိုးရာသီကဲ့သို့စိုစွတ်သောရာသီမျိုးတွင်မူ ကျွန်ုပ်တို့ကိုယ်မှ ထွက်သောချွေးမှာ လျင်မြန်စွာ ခြောက်လွယ်ခြင်း မရှိသည့်အတွက် စေးထိုင်းထိုင်းနှင့်အနေရခက်တတ်ပုံကို သတိထားမိကြပေလိမ့်မည်။ သို့ရာတွင် ပူအိုက်သောနေ့တနေ့တွင် ချွေးထွက်သော်လည်း ထိုထွက်သောချွေးမှာခြောက်လွယ်ပါကအခါတိုင်းထက် အနေရသက်သာအောင် အေးသလိုလိုရှိတတ်လေသည်။ ထိုသို့ဖြစ်ခြင်းမှာကိုယ်မှထွက်သောချွေးလွယ်ကူစွာအငွေ့ပျံသည့်အတွက် ဖြစ်လေသည်။ တဖန် သေတိုက်နေမည် ဆိုပါက လေက ချွေးကို ပိုမိုလျင်မြန်စွာ အငွေ့ပျံစေသည့်အတွက် ကျွန်ုပ်တို့ကိုယ်ခန္ဓာသည်သာ၍ပင် အေးလာပေသေးသည်။

အငွေ့ပျံရာတွင် အေးပြီး ကျန်ရစ်ခဲ့ခြင်းမှာ ပျံထွက်သွားသောအငွေ့က အပူကို သယ်ဆောင်သွားခြင်းကြောင့်ဖြစ်၍ လျင်မြန်စွာ အငွေ့ပျံလေလေ ပို၍အေးလေလေ ဖြစ်လေသည်။ ကျွန်ုပ်တို့ လက်ကို ဓာတ်ဆီ၊ သို့မဟုတ် အရက်ပျံနှင့် ဆွတ်လိုက်သောအခါ ရုတ်ဘရက်အအေးဓာတ်ကို ခံစားရခြင်းမှာ ဓာတ်ဆီနှင့်အရက်ပျံ တို့ အငွေ့ပျံလွယ်သောကြောင့် ဖြစ်ပေသည်။ အလွန် လျင်မြန်စွာ အငွေ့ပျံလွယ်သော အရည်ဖြစ်က ရေခဲလောက်အောင် အေးသော အအေးဓာတ်ကိုပင် ဖြစ်ပေါ်စေနိုင်သည်။ ရေခဲစက်များ၌ ရေကိုခဲအောင်ပြုလုပ်ရာတွင်အမ်မိုးနီးယားရည်ကို အငွေ့ပျံစေခြင်းဖြင့် ရေမှအပူကိုစုတ်ပြီး ခဲသွားအောင်ပြုလုပ်ယူလေသည်။ ဆရာဝန်များ ခွဲစိတ်ရာတွင် တခါတရံ အီသာ ဟုခေါ်သော အရည်တမျိုးကို ထုံဆေးအဖြစ် အသုံးပြုတတ်လေသည်။ ဤသို့ပြုခြင်းမှာ အီသာ ဆွတ်လိမ်းသောနေရာတွင် အီသာ၏ လျင်မြန်စွာအငွေ့ပျံမှုကြောင့် နာရမှန်းမသိလောက်အောင် ရုတ်တရက်ထုံသွားစေနိုင်သည့်အတွက်ဖြစ်လေသည်။

**အစာချေခြင်း။** ။ကျွန်ုပ်တို့ စားလိုက်သော အစာသည် ခန္ဓာကိုယ်၌ အားအင်ပြည့်တင်း၍ အသား အရေကောင်းလာစေရန်အတွက် မှုန့်မှုန်ကလေး (ဝါ) မော်လီကျူးများဖြစ်သွားအောင် ကြိတ်ချေပေးရခြင်းကို အစာချေသည်ဟု ခေါ်သည်။ ဤသို့ အစာကြေသွားခြင်းအားဖြင့် အစာမှုန်ကလေးများသည် အူနံရံများမှတဆင့် သွေးထဲသို့ ရောက်ရှိသွားနိုင်လေသည်။သွေးကြောများမှတဆင့် ခန္ဓာကိုယ် တခုလုံးသို့ ပျံ့နှံ့သွားလေသည်။အစာကြောင်း အားလုံး လောက်မှာပင် အစာချေခြင်းကိစ္စကို ပြုလုပ်လျက်ရှိသည်။ ဤအစာ ကြောင်းများတွင် အစာသည် အင်ဇိုင်းခေါ် ဓာတ်ပစ္စည်းတမျိုးနှင့် ရောသွား၏။ ဤအင်ဇိုင်းသည် အစာကို လျင်မြန်စွာ ကြေသွားအောင် ကူညီပြုလုပ်ပေးသော ဓာတ်ကူပစ္စည်းဖြစ်သည်။

ကစီ၊ သကြား (ဝါ) ကာဗိုဟိုက်ဒရိတ်၊ အဆီနှင့် ပရိုတင်း စသော အစာများသည် အလွန် ရှုပ်ထွေးသော မော်လီကျူးတို့ဖြင့် ဖွဲ့စည်းနေရကား ကြေအောင် ချေပေးရမည်ဖြစ်သည်။ အစာ ကြေသွားပြီးသောအခါ ကစီနှင့် ရှုပ်ထွေးသော သကြားများသည် သကြား ရိုးရိုးအဖြစ်သို့ ပြောင်းလဲ သွား၍ အဆီများသည် ဖက်ဘီး အက်ဆစ်နှင့် ဂလစ်ဆရင်အဖြစ်သို့ ပြောင်းလဲကာ ပရိုတင်းများမှာ အမိနိုအက်ဆစ် အဖြစ်သို့ ပြောင်းသွားလေသည်။ ရိုးရိုး သကြား၊ဖက်ဘီး အက်ဆစ်၊ ဂလစ်ဆရင်နှင့် အမိနိုအက်ဆစ်များသည် ကြေပြီးအစာများဖြစ်သည်အားလျော်စွာ သွေးကြောများထဲသို့ရောက်သွားနိုင်လေသည်။ ဗီတာမင် သတ္တုဓာတ်နှင့်ရေတို့ကား နူးညံ့သောအစာများဖြစ်သောကြောင့် ချေရန်မလိုချေ။

အစာချေခြင်း ကိစ္စကို ပါးစပ်တွင်ပင် အစပြုသည်။ ပါးစပ်ဘွင် အစာဆည့်၍ ဝါးလိုက်ခြင်း သည်ပင် အစာချေခြင်းအတွက် အလွန် အရေးကြီး၏။ ဝါးပြီးသော အစာသည် အလွန် သေးငယ်သော အမှုန့် ကလေးများအဖြစ်သို့ ရောက်သွားသောအခါ အင်ဇိုင်းပါသော အစာချေရည်သည် ထိုအစာ များနှင့် ကောင်းစွာ ရောနှောသွားပြီးလျှင် လျင်မြန်စွာခဘော်ပြောင်းသွားနိုင်လေသည်။ အစာကို ဝါးနေသောအခါ အစာသည် တံတွေးနှင့် ရောသွားပြီးလျှင် စိုစွတ်လာသည်။ တံတွေးတွင် သွားရည်ပါစကခေါ် သော အင်ဇိုင်းပါရှိရာ ယင်းသည် ကစီအချို့ကို သကြားအဖြစ်သို့ ပြောင်းလဲပေးလိုက်လေသည်။

အစာကို မျိုချလိုက်သောအခါ အစာသည် အစာပြွန်မှတဆင့် အစာအိမ်သို့ ရောက်သွား၏။ ရောက်သွားသောအစာကို အစာ ချေရည်များက ခပ်ပြင်းပြင်း ရောနှော မွှေနှောက်ပေးလိုက်၏။ ဤသို့ ရောနှော မွှေနှောက်ပေးနိုင်ခြင်းမှာ အစာအိမ်နံရံရှိ သန်မာသော ကြွက်သားများ၏ ရှုံ့လိုက်ကြွလိုက် လုပ်ပေးမှုများကြောင့်ဖြစ်သည်။ အစာအိမ်ရှိ အစာများချေရည်ကို အစာအိမ်ရည်ဟုခေါ်သည်။ယင်းတွင် ဟိုက်ဒရိုကလောရစ်အက်ဆစ်နှင့် ပက်ပဆင်တို့ပါရှိသည်။အစာအိမ်ရှိ အစာများ အားလုံး အစာအိမ်ရည်နှင့် သမအောင် ရောနှောသွားသည်အထိ ဆက်လက်၍ မွှေလျက်ရှိနေလေသည်။

အစာအိမ်ရည်သည် အသား၊ ဥနှင့် နို့ကဲ့သို့သောပရိုတင်းအစာများကို စတင်ချေသည်။ ကစီ၊ သကြား နှင့် အဆီများကို အစာအိမ်ရည်က မချေပေ။ အစာသည် အစာအိမ်၌ အစာအမျိုးအစားကိုလိုက်၍ နှစ်နာရီမှ ၅ နာရီထိ တည်သည်။ အစာအိမ်ရည်သည် အစာများကို ရောမွှေ၍ တစိတ်တဒေသကြိုဘ်ချေပြီးသောအခါ မူလကခဲနေသောအစာသည် ပျော့အိအိဖြစ်လာသည်။ထိုအခါ အစာသည် အစာအိမ်မှ အူသိမ်သို့ သက်ဆင်း သွားလေသည်။

အူသိမ်တွင် တစိတ်တဒေသ ကြေခဲ့ပြီးသော အစာကို ပန်ကရိရည်၊ အူရည်နှင့် သည်းခြေ ရည်တို့က တဖန်ချေကြပြန်သည်။ ပန်ကရိမှဖြင့်ပေါ် လာသောပန်ကရိရည်သည် အူသိမ်သို့ ပြွန်မှဘဆင့် ဝင်လာသည်။ ပန်ကရိရည်တွင် အင်ဇိုင်းများဖြစ်ကြသော တြစ်ပဆင်၊ အမိလေ့ ပဆင်နှင့် စဘီအပ္ပဆင်တို့ ပါဝင်ကြရာတွင် တြစ်ပဆင်သည် တစိဘ်တဒေသ ကြေခဲ့ပြီးသော ပရိုတင်းကို ထပ်၍ချေ၏။ အမိလေ့ပဆင်က ကစီကို သကြားအဖြစ်သို့ပြောင်းပေး၏။ စတီအပ္ပဆင်ကမူ အဆီကို ဖက်တီး အက်ဆစ်နှင့် ဂလစ်ဆရင်အဖြစ်သို့ ခွဲပေးလိုက်သည်။ အူရည် သည် အူသိမ်နံရံများမှ ဖြစ်ပေါ် လာ၍ ပန်ကရိရည်လောက် အစာချေရာတွင် ခရီးမရောက်လှချေ။ သည်းခြေရည်သည် သည်းခြေအိတ်တွင်ရှိသော အသည်းမှထွက်၍ သည်းခြေ ပြွန်မှတဆင့် အူသိမ်ထဲသို့ စီးဝင်သွားလေသည်။ သည်းခြေရည်သည် အဆီကိုချေ၍ အစာကို မပုပ်မသိုးအောင် ဆောင်ရွက်ပေးသည်။

အစာသည် လုံးလုံးကြေသွားသောအခါ နို့ရည်နှင့် ဆင်တူ၍ အနည်းငယ်ချဉ်သည်။ ပျော့အိအိလည်း မဖြစ်တော့ချေ။ဤကြေပြီးသားအစာများကို အူသိမ် နံရံများရှိ သေးငယ်သောသွေးကြောများနှင့်သွေးဖြူကြောများက စုဘ်ယူသွားသည်။ ထိုမှတဆင့် ခန္ဓာကိုယ် အာဟာရဓာတ်ဖြည့်ဘင်းရေးအတွက် တကိုယ်လုံးသို့ လှည့်ပတ်သွားလေသည်။ အစာမှုန်များသည် လုံးဝကြေသွားမှသာ အူနံရံများနှင့် သွေးကြောများသို့ ရောက်သွားနိုင်သည်။

အူမဘွင် အစာချေခြင်းကိစ္စ မရှိသလောက်ပင်ဖြစ်သည်။ ယင်းသည် အစာဟောင်းကို သိုလှောင်၍ ရေနှင့် သတ္တုဓာတ်အနည်းငယ်လောက်ကို စုတ်ယူသည်။အူမတွင် စု၍နေသောအစာဟောင်းကား ချေ၍ မရနိုင်သောအစာ

ကြမ်းများဖြစ်ရာ ယင်းတို့ကို မကြာမကြာ ခန္ဓာကိုယ်မှ စွန့်ထုတ်ရလေသည်။

**အစာအာဟာရ။** ။ယခုခေတ်လူများသည် ရှေးခေတ်လူများ စားသောက်ခဲ့ကြရသည့် အစားအစာ မျိုးကိုသာ ဆက်လက်စားသောက်နေကြရလျှင် အမှန်မုချ အော့အန်ကြမည် ဖြစ်၏။ ရှေးခေတ် လူများသည် ရှေးခေတ် အလျောက် မည်သည့်ပစ္စည်းကိုမျှမတီထွင်နိုင်ကြသေးသဖြင့် ရသမျှသော အသီးအနှံများ၊ သစ်ဥ သစ်ဖု သစ်မြစ်များနှင့် သားငယ် ငါးငယ်များ၏ အသားများကို အစိမ်းလိုက် စားခဲ့ကြရလေသည်။ ထိုလူများသည် သားငါး တိရစ္ဆာန်များကိုရလျှင် ပျော်ရွှင်စွာ စားသောက်ကြပြီးလျှင် ကံမကောင်းအကြောင်းမလှသောကြောင့် မရကြလျှင်လည်း အငတ်ခံကာ နေခဲ့ကြရသည်။ ရှေးခေတ် လူများသာမက ယခုခေတ် လူများပင်လျှင် အစာ၏ အာဟာရဓာတ်ကို လူတိုင်းစေ့ အပြည့်အဝ မရကြချေ။

မော်တော်ကားတွင် ဓာတ်ဆီသည် အလွန် အရေးကြီးသကဲ့သို့ လူတို့၏အစားအစာ၌လည်း အာဟာရဓာတ်သည် အလွန်အရေးကြီး၏။ ဓာတ်ဆီသာမရှိလျှင် မည်မျှလောက် ကောင်းသည့် မော်တော်ကားပင်ဖြစ်လင့်ကစား သွားနိုင်မည် မဟုတ်သကဲ့သို့ အာဟာရဓာတ် မရှိသည့် အစာကို စားသောက်ရသည့် လူတဦးသည်လည်း အလုပ်တခုကို လုပ်နိုင် ကိုင်နိုင် ကြံစည်နိုင်မည်မဟုတ်တော့ချေ။ အစားအစာများတွင် လိုအပ်သည့် အာဟာရ ဓာတ်များ နည်းပါးခဲ့လျှင် ခန္ဓာကိုယ် အစိတ်အပိုင်း များတွင်လည်း အာဟာရဓာတ် ခေါင်းပါးမည် ဖြစ်သဖြင့် လုပ်ရမည့် အလုပ်များကို လုပ်ကိုင်နိုင်ကြတော့မည်မဟုတ်ချေ။ လက်ရုံးရည်နှင့် နှလုံးရည်ကို ကောင်းစွာ စွမ်းဆောင်နိုင်ရေး အတွက်သော်၎င်း၊ ကြီးပြင်း၍ အလေးချိန် တိုးလာစေရန် အတွက်သော်၎င်း၊ ပျက်စီး ယိုယွင်းလျက်ရှိသောကိုယ်ကို ပြန်လည် ဖြည့်တင်းပေးရန်အတွက်သော်၎င်း၊ ကျန်းမာမှု ရရှိရေးအတွက်သော်၎င်း ကျွန်ုပ်တို့၏ ခန္ဓာကိုယ်သည် မျှတလုံလောက်သော အစားအစာကို များစွာ လိုအပ်လှပေသည်။ အစားအစာကို လိုသည်ထက် ပို၍စားလျှင် သော်၎င်း၊ နည်း၍စားလျှင်သော်၎င်း မမျှတသဖြင့် ရောဂါဖြစ်ပွားတတ်သည်။ မကြာသေးမီကမှ အစားအစာနှင့် စပ်လျဉ်းသော အကြောင်းအရာများကို ဘာသာရပ်တခု အနေနှင့် သင်ကြားလိုက်စားလာခဲ့ကြလေသည်။ ထိုဘာသာရပ်သည် ခန္ဓာဗေဒပညာရပ်များတွင် အလွန်အရေးပါ အရာရောက်သည်။ယခုအခါ ထိုအစားအစာဘာသာရပ်ကို အာဟာရဓာတ်ပညာဟူ၍ခေါ်တွင်လေသည်။ထိုအာဟာရဓာတ်ပညာ တိုးတက်အောင်မြင်ရေးအတွက် သိပ္ပံပညာရှင်များသည် တဦးတည်း တဖွဲ့တည်း မဟုတ်ပဲ အစိုးရများနှင့် ပူးပေါင်းကြပြီးလျှင် မည်သည့်အစားအစာများတွင် မည်သည့် အာဟာရဓာတ်ပါ၍ မည်သို့ အကျိုးရှိကြောင်းကို စုံစမ်းစစ်ဆေး ခဲ့ကြသည်။

စစ်ပြီးခေတ်တွင် ကမ္ဘာ့ ကုလသမဂ္ဂမှ ကြီးမှူးသော အာဟာရဓာတ် စုံစမ်းရေးအဖွဲ့သည် ရန်ကုန်မြို့သို့ပင် လာရောက် စုံစမ်းစစ်ဆေးခဲ့သည်။ ထိုအဖွဲ့တွင် နိုင်ငံ အသီးအသီးမှ ကိုယ်စားလှယ်များပါဝင်ကြ၍ မဆုတ်မနစ်သော လုံ့လဖြင့် လိုအပ်သည့် ကိစ္စအဝဝတို့ကို ဆောင်ရွက်ခဲ့ကြသည်။ ထိုအဖွဲ့၏ အဓိကရည်ရွယ်ချက်မှာ အစားအစာ မြောက်မြားစွာ ထွက်မှုအတွက် ဂရုမပြုမူ၍ ထွက်သည့် အစားအစာများတွင် လိုအပ်သည့်အာဟာရဓာတ်များ ပြည့်စုံမှု မပြည့်စုံမှုကိုသာလျှင် စုံစမ်း စစ်ဆေးရန် ဖြစ်လေသည်။

အစားအစာများကို စားသုံးရာတွင် စားသုံးသူများ၏ အသက်အရွယ်၊ ရာသီဥတု၊ အလုပ်အကိုင်တို့ကိုလိုက်၍ ချင့်ချိန် စားသောက်ကြမှသာလျှင် အာဟာရဓာတ် ဖြစ်ပြီးလျှင်ကျန်းမာသန်စွမ်းကြပေမည်။အာဟာရဓာတ်နည်းပါး၍ မမျှတသော အစားအစာများကိုသာ မှီဝဲသုံးဆောင်သောသူများသည် ရောဂါဝေဒနာဖိစီး နှိပ်စက်ခြင်း ခံရကြောင်း ထိုဆေးပညာရပ်ဖြင့် စုံစမ်း သိရှိခဲ့ကြသည်။ အစားအစာပေါများ၍ အမြောက်အမြား စားသောက်ရစေကာမူ ထိုအစာများတွင် လိုအပ်သည့်အာဟာရဓာတ် ချို့တဲ့နေလျှင် ရောဂါရကြောင်းကိုလည်း သိရှိခဲ့ကြသည်။

အာဟာရဓာတ် ပြည့်စုံသည်၊ မပြည့်စုံသည်ကိုစုံစမ်းကြသည့် ပုဂ္ဂိုလ်ကြီးများမှာ သိပ္ပံပညာရှင်ကြီးများနှင့် ပါမောက္ခကြီးများ ဖြစ်ကြသည်။ ထိုပုဂ္ဂိုလ် ကြီးများ စုံစမ်းရှာဖွေချက်အရ လူ၏ခန္ဓာကိုယ်သည် ပရိတင်းဓာတ်တခုတည်းကိုသာလျှင် လိုအပ်သည်မဟုတ်၊သကြားဓာတ်၊ ကစီဓာတ်၊ ထုံးဓာတ်၊ သံဓာတ်၊ ဖော့စဖောရပ်ဓာတ်၊ကလိုရင်းဓာတ်၊ မဂ္ဂနီဆီယမ်ဓာတ်၊ ဆာလဖာဓာတ်နှင့် အခြားသတ္တုဓာတ်များလည်းလိုအပ်ပေသည်။ထိုပြင်စားသောက်သည့် အစားအစာများတွင် ဗီတာမင်ဓာတ်များလည်း ပါဝင်ရမည်ဖြစ်၏။

လူများစားသောက်လျက်ရှိသည့် အချိုသော အစာများသည် အပူနှင့် စွမ်းအင်ကို ဖြစ်စေ၏။ အချို့သည် သွေးသားများကို ဖြစ်စေပြီးလျှင် အချို့သည် အခြား လိုအပ်သည့် ပစ္စည်းများကို ဖြစ်စေသည်။ ထို့ကြောင့် အာဟာရဓာတ်ပါသော အစာများကို စားသောက်သူများသည် ကျန်းမာသန်စွမ်းစွာဖြင့် အလုပ်အကိုင်အကြံအစည်များကို ပြီးမြောက်သည်တိုင်အောင် လုပ်ကိုင် ဆောင်ရွက်သွားနိုင်ကြသည်။ ဓာတုဗေဒ ပညာရှင်များသည် မိမိတို့

၏ နည်းဖြင့် စုံစမ်းရှာဖွေခဲ့ကြရာ ခန္ဓာကိုယ်အစိတ်အပိုင်းများတွင် အာဟာရဓာတ် မည်မျှလိုကြောင်းကို ပြောနိုင်ကြသည်။ ထိုအာဟာရဓာတ်ကို လုံလောက်အောင်မပေးနိုင်လျှင် မည်သို့သော ရောဂါ စွဲကပ်နိုင်ကြောင်းကိုလည်း ပြောနိုင်ကြသည်။

သိပ္ပံပညာရှင်ကြီးများသည် အစားအစာ များတွင် ပါဝင်သည့် အာဟာရဓာတ်များကို ငါးမျိုး ပိုင်းထားကြသည်။ ထိုငါးမျိုးမှာ (၁) အဆီဓာတ်၊ (၂) ပရိုတင်းဓာတ်၊ (၃) ကာဗိုဟိုက်ဒရိတ်ဓာတ်၊ (၄) သတ္တုဓာတ်၊ (၅) ဗီဘာမင်ဓာတ်တို့ ဖြစ်ကြသည်။ အဆီဓာတ်၊ ပရိုတင်းဓာတ်၊ ကာဗိုဟိုက်ဒရိတ်ဓာတ်တို့သည် အပူဓာတ်ကို ဖြစ်စေသည်။ ပရိုတင်းနှင့် သတ္တုဓာတ်များသည် ကိုယ်လက် အင်္ဂါ ကြီးထွားစေသည့်ပြင် ကိုယ်ခန္ဓာ၌ ဖြစ်သော ချတ်ယွင်းချက်များကိုလည်း ဖြည့်စွက် ပြုပြင်ပေးကြလေသည်။ သတ္တုဓာတ်နှင့် ဗီတာမင်ဓာတ်တို့သည် ခန္ဓာကိုယ်တွင်း၌ ဓာတ်ပြောင်းလဲမှုများ မှန်မှန်ဖြစ်နိုင်အောင် အကူအညီ ပေးကြသည်။ သတ္တုဓာတ်နှင့် ဗီတာမင် ဓာတ်တို့ အကူအညီပေးကြသကဲ့သို့ ရေကလည်း အကူအညီပေးသေးသည်။

ကိုယ်အင်္ဂါအစိတ်အပိုင်းများ ပို၍လှုပ်ရှားလေလေ အပူဓာတ်ကို ပို၍လိုလေလေ ဖြစ်၏။အရွယ်နှင့် အချိုးကျ အစာကို စားရာတွင် ကလေးသည် လူကြီးထက် ပို၍စားနိုင်သည်။ အလုပ်ကို ပိုလုပ်သော လူကြီးတဦးသည် လှုပ်ရှားမှု နည်းသည့် အခြားလူကြီး တဦးထက်ပို၍ အစာကို စားနိုင်သည်။ ထို့ပြင် ခန္ဓာကိုယ် ထွားကြိုင်းသူသည် မိမိခန္ဓာကိုယ်လှုပ်ရှားစေရာတွင် စွမ်းအင်ကို ပို၍အသုံးပြုရသောကြောင့် ခန္ဓာကိုယ်ငယ်သူတဦးထက် အစာကို ပို၍စားသည်။

ရာသီဥတု အေးသော တိုင်းပြည်များတွင် နေထိုင်သည့်လူများသည် အပူဓာတ်ကိုအထူးလိုအပ်သောကြောင့် အပူဓာတ်ကို ဖြစ်စေသည့် အစာများကို ပို၍ စားကြရသည်။ အပူကိုဖြစ်စေသည့် အစာများမှာ အဆီပင် ဖြစ်သည်။ ထို့ကြောင့် အေးသည့်တိုင်းပြည်များတွင် နေထိုင်သူများသည် ပူသည့်တိုင်းပြည်များ၌ နေထိုင်သူများထက် အဆီကိုပို၍ စားသုံးပေးကြရသည်။

အနောက်နိုင်ငံများတွင် အလေးချိန်များကို ပေါင်ဖြင့် တိုင်းတာလေ့ရှိကြသကဲ့သို့ အပူကိုလည်း ကယ်လိုရီဖြင့် တိုင်းတာလေ့ရှိကြသည်။ ကယ်လိုရီဆိုသည်မှာ တစ်ဂရမ်အလေးချိန်ရှိသည့်ရေကို တစ်ဒီဂရီစင်တီဂရိတ်အပူချိန်မြှင့်တင် ပေးနိုင်သော အပူ အတိုင်းအဆပင် ဖြစ်သည်။ ရှစ်နှစ်ရွယ်မျှရှိသည့် ကလေးတယောက်သည် တနေ့လျှင် အပူကယ်လိုရီ ၁,၅၀၀ မျှလို၍ ကျောင်းသားရွယ် ကလေးတယောက်သည် တနေ့လျှင် အပူကယ်လိုရီ ၄,၀၀၀ မျှလိုပြီးလျှင် လူကြီးတယောက်မှာကား တနေ့လျှင် အပူကယ်လိုရီ ၃,၅၀၀ လောက်သာ လိုမည်ဟု မှန်းဆထားသည်။

လူများ စားသောက်ကြသည့် အစားအစာ များမှ အပူအမျိုးမျိုးကို ရနိုင်သည်။ ဆီနှင့် ဝက်ဆီများသည် မီးလောင်လွယ်ကြောင်းကို လူတိုင်းပင်သိကြ၏။ ထိုကဲ့သို့ လောင်ကျွမ်းရာတွင် အလွန်ပူသည့် မီးတောက်ကို ဖြစ်စေသည်။ ထိုနည်းအတူ လူများ စားသောက် လိုက်ကြသည့် ထောပတ်နှင့် ဆီများသည်လည်း လူ၏ ကိုယ်အတွင်းသို့ ရောက်သွားသောအခါတွင် အပူကယ်လိုရီ မြောက်မြားစွာကို ဖြစ်စေသည်။ အစား အစာများတွင် အဆီများသည် အပူကိုအများဆုံး ဖြစ်စေသည့် အစာများပင် ဖြစ်သည်။ အဆီကို အသားနှင့် ဟင်းသီးဟင်းရွက်များမှရနိုင်သည်။ ထောပတ်၊ မလိုင်၊ ဝက်ဆီများသည် အသားများမှရသည့် အဆီများဖြစ်ကြ၍ သံလွင်ဆီနှင့်ကိုကိုးထောပတ်များသည် ဟင်းသီးဟင်းရွက်များမှ ရသည့်အဆီများဖြစ်ကြသည်။

လူများသည် အဆီများကို အပူနှင့် စွမ်းအင်အတွက် လက်ငင်း လိုသည်ထက် ပို၍စားလိုက်သောအခါ ပိုသည့် အဆီများသည် ကိုယ်တွင်း၌ အဆီအဖြစ်ဖြင့် အရေပြားအောက်တွင် သိုလှောင်၍ရှိကြသည်။ အစားအစာများ မစားသောက်ကြရသည့် အခါများတွင် ထိုအဆီများ သိုလှောင်ရှိနေခြင်းကြောင့် အသက်ရှင်၍ နေနိုင်ကြသည်။ ရှေးခေတ်လူများသည် အစားအစာများကို အချိန်မှန်မှန် မစားခဲ့ကြရချေ။ အစားအစာ ပေါများသည့်အခါ ဖောဖောစားကြရ၍ ရှာဖွေမရသည့်အခါ အငတ်ခံနေခဲ့ကြရလေသည်။ မည်သို့ပင် အကြိမ်ကြိမ် အစာ ငတ်နေရငြားလည်း မသေပဲ အသက်ရှင်လျက် ရှိနေနိုင်ခြင်းအကြောင်းမှာ ဖောဖော စားရသည့်အခါက ကိုယ်တွင်း၌ စုဆောင်းသိမ်းထားသော အဆီများကြောင့်ဖြစ်သည်။

ကာဗိုဟိုက်ဒရိတ်များဖြစ်ကြသည့် သကြားနှင့် ကစီများသည်လည်း အပူကိုဖြစ်စေသော အစာများ ဖြစ်ကြသည်။ ကြွက်သားများ လှုပ်ရှားမှုအတွက် သကြားသည် အဆီထက်ပို၍ အပူဓာတ်ပေးနိုင်သည်။ သို့ရာတွင် ကာဗိုဟိုက်ဒရိတ် တပေါင်လျှင် အပူကယ်လိုရီပေါင်း ၁,၇၂၀ မျှသာ ပါဝင်၍ အဆီဘပေါင်လျှင် ကယ်လိုရီပေါင်း ၄,၀၀၀ မျှ ပါဝင်လေသည်။ တနည်းအားဖြင့်ဆိုလျှင် ကာဗိုဟိုက်ဒရိတ်များတွင် ပါရှိသည့် အပူဓာတ်သည် အဆီတွင် ပါရှိသည့် အပူဓာတ် တဝက် အောက်ပင် နည်းသေးသည်။ ကျွန်ုပ်တို့၏ခန္ဓာကိုယ်သည် သကြားနှင့် ကစီတို့ကို လက်ခံနိုင်သလောက် အဆီကို လက်မခံနိုင်ကြောင်း သဘာဝမှုအပ်ပေသည်။ ကာဗိုဟိုက်ဒရိတ်များတွင် ပေါင်မုန့်၊ အာလူး၊ အသီးအနှံနှင့် ဟင်းရွက်ဟင်းသီးများ ပါဝင်သည်။

ကိုယ်ခန္ဓာထဲတွင် အစားအစာများမှ စွမ်းအင်များ အဖြစ်သို့ ပြောင်းလဲပေးနိုင်သည့် အာဟာရဓာတ်ဖစ္စည်းများကို ဗီဘာမင်ဟုခေါ်သည်။ ထိုဗီဘာမင်များကို အေ၊ ဘီ၊ စီ၊ ဒီ အီး၊အက် (ဖ)၊ဂျီဟူသောအမည်များဖြင့် ခွဲခြားထားသည်။ (ဗီဘာမင်များ—ရှု။) အပူဓာတ်နှင့်သွေးသားဖြစ်စေသည့် အစားအစာများကို သုံးဆောင်စားသောက်ပါသော်လည်း ဗီဘာမင်ဓာတ်များမပါဝင်ပါကခန္ဓာကိုယ်သည် ကျေနပ်လောက်သော အာဟာရ ဓာတ်များကို မရရှိနိုင်ချေ။ ယခု စစ်ပြီးခေတ်တွင် ဗီတာမင်ဓာတ်များအမြောက်အမြား ပေါ်ထွက်လျက်ရှိရာ ရောဂါအမျိုးမျိုးအတွက် အထူးပင် အထောက်အပံ့ရလေသည်။ ထိုပြင်မည်သည့်အစာများတွင် ဗီဘာမင်ဓာတ်အမြောက်အမြားပါ၍ ထိုပစ္စည်းများ လိုသလောက်မရခဲ့လျှင် မည်ကဲ့သို့ဖြစ်တတ်ကြောင်းကို ယခုအခါ ကောင်းစွာသိကြလေပြီ။

အချို့လူများတွင် အမည်မမှည့်နိုင်သော ရောဂါများဖြစ်တတ်ကြခြင်းမှာလည်း ထိုဗီဘာမင်ဓာတ်များ လိုနေခြင်းကြောင့်ပင် ဖြစ်သည်။ မောပန်းခြင်း၊ အင်အားချည့်နဲ့ခြင်းနှင့် မကြာမကြာအအေးမိတတ်ခြင်းများသည်လည်း ထိုလိုအပ်သော ဗီဘာမင်ဓာတ်များ နည်းပါးမှုကြောင့်ပင်ဖြစ်သည်။ များစွာသော ဟင်းရွက်ဟင်းသီးတို့တွင် ကြမ်းသောအစာများ ပါရှိ၏။ ထိုကြမ်းသောအစာများကို နေ့စဉ်စားသောက်ကြသည့် အစားအစာများတွင် ထည့်၍စားသောက်သင့်ကြသည်။ ထိုအစာများသည် အစာချေအင်္ဂါစုကို အားပေးနိုင်ကြသည်။ သစ်ရွက်စိမ်း၊သစ်သီးစိမ်းများကို အစာကြမ်းများအဖြစ်ဖြင့် စားမည်ဆိုလျှင် သတ္တုဓာတ်ကိုလည်း ရနိုင်လေသည်။

လူများ စားသောက်လျက်ရှိကြသည့် အစာများတွင် ရေပါဝင်ပြီးဖြစ်သော်လည်း တနေ့လျှင် ခြောက်ခွက်မျှသောရေကို သောက်ရန် လိုကြသေးသည်။ သို့မှသာလျှင် ကိုယ်အင်္ဂါအစိတ်အပိုင်းများသည်လိုအပ်သည့်ကိစ္စများကို ဆောင်ရွက်သွားနိုင်မည်ဖြစ်သည်။ အမှန်မှာ လူတယောက်၏အလေးချိန်သုံးပုံနှစ်ပုံသည် ရေသာလျှင်ဖြစ်၏။ အသက်ရှူရှိုက်ရာ၌ ရေပါဝင်သည်။ ချွေးသည် ရေပင်ဖြစ်သည်။ ကျင်ကြီးကျင်ငယ်တွင်လည်း ရေပါဝင်သည်။

မျှတလုံလောက်သော အစာများကိုသာလျှင် အချိုးကျမှန်မှန် ငယ်ရွယ်စဉ်မှကြီးသည့်ဘိုင်အောင် စားသောက်သွားနိုင်မည်ဆိုလျှင် လူသည်ကျန်းမာသန်စွမ်းနိုင်မည် ဖြစ်ပြီးလျှင် အကြံသစ်ဉာဏ်သစ်များကိုလည်း တီထွင်နိုင်မည်ဖြစ်လေသည်။ ယခုအခါတွင် ကူးသန်းရောင်းဝယ်ရေးကောင်းမွန်လျက်ရှိပြီဖြစ်သဖြင့် လိုအပ်သည့် အာဟာရဓာတ်များကို လွယ်ကူစွာနှင့်ပင် ရနိုင်ကြပေပြီ။

ကာဗိုဟိုက်ဒရိတ်များ ပါဝင်သော ပရိုတင်းဓာတ် အစာများမှာ အမဲသား၊ ဆိတ်သား၊ ဝက်သား၊ ကြက်သား၊ ဥများ၊ ဆာမန်ငါးများ၊ ဟဲရင်းငါးများ ဖြစ်ကြသည်။ ကာဗိုဟိုက်ဒရိတ်များဖြစ်သည့် ပရိုတင်းဓာတ်ပါသော အစာများမှာ နို့၊ ဒိန်ခဲ၊ စားတော်ပဲ၊ ပဲတောင့်များဖြစ်ကြသည်။ ကာဗိုဟိုက်ဒရိတ်ပါသည့်အစာများမှာ ပေါင်မုန့် (အညိုက အဖြူထက်ပို၍ ကောင်းသည်။)၊ ဆန် (ထမင်း)၊ ယို၊ သကြား၊ အာလူး၊ စွန်ပလွံသီး၊ စပျစ်သီးခြောက်၊ ငှက်ပျောသီးများဖြစ်ကြသည်။ အဆီပါသော အစာများမှာ ထောပတ်၊မလိုင်၊ ဒိန်ခဲ၊ ဝက်ဆီ၊ ဝက်သားများဖြစ်ကြသည်။ သတ္တုဓာတ်နှင့် ဗီတာမင်ဓာတ်များပါသောအစာများမှာ စားတော်ပဲ၊ ပဲတောင့်၊ ဂေါ်ဖီထုပ်၊ မုန်လာဥဝါမျိုး၊ မှို့များ၊လိမ်မော်သီး၊ သစ်သော့သီး၊ ငှက်ပျောသီး(ထောပတ်)၊ ဆီးသီး၊ သစ်သော့သီး၊ ခရမ်းချဉ်သီးများ ဖြစ်ကြသည်။

**အစာအိမ်။** ။လူ၏ အစာအိမ်သည် အစာကြောင်းတလျှောက်တွင် ဖောင်းပွပွဖြစ်နေသည့်အစိတ်အပိုင်းဖြစ်၍ အစာပြွန်အောက်နားတွင် ရှိသည်။ ယင်းသည် အင်္ဂလိပ်အက္ခရာ ၂ (ဂျေ)ကဲ့သို့အတွင်းသို့ကောက်နေ၍ ဝမ်းပိုက်၏ လက်ဝဲဖက်တွင် တည်ရှိသည်။ အစာအိမ်၏ အပေါ်ဖက်စွန်းသည် အစာပြွန်နှင့် ဆက်နေ၍ အောက်ဖက်စွန်းသည် ဒျူအိုဒီနမ်ခေါ် အူသိမ်ဦးနှင့်ဆက်နေသည်။အစာအိမ်သည် သာမန်အားဖြင့် အလျား ၁၂ လက်မ၊ အကျယ် လေးလက်မခန့် ရှိသည်။ အလယ်တွင် ဖောင်းပွနေ၍ အဖျားနှစ်ဖက်၌ ကျဉ်းမြောင်းသော ထွက်ပေါက် တပေါက်နှင့် ဝင်ပေါက်တပေါက် ရှိသည်။ အစာပြွန်မှ အတွင်းသို့ဝင်လာသော အပေါက်ကို ကာဒီအက် ဝင်ပေါက်ဟု ခေါ်၍ အစာအိမ်မှ အပြင်သို့ထွက်သော အပေါက်ကို ပိုင်လောရစ် ထွက်ပေါက်ဟု ခေါ်သည်။

အစာအိမ်သည် ကြွက်သားအင်္ဂါဖြစ်သဖြင့် အူများကဲ့သို့ အတော်အတန် ကျုံ့နိုင် ကားနိုင်သည်။ လူကြီးအစာအိမ်သည် ၆၅ ကျပ်သားမှ ၉၀ ကျပ်သား အသီလောက် ဆန့်သည်။ အစာအိမ်၏ ပုံသဏ္ဌာန်မှာ အစာအနည်းအများကိုလိုက်၍ အမျိုးမျိုး ပြောင်းတတ်သည်။ အစာမရှိသလောက် ဖြစ်နေသည့် အခါတွင် ပြားနေ၍ ပြွန်ကဲ့သို့ရှိနေသည်။အစာနှင့်ပြည့်နေသောအခါ ဖောင်းပွလာသည်။ လူကိုလိုက်၍လည်း အစာအိမ်ပုံအမျိုးမျိုး ရှိတတ်သည်။ မြင့်၍ ပိန်သောလူများတွင် ရှည်၍ ကျဉ်းသော အစာအိမ်များ ရှိတတ်ပြီးလျှင် ပု၍ဝသော လူများတွင် တို၍ကျယ်သော အစာအိမ်များ ရှိတတ်ကြသည်။

အစာချေအင်္ဂါများတွင် အစာအိမ်သည် အရေးအကြီးဆုံးသော အင်္ဂါတခုဖြစ်သည်။ အစာသိုလှောင်ရာ

နေရာဖြစ်သဖြင့် တကြိမ်လျှင် အစာများများပင် စားနိုင်သည်။ အစာအိမ်သည် ယင်းမှထွက်သော ဂွဲစတြစ်ရည်ခေါ် အစာအိမ်ရည်ဖြင့် အစာများကို ရောမွှေပြီးလျှင် အမြှုပ်ထအောင် ပြုလုပ်ပေးသည်။ ဤသို့ဖြင့် ခဲနေသော အစာများသည် ပျော့အိအိ ဖြစ်လာ၏။ အစာအိမ်သည် အစာတွင်ပါသော ပရိုတင်းများကို အစာအိမ်ဂလင်းများမှထွက်သော ဟိုက်ဒရိုကလောရစ် အက်ဆစ်နှင့် ပက်ပဆင်များဖြင့် ချေသည်။ ဟိုက်ဒရိုကလောရစ် အက်ဆစ်သည် အစာကို မပုပ်မသိုးအောင် ပြုလုပ်နိုင်သော သတ္တိရှိသည့်ပြင် ပန်ကရိမျိုးများမှ ပန်ကရိရည်များ လွယ်ကူစွာ ထွက်ရန်ကိုလည်း ပြုလုပ်ပေးသည်။ အစာအိမ်သည် အစာကို အူသိမ်သို့ မကြာမကြာ ထုတ်ပေးသည်။

အစာသည် အပေါ်ထိပ်ရှိ အစာပြွန်မှတဆင့် အစာအိမ်သို့ ဝင်၏။ ထိုနောက် အစာအိမ်၏ သန်မာသော ကြွက်သားများ၏ မှန်မှန် ရှုံ့ပေးမှုကြောင့် အစာသည် အစာအိမ်တလျှောက် ဝင်၍ ဝင်၍ လာလေသည်။ ယင်းသို့ဝင်လာရာ အောက်ပိုင်းရှိ ပိုင်လောရစ် ထွက်ပေါက်သို့ တိုင်ရောက်ရှိရာ အစာလည်း ပျော့အိအိဖြစ်လာလေသည်။ အစာအိမ်တွင် အစာမရှိသည့်အခါ ကြွက်သား ရှုံ့ခြင်းများသည် ကျွန်ုပ်တို့အား ဆာလောင် မွတ်သိပ်စေသည်။

အစာသည် အစာအိမ်အောက်ပိုင်းရှိ ပိုင်လောရစ် ထွက်ပေါက်သို့ ရောက်သောအခါ ရှုံ့ကြွက်သားရစ် တခုကပိတ်ဆို့ထားလိုက်၏။ အစာသည် အူများသို့ထွက်သွားရန် အချိန်တန်သောအခါမှ ထိုရှုံ့ကြွက်သားရစ် ပွင့်လာရာ ထိုအခါမှ အစာသည် အူများသို့ ဆင်းသွားလေသည်။ဤသို့ အစာအိမ်သို့အစာဝင်စမှ အူများသို့ထွက်သွား၍အစာအိမ်တွင် အစာမရှိအောင် ကြိတ်ချေရသည့် အချိန်မှာ လူနှင့် အစာကိုလိုက်၍ကြာသည်။စားသောအစာသည်ကြေလွယ်၍ လူကလည်းကျန်းမာစွာရှိခဲ့လျှင် ကြိတ်ချေရသည့်အချိန်မှာ မြန်သည်။စားသောအစာကလည်း ကြေခဲ၊လူကလည်း မကျန်းမမာရှိနေခဲ့လျှင် ကြိတ်ချေရသည့်အချိန်မှာ ကြာလေသည်။ များသောအားဖြင့် လူများစားသော အစာ၏ကြေချိန်မှာ သုံးနာရီမှ ငါးနာရီအထိကြာတတ်သည်။

အစာအိမ်အတွင်းသို့ ဝင်လာသော အစာကို အစာအိမ်ရည်က အမျိုးမျိုးပြုပြင်ပေး၏။ ဤအရည်သည် အစာအိမ် ဂလင်းများမှထွက်သော အရည်ကြည် ဖြစ်ရာ ရေ၊ ဆား၊ ဟိုက်ဒရိုကလောရစ်အက်ဆစ်၊ ပက်ပဆင်နှင့် ရင်နင်တို့ ပါဝင်ကြသည်။ ရင်နင်သည် နို့ကိုခဲစေ၍ ပက်ပဆင်သည် ပရိုတင်းကို ကြေမြန်စေပြီးလျှင် နို့ကိုလည်း ခဲစေသည်။အစာအိမ်သို့ အစာဝင်လာသောအခါ တံတွေးမှ ဖြစ်ပေါ်လာသော သွားရည်ပါစက ပါလာသည်။ ဤသွားရည်ပါစကသည် ကျက်ပြီးဖြစ်သောကစီကိုချေသည်။

ကလေးသူငယ်များတွင် အစာအိမ်၌ ရှိသော အဆီကိုချေသည့် အင်ဇိုင်း ရှိသည်။ ဤအင်ဇိုင်းသည် လူကြီးများတွင် အရေး မကြီးလှချေ။ အစာအိမ်ရှိ အစာကိုချေခြင်းသည် အူများရှိ အစာကို ချေခြင်းလောက် အရေးမကြီးချေ။ အစာအိမ်သည် အသက်ရှင်မှုအတွက်လိုအပ်သော အရာမဟုတ်ပေ။ အစာအိမ်ကင်ဆာရောဂါဖြစ်သော လူနာများတွင် အစာအိမ် တခုလုံးကို ယူထုတ်သားလိုက်တတ်သည်။ အစာအိမ်နာနှင့် ကင်ဆာရောဂါ အငယ်စားဖြစ်ပွားသော လူနာများတွင် အစာအိမ် အတော်များများကို မကြာမကြာ ထုတ်ယူ ခဲ့ရဘူးလေသည်။

**အစု၊ အစို့။** ။အစုနှင့်အစို့မှာ အဓိပ္ပါယ်ချင်း တူညီသော ဝေါဟာရများဖြစ်၍ အသင်းအဖွဲ့ကို ဆိုလိုသည်။ ရှေးမြန်မာဘုရင်များ လက်ထက်တွင် အမှုထမ်းပုံ တူသည့်လူစုကို အစု၊ သို့မဟုတ် အစို့ဟူ၍ ပိုင်းခြားဖွဲ့စည်းလေ့ရှိသည်။ သင်းစု ပင်းစု၊ ရပ်စု ကွက်စု၊ အစုအငန်းစသည်တို့မှာ အပေါင်းအစုအနက်ကို ဖော်ပြလျက်ရှိသည်။

ထိုသို့ အမှုထမ်းပုံ တူညီသူများကို အတန်းအစားတမျိုးစီ ခွဲခြား၍ အစုများ ဖွဲ့စည်းရာတွင် အောက်ပါအစုများ ပေါ်ပေါက်ခဲ့သည်။

| | |
|---|---|
| ဝန်စု | အမြောက်အစု |
| မူးစု | စိန်အစု |
| ဗိုလ်စု | သေနတ်အစု |
| ရုံးဆော်အစု | ထားစွဲ၊ လှံစွဲ အစု |
| ပြော့အစု | ယွန်းကောင်ဟန်အစု |
| နေရာချအစု | တင်ကျည်းစွဲအစု |
| စာမြောင်အစု | လေးအစု |
| ဘုရင့်အစု | ဒိုင်းအစု |
| လွှတ်စောင့်အစု | ကာအစု |
| ဆင်အစု | သင်္ဘောအစု |
| မြင်းအစု | သမ္ဗန်အစု |
| လှေအလျင်အစု | သရပတ်အစု |
| ရဲလှေအစု | စဏ္ဍာလအစု |
| ခတ်လှေအစု | သွေးသောက်စု |
| သဘင်အစု | |

ထိုအစုများမှာ ဆိုင်ရာလုပ်ငန်းတာဝန် အမျိုးအမည်အလိုက် မှည့်ခေါ်ထားခြင်းဖြစ်၍ အစုသားတို့၏လုပ်ငန်းတာဝန်မှာ သိသာထင်ရှားပေသည်။ ထို အစုများတွင် ရေးမှတ် ထမ်းရွက်ရသူကို စုရေး၊ သို့မဟုတ် အစုရေးမင်းဟုခေါ်သည်။ အစုကို လက်ကိုင်ပြုလုပ် အုပ်ထိန်းရသော အရာရှိကို စုကိုင်ဟုခေါ်သည်။ယင်းအစုများမှ တပါးသော မင်းမှုထမ်းငယ်များအစုကို စုသေးစုနုဟု ခေါ်သည်။

## အစုသားများ

အစုတစုတွင် ပါဝင်သူကို အစုသားဟု ခေါ်သည်။ အစုအဖြစ် ကွပ်သိမ်းပေါင်းစည်းရာတွင် ပါဝင်သောအစုသားများကို စိစစ်၍ မှတ်သားရသည်။ အစုသားတို့မှာ အလုပ် တူညီသော်လည်း အရာအထူးနိမ့်မြင့်မတူချေ။

ဝန်စုအပါအဝင် ဝန် ၅၀ မှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ ဆင်ဝန်
၂။ အောင်းမဝန်
၃။ ဆင်ဖြူဝန်
၄။ စီးတော်မြင်းဝန်
၅။ စို့လေးဆယ်ဒိုင်းဝန်
၆။ ကောင်ဟန်ဝန်
၇။ ရွှေပြည်ဝန် ·
၈။ နောက်တော်ပါမြင်းဝန်
၉။ ကသည်းမြင်းဝန်
၁၀ ။ အက္ကပတ်မြင်းဝန်
၁၁ ။ နန်းဦးမင်္ဂလာမြင်းဝန်
၁၂ ။ တောင် ရွှေပြည်ရန်အောင် မြင်းဝန်
၁၃ ။ မြောက် ရွှေပြည်တန်ခွန် ရဲဘက်မြင်းဝန်
၁၄ ။ ကျုံးဝန်
၁၅ ။ အုဘ်ဝန်
၁၆ ။ နန်းကံကျေးဝန်
၁၇ ။ ယွန်းစုဝန်
၁၈ ။ သူရဲဝန်
၁၉ ။ အမြောက်ဝန်
၂၀ ။ ကျီဝန်(နတ်ထိန်း၊ နန်းအုပ်ဆေးသမား)
၂၁ ။ အဝေးကျီဝန် (ဘဏ္ဍာတိုက်)
၂၂ ။ ငွေခွန်ဝန်
၂၃ ။ ပုဏ္ဏားဝန်
၂၄ ။ ကုလားဝန်
၂၅ ။ ကသည်းဝန်
၂၆ ။ ဆဘ္ဘာဝန်
၂၇ ။ အရွတ်ဝန် (ကုဋ္ဌနူနာဆိုင်ရာ)
၂၈ ။ အမွေဝန် (သုသာန်ဆိုင်ရာ)
၂၉ ။ ဖောင်ဝန် (လှေသမွန်ဆိုင်ရာ)
၃၀ ။ မဟာဒါန်ဝန်
၃၁ ။ ဝတ်မြေဝန်
၃၂ ။ တံဆိပ်ဝန်
၃၃ ။ အိမ်ရှေ့ဝန်
၃၄ ။ သံချက်ဝန်
၃၅ ။ ဖန်ချက်ဝန်
၃၆ ။ ပန်းတဉ်းဝန်
၃၇ ။ ပန်းပဲဝန်
၃၈ ။ ဒနက်ပလာဆင်ဝန်
၃၉ ။ ရွှေတိုက်ဝန်
၄၀ ။ အချုပ်ဝန်
၄၁ ။ မြေနန်းဝန်
၄၂ ။ ခင်မမင်းဝန်
၄၃ ။ ရေကြည်ဝန်
၄၄ ။ စားတော်ဝန်
၄၅ ။ စက်ဝန်
၄၆ ။ တရုပ်ဝန်
၄၇ ။ ယိုးဒယားဝန်
၄၈ ။ တိရစ္ဆာန်ဝန်
၄၉ ။ သဘင်ဝန်
၅၀ ။ ပန်းထိမ်ဝန်

ဝင်းဒိုင်းခုနစ်စုမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ ရှေ့ဝင်း၊ ၂။ နောက်ဝင်း၊ ၃။ လက်ျာဝင်း၊ ၄။ လက်ဝဲဝင်း၊ ၅။ စို့လေးဆယ်ဒိုင်းဝန်၊ ၆။ ယွန်းစုဝန်၊ ၇။ ကောင်ဟန်။

သေနတ် ၁၀ စုမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ နတ်ရှင်ရွေး၊ ၂။တောင်မာရတင်၊ ၃။ လင်းဇင်း၊ ၄။ ကင်းတား၊ ကုလားပြို၊ ၅။ ရွှေပြည်နောက်ဝန်းကျင်၊ ၆။ သူရဲ၊ ၇။ တံခါးနီ၊ ၈။ ဘုန်းတော်ပြည့်၊ ၉။ ရွှေသို့ဗိုလ်၊ ၁၀။ ဘုန်းတော်တိုး။

လှေ တပ်ဖွဲ့သား ၁၀ စုမှာ အောက်ပါ အတိုင်းဖြစ်သည်။

၁။ လှေသင်းဝန်၊ ၂။ ဖောင်ဝန်၊ ၃။ လှေသင်းဗိုလ်၊ ၄။ လှေသင်းစာရေးကြီး၊ ၅။ ထောင်ကဲ၊ ၆။ပဲ့နင်း၊ ၇။ ပဲ့ချိတ်၊ ၈။ ခကြီး(ထမင်းချက်)၊ ၉။ဦးစီး၊၁၀။တက်စွဲ အမှုထမ်း။

ဆင်တပ်ဖွဲ့သား ၁၀ စုမှာ အောက်ပါ အတိုင်းဖြစ်သည်။

၁။ ဆင်ဝန်၊ ၂။ ဆင်မင်းဝန်၊ ၃။ အောက်မားဝန်၊ ၄။ ဒနက်ပလာဝန်၊ ၅။ ဆင်ဝန်ထောက်၊ ၆။ ဆင်စာချီ၊ ၇။ ဆင်သက္ကဇာဖတ်၊ ၈။ ဆင်ဆေးသမား၊ ၉။ ဆင်ဦးစီး၊ ၁၀။ ဆင်ပဲ့စီး၊

မြင်းဖက်ဆိုင်ရာ ဝန် ၁၀ စုမှာ အောက်ပါ အတိုင်းဖြစ်သည်။

၁။ မြင်းစုကြီးဝန်၊ ၂။ စီးတော် မြင်းဝန်၊ ၃။ ကသည်း မြင်းဝန်၊ ၄။ အက္ကပတ်မြင်းဝန်၊ ၅။ နောက်တော်ပါ မြင်းဝန်၊ ၆။ ရဲဘက်မြင်းဝန်၊ ၇။ ရွှေပြည်ရန်အောင် မြင်းဝန်၊ ၈။ မင်္ဂလာ မြင်းဝန်၊ ၉။ မြင်းသစ်

မြင်းဝန်၊ ၁၀။ သစ္စာခံ မြင်းဝန်၊ ၁၁။ နန်းဦးမင်္ဂလာ မြင်းဝန်။

မြင်းတပ်ဖွဲ့သား ခြောက်စုမှာ အောက်ပါ အတိုင်း ဖြစ်သည်။

၁။ မြင်းဝန်၊ ၂။ မြင်းတပ်ဗိုလ်၊ ၃။ မြင်းစာရေး၊ ၄။ မြင်းခေါင်း၊ ၅။ မြင်းစီး၊ ၆။ မြင်းအမှုထမ်း။

မှူးစု ၁၁ စုမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ ဝင်းမှူး၊ ၂။ သူရဲကြီးမှူး၊ ၃။ ဝေါကြီးမှူး၊ ၄။ ရတနာထမ်းစင်မှူး၊ ၅။ ပြောကြီးမှူး၊ ၆။ စမျှောမှူး၊ ၇။ အဆောင်နီမှူး၊ ၈။ လှေကားတော်မှူး၊ ၉။ ရွှေတော်ပြေးမှူး၊ ၁၀။ တင်းတိမ်ယံမှူး၊ ၁၁။ ဆီမီးထွန်းမှူး။

ဗိုလ်စာရင်းအမှုထမ်း ၂၂ စုမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ တောင်ထားဝယ်ဗိုလ်၊ ၂။ မြောက်ထားဝယ်ဗိုလ်၊ ၃။ တောင်တရာ့ငါးဆယ်ဗိုလ်၊ ၄။ မြောက်တရာ့ငါးဆယ် ဗိုလ်၊ ၅။ ရွှေပြည်မှန်ကင်းဗိုလ်၊ ၆။ တောင်မာရဖင်ဗိုလ်၊ ၇။ မြောက်မာရဖင်ဗိုလ်၊ ၈။ ရွှေးလက်ဝဲဗိုလ်၊ ၉။ ရွှေးလက်ျာ ဗိုလ်၊ ၁၀။ လက်ဝဲကြောင်းဗိုလ်၊ ၁၁။ လက်ျာကြောင်း ဗိုလ်၊ ၁၂။ နတ်ရှင်ရွှေးဗိုလ်၊ ၁၃။ ဘုန်းတော်ပြည့်ဗိုလ်၊ ၁၄။ ရွှေလှံဗိုလ်၊ ၁၅။ တံခါးနီတော်ဗိုလ်၊ ၁၆။ လင်းဇင်း ဗိုလ်၊ ၁၇။ နတ်စုလက်ဝဲဗိုလ်၊ ၁၈။ ကင်းထားဗိုလ်၊ ၁၉။ နတ်စုလက်ျာဗိုလ်၊ ၂၀။ သူရဲဝန်ဗိုလ်၊ ၂၁။ ရွှေပြည်ဗိုလ်၊ ၂၂။ နောက်ဝန်းကျင်ဗိုလ်၊

စစ်ဖက်အမှုထမ်း၁၁ စုမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ ဗိုလ်မှူး၊ ၂။ ဗိုလ်ချုပ်၊ ၃။ စစ်ကဲ၊ ၄။ နာခံ၊ ၅။ တပ်ရေး၊ ၆။ ဗိုလ်၊ ၇။ သေနတ်စာရေး၊ ၈။ တပ်မှူး၊ ၉။ သွေးသောက်ကြီး၊ ၁၀။ အကြပ်၊ ၁၁။ ငယ်အမှုထမ်း၊

အတွင်းခြောက်စုမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ မြောက် ထားဝယ်၊ ၂။ တောင်ထားဝယ်၊ ၃။ တောင် တရာ့ငါးဆယ်၊ ၄။ မြောက် တရာ့ငါးဆယ်၊ ၅။ ရွှေပြည်မှန်ကင်း၊ ၆။ မြောက်မာရဖင်။

အပြင်ခြောက်စုမှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ နတ်စုလက်ဝဲ၊ ၂။ နတ်စုလက်ျာ၊ ၃။ရွှေးလက်ဝဲ၊ ၄။ရွှေးလက်ျာ၊ ၅။ လက်ဝဲကြောင်း၊ ၆။လက်ျာကြောင်း။

ယင်း အစုများအပြင်၊ စုသေးစုနု အပါအဝင်အမှုထမ်းများကား အများအပြားပင် ရှိ၍ စာရင်းတိကျကောက်ယူခြင်းမရှိပေ။ စုသေးစုနုအပါအဝင် အမှုထမ်းများကား အောက်ပါအတိုင်းပင် ဖြစ်သည်။

**စုသေးစုနုပါမှုထမ်းများ**

| | | | |
|---|---|---|---|
| ဆင်တိုင်အမှုထမ်း | ဆင်ကာ | အချုပ် | ဒိုင်းတော် |
| နာရီစောင့်ပုဏ္ဏား | သန့်စင်တော် | ရွှေဇာယက် | အောက်ရောက်လက်သမား |
| မင်္ဂလာရထား | ပန်းပု | ကြေးပန်းထိမ် | ဘဏ္ဍာလယ်သမား |
| | | ဂူန္တာန်ရွှေလုပ် | ဆေးရေးပန်းချီ |
| | | ခဝါတော် | နန်းမတော်ဘုရားကျွန်တော်မျိုး |
| | | ရွှေတိုက်စောင့် | သမီးတော်ကျွန်တော်မျိုး |
| | | မင်းခမ်းတိုက်စောင့် | အလုပ်ရုံစက်ရုံအမှုထမ်း |
| | | စာရင်းတိုက်စောင့် | ရွှေတိုက်လက်သမား |
| | | မြင်းတိုင်မြင်းမွေး | ဗိုလ်တရာအမှုထမ်း |
| | | အဆောင်နီ | အတွင်းတော်၊လွှတ်တော်ခိုင်းပန်းပဲ |
| | | နန်းကံကျေး | ပန်းချီ |
| | | လှေကားတော် | ရွှေပန်းထိမ် |
| | | ဆီမီးထွန်း | ကုလားပန်းရန် |
| | | မနော်ရမ်အမှုထမ်း | စည်တော် |
| | | ဥယျာဉ်မှူး | ပိဋကတ်ပေလုပ်မျဉ်းကိုင် |
| | | ဒေါနပန်းစိုက် | လက်နက်တိုက်အမှုထမ်း |
| | | ကျီဘော် | ယွန်းခယာပုံတောင် |
| | | ယမ်းပြန်ယမ်းတောင်း | သညာသည်အစု |
| | | ဆတ္တာ | ယက်ကန်းတော် |
| | | မင်္ဂလာရွှေမောင်း | စမြောင် |
| | | နေရာတော် | တုရင် |
| | | ဆင်စွယ်ပွတ် | တင်းတိမ်ရုံ |
| | | ရွှေချည်ထိုး | စာဆိုတော် |
| | | ကြယ်ခတ် | အငြိမ့်ဝဲယာ |
| | | ဂူန္တာန်ထိုး | ရွှေတော်ပြေး |
| | | ကျောက်သွေး | မဏ္ဍာစည်တော်စောင့် |
| | | သမားကိုင် | တောင်ပြုန်းနတ်ထိမ်း |
| | | ဖြတ်လွှ | နွားနို့တော်ဆက် |
| | | သစ်ပွတ် | မြင်းမကား |
| | | လက်ဆောင်ယူ | အနောက်ရွှေချည်ထိုး |
| | | လွှတ်စောင့် | ဆွမ်းတော်ချက် |
| | | ပြော့နေရာချ | မင်းဝံကုလားပျို |
| | | ပန်းတဉ်း | ကျိုင်းအစု |
| | | အနောက်ဝန်၊ဝန်စု၊ စုသေး | အနောက်ရွှေပန်းထိမ် |
| | | ဖောင်ပရပတ် | ယဉ်တော် |
| | | လှေခုတ်လက်သမား | တိုက်စောင့် |
| | | ပဟိုရ်တီး | လွှာစေလေးတန်း |
| | | စာပုံနှိပ် | လက်ရ |
| | | ဘွားဘက်ကျော် | ခြေသျှင်တော် |

**အစေး။** ။အချွဲအချွဲသော သစ်ပင် ကြီးငယ်များ၏ အခေါက်ကို ခုတ်ထစ်ပေးလိုက်သည့်အခါ ယင်းတို့မှ စီးယို

ထွက်လာသော စေးထန်းထန်းအရည်ကို ကော်စေး၊ သို့မဟုတ် အစေးဟူ၍ ခေါ်ကြသည်။ ထိုအစေးသည်ခြောက်သွေ့ သွားသောအခါ ဆတ်၍ ရေတွင် ပျော်နိုင်သည်။ အစေးအမျိုးပေါင်း ၁၅၀ ခန့်ရှိသည်ဟုသိရရာ များသောအားဖြင့် ထိုအစေးများကို မှုံ၊အရောင်တင်ဆီဆေးဖက်နှင့် အခြားစက်မှုလက်မှုလုပ်ငန်းများတွင် အသုံးပြုကြသည်။

စီးပွားရေး လောကတွင် သစ်စေး များ ကိုလည်း အစေးဟူ၍ပင် ခေါ်ဝေါ်သုံးစွဲကြသည်။ အမှန်မှာအစေး (ကော်စေး)နှင့် သစ်စေးတို့သည် မတူကြချေ။ အစေး (ကော်စေး) အစစ်တို့သည် အနည်းနှင့် အများ ရေတွင် ပျော်ကြ၍ သစ်စေးအစစ်တို့သည် ရေတွင် မပျော်ချေ။ တာပင်တိုင်ဆီပါသောကြောင့် အယ်လကိုဟော(အရက်) တွင်ထည့်၍ဖျော်မှသာ ပျော်လေသည်။ (သစ်စေး—ရှု။)

ထနောင်းပင်မျိုးမှရသောအစေးသည် အလွန်အသုံးဝင်သော အစေးတမျိုးဖြစ်သည်။ ထိုအစေးကို အာဖရိကတိုက်မြောက်ပိုင်း၊ ဩစတြေးလီးယားတိုက်နှင့် တူရကီနိုင်ငံတို့ဘွင်ပေါက်ရောက်သောအကေးရှားပင် (ထနောင်းမျိုး) ဖြစ်သည့် အပင်အမျိုးမျိုးတို့မှ ရရှိ၏။ ထိုအစေးကို အလုံးကလေးများအဖြစ်နှင့် ဈေးတွင် ရောင်းချ ကြသည်။ အရောင်မှာ နီရဲနေသောအရောင်မှ ကောက်ရိုးရောင်ကဲ့သို့ ဖျော့တော့ဘော့နေသောအရောင်အထိ အမျိုးမျိုး ရှိ၏။ ကောက်ရိုးရောင် ရှိသော အစေးလုံး ကလေး များသည် အကောင်းဆုံးဖြစ်၍ များသောအားဖြင့် ဟိုဖက်သည်ဖက်မြင်ရသလောက်ရှိဘတ်သည်။ ထိုအစေးကို အနောက်နိုင်ငံများတွင် သရည်စာမှုံလုပ်ရာ၌၎င်း၊ ဆေးဖက်တွင် အသားအရေ လိမ်းဆေးရည် ဖန်ရည်များ ဖော်စပ်ရာ၌၎င်း၊ အီးမားရှင်းဆေးများ ဖော်စပ်ရာ၌ ဆေးဖက် ဆီများ တခုနှင့်တခုသမအောင် ပေါင်းစပ်မိစေရန်၎င်း အသုံးပြုကြသည်။ ပိုးထည်နှင့် ပိုးတုအထည်များကိုအရောင်တင်ရန်နှင့်အခြားအထည်အလိပ်များ အသားပိတ်နေစေရန် ကော်တင်ရည်အဖြစ်ဖြင့်လည်း အသုံးပြုကြလေသည်။

အာရှမိုင်းနား ကျွန်းဆွယ်မှလာသော ထနောင်းမျိုးမှရသည့် အစေးတမျိုးမှာလည်း အလွန် ကောင်းသည်။ ထိုအစေးသည် အလေးချိန်အားဖြင့် ရေအဆပေါင်း ၅၀ မျှအထိနှင့်ရောစပ်နိုင်၍ ထိုသို့ ရောစပ်သောအခါ ပြစ်နေသည့်ကော်ရည်ကို ရရှိလေသည်။ ထို ကော်စေး ရည်ကို သရက်ထည်အပွင့်ရိုက်သောလုပ်ငန်းတွင် ချုပ်ဆေးအဖြစ်ဖြင့်၎င်း၊ အဆည်များ မာလာစေရန် ကော်ဘင်ရည်အဖြစ်ဖြင့်၎င်း များစွာအသုံးပြုကြသည်။ အရည်မပျော်နိုင်သော ဘဿဆေးမှုန့်များကို တလုံးတစည်း ပေါင်းစပ်နေအောင် တေရန်အတွက်နှင့် ပြတိုက်များတွင်ဖြစ်စေ၊ ကိုယ်ပိုင် စုဆောင်းရာတွင်ဖြစ်စေ ပိုးမွှား အသေကောင်များကိုအရှင်ကဲ့သို့ ရုပ်မပျက်အောင် ပြုလုပ်ထားသော လုပ်ငန်းများတွင်လည်း ထိုကော်စေးရည်ကို အသုံးပြုကြလေသည်။

နယူးဇီလန်ကျွန်းနှင့် ဩစတြေးလီးယား တိုက်ရှိ အလွန်ကြီးမားသော ကောင်ရီသင်းရှူးပင်များမှ ကောင်ရီသစ်စေး အများအပြားရရှိ၏။ ထိုအပင်များမှ ရသောသစ်စေးကို များသောအားဖြင့် မြေမှ တူးဖော် ရရှိလေသည်။ ထိုသစ်စေးသည် အရောင်တင်ဆေး ပြုလုပ်ရန် အတွက်အလွန်ကောင်း၏။ အရောင်တင်ဆေး ပြုလုပ်ရာ၌ အသုံးပြုသော ကိုပယ် အစေးတမျိုးကို အာဖရိကတိုက်ရှိ ဇန်ဇီဗာကျွန်း၊ မက်ဒါဂက်စကာကျွန်းနှင့် အာရှတိုက် အချို့ဒေသများတွင် မြေမှတူးဖော်ရရှိလေသည်။

**အစွဲအလန်း။** ။အလွဲစွဲစိတ် — ရှု။

**အဆိဇီ၊ စိန်ဖရန်းစစ်။** ။စိန်ဖရန်းစစ် — ရှု။

**အဆီးရီးယားနိုင်ငံ။** ။ကမ္ဘာ့ရှေးဟောင်းသမိုင်းတွင် ထင်ရှားခဲ့သော ဆီးမိုက်အနွယ်ဖြစ်သည့် လူမျိုးများသည် အာရှတိုက် အနောက်ပိုင်း မြစ်နှစ်မြွာမြေဟု ခေါ်ဆိုသော ယူဖရေးတီးမြစ်နှင့် တိုင်းဂရစ်မြစ်ဝှမ်းဒေသတွင် သုံးကြိမ်တိုင်တိုင် နိုင်ငံထူထောင်စိုးမိုးခဲ့ကြသည်။ ထိုသို့ သုံးကြိမ်စိုးမိုးခဲ့သည့်အနက် ဒုတိယအကြိမ်စိုးမိုးသူ ဆီးမိုက်နွယ်တို့၏ ရှေးဟောင်းနိုင်ငံမှာ အဆီးရီးယားနိုင်ငံ ဖြစ်၍ ယခုခေတ် အီရက်နိုင်ငံ၏ မြောက်ပိုင်း ဖြစ်သည်။ ထိုလူမျိုးများကိုလည်း အဆီးရီးယန်းဟု ခေါ်သည်။ အဆီးရီးယန်းလူမျိုးများသည် ဗက်ဗီလုံး နိုင်ငံသူနိုင်ငံသားများနှင့် လူမျိုးချင်း နီးစပ်ရုံမက ဘာသာစကားနှင့် ယဉ်ကျေးမှုများပါ ဆက်စပ်လျက်ရှိသောကြောင့် နိုင်ငံသမိုင်းဆိုင်ရာတွင်လည်း ဗက်ဗီလုံးနီးယား နိုင်ငံသမိုင်းနှင့် စပ်လျက်ရှိခဲ့သည်။

ဗက်ဗီလုံးနီးယားနိုင်ငံ စတင်ထွန်းကားခဲ့သော ဘီစီ ၂၅၀၀ ပြည့်နှစ်ခန့်ကပင် အဆီးရီးယန်းတို့သည် မြစ်နှစ်မြွာ၏ မြစ်ဖျားအနီးအပါး၌ နေထိုင်၍ နိုင်ငံထူထောင်လျက်ရှိကြသည်။ ဆူမားတို့ကောင်းစားစဉ်ကပင် အဆီးရီးယန်းတို့သည် ဆူမားတို့နှင့် ကူးသန်းရောင်းဝယ်ကြဘူး၏။ အီဂျစ်လူမျိုးတို့နှင့်လည်း ဆက်ဆံကြဘူး၏။ ထိုလူနှစ်မျိုးတို့ထံမှ အတုခိုးစရာကောင်းသော ယဉ်ကျေးမှုဟူသမျှကို အတုခိုးကြ၏။ စာအရေးအသားကို ဆူမားတို့ထံမှ နည်းယူရေးသားကြ၏။ သို့သော် စာရေးသောအခါ အီဂျစ် လူမျိုးတို့ကဲ့သို့ ကျူရိုးပြန့်များပေါ်တွင် မင်ဖြင့် ရေးသားကြသည်။

အဆီးရီးယားနိုင်ငံ၏ ဘေးပတ်ဝန်းကျင် အရပ်များ

၌ ခက်ထန်ကြမ်းတမ်းသော တောင်ပေါ် လူရိုင်းများ နေထိုင်ကြရာ ရံဖန်ရံခါ ထိုလူများသည် ကွင်းပြင်သို့ ဆင်းကာ အဆီးရီးယန်းတို့အား လုယက်တိုက်ခိုက်ကြ၏။ တိုက်ခိုက်တိုင်း အဆီးရီးယန်းတို့သည် ပြန်လည် ခုခံတိုက်ခိုက်ကြရ၏။ ခုခံတိုက်ခိုက်ရဖန် များလတ်သော် ယင်းတို့သည် စစ်အတတ်၌ကျွမ်းကျင်လာကြ၏။ မြင်းစီး အတတ်၌လည်း ကျွမ်းကျင် လိမ္မာကြ၏။ လူတိုင်းလူတိုင်း စစ်သားဖြစ်လာကြလေသည်။ ယင်းသို့ဖြစ်ရကား အဆီးရီးယန်း တို့သည် ဗက်ဗီလုံးနီးယန်းတို့ထက် ကြမ်းတမ်း၍ စစ်ရေးစစ်ရာတွင် ကျွမ်းကျင်ကြသည်။

အဆီးရီးယန်းတို့သည် စစ်အတတ်၌ ကျွမ်းကျင်ပြီးဖြစ်၍ စစ်ကရိယာများကို စုံလင်စွာ စုဆောင်းပြီးသောအခါ အနောက်ဖက်နယ်များသို့ရင်း၊ တောင်ဖက် ဗက်ဗီလုံးနီးယားနိုင်ငံတွင်းသို့ရင်း ချင်းနင်းဝင်ရောက် တိုက်ခိုက်ကြ၏။ ဗက်ဗီလုံး နီးယားနိုင်ငံသည် အဆီးရီးယားလက်တွင်းသို့ ကျရောက်၏။ ဒုတိယဆာဂွန်မင်းလက်ထက်သို့ကျရောက်သောအခါ အဆီးရီးယားနိုင်ငံ၏ နယ်နိမိတ်သည် အီဂျစ်နိုင်ငံမှ ဗက်ဗီလုံးနိုင်ငံအဆုံးထိ ကျယ်ပြန့်လာ၏။ အဆီးရီးယန်းစစ်သူရဲတို့နှင့် မည်သည့်လူမျိုးမျှ ယှဉ်ပြိုင်၍ မတိုက်ခိုက်ဝံ့ကြတော့ချေ။ ဒုတိယ ဆာဂွန်မင်းသည် ဘီစီ ၇၂၈ ခုနှစ်တွင် နင်းနိဗမြို့တော်ကိုတည်သည်။ နင်းနိဗမြို့တော်၏ အရှေ့မြောက်ပိုင်းတွင် လှပ ခမ်းနားသော နန်းတော်ကြီးကိုလည်း တည်ဆောက်၏။ နန်းတော်ကြီးသည် မြို့ရိုးကိုခွလျက် မြို့ပြင်၌တပိုင်း၊ မြို့တွင်း၌တပိုင်း တည်ရှိလေသည်။ နန်းတော်နေရာ တခုလုံးကိုလည်း မြေပြင်မှ အတော်မြင့်အောင် အုတ်ဖြင့် ခင်း၍ထား၏။ အုတ်ခင်းပြင်၏ အစွန်းတလျှောက်လုံးတွင် လမ်းမကြီးအတွက် နေရာချန်ထားပြီးလျှင် ထိုနှင့်ယှဉ်လျက် နန်းတော် မြို့ရိုးကြီးကို ဆောက်လုပ်၏။ နန်းတော်မြို့ရိုးကြီးတွင် မြို့ဖက်၌တံခါးမကြီးကို ဖောက်ထား၏။ တံခါးမကြီး၏ နဖူးစီးများကို ခုံးကြီးများဖြင့် ပြုလုပ်ထားသည်။ ခုံးကြီးများတွင် လူဦးခေါင်းနှင့် နွားကိုယ်ရှိသော အကောင်ကြီးများ၏ အရုပ်များကို ထွင်းထားသည်။ ထိုပြင် နန်းတော်ကြီးကို အဆီးရီးယန်းဗိသုကာတို့၏ ပြောင်မြောက်သော လက်ရာမွန်တို့ဖြင့် အဆန်းတကျယ် တည်ဆောက်ထားရာ ထိုခေတ်၌ နင်းနိဗမြို့တော်ရှိ နန်းတော်ကြီးကဲ့သို့ ခမ်းနားကြီးကျယ်သော နန်းတော်ကြီးမျိုးသည် ကမ္ဘာပေါ်တွင် မပေါ်ပေါက်သေးအောင် ရှိခဲ့လေသည်။ အာရှတိုက်သားအဆီးရီးယန်းဘုရင်များသာ နောင်လာ နောက်သားများ စံနမူနာ ယူလောက်အောင်ကြီးကျယ်ခမ်းနားသောအဆောက်အအုံများကို တည်ထားခဲ့ကြပေသည်။

ဒုတိယဆာဂွန်မင်း လွန်သောအခါ သားတော် ဆင်နာဂါရစ်မင်းသည် အဆီးရီးယားနိုင်ငံကြီးကို ဆက်ခံ စိုးစံလေသည်။ ဆင်နာကရစ်မင်းသည် နင်းနိဗမြို့တော်ကြီးကို ထပ်မံပြုပြင်၏။ မြို့တော်ကို ပြင်ဆင်ပြီးသော် တိုင်းနိုင်ငံကြီးကျယ် ပြန့်ပွားအောင် အခြား နိုင်ငံများသို့ ချီတက်တိုက်ခိုက်၍အနောက်ဖက်တလွှားရှိ ပယ်လက်စတိုင်စသောနိုင်ငံများကို သိမ်းယူ၏။ ထိုမင်းလက်ထက်၌ လက်ရသိမ်းပိုက်ပြီးသော နိုင်ငံများမှ ရွှေငွေ၊ကျောက်သံရတနာများ၊ မိန်းမများနှင့် ကလေးများကို နွားလှည်းများဖြင့် တင်ဆောင်လာကာ အဆီးရီးယားနိုင်ငံရှိ ကျွန်ဈေးများတွင် ကျွန်အဖြစ် ရောင်းချကြသည်။ အုပ်ချုပ်ရေး၌ ဆင်နာကရစ်မင်းသည် ညာတာထောက်ထားခြင်းမရှိ၊ အလွန်ရက်စက်ရကား အဆီးရီးယားနိုင်ငံ တဝှန်းလုံးသည် ထိုမင်းကို ကြောက်ရွံ့မုန်းတီးကြသည်။ သို့သော် ပုန်စား ပုန်ကန် ပြုသူ နည်းပါးလေသည်။

ဆင်နာကရစ်မင်း ကံကုန်ပြီးသည့်နောက် အဆီးရီးယားနိုင်ငံသည် တည်တံ့စည်ကားသော်လည်း ဘီစီ ၆၀၂ ခုနှစ်တွင် နိုင်ငံကြီးသည် မငြိမ်မသက်ဖြစ်လာ၏။ အဆီးရီးယားနိုင်ငံကြီး၏ အနောက်ဖက်ရှိ ပယ်လက်စတိုင်နိုင်ငံကို အီဂျစ်တို့က တိုက်ခိုက်သိမ်းယူကြ၏။ အဆီးရီးယန်းမင်းများ လက်အောက်ခံ ဗက်ဗီလုံးနီးယား နိုင်ငံလည်း ပုန်ကန် ထကြ၏။ အဆီးရီးယားနိုင်ငံ အရှေ့ဖက်မှလည်း မိဒလူမျိုးများက နင်းနိဗမြို့တော်ကို ဝင်ရောက် တိုက်ခိုက်ကြသည်။ (မိဒလူမျိုး — ရှု။) နောက်ဆုံး၌ ဗက်ဗီလုံးမြို့မှ သူပုန်များသည် နင်းနိဗမြို့ကို ဝင်ရောက်တိုက်ခိုက် ဖျက်ဆီးကာ ရှေးအဆီးရီးယန်းတို့ ဗက်ဗီလုံးကို ဖျက်ဆီးခဲ့သည့်ရန်ကို တုံ့ချေကြလေသည်။ အာရှတိုက်၌ ခန့်ညားထယ်ဝါစွာ ထွန်းကားခဲ့သော နင်းနိဗမြို့တော်ကြီးသည် မြေပုံအဖြစ်သို့ ဆိုက်ရောက် သွားလေတော့၏။ ဤသို့ဖြင့် အဆီးရီးယားနိုင်ငံကြီးသည် ဘီစီ ၆၀၂ ခုနှစ်တွင် ပျက်စီးခြင်းမဟာ ပျက်စီးခဲ့ရသေးသည်။ (ဗက်ဗီလုံးနီးယားနိုင်ငံ— လည်းရှု။)

**အဆက်တီလင်း။** ။အဆက်တီလင်း ဓာတ် ငွေ့သည် အရောင်ကင်းမဲ့၏။ မည်သည့် ပစ္စည်းနှင့်မျှ မရောစပ်ပဲ ဓာတ်ငွေ့သန့်သန့်ချည်းဆိုလျှင် အနံ့မဆိုးလှချေ။ သို့သော် ဓာတ်ငွေ့သန့်သန့်မဟုတ်ပဲ အခြားဓာတ်ငွေ့များနှင့်ရောစပ်နေခဲ့လျှင် ကြက်သွန်ဖြူ နံ့ကဲ့သို့ မနှစ်မြို့ဖွယ်သော အနံ့ရှိ၏။ ထိုဓာတ်ငွေ့သည် သာမန်လေထက် အနည်းငယ်ပေါ့၍ ရေတွင် ပျော်ဝင်လွယ်၏။ မီးလောင်မှုကို အားမပေးသော်လည်း မီးလောင်လွယ်တတ်၏။ ဓာတ်ငွေ့ သန့်သန့်ကို မီးထွန်းကြည့်သောအခါ မှိုင်းများသော မီးဘောက်မီးလျှံဖြင့် လောင်၍ အလွန်တောက်ပ၏။သို့သော် အထူး

ပြုပြင်ထားသော မီးတိုင်တွင် သာမန်လေနှင့်ရောပြီး ထွန်း ကြည့်သည့်အခါ မှိုင်းများ ပျောက်သွားပြီးလျှင် အလွန် တောက်ပသော မီးရောင်ဖြင့် လောင်လေသည်။ မီးရှိန်မှာ လည်း အလွန်ပြင်းထန်၏။ ထိုဓာတ်ငွေ့မှ ရသော မီး အလင်းရောင်သည် ကျောက်မီးသွေး ဓာတ်ငွေ့၏ မီး အလင်းရောင်ထက် တဆဲ့ငါးဆမျှ ပို၏။

အဆက်တီလင်း ဓာတ်ငွေ့၏ ဓာတု သင်္ကေတမှာ $C_2 H_2$ ဖြစ်၏။ အဆက်တီလင်း ဓာတ်ငွေ့ကို ယခုအခါ မီးထွန်းရန်အတွက်နှင့် စက်မှု လုပ်ငန်းများတွင် အထူးပင် အသုံးပြုကြ၏။ ကယ်လဆီယမ် ကာဗိုက် $C_a C_2$ တွင် ရေအနည်းငယ် ထည့်ပေးလိုက်ခြင်း အားဖြင့် အဆက် တီလင်း ဓာတ်ငွေ့ကို ရရှိနိုင်သည်။ ပုံစံမှာ



$$C_a C_2 + 2H_2O = C_2 H_2 + C_a (OH)_2$$

ကယ်လဆီယမ်ကာဗိုက် + ရေ = အဆက်တီလင်း ဓာတ် ငွေ့ + ကယ်လဆီယမ်ဟိုက်ဒရော့ဆိုက်

ကယ်လဆီယမ်ကာဗိုက်သည် ချော်တုံး ချော်ခဲများ ကဲ့သို့ ညိုသောအရောင် ရှိ၏။ ထုံးနှင့် မာသော ကျောက် မီးသွေးများကို ရောပြီးလျှင် လျှပ်စစ်မီးဖိုတွင် အရည်ကျို လိုက်သောအခါ၌ ရရှိသည်။

အဆက်တီလင်းဓာတ်ငွေ့သည် မီးထွန်းရာ၌ ကျောက် မီးသွေးဓာတ်ငွေ့ထက် အထူးပင် ပို၍လင်းသောကြောင့် အိမ်များ၌ မီးထွန်းရန်အတွက်၎င်း၊ စက်ဘီး မီးထွန်းရန် အတွက်၎င်း အသုံးပြုလေ့ရှိကြ၏။ မီးထွန်းရန် နည်းမှာ လည်း မခဲယဉ်းလှချေ။ ကယ်လဆီယမ် ကာဗိုက်ကို လေ လုံသော သတ္တုဗူးထဲတွင်ထည့်၍ ထိုဗူး၏ တနေရာ၌ ရေ အစက်ကလေးများ ချပေးနိုင်အောင် အပေါက်ကလေး တခုနှင့် အခြားတနေရာ၌ အပ်ပေါက်လောက်သေးသော အပေါက်ငယ်တခုကို လုပ်ထား၏။ ကာဗိုက်ပေါ်သို့ ရေ စက်ကလေးများကို ဆက်ကာဆက်ကာ ချပေးသောအခါ အပေါက်ငယ်မှ အဆက်တီလင်း ဓာတ်ငွေ့ ထွက်လာ၏။ ထိုထွက်လာသော ဓာတ်ငွေ့ကို မီးညှိလိုက်လျှင် အလွန် လင်းသောမီးကို ရလေသည်။

အဆက်တီလင်းဓာတ်ငွေ့ကို အောက်ဆီဂျင်ဓာတ်ငွေ့ နှင့်ရောပြီး မီးရှို့လိုက်လျှင် အလွန်ပြင်းထန်သော အပူရှိန် ဖြင့် တောက်လောင်၍ မီးတောက်မှာလည်း အလွန့်အလွန် လင်း၏။ စက္ကူထူထူကို ကတ်ကျေးနှင့် လွယ်ကူစွာ ညှပ် နိုင်ဘိသကဲ့သို့ အဆက်တီလင်းနှင့် အောက်ဆီဂျင် ရော၍ ရသော အောက်ဆီအဆက်တီလင်း ဓာတ်ငွေ့ မီးတောက် သည် အလွန်မာသော သံမဏိပြားများကိုပင် လွယ်ကူစွာ ဖောက်နိုင်၏။ ထိုကြောင့် သံဆက် အလုပ်ရုံများတွင် သံ



အဆက်တီလင်း ဓာတ်ငွေ့ဖြင့် သံဂဟေဆက်နေပုံ

ဆက်ခြင်း၊သံဖောက်ခြင်းများအတွက် အောက်ဆီအဆက်တီလင်းမီးကို များစွာ အသုံးပြုကြ၏။ သံဆက် အလုပ်ရုံများတွင် အသုံးပြုသော အောက်ဆီအဆက်တီလင်းဓာတ်ငွေ့သည် ပြွန်တံနှစ်ခုမှ ဖြစ်ပေါ်လာ၏။ တခုသော ပြွန်တံမှ အဆက်တီလင်းဓာတ်ငွေ့ကိုရ၍ အခြားတခုမှ အောက်ဆီဂျင် ဓာတ်ငွေ့ကို ရ၏။ ထိုဓာတ်ငွေ့နှစ်ခုကို ရောပြီးမှ မှုတ်တံဖြင့် မှုတ်ထုတ်လိုက်ရ၏။ မှုတ်တံထိပ်ကို အလွန်ပူသော မီးအပူကို ခံနိုင်သည့် သတ္တုဖြင့် ပြုလုပ်ထားသောကြောင့် မီးတောက်နေသည့်အခါ အရည်မပျော်နိုင်ချေ။

အဲဆက်တီလင်းကို စက်ရုံကြီးများတွင် စက်ကရိယာများ ပြုလုပ်ပြင်ဆင်ရာတွင် များစွာအသုံးပြု၏။ညဉ့်အခါ မြစ်ထဲသို့ သင်္ဘောကြီးငယ်များ ဝင်ရောက်လာသည့်အခါ မြစ်ကြောင်းကိုမှတ်သော ဗော်ယာများကို မြင်နိုင်အောင် ဗော်ယာထိပ်များတွင် အဆက်တီလင်း ဓာတ်ငွေ့ဖြင့် မီးထွန်းထားကြ၏။ ထိုဓာတ်ငွေ့နှင့် မီးထွန်း၍ ရရှိသော မီးရောင်သည် အလွန်လင်းသောကြောင့် အဝေးကြီးကပင် ကောင်းစွာ မြင်နိုင်လေသည်။

**အဆောက်အအုံဆောက်လုပ်ခြင်း။** ။ကမ္ဘာ့ အရပ်ရပ်၌ရှေးမင်းများလက်ထက်က တည်ဆောက်ခဲ့သော စေတီပုထိုးကြီးများ၊ ပိရမစ်ကြီးများ၊ နန်းတော်ဆောင်ကြီးများ၊ ရဲတိုက်ကြီးများ စသော အဆောက်အအုံကြီးများ အနက် အချို့ကို ယခုထက်တိုင် တွေ့မြင် နိုင်သေးသည်။ သို့သော် ထိုအဆောက်အအုံကြီးများကား လပိုင်းလောက်နှင့် ဆောက်လုပ် ပြီးစီးခဲ့သော အဆောက်အအုံများ မဟုတ်ပေ။ ယခုခေတ်နှင့်စာသော် ထိုခေတ်က သိပ္ပံပညာသည်ငှင်း၊ အင်ဂျင်နီယာ အတတ်သည်ငှင်း၊ ကရိယာတန်ဆာပလာ လုပ်ငန်းသည်ငှင်း၊ သယ်ယူ ပို့ဆောင်ရေးလုပ်ငန်းသည်ငှင်း အတော်ပင် နုပေသေးသည်။ ထိုခေတ်က ကျောက်တုံး ကျောက်ခဲများကို လိုလျှင် ကျောက်စိုင်ကျောက်တောင်ကြီးများမှ လူတွေကိုယ်တိုင် ဆူးဆောက်တို့ဖြင့် တူးယူ ဖဲ့ယူကြရ၏။ လေးလံသည့် ပစ္စည်းများကို ပင့်လို ရွှေ့လိုသော် ယခုခေတ်မှာကဲ့သို့ စက်ကြီး စက်ကလေးအမျိုးမျိုး မပေါ်ပေါက်သေးသည့်အတွက် ကုတ်များ၊ ဒလိမ့်တုံးများ၊ မျက်နှာပြင်စောင်း များကိုသာ အသုံးပြုခဲ့ကြရ၏။ ထိုပစ္စည်းများကို တနေရာမှ တနေရာသို့ လူအား တိရစ္ဆာန်အားဖြင့်သာလျှင် သယ်ယူကြရ၏။ ထို့ကြောင့် ရှေးဗိသုကာဆရာ၊ ပန်းရန်ဆရာကြီးများ၏ လက်ရာကို အထင် မသေး သင့်သော်လည်း သူတို့သည် အထက်တွင် ဖော်ပြခဲ့သော အဆောက်အအုံ ကြီးများကို နှစ်ပေါင်းများစွာ ကြီးမားသော လူစုလူဝေးဖြင့် အလွန်ပင်ပန်းခက်ခဲစွာ ဆောက်လုပ်ခဲ့ကြရပေသည်။

သို့ရာတွင် သိပ္ပံပညာဖက်၌ အလွန်အမင်း တိုးတက်လာသည့် ကျွန်ုပ်တို့၏ ခေတ်သို့ ရောက် လာ သော အခါ ထိုအဆောက်အအုံကြီးများသက် ကြီးကျယ် မြင့်မား၍ပို၍လည်း ခိုင်ခံ့သော အဆောက် အအုံကြီး များကိုပင် နှစ်အနည်းငယ်အတွင်း၊ သို့မဟုတ် လပိုင်းအတွင်း၌ ပြီးစီးအောင် ဆောက်လုပ်နိုင်သည်ကို တွေ့ရလေသည်။ ယခုအခါ အဆောက်အအုံများ၏ ကိုယ်ထည်အတွက် သံမဏိတိုင် သံမဏိယက်မ သံမဏိဘောင်စသော သံထည် ပစ္စည်းများကို လိုသလောက် ရနိုင်ပေပြီ။ လေးလံသော ပစ္စည်းများကို လိုရာ ပင့်နိုင် ရွှေ့နိုင်သည့် ဝန်ချီစက်ကြီးများ ရှိသည်။ မြေစက်၊ တွင်းဘူးစက် စသော စက်ယန္တရားများလည်း အမျိုးမျိုးပင် ရှိ၏။ ဗိလတ်မြေများကိုလည်း ကျနစွာ ဖော်ယူနိုင်ပြီဖြစ်သဖြင့် ခိုင်ခံ့သော အင်္ဂတေများကို ပြုလုပ်နိုင်သည်။ တိုက်တာကြီးများကိုဆောက်လုပ်ရာ၌ ခေတ်မှီ အင်ဂျင်နီယာအတတ်ဖြင့် လိုအပ်သော အလေးချိန် အမျိုးမျိုး၊ အားအမျိုးမျိုးကို တွက်ချက် နိုင်သည့်အတွက် အဆောက်အအုံများကို တာရှည်တည်တံ့အောင် ဆောက်လုပ်နိုင်သည်။ထိုအပြင် မော်တော်ကား၊မီးရထား၊ သင်္ဘောစသည်ဖြင့် သယ်ယူပို့ဆောင်ရေး ယာဉ်များ ရှိနေသည့်အတွက် ဝတ္ထုပစ္စည်းများကို တနေရာမှ တနေရာသို့ ပြောင်းရွှေ့ရာတွင် ရှေးကကဲ့သို့ ခဲယဉ်း ကြန့်ကြာခြင်း မရှိတော့ပေ။

ရှေးက အဆောက်အအုံ များ၏ အလေးချိန်ကို အုတ်နံရံများဖြင့်သာ ထောက်ခံပေးထားခဲ့ကြ၍ ယခုအခါ၌မူ အုတ်နံရံများအစား သံတိုင်များကိုအသုံးများကြ၏။ သစ်သား ယက်မများ အစားလည်း သံယက်မများကို အသုံးပြုနိုင်ကြပြီဖြစ်သဖြင့် အဆောက်အအုံများမှာ ရှေးကထက် ပိုမိုစိတ်ချရပေသည်။ရှေးက အုတ်နံရံ၊ကျောက်နံရံများကိုသာ အားထားခဲ့ရသဖြင့် အဆောက်အအုံများတွင် အထက်ပိုင်းမလေးစေရန် အုတ်နံရံများကို အောက်ခြေ၌ ပြက်ကျယ်ကျယ်ထား၍ အပေါ်ဖက်သို့ ရှူးပေးရသည်။ သို့သော် သံတိုင်၊ သံယက်မများကိုသုံးသောအခါ အုတ်ကျောက်တို့ကဲ့သို့မလေးလံသည့်အပြင် အုတ်ကျောက်တို့ထက်လည်း ပို၍ခိုင်ခံ့သည့်အတွက် အထပ်တိုင်းကို တညီတညာတည်း ဆောက်လုပ်နိုင်ပေသည်။ ထိုအပြင် အုတ်နှင့်ကျောက်များကိုသုံးစဉ်က တဆပ်ပြီးမှ တထပ်ကို ဆောက်နိုင်ရာ သံထည်များကို သုံးသောအခါ အလုပ်သမားများသည် သူ့အစုနှင့်သူ ဆိုင်ရာအထပ်၊ ဆိုင်ရာအခန်းများကို တသီးတခြား ဆောက်လုပ်မှမ်းမံနိုင်ပေသည်။ ပုံစံအားဖြင့် အောက်ထပ်၌ နံရံတွင် အုတ်စီ၍ မပြီးမီ အပေါ်ထပ်၌ နံရံကို အင်္ဂတေကိုင်ခြင်း၊ အခန်းဖွဲ့ခြင်း၊ အိမ်ဆောင်ပရိဘောဂများ တပ်ဆင် ဆင်ပြင်ခြင်းများကို ပြုလုပ်နိုင်၏။



ရန်ကုန်မြို့ ကန်တော်ကြီးတွင် ရေပေါ်ကရဝိက်ခန်းမ အဆောက်အအုံ ဆောက်လုပ်နေစဉ်

သံထည်ကို အတွင်း၌ခံ၍ ဆောက်လုပ်ကြသော ယခုခေတ် အဆောက်အအုံကြီးများတွင် အုတ်ကို သံထည်များအပြင် ဖက်၌ ဖုံးလွှမ်းရန် အခင်းအကာများအတွက်သာ အသုံး ပြုကြခြင်းဖြစ်သည်။ အုဘ်ဖြင့် အခင်းအကာများ မလုပ်မီ သံထည်များကို များသောအားဖြင့် သံချေး မတက်နိုင် သော ဆေးများ အဆပ်ပေါင်းများစွာ သုဘ်လိမ်းပေးလေ့ ရှိသည်။

အဆောက်အအုံများကို မဆောက်လုပ်မီ အုတ်မြစ် ကောင်းကောင်း ချပေးရန် လိုပေသည်။ ထိုကဲ့သို့ ပြုလုပ် ပေးခြင်းမှာ အဆောက်အအုံ၏အလေးချိန်သည် အောက် ခံမြေ၌ ပျံ့နိုင်သမျှ ပျံ့သွားစေရန် ဖြစ်၏။ ရှိသမျှအလေး ချိန်ကို အောက်ခံမြေက ကောင်းစွာ ခံနိုင်ရည်ရှိရပေမည်။ အုတ်မြစ် ချရာ၌ သံတိုင်များ အောက်တွင် ခိုင်ခံ့သော အင်္ဂတေ တုံးများကို ချထားလေ့ ရှိသည်။ တခါတရံ ထိုအင်္ဂတေတုံးများကို သံချောင်းများနှင့် ရောစပ်၍ ပိုမို ခိုင်ခံ့အောင် ပြုလုပ်ထားသည်။ အဆောက်အအုံဆောက် လုပ်သောနေရာတွင် မြေပျော့နေပါက အုတ်မြစ်ကို ပိုခိုင် ခံ့အောင် လုပ်ပေးဖို့ လိုလေသည်။ အခိုင်ခံ့ဆုံးသော အုတ်မြစ်ချနည်းမှာ အင်္ဂတေတိုင်များကို မြေအောက် ကျောက်ဆပ်ထိအောင် မြှုပ်ပေးခြင်းဖြစ်၏။ ထိုအတွက် လေလုံသံစည်များကို မြေအောက်သို့ချပေးရ၍ ထိုစည် များထဲသို့ သံကူကွန်ကရိအင်္ဂတေများ လောင်းထည့် ပေးရသည်။

အဆောက်အအုံများ၏ နံရံများ၊ ပန်းများနှင့်အခြား အလှအပအဆင်အယဉ်များအတွက် ကျောက်အင်္ဂတေနှင့် အုတ်များကို အသုံးပြုကြသည်။ ထိုပစ္စည်းများကို ရော စပ်၍ သော်၎င်း၊ သီးသန့်သော်၎င်း အသုံးပြုကြသည်။ အဆောက်အအုံဆောက်ရာ၌ မီးမလောင်နိုင်သော ပစ္စည်း များကို သုံးနိုင်သလောက်သုံးကြသည်။ ကြမ်းပြင်များကို အုတ်များခင်း၍ အင်္ဂတေကိုင်ပြီးလျှင် မျက်နှာပြင်ကို အလိုရှိသော ပစ္စည်းဖြင့် ညှိပေးကြသည်။ အမိုးများကို ရေစီးဆင်းစေရန်အတွက် ဆင်ခြေလျှောပြုလုပ်၍ အုတ် ကြွပ်များနှင့် မိုးလေ့ရှိကြသည်။

ကြေးနီကို ယခုခေတ် အဆောက်အအုံ အမိုးများ ဆောက်လုပ်ရာ၌အများအပြား အသုံးပြုလာကြ၏။ ကြေး နီကို အမိုးပြုလုပ်သောအခါ ကြေးနီရောင်သည် တဖြည်း ဖြည်းမှိန်သွားသော်လည်း နောင်သော် လှပသောအရောင် တမျိုး ဖြစ်ပေါ်လာတတ်ပေသည်။ အချို့ အဆောက် အအုံများတွင် အမိုးကို အင်္ဂတေခင်း၍ သမံတလင်းကိုင် ပြီးလျှင် ကတ္တရာစေး သုတ်လိမ်းထားလေ့ရှိသည်။ ကတ္တရာ စေးပေါ်တွင် တဖန် နေပူရှိန်ကို လျော့စေရန်အတွက် ဒါ ဗီရှိုင်ယာစပါးခေါ် အခင်းတမျိုးကို ခင်းလေ့ရှိပြန် သည်။ အချို့အမိုးများတွင်မူ သက္ကလပ်ကြမ်းများခံသား သောအင်္ဂတေကို ပဋ္ဌမခင်း၍ ထိုအင်္ဂတေပေါ်တွင် အမိုး မိုးသော ဗိလာတ်မြေကိုဖုံးကာ အပေါ်မှအရောင်တင်ထား သော အုတ်ကြွပ်တမျိုးကို ခင်းပေးထားလေ့ရှိကြသည်။

ယခုခေတ်အဆောက်အအုံများတွင် တယ်ရကောဘား ခေါ် မီးခံအုတ်ကြွပ်တမျိုးကို အသုံးများကြသည်။ ထို

အုတ်ကြွပ်မျိုးကို ရွှံစေးတမျိုးမှ ပြုလုပ်၍ အပူဒဏ်ကို အထူးခံနိုင်ရည်ရှိသောကြောင့် နံရံနှင့် အမိုးများအတွက် အသုံးများကြသည်။ ထိုအုတ်ကြွပ်ကို အရောင်အမျိုးမျိုး တင်နိုင်၍ ပုံအမျိုးမျိုးပြုလုပ်နိုင်သည်။ သံကိုယ်ထည်များကို မီးမလောင်နိုင်သော ပစ္စည်းများဖြင့် ဝိုင်းရံထားလေ့ရှိရာ ထိုအတွက် အထက်ဖော်ပြပါ, အုတ်ကြွပ်မျိုးကို သုံးလေ့ရှိကြသည်။ ကွန်ကရိ အင်္ဂတေသည်လည်း မီးဒဏ်ကို ခံနိုင်သည့်သတ္တိရှိ၍ အသုံးများကြပေသည်။

သာမန် ကွန်ကရိ အင်္ဂတေသည် အုတ်ကျိုး အုတ်ပဲ့၊ ကျောက်စကျောက်နများကို ဗိလတ်မြေနှင့် ရောစပ် ပြုလုပ်ထားခြင်း ဖြစ်သည်။ သံကူကွန်ကရိ အင်္ဂတေတွင်မူ ကွန်ကရိထဲ၌ သံမဏိချောင်းများ ထည့်ထားသည့်အတွက် ကွန်ကရိရိုးရိုးထက် အားပို၍ကောင်းသည်။ ဖိအားဆွဲအားများကို ပို၍ ခံနိုင်ရည်ရှိသည်။ တိုင်များပြုလုပ်ရာ၌လည်း သံချောင်းများကို အင်္ဂတေထဲတွင် မြှုပ်ထားလေ့ရှိကြသည်။ ကြမ်းပြင်ပြုလုပ်ရာတွင်မူ သံချောင်းများကို နှစ်ထပ်ဆင့် ကြက်ခြေခတ် ထည့်ထားလေ့ ရှိကြသည်။ တနည်းဆိုသော် ယခုခေတ်တိုက်တာ အဆောက်အအုံများတွင် သံကူကွန်ကရိအင်္ဂတေကို အသုံးအများဆုံး ဖြစ်၏။ အသုံးများရသည့် အကြောင်းမှာ အခြားပစ္စည်းနှင့် စာလျှင် ဈေးသက်သာခြင်း၊ ခိုင်ခံ့ခြင်း၊ နေရာတကာတွင် သုံးနိုင်ခြင်းနှင့် လွယ်ကူစွာ ပြုလုပ်နိုင်ခြင်းတို့ကြောင့် ဖြစ်လေသည်။

ဆောက်လုပ်ရေး လုပ်ငန်းတွင် အရေးအကြီးဆုံးမှာ ကောင်းမွန်သင့်တော်သော လူနေအိမ်များ ဆောက်လုပ်ရေးပင်ဖြစ်သည်။ ထိုအတွက် ရှေးဦးစွာ အိမ်ရာဆောက်လုပ်မည့်နေရာကို ရွေးချယ်ရ၏။ ဖြစ်နိုင်ပါက မီးရထားဘူတာရုံ၊ မော်တော်ကားဆိပ်၊ ကျောင်း၊ ဈေးစသည်တို့နှင့်နီးသောနေရာကို စိတ်တိုင်းကျရွေးချယ်ရန် လိုပေသည်။

ယခင်ကဆိုလျှင် ကြိုက်ရာတနေရာတွင် အိမ်၏လှပခြင်း၊ ပတ်ဝန်းကျင်၏ သာယာခြင်းတို့ကို ဂရုမပြုပဲ အိမ်ဖြစ်ရုံ ဆောက်လုပ်ခဲ့ကြသည်သာ များသည်။ အိမ်မြေရာပေါ်ရှိ သစ်ပင်ကြီးများကိုရင်း၊ လမ်းနံဘေးရှိ သစ်ပင်များကိုရင်း ခုတ်လှဲလိုက ခုတ်လှဲပစ်ကြ၏။ ယခုသော် မြို့ပြဆိုင်ရာ အာဏာပိုင်တို့က သစ်ပင်ကြီးငယ်များကို ဂရုတစိုက်အလှအပထားကြသဖြင့် အိမ်ဆောက်လိုသူများသည် အပင်များကို အရမ်းမဲ့ခုတ်လှဲခွင့် မရကြတော့ပေ။ တိုက်တာ အိမ်ရာအနီးအနားတွင် စိမ်းလန်းသောအပင်များ ရှိခြင်းသည် စိတ်ကို ကြည်နူးသာယာစေ၍ အရိပ်လည်း ရစေသည်။ အိမ်ရာ ဆောက်လုပ်ရာတွင် နောက်တခု သတိပြုရန်မှာ အလင်းကောင်းစွာ ဝင်နိုင်အောင် ဂရုစိုက်ရခြင်း ဖြစ်၏။ နေရောင်တွင် လူကိုကျန်းမာစေသော ရောင်ခြည်များ ပါသဖြင့် အလင်းကောင်းစွာ ဝင်မှသာလျှင် ကျန်းမာရေးနှင့် ညီညွတ်ပေမည်။ အိပ်ခန်းများတွင် နံနက်ပိုင်း၌ နေရောင်ခြည်ကိုဝင်စေရန်အရေးကြီးသည်။ရုံးခန်း၊အလုပ်ခန်းများကို နေရောင်မဝင်သော နေရာများတွင် ထားနိုင်ပေသည်။ မီးဖိုခန်းထဲသို့လည်း နေရောင်ဝင်စေရန် လိုအပ်ပေသည်။

ယခုခေတ် အဆောက်အအုံများတွင် မီးဖိုခန်းနှင့် ပန်းကန်ခွက်ယောက် ဆေးကြောသော အခန်းများကို တဆက်တည်း ထားလေ့ရှိကြသည်။ ထိုကဲ့သို့ တွဲ၍ထားခြင်းသည် တနည်းအားဖြင့် အလုပ်သက်သာသော်လည်း အိမ်ခန်းကျယ်က ခွဲထားသင့်ပေသည်။ မည်သို့ဖြစ်စေ မီးဖိုဆောင်ကို စနစ်တကျ ဆောက်လုပ်ရန်မှာ လိုအပ်သော အချက်တရပ်ပင်ဖြစ်သည်။ သို့မှသာ ထမင်းဟင်းချက်သူအတွက် များစွာ သက်သာပေသည်။ မီးဖိုခန်း၏ နံရံများတွင် ဗီရို၊ ပန်းကန်စင်၊ စားပွဲစသည်များကို စနစ်ကျကျထားပေးခြင်းဖြင့် ထမင်းချက်သူအဖို့ လိုရာကို အလွယ်တကူနှင့် ယူငင်သုံးစွဲနိုင်ပေသည်။

တိုက်တာအိမ်ရာများ ဆောက်လုပ်ရာ၌ အသုံးပြုမည့် ပစ္စည်းများကို ရွေးချယ်ခြင်းသည်လည်း အရေးကြီး၏။ ကျောက်ထူထပ်သော နေရာမျိုးတွင် ကျောက်ဖြင့် တိုက်ဆောက်ရန်သင့်၍၊ အခြားအရပ်ဒေသမျိုးတွင် အုတ်ဖြင့် ဆောက်သော တိုက်များကိုရင်း၊ ပျဉ်ထောင်အိမ်များကိုရင်း ဆောက်လုပ်ရန်သင့်ပေသည်။ အနောက်နိုင်ငံများတွင် အုတ်ကိုအသုံးများသကဲ့သို့ အရှေ့နိုင်ငံများတွင် ပျဉ်ထောင်အိမ်များကို အဆောက်များကြသည်။ ပျဉ်ထောင်အိမ်များတွင် ပန်းဆွဲများကို အလှဆွဲကာ တန်ဆာဆင်တတ်ကြ၍၊ တိုက်တာများတွင်မူ နံရံများကို ဆေးသုတ်၍ တန်ဆာဆင်တတ်ကြလေသည်။

အချို့တိုက်တာ အိမ်ရာများတွင် အိမ်ရှေ့မျက်နှာစာ၌ နေပူမိုးရွာကို ကာကွယ်ပေးသောဆင်ဝင် တပ်ဆင်ပေးလေ့ရှိရာ ဆင်ဝင်ကို အဆောက်အအုံတွင်သုံးသည့် ပစ္စည်းမျိုးဖြင့်သာ ဆောက်လုပ်သင့်ပေသည်။ ပုံစံအားဖြင့် တိုက်အိမ်ဖြစ်လျှင် အုတ်ဖြင့်ရင်း၊ ပျဉ်ထောင်အိမ်ဖြစ်လျှင် သစ်သားဖြင့်ရင်း ဆောက်သင့်ပေသည်။

အိမ်ကို လှပအောင်ဖန်တီးရာတွင် အိမ်၏အပြင်ဖက်နံရံကို သင့်တော်သော ဆေးဖြင့် သုတ်ခြယ်ပေးရန် အရေးကြီးပြန်သည်။ ထိုကိစ္စအတွက် အိမ်၏ပတ်ဝန်းကျင်နှင့် ပန်ရစေမည့် ဆေးရောင်များကို ရွေးချယ်သင့်ပေသည်။

ပြတင်းပေါက်များကို သစ်သားနှင့် မှန်ပေါင်းစပ်၍ ပြုလုပ်လေ့ရှိကြ၏။ အချို့ပြတင်းပေါက်များတွင်မူ သစ်သားမပါပဲ သံဘောင်နှင့်မှန်ကိုသာပေါင်း၍ ပြုလုပ်ထားတတ်ကြသည်။ မည်သို့ပင် ဖြစ်စေ ပြတင်းပေါက် များကို အဆောက်အအုံတွင်းသို့ နေရောင်နှင့် လေကောင်းလေသန့်

ဝင်စေရန်အပြင် သူခိုးသူဝှက်ဘေးမှ လုံခြုံစေရန်အတွက် ရည်စူးဂရုစိုက်ပြီး ဖောက်လုပ်ရန် အရေးကြီးပေသည်။

**အဆောင် အယောင်။** ။အဆောင် အယောင် ဟူသောစကားသည် အနက်အဓိပ္ပါယ် ကျယ်ဝန်းလှ၏။ သုသောဓိတ မဟာရာဇဝင်တော်ကြီး၌ "သိကြားမင်းသည် သီလဝံသထား အစရှိသော မင်းမြောက်တန်းဆာငါးပါးကို ၎င်း၊ မင်းကေရာဇ်တို့နှင့် ထိုက်တန်သော အဆောင်အယောင်အခမ်းအနားကိုင်း-(ပေ) ဒွတ္တဘောင်မင်းကြီးအား ဆောင်နှင်းပေ၏"ဟူ၍၎င်း၊ အနော်ရထာမင်းစောလက်ထက်၌လည်း "ခမည်းတော်ကိုလည်း မင်းမြောက်တန်းဆာငါးပါးနှင့်တကွ မင်းဆောင် မင်းယောင် မင်းခမ်းမင်းနား အကုန်ကျင်းပစေ၍ ရဟန်းမင်းပြုရ၏" ဟူ၍၎င်း၊ မင်းကြီးစွာကို စည်းတပစ်အမတ်ကြီး (ဘိုးရာဇာ) လျှောက်ထားရာ၌လည်း "တောင်တွင်းပွင့်လှညီး သီဟပတေ့သည် ငွေချက်တတ်သော ကုလားအား သမီးတော်ကိုပေး၍ ကြီးစွာသော အဆောင်အယောင်နှင့်တကွ သူကောင်းပြုဘူးလေ၏" ဟူ၍၎င်း အဆိုရှိသဖြင့် ယင်း အဆောင်အယောင်ဟူသော စကားကို သရေခေတ္တရာခေတ်၊ ပုဂံခေတ်၊ အင်းဝခေတ်လောက်ကပင် စတင် သုံးစွဲလာကြသည်။ နောက်နောက်သော ခေတ်တို့၌လည်း ထိုထိုရာဇဝင်၊ သာသနာဝင်၊ ပုံပြင်ဝတ္ထု၊ စာအုပ်စာတမ်းတို့၌ အစဉ်တစိုက်သုံးစွဲလာကြသည်။

(မှတ်ချက်—ရာဇဝင်၊သာသနာဝင်စသော စာအုပ်စာတမ်းတို့ကို ရေးသားရာ၌ နောက်နှောင်းအခါရောက်မှ ရေးသားသော်လည်း ရှေးကအစဉ်အလာ မှတ်သားထားသော မှတ်တမ်းနှင့် အစဉ်အလာပြောဆိုသုံးစွဲခဲ့ကြသော ပညာရှိတို့၏ အပြောအဆိုအသုံးအစွဲတို့ကို အခြေခံပြု၍ ရေးသားရသဖြင့် အဆောင်အယောင်ဟူသော စကားမှာ ထိုစဉ်အခါကပင် သုံးစွဲလာခဲ့ကြသည်ဟုမှတ်ယူအပ်သည်။)

ထိုသို့သုံးစွဲလာခဲ့ကြရာ ဝိနည်းအဋ္ဌကထာ နိဿယ၌ "သလ္လဟုက ပရိက္ခာရေန၊ အဆောင်အယောင် မများ၊ ပေါ့ပါးသော ပရိက္ခရာဖြင့်" ဆိုရာ၌ သင်္ကန်း၊ သပိတ်စသော ပရိက္ခရာတို့ကို ရသေ့ရဟန်းတို့ အဆောင်အယောင်အဖြစ် ပြဆိုသည်။

မဟာရာဇဝင်ကြီး၌ပင် "မင်းတရား ရွှေထီးသည် သက္ကရာဇ် ၉၀၇ ခု ရာဇာဘိသေကခံရာ၌မြန်မာမင်းကေရာဇ်တို့၏အဆောင်အယောင်အခမ်းအနားအကုန်၊တလိုင်းမင်းကေရာဇ်တို့၏ အဆောင်အယောင်အခမ်းအနား အကုန်၊ လက်ဝဲတော်၊လက်ယာတော်က ကျင်းပ၍ထားရသည်" ဆိုရာ၌မင်းမြောက်တန်ဆာငါးပါးနှင့် မင်း၏အသုံးအဆောင်ဟူသမျှကို မင်းတို့အဆောင်အယောင်အဖြစ် ပြဆိုသည်။

ရာဇသေဝကဒီပနီတွင် "ဘူရိဒတ်နဂါးမင်းသည် မင်းချင်းတို့ကို ထီးဖြူကို ဆောင်းမိုးစေလျက်၊ ရင်ခွင်ထက်သားမြီးယပ်ကို ပိုက်စေ၍ နဖူးပြင်ဝယ် တင့်တယ်စွာ သင်းကျစ်ကို ဆင်ယင်လျက် ခြေ၌စွပ်အပ်သော ခြေနင်းရှိသဖြင့် သန်လျက်စွဲတို့ ဆောင်ရွက်အပ်သော သန်လျက် အဆောင်အယောင်နှင့် တကွ" ဆိုရာ၌ မင်းမြောက်တန်ဆာငါးပါးကို မင်းတို့၏ အဆောင်အယောင်အဖြစ် ပြဆိုသည်။

ရွှေဘုံနိဒါန်း၌လည်း "ရံဖန်ရံခါ အမှုနှင့် လျော်စွာကြုံကြိုက်သည့်ကာလ ပကတိ ပေါင်းတော်၊ သရဖူတော်၊ မကိုဋ်တော်စသော အဆောင်အယောင် အဝတ်တန်းဆာတော်များကို ပရိတ်တော်ခံသည်"ဆိုရာ၌၎င်း၊ လက်ယာမင်းခမ်းတော် လက်ဝဲမင်းခမ်းတော်တို့ကို ဆိုရာ၌၎င်း မင်းမြောက်တန်ဆာ ငါးပါးနှင့် အဝတ်တန်ဆာ ရတနာပန်းတောင်းစသော အသုံးအဆောင်တို့ကို မင်းတို့အဆောင်အယောင်အဖြစ် ပြဆိုသည်။

မင်းတရား ရွှေထီးလက်ထက်မှာပင် "အမှုး အမတ်ပွဲလမ်းရသသူကိုလည်း အရည်အသွားအလျောက် အမည်အရည် အဆောင် အယောင် ကျေးရွာ ပေးတော်မူသည်" ဟူ၍၎င်း၊ "မင်းဆွေမင်းမျိုး မှူးကြီး မတ်ကြီးတို့ကိုလည်း အမည်အရည် အဆောင်အရွက် အထိုက်အလျောက် ပေးတော်မူသည်" ဟူ၍၎င်း ဆိုရာတို့၌ ဘွဲ့မည်၊ အမှတ် တံဆိပ်၊ အသုံးအဆောင်၊ မြို့ရွာ ကျေးလက် စသည် တို့ကို မှူးမတ်စသော အရာရှိတို့၏ အဆောင်အယောင်အဖြစ် ပြဆိုသည်။

(မှတ်ချက်—မြန်မာမင်းတို့လက်ထက်က ရဟန်းတော်များ ဘွဲ့မည်ကိုရိုက်နှိပ်နိုင်ရန် လက်ကိုင်ပါသော သံတုံးရှည်၌ စာတမ်းထိုး၍ လှူလေ့ရှိသည်။ လူများ ဘွဲ့မည်ကိုလည်း နားနှစ်ဖက်အထိ နဖူးတွင်တပ်ဆင်ရန် သင်းကျစ်သဖွယ်ပြုလုပ်ထားသောရွှေပြား၌ စာတမ်းထွင်း၍ပေးလေ့ရှိသည်။ထို့ကြောင့် ဘွဲ့မည် အမှတ်တံဆိပ်ဟု သုံးစွဲသည်။)

သမန္တစက္ခု ဒီပနီ၌လည်း အိုးခွက်လှူရသောအကျိုးသုံးပါးကို ပြဆိုရာတွင် "ရတနာအတိပြီးသော အိုးခွက် အဆောင်အယောင်ကိုရသည်လည်းတပါး"ဆိုရာ၌ အိုးခွက်စသော အသုံးအဆောင်တို့ကို လူတို့အဆောင်အယောင်အဖြစ် ပြဆိုသည်။

ထိုမှတပါး စာအုပ်စာတမ်းတို့၌လည်း "အရာရှိ ဝတ်ဆင်မြဲ အဝတ်အစားအဆောင် အယောင်များကို" ဟူ၍၎င်း၊ "မိမိတို့ရရှိသော အဆောင်အယောင်အဝတ်အစားကို ဆင်ယင်ကြ၍" ဟူ၍၎င်း ဆိုရာတို့၌ အဝတ်အထည် အဆင်တန်ဆာတို့ကို မှူးမတ်စသောအရာရှိတို့ အဆောင်အယောင်အဖြစ် ပြဆိုသည်။



ရှေးမြန်မာဘုရင်တို့၏ အဆောင်အယောင်ဖြစ်သော ဓါးသန်လျက်နှင့် နန်းသုံးဓါးများ

"ထွက်စည် ဝင်စည်စသော အဆောင်အယောင်မျိုးကိုသာဆိုသည်" ဆိုရာ၌ စည်၊ နှဲ၊ ခရာစသော တူရိယာတို့ကို မှူးမတ်စသောအရာရှိတို့ အဆောင်အယောင်အဖြစ် ပြဆိုသည်။

"သူကိုယ်တိုင်လည်း သီးသန့်ပင်တိုင်နန်းမဆောင်နှင့် မိဖုရားအဆောင်အယောင်အဖြစ်နေတယ်" ဆိုရာ၌ မိဖုရားမောင်းမ မိဿံတို့ကို ဘုရင်မင်း၏ အဆောင် အယောင်အဖြစ် ပြဆိုသည်။

"ဝက်စွယ်လက်ဖွဲ့ အဆောင် အယောင်များကို ဆင်မြန်း၍" ဆိုရာ၌ အင်း၊ အိုင်၊ လက်ဖွဲ့၊ ခါးလှည့်၊ ဂါထာ၊ မန္တန်၊ မန္တရား၊ ဆေးဝါးတို့ကို လူဘို့အဆောင်အယောင်အဖြစ် ပြဆိုသည်။

ထိုအဆောင်အယောင်ဟူသော စကားကို သုံးစွဲရာ၌လည်း အချို့နေရာ၌ အဆောင်၊ အချို့နေရာ၌ မင်းဆောင်မင်းယောင်၊ အချို့နေရာ၌ အသုံးအဆောင်၊ အချို့နေရာ၌ အဆောင်အရွက်၊ အချို့နေရာ၌ အဆောင် အယောင်အခမ်းအနားဟု တပါးသော စကားလုံးနှင့် ဆက်စပ်၍ သုံးစွဲသည်ကို တွေ့ရသည်။

မည်သို့ပင် သုံးစွဲသည်ဖြစ်စေ မင်းခမ်း မင်းနားတွင် ပါဝင်သောအဆောင်အယောင်များနှင့် မင်းတို့က မိဖုရား၊ မင်းသား၊ မင်းသမီး၊ မှူးမတ်စသော အရာရှိဘို့အား ပေးကမ်းချီးမြှောက်သော အဆောင် အယောင်များကို ခြုံ၍ကြည့်လျှင် ဘွဲ့မည်ဘံဆိပ်များ၊ အဆင် တန်ဆာများ၊ အသုံးအဆောင် ပရိဘောဂများ၊ လက်နက်ကြိယာများ၊ ဆင်၊မြင်း၊ဝေါ၊ လှေဖောင်စသောယာဉ်များ၊ မြို့ ရွာ ဝင်းခြံ အိမ် အိပ်ယာ နေရာ အခြံအရံများပါဝင်နေသည်ကို တွေ့ရသည်။

ဤနေရာ၌ အဆောင်အယောင်မှာ ရဟန်းရှင်လူအလုံးစုံတို့နှင့်ဆက်ဆံနေသဖြင့် ကျယ်ဝန်း များပြားသော်လည်း ဘုရင်မင်းများ၊ ဘုရင်မင်းတို့ အချီးအမြှောက်ခံရသော ရဟန်းများ၊ မိဖုရားများ၊ မင်းသား မင်းသမီးများ၊ မှူးမတ်စသော အရာရှိများအတွက် အမျိုးဇာတ်၊ ဂုဏ်သိက္ခာ၊ အရည်အချင်း၊ ရာထူးဌာနန္တရအလိုက် သီးခြားသတ်မှတ်ထားသော အဆောင်အယောင်တို့ကိုသာ ဆိုလိုပေသည်။

သတ်မှတ်ထားသော အဆောင် အယောင်မှာလည်း



မင်းသုံးအဆောင်အယောင်တခုဖြစ်သော မကိုဋ်




မြန်မာမင်းတို့၏ မင်းခမ်းတော်ပစ္စည်းများ

အခမ်းအနားနှင့် ရောထွေးလျက်ရှိသည်။ အချို့စာအုပ်စာတမ်းတို့၌ အဆောင် အယောင်နှင့် အခမ်းအနားကို ရောထွေးရေးသားကြသည်။အချုပ်အားဖြင့် အသီးအသီးဖြစ်သော အသုံးအဆောင် ပရိဘောဂကို အဆောင်အယောင်ခေါ်သည်။ ပွဲသဘင်ကျင်းပရာ၌ သူနေရာနှင့်သူခင်းကျင်း စုပေါင်း ထားသော ယင်း အသုံးအဆောင် ပရိဘောဂကိုပင် အခမ်းအနား ခေါ်သည်။ (တနည်း) အမြဲ အသုံးပြုသော အသုံး အဆောင် ပရိဘောဂ၊ (သို့မဟုတ်) သွားရာလာရာ၌ ယူဆောင်သွားသော အသုံးအဆောင်ပရိဘောဂကို အဆောင် အယောင်ခေါ်သည်။ ပွဲသဘင်ကျင်းပရာ၌ အသုံးပြုသော အသုံးအဆောင် ပရိဘောဂကို အခမ်းအနားခေါ်သည်။

ဘုရင်မင်းတို့သည် တဦးနှင့်တဦး အဆောင်အယောင်ချင်းမတူကြ၊ မျိုးရိုးအလိုက်ရင်း၊ အရပ်ဒေသ အလိုက်ရင်း၊ အခါကာလအလိုက်ရင်း ကွဲပြားကြသည်။ မိဖုရား၊ သား၊ သမီး၊ မှူးမတ်စသော အရာရှိတို့လည်း အဆောင်အယောင်ချင်းမတူကြ၊ အမျိုးဇာတ်၊ ဂုဏ်သိက္ခာ၊ အရည်အချင်း၊ ရာထူးဌာနန္တရအလိုက် ကွဲပြားကြသည်။

ထိုအဆောင်အယောင်သည် ဘွဲ့မည်ဘံဆိပ်အဆောင်အယောင်၊ အသုံးအဆောင် ပရိဘောဂ အဆောင်အယောင်ဟု နှစ်မျိုးဖြစ်သည်။ ယင်းနှစ်မျိုးလုံးကိုပင် မြန်မာနိုင်ငံ ဘုရင်ခေတ်က အသုံးပြုခဲ့သော ထင်ရှားသော အဆောင်အယောင်တို့ကို သိသာရုံပြဆိုပါအံ့။ သံဃရာဇာ၊ မဟာသံဃရာဇာ၊ ဓမ္မသေနာပတိ၊ မဟာသံဃနာထစသည်တို့ကား သာသနာပိုင်တို့၏ ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ ဖြစ်သည်။ အဂ္ဂပဏ္ဍိတ၊ ဒိသာပါမောက္ခ၊ ရာဇဂုရု၊ ရာဇာဓိရာဇဂုရုစသည်တို့ကား ရဟန်းပညာရှိတို့၏ ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ ဖြစ်သည်။

ရွှေဆမ်းစင်၊ ဝေါ၊ ကျိုင်း၊ သိုင်း၊ ထီး စသည်တို့ကား သာသနာပိုင်တို့၏ ပရိဘောဂအဆောင်အယောင်တို့ ဖြစ်သည်။

ရာဇာ၊ မဟာရာဇာ၊ ရာဇာဓိရာဇာ၊ အဓိပတိစသည်တို့ကား ပဒေသရာဇ်၊ ကေရာဇ် ဘုရင်မင်းတို့၏ ဘွဲ့မည်တံဆိပ်အဆောင်အယောင်တို့ ဖြစ်သည်။

(၁) သန်လျက် (၂) သားမြီးယပ် (၃) ရတနာပန်းတောင်း (၄) ကွမ်းခွက် – ရှစ်မြှောင့် (၅) ကွမ်းခွက်– ခြသေ့ခံ (၆) စလင့်ကြာ (၇) ကွမ်းထည့် (၈) ကွမ်းချပ် (၉) ကျပ် (၁၀) ကရား (၁၁) တကောင်း (၁၂)မြူတာ (၁၃) မြူတာတို့ကား ရွှေဘုံနိဒါန်းအရ ဘုရင်မင်းတို့၏ ပရိဘောဂအဆောင်အယောင် လက်ယာမင်းခမ်းတော်တို့ ဖြစ်သည်။

(တနည်း) (၁) သန်လျက် (၂) သားမြီးယပ်(၃) ရတနာပန်းတောင်း (၄) ကွမ်းခွက်ရှစ်မြှောင့် – ခြသေ့ခံ (၅) စလင့်ကြာ (၆) ကွမ်းထည့် (၇) ကွမ်းချပ် (၈)

ကျပ်လျှား (၉) ကရား–ခြသေ့်ခံ (၁၀) တကောင်း (၁၁) မြူတာ (၁၂) ထီးဖြူ–လေး (၁၃) ယပ်မား–လေး တို့ကား ရွှေဘုံနိဒါန်းအရ ဘုရင်မင်းတို့၏ ပရိဘောဂ အဆောင်အယောင် လက်ယာမင်းခမ်းတော်တို့ ဖြစ်သည်။

(၁) ဘိနပ် (၂) တောင်ဝှေး (၃) လှံ (၄) လွှား (၅) လက်တင်ကြား (၆) ကွမ်းခွက်–နဂါးခံ (၇) ကွမ်းလောင်းကြီး (၈) ဖလား (၉) ကရား (၁၀) သလင်းမြောင် (၁၁) သစ်တိုင် (၁၂) မြူတာ (၁၃) မြူတာတို့ကား ရွှေဘုံနိဒါန်းအရ ဘုရင်မင်းတို့၏ ပရိဘောဂ အဆောင်အယောင် လက်ဝဲမင်းခမ်းတော်တို့ ဖြစ်သည်။

(တနည်း) (၁) ဘိနပ် (၂) တောင်ဝှေး (၃) လက်တင်ကြား (၄)ကွမ်းခွက်–နဂါးခံ (၅) ကွမ်းလောင်းကြီး (၆) ကွမ်းလောင်းငယ် (၇) ဖလား (၈) ကရား (၉) သလင်းမြောင် (၁၀) သစ်တိုင် (၁၁) မြူတာ (၁၂) ထီးဖြူ–လေး (၁၃) ယပ်မား – လေး တို့ကား ရွှေဘုံနိဒါန်းအရ ဘုရင်မင်းတို့၏ ပရိဘောဂ အဆောင်အယောင် လက်ဝဲမင်းခမ်းတော်တို့ ဖြစ်သည်။

(၁) ရတနာ ပန်းတောင်း (၂) ကွမ်းခွက်–ရှစ်ထောင့် (၃) စလင့်ကြာ–နှစ် (၄) ကွမ်းလောင်း (၅) ကွမ်းချပ် (၆) ကွမ်းထောင် (၇) မကရ်းကရား (၈) ရေအိုးပျစ် (၉) သောက်ရေတင် (၁၀) ပြတို့–ထွေးအင် (၁၁) တကောင်း (၁၂) ဖလား (၁၃) မြူတာနှစ်တို့ကား မြဝတီမင်းကြီးဦးစ၏ မင်းခမ်းတော်ဖွဲ့အရ ဘုရင်မင်းတို့၏ ပရိဘောဂအဆောင်အယောင် လက်ယာမင်းခမ်းတော်တို့ဖြစ်သည်။

(၁) လက်တင်ကြား (၂) ကွမ်းခွက် – ခြသေ့်ခံ(၃) ကွမ်းလောင်း (၄) သလင်းမြောင် (၅) သစ်တိုင် (၆) ကြက်လျှာ (၇) ခြေနင်းဘိနပ် (၈) သားမြီးယပ် (၉) သန်လျက် (၁၀) တောင်ဝှေး (၁၁) ကရား–ခြသေ့်ခံ (၁၂) မေးထောက် (၁၃) ကျီးခြေတို့ကား မြဝတီမင်းကြီးဦးစ၏မင်းခမ်းတော်ဘွဲ့အရ ဘုရင်မင်းတို့၏ ပရိဘောဂ အဆောင်အယောင် လက်ဝဲမင်းခမ်းတော်တို့ ဖြစ်သည်။

ဥပရာဇာ၊ မဟာဥပရာဇာ စသည်တို့ကား အိမ်ရှေ့မင်းတို့၏ ဘွဲ့မည် တံဆိပ်အဆောင်အယောင်တို့ ဖြစ်သည်။

ဓမ္မရာဇာ၊ မဟာရာဇာ၊ သုဓမ္မရာဇာ၊ သုဓမ္မမဟာရာဇာ၊ သတိုး၊ မင်းရဲ၊ စည်သူ စသည်တို့ကား မင်းသားတို့၏ ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ ဖြစ်သည်။

သိဒ္ဓိကာ၊ ရာဇသင်္ကြံ၊ သုဘရာဇ်၊ သတိုး၊ မင်းကြီး၊ မဟာ၊ မင်းသုံးဆင့်၊ မင်းနှစ်ဆင့်၊ မင်းတဆင့်၊ နေမျိုး၊ နော်ရထာ၊ ရွှေတောင်၊ ပျံချီ၊ လက်ဝဲသုန္ဒရ၊ မဟာဘောဂ စသည်တို့ကား မှူးမတ်စသော အရာရှိနှင့် သင်္ဃေးတို့၏ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ ဖြစ်သည်။

'ဗောင်း၊ နားဒောင်း၊ ဒုရင် အင်္ကျီစသော အဆင်တန်ဆာ။' ထီး၊ ယပ်၊ ကျိုင်း၊ သိုင်း၊ ကွမ်းခွက်၊ ကွမ်းလိပ်၊ လက်ဖက်အိုး၊ ထွေးအင်စသော ပရိဘောဂ၊ ထား၊ လှံ၊ သေနတ်စသော လက်နက်၊ ဆင် မြင်း ဝေါ ထမ်းစင် လှေ ဖောင်စသောယာဉ်၊စည် နှဲ ခရာစသော တူရိယာ၊ မြို့ရွာဝင်း ခြံ အိမ် အိပ်ရာ နေရာစသော အဆောက်အဦတို့ကား အိမ်ရှေ့မင်း၊ မင်းသား၊ မှူးမတ် စသော အရာရှိကြီးငယ်တို့၏ ပရိဘောဂ အဆောင်အယောင်တို့ဖြစ်သည်။ (ဤသို့အချို့ ပရိဘောဂအဆောင်အယောင်တို့မှာ မိဖုရား၊ မင်းသမီးစသော မင်းမိန်းမတို့နှင့်လည်း သက်ဆိုင်သည်။)

ထိုအဆောင်အယောင်တို့ကို ပေးရာ၌ အဆင့်အတန်းအလိုက် တန်ဖိုးငွေ အနည်းအများ ပိုင်းခြားသတ်မှတ်၍ ပေးလေ့ရှိသည်။

နေမျိုးဘိသက္က၊ မဟာဘိသက္က စသည်တို့ကား သမားတော်တို့၏ ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ဖြစ်သည်။

ကတ္တီပါဆေးလွယ်အိတ် စသည်တို့ကား သမားတော်တို့၏ ပရိဘောဂ အဆောင်အယောင်တို့ ဖြစ်သည်။

ရာဇဂုရု စသည်တို့ကား ပုဏ္ဏားတော်တို့၏ ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ဖြစ်သည်။

စလွယ်စသည်တို့ကား ပုဏ္ဏားတော်တို့၏ ပရိဘောဂ အဆောင်အယောင်တို့ဖြစ်သည်။

စလွယ်နှစ်ဆဲ့လေးသွယ်ကား ဘုရင်မင်း၊ နှစ်ဆဲ့တသွယ်ကား အိမ်ရှေ့မင်း၊ တဆဲ့ရှစ်သွယ်ကား မင်းသား၊ တဆဲ့ငါးသွယ်ကား မင်းကြီး၊ တဆဲ့နှစ်သွယ်ကား အတွင်းဝန်၊ ကိုးသွယ်၊ ခြောက်သွယ်၊ သုံးသွယ်တို့ကား မှူးငယ်မတ်ငယ်တို့၏ပရိဘောဂ အဆောင်အယောင်တို့ ဖြစ်သည်။

စလွယ်ကိုးသွယ်ကား ဗြဟ္မဏပုဏ္ဏားမျိုး၊ ခြောက်သွယ်ကား ခေတြပုဏ္ဏားမျိုး၊ သုံးသွယ်ကား ဗြိသျှပုဏ္ဏားမျိုးတို့၏ ပရိဘောဂအဆောင်အယောင်တို့ ဖြစ်သည်။

တိလောကဝဍ္ဍုံသကာ ဒေဝီ၊ တိလောကစန္ဒာ ဒေဝီ၊ မဟာဒေဝီ၊ ရတနာဒေဝီ၊ မဟေသီစသည်တို့ကား မိဖုရားတို့၏ ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ ဖြစ်သည်။

ဒေဝီ၊ ဝတီ၊ မဟေ၊ နန္ဒာ၊ သိရီ၊ ဇာလီ၊ မင်္ဂလာ၊ မုတ္တာ၊ သာမာ၊ ပဒုမာ၊ မာလာ၊ မိတ္တာ၊ ဂန္ဓာ၊ သူဇာ၊ သာခါ စသည်တို့ကား ကိုယ်လုပ်တော်တို့၏ ဘွဲ့မည်တံဆိပ် အဆောင်အယောင်တို့ ဖြစ်သည်။

ဒေဝီ၊ ဝတီ၊ မုတ္တာ၊ မင်္ဂလာ၊ စန္ဒာ၊ ရူပါ၊ ပဘာ၊ ကေသာ စသည်တို့ကား သမီးတော်တို့၏ ဘွဲ့မည်ဘံဆိပ် အဆောင်အယောင်တို့ဖြစ်သည်။

ဥက္ကဋ္ဌယကင်စိုက် မဟာလ္လတာတန်ဆာ၊ ရိုးရိုးမဟာလ္လတာတန်ဆာ၊ ဥက္ကဋ္ဌယတင်စိုက်ဃနမတ္ထကတန်ဆာ၊ ရိုးရိုးဃနမတ္ထကတန်ဆာ၊ ဂုံးသင်းကျစ်တပ် အမြီးပေါက်မလ္လိ

ကာ တန်ဆာတို့ကား မိဖုရားနှင့် သမီးတော်တို့၏ ပရိဘောဂ အဆောင်အယောင်တို့ဖြစ်သည်။

အမြီးပေါက်မလ္လိကာတန်ဆာ၊ ရိုးရိုးမလ္လိကာတန်ဆာတို့ကား အပျိုတော် ကတော်မယားတို့၏ ပရိဘောဂ အဆောင်အယောင်တို့ဖြစ်သည်။ ဦးကြီးဖေ

**အဆုတ်။** ။ရင်ခေါင်းအတွင်း လက်ဝဲလက်ျာ တဖက်တချက်၌ လက်ဝဲအဆုတ်၊ လက်ျာအဆုတ်ဟူ၍ နှစ်ခုရှိရာ ထိုအဆုတ်နှစ်ခုကြား၌ နှလုံး၊ သွေးကြောကြီးများ၊ လေပြွန်နှင့် အစာပြွန်တို့ ရှိကြသည်။ အဆုတ်သည် ပင်လယ်ရေမြှုပ်ကဲ့သို့ အခန်းကလေးပေါင်း မြောက်မြားစွာဖြင့် ပွလျက်ရှိသည်။ လည်ချောင်းမှဆင်းလာသော လေပြွန်သည် အဆုတ်နှစ်ခုကို ပေါင်းစပ်ထားသည်။ ထိုလေပြွန်သည် ရင်ခေါင်းအတွင်းသို့ ဝင်လာပြီးသည့်နောက် အဆုတ်များ၏ အလယ်နီးပါးလောက် ရောက်သောအခါ နှစ်ခုကွဲထွက်သွားပြီးလျှင် လက်ဝဲအဆုတ်နှင့် လက်ျာအဆုတ်ထဲသို့ အသီးအသီး ဝင်သွားကြသည်။ ထိုနောက် မရေမတွက်နိုင်အောင် များပြားလှသော ပြွန်ကလေးများအဖြစ်သို့ ဖြာထွက်သွားသည်။ အငယ်ဆုံးပြွန်ကလေးများသည် ခွက်ကလေးများကဲ့သို့သော လေအိတ်ငယ်များ ဖြစ်သွားလေသည်။ လေအိတ်ငယ် တခုတခုတွင် သွေးမြှင်ကြောခေါ် အလွန်သေးငယ်သော သွေးကြောများ ဖြာလျက်ရှိသည်။

လေအိတ်ငယ်များသည် စပျစ်သီးများကဲ့သို့ အဆုတ်အဆုတ်ဖြင့် စုလျက်ရှိရာမှ အခိုင်များအဖြစ်သို့ စုပေါင်းသွားလေသည်။ လက်ဝဲအဆုတ်တွင် နှစ်ခိုင်ရှိ၍ လက်ျာအဆုတ်တွင် သုံးခိုင်ရှိသည်။

အဆုတ်ပြွန်နှင့်တကွ သွေးကြောများ၊ သွေးမြှင်ကြောများ၊ အဆုတ်နာဗ်ကြောများကို ရှန်းကန်သတ္တိရှိသော တစ်ရှူးတခုက စုပေါင်းဖုံးအုပ်ထားသည်။ အဆုတ်များသည် လေနှင့်ပြည့်နေသည့်အခါ ရော်ဗာအိတ်များကဲ့သို့ ဖောင်းလာနိုင်သည်။ ခန္ဓာကိုယ် အစိတ်အပိုင်းများတွင် အဆုတ်များသည် အရွယ်နှင့်စာလျှင် အလွန်ပေါ့သော အင်္ဂါအစိတ်အပိုင်းများ ဖြစ်ကြသည်။ ယောက်ျားအဆုတ်များသည် သုံးပေါင်ခန့်လေး၍ မိန်းမအဆုတ်များမှာ ၂ ⅔ ပေါင်ခန့်လေးသည်။ ယောက်ျားအဆုတ်များသည် မိန်းမအဆုတ်များထက် ကြီးသည့်ပြင် ပို၍လည်း လေးသည်။ ၁၅ နှစ်မှ ၄၀ အရွယ်ထိ လူများသည် တမိနစ်လျှင် ၁၆ ကြိမ်မှ ၁၈ ကြိမ်တိုင်အောင် အသက်ရှူရ၏။ မိန်းမများ၏အဆုတ်သည် ယောက်ျားများ၏အဆုတ်ထက် ငယ်ခြင်းကြောင့် အသက်ရှူသည့်အခါ အဆုတ်တွင်း၌ လေကိုကြာရှည်စွာလှောင်မထားနိုင်သဖြင့် ယောက်ျားများထက်




အဆုတ်သရုပ်ပြပုံ

အသက်ရှူ မြန်သည်။ ကလေးသူငယ်တို့၏ အဆုတ်သည် မိန်းမအဆုတ်များထက်ပင် ငယ်ပြန်သဖြင့် အသက်ရှူသည့်အခါ လျှင်မြန်စွာရှူကြရသည်။ အဆုတ်များသည် အသက်အရွယ်ကို လိုက်၍ အရောင်အမျိုးမျိုးရှိရာ ကလေးသူငယ်၏အဆုတ်သည် ပန်းရောင်ဖြစ်၍ လူကြီး၏အဆုတ်မှာ အညိုရောင်ဖြစ်ပြီးလျှင် အစက်အပြောက်များရှိသည်။ အဖိုးအိုများ၏အဆုတ်မှာ ပို၍ပင် ညိုသေး၏။

အဆုတ်များသည် ကိုယ်ခန္ဓာဆဲများကို အောက်ဆီဂျင်ဓာတ် အမြဲပေးလျက်ရှိ၏။ သွေးသည် အာဟာရဓာတ်များကို သယ်ဆောင်၍ တကိုယ်လုံးသို့ လှည့်ပတ်လျက်ရှိရာတွင် အောက်ဆီဂျင်ဓာတ်ကိုထုတ်၍ ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ကို စုတ်ယူသွားသည်။ အောက်ဆီဂျင်ဓာတ် ထပ်၍ရရန် သွေးကို အလယ်ဗဟိုဌာနအချို့သို့ ပို့ပေးရပြန်လေသည်။ လူတယောက်အသက်ရှူတိုင်း အောက်ဆီဂျင်ပါသော လေကောင်းလေသန့်သည် အဆုတ်များထဲသို့ ဝင်၏။ အောက်ဆီဂျင်သည် လေအိတ်နှင့် ယင်းတို့၏ သွေးမြှင်ကြောများ၏ နံရံမှ စိမ့်ထွက်လာရာ သွေးများက စုတ်ယူထားကြ၏။ သွေးများမှ တဆင့် အောက်ဆီဂျင်သည် တကိုယ်လုံးသို့ ပျံ့နှံ့သွားလေသည်။ အညစ်အကြေးဖြစ်သော ကာဗွန်ဒိုင် အောက်ဆိုက်ဓာတ် သည်ကား အသက်ရှူထုတ်ရာ၌ ပြင်ပသို့ ထွက်သွား လေသည်။

အဆုတ်ထဲသို့ လေယူသွင်းခြင်းကို ဝင်လေဟုခေါ်၍ အပြင်သို့ ရှူထုတ်လိုက်ခြင်းကို ထွက်လေဟု ခေါ်သည်။ နှစ်ခုစလုံးကို ပေါင်း၍ ထွက်လေ ဝင်လေဟု ခေါ်သည်။ အဆုတ်၏ အပြင်မျက်နှာပြင်သည် အလွန်ပင် ကြီး၏။

လေအိတ်ငယ်များ၏ နံရံကိုဖြန့်ထုတ်၍ နံဘေးချင်းယှဉ်ကာ စီထားနိုင်ခဲ့လျှင် ယင်း၏အကျယ်အဝန်း ဧရိယာမှာ စတုရန်းပေပေါင်း ၂,၆၀၀ ခန့် ရှိလိမ့်မည်။ သို့မဟုတ် တနေကြ၏ ၁၇ ပုံ၊ တပုံကျော်ကျော်ခန့် ရှိပေလိမ့်မည်။ တနေ့လျှင် ခန္ဓာကိုယ်အတွင်းသို့ အောက်ဆီဂျင် ၂၅ အောင်စခန့် ဝင်လိမ့်မည်ဟု သိပ္ပံပညာရှင်တို့က ခန့်မှန်းကြသည်။ သို့သော် လူတယောက်နှင့်တယောက် စားသောအစာနှင့် ကျန်းမာရေးအတွက် ကိုယ်လက်လှုပ်ရှားလေ့ကျင့်မှုအမျိုးပေါ်တွင် မူတည်၍ အောက်ဆီဂျင် ဝင်ပုံချင်း မတူကြချေ။ အနည်းအများ ကွာခြားကြ၏။

အဆုတ်များအတွက် အစိုးရိမ်ရဆုံးသော ရောဂါများကား အဆုတ်ရောင်နာနှင့် တျူဗာကယ် ပိုးစွဲနာတို့ဖြစ်ကြသည်။ ထိုရောဂါနှစ်ခုစလုံးပင် ရောဂါပိုး ကူးစက်မှုကြောင့် ဖြစ်သည်။ ဤရောဂါမျိုးစွဲသော လူများကို လူနေအိမ်ခြေ ပြွတ်သိပ်၍ သန့်ရှင်းမှုမရှိသော နေရာများ၌ အများအပြားတွေ့ရသည်။ အဆုတ်ရောင်နာသည်အဆုတ်တွင်းရှိလေဆဲများ ရောင်ခြင်းပင်ဖြစ်သည်။ အဆုတ်ပြွန်များရောင်ခြင်းကို အဆုတ်ပြွန်ရောင်နာဟု ခေါ်သည်။ ရင်တွင်းမြှေးရောင်ခြင်းကိုအဆုတ်မြှေးရောင်ရောဂါဟုခေါ်သည်။ အဆုတ်တခုလုံးကို အပြင်ဖက်မှ ဖုံးအုပ်ထားသော ရှုန်းကန်အမြှေးပါးပါးကို ရင်တွင်းအမြှေးဟု ခေါ်သည်။

မကောင်းသောလေသည် အဆုတ်နှင့်တကွ တကိုယ်လုံးကို ရောဂါအမျိုးမျိုးစွဲကပ်စေနိုင်ကြောင်း လူတိုင်းသိရှိလာသည့်အားလျော်စွာ ယခုအခါ လေကောင်းလေသန့်၏ တန်ဖိုးရှိပုံကို ကျောင်းများ၊ အိမ်များနှင့် လူထုအစည်းအဝေးခန်းမဆောင်များတွင် ပြောဟောလျက်ရှိကြသည်။ အဆုတ်သည် လိုသလောက်ပွလာနိုင်ပြီးလျှင် ကျုံ့သွားနိုင်ကြောင်းကိုလည်း သိရှိနားလည်ရန် အရေးကြီးလှပေသည်။ ထိုကြောင့် အသက်ရှူရာတွင် နံရိုးနှင့်ဝမ်းပိုက်လှုပ်ရှားမှုတို့ကို ချုပ်တည်းထားနိုင်သော အဝတ်ကြပ်ကြပ်များ မဝတ်ဆင်သင့်ပေ။

အံရက်ကိုမှန်မှန် အလွန်အကြူး သောက်တတ်သူများသည် 'အဆုတ်ရောင်နာဖြစ်တတ်သည်။ ဆေးလိပ်သောက်သောသူများသည် မီးခိုးကိုအဆုတ်ထဲသို့ရှူသွင်းရာ ယင်းသို့ ရှူသွင်းခြင်းအားဖြင့် လေသွားလမ်းများ၏အတွင်းရံကို ယားယံရောင်စေ၍ အားနည်းစေနိုင်သည်။

**အဆုတ်ငါး။** ။ငါးသည် ရေသတ္တဝါဖြစ်၍ သာမန်အားဖြင့် လေထဲတွင် ကြာရှည်ထားလျှင် သေတတ်သည်။ ညစ်ပတ်နေသော ရေထဲတွင်လည်း ကြာရှည် အသက်မရှင်တတ်ချေ။ သို့သော် အဆုတ်ငါးမျိုးကား ရေထဲတွင်ရောလေထဲတွင်ပါ အသက်ရှူနိုင်ကြ၍ ကြာရှည် နေနိုင်ကြသည်။ အဆုတ်ငါးတွင် အခြားငါးများကဲ့သို့ ပါးဟက်များ ရှိသည့်ပြင် ငါးစည်ဖောင်းခေါ် လေအိတ်လည်းရှိရာ ပါးဟက်များဖြင့် ရေအောက်တွင် အသက်ရှူ၍ လေအိတ်ကိုကား အဆုတ်သဖွယ် ကုန်းပေါ်၌ အသက်ရှူရာတွင် အသုံးပြုကြသည်။

အဆုတ်ငါးသည် ငါးရှဉ့်ကဲ့သို့ ငါးမျိုးဖြစ်၍ ၁၂ လက်မမှ ၁၈ လက်မအထိ ရှည်ပြီးလျှင် အကြေးများရှိသည်။ များသောအားဖြင့် ၁၅ ပေါင်မှ ပေါင် ၂၀ အထိ အချိန်စီးသည်။ အဆုတ်ငါးများသည် အာဖရိကတိုက်၊ တောင်အမေရိကတိုက်နှင့် သြစတြေးလီးယားတိုက်တို့တွင် နေထိုင်ကျက်စားကြသည်။ အဆုတ်ငါးအားလုံးသည် ဒစ်ပနျူးစတီးမျိုးစဉ်တွင် ပါဝင်သည်။ အာဖရိကတိုက်အဆုတ်ငါးများ၏ ပါဏဗေဒအမည်မှာ ပရိုတော့တာရပ် အနက်တန်းဖြစ်၍ တောင်အမေရိကတိုက် အဆုတ်ငါးများ၏ ပါဏဗေဒအမည်မှာ လက်ပီဒိုဆိုင်ရပ် ပါရာဒေါ့ဆား ဖြစ်သည်။ သြစတြေးလီးယားတိုက် အဆုတ်ငါးများ၏ပါဏဗေဒအမည်မှာ နီအိုအက်ရက်တိုဒပ် ဖော့စတီရီဖြစ်၍ ယင်းသည် အာဖရိကတိုက်နှင့် အမေရိကတိုက် အဆုတ်ငါးမျိုးတို့ထက် ကြီး၍ သုံးလေးပေအထိ ရှည်လေသည်။

အဆုတ်ငါးသည် ညစ်ပတ်သော ရေထဲ၌ နေထိုင်သည့်



ရေထဲတွင်ရော လေထဲတွင်ပါ အသက်ရှူနိုင်သည့် အဆုတ်ငါး

ပြင် ခြောက်သွေ့သော နွေရာသီ တလျှောက်လုံး၌လည်း နေနိုင်သည်။ နွေရာသီကျရောက်လာသည့်အခါ ရေများ ခန်းခြောက်၍ ရွှံ့များ တဖြည်းဖြည်း မာလိုက်လာသည့် အလျှောက်ဤငါးများသည် ရွှံ့ထဲတွင် တွင်းကလေးများ ပြုလုပ်ကာ နောက်မိုးကျသည့် အချိန်တိုင်အောင် ကွေး၍ အိပ်နေတတ်ကြသည်။ တွင်းပေါက်များကိုမူ ရွှံ့များဖြင့် ပိတ်ဆို့ထားပြီးလျှင် လေဝင်ရန် အပေါက်ကလေးများ တပေါက်နှစ်ပေါက် ဖောက်ထားကြသည်။ ဤအဆုတ်ငါး များ ခိုအောင်းနေသောရွှံ့ခဲများကိုအလွယ်တကူ တူးယူနိုင် ပြီးလျှင် အခြားတိုင်းပြည်များသို့ သင်္ဘောဖြင့် တင်ပို့ပေး နိုင်သည်။ ရွှံ့ခဲကို ရေကန်ထဲသို့ထည့်လိုက်သည့်အခါ ရွှံ့ခဲ သည် ပျော်သွား၍ အထဲမှအဆုတ်ငါးထွက်လာပြီးလျှင် ရေကန်ထဲတွင် ကူးလူးသွားလာနေတော့၏။

အဆုတ်ငါးများတွင်အလွန်ရှေးကျသောရှေ့နှင့်နောက် ဆူးတောင်များရှိရာ သိပ္ပံပညာရှင်များက ယင်းတို့ကို ငါး အစစ်နှင့် ပုတ်သင်၊ ဆလမန္ဒာကောင်တို့ အကြားတွင် ရှိ သောသတ္တဝါတမျိုးမှ ကြွင်းကျန်ရစ်ခဲ့သောငါးတမျိုးဖြစ် တန်ရာသည်ဟု ယူဆကြသည်။ အဆုတ်ဖြင့် အသက်ရှူ သောအစွမ်းရှိသည့် ငါးအချို့ရှိငြားသော်လည်း ယင်းတို့ ကို အဆုတ်ငါးဟု မခေါ်ကြချေ။ အထက်ပါငါးသုံးမျိုးကို သာ အဆုတ်ငါးဟု ခေါ်ကြသည်။

အဆုတ်ငါးများ၏ ရှေ့နှင့်နောက်ဆူးတောင်များသည် ကြီး၍ သန်မာကာ ယင်းတို့ကို ခြေထောက်သဖွယ် အသုံး ပြုကြသည်။ တောင်အာဖရိကတိုက်နှင့် ဩစတြေးလီးယား တိုက်ကျွန်ရှိ လူအချို့သည် အဆုတ်ငါးများကို စားကြသည်။

**အဆိပ်။** ။အဆိပ်ဆိုသည်မှာ ပါးစပ်မှ အနည်းငယ် စားရုံမျှဖြင့်ဖြစ်စေ၊ နှာခေါင်းမှရှူ၍ဖြစ်စေ၊ အရေပြားကို ထိကာ အထဲသို့ဝင်သွား၍ ဖြစ်စေ သက်ရှိတို့အား နာမ ကျန်းဖြစ်စေသည်သာမက အသက်ပင် သေစေနိုင်သော အရာဝတ္ထုဖြစ်သည်။ ကျွန်ုပ်တို့သုံးဆောင်နေကြသောဆေး များစွာတို့၌ အဆိပ်ကိုအနည်းငယ်ထည့်၍ ဖော်စပ်ထားရာ ထိုဆေးများကို လိုသည်ထက်ပို၍ အမြောက်အမြားစားမိ ပါက အဆိပ်ဖြစ်တတ်သည်။ သာမန်လူတယောက်အတွက် ဆေးအဖြစ်ဖြင့်သုံးသော အဆိပ်ပမာဏသည် အားနည်း ၍ မကျန်းမာသော လူတယောက်၊ သို့မဟုတ် ကလေး သူငယ်အတွက်ကား ဘေးဥပဒ် ဖြစ်စေနိုင်သည်။ အဆိပ် ကိုစားမိ၍ဖြစ်စေ၊ သောက်မိ၍ဖြစ်စေ ဖြစ်ပေါ်လာသော ဝေဒနာကို ပျောက်အောင် ကုစားပေးသည့် အရာကို အဆိပ်ဖြေ ဆေးဟုခေါ်သည်။ (အန်တီတော့ဆင် — ရှု။)

အဆိပ်များကို ယင်းတို့၏သတ္တိကိုလိုက်၍ (၁) လောင် စားတတ်သောအဆိပ်၊ (၂) တောက်စေတတ်သောအဆိပ်၊ (၃) နာဗ်ကြောအဆိပ်၊ (၄) အဆိပ်ဓာတ်ငွေ့ဟူ၍ အမျိုး မျိုးခွဲခြားထားသည်။ လောင်စားတတ်သောအဆိပ်သည် အရေပြားကိုသော်၎င်း၊ အစာအိမ်အတွင်းနံရံကိုသော်၎င်း လောင်တတ်သည်။ လောင်စားတတ်သောအဆိပ်တွင် ပြင်း သည့် ဟိုက်ဒရိုကလောရစ်အက်ဆစ်ကဲ့သို့သော အက်ဆစ် များနှင့် ပြင်းသော ကော့စတစ်ပိုတက်၊ သို့မဟုတ် အမ်မို နီယာ ကဲ့သို့သော အယ်လကာလီများပါဝင်သည်။ အပုပ် နိုင်ဆေးအဖြစ်အသုံးပြုသော မာကျူရစ်ကလိုရိုဒ်ရည်သည် ကြောက်စရာကောင်းသော အဆိပ်ဖြစ်သည်။ ဤအဆိပ် များကိုပြေစေသည့်အဆိပ်ဖြေမှာ ကြက်ဥအကာကို ရေနှင့် ခေါက်၍တိုက်ရန်ဖြစ်သည်။ အောက်ဇလစ်အက်ဆစ် အပြင်း ရည်သည်လည်း လောင်စားသောအဆိပ်ဖြစ်၍ အဆိပ်ဖြေ မှာ မြေဖြူဖြစ်သည်။ ပိုးနှိမ်ဆေးအဖြစ်အသုံးပြုသော ကာ ဗော်လစ်အက်ဆစ်သည် လောင်စားတတ်သော အက်ဆစ် မျိုးတွင်ပါ၍ ယင်းကိုပြေစေသည့်အဖြေမှာ ထုံးရေကြည် အချို့ကို ပေးရန်ဖြစ်သည်။

တောက်စေတတ်သည့် အဆိပ်များကို ဝမ်းတွင်းသို့ စားမိသောက်မိသောအခါ အလွန်ခံရခက်အောင် ပူလောင် နာကျင်စေသည်။ ယင်းအဆိပ်မျိုးထဲတွင် စိန်ဖြူသည်အဆိုး ဆုံးဖြစ်သည်။ စိန်ဝါနှင့် စိန်ပါသော ဒြပ်ပေါင်းအားလုံး တို့သည် စိန်ဖြူလောက်ပင် ကြောက်စရာ ကောင်းလှပေ သည်။ စိန်ဖြူ၏သတ္တိမှာ ရုတ်ခြည်းသေစေသည် မဟုတ်ပဲ တဖြည်းဖြည်း အဆိပ်တက်၍ အချိန်ကြာမှ သေစေလေ သည်။ စိန်ဖြူအဆိပ်အတွက် ဖြေဆေးမှာ မဂ္ဂနီရှာနှင့် ဖဲရစ်ဟိုက်ဒရော့ဆိုက်ရည် ဖြစ်သည်။

လက်အက်ဆက်တိတ် ပါဝင်သော ခဲဒြပ်ပေါင်းရည် များသည် တဖြည်းဖြည်း အဆိပ်တက်သော အဆိပ်များ ဖြစ်ကြသည်။ လက်အက်ဆက်တိတ်ရည်သည် အရသာချို နေ၏။ သို့သော် အဆိပ်အလွန်ပြင်းထန်သည်။ ခဲပိုက်လုံး များမှ ထွက်သော ရေသွက်တွင် ခဲအနည်များ စုပေါင်း နေတတ်သောကြောင့် ခဲဆိပ်ဖြစ်တတ်သည်။ သို့သော် ယင်းခဲပိုက်လုံးများမှထွက်သော ရေစေးတွင်မူကား ခဲဆိပ် မဖြစ်ချေ။ အဘယ်ကြောင့်ဆိုသော် ခဲအနည်သည် ရေစေး တွင် မပျော်ဝင်ပဲ လက်ကာဗွန်နိတ် အဖြစ်ဖြင့် ခဲပိုက်လုံး တွင် စွဲနေသောကြောင့်ဖြစ်သည်။ ပျော်ဝင်နိုင်သောကြေး နီ၊ သွပ်နှင့် ဗေရီယမ်ဓာတ်ဆားများသည်လည်း တောက် သည့်အဆိပ်များ ဖြစ်ကြသည်။ တခါတရံ အိမ်များတွင် မင်စွန်းများချွတ်ရန်နှင့် ဘီသွာလျှော်များ အရောင်ချွတ် ရန် အသုံးပြုသော အောက်ဇလစ်အက်ဆစ်(ဆော်ရဲဓာတ် ဆား) သည် ဤတောက်သည့် အဆိပ်မျိုးဖြစ်သည်။

နာဗ်ကြောအဆိပ်သည် အဆိပ်တကာတို့တွင် အပြင်း ထန်ဆုံး အဆိပ်ဖြစ်သည်။ ပိုးမွှား တိရစ္ဆာန်ငယ်များကို

မှိုင်းတိုက်၍ သုတ်သင်ရာတွင် မှိုင်းအဖြစ်အသုံးပြုသော ဓရပ်ဆစ်အက်ဆစ်သည် ဓာတ်ငွေ့ဖြစ်သည်။ ဤအဆိပ်ဓာတ်ငွေ့သည် ပြင်းထန်၍ အလွန်အန္တရာယ်များသောကြောင့် ကျွမ်းကျင်သောသူများသာ ကိုင်တွယ်အသုံးပြုသင့်သည်။ ဤဓာတ်ငွေ့သည် ဗာဒမ်သီး အခါးနံ့ရှိသည်။ ဓာတ်ငွေ့ပျော်ဝင်နေသော ပျော်ဝင်ရည်သည်လည်း ဓာတ်ငွေ့ကဲ့သို့ပင် အလွန်အဆိပ်ပြင်းသည်။ ဓာတ်ပုံပညာတွင် အသုံးပြုသော ပိုတက်ဆီယမ်ဆိုင်ယနိုက်ကဲ့သို့သော ဓာတ်ဆားများသည်လည်း အဆိပ်ပြင်းထန်သည်။ဤအဆိပ်မျိုးမိသောသူများအား ထွက်သက်ဝင်သက်ပေးခြင်းကို ချက်ခြင်းပြုလုပ်ပေးရမည်။

ဤအဆိပ်မျိုးတွင် အယ်လကာလွိုက်ခေါ်သည့် နိုက်ထရိုဂျင်ဓာတ်ပါသောအရာများပါဝင်သည်။ အယ်လကာလွိုက်တို့သည် အပင်အမျိုးမျိုးတွင်ရှိကြသည်။ နစ်ကိုတင်သည် ပါးစပ်မှစားသည်ဖြစ်စေ၊ အရေပြားမှဝင်သွားသည်ဖြစ်စေ အလွန်ပင်အဆိပ်ဖြစ်စေသည်။ ဆေးလိပ်သောက်ဆေးရွက်တွင် နစ်ကိုတင်အနည်းငယ်သာပါသည်။ ကြွက်သတ်ဆေးတွင် ယင်းကိုအသုံးပြုသည်။ အနည်းငယ်မျှဖြင့် ကြွက်ကို လျင်မြန်စွာသေစေနိုင်သည်။ ယင်းကိုစားမိသည့်အခါ အကြောများဆွဲလာရာ ကလိုရိုဖောင်းပေး၍ဖြေနိုင်သည်။ ဗရုမ်မိုက်သည် အဆိပ်ဖြေဆေးတမျိုးဖြစ်၍ ဖီနိုဗာဗီတုံးသည် ကိုယ်တိုင်ကအဆိပ်ဖြစ်သော်လည်း ထိုဆေးအဖြစ်ထုံးပေးသောအခါ အဆိပ်ပြေစေသည်။

ဗဲလာဒွန်နာ(ပန်းတိုင်းခတ္တာ)မှရသော အက်တြိုပင်းနှင့် ဘိန်းပန်းပင်မျိုးမှရသော မော်ဖင်း တို့သည်လည်း အယ်လကာလွိုက်အဆိပ်များပင်ဖြစ်ကြသည်။ အက်တြိုပင်းနှင့်မော်ဖင်းတို့သည် တဦးနှင့်တဦး အဆိပ်ဖြေများဖြစ်ကြသည်။ အက်ကိုနိုက်ခေါ် ဆီမီးတောက်ပင်မျိုးမှ ရသော ဆီမီးတောက်အဆိပ်နှင့် ဒစ်ဂျီတလင်းများသည် အလွန်ပြင်းထန်သော အယ်လကာလွိုက်အဆိပ်များဖြစ်ကြသည်။ ဖီနိုဗာဗီတုံးသည် အနည်းငယ်စားလျှင် ဆေးဖြစ်၍ များများစားသော် အဆိပ်ဖြစ်သောကြောင့် ဘေးဖြစ်တတ်သည်။ ယင်းအဆိပ်မိသူအား ထွက်သက်ဝင်သက်ပေးခြင်းကို ပြုလုပ်ပေးသင့်သည်။

အဆိပ်ဓာတ်ငွေ့ကို နှစ်မျိုးနှစ်စား ခွဲခြားထားသည်။ ကလိုရင်း၊ ဗရိုမင်း၊ ကန့်ကိုမီး ရှို့၍ထွက်လာသောအခိုးနှင့် စစ်ပွဲတွင်အသုံးပြုသောအဆိပ်ဓာတ်ငွေ့များသည်လည်ပင်းနှင့် အဆုတ်တစ်ရှူးများကို ပြင်းထန်စွာ အဆိပ်ဖြစ်စေသည်။ ကာဗွန်မွန်အောက်ဆိုက်ဓာတ်ငွေ့သည် ဒုတိယအမျိုးတွင် ပါဝင်သည်။ သွေး၏လုပ်ငန်းတခုမှာ အဆုတ်မှ အောက်ဆီဂျင်ကိုယူ၍ အခြား လိုအပ်သေးနေရာများသို့ ပို့ပေးသည်။ သွေးသည် အောက်ဆီဂျင်ထက် ကာဗွန်မွန်အောက်ဆိုက်ကို ပို၍လွယ်ကူစွာစုတ်ယူလက်ခံကာ အောက်ဆီဂျင်ကို ပယ်သဖြင့် လူကို လုံးလုံးမွန်းသွားစေသည်။ ကျောက်မီးသွေးဓာတ်ငွေ့၊ မော်တော်ကားအိတ်ဇောပိုက်(အခိုးထုတ်ပြွန်)မှ ထွက်သောအခိုးနှင့် ကုတ်မီးသွေးမှထွက်သောအခိုးတို့တွင် ကာဗွန်မွန်အောက်ဆိုက် ပါဝင်သည်။ ဤအဆိပ်မိသောသူများအား ထွက်သက်ဝင်သက်ပေးခြင်းကို ပြုလုပ်ပေးရသည်။

ပဌမကမ္ဘာစစ်အတွင်း ၁၉၁၅ ခုနှစ်က ဂျာမန်တို့သည် အဆိပ်ငွေ့များဖြင့် တိုက်ခိုက်သောကြောင့် လူအမြောက်အမြားသေကြေပျက်စီးခဲ့ကြသည်။ စစ်ပွဲများတွင် အဆိပ်ဓာတ်ငွေ့ကို သုံးသဖြင့် ခရီးရောက်လှသည်ဆိုသော်လည်း ယဉ်ကျေးသောနိုင်ငံများကမူ အဆိပ်ဓာတ်ငွေ့ကို အလွန်အသုံးနည်းကြသည်။ အဆိပ်ဓာတ်ငွေ့စစ်ပွဲများ ဖြစ်ပေါ်လာမည်ကို မည်သူမျှမလိုလားရကား ၁၉၃၆ ခုနှစ်တွင် ကမ္ဘာ့နိုင်ငံပေါင်းချုပ်အသင်းက အဆိပ်ဓာတ်ငွေ့စစ်ပွဲများကို ရှုတ်ချပစ်ပယ်ကြောင်း ကျေညာခဲ့လေသည်။မည်သို့ပင်ဖြစ်စေ အခါအခွင့်ကိုကြည့်၍ အဆိပ်ငွေ့များကိုသုံးလျက်ပင်ရှိကြပေသေးရာ ဒုတိယကမ္ဘာစစ်အတွင်းက စစ်တပ်များတွင် အဆိပ်ငွေ့ကာကွယ်သည့်မျက်နှာဖုံးများ၊ ဆေးများ ဆောင်ထားကြရလေသည်။

အထက်ဖော်ပြပါ အဆိပ်များအပြင် တိရစ္ဆာန်များမှဖြစ်သောအဆိပ်နှင့် အပင်များမှဖြစ်သော အဆိပ်များလည်း ရှိသေးသည်။ (အဆိပ်ပင်များ — ရှု။)တိရစ္ဆာန်အဆိပ်များတွင် မြွေဆိပ်ကို လူသိများကြသည်။ မြွေအမျိုးပေါင်းများစွာရှိသည့်အနက် အဆိပ်ပြင်းထန်သောမြွေမျိုးကို အပူပိုင်းဒေသများတွင် တွေ့ရသည်။ မြွေဆိပ်သည် ထိရုံနှင့် လောင်စားစေတတ်သောအဆိပ်မျိုးမဟုတ်ပဲ သွေးကြောထဲသို့ရောက်မှသာ အဆိပ်တက်နိုင်သည်။ သို့ရာတွင် အဆိပ်ရှိသောမြွေတို့တွင် ချွန်ထက်သောအစွယ်များရှိ၍ ထိုအစွယ်များဖြင့် ကိုက်မိပေါက်မိသောအခါ သွေးကြောများအတွင်းသို့ မြွေဆိပ်ဝင်မြဲဖြစ်သည်။ မြွေဆိပ်မိသူသည် ထိပ်လန့်တုန်လှုပ်လျှင်ရင်း၊ ပြေးလွှားလျှင်ရင်း သွေးများလှုပ်ရှားမှုမြန်သဖြင့် အဆိပ်တက်လည်း မြန်တတ်သည်။ အဆိပ်ရှိသည့် မြွေများပေါရာနိုင်ငံတိုင်း၌လိုပင် မြွေဆိပ်ဖြေဆေးများ ရှိကြသည်။ မြန်မာနိုင်ငံဆေးဝါးလုပ်ငန်းမှပြုလုပ်သော မြွေဆိပ်ဖြေဆေးသည် အစွမ်းထက်လှ၍ မြွေဆိုးအကိုက်ခံရသူများအား အချိန်မှီထိုးပေးနိုင်လျှင် မုချအသက်ချမ်းသာရာရနိုင်သည်။ အကယ်၍ ရုတ်တရက် ထိုဆေးများ မရနိုင်လျှင် မြွေစွယ်ထိသောနေရာ၏အထက်နားမှ ကျပ်စည်း၍ အဆိပ်ကို စုတ်ယူခြင်းမှာ အကောင်းဆုံးဖြစ်ပေသည်။(ရှေးဦးသူနာပြု။ — လည်းရှု။)

**အဆိပ်ပင်များ။** ။ပိုးမွှားတိရစ္ဆာန်တို့ကို သတ်ဖြတ်ဖျက်ဆီးမည့်ရန်သူများ ရှိသကဲ့သို့၊ ကမ္ဘာပေါ်တွင် ပေါက်ရောက်လေသမျှ အပင်တို့တွင်လည်း ရန်သူများဝိုင်းရံလျက်ရှိသည်။ ထို့ကြောင့် အပင်တိုင်းရှင်သန်ကြီးထွားစေရန် တနည်းနည်းဖြင့် ရန်သူကို ကာကွယ်ကြရလေသည်။အပင်များကို အညှန့်တုံးစေမည့် ရန်သူတို့မှာ စားကျက်များတွင် လှည့်လည်စားသောက်နေကြသော တိရစ္ဆာန်များအပြင် အပင်ကို အားကုန်ရိနွမ်းစေမည့် အပင်ဖျက်ပိုးမွှားတို့နှင့် မှိုတက်ရောဂါများ ဖြစ်ကြသည်။ အတွေ့ရအမြင်ရများသော အပင်တို့၏အကာအကွယ်များမှာ အပင်ကိုယ်၌ဖြစ်ပေါ်နေသည့် ဂုဏ်အင်္ဂါအခြင်းအရာများပင် ဖြစ်ပေသည်။ အပင်အချို့တို့တွင် ဆူးများရှိသဖြင့် ရန်သူများ မထိဝံ့၊ မစားဝံ့ကြချေ။ အချို့၌ ဆိုးရွားသောအနံ့အသက်များရှိ၍ ရန်သူများမနှစ်သက်ကြ။ ထို့ပြင် အချို့အပင်များ၌ အဆိပ်ဓာတ်များ ပါရှိကြသဖြင့် ရန်သူများ ရှောင်ရှားသွားကြသည်။

မြေပြင်ပေါ်၌ ပေါက်လျက်ရှိသောအပင်တို့တွင် အဆိပ်ပင်များ ရောပြွမ်းလျက်ရှိရာ အချို့တို့တွင် အခက်အရွက်တို့၌ အဆိပ်ပါ၍၊ အချို့တို့မှာမူ အမြစ်များ၌ဖြစ်စေ၊ အသီးများ၌ဖြစ်စေ အဆိပ်အတောက်ရှိကြသည်။ အဆိပ်အတောက်ရှိသောအပင်နှင့် အဆိပ်ကင်းသောအပင်ဟူ၍ သီးခြားကဏ္ဍ သတ်မှတ်ထား၍ မရနိုင်ချေ။ ပုံစံပြရလျှင် လူတို့သည် ခရမ်းချဉ်သီးကို အာဟာရဓာတ်ဖြစ်စေသည့် အသီးအနေဖြင့် စားသုံးလျက်ရှိသော်လည်း ခရမ်းချဉ်ပင်နှင့် အလွန်နီးစပ်သော ဗောင်လောင်ညို အပင်မျိုးမှာမူ အလွန်အဆိပ်ပြင်းသည်။ အာလူးပင်သည်လည်း အဆိပ်ပါသည့် အသက်ပါအပင်အမျိုးထဲမှဖြစ်၍ အစိမ်းရောင်ရှိသော အညှောက်ပေါက်ပြီး အာလူးသီးအရင့်များကို အစိမ်းစားလျှင် အဆိပ်ဖြစ်တတ်သည်။ ထို့ကြောင့် အပင်တပင်ကို အဆိပ်မရှိဟုဆိုရသော်လည်း ထိုအပင်၌ပါသော အဆိပ်ကို ပြင်းလာအောင် စုဆောင်းလိုက်မည်ဆိုက လူနှင့် တိရစ္ဆာန်များကို သေစေနိုင်၏။

ခြံဥယျာဉ်များတွင်တန်ဆာဆင်ထားသော အလှစိုက်ပန်းပင်အချို့တို့၏ အကိုင်းအခက်အရွက်များ၊ အမြစ်များနှင့် အစေ့များတွင် အဆိပ်ပါရှိလေသည်။ အဆိပ်ပြင်းသည့် ဗောင်လောင်ညိုပင်မှ စားချင့်စဖွယ် ကြက်သွေးရောင်အသီးကလေးများသီးသဖြင့် မသိနားမလည်သောကလေးသူငယ်များက ဆွတ်ခူးစားမိမည်ကို အထူးစိုးရိမ်ရလေသည်။ အဆိပ်ပြင်းသောမှိုပွင့်များကို စားကောင်းသည်ဟု ထင်မှတ်၍ ချက်ပြုတ်စားသောက်မိသဖြင့် သေသူများလည်း ရှိဘူးပြီဖြစ်၏။

ဆီမီးတောက်ပင်မျိုးမှ များစွာသောအပင်တို့၏အမြစ်၌ အဆိပ်ရှိသည်။ မြောက်ကမ္ဘာလုံးခြမ်းရှိ တောင်ထူထပ်သည့်အပိုင်းများတွင် ဆီမီးတောက်ပင်များ အချိုင်းပေါက်လျက်ရှိသည်။ ဆီမီးတောက်ပင်များကိုလည်း အခြားပန်းပင်များကဲ့သို့ ဥယျာဉ်ခြံများ၌ စိုက်ပျိုးသားတတ်ကြသည်။ ယင်းဆီမီးတောက်ပင်များကို ဥယျာဉ်ခြံများ၌ အလှစိုက်ပျိုး၍ အပင်များကိုခွဲစိုက်သည့်အခါ အမြစ်အစအနတို့ကို အမှုမဲ့အမှတ်မဲ့ မြေပေါ်တွင်မကျန်ရစ်ခဲ့စေရန် သတိပြုအပ်သည်။ အကြောင်းဆိုသော် ဆီမီးတောက်ပင်၏ အမြစ်များသည် အဆိပ်ရှိ၍ ဒန့်သလွန်မြစ်နှင့်အလွန်ဆင်သဖြင့် ယိုးမှားသုံးစွဲမိမည်ကို စိုးရိမ်ရသည်။ အိန္ဒိယနိုင်ငံတွင် ဆီမီးတောက်ပင်တမျိုး၏အမြစ်မှ အလွန်ပြင်းသော အဆိပ်ကို ထုတ်ယူကြသည်။

လူတို့ မွေးမြူသားသည့် ကျွဲ၊ နွားတိရစ္ဆာန်တို့သည် စားကျက်များတွင် အချိုင်းပေါက်နေသည့် အဆိပ်ပင်များကို စားမိသဖြင့် ရောဂါရတတ်ကြသည်။တိရစ္ဆာန်စားကျက်များတွင် အမြင့်ခြောက်ပေကျော်ထိရှိသော နွားစားမုန်လာပင်မျိုးမှာ ကျွဲနွားတို့စားကောင်းသည့် အပင်မျိုးဖြစ်သော်လည်း နွားစားမုန်လာပင်နှင့် များစွာတူသည့် ဟင်းမလေ့ခေါ် အပင်တမျိုးမှာ အလွန်အဆိပ်ပြင်းလေသည်။ ထိုဟင်းမလေ့ပင်မှ ထုတ်ယူရရှိသောအဆိပ်ဖြင့် ဂရိလူမျိုး ဒဿနိကဗေဒပညာရှင် ဆိုကရေးတီးကို အဆုံးစီရင်ခဲ့ဘူးသည်။ (ဆိုကရေးတီး — လည်းရှု။) နွားစားမုန်လာပင်နှင့် ဟင်းမလေ့ပင်ကို ခွဲခြားသိရှိနိုင်ရန်မှာ နွားစားမုန်လာပင်၏ပင်စည်ဘင် အမွေးအမှင်ထူ၍ အရွက်များသည် အောက်သို့ ကုဘ်ကျနေ၏။ ဟင်းမလေ့ပင်၌မူ အရွက်နှင့်ပင်စည်တို့မှာ ချောမွတ်နေသည့်အပြင် ပင်စည်၌ ခရမ်းရောင်အပြောက်များ ရှိသည်။ (ဟင်းမလေ့ပင် — လည်းရှု။)

အချို့အပင်များသည် ထိရုံမျှနှင့် အသားအရေယားယံလာစေခြင်း၊ ဖူးရောင်စေခြင်း စသည်တို့ ဖြစ်ပေါ်လာစေနိုင်၏။ ဖက်ယားပင်ကို အများတွေ့ဘူးကြမည်ဖြစ်သည်။ ဖက်ယားပင်ကိုထိမိလျှင် အရွက်များတွင်ရှိသောအဆိပ်ဆူးများစူးသဖြင့် ထိခိုက်မိသည့်နေရာ၌ ယားယံလာမည်ဖြစ်သည်။ ထိုဖက်ယားပင်ထက် အဆိပ်ပြင်းသောအပင်မှာ ဆူးမတ်ပင်မျိုးထဲမှဖြစ်၍ ဤအပင်မျိုးကိုထိမိလျှင် မခံမရပ်နိုင်အောင်ယားယံလာခြင်းနှင့်ထိမိသည့်နေရာတွင် ဖူးရောင်ခြင်းတို့ကို ဖြစ်စေနိုင်၏။ အမေရိကန်ပြည်ထောင်စုတွင် အနှံ့အပြားပေါက်ရောက်လျက်ရှိသော အဆိပ်ရှိတိုက်ကပ်နွယ်ပင်မှာ ဆူးမတ်ပင်မျိုးတွင် အဆင်ရှားဆုံးဖြစ်သည်။ ဥယျာဉ်ခြံများ၌ စိုက်ပျိုးသားလေ့ရှိသော ဆတ်ချို ဆူးမတ်ပင်မျိုးကို ကိုင်တွယ်မိလျှင် လက်ဘင်ဆူးများစူးဝင်နေတတ်သည်။ ထို့ကြောင့် အမွေးအမှင်ရှိသောအရွက်များကို

အမှတ်တမဲ့ မကိုင်တွယ်သင့်ချေ။ စူးဝင်သောအမွေးအမှင်တို့ကြောင့် အင်ပြင်များဖြစ်ပေါ်လာတတ်သည်။ ရှားစောင်းပင်မျိုးမှထွက်သော နို့ရည်ထိမိလျှင်လည်း ယားနာများ ဖြစ်ပေါ်လာတတ်သည်။

ကမ္ဘာပေါ်ရှိ တောတွင်းကျကျအရပ်များ၌ နေထိုင်ကြသော လူရိုင်းတို့ အသုံးပြုသည့် ဆိပ်လူးမြားအတွက် အဆိပ်ရည်ကို များသောအားဖြင့် ၎င်းဆိပ်ပင်များမှ ထုတ်ယူရရှိကြသည်။ လူရိုင်းတို့သည် မြွေဆိုးများနှင့် အခြားအဆိပ်ရှိသောသတ္တဝါများမှလည်း လိုအပ်သောအဆိပ်ရည်ကို ရရှိကြသည်။

**အဆိပ်ဖြေ။** ။အန်တီတော့ဆင် — ရှု။

**အဇာတသတ်မင်း။** ။အဇာတသတ်မင်းသည် ဂေါတမမြတ်စွာဘုရားလက်ထက် ရာဇဂြိုဟ်ပြည့်ရှင် ဘုရင်ဗိမ္ဗိသာရမင်းကြီးနှင့် ဝေဒေဟီမည်သော မိဖုရားကြီးတို့မှ မွေးဖွားသော မင်းသားဖြစ်သည်။ (ဗိမ္ဗိသာရမင်း — လည်းရှု။) အဇာတသတ်မင်းသားသည် ဝေဒေဟီမိဖုရားကြီးဝမ်း၌ ပဋိသန္ဓေ တည်နေလေသောအခါ မိဖုရားကြီးတွင် ဗိမ္ဗိသာရမင်းကြီး၏လက်ျာလက်ရုံးသွေးကို ကိုက်ဖောက်၍ သောက်လိုသော ချင်ခြင်းသည် ပြင်းစွာဖြစ်လေရကား မတင်ဝံ့ပဲ မစားမစက်နိုင်ရှိသဖြင့် ကြုံလှီဖျော့တော့ခြင်းသို့ ရောက်လေသည်။ မင်းကြီးလည်း အကြောင်းကို မေးလတ်သော် ဟုတ်တိုင်း တင်လျှောက်သဖြင့် သိရလျှင် ရွှတ်ချည်းပင် လက်ရုံးသွေးကို ဖောက်၍ တိုက်ခြင်းဖြင့် မိဖုရားကြီးအား နှစ်သိမ့်စေလေသည်။ ထိုအကြောင်းကို ပညာရှိတို့ကြားလတ်သော် မိဖုရားဝမ်း၌ ကိန်းသော သူငယ်သည် ခမည်းတော်မင်းမြတ်ကို မချွတ်သတ်လတ္တံ့ဟု နိမိတ်ဖတ်ကြားကြလေသည်။ ထိုအခါ မိဖုရားကြီးလည်း အဖသတ်မည့်သားဖြစ်သော ပဋိသန္ဓေကို မစောင့်ရှောက်လိုပဲ သန္ဓေကိုဖျက်ရန်အားထုတ်လေသည်။

ထိုအကြောင်းကို မင်းကြီးသိလေလျှင် ငါ့ကိုသတ်လိုလည်း သတ်ပါစေ၊ သား၏မျက်နှာကိုမြင်ရလျှင် တော်ပါပြီ၊ ကိုယ်ဝန်ကို မဖျက်ပါလင့်ဟု အခါခါ တားမြစ်လေသည်။ ထိုသတို့သားဖွားလတ်သော် မဖွားမီကပင် ရန်သူဖြစ်မည်ဟု ပုဏ္ဏားတို့လျှောက်ဘင်သည်ကို အကြောင်းပြု၍ အဇာတသတ္တု ဟု မှည့်ခေါ်လေသည်။ (အဇာတ=မမွေးဖွားမီ+သတ္တု=ရန်သူ။) ဖွားမြောက်၍လာလျှင် မင်းကြီးသည် ဝါဂွမ်းကို ဆီထိသကဲ့သို့ ပီတိပြန့်ပွားလျက် စားတော်မျှခေါ်နိုင်ပဲ ဖက်လဲဖက်ရမ်း မီးနေနန်း၌ ပင်ပန်းစွာစောင့်တော်မူသည်။ အနည်းငယ်ကြီးပြင်း၍ လက်မ၌ ခူနာ(အိုင်းအမာနာ) ပေါက်ရာ ဆောက်တည်ရာမရ ပြည်ကိုက်၍လှသည်ကို မင်းကြီးသည် ခံတွင်းဖြင့်ငုံ၍ ပြည်ကိုယူပေးသည်။

အဇာတသတ်မင်းသား အရွယ်ရောက်လတ်သော် မင်းကြီးသည် အလွန်ချစ်မြတ်နိုးရကား အိမ်ရှေ့မင်းအဖြစ် အပ်နှင်းတော်မူလေသည်။ အိမ်ရှေ့မင်းအဖြစ်နှင့်နေစဉ် တနေ့သ၌ ဘုရား၏ယောက်ဖတော် ရှင်ဒေဝဒတ်ရောက်ရှိလာပြီးလျှင် မင်းသားကို ဆိတ်ငြိမ်ရာသို့ခေါ်၍ မလျော်သောဩဝါဒဖြင့် သင်လည်းခမည်းတော်ကြီးကိုသတ်၍ မင်းလုပ်လော့၊ ငါလည်းယောက်ဖတော်ဂေါတမကိုသတ်၍ ဘုရားလုပ်အံ့ဟု လှည့်ပတ်တိုက်တွန်းလေ၏။ ထိုတိုက်တွန်းချက်အရ မင်းသားသည် ပဌမသော် သန်လျက်ဓားကို ပေါင်ကြား၌ဝှက်၍ မင်းကြီးအား သတ်ရန်အားထုတ်၏။ ထိုအကြောင်းကို မင်းကြီးသိလျှင် သားကိုခေါ်၍ အဘယ်ကြောင့်ငါ့အားသတ်ရန်ပြုသနည်း၊ မင်းစည်းစိမ်ကို အလိုရှိမူ ငါပေးအံ့ဟုဆိုလျက် မင်းအဖြစ်ကို ဆောင်နှင်းပေ၏။ သို့သော် ရှင်ဒေဝဒတ်က မင်းသားအား ခမည်းတော်မင်းကြီးကို အဆုံးစီရင်ရန် လှည့်ဖြားတိုက်တွန်းပြန်သဖြင့် မင်းကြီးအား နှောင်အိမ်တွင်းသွင်းလျက် ထမင်းအာဟာရကိုမပေးပဲ သတ်စေ၏။ သို့သော်မိဖုရားကြီးက နည်းအမျိုးမျိုးဖြင့် မင်းကြီး၌ အာဟာရမျှတအောင်ပြုသဖြင့် မသေသေးကြောင်းကြားလျှင် မယ်တော်ကိုလည်း ဝင်ခွင့်မပေးတော့ပဲ နောက်ဆုံး၌ မင်းကြီး၏ဖဝါးကို သားလှီးဓားဖြင့်အမြှာမြှာမွှမ်း၍ ဆားရေသောဆီနယ်ပြီးသော် မီးကျီးစုဖြင့်ကင်၍ သတ်လေတော့၏။ အဇာတသတ်မင်းတွင် သားတော်ဥဒယဘဒ္ဒဖွားမြင်သည်နေ့၌ပင် ဗိမ္ဗိသာရမင်း ကံကုန်လေသည်။

အဇာတသတ်မင်းသည် ခမည်းတော်ကိုသတ်ပြီးသောအခါမှ နောင်တကြီးစွာရလျက် ဘုရားရှင်အား ပြစ်မှားသော ဒေဝဒတ်ကိုလည်း မြေမျိုကြောင်း ထပ်မံကြားသိရသောအခါ မင်းစည်းစိမ်၌ မပျော်မရွှင်နိုင်ဖြစ်၍ အလွန်ထိတ်လန့်သဖြင့် ဇီဝကကို အကြောင်းပြုလျက် မြတ်စွာဘုရားထံ ဆည်းကပ်ရလေသည်။ ဘုရားသခင်လည်း မင်းနှင့်တကွ ပရိသတ်တို့အား သာမညဖလသုတ် ဒေသနာဖြင့်တရားရေအေး တိုက်ကျွေးတော်မူ၏။ ထိုအခါ အဇာတသတ်မင်းကား လွန်မင်းသော ပိတုဃာတက ကံကြောင့် မဂ်ဉာဏ်ဖိုလ်ဉာဏ်သို့ မရောက်ပဲ ဥပါသကာမြောက်ရုံသာ သရဏဂုံပဌ္ဌာသီ၌တည်၏။ အဇာတသတ်မင်းသည် မဂ်ဖိုလ်ရထိုက်သောသူဖြစ်လျက် အဆွေခင်ပွန်းယုတ်ဖြစ်သော ဒေဝဒတ်နှင့် ပေါင်းဖော်၍ မပြစ်မှားအပ်သော ခမည်းတော်ကိုပြစ်မှားချေသောကြောင့် ကာလရှည်စွာ အဝီစိငရဲ၌ခံရကောင်းလျက် ဘုရားရှင်ကို လွန်စွာသဒ္ဓါကိုးကွယ်၍ ခမည်းတော်အား ပြစ်မှားမိသော အပြစ်ကို ကန်တော့သော

ကြောင့် လောဟကုမ္ဘိငရဲ၌ အနှစ်ခြောက်သောင်းခံ၍ လွှတ်လျှင် ဝိဇိတဝိသေသမည်သော ပစ္စေကဗုဒ္ဓါ ဖြစ်လတ္တံ့ဟု ဆိုသည်။

အဇာတသတ်မင်းနန်းတက်သည့်နောက် ရှစ်နှစ်မြောက်၌ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူလေသည်။ ဘုရားပရိနိဗ္ဗာန် စံဝင်တော်မူပြီးနောက် ရှင်မဟာကဿပမထေရ် အကြီးအမှူးပြုသော သံဃာတော်တို့သည် အဇာတသတ်မင်းကိုမှီ၍ ပဌမသင်္ဂါယနာတင်လေသည်။ (သင်္ဂါယနာ — လည်းရှု။)

ထို့ပြင်အဇာတသတ်မင်းသည် ဒေါနပုဏ္ဏားဓာတ်တော်ဝေပြီးလျှင် ထိုထိုမင်းတို့သည် မိမိနေရာမြို့သို့ ပင့်ဆောင်၍ စေတီတည်တည်းတည်သွားသည်ကို ရှင်မဟာကဿပထေရ်က နောင်အခါ ဓာတ်တော်တို့၏ အန္တရာယ်ဖြစ်ရာလတ္တံ့သည်ကို မြင်သဖြင့် မိမိတန်ခိုးတော်ဖြင့် ယူဆောင်ပေးသောကြောင့် ဘူတာဝါဟနယန္တရားစက်နှင့်တကွ အထူးတလည် ပြုလုပ်ထားသော ဌာပနာတိုက်တွင် သိုမှီးကိုးကွယ်လေသည်။

အဇာတသတ်မင်းသည် အစဉ်အတိုင်းမင်းပြု၍ မင်းစည်းစိမ် ၃၂ နှစ်ရှိသောအခါ သာသနာသက္ကရာဇ် ၂၄ ခုနှစ်တွင် သားတော်ဥဒယဘဒ္ဒ လုပ်ကြံ၍ ကံကုန်လေသည်။

**အဇာဗိုင်ဂျန်။** ။အဇာဗိုင်ဂျန်နိုင်ငံနှင့် အဇာဗိုင်ဂျန်ပြည်နယ်ဟူ၍ရှိသည်။ အဇာဗိုင်ဂျန်နိုင်ငံသည် ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံတွင်ပါဝင်သော နိုင်ငံတခုဖြစ်သည်။ အဇာဗိုင်ဂျန်ပြည်နယ်သည် အီရန်နိုင်ငံတွင်ပါဝင်သောပြည်နယ်တခု ဖြစ်သည်။

အဇာဗိုင်ဂျန်နိုင်ငံသည် ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံ (ဆိုဗီယက်ယူနီယံ)တွင် တောင်ဖက်အစွန်ဆုံးသမတနိုင်ငံတခု ဖြစ်သည်။ ဥရောပတိုက်အရှေ့တောင်ဖက်၊ ကက်စပျန်ပင်လယ်၏ အနောက်တောင်ဖက်ကမ်းပေါ်တွင် တည်ရှိသည်။ မြောက်ဖက်၌ ဂျော်ဂျီးယားနိုင်ငံနှင့် တာဂျစ်နိုင်ငံ၊အနောက်ဖက်၌ အာမီးနီးယားနိုင်ငံ၊ အရှေ့ဖက်၌ ကက်စပျန်ပင်လယ်၊ တောင်ဖက်၌ အီရန်နိုင်ငံတို့သည် နယ်နိမိတ်အဖြစ် ဝိုင်းရံလျက်ရှိသည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၃၃,၄၃၀ ရှိ၍ လူဦးရေ ၅,၁၁၁,၀၀၀ (၁၉၇၀ ပြည့်ခန့်မှန်းခြေ)ရှိသည်။

အဇာဗိုင်ဂျန်နယ်သည် ရှေးခေတ်က ဆီသီယန်လူမျိုးတို့နေထိုင်ရာဒေသဖြစ်၍ ရောမနိုင်ငံတော် လက်အောက်ခံဖြစ်ခဲ့သည်။ အလယ်ခေတ် ၁၁ ရာစုနှစ်တွင် တူရကီလူမျိုးတို့က ချင်းနင်းဝင်ရောက် သိမ်းပိုက်ခဲ့သည်။ ၁၇ ရာစုနှစ်တွင်ကား ပါးရှင်းလူမျိုးတို့၏လက်အောက်သို့ ရောက်ခဲ့သည်။ ခရစ် ၁၈၀၆ ခုနှစ်၊ ၁၈၁၃ ခုနှစ်များတွင် အဇာဗိုင်ဂျန်နယ်အတော်များများကို ရုရှလူမျိုးတို့က သိမ်းပိုက်ထားခဲ့သည်။ ပဌမကမ္ဘာစစ်ပွဲတွင် စစ်မြေပြင်ဖြစ်ခဲ့သည်။ ၁၉၁၇ ခုနှစ်သို့ ရောက်သောအခါ တာတာလူမျိုးတို့၏ အမျိုးသားကောင်စီ(ဝါ)တိုင်းပြည်ပြုလွှတ်တော်က (ပါးရှားနိုင်ငံတွင်းရှိ အဇာဗိုင်ဂျန်နယ်အပါအဝင်) အဇာဗိုင်ဂျန်နယ်တခုလုံး၏ လွတ်လပ်ရေးကိုကြေညာကာ သမတနိုင်ငံထူထောင်ခဲ့လေသည်။ ၁၉၂၀ ပြည့်နှစ်တွင် တူရကီမျိုးချစ်တပ်များနှင့် ဆိုဗီယက်တပ်များက ချင်းနင်းဝင်ရောက်တိုက်ခိုက်ခဲ့သည်။ ထို ၁၉၂၀ ပြည့်နှစ်တွင်ပင် အဇာဗိုင်ဂျန်နယ်ကို ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံအဖြစ် ကြေညာခဲ့ပြီးသည့်နောက် ၁၉၂၂ ခုနှစ်တွင် ဂျော်ဂျီးယားနိုင်ငံ၊ အာမီးနီးယားနိုင်ငံတို့နှင့်ပူးပေါင်း၍ ထရန်စကော်ကေးရှန်း ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံအဖြစ် တည်ထောင်ခဲ့သည်။ ၁၉၃၆ ခုနှစ်မှစ၍ ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံတွင်အပါအဝင် ဆိုဗီယက်သမတနိုင်ငံတခုအဖြစ်ဖြင့်သီးခြားတည်ရှိခဲ့လေသည်။ ထိုနိုင်ငံ၏မြို့တော်မှာ ဗားကူးမြို့ဖြစ်၍လူဦးရေ ၁,၂၆၁,၀၀၀ ယောက်ရှိသည်။ ဗားကူးမြို့သည် ဆိုဗီယက်ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံတွင် ပဥ္စမအကြီးဆုံးမြို့ဖြစ်၍ ဆိုဗီယက်ရုရှနိုင်ငံ၏ ရေနံအများဆုံးထွက်ရာ ဗဟိုဌာနကြီးလည်း ဖြစ်သည်။ (ဗားကူးမြို့ — လည်းရှု။) အဇာဗိုင်ဂျန်နိုင်ငံသည် ကမ္ဘာပေါ်ရှိ ရေနံအများဆုံးထွက်သည့်နိုင်ငံများတွင် အပါအဝင်တခုဖြစ်သည်။

အဇာဗိုင်ဂျန်နိုင်ငံသည် တောင်ထူထပ်၍ ကော်ကေးဆပ်တောင်တန်း၏ တောင်ဖက်စောင်းတွင်ရှိသည်။ မြောက်ဖက်နှင့် အနောက်ဖက်တွင် တောင်များဝိုင်းရံလျက်ရှိ၍ အလယ်တွင် လွင်ပြင်ရှိသည်။ ကူရားမြစ်သည် ထိုလွင်ပြင်ကိုဖြတ်၍ အရှေ့ဖက်ကက်စပျန်ပင်လယ်ဆီသို့ စီးဝင်သွားသည်။ အဇာဗိုင်ဂျန်နိုင်ငံအနိမ့်ပိုင်းတွင် များသောအားဖြင့် လယ်ယာလုပ်ငန်းကို လုပ်ကိုင်ကြသည်။ အထူးသဖြင့် ကူရားမြစ်မှ ရေသွင်းစိုက်ပျိုးခြင်းဖြစ်ရာ ကောက်နှံ၊ ဝါ၊ စပျစ်သီး၊ အခြားသစ်သီးများ၊ ဆေးပင်များကို စိုက်ပျိုးလုပ်ကိုင်ကြသည်။ အဇာဗိုင်ဂျန်နိုင်ငံသည် သဘာဝပင်ရင်းအခြေအမြစ်များဖြင့်လည်း ပေါကြွယ်ဝသည်။ ရေနံ၊ သံ၊ အလျူမီနီယမ်၊ ကြေးနီ၊ ခဲ၊ သွပ်၊ ထုံးကျောက်၊ ဆားစသည်တို့ အများအပြားထွက်သည်။ သို့သော် အကြီးအကျယ်ဆုံးလုပ်ငန်းကား ရေနံလုပ်ငန်းဖြစ်သည်။ အထူးသဖြင့် ဗားကူးဒေသတွင် ရေနံလုပ်ငန်းအကြီးအကျယ်လုပ်ကိုင်သည်။ ကက်စပျန်ပင်လယ် အနောက်ဖက်ကမ်းရှိ ဗားကူးမြို့၏ တောင်ဖက်နှင့် မြောက်ဖက်ဒေသများတွင် အကြီးဆုံးသော ရေနံချက်စက်ရုံများရှိသည်။ ၁၉၆၉ ခုနှစ်တွင် ရေနံတန်ချိန်သန်းပေါင်း ၂၀.၄ ထွက်ခဲ့သည်။

အဇာဘိုင်ဂျန်နိုင်ငံ၏အကြီးဆုံးမြစ်မှာ ကူရားမြစ်ဖြစ်၍ မိုင်ပေါင်း ၃၇၅ မိုင်ထိ မီးသင်္ဘောများဖြင့် ကူးသန်းသွားလာနိုင်သည်။ ကူရားမြစ်ပေါ်တွင် ဆောက်လုပ်ထားသော ရေအား လျှပ်စစ်ဓာတ်အားရုံကြီးသည် ၁၉၄၅ ခုနှစ်က ပြီးစီးခဲ့ရာ ယင်းကြောင့် အလုပ်အကိုင်များ များစွာတွင်ကျယ်လျက်ရှိသည်။ ယခုအခါ ကူရားမြစ်ပေါ်တွင် အလွန် အားကောင်းသော လျှပ်စစ် ရေစုတ်စက်များ ဆောက်လုပ်လျက်ရှိရာ ပြီးစီးပါက လယ်ကေထောင်ပေါင်း များစွာကို ရေသွင်း၍ စိုက်ပျိုးလုပ်ကိုင်နိုင်လာမည်ဖြစ်သည်။ အဇာဘိုင်ဂျန်နိုင်ငံတွင် မီးရထားသံလမ်းအကျဉ်းများအပြင် သံလမ်းအကျယ်မိုင်ပေါင်း ၉၅၀ မျှရှိသည်။ ဆိုဗီယက်ရုရှနိုင်ငံ၏ ပဌမဆုံး လျှပ်စစ်မီးရထားကို ၁၉၂၄ ခုနှစ်က အဇာဘိုင်ဂျန်နိုင်ငံတွင် တည်ဆောက်ခဲ့သည်။

အဇာဘိုင်ဂျန်နိုင်ငံ၏ လူဦးရေ ငါးပုံသုံးပုံမှာ အဇာဘိုင်ဂျန်တူရကီလူမျိုးများဖြစ်၍၊ ကျန်လူဦးရေမှာ အာမီနီးယန်း၊ ဂျော်ဂျီယန်းနှင့် ရုရှလူမျိုးများ ဖြစ်ကြသည်။ မူလတန်း၊ အလယ်တန်းနှင့် အထက်တန်းကျောင်းပေါင်း မြောက်မြားစွာရှိသည့်ပြင် စက်မှုအတတ်သင် ကောလိပ်ကျောင်းပေါင်း ၇၉ ကျောင်း ရှိသည်။ ဗားကူးတက္ကသိုလ်ကျောင်းနှင့် ဆေးသိပ္ပံကျောင်းတွင် ကျောင်းသားပေါင်း ၃,၀၀၀ ကျော် ရှိသည်။ အဇာဘိုင်ဂျန် သိပ္ပံပညာတံခွန်ကျောင်းတွင် သုတေသနအဖွဲ့ပေါင်း ၂၅ ဖွဲ့ရှိ၍ သုတေသီပုဂ္ဂိုလ်ပေါင်း ၅၅၀ ခန့် ရှိသည်။

အဇာဘိုင်ဂျန်ပြည်နယ်သည် အီရန်နိုင်ငံ၏ အနောက်မြောက်ပိုင်းတွင် တည်ရှိသည်။ရှေးအခါက အက်ထရိုးပတီနီဟုခေါ်သည်။ထိုနယ်၏မြောက်ဖက်တွင်အဇာဘိုင်ဂျန်နိုင်ငံ၊ အနောက်ဖက်တွင် တူရကီနှင့်အီရက်နိုင်ငံ၊ တောင်ဖက်တွင် ကာဒက်စတန်ပြည်နယ်၊ အရှေ့ဖက်တွင် ခမ်မဆဲနှင့်ဂီလန်ပြည်နယ်တို့ အသီးအသီး တည်ရှိ၏။ စတုရန်းမိုင် ၄၃,၁၅၀ ကျယ်ဝန်း၍ တောင်ထူထပ်သော ပြည်နယ်ဖြစ်သည်။ မိုးလည်းပါးသည်။ သို့သော် မြစ်ချောင်းများမှာ ဆီးနှင်းများ မပြတ် အရည်ပျော်ကျလာတတ်သောကြောင့် တနှစ်လုံး ရေပြတ်သည်မရှိပေ။ အီရန်နိုင်ငံ မြေသြဇာအထက်သန်ဆုံးသောဒေသများတွင် အပါအဝင်ဖြစ်သည်။

အဇာဘိုင်ဂျန်ပြည်နယ်တွင် ခဲ၊ သံ၊ ကြေးနီနှင့် အခြားဓာတ်သတ္တုများ ထွက်သည်။ သိုးမွေးချည်လည်း ထွက်သည်။ မြစ်ဝှမ်းများတွင် ဂျုံ၊စပါး၊မုယောစပါး၊ဖူးပြောင်း၊ ဘီသွာလျော်စသည်တို့ကို စိုက်ပျိုးလုပ်ကိုင်သည်။ ကုလားအုပ်၊ မြင်းနှင့်နွားများကိုလည်း မွေးမြူသည်။

အဇာဘိုင်ဂျန်ပြည်နယ်ကို အုပ်ချုပ်ရေးအလို့ငှာ အရှေ့အဇာဘိုင်ဂျန်ပြည်နယ်နှင့် အနောက်အဇာဘိုင်ဂျန်ပြည်နယ်ဟု ခွဲခြားထား၏။ အရှေ့အဇာဘိုင်ဂျန်ပြည်နယ်၏လူဦးရေမှာ ၂.၆ သန်း (၁၉၆၆)ဖြစ်၍ အနောက်အဇာဘိုင်ဂျန်ပြည်နယ်၏ လူဦးရေမှာ ၁ သန်း(၁၉၆၆)ဖြစ်သည်။

တာဗရစ်မြို့သည် အရှေ့ အဇာဘိုင်ဂျန်ပြည်နယ်၏ မြို့တော်ဖြစ်၍ ရီဇာယဲမြို့သည် အနောက် အဇာဘိုင်ဂျန်ပြည်နယ်၏မြို့တော်ဖြစ်သည်။

**အဇိတထေရ်။** ။အဇိတထေရ်သည် သာဝတ္ထိပြည့်ရှင်ဘုရင်ကောသလမင်းကြီး၏ လေးလေး မြတ်မြတ်ဆည်းကပ်ကိုးကွယ်ထားသည့်မင်းဆရာနှင့်ပုဏ္ဏားမတို့၏သားဖြစ်သည်။ အဇိတသတို့သား ဖွားမြင်စဉ်အခါက ဂေါတမမြတ်စွာဘုရားပွင့်တော်မမူသေးပေ။ အရွယ်သို့ရောက်လတ်သော် အိမ်ရာထောင်သည့်လူ့ဘောင်တွင် မမွေ့လျော်သဖြင့် ဗာဝရီရသေ့ကြီးထံတွင် ရသေ့ကလေးပြုလုပ်နေလေသည်။

ဗာဝရီရသေ့ကြီးကား ယောကျ်ားမြတ် လက္ခဏာနှင့်ပြည့်စုံသည့်ပြင် ဗေဒင်သုံးပုံနှင့်တကွ ကျမ်းဂန်အရပ်ရပ်ကို တတ်မြောက်သဖြင့် အိန္ဒိယနိုင်ငံ တဝှန်းလုံးမှ မင်းအပေါင်းနှင့်တကွ တိုင်းသူပြည်သားတို့၏ ဝပ်တွားကော်ရော် ပူဇော်ခြင်းကို ခံရလေသည်။ တပည့်ရသေ့ပေါင်းများစွာနှင့် ဂေါဓာဝတီမြစ်ကမ်းအနီးတွင် တိုက်တာအာရာမ်ကြီးဖွဲ့ပြီးလျှင် တခမ်းတနားနေထိုင်၏။ ထိုအခိုက်တွင် လောကသုံးပါး၌ ဂေါတမရှင်တော်မြတ်ဘုရားသည် ထင်ရှားစွာ ပွင့်၍လာလေသည်။ ဗာဝရီရသေ့ကြီးသည် သစ္စာလေးပါးကိုသိမြင်သည့် ဘုရားရှင်ပွင့်တော်မူကြောင်းကြားသိသောအခါ ဘုရားစစ်ဘုရားမှန် ဟုတ်မဟုတ်သိလိုသဖြင့် တပည့်ဖြစ်သော အဇိတရသေ့ကလေးအားဆောက်လှမ်းစုံစမ်းရန် ဘုရားရှင်ရှိရာသို့ စေလွှတ်လိုက်လေသည်။

အဇိတရသေ့သည် အဖော်ရသေ့များနှင့်အတူ ဘုရားရှင်ရှိရာသို့သွား၍ ရောက်သောအခါ မဟာပုရိသလက္ခဏာတော်ကြီးများနှင့်တကွ ဘုရားစင်စစ်အမှန်ဖြစ်သည့် နိမိတ်များကို စုံစမ်းစစ်ဆေးကြည့်ရှု၏။ ဘုရားစင်စစ်ကေန်ဖြစ်ကြောင်း သိရသည်နှင့် အဇိတရသေ့သည် နှုတ်မမြွက်ပဲ စိတ်ဖြင့်သာလျှင် ပုစ္ဆာများကို မေးမြန်းလေသည်။ ရှင်တော်ဘုရားကလည်း မေးမြန်းသည့်ပုစ္ဆာအရပ်ရပ်ကို စိတ်တော်ဖြင့်သာလျှင် ဆုံးဖြတ်ဖြေကြားတော်မူ၏။ အဇိတရသေ့သည် အလွန်ကြေနပ်ဝမ်းမြောက်ပြီးလျှင် ဘုရားရှင်၌ သဒ္ဓါတရားဖြင့် လွန်စွာကြည်ညိုရကား သာသနာ့ဘောင်သို့ဝင်ရန် ရဟန်းပြုလေသည်။ ရဟန်းဖြစ်ပြီးသည့်အခါ၌လည်း အဇိတထေရ်ဟူ၍ပင် ထင်ရှားကျော်စောလေသည်။ ရဟန်းဖြစ်ပြီးသည့်အခါ ဘုရားထံမှ သင့်လျော်သည့် ကမ္မဋ္ဌာန်းကိုတောင်း၍ ဆိတ်ငြိမ်ရာသို့ကပ်ပြီးလျှင် ဝိပဿနာတရားအားထုတ်ရာ၌ ပါရမီအလျောက် မကြာမီပင် မြင့်မြတ်သော ရဟန္တာအဖြစ်သို့ဆိုက်ရောက်တော်မူလေသည်။

**အဇေလီယာပင်။** ။အဇေလီယာပင်သည် လှပသော ပန်းပွင့်များပွင့်သည့် ချုံပင်မျိုးဖြစ်၍ အီရီကေးစီအီးမျိုးရင်းတွင် ပါဝင်သည်။ ယင်းအပင်မျိုးသည် ဥရောပတိုက်၊ အာရှတိုက်နှင့် မြောက်အမေရိကတိုက်တို့တွင် အနှံ့အပြားပေါက်ရောက်၍ ဟိမဝန္တာ တောင်တန်းနှင့် တရုပ်နိုင်ငံအနောက်ပိုင်းတို့တွင် အများဆုံး ပေါက်သည်။ အခြားအမျိုးတူအပင်များကဲ့သို့ အမြဲစိမ်းသော အပင်မျိုးမဟုတ်ပဲ ရွက်ပြတ်ပင်ဖြစ်သည်။ အဇေလီယာပင်သည် အမြင့်ခုနစ်ပေအထိမြင့်၍ အချို့မှာ ထိုထက်နိမ့်သည်။ အဇေလီယာပင်အမျိုးမျိုးရှိရာ ပန်းဝါသနာပါသောသူများသည် ဥယျာဉ်များတွင် စိုက်ပျိုးကြသည်။ ထိုပန်းပင်မျိုးတွင် ဂင့် အဇေလီယာ ပင်သည် အလှပဆုံး ဖြစ်သည်။ ထိုဂင့် အဇေလီယာပန်းပင်မျိုးကို ဗဲလဂျီယန်လူမျိုး ဥယျာဉ်မှူးကြီးတဦးက စတင်မျိုးစစ် စိုက်ပျိုးခဲ့သည်။ ယင်း ဂင့် အဇေလီယာပန်းသည် အလွန်လှပသောကြောင့် ဗဲလဂျီယန်လူမျိုးတို့၏ အမျိုးသားပန်း ဖြစ်ခဲ့လေသည်။

အဇေလီယာပင်အမျိုးမျိုးရှိသည်နှင့်အမျှ ပန်းပွင့်များမှာလည်း ပန်းရောင်၊ အနီ၊ အဖြူ၊ အဝါနှင့် ခရမ်းရောင်



ဟိမဝန္တာတောင်တန်းနှင့် တရုပ်နိုင်ငံအနောက်ပိုင်းတွင် အများဆုံး ပေါက်သည့် အဇေလီယာပင်၏ အရွက်နှင့် အပွင့်

ဟူ၍ အရောင်အမျိုးမျိုးရှိသည်။ အပွင့်များမှာ အဆုပ်လိုက် အခိုင်လိုက်မဟုတ်ပဲ တပွင့်နှင့်တပွင့် ခပ်ကျဲကျဲရှိကြ၍ပွင့်ဖတ်အုံမှာ ကတော့ပုံရှိသည်။ဝတ်မှုန်တံများသည်ပွင့်ဖတ်များကိုလွန်၍ အလွန်ရှည်စွာ ထွက်လျက်ရှိကြသည်။ အစေ့များသည် အတွင်းရှိရှည်လျားလျားခွက်ကလေးထဲ၌ အမွေးများဖုံးလျက်ရှိသည်။ အချို့အရွက်များသည် ရှည်မျောမျောဖြစ်၍ အချို့အရွက်များမှာ ဘဲဥပုံရှိကြသည်။

အချို့အဇေလီယာပင်မျိုးတွင် အပွင့်သည် စေးကပ်သော အမွေးများ ဖုံးလျက်ရှိသောကြောင့် ပရွက်ဆိတ်များဝင်၍ ပန်းဝတ်ရည်ကို မသောက်စားနိုင် ကြချေ။ မသောက်စားနိုင်ခြင်းကြောင့် အပင်မျိုးပွားမှုအောင်မြင်နိုင်လေသည်။

မြောက်အမေရိကတိုက်၌ အဇေလီယာပင် အမျိုးပေါင်း ၄၀ ခန့် တွေ့ရသည်။ ပန်းများသည် မေနှင့်ဇွန်လများတွင် ပွင့်ကြ၍ ထိုအခါတွင် ရေများများလောင်းပေးရသည်။ "အဇေလီယာ" ဆိုသည်မှာ ဂရိဘာသာစကားဖြစ်၍ ခြောက်သွေ့သည်ဟု အဓိပ္ပါယ်ရသည်။ ထိုကဲ့သို့ အဓိပ္ပါယ်ရသည့်အတိုင်း ယင်းအပင်မျိုးသည် ခြောက်သွေ့သော သဲမြေများတွင်ရင်း၊ ကျောက်မြေများတွင်ရင်း ကောင်းစွာဖြစ်ထွန်းသည်။

**အဇော့ပင်လယ်။** ။အဇော့ ပင်လယ်သည် ရုရှနိုင်ငံတောင်ဖက်ရှိ ကုန်းတွင်းပင်လယ်ကလေးတခု ဖြစ်သည်။ ပင်လယ်ဟုဆိုရသော်လည်း စင်စစ် ပင်လယ်ကွေ့ကြီးမျှသာဖြစ်သည်။ ကာ့ချရေလက်ကြားသည် အဇော့ပင်လယ်နှင့် ပင်လယ်နက်ကို ဆက်စပ်ထားလျက်ရှိသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၄,၅၂၀ ခန့်ရှိ၍ အရှည်ဆုံးအလျားမှာ ပေးရေးကော့ကျွန်းဆက်မှ ဒွန်းမြစ်ဝအထိ မိုင်ပေါင်း ၂၂၀ ဖြစ်ပြီးလျှင် အကြီးဆုံးအနံမှာ မိုင်ပေါင်း ၁၁၀ ဖြစ်သည်။ အနက်ဆုံးနေရာမှာ ပေ ၅၀ ရှိ၍ အချို့နေရာများတွင် ဆယ်ပေလောက်သာနက်သည်။ ပင်လယ်တွင် နေရာအတော်ခပ်များများ၌ သင်္ဘောကလေးများပင်သွားလာခုတ်မောင်းခြင်းမပြုနိုင်ချေ။ မကြာခဏ ဖြစ်ပေါ်သော လေမုန်တိုင်းဒဏ်ကြောင့် ရေကြောင်းအမျိုးမျိုးပြောင်းလဲသည့်ပြင် ဒီဇင်ဘာလမှ မတ်လအထိလည်း ရေခဲလျက်ရှိလေသည်။

အဇော့ပင်လယ်ထဲသို့ စီးဝင်သောမြစ်များတွင် ဒွန်မြစ်သည် အကြီးဆုံး ဖြစ်သည်။ အဇော့ပင်လယ်ရေသည် အတော်အသင့်ချိုသဖြင့် ငါးများအလွန်ပေါရကား ထိုဒေသတဝိုက်တွင် ငါးခြောက်လုန်းသော လုပ်ငန်းသည် ကြီးကျယ်သောလုပ်ငန်းဘရပ်ဖြစ်သည်။ ဤပင်လယ်ဒေသတဝိုက်တွင် မြေလျှင်ရုံဖန်ရုံခါလှုပ်တတ်ရာ ခရစ် ၁၇၉၉

ခုနှစ်ကလှုပ်သော မြေလျှင်ဒဏ်ကြောင့် ပင်လယ်တွင်းရှိ ကျွန်းတကျွန်းမှာ စုံးစုံးမြုပ်သွားလေသည်။ ပင်လယ် ကမ်းခြေတလျှောက်တွင် အိုဆီပင်ကိုမြို့၊ ဇဒါနော့မြို့၊ ရော့စ တော့မြို့၊ တဂန်ရော့မြို့နှင့် ယီနီကလီမြို့များအပါအဝင် မြို့ကြီးများရှိသည်။

အဇော့ပင်လယ်ကမ်းပေါ်တွင် ဒုတိယကမ္ဘာစစ်အတွင်း ၁၉၃၉ ခုနှစ်မှ ၁၉၄၅ ခုနှစ်အထိ ပြင်းထန်သော ရုရှ–ဂျာမန် တိုက်ပွဲပေါင်းများစွာ ဖြစ်ခဲ့သည်။၁၉၄၁ ခုနှစ် အောက်တို ဘာလ၌ ဂျာမန်စစ်တပ်ကြီးတတပ်သည် အရှေ့ဖက် ရော့စ တော့မြို့ဆီသို့ ထိုးဖောက်ဝင်ရောက်တိုက်ခိုက်၍ အခြား တပ်တတပ်ကမူ ကရိုင်းမီးယားကျွန်းဆွယ်ကို ချင်းနင်း ဝင်ရောက်တိုက်ခိုက်ခဲ့လေသည်။ ရုရှလူမျိုးတို့သည် ထို ထိုးစစ်ဒဏ်ကိုမခံနိုင်၍ ဆုတ်ခွာသွားရသဖြင့် နိုဝင်ဘာလ ၂၂ ရက်နေ့တွင် ဂျာမန်တို့က ရော့စတော့မြို့ကို သိမ်းပိုက် လိုက်ကြောင်း ကြေညာခဲ့လေသည်။ သို့သော် ရက်သတ္တ တပတ်အတွင်းမှာပင် ရုရှတို့က ဂျာမန်တို့ကို တိုက်ထုတ် လိုက်လေသည်။ ၁၉၄၂ ခုနှစ် ဖေဖွာရီလတွင် ထိုမြို့ကို ဂျာမန်တို့ကတဖန် သိမ်းပိုက်လိုက်ကြပြန်သည်။ သို့သော် ထိုနှစ်ဒီဇင်ဘာလတွင် ရုရှတို့က ဂျာမန်တို့ကို ထိုဒေသများ မှ နောက်ဆုံးအပြီးအပိုင် တိုက်ထုတ်လိုက်ကြလေသည်။

အဇော့မြို့သည် ဒွန်းမြစ်ပေါ်၌ရှိ၍ အဇော့ပင်လယ် ထဲသို့ စီးဆင်းရာမြစ်ဝမှ ဆယ်မိုင်ခန့်ဝေးသောနေရာတွင် တည်ရှိသည်။ ငါးဖမ်းလုပ်ငန်းသည် ထိုမြို့၏ကြီးကျယ်သော လုပ်ငန်းဖြစ်သော်လည်း သင်္ဘောဆိပ်တွင် နုံးနုန်းမြေများ တင်ခြင်းကြောင့် မြို့သည် တဖြည်းဖြည်းဆုတ်ယုတ်ခဲ့လေ သည်။ ရုရှလူမျိုးတို့သည် အဇော့မြို့ကို ၁၆၉၆ ခုနှစ်က တူရကီလူမျိုးတို့လက်မှ တိုက်ခိုက်သိမ်းယူပြီးနောက် ၁၇၁၁ ခုနှစ်တွင် ပြန်ပေးခဲ့လေသည်။ သို့သော် ၁၇၃၉ ခုနှစ်တွင် ယင်းမြို့သည် နောက်ဆုံး ရုရှတို့၏အပြီးသတ်ပိုင်ဆိုင်သော မြို့ ဖြစ်ခဲ့လေသည်။ မြို့၏လူဦးရေမှာ ၁၇,၀၀၀ ခန့်ရှိသည်။

**အဇန္တလိုဏ်ဂူ**။ ။အိန္ဒိယသမတနိုင်ငံ၊ယခင်ဟိုက်ဒရဗတ် ပြည်နယ် ယခုမဟာရဋ္ဌပြည်နယ်၏မြောက်ဖက် နယ်စပ်တွင် ရှိသော အဇန္တလိုဏ်ဂူသည် ဗိသုကာ၊ ပန်းတမော့နှင့်ပန်းချီ အတတ်တည်းဟူသော အနုပညာသုံးရပ်၏ အကောင်းဆုံး လက်ရာများကို တပေါင်းတည်း တပြိုင်တည်း တွေ့ရှိရ သဖြင့်ထင်ရှားကျော်ကြားလေသည်။

အဇန္တလိုဏ်ဂူများရှိရာဒေသသည်ပင် သာယာကြည်နူး ဖွယ်ရာကောင်းပေသည်။ ထိုဒေသသည် အိန္ဒိယနိုင်ငံ မြောက်ပိုင်းနှင့် တောင်ပိုင်းအစပ်၊ အညဒြီတောင်ကုန်း ဒေသတွင်ပါဝင်၍၊ စိမ်းလန်းစိုပြည်သောသစ်ပင်တောအုပ် တို့ဖြင့် ဖုံးလွှမ်းလျက်ရှိပြီးလျှင် လျှိုမြောင်ချောက်ကမ်းပါး တို့လည်းပေါများသည်။ ဝါဂုရမြစ်သည် ဒက္ခိဏကုန်းပြင် မြင့်၏ မြောက်ဖက်ဆင်ခြေလျှောကို ဖြတ်သန်းလာရာ၊ ထို အရပ်ဘွင် တတောင်ဆစ်ချိုးကွေ့လျက် ဗိရာနယ်နှင့်တပ္ပတိ မြစ်ဝှမ်းမြေပြန့်ဒေသသို့ စီးဝင်လေသည်။တတောင်ဆစ်ချိုး အကွေ့နေရာ၌ ကျောက်တောင်တို့သည် ဆန်းစ လ၏ ပုံသဏ္ဌာန် ခပ်ကွေးကွေးတည်ရှိကြသည်။ ဆိုခဲ့သောဝါဂုရ မြစ်သည် ထိုနေရာ၌ နက်ရှိုင်းမတ်စောက်သော ချောက် ကမ်းပါးကိုဖြစ်စေလျက် စီးဆင်းသည်။ထိုချောက်ကမ်းပါး ၏အဆုံး၌ ရေတံခွန်ခုနစ်ခုရှိသည်။ ယင်းသို့ ထူးခြားသော အနေအထားဖြင့်ရှိနေသည့် ကျောက်တောင်များနှင့် လျှို၊ မြောင်၊ ချောက်ကမ်းပါး၊ ရေတံခွန်၊ စိမ့်စမ်းတို့သည် ထို ဒေသကို သာယာကြည်နူးဖွယ်ရာ တောတောင်သေလာ အဖြစ် ဖန်တီးပေးကြလေသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်ပေါင်း ၃၀၀ ခန့်အလွန်တွင် သာယာရှုမောဖွယ်ကောင်း၍ လူသူပေါက် ရောက်ရန်ခဲယဉ်းသော ထိုဒေသသို့ ဗုဒ္ဓဝါဒီရဟန်းတော် တစုတို့ရောက်ရှိလာသည်။ထိုဒေသသည် ဝါတွင်းမိုးကာလ၌ ဝါကပ်၍ ပရိယတ္တိ၊ ပဋိပတ္တိတို့ကိုလေ့လာပြီးလျှင် ကမ္မဋ္ဌာန်း တရားအားထုတ်ရန်အတွက် လျောက်ပတ်သင့်လျော်သဖြင့် ထိုအရပ်၌ လိုဏ်ဂူတို့ကို ကျောင်းသင်္ခမ်းပြုကာ သီတင်း သုံးကြရန် ဆုံးဖြတ်ခဲ့ကြဟန်တူပေသည်။ဗုဒ္ဓရှင်တော်ဘုရား ကလည်း တပည့်သားသံဃာတော်တို့နေအပ်သော ဌာန ငါးပါးတွင် လိုဏ်ဂူကျောင်းသင်္ခမ်းကိုလည်း ဘပါးအဖြစ် ထည့်သွင်းခဲ့လေသည်။

ရဟန်းတော်တို့သည် လူသူကင်းဝေး၍ ဆိတ်ငြိမ် သာယာသော ထိုအရပ်ဘွင် မိမိတို့အတွက် သင့်သင့် လျောက်ပတ်ရုံမျှ ဂူလိုဏ်ဘို့ကိုပြုပြင်၍ ကျောင်းသင်္ခမ်း ပြုကာ မူလကသီတင်းသုံးခဲ့ဟန်တူသော်လည်း ထိုရဟန်း တို့၏ ဂုဏ်သိဘင်းပျံ့နှံ့၍ အနီးအနားမှ သဒ္ဓါကြည်ညိုသူ ဒါယကာများ ပေါပေါက်လာဟန်ရှိသည်။ ထိုဒါယကာ များသည် လိုဏ်ဂူများကို ရဟန်းများအဘွက် မွေ့လျော် ဖွယ်ရှိသော ဝိဟာရ(ကျောင်း)များအဖြစ်ရောက်အောင် တစတစ တိုးချဲ့မွမ်းမံပေးကြဟန်တူပေသည်။ ထိုကြောင့် ၁၉၅၅ ခုနှစ်အထိ ထိုအရပ်၌တွေ့ရှိရသော လိုဏ်ဂူအကြီး အသေး ၃၁ ခုအနက် ရဟန်းများ သီတင်းသုံးသော ဂူကျောင်း(ဝိဟာရ)အချို့ကို ရှေးအကျဆုံးလက်ရာများ အဖြစ် တွေ့ရှိရလေသည်။

ထိုလိုဏ်ဂူများတွင် ဝိဟာရ(ကျောင်း)နှင့် စေတီယ (ဘုရားဘန်ဆောင်း)ဟူ၍ နှစ်မျိုးနှစ်စား တွေ့ရသည်။ ထို ကျောင်းနှင့် တန်ဆောင်းများ၏ အခြေအနေကို ဆောက်ဆ၍ရင်း၊ ယင်းတို့၏ အမွှမ်းအမံအပြင်အဆင် တို့ကို ထောက်ဆ၍ရင်း ထိုလိုဏ်ဂူများသည် တခေတ်တည်း



အဇန္တလိုဏ်ဂူတွင်တွေ့ရသောနံရံပန်းချီ။ ဗုဒ္ဓဝင်မှ လွမ်းစရာဆွေးစရာများကို ဤပန်းချီတွင်တွေ့နိုင်၏။

တွင် ပြုပြင်ဖန်တီးခဲ့သည်မဟုတ်ပဲ ခရစ်မပေါ်မီနှစ်ရာစုနှစ်ခန့်ကမှသည် ခရစ်နှစ်ရှစ်ရာစုနှစ်ခန့်တိုင်အောင် နှစ်ပေါင်း ၁,၀၀၀ နီးပါးခန့်အတွင်း၌ တစတစ တိုးချဲ့လုပ်ကိုင်ခဲ့ကြောင်း သိရလေသည်။ ထိုဒေသ၏ ဂုဏ်သတင်းသည် တစတစ ပျံ့နှံ့ခဲ့သဖြင့် နှစ်ပေါင်း ၁,၀၀၀ ခန့်အတွင်း အဇန္တလိုဏ်ဂူများတွင် သီတင်းသုံးရဟန်းတော်များဖြင့် အဆက်မပြတ် စည်ကားခဲ့ဟန်တူပေသည်။ သို့သော် ဝိဟာရများ၏ အနေအထား အရေအတွက်ကို ထောက်ဆ၍ ထိုလိုဏ်ဂူများတွင် တကြိမ်လျှင် ရဟန်း ၃၀၀ ခန့်သာလျှင် သီတင်းသုံးနိုင်မည်ဟု ခန့်မှန်းကြလေသည်။ ထိုလိုဏ်ဂူများသည် ရဟန်းများသီတင်းသုံးရာ သံဃာရာမတခုဖြစ်ကြောင်းကို ခရစ်နှစ် ၆၄၀ ခန့်က အိန္ဒိယနိုင်ငံသို့ ဘုရားဖူးရောက်ရှိလာသော တရုပ်ပညာရှိ ခရီးသည်ကြီး ဟူအင်ဆန်က ယင်း၏ ခရီးသွားမှတ်တမ်းတွင် ဖော်ပြခဲ့လေသည်။

သီတင်းသုံးရဟန်းများ များပြားလာသောအခါ သဒ္ဓါတရားထက်သန်သောဒါယကာများကလည်းလိုဏ်ဂူများကို ပိုမိုတည်ဆောက်ကာ တခမ်းတနား မွမ်းမံခဲ့ကြသည်ဟု ယူဆရသည်။ လိုဏ်ဂူများကို တည်ဆောက်မွမ်းမံသည့် လက်ရာများသည် အနုပညာမြောက်လှသဖြင့် ယင်းတို့ကို သီဘင်းသုံးရဟန်းတော်များကိုယ်တိုင် လုပ်ကိုင်ခဲ့သည်ဟု မတွက်ဆနိုင်ချေ။ ယင်းတို့သည် ကျွမ်းကျင်လက်မြောက်သည့် အနုပညာသည်များ၏လက်ရာများ ဖြဲကြပေသည်။ အထူးသဖြင့် နောက်ပိုင်းကျသော ခရစ်နှစ်ခြောက်ရာစု၊ ခုနစ်ရာစုခေတ် လက်ရာများသည်အလွန်အနုပညာမြောက်ကြကြောင်း တွေ့ရပေသည်။ အနုပညာမြောက်လှစွာဖြင့် တခမ်းတနား ပြုပြင်မွမ်းမံထားသည်များကို ထောက်ထား၍ အဇန္တလိုဏ်ဂူဒါယကာများတွင် ကုံလုံကြွယ်ဝသူအများအပြားပါဝင်၍၊ ရေမြေ့ရှင်ဘုရင်တပါးပါးပင် ပါဝင်ကောင်းပါဝင်ပေလိမ့်မည်။ အကြောင်းမူ လိုဏ်ဂူများကို ထုထွင်းမွမ်းမံထားသည့်လက်ရာများသည် အလွန်ကျွမ်းကျင်သည့် အနုပညာသည်များ၏လက်ရာဖြစ်သည့်ပြင် သာမန်လူတန်းစားတို့သည် ယင်းသို့ ခက်ရာခဲဆစ်နေရာတွင် ယင်းသို့

ကြီးကျယ်ခမ်းနားသော အဆောက်အအုံ ကြီးများကို ဖန်တီးဆောက်လုပ်လှူဒါန်းနိုင်ကြမည် မဟုတ်ပေ။ ထိုပြင် ကျောက်တောင်ကျောက်သားကို ထိုကဲ့သို့သောဂူကျောင်း တန်ဆောင်းများအဖြစ် ဖန်တီးရသည့် ဗိသုကာလုပ်ငန်း အတွက်လည်း လုပ်သားထုအမြောက်အမြား လိုအပ်သော ကြောင့်ပေတည်း။ အချို့ သုတေသီပုဂ္ဂိုလ်တို့၏အယူအဆ မှာ ထိုအဆောက်အအုံများကို တခမ်းတနား ဖန်တီးမွမ်းမံ သည့်ခေတ်သည် အိန္ဒိယတောင်ပိုင်း ဒက္ခိဏကုန်းပြင်မြင့်၌ ဝေကေတကနှင့် စာလုကျမင်းများ ထွန်းကားသည့်ခေတ်ဟု ဆိုကြသည်။ ပလ္လဝမင်းများ ကြီးစိုးလာသောအခါ ထို လုပ်ငန်းကြီးများ တဖြည်းဖြည်း ရပ်ဆိုင်းသွားလေသည်။

အပြီးမသတ်ရသေးသောလိုဏ်ဂူတခုကို လေ့လာကြည့် ရသူများကမူ ထိုဂူကျောင်းတန်ဆောင်းများကို အသေး စိတ် တိကျသေချာစွာ ပန္နက်ပုံရိုက်ပြီးမှ ကျောက်သားကို ဖောက်ထွင်းဆောက်လုပ်ခြင်း ဖြစ်ရမည်ဟု ဆိုကြသည်။ အချို့ လိုဏ်ဂူများသည် ကျောက်တောင်အတွင်းသို့ ပေ ၁၀၀ ခန့်ဝင်အောင်ထွင်း၍ ဂူကျောင်းတန်ဆောင်းများ အဖြစ် ဖန်တီးထားသည်။ ယင်းသို့ ထွင်းနိုင်ခြင်းသည်ပင် ဗိသုကာပညာဖက်၌ စွမ်းဆောင်မှုတရပ်ဖြစ်ပေသည်။အချို့ လိုဏ်ဂူများမှာ နှစ်ထပ်သုံးထပ်ရှိသည်။ လိုဏ်ဂူတခုသည်မူ အိန္ဒိယ၌ အနုပညာလက်စွမ်းပြ အကောင်းဆုံးသောဝိဟာရ တခုဟု ဆိုကြသည်။ များစွာသော ဝိဟာရလိုဏ်ဂူများ၏ အဝင်ပေါက်အပေါ်တွင် မြင်းခွာပုံသဏ္ဍာန် လေသာပြတင်း များရှိလေရာ ထိုပြတင်းများမှဝင်ရောက်လာသော အလင်း ရောင်အားဖြင့် အတွင်းပိုင်းအဆုံးတွင်ရှိသော ဝတ်ပြု ဆောင်ရှိ ထူပါရုံ၊ သို့မဟုတ် ဗုဒ္ဓရုပ်ပွားတော်ကို နေ့အခါ လင်းလင်းချင်းချင်းရှိစေအောင် ဖန်တီးထားလေသည်။ ဗိသုကာပညာသည်များက ယင်းသို့ ကျောက်သားကို ဖောက်ထွင်း၍ ပုံကြမ်းဖော်ပြီးနောက်တွင် ပန်းတမော့ ပညာသည်နှင့် ပန်းချီပညာရှင်တို့က မျက်နှာစာများ၊ တိုင်လုံးများ၊ မျက်နှာကျက်များတွင် အနုစိတ်ပုံဖော်ကာ လက်စွမ်းပြထားကြလေသည်။

လိုဏ်ဂူများကို နှစ်ပေါင်း ၁,၀၀၀ ခန့်အတွင်း ခေတ် အမျိုးမျိုးကိုဖြတ်ကျော်၍ ရှည်လျားသောကာလအတွင်း တစတစ တိုးချဲ့ဆောက်လုပ်ခဲ့ကြောင်းကို ဆိုခဲ့သည်။မူလက ရဟန်းတော်များ သီတင်းသုံးရန် ဝိဟာရများကိုသာ စတင် ပြုလုပ်ခဲ့ကြသော်လည်း နောင်အခါ သီတင်းသုံးရဟန်းများ တိုးပွားလာသည့်အခါ စည်းဝေးခန်းမဆောင်များပါဝင် သော ဘုရားကျောင်းတန်ဆောင်းများကိုလည်း ထွင်း ဖောက်တည်ဆောက်ခဲ့ကြသည်။ အထူးသဖြင့် ခမ်းနား ကြီးကျယ်၍ အနုပညာမြောက်သော လက်ရာများဖြင့် ပြီးသည့် လိုဏ်ဂူများသည် ခရစ်ခုနှစ်ရာစုနှစ်နှင့် ရှစ်ရာစုနှစ် အတွင်း ဂုတ္တမင်းများခေတ်က လိုဏ်ဂူများဖြစ်ကြသည်။ ထိုခေတ်သည် အိန္ဒိယ၌ ပန်းတမော့အတတ်နှင့် ဗိသုကာ ပညာတို့ အလွန် ထွန်းကားပြောင်မြောက်သောခေတ် ဖြစ်ပေသည်။ ထို့ကြောင့်လည်း ထိုဂူများမှ အနုပညာ သုံးရပ်၏ လက်ရာများသည် အံ့မခန်းဖွယ်ရာဖြစ်ကြောင်း တွေ့ရပေသည်။ ထိုခေတ်လက်ရာဖြင့်ပြီးသော လိုဏ်ဂူများ ကိုလည်း ပိုမို တွေ့ရှိရသဖြင့် အဇန္တလိုဏ်ဂူများကို ဂုတ္တ ခေတ်တွင် ပိုမို တိုးချဲ့လုပ်ကိုင်ခဲ့သည်ဟု ခန့်မှန်းရလေသည်။

လိုဏ်ဂူများကို မတ်စောက်စောက်တောင်ခါးပန်း၏ ခုလတ်တွင် ဖောက်ထွင်းပြုလုပ်ထားသည်။ ခြားနားချက် ရှိသဖြင့် ဝိဟာရနှင့်ဘုရားတန်ဆောင်းဟူ၍ လိုဏ်ဂူနှစ်မျိုး နှစ်စားရှိကြောင်း ဆိုခဲ့ခြင်းဖြစ်ရာ၊ ထိုခြားနားချက်ကား ဝိဟာရများတွင် အရှေ့မျက်နှာစာ၌ ကျယ်ဝန်းသော ဆင်ဝင်လသာဆောင်များရှိ၍ အတွင်းဖက်၌ အဝင်ပေါက် ကိုမျက်နှာမူလျက် ဘုရားဝတ်ပြုဆောင်ရှိလေသည်။အကြီး ဆုံးသော လိုဏ်ဂူတခုသည် ၇၉ ပေ ပတ်လည်ရှိသည်။ အရှည်လျားဆုံးသောလိုဏ်ဂူသည် ၉၄ ပေ ရှိသည်။ များ သောအားဖြင့် လိုဏ်ဂူအမိုးအမြင့်သည် ပေ ၂၀ ကျော် ရှိသည်။ ဘုရားတန်ဆောင်းများတွင် ကျောက်သားကို ထုထွင်း၍ ပန်းတမော့လက်ရာဖော်ထားသော ကျောက် တိုင် လုံးကြီးများသည် မျက်နှာကျက်ကို ထောက်ပင့် ထား၍ ထိုတိုင်လုံးကြီးများအားဖြင့် ဘုရားဝတ်ပြုရာ နေ ရာနှင့်စင်္ကြံတို့ကို အခန်းဖွဲ့၍ ပိုင်းခြားထားသည်။ ဝိဟာရ များတွင်မူ နံရံသုံးဖက်တလျှောက် မျက်နှာကျက်ကို ထောက်မ ထားသော တိုင်လုံးများရှိ၍၊ ရဟန်းများ သီတင်းသုံးသော ဂူပေါက်အခန်းငယ်များသည် အလယ် ခန်းမဆောင်ဖက်ကို မျက်နှာမူလျက် နံရံသုံးဖက်ပတ်လည်၌ ရှိကြသည်။ ဝိဟာရများ၏ ဆင်ဝင်ဖက်မျက်နှာစာ၌လည်း ပန်းတမော့လက်ရာရုပ်လုံး၊ ရုပ်ကြွ၊ အပြောက်အမွမ်းတို့ဖြင့် လက်စွမ်းပြထားပြီးလျှင်၊ ဆင်ဝင်ကိုထောက်မ ထားသော ကျောက်သားတိုင်လုံးကြီးများကိုလည်း တင့်တယ်ခံ့ညား သော ပန်းတမော့အနုပညာလက်ရာတို့ဖြင့် ပုံဖော်ထား လေသည်။

ကျောက်တောင်ကြီး၏ ကျောက်သားကို ဖဲ့ထုတ်ထု ထွင်း၍ ထိုကဲ့သို့သော ခမ်းနားကြီးကျယ်သည့် ဂူကျောင်း၊ တန်ဆောင်းအဖြစ် ဖန်တီးရခြင်းသည် အလွန် ခက်ခဲ လက်ဝင်လှ၍ တိကျမှုလိုအပ်လှပေသည်။ ကျောက်ဆတ် သမားသည် တနေရာ၌ တချက်ကလေးတိမ်းသွားရုံမျှနှင့် အဆောက်အအုံကြီးတခုလုံးအတွက် ပုံပျက်ပန်းပျက်ဖြစ် သွားနိုင်ပေရာ အဇန္တလိုဏ်ဂူများကို တိကျသေချာစွာ ထုထွင်းလုပ်ကိုင်ခဲ့ကြောင်း အထောက်အထားများ တွေ့ ရပေသည်။



အဇန္တလိုဏ်ဂူတွင် တွေ့ရသော နံရံပန်းချီ

ထို့ပြင် ဂန္ဓကုဋိတိုက်များ၏ အပြင်အဆင် အမွမ်းအမံများကို ထောက်ထား၍ အဇန္တလိုဏ်ဂူများတွင် သီတင်းသုံးခဲ့သော ရဟန်းတော်များ၏ ယုံကြည်ကိုးကွယ်မှု အသွင်ပြောင်းလာသည်ကိုလည်း တွေ့ရသည်။ ရှေးပိုင်းကျသော ဂန္ဓကုဋိတိုက်များတွင် လိုဏ်ဂူ၏အဆုံးပိုင်း၌ ရဟန်းတော်များ ဘုရားဝတ်ပြုရန် ထူပါရုံများကို ကျောက်သားမှ ထုထွင်းပူဇော်ထားသည်ကိုသာတွေ့ရ၍ ထေရဝါဒဂိုဏ်း၏ အသွင်အပြင်လက္ခဏာအတိုင်း အပြင်အဆင် အမွမ်းအမံမများပဲ ရိုးရိုးရှင်းရှင်းမျှသာ ဖြစ်ပေသည်။ နောင်အခါ ဘုရား၏ပုံတော်ကို ရုပ်ပုံကိုးကွယ်သည့်ဓလေ့ ခေတ်စားလာသောအခါ ထိုထူပါရုံများတွင် ဗုဒ္ဓမြတ်စွာ၏ရုပ်တုတော်များကို မုဒြာခေါ် ဟန်အမူအရာ အနေအထားအမျိုးမျိုးဖြင့် ထုထွင်းပူဇော်ထားသည်ကို တွေ့ရသည်။ နောက်ပိုင်းတွင် မဟာယာနဂိုဏ်း၏ အသွင်အပြင် လက္ခဏာများဖြစ်သော ခမ်းနားကြီးကျယ်သည့် အပြင်အဆင်အမွမ်းအမံများ ပါဝင်လာသည်ကိုလည်း တွေ့လာကြရလေသည်။ ပို၍ နောက်ပိုင်းကျလာသောအခါတွင် ဘုရားဆင်းတုတော်များကို ဥာဏ်တော်အမျိုးမျိုး၊ မုဒြာခေါ် အနေအထား အမျိုးမျိုးတို့ဖြင့် ကျောက်သားကိုထုထွင်းပုံဖော်ထားလေသည်။ အချို့ ဆင်းတုတော်များသည် ဥာဏ်တော်ငါးတောင်ခန့်ရှိ၍ အချို့သည် ဥာဏ်တော်ဆယ်တောင်ခန့်ရှိသည်။ ရုပ်ပွားတော်ကြီးတဆူသည် အလွန်ကြည်ညိုဖွယ်ကောင်းလှ၍ အိန္ဒိယတနိုင်ငံလုံးတွင် ရုပ်လုံးထုလက်ရာအကောင်းဆုံး ရုပ်ပွားတော်တဆူဟု ဆိုကြလေသည်။

ဝိဟာရလိုဏ်ဂူများ၏အတွင်းအပြင်၌ ပြောင်မြောက်သော ပန်းတမော့လက်ရာများကို တွေ့ရပြီးလျှင် လိုဏ်ဂူအတွင်း မျက်နှာကျက်နှင့် နံရံများတွင်မူ အံ့ခြီးဖွယ်ရာ ပန်းချီခန်းများကို တွေ့ရသည်။ မျက်နှာကျက်များတွင် ရောင်စုံ ကျောက်ပြားချပ်ငယ်များဖြင့် ခြူးပန်းခြူးနွယ်၊ ကနုတ်ပန်းတို့ကို တခုနှင့်တခု ပုံစံချင်းမထပ်ရလေအောင် ဆန်းကြယ်လှပစွာ ပုံဖော်ထားလေသည်။

အဇန္တလိုဏ်ဂူများတွင် တွေ့ရသော အနုပညာလက်ရာသုံးမျိုးအနက်၊ နံရံပန်းချီခန်းအတွက် အဇန္တသည် ပိုမိုကျော်ကြားလေသည်။ ဘီစီ နှစ်ရာစုနှစ်မှ အေဒီ (ခရစ်နှစ်) ခုနစ်ရာစုနှစ်တိုင် ခေတ်အမျိုးမျိုးကို ကျော်ဖြတ်၍ ရှည်လျားသောကာလအတွင်း ရေးဆွဲခဲ့သော ပန်းချီခန်းများဖြစ်ပြီသော်လည်း တခေတ်တည်း တလက်ရာတည်းကဲ့သို့ သဘောအယူအဆတူညီခြင်း၊ ရေးဆွဲပုံစံနစ် တသမတ်တည်း ရှိခြင်းသည် အံ့ခြီးဖွယ်ကောင်းလှသည်။

ပန်းချီခန်းများတွင် သရုပ်ဖော်ထားသော အကြောင်းရပ်တို့မှာ ဇာတ်နိပါတ်တော်များမှရင်း၊ ဗုဒ္ဓဝင်ထွက်အခန်းခန်းမှရင်း ကောက်နုတ်ပြီးလျှင် လွမ်းစရာ၊ ဆွေးစရာဖြစ်အောင် ရေးဆွဲထားသည်။ မဟာယာနဆိုင်ရာ ဗောဓိသတ္တဘုရားလောင်းနတ်သားပုံကိုလည်း ရေးဆွဲထားကြသည်။ အဇန္တပန်းချီဆရာတို့သည် ဗုဒ္ဓအယူဝါဒဆိုင်ရာ ရတနာသုံးပါး ကြည်ညိုမှုကို အဓိကထား၍ ရေးဆွဲသည်ဟုဆိုရသော်လည်း မိမိတို့ခေတ်အလိုက် နန်းတွင်းသူနန်းတွင်းသားတို့၏ အနေအထိုင်နှင့် ကုန်သည်လယ်လုပ်တို့၏အနေအထိုင်ကိုလည်း ဖော်ပြထားသည်။ ထို့ကြောင့်အနှစ်ရှစ်ရာခန့်အတွင်းက ရှေးလူတို့၏ ဓလေ့ထုံးစံ ယဉ်ကျေးမှုတို့ကိုလည်း လေ့လာခန့်မှန်းနိုင်ကြရပေသည်။

ရှေးခေတ် အိန္ဒိယပန်းချီသည် ခရစ်နှစ် ငါးရာစုနှစ်နှင့်ခြောက်ရာစုနှစ်အတွင်း အထွတ်အထိပ်သို့ရောက်ခဲ့ရာ ထိုစဉ်က အကောင်းဆုံးလက်ရာမွန်တို့ကို အဇန္တလိုဏ်ဂူ၌ တွေ့ကြရသည်။ အဇန္တပန်းချီဆရာတို့သည် မျဉ်းရေးဆေးချယ်နည်းဖြင့် မိမိတို့ရေးဆွဲလိုသော အကြောင်းရပ်တို့ကို သရုပ်ပေါ်အောင် ဖော်နိုင်ခဲ့ကြသည်။ ထိုဆရာတို့ရေးဆွဲပုံမှာ ကျောက်သားနံရံပေါ်တွင် မြေစေး၊ နွားချေး၊ ကျောက်မှုန့်တို့ကို တေ၍ သုတ်လိမ်းပြီးလျှင် ထိုအပေါ်တွင် အင်္ဂတေပါးပါး ဘဖန် သုတ်လိမ်းပြန်သည်။ ထိုအင်္ဂတေမခြောက်မီ လိုရာအရုပ်ကို ရေးခြယ်သည့်နည်းကို အသုံးပြုခဲ့ကြသည်။ ရှေးဦးစွာ ပုံကြမ်းကို ဆေးနီဖြင့်ဖြစ်စေ၊ ဆေးနက်ဖြင့်ဖြစ်စေ၊ တခါတရံ မီးသွေးချောင်းဖြင့်ဖြစ်စေရေးဆွဲပြီးလျှင် မလိုသည်ကိုဖျက်၍ လိုသည်ကိုဖြည့်ကာအချောကိုင်သည်။ အင်္ဂတေမခြောက်မီ လိုရာအခန်းကို အပြီးရေးဆွဲရသည်ဖြစ်သောကြောင့် တကြောင်းဆွဲမျဉ်းဖြင့် အလျင်အမြန်ရေးဆွဲရသည်။ ထိုနောက် ရေဖြင့်ဖျော်ထားသော ပန်းချီဆေးတို့ကို လိုရာတွင်ချယ်လေသည်။

ပန်းချီဆေးများကို အပြာရောင်နှင့်အနက်ရောင်ဆေးများမှတပါး အခြားဆေးရောင်များကို အနီးအနားပတ်ဝန်းကျင်တောင်ကုန်းများမှ အလွယ်တကူရရှိသောပစ္စည်းများဖြင့် ဖော်စပ်အသုံးပြုကြသည်။ အဖြူကိုမြေဖြူမှ၊ အဝါကို မြေဝါဆေးဒန်းမှ၊ အနီကို မြေနီဟင်္သပဒါးဓာတ်သတ္တုနီတို့မှ အစိမ်းကိုဒုတ္တာစိမ်းမှ ဖော်စပ်နိုင်ကြသည်။ အနက်ရောင်ကိုမူ ရေနံမှိုင်း၊ ဆီမှိုင်းမှရင်း၊ အပြာရောင်ကိုမူ မဲနယ်မှရင်း ဖော်စပ်ကြလေသည်။ ဆေးစွဲအောင် တမာစေးကိုရင်း၊ အရောင်တောက်အောင် ငါးသည်းခြေကိုရင်း ရောနှောသုံးစွဲကြသည်။ မြန်မာနိုင်ငံ ပုဂံခေတ် ပန်းချီသည် အိန္ဒိယပန်းချီမျိုးစေ့မှ ပွားခဲ့သည်ဖြစ်ရာ ရေးခြယ်ပုံစံနစ်နှင့် ဆေးရောင် ဖော်စပ် သုံးစွဲပုံတို့သည် အိန္ဒိယပန်းချီစံနစ်အတိုင်း ဖြစ်လေသည်။ အဇန္တနံရံပန်းချီခန်းတို့၏ ထူးခြားမှုတရပ်မှာ သုံးစွဲရေးခြယ်သော ဆေးရောင်တို့၏ ပြေပြစ်မှုဖြစ်လေသည်။ အရောင်တမျိုးတည်း၏ ကဲမိုးတောက်ပနေခြင်းကို မတွေ့ရပဲ အနီ၊ အဝါ၊ အပြာ၊ အစိမ်းစသည့်

အရောင်တို့၏ အနုအရင့် ပြေပြစ်စွာ ရက်လိမ်တောက်ပကာနေပုံသည် နှစ်သက်ဖွယ်ဖြစ်လေသည်။

အခြားအံ့ခြီးဖွယ်ရာတရပ်မှာအချို့လိုဏ်ဂူများအတွင်း၌ အလင်းရောင်လုံလောက်စွာမရရှိပေ။ ယင်းသို့ မလင်းတလင်းလိုဏ်ဂူအတွင်းရှိ နံရံပန်းချီခန်းများ၊ အထူးသဖြင့် ပို၍မှောင်ရိပ်ကျသော ထောင့်နေရာများရှိ ပန်းချီခန်းများကိုလည်း အထက်တွင်ဆိုခဲ့သည့်အတိုင်း အရောင်အသွေးပြေပြစ်စွာ ရေးဆွဲထားသည်ကို ယခုခေတ်၌ ထိုဂူများအတွင်း မီးများထွန်း၍ ကြည့်သည့်အခါ တွေ့ကြရပေရာ ထိုခေတ်က ပန်းချီဆရာတို့သည် ယင်းကဲ့သို့ အရောင်အသွေးမှန်ကန်ပြေပြစ်စွာရလေအောင် မည်ကဲ့သို့ ဖန်တီးရေးဆွဲခဲ့ကြပါသနည်းဟု တွေးတောနေခဲ့ကြရလေသည်။

အဇန္တလိုဏ်ဂူ၏ အနုပညာလက်ရာတို့ကား ထူးကဲလှပါပေသည်။ အံ့မခန်းနိုင်စရာရှိပါပေသည်။ ထို့ကြောင့် အနုပညာဝေဖန်သူ အင်္ဂလိပ်တဦးက ကမ္ဘာ့သမိုင်းတွင် အဇန္တလိုဏ်ဂူများကဲ့သို့ ဗိသုကာ၊ ပန်းတမော့နှင့် ပန်းချီတည်းဟူသော အနုပညာသုံးရပ်၏ အကောင်းဆုံးလက်ရာများကို တပြိုင်တည်းတွေ့နိုင်သည့်နေရာမျိုးတွေ့ရခဲလှသည်ဟု ဆိုလေသည်။

အဇန္တလိုဏ်ဂူများဟု ခေါ်ဝေါ်ခြင်းမှာ ယင်းအရပ်မှ အရှေ့တောင်ဖက် လေးမိုင်ခန့်အကွာရှိ အဇန္တဟူသောရွာဇနပုဒ်ကလေးကို အစွဲပြု၍ ခေါ်ဝေါ်ခဲ့ခြင်း ဖြစ်ပေသည်။ အဇန္တလိုဏ်ဂူများသည် ခရစ်နှစ် ရှစ်ရာစုအထိ သံဃာရာမတခုအဖြစ် ထင်ရှားစည်ကားပြီးသည့် နောက်ပိုင်းတွင် အကြောင်းကြောင်းတို့ကြောင့် မေ့မှိန် ခေတ်တိမ်သာခဲ့ဟန်ရှိသည်။ လောကဓံတရားသဘောအတိုင်းပင် ဘီစီနှစ်ရာစုနှစ်ခန့်မှ အေဒီ ရှစ်ရာစုနှစ်ခန့်အထိ နှစ်ပေါင်း ၁,၀၀၀ ခန့် စည်ကားဖွံ့ဖြိုးသော သံဃာရာမတခုဖြစ်ခဲ့သည့် အဇန္တလိုဏ်ဂူများသည် အေဒီ ကိုးရာစုနှစ်မှ ၁၉ ရာစုနှစ်ခန့်တိုင်အောင်ကာလဖြစ်သော နှစ်ပေါင်း ၁,၀၀၀ ခန့်အတွင်း လူသူကင်းမဲ့၍ ဆိတ်သုန်းနေခဲ့ပြန်လေသည်။ ၁၉ ရာစုနှစ်၏ နောက်ပိုင်းတွင်မှ အဇန္တလိုဏ်ဂူများ၏ ဂုဏ်သတင်းသည် ပြန်လည် ပျံ့သင်းကျော်ကြားလာခဲ့သည်မှာ ကမ္ဘာချဉ်းသည့်တိုင်အောင်ဖြစ်လေသည်။

သို့သော် အဇန္တလိုဏ်ဂူများ ပြန်၍တစခန်းထလာခြင်းသည် ရှေးကကဲ့သို့ သံဃာရာမတခုအဖြစ်ဖြင့် မဟုတ်ဘော့ချေ။ စံထားလောက်သော အနုပညာလက်ရာမွန် လက်ရာကောင်းများဖြင့်ပြီးသည့် ဗုဒ္ဓအယူဝါဒဆိုင်ရာအဆောက်အအုံတရပ်အဖြစ်ဖြင့် ပြန်လည်ကျော်ကြားလာခဲ့ခြင်းဖြစ်ပေသည်။

နှစ်ပေါင်း ၁,၀၀၀ ခန့် လူသူနှင့်ကင်းဝေးနေခဲ့သော အဇန္တလိုဏ်ဂူများသည် ချုံနွယ်ပိတ်ပေါင်းတို့ဖြင့် ဖုံးအုပ်နေလျက် ရုတ်တရက်တွေ့မြင်နိုင်ခဲသော အခြေအနေသို့ ရောက်ရှိနေခဲ့သည်။ ၁၈၁၉ ခုနှစ်တွင် ဗြိတိသျှတပ်သားတစုတို့သည် အမဲပစ်ထွက်ရာမှ အမှတ်မထင် ထိုလိုဏ်ဂူများကို တွေ့ရှိခဲ့ကြသည်။ သဘာဝအလျောက် ဖြစ်ပေါ်နေသော ဂူပေါက်များမဟုတ်ပဲ လူသားတို့၏ မွမ်းမံမှုတို့ဖြင့် တခမ်းတနားရှိနေသော ထိုလိုဏ်ဂူများကို ပြန်လည်တွေ့ရှိစအခါက ထိုလိုဏ်ဂူများကို အဘယ်ကြောင့် ယင်းသို့ တခမ်းတနား ပြုလုပ်ခဲ့သည့်အကြောင်းရင်းကိုမူ တွေးဆမရခဲ့ကြပေ။ အံ့ဩဖွယ်ရာ ထုထွင်းထားသော ပန်းတမော့လက်ရာနှင့် နံရံပန်းချီခန်းတို့ကို ထောက်ဆ၍ လူနေမှုအဆင့်အတန်း အသွန်မြင့်သူများ၏ လက်ရာများ ဖြစ်ကြောင်းလောက်ကိုသာ ရိပ်စားမိကြသည်။ အနုပညာလက်ရာကောင်းများဖြင့်ပြီးသော လိုဏ်ဂူများကို တွေ့ရှိရသည့်သတင်း ထိုခေတ်က ပျံ့နှံ့ခဲ့သည်တိုင်အောင် ထိုလိုဏ်ဂူများ၏ မူလရည်ရွယ်ချက်နှင့် သမိုင်းစဉ်ကို ဖော်ထုတ်နိုင်သူ မပေါ်ပေါက်ခဲ့ပေ။

နောင်အနှစ် ၂၀ ခန့်အကြာတွင် အရှေ့အိန္ဒိယကုမ္ပဏီ၏ ရှေးဟောင်း သုတေသန အရာရှိကြီးတဦး ဖြစ်သော မစ္စတာဂျိမ်း ဖာဂဆန်သည် ထိုလိုဏ်ဂူများရှိရာသို့ သွားရောက်လေ့လာကြည့်ရှုသောအခါ ယင်းတို့၏ မူလရည်ရွယ်ချက်နှင့် အသွန်အဆင့်အတန်းမြင့်သော အနုပညာတန်ဖိုးရှိမှုကို ဖော်ထုတ်နိုင်ခဲ့လေသည်။ ထို့ကြောင့် အဇန္တလိုဏ်ဂူများ၏ ဂုဏ်သတင်းကြီးမြင့်လာလေရာ၊ ထိုစဉ်က ဟိုက်ဒရာဘတ်နယ်၏ နိဇမ်မဟာရာဇာ စော်ဘွားကြီးသည် မိမိပိုင်နက်အတွင်းရှိသော အဇန္တလိုဏ်ဂူများကို ချုံနွယ်ပိတ်ပေါင်းရှင်းလင်းစေလျက် ထိန်းသိမ်းစောင့်ရှောက်ခြင်းကို ပြုခဲ့သည်။ ပန်းတမော့လက်ရာ၊ ပန်းချီလက်ရာတို့မှာ နှစ်ကာလပရိစ္ဆေဒကြာမြင့်မှုကြောင့်၎င်း၊ အချို့မသိနားမလည်သူများ၏ လက်ဆော့မှုကြောင့်၎င်း ယိုယွင်း ပျက်စီးမှုအတော်အတန် ရှိခဲ့လေသည်။ ယင်းသို့ ယိုယွင်းပျက်စီးမှုများကို ထိန်းသိမ်းနိုင်သမျှ ထိန်းသိမ်းနိုင်သေအောင် ထိုနိဇမ်မဟာရာဇာ၏ လက်ထက်တွင်၎င်း၊ အိန္ဒိယသမတအစိုးရလက်ထက်တွင်၎င်း ဆက်လက်စောင့်ရှောက် ထိန်းသိမ်းလျက် ရှိလေသည်။ ထိုလိုဏ်ဂူများသည် ဗုဒ္ဓအယူဝါဒဆိုင်ရာ အနုပညာရပ်အတွက် အကောင်းဆုံးစံပြ အဆောက်အအုံများသဖွယ် ဖြစ်နေသဖြင့်လည်း အိန္ဒိယနိုင်ငံသို့ ဒေသန္တရဗဟုသုတရှာမှီးရန် လာရောက်ကြသော နိုင်ငံခြားသားခရီးသည်များ မလွတ်တမ်းသွားရောက်လေ့လာကြရသော ဌာနတရပ်လည်း ဖြစ်နေပေသည်။ ထိုအရပ်သို့ သွားရေးလာရေးအတွက် လွယ်ကူစေရန်လည်း နိုင်ငံပိုင်အစိုးရက စီစဉ်ပေးထားသည်။ အဇန္တလိုဏ်ဂူများသို့ တဆင့်သွားရန် အနီးဆုံးနှင့် အဆင်အပြေဆုံး မီးရထား

လမ်းမြို့သည် ဘုံဘေ–ကာလကတ္တား–ဒေလီ မီးရထား လမ်းပေါ်ရှိ ဂျာလဂါအွန်မြို့ဖြစ်၍ ယင်းမှတဆင့် မော်တော်ကားဖြင့်သွားရသည်။ ထိုပြင် ဟိုက်ဒရဗာဒ်မြို့သို့သွားသော မီးရထားလမ်းပေါ်ရှိ ဩရန်ဂါဗာဒ်မြို့မှသည်း မော်တော်ကားဖြင့်တဆင့် သွားရောက်နိုင်လေသည်။

**အညှဲ့စွဲစိတ်။** ။ဆိုက်ကိုအနာလစ်ဆစ်ခေါ် စိတ်အခြေ စိစစ်မှုပညာအရ ကလေးသူငယ်များ၏ စိတ်လှုပ်ရှားမှုတို့ကို ငယ်စဉ်က ချုတ်ချယ်ဖိနှိပ်ထားခဲ့ပါလျှင် ထိုသူငယ်များ၌ စိတ်၏အစွဲများ ဖြစ်ပေါ်လာတတ်သည်ဟု ဆိုသည်။ စိတ်လှုပ်ရှားမှုများ ဖြစ်သည့် ကြောက်စိတ်၊ မခံချင်စိတ်၊ ဒေါသစိတ်ဟူသည်တို့သည် ကလေးအရွယ်၌ မကြာခဏ ဖြစ်ပေါ်လာတတ်သည်။ ထိုစိတ်တို့ကို ဖိနှိပ်ချုပ်ချယ်လိုက်လျှင် ကလေးတို့ကြီးပြင်းလာသောအခါ သေးသိမ်ညှံ့ဖျင်းသည့် စိတ်ဓာတ်များ စွဲလာပြီးလျှင် လူထဲသူထဲသို့ မဝင်ရဲအောင် ဖြစ်သွားတတ်လေသည်။ ယင်းအစွဲစိတ်မျိုးကို အညှံ့စွဲစိတ်ဟု ခေါ်သည်။ နှိပ်ကွပ်မှုများလွန်းလျှင်တခါတရံ အကြောက်စွဲစိတ်များပင် ကပ်ရောက်တတ်သည်။

အညှံ့စွဲစိတ်ဟူသော ဝေါဟာရကို ဦးစွာပဌမ တီထွင်၍ လူသိများအောင် ပြုလုပ်ခဲ့သူမှာ ဩစတြီးယားနိုင်ငံသား ဆရာဝန်ဖြစ်သူ အဲလဖရက် အက်ဒလာ (၁၈၇၀–၁၉၃၇) ဖြစ်သည်။ သူသည် ငယ်စဉ်က ဆိုက်ကို အနာလစ်ဆစ်ခေါ် စိတ်အခြေ စိစစ်မှုပညာအဖွဲ့နှင့် ကျောင်းကို တည်ထောင်သူ ဒေါက်တာဆစ်ဂမန်ဖရွိုက် လက်အောက်တွင် ပညာသင်ကြားခဲ့သည်။ပဌမတွင် အက်ဒလာသည်ဖရွိုက်၏ ယူဆချက်နှင့် ဝါဒများကို အလွန်ကြိုက်နှစ်သက်ခဲ့သော်လည်း နောင်တွင် တယောက်နှင့်တယောက် အယူအဆချင်း မတူမှုကြောင့် သဘောချင်း မတိုက်ဆိုင် ဖြစ်ခဲ့ကြသည်။ စိတ်ပညာရှင် ဖရွိုက်က လူ၏ စိတ်နေစိတ်ထား အပြုအမူအားလုံးသည် ဖိုမဇာတိစိတ်၏ စေ့ဆော်မှုပေါ်တွင် တည်နေသည်ဟု ဆိုသည်။ အက်ဒလာကမူ လူ၏ အဓိကစေ့ဆော်မှု စွမ်းအင်သည် ဖိုမဇာတိစိတ်မဟုတ်ပဲ ထက်သန်သည့်စိတ်အလိုဟု ဆိုသည်။ သို့ဖြင့် သူတို့နှစ်ဦး ဝိဝါဒဖြစ်ပွားခဲ့သည်။ (ဖရွိုက်,ဆစ်ဂမန် — လည်း ရှု။)

အက်ဒလာ၏ယူဆချက်အရ စိတ်တုန်လှုပ်သည့်ရောဂါများသည် ကိုယ်အင်္ဂါပျက်ခြင်း၊ ချို့တဲ့ချတ်ယွင်းခြင်းများမှ အစဖြစ်ပေါ်လာသည်ဟု ဆိုသည်။ဤသို့ စိတ်ဘုန်လှုပ်သည့် ရောဂါ စွဲကပ်လာသူများသည် အညှံ့စွဲစိတ်များ ရရှိလာတတ်သည်ဖြစ်ရာ ထိုအဖြစ်မှ လွန်မြောက်အောင် ကြိုးပမ်းကြသည်။ ပုံစံအားဖြင့် နဂိုရှက်ဘတ်သော လူငယ်တယောက်သည် မိမိ၏ကိုယ်အင်္ဂါ ချို့တဲ့ချတ်ယွင်းမှု၌ အလွန်အမင်း စိတ်ထိခိုက်တတ်သည်ဖြစ်ရကား ထိုအဖြစ်မှ လွန်မြောက်အောင် မကြာခဏ စွန့်စွန့်စားစား ပြုလုပ်တတ်လေသည်။ တခါတရံ အခြားသူများကိုပင် ရန်စရန်လို ပြုလုပ်တတ်သည်။

အထက်ပါ သဘောတရားများကို အကြောင်းပြု၍ နာဗ်ကြောများကြောင့် ရောဂါအပြင်းအထန် စွဲကပ်သောသူများ (ဝါ) စိတ်အကြောင်းရင်းခံ ရောဂါစွဲကပ်သောသူများ၏ စိတ်နေသဘောထားသည် ယောကျ်ားပီသမှု ဖြစ်လိုသည့်ဆန္ဒပင် ဖြစ်သည်ဟု အက်ဒလာက ဆိုသည်။ ယင်းသဘောသဘားကို သာလိုဆန္ဒဟု ခေါ်၍ ယောကျ်ားရော မိန်းမများတွင်ပါ တွေ့ကြုံရသည်။

အက်ဒလာ၏ ယူဆချက် သဘောတရားများကို "အတ္တဘောစိတ်ပညာ"ဟု ခေါ်၍ သူ၏သင်ပြချက်များကို လူအများက လက်ခံကြသည်။ သူ၏ သင်ပြချက်များအရ ဩစတြီးယားနိုင်ငံ၊ ဗီယင်းနားမြို့တွင် ဥရောပတိုက်၌ ပဌမဆုံးဖြစ်သည့် ကလေးသူငယ်များ ပြုစုစောင့်ရှောက်သော ဆေးခန်းများကို တည်ဆောက်ကြသည်။ သို့ရာတွင် ဤအဆောက်အအုံများသည် ၁၉၃၁ ခုနှစ်နောက်ပိုင်းတွင် ဖိနှိပ်ခြင်းခံခဲ့ရသည်။အက်ဒလာသည်မသေဆုံးမီနောက်ဆုံးနှစ်များ၌ တိုင်းတပါးတွင်သာ နေထိုင်တော့၏။ သူ၏ ဝါဒကိုဟောပြောရန် အဗာဒင်းမြို့သို့ရောက်ရှိနေစဉ် ၁၉၃၇ ခုနှစ်တနေ့၌ လမ်းပေါ်တွင် ရုတ်တရက် အားပြတ်လဲကျသွားပြီးလျှင် သေဆုံးသွားလေသည်။

**အညွန်းစာအုပ်စာရင်း။** ။ဂန္ထဗေဒ — ရှု။

**အဏုကြည့်မှန်ပြောင်း။** ။မိုက္ကရိုစကုပ် — ရှု။

**အတွင်းမီးအင်ဂျင်စက်။** ။အတွင်းမီးအင်ဂျင်စက်ဆိုသည်မှာ ပစ်စတန်နောက်တွင် ပေါက်ကွဲမှုကိုဖြစ်စေခြင်းဖြင့် စွမ်းအင်ကို စက်စွမ်းအားသို့ တိုက်ရိုက်ပြောင်းလဲယူသည့်စက်မျိုးကို ခေါ်သည်။ အဘွင်းမီးအင်ဂျင်စက်ဟု ခေါ်ဆိုရခြင်းမှာ ရေနွေးငွေ့အင်ဂျင်စက်မှာကဲ့သို့ ထင်းမီးလောင်စာကို အပြင်ဖက်၌မီးမလောင်စေပဲ ဓာတ်ငွေ့ကို အဘွင်း၌ ပေါက်ကွဲစေသည့်အတွက်ဖြစ်၏။ ဤစက်သည် တဆင့်ပြီးတဆင့် တဖြည်းဖြည်း တိုးတက်ဖြစ်ပေါ်ခဲ့ခြင်း၊ အခြား တီထွင်မှုများဖြင့် ရောထွေးယှက်ဘင်ဖြစ်နေခြင်း စသည့်အချက်များကြောင့် ဤစက်ကို မည်သူက စတင်တီထွင်ခဲ့သည်ဆို၍ တဦးတယောက်တည်းကို ဖော်ပြရန်မှာ မဖြစ်နိုင်ချေ။

အတွင်းမီးအင်ဂျင်စက်ဘွင် ဓာတ်ငွေ့အင်ဂျင်၊ ဆီအင်ဂျင်၊ ဒီဇယ်အင်ဂျင်ဟူ၍ အမျိုးမျိုးရှိသည်။ ဓာတ်ငွေ့အင်ဂျင်စက်ကို ကြံစည်တီထွင်မှုသည် ဆယ်မျူယယ်



ပေါ့ပါးပြီး ခုတ်မောင်းရ လွယ်ကူသော အတွင်းမီးအင်ဂျင်စက်

ဗရောင်းဆိုသူ၏လက်ထက် ၁၈၂၃ ခုနှစ်က စတင်လာခဲ့သည်။ ဗရောင်းသည် ဓာတ်ငွေ့အင်ဂျင်စက်များကို ပြုလုပ်ရောင်းချ၍ ၁၈၂၆ ခုနှစ်တွင် ကုန်းပေါ်သွားယာဉ်တစင်း၌ရင်း၊ ၁၈၂၇ ခုနှစ်တွင် ၃၆ ပေရှည်သော လှေတစင်း၌ရင်း သူ၏စက်ကို တပ်ဆင်အသုံးပြုခဲ့ဘူးသည်။ ထိုနောက်တွင် အခြားသိပ္ပံပညာရှင် အသီးအသီးကလည်း ဓာတ်ငွေ့အင်ဂျင်အမျိုးမျိုးကို ကြံစည်တီထွင်ခဲ့ကြ၏။ သို့သော် ခေတ်မှီကောင်းမွန်သောစက်မျိုးကို မရရှိခဲ့ကြချေ။ ၁၈၆၀ ပြည့်နှစ်သို့ရောက်မှ အီတီယန်း လနွား ဆိုသူပြင်သစ်သိပ္ပံပညာရှင်တဦးက အများသုံးနိုင်အောင် လက်တွေ့ကောင်းမွန်သောစက်တလုံးကို အောင်မြင်စွာတီထွင်၍ မူပိုင်မှတ်ပုံတင်နိုင်ခဲ့လေသည်။ လနွား၏စက်များသည် စက်ခုတ်ပုံမှန်၍ အလွန်ညင်သာသဖြင့် ၁၉ ရာစုခေတ် နောက်ပိုင်းတွင် အလွန်ခေတ်စားခဲ့၏။ သို့သော် ဓာတ်ငွေ့စားလွန်းသည့်အတွက် တဖြည်းဖြည်း လူကြိုက်နည်းလာရာမှ နောင်သော် စက်သဘောအားဖြင့် လနွား၏စက်ထက်ညံ့ဖျင်းသော အင်းအော၊အော့တိုးနှင့် အီ လန်ဂင်ဆိုသူတို့ တီထွင်သည့်စက်ကို အသုံးများလာကြလေသည်။

ထိုအတောအတွင်းတွင် ဆလင်ဒါထဲသို့ ဓာတ်ငွေ့ကို မသွင်းမီ ကြိုတင်၍ ဖိနှိပ်ပေးရန်လိုအပ်ကြောင်းကို သိပ္ပံပညာရှင်အများကပင် သိမြင်လာကြသည်။ ၁၈၆၂ ခုနှစ်တွင် ဗိုး ဒါ ရိုရှ ဆိုသူ ပြင်သစ်သိပ္ပံပညာရှင်တဦးက ယခုအခါ လေးချက်ခုတ်နည်းဟု ခေါ်တွင်သော စက်ခုတ်နည်း အစီအစဉ်ကို အကြံပေးသွားသည်။ ၁၈၇၆ ခုနှစ်သို့ရောက်သော အခါ အော့တိုးသည် ဒါ ရိုရှ၏အကြံပေးချက်များ အကျုံးဝင်သော သူ၏ ကမ္ဘာကျော်လေးချက်ခုတ်စက်ကို တီထွင်လိုက်ခြင်းဖြင့် ခေတ်အမှီဆုံးသော အတွင်းမီးအင်ဂျင်စက်များ ပေါ်ပေါက်ရေးအတွက် ပဌမဦးဆုံးလမ်းခင်းပေးသွားပေသည်။ ဤစက်ခုတ်နည်းကို ယခုအခါ လေးချက်ခုတ်နည်းဟူ၍ရင်း၊ "ဒါ ရိုရှဆိုင်ကယ်"ဟူ၍ရင်း၊ "အော့တိုး

ဆိုင်ကယ်''ဟူ၍ရင်း ခေါ်ဆိုကြ၏။ (ဓာတ်ငွေ့အင်ဂျင်။ ဒီဇယ်အင်ဂျင် — လည်းရှု။)

လေးချက်ခုတ်နည်းတွင် ပစ်စတန်သည် ဆလင်ဒါထဲမှ အပြင်သို့ထွက်သွားသည့် ပဌမအထွက်တချက်၌ ဆလင်ဒါထဲသို့ ဓာတ်ငွေ့နှင့်လေအရောကို စုတ်သွင်းသည်။ ဤအချက်ကို ''ဆပ်ရှင်းစထရုတ်''(စုတ်ခုတ်)ဟု ခေါ်၏။ ပစ်စတန်၏ဒုတိယအချက်ဖြစ်သော ဆလင်ဒါထဲသို့ ပြန်ဝင်လာသည့်အချက်တွင် ဆလင်ဒါအတွင်းရှိ ဓာတ်ငွေ့နှင့်လေအရောကိုကျုံ့ဝင်အောင်ဖိသိပ်ပေးသည်။ဤအချက်ကို ''ကွန်ပရက်ရှင်းစထရုတ်''(ဖိသိပ်ခုတ်)ဟုခေါ်၏။ပစ်စတန်သည် အတွင်းအကျဆုံးနေရာသို့ရောက်နေချိန်တွင် လျှပ်စစ်ပလပ်က မီးခတ်ပေးသည့်အတွက် ဓာတ်ငွေ့မီးလောင်ပေါက်ကွဲပြီးလျှင် ပစ်စတန်ကို အပြင်သို့ ကန်ထုတ်လိုက်သည်။ ဤသို့ ပစ်စတန်ပြန်ထွက်သွားသောတတိယအချက်သည် အလုပ်လုပ်သောအချက်ဖြစ်၍ ယင်းကို ''ပါဝါစထရုတ်''(စွမ်းအားခုတ်)ဟုခေါ်ရ၏။ စတုတ္ထအချက်တွင် ပစ်စတန်သည် ဆလင်ဒါထဲသို့ပြန်ဝင်စဉ် ဆလင်ဒါအတွင်းရှိ မီးလောင်ပြီးသားဓာတ်ငွေ့များကို အပြင်သို့ တွန်းထုတ်ပစ်လိုက်သည်။ ဤအချက်ကို ''အိတ်ဇောစထရုတ်'' (ထုတ်ခုတ်)ဟု ခေါ်၏။ ထို့ကြောင့် လေးချက်ခုတ်စက်တွင် ဓာတ်ငွေ့တခါပေါက်ကွဲတိုင်း ပစ်စတန်သည် လေးချက်ခုတ်၍ ပစ်စတန်လေးချက်ခုတ်တိုင်း ပစ်စတန်မောင်းတံနှင့် ဆက်ထားသောလက်တံဝင်ရိုးသည် နှစ်ပတ်လည်လေသည်။

၁၈၇၈ ခုနှစ်တွင် ဆာ ဒူဂယ် ကလပ်အမည်ရှိသော ပုဂ္ဂိုလ်တဦးက နှစ်ချက်ခုတ်အင်ဂျင်စက်ကို တီထွင်သည်။ ကလပ်တီထွင်သဖြင့် အဆိုပါနှစ်ချက်ခုတ်နည်းကို ''ကလပ်ဆိုင်ကယ်''ဟုလည်း ခေါ်ကြ၏။ နှစ်ချက်ခုတ်စက်တွင် ဓာတ်ငွေ့တခါပေါက်ကွဲတိုင်း ပါဝါစထရုတ်ဟုခေါ်သော အထွက်တချက်နှင့် အိတ်ဇောစထရုတ်ခေါ် အဝင်တချက် ပေါင်းနှစ်ချက်သာရှိသည်။ ဆလင်ဒါအတွင်း ဓာတ်ငွေ့ပေါက်ကွဲ၍ ပစ်စတန်ကိုကန်ထုတ်လိုက်သည့်အထွက်တချက်တွင် ဆလင်ဒါအဆုံးသို့ရောက်ချိန်၌ ဓာတ်ငွေ့သစ်ကို စုတ်သွင်းသည်။အိတ်ဇောစထရုတ်အဖြစ်နှင့်အတွင်းသို့ပြန်ဝင်စအချိန်တွင် မီးလောင်ပြီးသားဓာတ်ငွေ့များကို တွန်းထုတ်လိုက်သည်။ ဓာတ်ငွေ့တခါပေါက်ကွဲတိုင်း၌ ပစ်စတန် နှစ်ချက်ခုတ်သဖြင့် လက်တံဝင်ရိုးတပတ်လည်သည်ဟုသိရ၏။

နှစ်ချက်ခုတ် အင်ဂျင်စက်တွင် စက်တပတ်လည်တိုင်း လုပ်အားတချက်ပါ၍ လေးချက်ခုတ်စက်တွင် စက်နှစ်ပတ်လည်မှ လုပ်အားတချက်သာပါသောကြောင့် အရွယ်ချင်း အမြန်နှုန်းချင်းတူလျှင် နှစ်ချက်ခုတ်စက်က လေးချက်ခုတ်စက်ထက် အားနှစ်ဆမျှကြီးရမည်ဟု ယူဆစရာအကြောင်းရှိ၏။ လက်တွေ့အားဖြင့်ကား နှစ်ချက်ခုတ်စက်များတွင် ချွတ်ယွင်းချက်များ ရှိသဖြင့် ကျွန်ုပ်တို့ ထင်သည့်အတိုင်း မစွမ်းဆောင်နိုင်ပေ။ ပဌမအကြောင်းရင်းမှာ လေးချက်ခုတ်စက်တွင် ဓာတ်ငွေ့ဝင်ချိန်မှာ ဆပ်ရှင်းစထရုတ် တချိန်လုံးလုံးမှ အနည်းငယ်ကျော်လွန်သည်အထိ ဖြစ်၏။ နှစ်ချက်ခုတ်စက်တွင် ဓာတ်ငွေ့စုတ်ချိန် အနည်းငယ်သာရှိသဖြင့် လေးချက်ခုတ်စက်မှာကဲ့သို့ ဓာတ်ငွေ့များများ မဝင်နိုင်ချေ။ ဒုတိယအကြောင်းမှာ လေးချက်ခုတ်စက်တွင် မီးလောင်ပေါက်ကွဲပြီးသည့် ဓာတ်ငွေ့များကို အိပ်ဇောစထရုတ်တချိန်လုံးတွင် ထုတ်ပစ်နိုင်ခွင့်ရ၏။ နှစ်ချက်ခုတ်စက်တွင် ဓာတ်ငွေ့သစ်များသည် မီးလောင်ပြီးသားဓာတ်ငွေ့များကို အိတ်ဇောပိုက်မှထွက်သွားအောင် ကူညီပေးရသဖြင့် ယင်းဓာတ်ငွေ့သစ်များကိုယ်တိုင်ပင် ပူသွားပြီးလျှင် ပျံထွက်သွားသည်။ ထို့ကြောင့် ဓာတ်ငွေ့တို့သည် လေးချက်ခုတ်စက် မှာလောက် မသိပ်သည်းပေ။ တတိယအကြောင်းကား အိတ်ဇောအပေါက်မှဓာတ်ငွေ့သစ်များပါ လွတ်ထွက်သွားလေ့ရှိသဖြင့် ဓာတ်ငွေ့အချို့ အလဟသဆုံးပါးရခြင်းပင် ဖြစ်လေသည်။

လေးချက်ခုတ် အင်ဂျင်စက်တွင် ဓာတ်ငွေ့တခါပေါက်ကွဲတိုင်း စက်နှစ်ပတ်လည်ကြောင်းတွေ့ရပြီ။ ထိုသို့ဓာတ်ငွေ့ပေါက်ကွဲသောအခါ လက်တံဝင်ရိုးတွင် တပ်ဆင်ထားသောအားပေးဘီးသည်အရှိန်နှင့်လည်သွားသည်။အားပေးဘီး၏အရှိန်ကြောင့် စက်သည် ဓာတ်ငွေ့နောက်တကြိမ်ပေါက်ကွဲသည်အထိ လည်နေသည်။ ဆလင်ဒါနှစ်လုံးတပ်စက်တွင် စက်တပတ်လည်တိုင်း ဓာတ်ငွေ့တကြိမ် ပေါက်ကွဲအောင် စီစဉ်ထားသည်။ ထို့ကြောင့် ဆလင်ဒါနှစ်လုံးတပ်စက်တွင် ရှိသော လုပ်အားသည် ဆလင်ဒါတလုံးတပ် စက်မှာထက် ပို၍ဆက်တိုက်ကျသဖြင့် ပိုမိုညင်သာသည်။ ဤသို့ဖြင့် ဆလင်ဒါလေးလုံး၊ ခြောက်လုံး၊ ရှစ်လုံး၊ ၁၂ လုံးတပ်စက်များတွင် ဆလင်ဒါများလာလေ လုပ်အားမှာပို၍ ဆက်တိုက်ကျလာလေ ဖြစ်၏။ စက်တွင် ဓာတ်ငွေ့သွင်းဓာတ်ငွေ့ထုတ်အဆို့ရှင်များနှင့်တကွ ဆီပန်းကရိယာ စသည်များကိုအချက်ကျကျအလုပ်လုပ်သွားစေရန် လက်တံဝင်ရိုးမှတဆင့်ဆက်သွယ်စီစဉ်ထားသည်။ စက်ခုတ်လျက်ရှိစဉ် ဆီပန်းကရိယာက စက်၏အစိတ်အပိုင်းများ ပူလောင်ပွန်းပဲ့သွားခြင်းမရှိစေရန် စက်ဆီကို လိုသောနေရာများသို့ ပို့ဆောင်ပေးသည်။

အတွင်းမီးအင်ဂျင်စက်တို့သည် ပဌမပေါ်ပေါက်ခဲ့သည့်အချိန်မှစ၍ အလွန်ခေတ်စားလာခဲ့သည်။ ယခုအခါမြို့ကြီးပြကြီးများတွင်သာမက သဲကန္တာရများ၊ အလွန်အေး၍ရေခဲဖုံး နေသော အာတိတ်ဒေသ၊ လူသူ အရောက်အပေါက်အလွန်နည်းသော ကျွန်းငယ်များ၊ အလွန်နက်ရှိုင်းသော သစ်တောကြီးများ စသည့် ကမ္ဘာ့အရပ်ရပ်ရှိ

လူတို့၏လုပ်ငန်းအသီးအသီးမှာပင် အတွင်းမီးအင်ဂျင်စက်များသည် များစွာ အထောက်အပံ့ပေးလျက် ရှိကြသည်။ ဤစက်များသည် တာရှည်ခံ၏။ ပေါ့ပါးပြီးလျှင် ခုတ်မောင်းရလွယ်ကူ၏။ အလွန်လျင်မြန်စွာလည်း ခုတ်မောင်းနိုင်သည်။ ဆောက်လုပ်ထားပုံမှာ အလွန်လွယ်ကူရှင်းလင်းပြီးလျှင် အသုံးပြုရာ၌ အလွန်စရိတ်သက်သာသည်။ အတွင်းမီးအင်ဂျင်စက်များဖြင့် လူတို့သည် မော်တော်ကား၊ မီးရထား၊ သင်္ဘော၊ လေယာဉ်ပျံစသော သယ်ယူပို့ဆောင်ရေးယာဉ်အမျိုးမျိုးကို တီထွင်ခဲ့ကြသည်။ သဘာဝဓာတ်ငွေ့ သို့မဟုတ် ဓာတ်ဆီပေါသော အရပ်ဒေသများတွင် ဒိုင်နမိုများကို အားကောင်းသောအတွင်းမီးအင်ဂျင်စက်များဖြင့် ခုတ်မောင်း၍ လျှပ်စစ်ဓာတ်ကို ထုတ်လုပ်သုံးစွဲလျက် ရှိကြသည်။လယ်ယာများတွင်လည်း လယ်ထွန်စက်၊ကောက်ရိတ်စက်စသည်တို့ကို ဝန်တင်တိရစ္ဆာန်နှင့် လူများအစားအသုံးပြုနိုင်နေကြပြီ။ အဆောက်အအုံတည်ဆောက်မှု အင်ဂျင်နီယာ အတတ်ပညာတွင်လည်း ထွင်းဖောက်စက်မှအစ အင်္ဂတေနယ်စက်အထိ ဖြစ်သောစက်များကို အတွင်းမီးအင်ဂျင်စက်များဖြင့် ခုတ်မောင်းနေကြပေပြီ။

အတွင်းမီး အင်ဂျင်စက်တွင် စက်ကို ခုတ်မောင်းရန်အတွက် လိုအပ်သောဓာတ်ငွေ့ကို မာတ်ဆီ၊ သို့မဟုတ် အခြားဆီတမျိုးမျိုးမှရရှိ၍ ဆီကို အငွေ့ဖြစ်သွားအောင် ကာဗျူရက်တာခေါ် ကရိယာက ပြုလုပ်ပေးသည်။ ကာဗျူရက်တာသည်စက်၏အဆုတ်ပင်ဖြစ်၏။ကာဗျူရက်တာတွင် သေးငယ်ကျဉ်းမြောင်းသော လေဝင်လမ်းကြောင်းကလေးတခု ပါရှိ၍ ထိုလမ်းကြောင်းထဲသို့ ပစ်စတန်၏စုတ်အားဖြင့် လေကိုပြင်းထန်စွာစုတ်သွင်းသည်။ လေဝင်လမ်းကြောင်းတွင် ဓာတ်ဆီနှင့်ဖြည့်ထား၍ အရှိန်ပြင်းထန်စွာနှင့် ဝင်ရောက်လာသည့်လေက ထိုဓာတ်ဆီကို တပါတည်းသယ်ဆောင်ပြီးလျှင် ဆလင်ဒါအတွင်းသို့ ရေမွှေးဖျန်းပုလင်းဖြင့် ဖျန်းသည့်ပမာ ဓာတ်ဆီငွေ့အဖြစ်နှင့် ပန်းသွင်းပေးသည်။ ထိုသို့ဖျန်းပေးချိန်တွင် လျှပ်စစ်ပလပ်ခေါ် မီးပွင့်ဆို့မှ မီးပွင့်သဖြင့် ဓာတ်ဆီငွေ့သည် မီးကူးပြီးလျှင် ပေါက်ကွဲလေသည်။ အတွင်းမီးအင်ဂျင်စက်များတွင် ဓာတ်ငွေ့ရရှိရေးအတွက် ဓာတ်ဆီကို အများဆုံး အသုံးပြုကြ၏။ သို့သော် ဓာတ်ဆီအစား သာမန်အပူချိန်တွင် မီးလောင်လွယ်သော အရက်ပြန်၊ ရေနံ၊ ရေနံချေး၊ အဆက်တီလင်းဓာတ်ငွေ့စသည်တို့ကိုလည်း စက်တွင် သင့်တော်သလို ပြုပြင်စီမံ၍ အသုံးပြုနိုင်လေသည်။

ရုဒေါ့ ဒီဇယ်အမည်ရှိသော ဂျာမန်လူမျိုး အင်ဂျင်နီယာတဦးက ၁၈၉၂ ခုနှစ်တွင် ဒီဇယ်အင်ဂျင်ခေါ် အတွင်းမီး အင်ဂျင်စက်တမျိုးကို မူပိုင်မှတ်ပုံတင်ခဲ့သည်။ ပဌမကမ္ဘာစစ်ကြီးအတွင်းက ဂျာမန်လူမျိုးတို့သည် ဤစက်မျိုးကို ဓရေငုပ်သင်္ဘောများတွင် တပ်ဆင်၍ အသုံးပြုခဲ့ရာ များစွာအောင်မြင်လေသည်။ ထိုစက်သည် ဓာတ်ဆီ ရေနံဆီတို့ထက် အမျိုးညံ့သော ဆီအပေါစားများကို အသုံးပြုခုတ်မောင်းနိုင်ခြင်းကြောင့် အတွင်းမီးအင်ဂျင်စက်ထဲတွင် စရိတ်အသက်သာဆုံးဖြစ်၏။ ဒီဇယ်စက်တွင် လောင်စာအဖြစ် အသုံးပြုထားသော ဒီဇယ်ဆီကို ပစ်စတန်၏ဖိအားဖြင့်ပူစေ၍ အလိုအလျောက် မီးလောင်ပေါက်ကွဲစေသဖြင့် ကာဗျူရက်တာ၊ လျှပ်စစ်ပလပ်စသည်တို့ကို အသုံးပြုရန်မလိုသည့်အတိုင်း မီးဘေးအတွက် ပို၍ စိတ်ချရသည်။ ဒီဇယ်စက်တွင် လေးချက်ခုတ်နှင့် နှစ်ချက်ခုတ်စက် နှစ်မျိုးစလုံးရှိသည်။ ရေနွေးငွေ့စက်လောက် နေရာကျယ်ပြန့်စွာမလိုသည့်အတွက်လည်း အထူးသဖြင့် ကုန်ပစ္စည်းတင်ရန် နေရာကျယ်ဝန်းစွာလိုသော ပင်လယ်ကူးသင်္ဘောကြီးများအဖို့ ပိုမိုသင့်တော်သည်။ ယခုအခါ ပင်လယ်ကူးသင်္ဘောကြီးများတွင် ဒီဇယ်စက်များကို တနေ့တခြား အသုံးများလာကြရာ မကြာမီပင် သင်္ဘောမှန်သမျှ၌ ရေနွေးငွေ့အင်ဂျင်စက်များအစား ဒီဇယ်စက်များကိုသာ တပ်ဆင်ခုတ်မောင်းလာစရာအကြောင်းရှိပေသည်။ ဒီဇယ်စက်များဖြင့် ယခုအခါ မီးရထား၊ မော်တော်ကား၊ လျှပ်စစ်အားပေးစက်၊ ရေစုတ်စက်စသည့် စက်အမျိုးမျိုးကိုလည်း ခုတ်မောင်းလာကြရုံမက လေယာဉ်ပျံအတွက် သင့်တော်သောဒီဇယ်စက်များကိုပင် ကြံစည်တီထွင်နိုင်ခဲ့ကြပေပြီ။

အထက်တွင်ဖော်ပြခဲ့သော စက်များကား ပစ်စတန်၏ရှေ့တိုးနောက်ငင် လှုပ်ရှားမှုဖြင့် ခုတ်မောင်းသော "ပြန်လှန်ခုတ်" အင်ဂျင်စက်မျိုးဖြစ်ကြ၏။ အခြားတမျိုး၌မူ ဓာတ်ငွေ့တာဗိုင်စက်နှင့်ဂျက်စက်စသည်တို့ပါဝင်လေသည်။ (တာဗိုင်ရဟတ်စက်။ဂျက်အင်ဂျင် — ရှု။)

**အတွင်းဝိုက်လေဝဲ။** ။ဆိုင်ကလုန်း — ရှု။

**အထက်ချင်းတွင်းခရိုင်။** ။ချင်းတွင်းခရိုင်၊ အထက် — ရှု။

**အထည်အလိပ်။** ။အထည်အလိပ်ဆိုသည်မှာ လူတို့၏ ကိုယ်ခန္ဓာကို ဖုံးလွှမ်းရန် အဝတ်အစားနှင့် လူအသုံးအဆောင် အိပ်ရာခင်းနားများ ချုပ်လုပ်ရသော ပစ္စည်းဖြစ်လေသည်။ ယဉ်ကျေးမှုရောင်ခြည်သန်းစ ရှေးအခါကပင် လူများသည် မိမိတို့၏ကိုယ်ခန္ဓာကို ဖုံးလွှမ်းရန် အသိဉာဏ်ရရှိကြ၍ မြက်ပင်၊ နွယ်ပင်၊ လျှော်မျှင်များဖြင့် အဝတ်တန်ဆာရက်လုပ်ကာ ဝတ်ဆင်ခဲ့ကြလေသည်။ ယခုခေတ်တိုင်အောင်လည်း အထည်အလိပ်ဟူသည်မှာ ရက်လုပ်၍ အသုံးပြုရသော ပစ္စည်းများ ဖြစ်ကြသည်။

ယခုခေတ်တွင် အထည်အလိပ်ရက်လုပ်ရန် အသုံးပြုကြသော ပစ္စည်းများမှာ ပိုး၊ ဝါဂွမ်း၊ ဂုံလျှော်တို့မှ ပြုလုပ်ရရှိသော ခြည်မျှင်နှင့် သိုးမွေး၊ ကုလားအုပ်မွေးစသည့် သားမွေးများ ဖြစ်ကြသည်။ ယင်းတို့ကို အထည်ရက်လုပ်၍ရနိုင်စေရန် အမျှင်များဖြစ်အောင် ပြုလုပ်ရလေသည်။ အထည်အလိပ်ရက်လုပ်ပုံမှာ ရက်ကန်းစင်ပေါ်တွင် ဖြန့်တန်းထားသည့် တိုင်ချည်ဟုခေါ်သော ခြည်မျှင်များ ကြားထဲသို့ ဖောက်ခြည်ဟုခေါ်သော ခြည်မျှင်များကို ထိုးသွင်းရက်လုပ်ကြရလေသည်။ ထိုသို့ အတိုင်အဖောက်များနှင့်ရက်လုပ်ခြင်းမှာ ရှေးရှေးကလူတို့သည် နွယ်ပင်မြက်ပင်များကို ရက်လုပ်သည့်နည်းနှင့် အခြေခံအားဖြင့် တူညီလေသည်။ ထိုမှတဆင့် တဖြည်းဖြည်းတိုးတက်ကောင်းမွန်အောင် တီထွင်လာကြ၍ ဒေသအလိုက် ကောင်းနိုးရာရာများကို အဆန်းတကြယ် ထည့်သွင်းရက်လုပ်ကြလေသည်။ အချို့အထည်အလိပ်များမှာ ရက်လုပ်ပုံကိုလိုက်၍ အမျိုးအစားကွဲပြားလေသည်။

အထည်အလိပ်များကို ရက်လုပ်ကြပြီးနောက် ရက်လုပ်သည့်ဒေသကိုအစွဲပြု၍ အမည်ပေးကြလေသည်။ ကျွန်ုပ်တို့မြန်မာနိုင်ငံတွင် ထင်ရှားသော ဘန်ကောက်၊ ဇင်းမယ်စသည့် ပိုးထည်မျိုးများမှာ ယင်းတို့ကို စတင်ရက်လုပ်ရာဒေသ၏အမည်ကိုအစွဲပြု၍ ခေါ်ခြင်းဖြစ်လေသည်။ အနောက်တိုင်းတွင် ဒမတ်အမည်ရှိသော အထည်မျိုးမှာလည်း ဤကဲ့သို့ပင် အရပ်ဒေသကိုအစွဲပြု၍ ခေါ်သော အထည်မျိုးဖြစ်သည်။ ဒမတ်အထည်မျိုးမှာ ဆီးရီးယားနိုင်ငံ ဒမတ်စကပ်မြို့တွင် စတင်ရက်လုပ်သော ဖဲထည်များဖြစ်လေသည်။ ထိုဖဲထည်များ၏ အထည်သားများတွင် ပန်းပွင့်၊ ပန်းနွယ်၊ ကျေးငှက်တိရစ္ဆာန်ရုပ်များနှင့် ရှုမျှော်ခင်းပုံများကို ထည့်သွင်းရက်လုပ်ထားသည်။ နောက်ခေတ်များတွင် စားပွဲ၊ ကုလားထိုင်စသည့် အိမ်ထောင်ပရိဘောဂများကို ဖုံးလွှမ်းရန် ထိုသို့ အဆင်အပွင့်ဖော်ကာ ရက်လုပ်သည့် အထည်မျိုးမှန်သမျှကို ဒမတ် ဟူ၍ပင် ခေါ်လေသည်။ ဗရိုကိတ်ခေါ် အထည်မျိုးတွင်ကား ဖောင်းကြွ၍လှပသောပန်းပေါက် ပန်းပွင့်ပုံများပေါ်အောင် ရက်လုပ်ထားလေသည်။ ထိုသို့ အဆင်အပွင့်များ ထည့်သွင်းရက်လုပ်ရာတွင် တခါတရံ ရွှေခြည် ငွေခြည်မျှင်များကိုပါ ထည့်သွင်းရက်လုပ်ထားကြသည်။

လင်နင်ခေါ် ပိတ်ချောမျိုးမှာကား ပိုက်ဆံပင်နှင့်ခပ်ဆင်ဆင်တူသည့် ဘီသွာလျှော်ပင်မျိုးမှရရှိသော အမျှင်များဖြင့် ရက်လုပ်ရသော အထည်မျိုးဖြစ်သည်။ ဘီသွာလျှော်ပင်မှ အမျှင်များမှာ ပိုးမျှင်ကလေးများသဖွယ် အလွန်သေးငယ်၍ ထိုအမျှင်များဖြင့် ရက်လုပ်ရရှိသော ပိတ်ချောများမှာလည်း ပိုးသားတမျှနူးညံ့၍ အဖိုးတန်လေသည်။ လင်နင်ထည်အမျိုးမျိုးရှိသည့်အနက် မျက်နှာသုတ်ပုဝါစသော အထည်ကြမ်းမျိုးလည်း ရှိပေသည်။ (လင်နင်ပိတ် — လည်းရှု။) ကင်းဗရစ် ခေါ် ပိတ်ချောထည်မျိုးမှာ နူးညံ့ဖြူဖွေးသော လင်နင်အထည်ချောတမျိုးဖြစ်လေသည်။



စက်မှုလုပ်ငန်း ထွန်းကားသော ယခုခေတ်တွင် အထည်အလိပ်ကို ဤသို့ စက်ဖြင့်ရက်လုပ်သည်။

သရက်ထည်ဟုခေါ်သော ပွင့်ရိုက်ခြည်ထည်များမှာ ဝါဂွမ်းခြည်မျှင်များဖြင့် ရက်လုပ်ထားလေသည်။ သရက်ထည်များသည် အစပဌမတွင် အဖြူသက်သက် ခြည်ထည်မျိုးများသာ ဖြစ်သော်လည်း နောင်တွင် အရောင်အသွေးအမျိုးမျိုးဖြင့် အဆင်အပွင့်များရိုက်ပေးကြသည်။ အဆင်များပေါ်စတွင် အဆင်ဖော်ထားသော ဘလောက်တုံးများဖြင့် အထည်အသားပေါ်တွင် လက်ဖြင့်လိုက်၍ ဖိနှိပ်ပြီးလျှင် အဆင်ရိုက်ရသည်။ နောက် ပိုး၊ ဖဲ၊ သိုးမွေးထည်များကိုလည်း သရက်ထည်များကဲ့သို့ ပွင့်ရိုက်အထည်များပြုလုပ်ကြလေသည်။

အထည်အလိပ်များကို ရှေးအခါက လက်ဖြင့်ရက်လုပ်ကြ၏။ သိပ္ပံပညာတိုးတက်လာ၍ စက်မှုလက်မှုလုပ်ငန်းထွန်းကားလာသော အခါ အထည်အလိပ်တို့ကို စက်ဖြင့်ရက်လုပ်ကြ၏။ အထူးသဖြင့် အနောက်နိုင်ငံများတွင် အထည်အလိပ်စက်ရုံကြီးများ ပေါ်ပေါက်လာလေသည်။ မြန်မာနိုင်ငံအစရှိသောအရှေ့တိုင်းနိုင်ငံများတွင်ကား လက်



**အထည်အလိပ်စက်ရုံများမှ နာရီပိုင်းအတွင်းတွင် ကိုက်ပေါင်းများစွာသော အထည်များကို ထုတ်လုပ်ပေးနိုင်ပေသည်။**

ရက်ကန်းဖြင့် အထည်အလိပ်များကို ရက်လုပ်ကြတုန်းပင် ရှိသေးသည်။ လက်ရက်ထည်များမှာ သေသပ်ခိုင်ခံ့လှသော်လည်း စက်ဖြင့်ရက်လုပ်သော အထည်များမှာ အချိန်ကုန်စရိတ်ကုန်နည်း၍ အဖိုးပေါပေါနှင့် ရောင်းချနိုင်သဖြင့် အသုံးများလာလေသည်။ ရက်လုပ်ပုံတို့၏အခြေခံသဘောကိုယူ၍ တိုးတက်ကောင်းမွန်အောင်တီထွင်ထားခြင်းသာ ဖြစ်လေသည်။ ယခုခေတ်တွင် လက်ရက်ထည်လုပ်ငန်းများသည် တနေ့တခြား နည်းပါးသွားလေပြီ။

တိုးတက်နေသော သိပ္ပံပညာသည် အထည်များရက်လုပ်ပုံ၌ ပြုပြင်ပြောင်းလဲမှုများကို ဖြစ်ပေါ်လာစေသကဲ့သို့ အထည်ရက်လုပ်ရမည့် ပစ္စည်းများကိုလည်း ပြုပြင်ပြောင်းလဲပေး၍ အစားထိုးပေးလေသည်။ သိပ္ပံပညာ၏ဖန်တီးမှုကြောင့် ပိုးထည်များကို အစားထိုးရန် ပိုးတုအထည်များရက်လုပ်နိုင်လေသည်။ ပိုးတုအထည်များကို ရေယွန် ဟုခေါ်၍ သစ်သားကို အမှုန့်ဖြစ်အောင်ပြုပြီးလျှင် ပိုးတုချည်မျှင်များအဖြစ်သို့ရောက်အောင်သိပ္ပံနည်းဖြင့်စီမံထားခြင်းဖြစ်လေသည်။ ဝါစေ့အခွံများကိုလည်း ရေယွန်ပိုးတုများရက်လုပ်နိုင်မည့် ပိုးတုချည်မျှင်များဖြစ်အောင် သိပ္ပံပညာက ဖန်တီးပေးလေသည်။ (ရေယွန် — ရှု။)ဒုတိယကမ္ဘာစစ်အပြီးတွင်ပေါ်လာ၍ အလွန်လူကြိုက်များသော နိုင်လွန်ခေါ် ပိုးတုအထည်များမှာလည်း သိပ္ပံပညာက ဖန်တီးထုတ်လိုက်သောအထည်များဖြစ်သည်။ နိုင်လွန်ပိုးထည်များမှာ ကျောက်မီးသွေး၊ရေ၊လေ၊ခေတ်ဆီငွေ့တို့မှ ဓာတုဗေဒနည်းဖြင့်စီမံလုပ်ကိုင်ထားသောပိုးထည်တမျိုးဖြစ်လေသည်။(နိုင်လွန် — ရှု။)ပိုးတုများကဲ့သို့ပင်သိုးမွေးတုများကိုလည်းသိပ္ပံပညာဖြင့်လုပ်ကိုင်ဖြစ်မြောက်လေသည်။ဣတလီနိုင်ငံမှ ဓာတုဗေဒပါရဂူများသည် နွားနို့မှသိုးမွေးတုဖြစ်အောင်တီထွင်လုပ်ကိုင်၍ ထိုသိုးမွေးတုများကို လာနီတောဟုအမည်ပေးလေသည်။ သိုးမွေးထည်များမှာကား သိုး၏အမွေးများသာမက သားမွေး ကုလားအုပ်အမွေးများဖြင့်လည်းပြုလုပ်ရရှိလေသည်။ ရှုံထည်များမှာလည်း သိုးမွေးဖြင့်ပြုလုပ်ထားသော အထည်များ ဖြစ်လေသည်။

သိုးမွေးဖြင့် ရက်လုပ်သော သိုးမွေးထည်များအပြင် သိုးမွေး၊ သားမွေးစသည့် တိရစ္ဆာန်မွေးများဖြင့် ပြုလုပ်ရသော ကြိတ်သက္ကလတ်ထည်များလည်း ရှိပေသေးသည်။ ကြိတ်သက္ကလတ်ထည်များမှာ ရက်လုပ်ထားသော အထည်မျိုးမဟုတ်ပေ။ သိုးမွေးများမှာ တခုနှင့်တခု ငြိတွယ်နေတတ်သော သဘောရှိလေရာ ထိုအမွေးများကို ဖြန့်ချပြီးလျှင် အလွှာအလွှာများကို ထပ်ပေးရသည်။ အလွှာအတော်ထူသောအခါ ဒလိမ့်တုံးဖြင့် လှိမ့်ချခြင်းဖြင့် သက္ကလတ်အလွှာများကိုရရှိလေသည်။ သက္ကလတ်များကို ဤနည်းဖြင့် ရှေးကပင် ပြုလုပ်၍ သုံးခဲ့ကြလေသည်။ (ကြိတ်သက္ကလတ် — ရှု။)

အထည်အလိပ်အမျိုးမျိုးတွင် ရက်လုပ်ရသည့်အထည်မျိုးမဟုတ်သော အထည်အလိပ်များလည်း ရှိပေသေးသည်။ပုံစံအားဖြင့် ခြေအိတ်၊ လက်အိတ်၊ အတွင်းခံအဝတ်အထည်စသည်တို့မှာ ရက်လုပ်ရသောအထည်မဟုတ်ချေ။ ယင်းတို့မှာ လက်ဖြင့်နှစ်ချောင်းဆိုး ထိုးသကဲ့သို့ ခြည်မျှင်တချောင်းတည်းဖြင့် ကွင်းဆက်ကလေးများ ပြုလုပ်ကာ လုပ်ကိုင်ရသော အထည်မျိုးဖြစ်သဖြင့် ဆွဲကား၍ရလေသည်။ ထိုကဲ့သို့သော အထည်မျိုး ပြုလုပ်နည်းကို တွေ့ရှိသည်မှာ နှစ်ပေါင်းသုံးလေးရာမျှသာ ကြာပေသေးသည်။

ကတ္တီပါခေါ်သော အထည်မျိုးမှာကား ရက်လုပ်ရသည့် အထည်မျိုးဖြစ်သော်လည်း ရက်လုပ်နည်းမှာတမျိုးတဖုံဖြစ်လေသည်။ ကတ္တီပါထည်များမှာ များသောအားဖြင့် ပိုး၊ သိုးမွေးတို့ဖြင့် ရက်လုပ်ရ၍ များစွာအဖိုးတန်လှပေသည်။ သို့ရာတွင် နှစ်ပေါင်း မကြာမီခန့်က ဈေးချိုသော ခြည်ကတ္တီပါများလည်း ပေါ်ပေါက်လာခဲ့သည်။ ကတ္တီပါအသားမှာ အလှဖက်တွင် ညီညာနူးညံ့သောအမွေးကလေးများ ရှိလေသည်။ ထိုသို့အမွေးပွကလေးများဖြစ်အောင် အတိုင်အဖောက်ရက်လုပ်သွားစဉ် ကွင်းကလေးများဖြစ်အောင် အတိုင်ပင် အဖောက်ပင်များကြားတွင် ထည့်သွင်းရက်လုပ်သွားရလေသည်။ မျက်နှာပြင်ပေါ်တွင် ကွင်းကလေးများဖြင့် ပြည့်ကြပ်လာသောအခါမှ ညီညာစွာဖြတ်ပစ်သဖြင့် ကတ္တီပါထည်မှာ အမွေးထောင်ထောင်ကလေးများနှင့် ဖြစ်လာလေသည်။

လူများသည် အဝတ်အစား ဝတ်စားဆင်ယင်ရမှန်းသိသည့်ခေတ်မှစ၍ အဝတ်အစားများကို တခေတ်နှင့်တခေတ်မတူအောင် အမျိုးမျိုး အဆန်းတကြယ်ထွင်ကာ ဝတ်စားဆင်ယင် လာခဲ့ကြသည်။ အထည်အလိပ်များကိုလည်း အမျိုးမျိုး ဆန်းပြားအောင် ပြုပြင်လုပ်ကိုင်ခဲ့ရာ တနေ့တခြား အထည်အလိပ်အမျိုးအစားများ တိုးတက်များပြား ဆန်းကြယ် လာလေသည်။ ယနေ့ သော်ကား အထည်အလိပ်များကို ဝတ်စားဆင်ယင်မှု အတွက်သာ အသုံးပြုသည်မဟုတ်ပဲ အိပ်ရာခမ်းနား နေအိမ်စသည်တို့ကို ပြင်ဆင်မွမ်းမံမှုတို့အတွက်ပါ အသုံးချကြလေသည်။ သို့ဖြစ်၍ အထည်အလိပ်များမှာ အိမ်ထောင်စု တခုတွင် အလွန်လိုအပ်၍ မသုံးမဖြစ်သောပစ္စည်းများ ဖြစ်ပေသည်။

**အဒူမင်းညို။** ။မြန်မာ စာပေ၌ တွေ့ရှိ ရသမျှသော ချောင်းတကာတွင် အဟောင်းဆုံးဖြစ်သော ရခိုင်မင်းသမီးချောင်းကို စပ်ဆိုခဲ့သူမှာ ရခိုင်အမတ် အဒူမင်းညိုဖြစ်၏။ အဒူမင်းညိုသည် ချောင်းမျိုးစေ့ကိုချခဲ့သူဟု ဆိုရပေမည်။ အင်းဝခေတ်စာဆိုကျော်သခင်ထွေးချောင်းဆရာ ရှင်သူရဲနှင့် ခေတ်ပြိုင်စာဆိုသူလည်းဖြစ်၏။ သို့ရာတွင် ရှင်သူရဲသည် သခင်ထွေးချောင်းကို ရခိုင်မင်းသမီးချောင်းနောက် အနှစ် ၂၀ ကျော်ကြာမှ စပ်ဆိုလေသည်။ အဒူမင်းညိုကား သက္ကရာဇ် ၇၁၇ ခု မှ ၇၄၀ ပြည့်နှစ်အထိ ရခိုင်ပြည် ယခု မြို့ဟောင်းခေါ်သော မြောက်ဦးမြို့၌ နန်းစံခဲ့သော ရခိုင်ဘုရင် ဘစောဖြူ၏လက်ထက်တွင် အမတ်ပညာရှိကြီးအဖြစ် အမှုထမ်းရွက်နေသူ ဖြစ်၏။ ထိုအချိန်ကား အင်းဝနှင့် ရခိုင်သည် မင်းပြိုင်အုပ်စိုး၍ စာပြိုင်ဆိုသောအခါဖြစ်၏။ အဒူမင်းညိုသည် ရခိုင် အမတ်ကြီးပင် ဖြစ်လင့်ကစား မြန်မာမှုကို ကျွမ်းကျင်၍ မြန်မာစာပေကို ပြုစုနိုင်စွမ်းသူ ဖြစ်လေသည်။

အမတ်ကြီးစပ်ဆိုသောချောင်းတွင် ချောင်းဘွဲ့ခံ ရခိုင်ဘုရင် ဘစောဖြူ၏ သမီးတော်ကလေး၏ ဆွေတော်စဉ်စာရင်းကို ရှင်းလင်းစွာ ဖော်ပြစပ်ဆိုသွား၏။ သုံးစွဲထားသောစကားလုံးများမှာလည်း သုတိသာယာ၍ ပေါ်လွင်လှ၏။ ဖွဲ့ဆိုလိုသမျှကို မကွယ်မထောင့် ပြတ်သားစွာ ဖွဲ့ဆိုနိုင်၏။ သို့ရာတွင် ချောင်းမျိုးစေ့ချရုံမျှသာ ဖြစ်ရကား တောင်ငူခေတ်နှင့် ကုန်းဘောင်ခေတ်ပေါ် ချောင်းများလောက် အကြောင်းအရာမစုံလင်။ ရာဇဝင်ကြောင်းဖက်မှလည်း ပြည့်စုံသည်ဟု မဆိုသာချေ။ ရှေးအခါက ဘုရင့်ရင်သွေးတော်များကို ပုခက်တင်ရာ၌ မည်ကဲ့သို့ ပုခက်ကို ဆင်ယင်ရပုံကို ဗဟုသုတဖြစ်ဖွယ် ရေးသားခဲ့သဖြင့် ကျေးဇူးတင်ထိုက်လှပေသည်။

**အနာတမိ။** ။အနာတမိဟူသော ဝေါဟာရသည် ဂရိဘာသာစကားမှဆင်းသက်လာ၍ ခွဲစိတ်ခြင်း၊ ဖြတ်တောက်ခြင်းဟု အဓိပ္ပါယ်ရသည်။ ကိုယ်ခန္ဓာရှိ အသားမျှင်အားလုံးတို့ကို မား၊ ညှပ် တို့နှင့် သတိရှိရှိဖြင့် ခွဲစိတ်ဖြတ်တောက်ခြင်းအားဖြင့် ဆေးကျောင်းသား တယောက်သည် ထိုအသားမျှင်တို့၏ အနေအထားနှင့် ယင်းတို့၏ဆောင်ရွက်မှုတို့ကို တိတိကျကျ သိရှိနိုင်လေသည်။ သမိုင်းတင်သည့်အခါမှစ၍ လူသေကောင်ကို ဤကဲ့သို့ စူးစမ်းစစ်ဆေး

လေ့လာခဲ့သော်လည်း လူတို့၏အယူသည်းမှု၊ အသိပညာကင်းမဲ့မှုတို့ကြောင့် အလယ်ခေတ်တလျှောက်လုံးတွင် သိပ္ပံပညာနည်းဖြင့် ရှာဖွေလုပ်ကိုင်ခဲ့သောလူတစုမှာ အတော်ပင် စိတ်ပျက်ခဲ့ရလေသည်။ ယခုခေတ် အနာတမီပညာကို စတင်ပြုစုပျိုးထောင်ခဲ့သူမှာ ဗီဆေးလီယပ်အမည်ရှိ ဗဲလဂျီယန် အမျိုးသားတဦး ဖြစ်သည်။ ၁၆ ရာစုခေတ်မှာပင် ဣတာလျံလူမျိုးတဦးဖြစ်သော ဖဲလိုးပီယက်အမည်ရှိပုဂ္ဂိုလ်သည် နောက်ခေတ်သုတေသီများကို များစွာကူညီခဲ့လေသည်။ (ဗီဆေးလီယပ်,အန်းဒရိယ — လည်းရှု။)

ရှေးခေတ်က ခွဲစိတ်စစ်ဆေးရန် လူသေကောင်ရဖို့အရေးသည် မလွယ်ကူလှချေ။ သုသာန်မှလူသေကောင်များကိုခိုး၍ ဆရာဝန်နှင့် ခွဲစိတ်ကုဆရာဝန်များကို ပေးရသည်။ ခွဲစိတ်ကုဆရာဝန်များက မိမိတို့၏ဆိုင်ရာကျောင်းသားများကို လူသေကောင်များဖြင့် လက်တွေ့သင်ကြားပေးကြရလေသည်။ ၁၉ ရာစုခေတ်မှာပင် လူသတ်သမားကြီးများဖြစ်ကြသော ဗတ်နှင့်ဟဲတို့သည် မိမိတို့သတ်ဖြတ်ခဲ့သော အလောင်းကောင်များကို အက်ဒင်ဗရာမြို့မှ ဒေါက်တာနော့အား လက်တွေ့စမ်းသပ်ရန် ရောင်းချကြသည်။ ယခုတိုင် လန်ဒန်မြို့ရှိ အချို့သော ဝတ်ကျောင်းပတ်လည် သုသာန်မြေဟောင်းများတွင်ညဥ့်အစောင့်များသည် လူသေအလောင်းသူခိုးများကို စောင့်ဖမ်းနေကြရသည်။ ကျွန်ုပ်တို့ခေတ်တွင်မူကား လူများသည်အမြင်ပို၍ကျယ်လာသည်ဖြစ်ရကား ခွဲစိတ်ခြင်းကိုသဘောပေါက်လာရရောဂါဆန်းနှင့် သေဆုံးသောသူ၏ အလောင်းများကို ခွဲစိတ်စစ်ဆေးနိုင်ရန် ဆေးရုံရှိဆရာဝန်များထံ ထားခဲ့ကြလေသည်။ ဤသို့ ထားခဲ့ခြင်းအားဖြင့် ရောဂါပျောက်ကင်းရေးတွင် ဆရာဝန်များအားကူညီရာရောက်သည်ဟုသိရှိလာကြသည်။

ခန္ဓာကိုယ်ဆောင်ရွက်မှုများကို အမျိုးမျိုးသောအင်္ဂါစုများက ထိန်းသိမ်းစောင့်ရှောက်လျက်ရှိကြ၏။ ပါးစပ်မှ စအို၀ထိ တောက်လျှောက်တန်းလျက်ရှိသော အစာချေအင်္ဂါစုသည် အစာကိုညက်ညက်ကြေအောင်ဝါး၍ သက်ရှိတို့၏ လိုအပ်သောနေရာများသို့ပို့ပေးရန် ပြင်ဆင်မှုများပြုလုပ်ပေးရသည်။ အသက်ရှူမှု အင်္ဂါစုတွင် အဆုတ်နှင့် လေလမ်းများပါဝင်ရာ ယင်းတို့က အောက်ဆီဂျင်နှင့် ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်များကို လဲလှယ်ပေးရ၏။ သွေးကြောစုသည် နှလုံးဟုဆိုအပ်သော သန်မာသည့် အသားပြွတ်တခုဖြင့် ပြုလုပ်ထားရာ ထိုနှလုံးသည် ကိုယ်အင်္ဂါအစိတ်အပိုင်းအရပ်ရပ်သို့ သွေးများ ပျံ့နှံ့သွားစေရန် သွေးလွှတ်ကြော၊ သွေးပြန်ကြော၊ သွေးမျှင်ကြောတို့မှ တဆင့် ပန်းထုတ်ပေးရသည်။ သွေးသည် အောက်ဆီဂျင်ကို တစ်ရှူးများဆီသို့ပို့၍ ကာဗွန်ဒိုင်အောက်ဆိုက်ကို ဖယ်ရှားပစ်သည်။

'ခန္ဓာကိုယ်အရိုးစုသည် ကိုယ်ထည်တခုလုံးကိုထောက်ပံ့၍ ဆောင်ထား၏။ အရိုးများတွင် ကြွက်သားကြောများ ကပ်လျက်ရှိသောကြောင့် လှုပ်ရှားနိုင်၏။ နာဗ်ကြောအဖွဲ့' သည် အမြင်၊ အကြား၊ အနံ့၊အရသာ၊အတွေ့အထိစသော အာရုံများ၏ စေ့ဆော်မှုများကို သယ်ဆောင်ယူသွားသော အဖွဲ့အစည်း ဖြစ်သည်။ မာသောခေါင်းခွံဖြင့် ဖုံးအုပ်ကာကွယ်ထားသော ဦးနှောက်သည်ကား မှတ်ဉာဏ်နှင့် ဆင်ခြင်တုံတရားစသော စိတ်နှင့်ဆိုင်သည့် ဆောင်ရွက်မှုတို့ကို ပြုလုပ်ဆောင်ရွက်သော ဗဟိုဌာန ဖြစ်သည်။

ကျွန်ုပ်တို့၏ ခန္ဓာကိုယ်အဆောက်အအုံကို ခွဲစိတ်လေ့လာသော အတတ်ပညာကို လက်တွေ့အနာတမီဟု ခေါ်သည်။ ယင်းလက်တွေ့ပညာသည် ခွဲစိတ်ကုဆရာဝန်အတွက် အလွန်လိုလားအပ်သောအခြေခံပညာဖြစ်သည့်ပြင် သာမန်ဆရာဝန်အတွက်လည်း လိုပေသည်။ လူမှတပါး တိရစ္ဆာန်အမျိုးမျိုးရှိရာတွင် တမျိုးနှင့်တမျိုး မည်သို့အဆက်အသွယ်ရှိပုံကိုလည်း နှိုင်းယှဉ်၍ ခွဲစိတ်လေ့လာကြသေးသည်။ ၁၈ ရာစုခေတ်တွင် ကူးဗီယေအမည်ရှိ ပြင်သစ်အမျိုးသားတဦးသည် တိရစ္ဆာန်များကို ယင်းတို့၏အသွင်ဖြင့်မဟုတ်ပဲ ကိုယ်တွင်းတည်ဆောက်ထားသည့် အနေအထားကိုလိုက်၍ အမျိုးအစားခွဲခြင်းကို စတင်ပြုစုပေးခဲ့သည်။ (ကူးဗီယေ,ဂျီ — လည်းရှု။) နောက်ရာစုခေတ်တွင် ချားဒါဝင်က အချို့တိရစ္ဆာန်အစုများသည် တစုနှင့်တစု တည်ဆောက်ထားပုံချင်းတူကြောင်း ဖော်ပြခဲ့သည်။ အဘယ်ကြောင့်ဆိုသော် ယင်းတို့သည် ရှေးတိရစ္ဆာန်တမျိုးတည်းမှ ဆင်းသက်ပေါက်ဖွားလာခဲ့ခြင်းကြောင့်ဖြစ်သည်ဟု ဆိုသည်။ (ဒါဝင်, ချားရောဗတ် — လည်းရှု။)

ဆောင်ရွက်မှုအနာတမီသည် ခန္ဓာကိုယ်အစိတ်အပိုင်းများ၏ လုပ်ကိုင်မှုနှင့်ပတ်သက်သည်။ ဤပညာရပ်ခွဲနှင့် စပ်လျဉ်း၍ ၁၆၂၈ ခုနှစ်က အင်္ဂလိပ်လူမျိုး ဝီလျံ ဟားဗေး ဆိုသူသည် သွေးလှည့်ပတ်ခြင်းအကြောင်းကို ပြဆိုခဲ့၏။ သူသည် ပက်ဒူးအားမြို့၌ ဗီဆေးလီယပ်နှင့် ဖဲလိုးပီယက်တို့ ပြုစုလုပ်ကိုင်ခဲ့သော အလုပ်များကို နည်းခံ၍ လေ့လာသင်ကြားခဲ့သည်။ သွေးလှည့်ပတ်ခြင်းအကြောင်းကို ဟားဗေး မတွေ့ရှိမီက သွေးသည် လှည့်ပတ်မသွားပဲ ကိုယ်တွင်း၌ ရှေ့တိုးနောက်ဆုတ်ကာ လှုပ်ရှားလျက်ရှိသည် ဟူ၍ပင် အတော်ဆန်းဆန်း တွေးတောယူဆခဲ့ကြသည်။ (ဟားဗေး, ဝီလျံ — လည်းရှု။)

များစွာသော ကိုယ်အင်္ဂါအစိတ်အပိုင်းတို့၏ အမည်များသည် ထိုအစိတ်အပိုင်းများကို ပဌမဆုံးတွေ့ရှိသော ကာယဗေဒဆရာတို့၏ အမည်ကိုအစွဲပြု၍ ခေါ်ထားကြခြင်း ဖြစ်သည်။ ခေါင်းခွံရှိ ဂေလင်သွေးပြန်ကြောများ၊ဦးနှောက်ရှိ ဆီလဗီယက်ပပ်ကြားများ၊ ပေါင်ခြံရှိ ပေါပတ်ရိုးဆက်ရွတ်

များ၊ ပေါင်အတွင်းအောက်ပိုင်းရှိ ဟန်းတားပေါင်မျှားမြောင်း စသည်တို့သည် ထိုထိုပုဂ္ဂိုလ်တို့၏အမည်ကိုအစွဲပြု၍ ခေါ်ထားခြင်း ဖြစ်သည်။ ဂေလင်သည် ဂရိလူမျိုးဖြစ်၍ ရောမမြို့မှ ဆရာဝန်ဖြစ်သည်။ ဆီလဗီယက်သည် လေဒင်တက္ကသိုလ်မှ ဒပ်ချလူမျိုးပါမောက္ခဖြစ်၍ ပေါပပ်ကားပြင်သစ်ကာယဗေဒဆရာဖြစ်သည်။ ဂျွန် ဟန်းတားသည် လင်းနာ့ရှိုင်ယာနယ်တွင် မွေးဖွား၍ ၁၀ နှစ်သားအရွယ်တွင် သူ၏ဖခင် သေဆုံးသွားလေသည်။ ထိုကြောင့် ဂျွန်သည် အိမ်ထောင်ပရိဘောဂလုပ်ကိုင်သူ ဆွေမျိုးတဦးထံသို့သွား၍ အလုပ်သင်ရသည်။ ဂျွန်အသက် ၂၀ နီးပါးမျှရှိသောအခါ အလုပ်အကိုင်မကောင်းသဖြင့် လန်ဒန်မြို့တွင် အနာတမိကထိကဖြစ်နေသော သူ၏အစ်ကိုထံ စာရေး၍ အကူအညီတောင်းရလေသည်။ သူ၏အစ်ကို ဝီလျံ ဟန်းတားကလည်း စာရေးသည့်အတိုင်း လန်ဒန်သို့ခေါ်ယူ၍ ခွဲစိတ်ခန်းတွင် အကူအညီအဖြစ်ဖြင့် လုပ်ကိုင်စေလေသည်။

ဂျွန်သည် တနှစ်နီးပါးမျှလုပ်ကိုင်ပြီးသောအခါ အနာတမိပညာ၌ အတော်ဗဟုသုတရလာပြီဖြစ်ရကား ဆေးကျောင်းသားအတန်းတတန်းကို သင်ကြားရန် တာဝန်ပေးခြင်းခံရလေသည်။ထိုနောက် ခဲ့လဆီနှင့်စိန်ဗာသောလမျုးဆေးရုံတို့တွင် ခွဲစိတ်ခြင်းဆိုင်ရာပညာရပ်ကို သင်ကြားတတ်မြောက်ပြီးနောက် ဆေးရုံတခုတွင် ခွဲစိတ်ဆရာအဖြစ်ခန့်ထားခြင်း ခံရလေသည်။ ဂျွန်သည် မိမိဝါသနာပါသည့်ပညာရပ်တွင် လေ့လာဆည်းပူးသင်ကြားရသဖြင့် အံ့သြလောက်အောင် တိုးတက်မှုရလာသောကြောင့် လူထု၏ကြည်ညိုလေးစားမှု၊ ဂုဏ်ပြုမှုကို ရရှိလေသည်။ သူရရှိသောငွေများကိုနိုင်းရှည့်အနာတမိပညာသင်ကြားနိုင်ရန်အတွက် နမူနာများကို စုဆောင်းရာ၌ အသုံးပြုခဲ့သည်။ အသက် ၆၅ နှစ်တွင် ဂျွန် ဟန်းတား သေဆုံး၏။ သေဆုံးပြီးနောက် သူစုဆောင်းထားသော နမူနာများကို ဗြိတိသျှအစိုးရက ပေါင် ၁၄,၀၀၀ နှင့်ဝယ်၍ တော်ဝင်ခွဲစိတ်ရေးဆရာဝန်များကောလိပ်သို့ လွှဲအပ်လိုက်လေသည်။ ဟန်းတားသည် သူ၏ခေတ်တွင် အနာတမိပညာ၌ ထူးခြားပြောင်မြောက်အောင် တတ်စွမ်းသည်သာမက ရောဂါစူးစမ်းရေး ဆရာဝန်အကြီးဆုံးလည်း ဖြစ်ခဲ့လေသည်။

ဖလိုးပီယက် (၁၅၂၃–၆၂)သည် ဣတလီနိုင်ငံ၊မိုးဒေနာမြို့တွင် မွေးဖွား၍ ဖာရာရားမြို့တွင် အနာတမိပါမောက္ခဖြစ်လာသည်။ ထိုနောက် သူသည် ပက်ဒူးအားတက္ကသိုလ်၌ အနာတမိ၊ခွဲစိတ်ပညာနှင့်ရုက္ခဗေဒပညာရပ်တို့ကို သင်ကြားပြသ၏။

ဗီဆေးလိယပ် (၁၅၂၄–၆၄)သည် ဗရပ်ဆဲမြို့တွင် မွေးဖွား၏။ သူလည်း ကျော်ကြားသောပက်ဒူးအားတက္ကသိုလ်သို့သွား၍ အနာတမိနှင့်ခွဲစိတ်ပညာကို သင်ကြားပြသသည်။ထိုနောက် ဣတာလျံတက္ကသိုလ်များသို့ရှင်း၊ဗားလမြို့တက္ကသိုလ်သို့ရှင်း သွားရောက်သင်ကြားပြသသည်။ ဗီဆေးလိယပ်သည် ကေရာဇ်ဘုရင် ပဥ္စမမြောက် ချားဒါ်သမားတော်ချုပ်အဖြစ် ခန့်အပ်ခြင်းခံရပြီးသည်နောက်၊ လူသေကောင်များကို ခွဲစိတ်သောကြောင့် ယင်းရာထူးမှ ထွက်ရလေသည်။ ၁၅၄၃ ခုနှစ်တွင် သူသည် အလွန်အရေးကြီးသည့် နှလုံးနှင့် ယင်း၏ အခင်များအကြောင်းစာအုပ်ကို ရေးသားထုတ်ဝေလေသည်။

**အနာပေါက်ခြင်း။** ။အနာပေါက်ခြင်းမှာ ခန္ဓာကိုယ်၌ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယောဟု အထည်ကိုယ်အမာခံ ဓာတ်ကြီးလေးပါးရှိသည်။ ယင်းဓာတ်ကြီးလေးပါးတို့တွင် ပြင်ပမှ အာပေါဓာတ်က ဖွဲ့စည်းချုပ်ကိုင်ထားသည့်အတွက် အကျဉ်းကျနေသော တေဇောဓာတ် မီးအခိုးအကင်းသည် လွန်ကဲကာ မိမိမှီရာအိမ်ရှင်ပထဝီဓာတ်ကို ချိုးဖဲ့ဖျက်ဆီး၍ ထွက်ရသောကြောင့် ခန္ဓာကိုယ်၌ သွေးပြည်စုလျက် အဖု၊ အပိန့်၊ အလုံး၊ အခဲ အသေး အကြီးဖြစ်လာသောရောဂါဖြစ်သည်။ ထိုရောဂါကို အနာပေါက်သည်ဟု ခေါ်ဆိုသည်။

ထိုကြောင့် ဆနဝုဘိဆေးကျမ်း၌ “ဆနဝုတိ၊ အမည်ရှိသား၊ ကျမ်းကြီးအလို၊ ထွက်ဆိုကြောင်းအင်၊ ဘယ်အသွင်ဖြင့်၊ ဘယ်တွင်ပေါက်လာ၊ ဘယ်အနာဟု၊ နေရာအရပ်၊ လွန်စေ့စပ်အောင်၊ ပြည်သည်ကား၊ ကျယ်ပွားများ၏။ မှတ်သားစွဲလမ်း၊ မှီသည့်ဌမ်းသို့၊ ရွှေကျမ်းတာဝ၊ နိဿယမှု၊ ရောဂဗိန္ဒု၊ သွေးစုသွယ်သွယ်၊ ငယ်ငယ်ကြီးကြီး၊ အသီးသီးကို၊ ဓာတ်မီးငိုးကင်း၊ ထွက်ခြင်းကြောင်းချာ၊ သည်သာမသွေ၊ ခေါ်ဆိုပေတော့၊ မီးနေထွက်ချိ၊ ပထဝီ၌၊ ခိုက်ပြီဟူက၊ စူစူကြိတ်ခဲ၊ တည်မြဲကြမ်းခက်၊ အနာသက်ကား၊ ခြောက်ရက်လွန်မြောက်၊ အာပေါရောက်၏” ဟု စပ်ဆိုထားသည်။

ခန္ဓာကိုယ်၌ ပေါက်သောအနာတို့သည် ပေါက်သောနေရာဌာနကိုအစွဲပြု၍ရှင်း၊ ပေါက်ပုံအခြင်းအရာလက္ခဏာအသွင်သဏ္ဌာန်ကို အစွဲပြု၍ရှင်း လောကဟိတရာသီကျမ်း၌ ပါရှိသော အနာပေါက်ကျမ်းတွင် အနာအမျိုးမျိုးကို ခွဲခြားလျက် ပြဆိုထားသည်။

(၁) နဖူးပြင်တွင်ပေါက်သော် ဆင်နာ၊ (၂) မျက်ကွင်းမျက်ရည်ခံတွင်ပေါက်သော် ကြက်သမားနာ၊ (၃) နှုတ်ရည်ခံတွင် (မေးတွင်) ပေါက်သော် ဝက်ခြင်ဒေါင့်သိုးနာ၊ (၄) မေးရိုးပါးပြင်တွင်ပေါက်သော် ဝက်သမားနာ၊ (၅) လည်ပင်းနားရွက်အောက်တွင် ပေါက်သော် တောင်စဉ်ခုနစ်ထပ်နာ၊ (၆) ရေမျိုမှ အသည်းညွန့်တိုင်အောင် ပေါက်သော် ဂန္ဓမာလာနာ၊ (၇) အသည်းညွန့်မှချက်

အောက်တိုင်အောင်ပေါက်သော် အိုင်းချက်ကတိုနာ၊ (၈) သားထုတ်ခွင်တွင် (အင်္ဂါဇာတ်တခွင်တွင်) ပေါက်သော် ဖွတ်သိုနာ၊ (၉) ပေါင်တွင်းပေါင်ခြံတွင်ပေါက်သော် ဂရင်ဂျီနာ၊ (အဘိဓာန်နိဿယသစ်၌ ဝစ္စမဂ်၏ ပတ်ဝန်းကျင် လက်နှစ်သစ်အတွင်း အကျိတ်အဖုဖြစ်၍ပေါက်တတ်သော အနာကို ဘဂန္ဒိုလ်–ဂရင်ဂျီနာဟု ဆို၏။) (၁၀) ပေါင် လည်တွင်ပေါက်သော် ဂရင်ဂျီစမ္ပနာ၊ (၁၁) ပုဆစ်ဒူးတွင် ပေါက်သော် အနာသစ်ငုတ်၊ (၁၂) သလုံးသားတွင်ပေါက် သော် ရေနာစိမ်း၊ (၁၃) ခြေမျက်စိတွင်ပေါက်သော် အိုင်း လည်ကုတ်တိုနာ၊ (၁၄) ခြေဖမိုးတွင်ပေါက်သော် အနာ ဖအိုင်း၊ (၁၅) ဖဝါးစပ်တွင်ပေါက်သော် ရေမြွေစိမ်းနာ၊ (၁၆) ဖနောင့်၊ ဖဝါးခေါင်းတွင်ပေါက်သော် ဖွတ်သိုနာ၊ (၁၇) ဖဝါးလည်တွင်ပေါက်သော် အနာချူပေ၊ (၁၈) ခြေသလုံးအတွင်းသို့ လျှောက်၍ပေါက်သော် အထည်းသို့ လျှို၍သွားသော် သက်တန့်ခေါင်းလျှိုနာ၊ (၁၉) ပေါင် အရိုးတွင်ပေါက်သော်၊ လျှို၍သွားသော်၊ အပေါက်ရှိခဲ့ သော် သက်တန့်ခေါင်းလျှိုနာ၊ (၂၀) ပေါင်အရိုးတွင် ကွက်၍ကွက်၍ပေါက်သော် ရှဉ့်ပွက်နာ၊ (၂၁) ဖရုံဆုံ တွင်ပေါက်သော် ရှဉ့်ဖုံးနာ၊ (၂၂)မြီးညောင်းတွင်ပေါက် သော်သက်တန့်ဖုံးနာ၊ (၂၃)မြီးညောင်းမှလက်ပြင်ညွှန့်တိုင် အောင်ပေါက်သော် အနာပဆုတ်၊ (၂၄) လည်ကုတ်တွင် ပတ်၍ပေါက်သော် မြွေလည်ပတ်နာ၊ (၂၅) ဆံရင်းတွင် ပေါက်သော် ဆင်ကူလည်ပတ်နာ၊ (၂၆) ဆံရင်းအထက် ဦးထိပ်တွင်ပေါက်သော် အနာဆံကျင်၊ (၂၇) ထိပ်လည် တွင်ပေါက်သော် အနာမှန်ကင်း၊ (၂၈) နှာခေါင်းတွင် ပေါက်သော် အနာပတ္တမြား၊ (၂၉) ပခုံးတွင်ပေါက်သော် သန်လျက်ထမ်းနာ၊ (၃၀) လက်မောင်း ကြွက်သားတွင် ပေါက်သော် သက်တန့်ခေါင်းလျှိုနာ၊ (၃၁)တတောင်ဆစ် တွင်ပေါက်သော် အိုင်းလက်ကတူးနာ၊ ဤသို့လျှင် အနာ ပေါင်း ၃၁ ကို ပြဆိုထားသည်။ ထိုသို့ပြဆိုထားသော် လည်း နူနာ၊ ထွတ်မြင်းနာ၊ ကိုန္နရနာ၊ မွေးကျွတ်နာ၊ ကျောက်နာ၊ ဝက်သက်နာစသည်ဖြင့် များစွာရှိသေး၏။

အထူးအားဖြင့် ထိုအနာပေါက်ကျမ်းတွင် အနာ အမျိုးမျိုးကိုသာ ပြဆိုထားသည်မဟုတ်၊ အနာနှင့် သင့် လျော်သော ဆေးအမျိုးမျိုးတို့ကိုလည်း ပြဆိုထားသည်။

ဦးကြီးမေ

**အနာမယဉ်းဆေး။** ။အန်တီဆက်ပတစ် — ရှု။

**အနာမျိုး ၉၆ ပါး။** ။အနာမျိုး ၉၆ ပါးကားကမ္ဘာ ဦးကစ၍ ဖြစ်ပေါ်လာသည်မဟုတ်။ ဥက္ကာကရာဇ်မင်းကြီး လက်ထက်မှစ၍ ဖြစ်ပေါ်လာခဲ့သည်။ ဖြစ်ပေါ်လာရာ၌ လည်း၊ ၉၆ ပါးလုံး တပြိုင်နက်ဖြစ်ပေါ်မလာပဲ တဖြည်း ဖြည်းဖြစ်ပေါ်ကာ တစတစတိုးပွားလာဟန်တူသည်။

ချဲ့ဦးအံ့၊ ကမ္ဘာဦးအခါ လူတို့သည် အနာရောဂါမရှိ၊ အလွန်အသက်ရှည်ကြ၏။ သုတ္တနိပါတ်ပါဠိ၌ –

(၁) အစာရေစာ ဆာလောင်မွတ်သိပ်ခြင်း၊

(၂) တစုံတခုသော ဝတ္ထုပစ္စည်းကို လိုချင်တောင့်တ ခြင်း၊

(၃) အသက်အရွယ် ကြီးရင့်အိုမင်းခြင်းဟူ၍ အနာ ရောဂါ သုံးမျိုးသာရှိသည်ဟု လာရှိလေသည်။

ဥက္ကာကရာဇ်မင်းကြီးလက်ထက်သို့ ရောက်သောအခါ မင်းဆရာပုဏ္ဏားတို့သည် သတ္တဝါတို့အသက်ကို သတ်ဖြတ်၍ ယဇ်နတ်ပူဇော်ပြီးလျှင် အသားကိုစားသောက်သည်မှစ၍ လူတို့၏ခန္ဓာကိုယ်၌ ၉၆ ပါးသောအနာ၊ ၉၈ ပါးသော အနာတို့သည် ဖြစ်ပေါ်လာကုန်၏။

ထို ၉၆ ပါးသောအနာ၊ ၉၈ ပါးသော အနာတို့ကို ဒသက်ုတ္တရပါဠိ၊ မဟာနိဒ္ဒေသပါဠိတို့နှင့် ထိုထိုဆေးကျမ်း တို့၌ အကျယ်ဝေဘန်ပြဆိုလျက်ရှိကြသည်။

(၁) စက္ခုရောဂ — မျက်စိ၌ဖြစ်သော အနာ၊ (၂) သောတရောဂ–နားတွင်း၌ဖြစ်သောအနာ၊ (၃) ဃာန ရောဂ–နှာခေါင်းတွင်း၌ဖြစ်သောအနာ၊ (၄)ဇိဝှာရောဂ– လျှာ၌ဖြစ်သောအနာ၊ (၅) ကာယရောဂ–ကိုယ်၌ဖြစ် သောအနာ၊ (၆)သီသရောဂ–ဦးခေါင်း၌ဖြစ်သောအနာ၊ (၇) ကဏ္ဏရောဂ–နားရွက်၌ဖြစ်သောအနာ၊ (၈) မုခ ရောဂ–ခံတွင်း ပါးစပ်၌ဖြစ်သောအနာ၊ (၉) ဒန္တရောဂ– သွား၌ဖြစ်သောအနာ၊ (၁၀) ကာသ–ချောင်းဆိုးနာ၊ (၁၁)သာသ–ကြို့ထိုးနာ(ကုတ်ဟီးနာ–ပန်းနာ)၊ (၁၂) ပိနာသ–နှာခေါင်းအပဖု၌ (နှာခေါင်းဖုဋ္ဌ)ဖြစ်သောအနာ (ဖွတ်သိုနာ–ထိပ်ခပ်နာ)၊ (၁၃) ဍာဟ–ကိုယ်ပူသော အနာ၊ (၁၄) ဇရ–ဖျားသောအနာ၊ (၁၅) ကုစ္ဆိရောဂ– ဝမ်း၌ဖြစ်သောအနာ၊ (၁၆) မုစ္ဆာ–မူးဝေသောအနာ၊ (၁၇) ပက္ခန္ဒိကာ–ဝမ်းသွေးကျသောအနာ၊ သွေးအံသော အနာ၊ (၁၈) သူလာ–ဝမ်းလေထိုးကျင့်သောအနာ (ကိုက်ခဲသောအနာ)၊ (၁၉) ဝိသုစိကာ–ဝမ်းကျဝမ်း လျှောသောအနာ (ကာလနာ)၊ (၂၀) ကုဋ္ဌ–နူနာ၊ (၂၁) ဂဏ္ဍ–ထွတ်မြင်းနာ၊ မြင်းဖုနာ(အိုင်းနာ)၊ (၂၂) ကိလာသ–ညှင်းနာ၊ တင်းထိပ်နာ၊ (၂၃) သောသ– အသွေးအသား ခန်းခြောက်သောအနာ (ခယရုပ်နာ) (အဆုတ်ကိုစွဲ၍ဖြစ်သော ချောင်းဆိုးနာ) (ဆေးကျမ်း များ၌ ယင်းအနာကို မြစ်ချောက်နာ၊ ပန်းသေနာ၊ သုက်ခန်းနာဟူ၍လည်း ခေါ်ဆိုကြ၏။)၊ (၂၄) အပမာ ရ–ဘီလူးဖမ်းသောအနာ (ပယောဂနာ) (ဝက်ရူးနာ)၊ (၂၅) ဒဒ္ဒု–ယားနာ၊ ပွေးနာ၊ (၂၆) ကဏ္ဍု–ဝဲကြီးဝဲ

စိုနာ၊ (၂၇) ကဏ္ဍူ–ဝဲယယ်ဝဲခြောက်နာ၊ (၂၈)*နခသာ–လက်သည်းခြေသည်းတို့ဖြင့်ခြစ်မိသောအနာ၊(၂၉) *ဝိတစ္ဆိကာ–လက်ဖဝါး ခြေဖဝါး ကွဲအက်သော အနာ (အဘိဓာန်နိဿယသစ်၌–ယားနာဟူ၏။)၊ (၃၀) လာဟိတပိတ္တ–ပိတ်ဝမ်းကိုက်သောအနာ၊ (၃၁) မဓုမေဟ–မြင်းသရိုက်နာ(ဆီးချိုနာ)၊ (၃၂) အံသာ–အရိယိုသောအနာ (သွားရည်ယိုသောအနာ)၊ (၃၃) ပိဠကာ–ကိုယ်ရောင်သောအနာ (ထွတ်အိုင်းနာ–သွေးစုနာ)၊ (၃၄) ဘဂန္ဒလ–ဘဂန္ဒိုလ်နာ–ဘင်နာ (အဘိဓာန်နိဿယသစ်၌ ဝစ္စမဂ်၏ပတ်ဝန်းကျင် လက်နှစ်သစ်အတွင်း၌ အကျိတ်အဖုဖြစ်၍ ပေါက်ကွဲတတ်သောအနာဟူ၏။)၊ဤသို့လျှင် အနာရင်း ၃၄ ပါးဖြစ်သည်။

ထိုအနာရင်း ၃၄ ပါးတွင် အပမာရ–ဘီလူးဖမ်းသောအနာ (ပယောဂနာ) နှင့် နခသာ–ခြေသည်းလက်သည်း ခြစ်မိသော အနာတို့မှာ သလိပ်၊ သည်းခြေ၊ လေသုံးပါးတို့ကြောင့်ဖြစ်သော အနာတို့မဟုတ်သဖြင့် ထိုနှစ်ပါးသော အနာတို့ကို နုတ်ပယ်၍ထားသည်။

ကြွင်းကျန်သောအနာရင်း ၃၂ ပါးတို့ကား သလိပ်၊ သည်းခြေ၊ လေသုံးပါးတို့ကြောင့်ဖြစ်သောအနာတို့ ဖြစ်ရကား၊ အနာရင်း ၃၂ ပါးကို သလိပ်၊ သည်းခြေ၊ လေ သုံးပါးတို့ဖြင့် မြှောက်ပွားသော် သလိပ်ကြောင့်ဖြစ်သော အနာ ၃၂ ပါး၊ သည်းခြေကြောင့်ဖြစ်သောအနာ ၃၂ ပါး၊ လေကြောင့်ဖြစ်သောအနာ ၃၂ ပါး၊ အလုံးစုံပေါင်းသော် အနာမျိုး ၉၆ ပါးဖြစ်လာသည်။ ထိုအနာမျိုး ၉၆ ပါးကား ပိဋကတ်ကျမ်း၊ ဆေးကျမ်းတို့၌အလွန်ထင်ရှားသည်။ ပညာဗဟုသုတနည်းပါး၍ ၉၆ ပါးသရုပ်ကိုပင် မရေတွက်တတ်သော်လည်း လူတိုင်း၏ပါးစပ်ဖျားမှာပင် ပြောဆိုသုံးစွဲလျက်ရှိကြသည်။

အနာမျိုး ၉၈ ပါးယူရာ၌ ၉၆ ပါး ရေတွက်ရာဝယ် နုတ်ပယ်ထားသော အပမာရ– ဘီလူးဖမ်းသောအနာ (ပယောဂအနာ) နှင့် နခသာ–ခြေသည်း လက်သည်းတို့ဖြင့် ခြစ်မိသောအနာနှစ်ပါးကို ၉၆ ပါးတွင်ထည့်သွင်းကာ ၉၈ ပါးဖြစ်လာသည်။

အထူးမှတ်ချက်–သလိပ်၊ သည်းခြေ၊ လေ သုံးပါးတို့ကြောင့် အနာဖြစ်သည်ဆိုရာ၌ သာမညအားဖြင့် ရောထွေး၍ပြခြင်းသာဖြစ်သည်။ ဝိသေသအားဖြင့် ခွဲခြား၍ယူမှုကား–သလိပ်တပါးတည်းကြောင့်၊ သည်ခြေတပါးတည်းကြောင့်၊ လေတပါးတည်းကြောင့် ဖြစ်သောအနာတို့ကို ပြတာက်နာဟုခေါ်ဆိုကြ၏။ သလိပ်နှင့်သည်းခြေ နှစ်ပါးတို့ကြောင့်၊ သလိပ်နှင့်လေနှစ်ပါးတို့ကြောင့်၊ သည်းခြေနှင့်လေ နှစ်ပါးတို့ကြောင့် ဖြစ်သောအနာတို့ကို ဒွေးဝန်းနာဟု ခေါ်ဆိုကြ၏။ သလိပ်၊ သည်းခြေ၊ လေ သုံးပါးလုံးကြောင့်ဖြစ်သော အနာတို့ကို သန္နိပါတ်နာဟု ခေါ်ဆိုကြသည်။ ထိုကြောင့် ယခင်ပြဆိုခဲ့ပြီးဖြစ်သော အနာမျိုး ၉၆ ပါးကား သလိပ်၊ သည်းခြေ၊ လေ သုံးပါးတို့တွင် တပါးစီဖြင့် မြှောက်ပွားထားသော ပြတာက်နာတို့သာ ဖြစ်သည်။

နှစ်ပါးစီဖြင့် မြှောက်ပွားသော် သလိပ်နှင့် သည်းခြေနှစ်ပါးတို့ကြောင့်ဖြစ်သော ဒွေးဝန်းနာ ၃၂ ပါး၊ သလိပ်နှင့်လေနှစ်ပါးတို့ကြောင့်ဖြစ်သော ဒွေးဝန်းနာ ၃၂ ပါး၊ သည်းခြေနှင့် လေနှစ်ပါးတို့ကြောင့်ဖြစ်သော ဒွေးဝန်းနာ ၃၂ ပါး၊ ပေါင်းသော် ဒွေးဝန်းနာ ၉၆ ပါးဖြစ်သည်။

သလိပ်၊ သည်းခြေ၊ လေ သုံးပါးတို့ကြောင့်ဖြစ်သော သန္နိပါတ်နာကား ၃၂ ပါးဖြစ်သည်။

အလုံးစုံပေါင်းသော် ပြတာက်နာ ၉၆ ပါး၊ ဒွေးဝန်းနာ ၉၆ ပါး၊ သန္နိပါတ်နာ ၃၂ အားဖြင့် အနာမျိုး ၂၂၄ ပါး ဖြစ်နိုင်သည်။

တနည်း၊ စက္ခုရောဂ–မျက်စိ၌ဖြစ်သောအနာစသည့် ၃၂ ပါးကို မူတည်၍ သလိပ်၊ သည်းခြေ၊ လေတို့ဖြင့် မမြှောက်ပွားပဲ သလိပ်နာသက်သက် ၂၀၊ သည်းခြေနာသက်သက် ၄၀၊ လေနာသက်သက် ၈၀ အားဖြင့် ပေါင်းသော် အနာမျိုး ၁၄၀ ဖြစ်နိုင်သည်။ သရုပ်အကျယ်လေမျိုး ၈၀ — ရှု။

တနည်း၊ စက္ခုရောဂ–မျက်စိ၌ဖြစ်သောအနာစသည့် ၃၂ မျိုးကိုရင်း၊ သလိပ်၊ သည်းခြေ၊ လေ ဖြစ်ကြောင်းသုံးပါးကိုရင်း အမှတ်အသားမပြုပဲ ဆနဝုတိဆေးကျမ်း၌ပြဆိုထားသော အနာတို့ကား ၉၆ ပါးပင်ဖြစ်သည်။

(၁) ဖဝါးပူပါဒရက်နာ၊ (၂) ဘိန်းပြဲကိုယ်ရောင်နာ၊ (၃) ကုတ်ဟီးချောင်းဆိုးနာ၊ (၄) ဝက်ရူးနာ၊ (၅) ရှူနာ၊ (၆) ဖက်သကပ်နာ၊ (၇) ကြို့ထိုးနာ၊ (၈) စိမ်ရေသင့်နာ၊ (၉) ကြွက်နို့နာ၊ (၁၀) ထွတ်မြင်းနာ၊ (၁၁) ခူကိုက်နာ၊ (၁၂) သနပတ်နာ၊ (၁၃) မှဲ့နာ၊ (၁၄) တင်းထိပ်နာ၊ (၁၅) သင်းခွေချပ်နာ၊ (၁၆) ပွေးညှင်းနာ၊ (၁၇) ရေယုန်နာ၊ (၁၈) အသားမာနာ၊ (၁၉) ကြက်လည်ပင်းကြီးနာ၊ (၂၀) အနာမှောက်ခုံ၊ (၂၁) ရမ်းနမဲနာ၊ (၂၂) မွေးကျွတ်နာ၊ (၂၃) သွေးစုနာ၊ (၂၄) ဝက်ခြင်နာ၊ ဝက်ချုပ်နာ၊ (၂၅) တောင်စဉ်ခုနစ်ထပ်နာ၊ (၂၆) အနာပဆုပ်၊ (၂၇) ဆင်ကူလည်ပြတ်နာ၊ (၂၈) ဖွတ်သိုနာ၊ (၂၉) အနာသစ်ငုတ်၊ (၃၀) ရေငုံနာ၊ (၃၁) အိုင်းနာ၊ (၃၂) အိုင်ယယ်ရေမြွေဆိပ်နာ၊ (၃၃) ခရဘေနာ၊ (၃၄) သက်တန့်ခေါင်းလျှိုနာ၊ (၃၅) သတပိုနာ၊ (၃၆) မြွေလက်ပတ်နာ၊ (၃၇) ဆံကျင်နာ၊ (၃၈) မှန်ကင်းနာ၊ (၃၉) အနာပတ္တမြား၊ (၄၀) မင်နာ၊ (၄၁) ဂရင်ဂျီအနာမီး၊ (၄၂) နဂါးပွက်နဂါးဖုံးနာ၊ (၄၃) ရှော်

ပွက်နာ၊ (၄၄) ကိန္နရာနာ၊ (၄၅) မုတ္တကိတ်နာ၊ (၄၆) ထွက်နာ၊ ဝက်အူနာ၊ (၄၇) သရက်ကင်းနာ၊ (၄၈) အနာထွတ်၊ (၄၉) အထင်ကလိနာ၊ (၅၀) မုက္ခစိုနာ၊ (၅၁) ကာလနာ၊ (၅၂) မြင်းသရိုက်ပိတ်ဝမ်းပျက်နာ၊ (၅၃) မျက်စိနာ၊ (၅၄) သွေးကျနာ၊ (၅၅) ခေါင်းခဲ ဦးယဉ်းနာ၊ (၅၆) အမူးနာ၊ (၅၇) နှလုံးသွေးနာ၊ (၅၈) တကျည်းနာ၊ (၅၉) ဂူနာ၊ (၆၀) ကျပ်သဖီနာ၊ (၆၁) မေဓုန်သနပတ်နာ၊ (၆၂) သွေးပွက်နာ၊ (၆၃) နူနာ၊ (၆၄) ဝဲနာ၊ (၆၅) အင်ပြင်နာ၊ (၆၆) မြေပုံတ် ရှုပ်နာ၊ (၆၇) သွေးကင်ပိန့်နာ၊ (၆၈) ဝက်ခမ်းနာ၊ (၆၉) လိင်သေနာ၊ (၇၀) မုဿနာ၊ (၇၁) လေပူလောင်နာ၊ (၇၂) ရိစ္စနာ၊ (၇၃) ဆီးအောင့်နာ၊ (၇၄) မြေ့ငန်းသွေးငန်းနာ၊ (၇၅) ဂျမ်းခိုက်နာ၊ (၇၆) သွေးမွှန်နာ၊ (၇၇) အော့နာ၊ (၇၈) အတွင်းသွေးပျက်နာ၊ (၇၉) သွေးသဖုံးနာ၊ (၈၀) ကလမူနာ၊ (၈၁) နို့ယဉ်နာ၊ (၈၂) ကျဗဟုံးကြက်ညှာနာ၊ (၈၃) နို့မြေသူငယ်နာ၊ (၈၄) ကျောက်နာ၊ (၈၅) ဝက်သက်နာ၊ (၈၆) မီးယပ်နာ၊ (၈၇) မြုံနာ၊ (၈၈) မြေသလိပ်နာ (၈၉) သည်းခြေနာ၊ (၉၀) လေနာ၊ (၉၁) တုတ်သံနာ၊ (၉၂) ဒူလာသရော-သွေးသွန်နာ၊ (၉၃)ဥတုယာဉ်ငယ်မန်းနာ၊ (၉၄) ပယောဂနာ၊ (၉၅) လောဘ - ဒေါသ - မောဟနှင့်ယှဉ်သောအနာ၊ (၉၆) ကိလေသာနှင့်ယှဉ်သောအနာဟူ၍ အနာမျိုး ၉၆ ပါး ဖြစ်သည်။

ဒဗ္ဗဂုဏဆေးကျမ်း၌လည်း ကဏ္ဍူ—ဝဲနာ၊ ယားနာ၊ ကုဋ္ဌ – နူနာ၊ ကိမိ – ပိုးနာ၊ သိလေသ – သလိပ်နာ စသည်ဖြင့် အနာမျိုး ၁၂၂ ပါးပြဆိုထားသည်။ ဤသို့လျှင်ကျမ်းအမျိုးမျိုး၌ ပြဆိုထားသော အနာတို့ကား များလှစွာ၏။

ဦးကြီးမေ

**အနီအောက်ရောင်ခြည်။** ။အင်ဖရာရက် ရောင်ခြည် — ရှု။

**အနီးအဝေးပြ။** ။ပါစပက်တစ်ရေးဆွဲနည်း — ရှု။

**အနုညာတစီရင်ဆုံးဖြတ်ခြင်း။** ။ခုံတင်ဆုံးဖြတ်ခြင်း — ရှု။

# လူမျိုး၏ယဉ်ကျေးမှုကြေးမုံ

**သုခုမပညာဟူ၍ရင်း၊ ရသပညာဟူ၍ရင်း ခေါ်ဆိုသော အနုပညာသည် လူ၏စိတ်ကို လှုပ်ရှားစေနိုင်သောပညာမျိုး၊ လူ၏စေတနာကို လှုံ့ဆော်နှိုးဆွပေးနိုင်သော ပညာမျိုး၊ လူ၏စေတနာအလျောက် လူ၏စိတ်ကူးဉာဏ်စွမ်းဖြင့် ဖန်တီးရသော ပညာမျိုးဖြစ်သည်။ လူမျိုးတမျိုး၏ စိတ်နေသဘောထား၊ ကြံရည်ဖန်ရည်၊ ဓလေ့စရိုက်၊ လူနေမှု အဆင့် အတန်းတို့ကို ထိုလူမျိုး၏ အနုပညာက ပို၍ ထင်ဟပ်ပြနိုင်သည်ဟု ဆိုလေသည်။**

**အနုပညာ။** ။ပါဠိဘာသာအားဖြင့် သုခုမပညာဟု ခေါ်သော အနု ပညာသည် လူမျိုး တမျိုး၏ ယဉ်ကျေးမှုကြေးမုံဖြစ်သည်။ လူမျိုးတမျိုး၏ ယဉ်ကျေးမှုကို ထောက်ရှု၍ ထိုလူမျိုး၏ စိတ်နေသဘောထား၊ ကြံရည်ဖန်ရည်၊ ဓလေ့စရိုက်၊ နေထိုင်မှုအဆင့်အတန်းတို့ကို အကဲခတ်ရသည်။ လူမျိုးတမျိုး၏ စွမ်းစွမ်းတမံဆောင်ရွက်မှုများထက် ထိုလူမျိုး၏ အနုပညာက ထိုလူမျိုး၏ဓလေ့စရိုက်၊ လူနေမှုအဆင့်အတန်းတို့ကို ပို၍ ထင်ဟပ်ပြနိုင်သည်ဟု အချို့ပညာရှင်ကြီးများက ယူဆကြသည်။ ယင်းသို့ လူမျိုး၏ယဉ်ကျေးမှုအဆင့်အတန်းကို ထင်ဟပ်ပြနိုင်သော အနုပညာသည် အဘယ်နည်း။

အနုပညာ ဟူသည် လူ၏ စိတ်ကို လှုပ်ရှားစေနိုင်သော ပညာမျိုး ဖြစ်သည်။ လူ၏ စေတနာကို လှုံ့ဆော်နှိုးဆွပေးနိုင်သော ပညာမျိုး ဖြစ်သည်။ အနုပညာသည် လူ၏ စေတနာအလျောက် လူ၏စိတ်ကူးဉာဏ်စွမ်းဖြင့် ဖန်တီးရသောပညာ ဖြစ်၍၊ အနုပညာ၏ အစွမ်းကြောင့် အနုပညာကို ခံစားရသူ၌ ရသဖြစ်ပေါ်ရသည်။ ထိုကြောင့် အနုပညာကို ရသပညာဟုလည်း ခေါ်လေသည်။

အနုပညာ၏ရသဟူသည်မှာ ဝမ်းမြောက်ခြင်း၊ဝမ်းနည်းခြင်း၊ နှစ်သက်ခြင်း၊ ကရုဏာဖြစ်ခြင်း၊ စက်ဆုပ်ခြင်း၊ အားတက်ခြင်း၊ ထိတ်လန့်ခြင်း၊ အံ့သြခြင်း၊ တည်ငြိမ်ခြင်း တည်းဟူသော အလင်္ကာကျမ်းများအလာ စိတ်အရသာ ကိုးပါးအနက် တပါးပါးကို ခံစားရမှုဖြစ်ပေသည်။ မျက်မှောက်ခေတ် စိတ္တဗေဒပညာရှင်တို့၏ အလိုအရမူ၊ စိတ်အရသာ၊ သို့မဟုတ် စိတ်လှုပ်ရှားမှု တဆဲ့လေးမျိုးရှိသည်ဟု သိရပေသည်။ အနုပညာကို တနည်းအားဖြင့်ဆိုရသော် ခံစားမှုကိုတင်ပြသော ပညာရပ်မျိုးဟူ၍ ဖြစ်သည်။ သိပ္ပံပညာနှင့် အနုပညာတို့၏ခြားနားချက်မှာ သိပ္ပံပညာသည် အသိတရားကို ဖော်ထုတ်ပေးသည်။ အနုပညာသည် စေတနာကို လှုံ့ဆော်နှိုးဆွမှု ပြုသည်။ သိပ္ပံပညာသည် အကြောင်းတရားကို သရုပ်ခွဲပြသည်။ အနုပညာကမူ အကျိုးတရား၊ သို့မဟုတ် စိတ်လှုပ်ရှားမှုအတွက်ခံစားမှုကို ဖွဲ့ပြသည်။ စေတနာကို လှုံ့ဆော်သော၊ စိတ်ဘဝင်၌ခံစားမှု

ကိုဖွဲ့ပြသော အနုပညာရပ်တွင် ပန်းချီ၊ ပန်းပု၊ ဗိသုကာ၊ သဘင်ပညာနှင့် အနုစာပေတို့သည် အဓိကအားဖြင့် ပါဝင်ကြလေသည်။

ပန်းချီ၊ ပန်းပု၊ ဗိသုကာ စသည်တို့ကဲ့သို့ လူတို့၏ စိတ်စေတနာကို လှုံ့ဆော်ပေးနိုင်စွမ်းသော အနုပညာကို လူတို့သည် မည်ကဲ့သို့ တွေ့ရှိဖန်တီးခဲ့ကြသနည်း။ ရှေးလူတို့သည် ပန်းကန်ခွက်ယောက်များ၊ စူး ဆောက်တန်ဆာပလာများ၊ လက်နက်ပစ္စည်းများ စသည်တို့ကို လိုအပ်သဖြင့် တီထွင်လုပ်ကိုင်အသုံးပြုခဲ့ကြသည်။ ပဌမတွင် ကျောက်ပြားများကို စားစရာထည့်စားရန် အသုံးပြုခဲ့ကြသည်။ နောင်အခါ ကျောက်ပြားကို ပန်းကန်ပြားသဏ္ဌာန်ထွင်း၍ အသုံးပြုကြသည်။ သတ္တုများကိုတွေ့ရှိ၍ မီးအားဖြင့် သတ္တုကို လိုရာပုံသွင်းနိုင်ကြောင်း သိလာကြသောအခါ၊ မိမိတို့၏ အသုံးအဆောင်ပစ္စည်းကရိယာများကိုအဆင့်ဆင့်တိုးတက်ကောင်းမွန်အောင် ပြုပြင်လုပ်ကိုင်ကြသည်။ ယင်းသို့အားဖြင့် မိမိတို့၏အသုံးအဆောင်များကို အသုံးလည်းကျ၊ လှလည်းလှပအောင် ပြုလုပ်နိုင်စွမ်းကိုလည်း တွေ့မြင်လာကြသည်။ ထိုအခါ အလှအပရှိမှု၊ တင့်တယ်မှုတို့ကို နှစ်သက်သောသဘောလည်း ဖြစ်လာကြ၍ ပစ္စည်းအသုံးအဆောင်တခုကို နေမှုထိုင်မှုအရေးအတွက် အသုံးချမှုအပြင် စေတနာကိုနှိုးဆော်၍ စိတ်၌နှစ်သက်ခြင်းဖြစ်အောင်၊ စိတ်ဖြင့်အရသာခံစားနိုင်အောင် ဖန်တီးပြုလုပ်နိုင်ကြောင်းကိုလည်း သိလာကြသည်။ လူတို့၏ နေမှုထိုင်ရေးအတွက် ပစ္စည်းအသုံးအဆောင်များကို အသုံးလည်းကျ၊ လှလည်းလှပအောင် တီထွင်လုပ်ကိုင်ခဲ့ကြ၍ လူနေမှုအဆင့်အတန်းမြင့်လာသောအခါ အသုံးချမှုအတွက် တီထွင်ဖန်တီးမှုများအပြင် စိတ်အရသာခံစားနိုင်ရေးအတွက်လည်း တီထွင်ကြံဆလာခဲ့ကြလေသည်။

အနုပညာသည် လူ၏စိတ်ကူးဉာဏ်စွမ်းဖြင့် တီထွင်ကြံဆဖန်တီးရသောပညာမျိုး ဖြစ်သည်။ သဘာဝ အလှအပ အတင့်အတယ်တို့ကို အနုပညာဟု မဆိုနိုင်ပေ။ ကြည်နူးဖွယ်ရာအရဏ်ဦး၊ သာယာညွတ်နူးဖွယ်ကျေးငှက်တွန်သံကျူးသံတို့သည် ပင်ကိုယ်အလှအပ၊ ကြည်နူးဖွယ်ရာများဖြစ်လင့်ကစား အနုပညာသဘောမပါချေ။ အနုပညာကိုဖန်တီးသော အနုပညာရှင်က သက်ရှိသက်မဲ့ပတ်ဝန်းကျင်၌ မြင်တွေ့ကြားသိရသော ဘဝအာရုံတို့အပေါ်သို့ ယင်း စေတနာသက်ရောက်၍ ထိုစေတနာအလျောက် သူ့အမြင်၊ သူ့အကြား၊ သူ့အတွေ့အကြုံတို့ကို သရုပ်ဖော်ဖွဲ့နွဲ့ထားခြင်းမျိုးသည်သာလျှင် အနုပညာ သဘောပါလေသည်။

အနုပညာရှင်၏ အမြင်၊ အကြား၊ အတွေ့အကြုံတို့ကို စေတနာအလျောက် သရုပ်ဖော်ဖွဲ့ပြသော အနုပညာတရပ်ဖြစ်သည့် ပန်းချီအတတ်သည် စာရေးခြင်းအတတ်မပေါ်မီကပင် ပေါ်ပေါက်ခဲ့သည်။ ဂူနေရှေးလူတို့သည် မိမိတို့ဘဝပတ်ဝန်းကျင်၌ မြင်တွေ့ရသမျှ၊ မိမိတို့စိတ်၌ခံစားရသမျှကို မြေနီ၊ မြေဝါ၊ မြေဖြူ၊ မီးသွေး စသည်တို့ဖြင့် ဂူနံရံများပေါ်၌ ပုံပန်းသဏ္ဌာန်များရေးခြယ်၍ ဖွဲ့ပြကြသည်။ ရှေးလူဟောင်းတို့သည်စကားလုံးမကြွယ်ဝကြသေးသဖြင့် မိမိတို့ဆိုလိုချက်ကို အရုပ်ရေးခြယ်ပြခြင်း ဖြစ်သည်။ ထို့ကြောင့် တရုပ်စကားပုံတခုက ရုပ်ပုံတပုံသည် စကားလုံးတထောင်ခန့် တာသွားသည်ဟု ဆိုခြင်းဖြစ်သည်။ ဂူနေရှေးလူတို့၏ ပန်းချီစံနစ်သည် မျဉ်းရေးဆေးခြယ်နည်း၊ သို့မဟုတ် ကောက်ကြောင်းပန်းချီစံနစ်ဖြစ်သည်။ ယဉ်ကျေးမှုအဆင့်အတန်း တိုးတက်လာသည်နှင့်အမျှ ပန်းချီအဆင့်အတန်းသည်လည်း တိုးတက်လာရာ၊ ပန်းချီအတတ်သည် လူတို့၏စိတ်နှလုံးကို ယူကျုံးလှုပ်ရှားစေနိုင်စွမ်းသော အနုပညာတရပ် ဖြစ်လာခဲ့လေသည်။

ပန်းချီပညာနည်းတူ ရှေးကျသောအနုပညာတရပ်မှာ ပန်းပုပညာဖြစ်သည်။ ပန်းပုဟူသော မြန်မာဝေါဟာရ၏ အဓိပ္ပါယ်ကို တိကျစွာဖော်ပြရလျှင် သစ်သား၊ ဆင်စွယ်၊ အရိုး၊ အုတ်၊ အင်္ဂတေ၊ သတ္တု စသည်တို့ဖြင့် ခြူးပန်းခြူးနွယ်၊ ပန်းတက်ပန်းထပ် စသည်တို့ကို ထုလုပ်ခြင်းနှင့် စပ်လျဉ်းသော အနုပညာရပ်ကို ဆိုလိုပေသည်။ စင်စစ် ပန်းပုပညာတွင် ခြူးပန်းခြူးနွယ်တို့ကဲ့သို့ နှစ်သက်ဖွယ်ရာ အလှအပတန်ဆာဆင် ပန်းပုပညာအပြင် ပုံဘူရုပ်လုံးရုပ်ထုပညာသည်လည်း ပန်းပုပညာ၌ သက်ဝင်သည်။ ပန်းချီပညာရှင်သည် မိမိဖွဲ့ပြလိုသောအကြောင်းရပ်ကို အနံ့အလျားအားဖြင့် ပုံပန်းဖော်၍ ဆေးခြယ်ပြသည်။ ပန်းပုပညာရှင်ကမူ ထုထယ်ဖြင့် ပုံသဏ္ဌာန်ဖော်ပြသည်။ ကလေးသူငယ်တို့သည် ရွှံ့စေး၊ မြေစေးတို့ဖြင့် မိမိတို့စေတနာရောက်ရာ သက်ရှိသက်မဲ့တို့၏ ပုံသဏ္ဌာန်ကို ပုံဖော်ပြကြသကဲ့သို့ ရှေးလူတို့သည်လည်း မြေစေး၊ ရွှံ့စေး၊ ကျောက်တုံး၊ ကျောက်ခဲတို့ဖြင့် မိမိတို့စေတနာရောက်ရာ သက်ရှိသက်မဲ့တို့၏ ပုံပန်းသဏ္ဌာန်ကို ဖော်ပြကြရာမှ မျက်စိပသာဒအားဖြင့် နှစ်သက်ဖွယ်ရာ ကြွရုပ်ပသော အဆင်တန်ဆာပန်းပုလက်ရာများ၊ အသက်ဝင်လှုပ်ရှားနေသယောင် ထင်မှတ်ဖွယ်ရာရုပ်လုံးရုပ်ဘုကို ထုလုပ်ဖော်နိုင်လာကြ၍ ရှုမြင်ရသူတို့၏စိတ်ဘဝင်၌ ထိခိုက်လှုပ်ရှားစေပြီးလျှင် နှစ်ချိုက်ခြင်းဖြစ်အောင် ဖန်တီးနိုင်သော ပန်းပုအနုပညာတရပ်ဖြစ်လာလေသည်။

လူတို့သည်အပူအအေးစသောရာသီဥတု၏ဒဏ်မှအကာအကွယ်ရစေရန် အမိုးနှင့် လေးဖက်လေးတန် ထရံကာအဆောက်အအုံယက်ကို ဆောက်လုပ်သည်။ ထိုအခြေအထိ လူ၏အားထုတ်မှုသည် အသုံးချရေးသာဖြစ်သည်။အကယ်

၍ အဆောက်အအုံ၏အမိုးစွန်ကို ပို၍ ချွန်းထွက်ကော့ပျံစေကာ တမျိုးတမည်လုပစေခြင်း၊ အဝင်အထွက် တံခါးပေါက်တဖက်တချက်စီ၌ တိုင်လုံးများစိုက်ထူ၍ ရှုမြင်ရသူတို့၌ မျက်စိပသာဒဖြစ်အောင်၊ နှစ်ချိုက်ခြင်းဖြစ်အောင် အားထုတ်သောအခါ အနုပညာသဘောပါသော ဗိသုကာ ပညာ သက်ဝင်လာလေသည်။

လူတို့သည် စိတ်၌ ထိခိုက်လှုပ်ရှားသည့်အခါ အသံထွက်၍ မိမိတို့၏ ခံစားမှုကိုပြကြသည်။ ငိုခြင်း၊ ရယ်ခြင်းတို့ကား ဤသဘောတည်း။ ယင်းသို့ စိတ်လှုပ်ရှားမှုကို အသံဖြင့် ပြုကြပုံကို အနုပညာသဘောဖြင့် ဖွံ့ဖြိုးပြသောအခါ၊ တိုက်ပွဲ၌ အောင်ပွဲရ၍ အောင်သံဟစ်ကြွေးရာမှ အစပြုသော စိတ်တက်ကြွဖွယ်ရာ စစ်ချီသီချင်းများ၊ ဝမ်းနည်းခြင်း၊ စိတ်ပျက်အားငယ်ခြင်းတို့ကိုဖွဲ့နွဲ့ပြသော အလွမ်းအဆွေးသီချင်းများစသည့် ဂီတသီချင်းများ ပေါ်ပေါက်လာသည်။ ခြေလက်လှုပ်ရှားမှု၊ ဟန်အမူအရာတို့ဖြင့် ခံစားမှုကို သရုပ်ဖော်ပြသော အကအခုန်နှင့် ပြဇာတ်စသော သဘင်ပညာ ပေါ်ပေါက်ခဲ့သည်။

ယဉ်ကျေးမှု အဆင့်အတန်းမြင့်လာ၍ စာရေးခြင်းအတတ်ပေါ်ပေါက်လာသောအခါ လူတို့သည် မိမိတို့၏ အမြင်အသိ အတွေ့အကြုံခံစားချက်တို့ကို စာပေဖြင့်လည်း ဖွဲ့ပြကြသည်။ လောကနှင့်လူ့သဘောသဘာဝကို ဖွဲ့နွဲ့တင်ပြရာ၌ အနုစာပေသည်လည်း အစွမ်းထက်သော အနုပညာတရပ် ဖြစ်သည်။ စာပေအရာ၌ အသိကိုပေးသော အသိပေးစာပေ၊ စေတနာကို နှိုးဆွပေးသော စေတနာနှိုးစာပေဟူ၍ ရှိရာ၊ ဒုတိယအမျိုးအစားသည် အနုစာပေ၊သို့မဟုတ် ရသစာပေကို ခေါ်ဆိုသည်။ အနုစာပေသည် ပန်းချီ၊ ပန်းပု၊ ဗိသုကာတို့ကဲ့သို့ အလှအပ၊ အယဉ်အနွဲ့၊ အခန့်အသန့်တို့ဖြင့် စေတနာကို နှိုးဆော်သည်မဟုတ်ပေ။အရေးအသား၊ အဖွဲ့အနွဲ့၊ ဇာတ်အိမ်၊ ဇာတ်ကွက်ကိုလိုက်၍ ဖတ်ရှုရသူ၌ ဝမ်းသာခြင်း၊ ဝမ်းနည်းခြင်း၊ ကြေကွဲခြင်း၊ ထိတ်လန့်ခြင်း၊ ကြောက်ရွံ့ခြင်း စသော စိတ်အရသာတမျိုးမျိုး ဖြစ်ပေါ်ရလေသည်။

အနုပညာတရပ်၏ရသကို ခံစားရသူ၌ ဝမ်းသာခြင်း၊ ကြေကွဲခြင်း၊ ထိတ်လန့်ခြင်း၊ ကြောက်ရွံ့ခြင်းစသော စိတ်အရသာတပါးပါးကို နှစ်သက်ခြင်းနှင့် ယှဉ်တွဲခံစားရသည်။ ဒိဋ္ဌဓမ္မလောက၌ ထိတ်လန့်စရာကိုတွေ့၍ ထိတ်လန့်နေကြရလျှင် မည်သူမျှနှစ်သက်ခြင်း မဖြစ်နိုင်ကြပေ။ ဝမ်းနည်းခြင်း၊ သနားခြင်းဖြစ်နေရလျှင်လည်း မည်သူမျှ နှစ်သက်ခြင်းလည်း ဖြစ်နေကြမည်မဟုတ်ပေ။ သို့သော် ကြောက်လန့်ဖွယ်ရာပုံဝတ္ထုတခုကို ဖတ်၍ ကြောက်ရွံ့ထိတ်လန့်စိတ်ဖြစ်ပေါ်လျက်ကပင် နှစ်သက်ခြင်းလည်း ဖြစ်နေသည်။ ဇာတ်မင်းသား မင်းသမီးတဦးဦးက လွမ်းခန်းဖော်၍ လွမ်းပြလျှင် ပရိသတ်သည် မင်းသား၊ သို့မဟုတ် မင်းသမီးကို သနားလျက်ကပင် နှစ်သက်ခြင်းလည်း ဖြစ်နေသည်။ ဤကား အနုပညာတရပ်ရပ်မှ ရသကိုခံစားရ၍ ဖြစ်ပေါ်သောသဘောတည်း။ တနည်းအားဖြင့်ဆိုရလျှင် အနုပညာ၏ရသကို ခံစားရသူ၌ ဖြစ်ပေါ်တတ်သည့် တုံ့ပြန်မှုသဘောတည်း။

အနုပညာရှင်သည် မိမိ၏လက်ရာ၌ ရသပေါ်အောင် မည်သို့ ဖန်တီးသနည်း။ အနုပညာရှင်သည် စေတနာ၏ လှုံ့ဆော်ချက်အရ စိတ်ကူးဉာဏ်ကို အရင်းတည်၍ ဖန်တီးရသည်။ အနုပညာဆိုင်ရာ စိတ်ကူးဉာဏ်ဆိုသည်မှာ ဤသို့ဖြစ်သည်။ (၁) စိတ်အာရုံတခုခုကို မြင်ရကြားရသိရသည့်အခါဖြစ်စေ၊ အရေးကိစ္စတခုခုနှင့် ကြုံရသည့်အခါဖြစ်စေ ဖြစ်ပေါ်ခံစားရသော စိတ်အတွေ့အကြုံ၊ (၂) ခံစားမှုကြောင့်ဖြစ်ပေါ်သော ဝမ်းမြောက်ခြင်း၊ ဝမ်းနည်းခြင်းစသည့် စိတ်လှုပ်ရှားမှုအတွေ့အကြုံ (ဘာဝစိတ်ဟုလည်း ခေါ်သည်)၊ (၃)စိတ်လှုပ်ရှားမှုကြောင့် ဘဝအသိ၊ အမြင်အသိ ရသလိုလိုဖြစ်သော စိတ်အတွေ့အကြုံ၊(၄) မှတ်ဉာဏ်တနေရာရာ၌ ခိုအောင်းငုပ်လျှိုးနေတတ်သော ရုပ်ဆင်းသဏ္ဌာန် အသံစသည်တို့သည်၎င်း၊ ကံသုံးပါးအမူအရာစသည်တို့သည်၎င်း၊ အဖြစ်အပျက်တို့သည်၎င်း ပြန်၍ဝိုးတဝါးပေါ်တတ်သော မှတ်မိသတိရသော စိတ်အတွေ့အကြုံ၊ (၅) ထိုမှတ်မိသတိရသမျှတို့ကို စိတ်လှုပ်ရှားမှုအင်အားကောင်းသလောက် သတိတရားပွားများသော စိတ်အတွေ့အကြုံဟူသည့် စိတ်အတွေ့အကြုံ ငါးမျိုးတို့ကို ဖြတ်သန်းလာခဲ့ရသောဉာဏ်မျိုးသည် အနုပညာစိတ်ကူးဉာဏ်ပေတည်း။

အနုပညာရှင်၌ စိတ်ကူးဉာဏ် ဝင်လာပြီးနောက်တွင် ထိုစိတ်ကူးဉာဏ်သည် အလုပ်အမျိုးမျိုးလုပ်ရတော့သည်။ အနုပညာရှင်၏ပုဂ္ဂလဓိဋ္ဌာန်ကို ဓမ္မဓိဋ္ဌာန်ဖြစ်အောင် အားထုတ်ရသည်။ စိတ်လှုပ်ရှားမှုအတွေ့အကြုံ၊ သို့မဟုတ် ဘာဝစိတ်ကို ပုံဖော်ရန်အလို့ငှာ သတိတရားများအနက် ပယ်တန်သည်ကိုပယ်၍ ယူတန်သည်ကိုယူရသည်။ ယူသော သတိတရားတို့ကိုအဆင်ပြေပြေဖြစ်အောင်၊အမျိုးအမောက်တည့်အောင် ပြုပြင်တန်သည်ကို ပြုပြင်ရသည်။ အံဝင်ခွင်ကျဖြစ်အောင် နေရာချခြင်း၊ စည်းရုံးခြင်းတို့ကို ပြုပေးရသည်။ ထို့ပြင် မိမိ၏စိတ်ကူးဉာဏ် တဖက်သတ်မဖြစ်အောင် ထိန်းပေးခြင်း၊ ပဲ့ကိုင်ပေးခြင်း၊ မဲတင်းပေးခြင်းတို့ကိုလည်း ပြုရသည်။

ထို့ကြောင့် အနုပညာရှင်သည် အနုပညာသရုပ်ဖော်ရာ၌ အထိန်းအမ မရှိပဲ တောရောက်တောင်ရောက် လွင့်ပါးတတ်သောဉာဏ်မျိုးကို အရင်းတည်သည်မဟုတ်ချေ။ ဘဝအတွေ့အကြုံ၊ ဘဝခံစားမှု၊ ဘဝအမြင်အသိ၊ ဘဝအသိ

တရားတည်းဟူသော အထိန်းအမဖြင့် လှုပ်ရှားတတ်သော ဥာဏ်မျိုးကို အရင်းတည်ပြီးလျှင် အနုပညာအင်္ဂါများနှင့် ဖွဲ့နွဲ့ပြလေသည်။

အထိန်းအမဖြင့်လှုပ်ရှားတတ်သော အနုပညာစိတ်ကူး ဥာဏ်ကို အရင်းတည်၍ သရုပ်ဖော်သဖြင့် အနုပညာပါ သောအဖွဲ့အနွဲ့တို့၌ (၁) အနေအထားမှန်ကန်မှုသဘော၊ (၂) စည်းလုံးညီညွတ်မှုသဘော၊ (၃) ပြေပြစ်မှုသဘော၊ (၄) အချိုးအချသဘော၊ (၅) ဟန်ချက်သဘောတို့ပါဝင် ရာ ယင်းတို့ကို အနုပညာအင်္ဂါ၊ သို့မဟုတ် အနုပညာ စည်းမျဉ်းများဟု ခေါ်ဆိုကြသည်။

(၁) အနေအထားမှန်ကန်မှုသဘောဟူသည်မှာ အနု ပညာသည်၏ တင်ပြချက်၊ သရုပ်ဖော်မှုတွင်ပါဝင်သော သက်ရှိသက်မဲ့များ၊ အချက်အလက်များကို ဒူးနေရာဒူး တော်နေရာတော်ဖြစ်အောင် အထားအသိုမှန်ကန်၍ အံဝင် ခွင်ကျမှုကိုဆိုသည်။ အနုပညာရှင်သည် မိမိ၏ဘဝအသိ၊ ဘဝအတွေ့အကြုံတို့ကို မိမိစေတနာအလျောက် တင်ပြ ရာ၌ မိမိ၏ဆိုလိုရင်းကိုထင်ရှားစေရန် ဒိဋ္ဌလောကမှ မိမိ၏ ဒိဋ္ဌအတွေ့အကြုံအတိုင်း အတိအကျမဟုတ်ပဲ အဓိက ထားသင့်သည့်အရာကို ထင်ရှားပေါ်လွင်စေ၍ အခြံအရံ အသိုင်းအဝန်းတို့ကို မြှုပ်တန်သည်မြှုပ်၊ မှိန်တန်သည်မှိန် ပေးရသည်။ အဓိကနှင့်အခြံအရံကို တန်းတူထား၍ဖော်ပါ က အခြေအနေ ရှုပ်ထွေးသွားတတ်လေသည်။ ထိုအခါ ထိုအနုပညာလက်ရာကို မြင်ရသူ၊ ဖတ်ရသူ၊ နာရသူ၌ အာရုံပြားသွား၍ ပရိသတ်၏စိတ်နှလုံးကို ထိခိုက်လှုပ်ရှား စေရန် မစွမ်းဆောင်နိုင်တော့ပေ။

(၂) စည်းလုံးညီညွတ်မှုသဘောဆိုသည်ကား အဓိက နှင့် အခြံအရံသက်ရှိသက်မဲ့တို့သည်ငှင်း၊ အချက်အလက် တို့သည်ငှင်း တခုချင်းအနေဖြင့်ဖြစ်စေ၊ တပေါင်းတစည်း တည်းအနေဖြင့်ဖြစ်စေ အနုပညာရှင်၏ သရုပ်ဖော်လိုရင်း အချက်ကို ရှေးရှုသောသဘောရှိရသည်။ အထောက်အကူ ပြုသော သဘောရှိရသည်။ တခုနှင့်တခုလည်း အထောက် အကူ ပြုသောသဘော၊ ကျေးဇူးပြုသောသဘောလည်း ရှိရသည်။

(၃) ပြေပြစ်မှုသဘောဟူသည်မှာအနုပညာရှင်တင်ပြ သော အဖွဲ့အနွဲ့ပါ သက်ရှိသက်မဲ့တို့သည်ငှင်း၊ အချက် အလက်တို့သည်ငှင်း တခုနှင့်တခု အတွဲအဖက်မှန်ကန်ခြင်း၊ အမြီးအမောက်တည့်ခြင်း၊ တခုနှင့်တခု အဆင်ပြေပြေ လိုက်ဖက်မှုရှိခြင်း စသည့်သဘောတို့ ပါဝင်သည်။ ပုံစံ အားဖြင့် တေးဂီတတပုဒ်၌ အသံနိမ့် အသံမြင့် ဗယ်သံ ညာသံ အသံသြ အသံကြောင်တို့ကို အဆင်ပြေပြေဖက်တွဲ အသုံးပြုထားပါက နားဝင်ငြိမ့်ငြောင်း၍ သောတရှင်၏ စိတ်နှလုံးကို ယူကြုံးသော ဂီတတပုဒ် ဖြစ်လာသည်။ ဝတ္ထု တပုဒ်၌လည်း အကြောင်းအရာအချက်အလက်တို့ အဆက် အစပ်မှန်ခြင်း၊ ရှေ့နောက်ညီညွတ်ခြင်းရှိမှသာလျှင် ဝတ္ထု ဂုဏ်မြောက်သောဝတ္ထုတပုဒ် ဖြစ်လာနိုင်လေသည်။

(၄) အချိုးအချ သဘောဟူသည်မှာ အမြင့်ရှိလျှင် အနိမ့်ရှိသောသဘော၊ အတက်ရှိလျှင် အကျရှိသော သဘော၊ အလေးရှိလျှင် အပေါ့ရှိသောသဘော စသည် တို့ကို ဆိုလိုသည်။ အနုပညာရှင်သည် မိမိ၏အဖွဲ့အနွဲ့သရုပ် ဖော်မှုကို တသမတ်တည်း၊ စင်းစင်းကြီးမရှိစေပဲ အချိုးအချ သဘောပါစေရသည်။ပန်းချီကားတချပ်၌အမှိုအမောက်ကို ပြလျှင် အနက်အရှိုင်းကိုလည်း ပြရသည်။ တေးဂီတတပုဒ်၌ တက်သံချည်းသုံးထားလျှင် နားဝင်ပီယံမဖြစ်ပေ။ တက်သံ ချသံ အချိုးအချသဘောပါမှ နားဝင်ငြိမ့်ငြောင်းသည်။

(၅) ဟန်ချက်သဘော ဟူသည်မှာ ထိန်းမပဲ့ကိုင် ပေးခြင်းကို ဆိုလိုသည်။ အနုပညာရှင်သည် မိမိ၏ဘဝ စိတ်အလိုကို အလိုက်လွန်သွားခြင်း မဖြစ်ရလေအောင် ထိန်းမ ချုပ်ကိုင်ပေးရသည်။ မိမိ၏ ဆိုလိုရင်းအချက်ကို အလွန်အမင်းဖြစ်မသွားအောင် ဟန်ထားရခြင်းကို ဆိုလို သည်။ ပန်းချီကားတချပ်၌ ထင်းလွန်းသော အရောင် အသွေးကို ဖျော့သောအရောင်အသွေးဖြင့် ပြန်၍ဖြေ သကဲ့သို့ ဇာတ်သဘင်လောကတွင် အလွမ်းများသော ဇာတ်လမ်းကို အသောကွက်များ ဖောက်ဝင်ဖေးပေးသော သဘောပေတည်း။

အနုပညာရှင်များ၏ အနုပညာ လက်ရာများသည် အနုပညာအင်္ဂါများနှင့် မည်သို့ပြည့်စုံညီညွတ်ကြ၍မည်သို့ ရသဖော်သည်ကို လေ့လာကြည့်ကြဦးစို့။ ရှေးဦးစွာဂျပန် ပန်းချီကျော် ဟိုကူဆိုင်း၏လက်ရာ "လှိုင်းထန်သည့်အဏ္ဏ ဝါကြောဝယ်" အမည်ရှိ ပန်းချီကားကို ပုံစံတင်ပြလို သည်။ (စာမျက်နှာ ၁၄၄ — ရှု။) ထိုပန်းချီကားတွင် လှိုင်းခေါင်းဖြူကြီး၏ အရှိန်အဟုန် ပြင်းထန်ပုံကို သရုပ် ဖော်ရာ၌ တဖက်တွင် အရှိန်ပြင်းစွာ ကြွတက်နေသော လှိုင်းခေါင်းဖြူကြီးနှင့် တဖက်မှ အရှိန်ကျပြီးလှိုင်းလုံးကြီး တို့အလယ်တွင် အနက်အရှိုင်းကိုပြ၍ အချိုးအချ အနိမ့် အမြင့်သဘောကို ပေါ်စေသည်။ အလွန်အရှိန်ပြင်းလှ၍ ရေပေါက်ရေစက်များ လွင့်စဉ် ဖြာထွက်လျက် ရှိသော လှိုင်းခေါင်းဖြူကြီး မြင့်မောက်ကြွတက်နေပုံနှင့် အရှိန် လျော့၍ လျှောကျသွားသော လှိုင်းလုံးများအကြား၌ လှိုင်းဒဏ်ကို အလျားစင်း၍ ခံနေရသော လှေကြီးများ နှင့် လှေသားများကို အနေအထားမှန်ကန်စွာဖြင့် ပြထား သည်။ အဓိက လှိုင်းခေါင်းဖြူကြီးနှင့် အခြံအရံ သက်ရှိ သက်မဲ့တို့သည် ရေပြင်ကျယ်ကြီး၌ လှိုင်းထန်နေသည့် သဘောကို အညီအညွတ် ပြကြသည်။ သက်ရှိသက်မဲ့တို့၏ အနေအထား ပုံပန်းသဏ္ဌာန်တို့သည် အကြောင်းရပ်နှင့်



**လှိုင်းထန်သည့် အဏ္ဏဝါကြောဝယ်**

ဂျပန်ပန်းချီကျော် ဟိုကူဆိုင်းသည် လှုပ်ရှားမှု သရုပ်ဖော်ရာ၌ လက်စွမ်းထက်လှသူဖြစ်သည်။ မျဉ်းကောက် မျဉ်းပျော့များကိုသုံး၍ လှိုင်းခေါင်းဖြူကြီး၏ အရှိန်အဟုန် ပြင်းထန်ပုံကို သရုပ်ဖော်ထားသည်။ မိမိ၏ ခံစားမှုကို စိတ်လှုပ်ရှားမှု အင်အားကောင်းကောင်းဖြင့် ရေးခြယ်ပြသထားရာ ပန်းချီကားချပ်ကို ရှုမြင်ရသူတို့သည် လှိုင်းဒဏ်ကို အလျားစင်းခံနေရသော လှေကြီးပေါ်မှ လှေသားများနည်းတူ လှိုင်းလုံးကြီးများနှင့် ရောပါသွားပြီးလျှင် နိမ့်ချီ မြင့်ချီ ဖြစ်နေရသကဲ့သို့ သည်းထိတ်ရင်ဖို မိကြရလေသည်။

အဆင်ပြေ၍ ဆီလျော်သည်။ လှိုင်းလုံးကြီးများ၏အနိမ့်အမြင့် သဘောကို နောက်ခံခပ်ဝေးဝေး၌ မြင်ရသော တောင်ပူစာငယ်က ထိန်းထားလေသည်။

စိတ်လှုပ်ရှားမှု အင်အားကောင်းကောင်းဖြင့် ဖွဲ့ပြထား၍ မြင်ရသူ၌ ဘဝင်ခိုက်အောင် စေတနာကို လှုံ့ဆော်နိုင်သော အခြားပန်းချီကားတချပ်ကို ပုံစံတင်ပြရလျှင် အင်္ဂလိပ်ပန်းချီကျော် ဝီလျံ တန်းနား၏"အောင်ပွဲရ တေးမေးရား"ကို တင်ပြလိုပေသည်။ (စာမျက်နှာ ၁၄၅ — ရှု။) ဘေးမေးရားသည် ဗြိတိသျှတို့က နိုင်းမြစ်တိုက်ပွဲတွင် ပြင်သစ်ဘိုသက်မှ လက်ရသိမ်းပိုက်ခဲ့သော ပြင်သစ်တိုက်သင်္ဘောဖြစ်သည်။ ထရာဖဲလဂါတိုက်ပွဲတွင် ဗြိတိသျှတို့က အရေးနိမ့်၍ ပြင်သစ်ဘိုက အရေးသာနေစဉ် တေးမေးရားသည် လော့နယ်လဆန်ကိုယ်တိုင် ကွပ်ကဲသော အလံတင်သင်္ဘောနှင့်ယှဉ်တွဲ၍ ပြင်သစ်တို့အား ချေမှုန်းနိုင်ခဲ့သဖြင့် ဗြိတိသျှတို့ အောင်ပွဲခံနိုင်ခဲ့သည်။ ထိုစဉ်က တေးမေးရား၏ဂုဏ်သတင်း ထင်လင်း ကျော်ကြားခဲ့၍ မျက်နှာပန်းလှစွာဖြင့် ပြည်တော်ပြန်လာခဲ့ပြီးလျှင် တင်းမြစ်ထဲတွင် ဝင့်ကြွားစွာ အနားယူနိုင်ခဲ့သည်။

သို့သော် နှစ်ကြာမြင့်လာလေသော် တေးမေးရား၌ တိုက်ပွဲများ၏ ဒဏ်ရာ ဒဏ်ချက်များကလည်း ပြည့်နှက်နေ၍ တဖြည်းဖြည်း ယိုယွင်းလာကာ ဇရာကလည်းထောင်းလာလေပြီ။ နောင်အခါ တီထွင်မှုအသစ်အသစ်တို့ဖြင့် ဗြိတိသျှ ရေတပ်မတော်က မွေးထုတ်သော တိုက်သင်္ဘော အသစ်အသစ်တို့ အရေအတွက်တိုးပွားလာခဲ့သည်။ ထိုအချိန်တွင် တေးမေးရားသည် အမှုတော်လည်းမထမ်းနိုင်တော့သော အခြေအနေ၌ ရှိနေသည့်ပြင် တင်းမြစ်ထဲတွင် သင်္ဘောနေရာအကြပ်အတည်း ပြဿနာတခု ဖြစ်နေတော့သည်။ ထို့ကြောင့် ယခင်က အောင်ပွဲရ တိုက်ပွဲပြန်ကြီးအား ဖျက်ဆီးပစ်ရန် အထက်အမိန့်အရ မီးခိုးတလူလူထွက်၍ စက်သံတဖုတ်ချက်ချက်မြည်သော တွဲသင်္ဘောငယ်ကလေးတစင်းက တေးမေးရားအားလာ၍တွဲကာ ဖျက်ဆီးရမည့်နေရာသို့ ခေါ်သွားပုံကို

တန်းနားက သရုပ်ဖော်ထားသည်။ အကြောင်းရပ်၏ ဇကြ ကွဲဝမ်းနည်းဖွယ်ရာကောင်းမှုကို ဖွဲ့ပြရာ၌ ဘဝ၏ကျချိန်ကို သရုပ်ဖော်သောအားဖြင့် နေဝင်ချိန်ကို နောက်ခံပြုထားသည်။ သင်္ဘော၏လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်သောလှိုင်းဂယက်ကလေးများမှအပ ရေပြင်သည်လည်း ဝမ်းနည်းကြေကွဲသည့်နှယ် ငြိမ်သက်နေသည်။ ဆွဲသင်္ဘောကလေး၏ အရောင်အသွေးသည်လည်း ခပ်မှိုင်းမှိုင်းဖြစ်သည်။ အုံ့မှိုင်းနေသော ကောင်းကင်ပြင်၏အောက်ဝယ် တဖက်သောကမ်းခြေမှ အဆောက်အအုံများကို မှုန်မှုန်ဝါးဝါးသာ မြင်ရသည်။ အခြေအနေအရပ်ရပ်သည် ကြည်လင်သာယာမှုကင်း၍ ဝမ်းနည်းကြေကွဲသော အသွင်သဏ္ဍာန်ဆောင်နေခြင်းကို မဲတင်းထားသည့် သဘောဖြင့် ဆွဲသင်္ဘောမှ မီးအရောင်နှင့် နေလုံး၏အထက်မှ တေးမေးရား၏ တခါက စွမ်းစွမ်းတမံ အမှုထမ်းခဲ့မှုသဘောကိုပြသော အနီရောင်တိမ် အစုအဝေးတို့က ထိန်းပေးထားလေသည်။

အနေအထားမှန်ကန်မှုသဘော၊ ညီညွတ်မှုသဘော၊ ပြေပြစ်မှုသဘောတို့သင်ရှားသောရှေးဗိုးမြန်မာပန်းချီကားတကားကို ပုံစံတင်ပြလိုပါသေးသည်။ ထိုပန်းချီကားသည် "အာဠဝက ချွတ်ခန်း" (စာမျက်နှာ ၁၄၆ — ရှု။) အမည်ရှိ၍ ဘုရား၏ဂုဏ်တော်ကို ဖွဲ့ပြခြင်း ဖြစ်သည်။ ပန်းချီဆရာသည် ပကတိတည်ငြိမ်သော ဘုရားသခင်ကို ကြည့်သိုဟန်တူ၍ မာန်လျော့ကန်တော့သော အာဠဝကကို ချီးကျူးလိုဟန် တူသည်။ ထိုပန်းချီကားတွင် အာဠဝက ဦးညွှတ်ကန်တော့သော သဘောသည် လိုရင်းဖြစ်သည်။ ထိုသဘောသို့ မျက်စိရောက်စေရန်၊ တဖန်ရောက်သောမျက်စိ ပြန့်လွင့်ခြင်းမဖြစ်အောင်လည်း ဖွဲ့ပြနိုင်မှုကို သရုပ်အနေအသားအသို့၌ ထင်ရှားစွာ တွေ့မြင်နိုင်သည်။ ကန်တော့ဦးညွှတ်နေသော ဘီလူးချုပ်ကို ပန်းချီကား၏ အလယ်မကျတကျနေရာ၌ ထားသဖြင့် ကြည့်သူ၏မျက်စိသည် ဘီလူးရုပ်ဆီသို့ လွယ်လင့်တကူရောက်သွားသည်။ ထိုသို့ရောက်သွားသော မျက်စိကို ပန်းချီကား၏ပြင်ဖက်သို့ ပြန့်လွင့်ခြင်းမရှိလေအောင် ဘေးနှစ်ဖက်တွင် သစ်ပင်နှစ်ပင်ကိုပိတ်၍ ခြယ်ထားသည်။



အောင်ပွဲရ တေးမေးရား

အင်္ဂလိပ် ပန်းချီကျော် ဝီလျံတန်းနား၏ "အောင်ပွဲရ တေးမေးရား" ပန်းချီကားသည် ရှုမြင်ရသူအား ကြေကွဲဝမ်းနည်းစိတ်၊ ကရုဏာစိတ်၊ နှမြောတသစိတ်မျိုး ယိုဖိတ်မိသယောင်ယောင် ဖြစ်စေအောင် စေတနာကို လှုံ့ဆော်နိုင်သည်။ ထိုကားတွင် တန်းနားသည် မျဉ်းကိုအဓိကထား၍မသုံးပဲ ဆေးအရောင်အသွေး အလင်းအမှောင်တို့ကို ကစားပြီးလျှင် သရုပ်ဖော်ထားသည်။



အာဠဝကချတ်ခန်း

"အာဠဝကချတ်ခန်း" အမည်ရှိ မြတ်စွာဘုရား၏ ဂုဏ်တော်ကို ဖွဲ့ပြသော မြန်မာ့ ရှေးရိုးပန်းချီကား၌ ပန်းချီဆရာသည် ဘုရားရှင်အား ချီးကျူးသောစိတ်ကိုပေါ်အောင် တကြောင်းဆွဲမျဉ်းဖြင့် ဟန်အမူအရာဖော်ထားသည်ကို ဘုရားရှင်၏ခန့်ညားသော ကိုယ်ဟန်အမူအရာ၊ ရှည်သောခြေချောင်း လက်ချောင်း၊ ပြည့်ဖြိုးသော ခြေဖဝါး၊ လက်ဖဝါး၊ ယာလက်ရုံးတော် အကျအဆင်း နူးညံ့ပျော့ပျောင်းဟန်၊ သင်္ကန်းတော်အနားမြိတ်ကို ဆုပ်ကိုင်ထားသော လက်ချောင်းတို့၏သိမ်မွေ့ဟန်တို့၌ တွေ့မြင်နိုင်သည်။

အထက်တွင် ပန်းနွယ်တို့ကို မိုးကာ၍ ခြယ်ထားသည်။ တဖန် ဘီလူးသို့ရောက်၍ မပျံ့မလွင့်နေသော မျက်စိကို ဘီလူး၌ အကြာအရှည်တန့်မနေစေပဲ ဘုရားရှင်ထံသို့ သက်သက်သာသာ ကူးပြောင်းသွားလေအောင် ဘီလူး၏ လက်နှင့် လေးမြားတို့ကို ဘုရားရှင်၏မျက်နှာတော်ဆီသို့ ဦးတိုက်ထားသည်။ ယင်းသို့ဖြင့် ဘီလူးသို့ရောက်သော မျက်စိသည် ဘီလူး၏လက်သို့ရောက်သည်။ ထိုမှ လေးမြားသို့ရောက်သည်။ လေးမြားမှ ဘုရားရှင်၏လက်မောင်းအကျသို့ ကူးဖြတ်ကာ၊ ထိုမှတဆင့် ဘုရားရှင်၏ မျက်နှာတော်သို့ ရောက်အောင် လမ်းဖွင့်ပေးထား လေသည်။ မျက်စိသည် ဘီလူးမှသည် ဘုရားသို့၊ ဘုရားမှသည် ဘီလူးသို့ ထက်အောက်စုန်ဆန် လူးလာတုံ့ပြန်နေအောင် ဖန်တီးထားသည်။ ယင်းသို့ဖြင့် ဘုရားကိုကြည်ညိုသောစိတ်၊ ဘီလူးအား ချီးကျူးသော စိတ်တို့သည် မျက်စိရှင်၌ တလှည့်စီ တက်တုံသက်တုံ ဖြစ်ပေါ်စေနိုင်လေသည်။

မြတ်စွာဘုရားသည် ခက်ထန်လှသော အာဠဝကအား သည်းခံတော်မူခြင်း၊ ကောင်းစွာယဉ်ကျေးစေခြင်းတို့ဖြင့် အောင်တော်မူကြောင်းကိုပြနိုင်ရန် အာဠဝက အပေါ်သို့ ကဲမိုးနေသော ဘုရားသခင်၏ကိုယ်ဟန်၌ရှင်း၊ အေးချမ်းတည်ငြိမ်သော မျက်နှာဘော်အမူအရာ၌ရှင်း ထင်ရှားစေသည်။ အာဠဝကကို သရုပ်ဖော်ရာ၌ အာဠဝက၏ ခက်ထန်သောသဘောကို တောင့်တင်းခိုင်မာသော ကိုယ်ဟန်ဖြင့် ပြသည်။ ဘုရားရှင်အား မာန်လျော့ချ၍ကိုင်းညွတ်နေပုံ၌ပင် ဒေါသမာန်ပါနေသေးသည်။ သို့သော် ဘုရားရှင်အားရွံ့ကြောက်ခြင်း၊ကြည်ညိုခြင်းတို့ကို လက်ချောင်းများအမူအရာ၌ ပေါ်စေသည်။ အာဠဝက၏ မာန်လျော့ကိုင်းညွတ်ခြင်းကို ပန်းနွယ်တို့၏ယိမ်းညွတ်နေခြင်းဖြင့်လည်း ဖွဲ့ပြသည်။ အာဠဝက၏ ကျောဖက်ရှိ သစ်ပင်မှနေ၍ ဥဒေါင်းငှက်၏ ဘုရားရှင်အား ဦးညွှတ်နေဟန်ဖြင့်လည်း ပြသည်။ ယင်းတို့ကား ပန်းချီကားပါ အကြောင်းအရာအချက်အလက်တို့၏ ညီညွတ်မှုသဘော၊ ပြေပြစ်မှုသဘောကိုပြသည်။ ပန်းချီဆရာ၏ အနုစိတ်လက်စွမ်းသည် စေတနာ

ပါမှ အချက်ကျကျရေးနိုင်သည်။ စေတနာအင်အား ကောင်းသဖြင့် ထိုပန်းချီကားတွင် အနုစိတ်လက်စွမ်းကို အံ့ဩချီးကျူးဖွယ်ရာတွေ့ရသည်။ ဘုရားရှင်၏ နဖူးသင်း ကျစ်တော်၌ ဗိန္ဒုပေါက်ထားခြင်း၊ဝတ်ရုံထားသောသင်္ကန်း တော်၏ အတွန့်အလိပ်၊ အမြိတ်အနားတို့ကို အဆန်း တကြယ်ရေးထားခြင်းတို့သည် ပန်းချီဆရာသည် ကြည်ညိုမှု ထက်သန်သောစေတနာကို ပြသည်။ အာဠဝက၏ မကိုဋ် တန်ဆာ၌ရင်း၊ ချပ်ဝတ်တန်ဆာ၌ရင်း၊ နံဘေးရှိဘွဲ့ဖြူ လက်နက်၌ရင်း ကြာလိပ်ကြာတွန့်ကြာကတော့ကြာကွေး သဘောဖြစ်သော ကနုတ်တန်ဆာ ထည့်ထားခြင်းသည် အာဠဝကအား ပန်းချီဆရာက ချီးကျူးစိတ်ကို ဖော်ပြ သည်။ ဘီလူး၏လည်ဆွဲပုတီးသည် ရင်ဆီ၌တန်းကျနေ၍ ပေါင်ပေါ်၌ယိမ်းနွဲ့နေဟန် ဖွဲ့ပြခြင်းသည် ပန်းချီဆရာ၏ နှစ်သက်စိတ်ကို ဖော်ပြသည်။ ပန်းချီဆရာသည် ထိုပန်းချီကို ရေးဆွဲစဉ်က နှစ်သိမ့်ကြည်နူး ပျော်ရွှင်နေဟန်တူသည်။ ထို့ကြောင့် အာဠဝက၏ကျောဖက်၌ ခါးကိုင်၍ ထိုင်နေ သော တောဘီလူး၏ အိုးတိုးအတအမူအရာကို ပြက်လုံး တခုအဖြစ် ပန်းချီဆရာက ထည့်သွင်းထားလေသည်။

ရုပ်လုံးရုပ်ထုဆရာတို့သည်လည်း မိမိတို့ပတ်ဝန်းကျင်မှ လူနှင့်တိရစ္ဆာန်စသော သက်ရှိသက်မဲ့တို့အနက် အာရုံ စူးစိုက်မိရာ အကြောင်းရပ်တခုကို စေတနာအလျောက် ပုံပန်းဖော်ပြရာ၌ ထိုလူတိရစ္ဆာန်တို့၏ရုပ်လုံးရုပ်ဘုကိုယ်ဟန် အနေအထားမျက်နှာမူရာတို့၌ အသက်ဝင်အောင် နှစ်သက် ဖွယ်ဖြစ်အောင် ဖွဲ့ပြကြသည်။ အမေရိကန်ရုပ်ထုဆရာ ပေါ မင်းရှစ်၏ "မုဆိုးနှင့်ဘောဆိတ်" ရုပ်လုံးအဘွဲ့ကို ပုံစံ တင်ပြရသော် ထိုရုပ်လုံးတို့၏ဟန်အမူအရာမှာ အသက် ဝင်လှသဖြင့် ကြည့်နေစဉ်တွင်ပင် မုဆိုးလက်ထဲရှိ တအား ဆွဲ၍ မောင်းတင်ထားသော လေးညို့မှမြားသည် "တိန်" ကနဲမြည်ကာ လွတ်ထွက်ပြီးလျှင် သမင်၏နံပါး၌ သွား၍ စိုက်လိုက်ရာ ချက်ကောင်းကိုထိသဖြင့် သေစေလောက် သော မြားချက်ကြောင့် အသက်ထွက်လုဆဲဆဲ မခံမဆန့် ဝေဒနာခံရပုံကို ဒိဋ္ဌကိုယ်တိုင် မြင်တွေ့နေရဘိသကဲ့သို့ ရှိကာ တဖက်မှ မုဆိုး၏စွမ်းပကားကို ချီးကျူးမိသည့် နည်းတူ တောဆိတ်အပေါ်၌လည်း ကရုဏာစိတ်တဖွားဖွား ဖြစ်ပေါ်ရသည်။ အကြောင်းရပ်၏ဆိုလိုရင်းကို ရုပ်ထုဆရာ တို့က ပီပီပြင်ပြင် သရုပ်ဖော်နိုင်၍ ညီညွတ်မှုသဘော၊ အနေအထားမှန်ကန်မှုသဘော၊ပြေပြစ်မှုသဘော၊ဟန်ချက် စသည်တို့ဖြင့်လည်းပြည့်စုံကြောင်းကိုတွေ့ကြရပေလိမ့်မည်။

အဆိုပါ အနေအထားမှန်ကန်မှုသဘော၊ ညီညွတ်မှု သဘော၊ ပြေပြစ်မှုသဘော စသည်တို့ဖြင့် ပြည့်စုံသော အခြားပုံစံတခုမှာ တရုပ်လူမျိုးတို့၏ ကရုဏာရှင်နတ်သမီး ကွမ်းယင်၏ရုပ်ဘုဖြစ်ပေသည်။ ရုပ်ထုဆရာသည် နတ်သမီး အား ကြည်ညိုသောစိတ်စေတနာဖြင့် နတ်သမီး၏ခေါင်း ဆောင်း ဘယက်တန်ဆာတို့ကို အနုစိတ်ထုလုပ်သားသည့်

**မုဆိုးနှင့် တောဆိတ်**

အမေရိကန် ရုပ်ထုဆရာ ပေါ မင်းရှစ်၏ '' မုဆိုးနှင့် တောဆိတ် '' ရုပ်လုံးအတွဲတွင် အားစိုက်ခွန်စိုက် လေးတင်၍ မြားကိုပစ် လွှတ်လိုက်သော မုဆိုး၏ ကိုယ်ဟန်အနေအထားသည် ဟန်မာန်ပါလှ၍၊ မြားချက်ကြောင့် တွန့်ကနဲဖြစ်ကာ၊ ကျောကော့ သွားသော တောဆိတ်၏ ကိုယ်နေဟန်ထားသည် သေအံ့မူးမူးအချိန်၌ပင် ကြော့ရှင်းသပ်ယပ်နေပေသည်။







ကရုဏာရှင်နတ်သမီး ကွမ်းယင်

တရုပ် ကရုဏာရှင်နတ်သမီး ကွမ်းယင်၏ ရုပ်တုကိုထုလုပ်သော တရုပ် ရုပ်ထုဆရာသည် နတ်သမီး၏ ကိုယ်နေဟန်ထား တင့်တယ်ခန့်ညားခြင်း၊ မျက်နှာအမူအရာ၌ အေးချမ်းတည်ကြည် ငြိမ်သက်သော စိတ်နေစိတ်ထားတို့ကို ပေါ်လွင်အောင် ထုလုပ်ထားသည်။

အပြင် နတ်သမီး၏ကိုယ်ရုံအောက်ပိုင်း အနားမြိတ် အတွန့်အလိပ်တို့ကို ပီပြင်လှပစွာ ပုံပန်းဖော်ပြထားလေသည်။ ထိုရုပ်တုကို ဆွန်မင်းဆက်(ခရစ် ၉၆၀–၁၂၇၉)အတွင်းက သစ်သားဖြင့် ထုလုပ်၍ ဆေးရောင်ခြယ်ထားလေသည်။

ဗိသုကာပညာရပ်တွင်သိပ္ပံပညာနှင့် အနုပညာ စုပေါင်းစပ်ထားသည်။ အဆောက်အအုံတခု၏ ထုထယ်ပမာဏ၊ အကျယ်အဝန်း၊ အမြင့် အစောက်၊ ပန္နက်စသည်တို့သည် အတိုင်းအထွာ အတိအကျဖြင့် ဆောင်ရွက်ရသည်။ အဆောက်အအုံ၏အတင့်အတယ် အဖွယ်အရာရှိမှု၊ အခန့်အသန့်ရှိမှု၊ ကြည်ညိုညွတ်ကျိုးဖွယ်ရာရှိမှုတို့သည် သရုပ်ဖော်သူ အနုပညာရှင်၏ စေတနာအလိုက် အနုပညာအင်္ဂါရပ်တို့ဖြင့် ညီညွတ်စွာ ပုံပန်းပေါ်လာကြလေသည်။

မြန်မာဗိသုကာပညာရပ်၏ အထွတ်အထိပ် အခြေအနေကိုပြသော ပုဂံမြို့ဟောင်း စေတီပုထိုးများအနက် အာနန္ဒာတွင် အနေအထား မှန်ကန်မှု သဘော၊ အချိုးအချသဘော၊ ညီညွတ်မှုသဘော၊ ပြေပြစ်မှုသဘော၊ ဟန်ချက်သဘောတို့၏ သာဓကကို ထင်ရှားစွာ တွေ့မြင်နိုင်ပေသည်။ အာနန္ဒာဘုရားအား တန်တိုင်းရံထား၍ တန်တိုင်းလေးမျက်နှာတွင် မုခ်ပြာသာဒ်တဆောင်စီ အကွာအဝေးညီညီဖြင့် ဆောက်ထားသည်။တန်တိုင်းအတွင်း၌ ကျူဘုရား၊ သို့မဟုတ် တန်ဆောင်းမဟူ၍ရှိသည်။တန်ဆောင်းမ၏လေးမျက်နှာ၌ တဖက်စီတဖက်စီတွင် အရဏ်ခံ မုခ်ထွတ်(မဏ္ဍပ်) တခုစီအသီးအသီးရှိသည်။တန်ဆောင်းမ အထက်တွင် ပစ္စယာ အဆင့်ဆင့်တင်၍ စေတီပေါက်ထားလေသည်။

တန်တိုင်းမုခ်ပြာသာဒ်၏မျက်နှာတူရူ၌ကွက်လပ်ထားရာ ထိုသဘောမှာ ဘုရားဖူးအား မုခ်ပြာသာဒ်တခု၌ နားနေယင်း တန်ဆောင်းမှအထက်တွင်ပေါက်ထားသော စေတီတော်ကို အာရုံပြုစေသည်။တန်ဆောင်းမအတွင်း၌ ဒ.ရှေ့အနောက် တောင် မြောက် လေးမျက်နှာတွင် မတ်ရပ်ဆင်းတုတော်တဆူစီရှိသည်။ ဘုရားဖူးသည် တန်ဆောင်းမအတွင်းသို့ ဝင်လာသောအခါ ဆင်းတုတော်ဆီသို့ အာရုံရောက်၍ သဒ္ဓါတရားပွားများမှု၊ တည်ငြိမ်မှုရှိစေရန် အရုဏ်ခံမုခ်ထွတ်၏ မျက်နှာကြက်ကို အပြည့်မပြပဲ ဥကင်သဖွယ် ဝဲဖက်ယာဖက်တို့သို့ နိမ့်လျှောချထားသည်။ ထိုအခါ မျက်နှာကြက်ခေါင်ကြောင်းသည် ဆင်းတုတော်၏မျက်နှာတော်တူရူသို့ ညွှန်ပြသကဲ့သို့ ရှိသည်။ ထိုကြောင့် ဘုရားဖူး၏

မျက်စိသည် ဆင်းတုတော်၏မျက်နှာတော်ဆီသို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်သွားစေသည်။ ဆင်းတုတော်၏မျက်နှာတော်အဝင်းအလဲ့ကို ဘုရားဖူးက ဖူးမြင်နိုင်ရန် မျက်နှာတော်တူရူတွင် အလင်းပေါက် ဖောက်ထားသည်။မတ်တပ်ရပ် ဆင်းတုတော်သည် ၁၈ တောင်အမြင့်ရှိရာ ဘုရားဖူးသည် ခြေတော်ရင်းတွင် ကိုယ်တော်၏အကဲအမိုးကိုမြင်ရ၍ ဘုရားဖူး၏မာန်လျှော့ခြင်း၊ ကြည်ညိုသဒ္ဒါပွားခြင်းကို ဖြစ်စေသည်။ယင်းသို့ဖြင့် အာနန္ဒာဘုရား၏ဗိသုကာတွင် ဘုရားဖူးအား ကြည်ညိုသဒ္ဒါပွားများစေသော စေတနာကို လှုံ့ဆော်နိုင်စွမ်းသည့် အနုပညာ၏ ဂုဏ်အင်္ဂါဖြင့် ပြည့်စုံကြောင်း တွေ့ရပေသည်။

အခြေခံသဘောအရ အဆို၊ အက၊ အတီး၊ အမှုတ်တို့သည် သီးခြားပညာရပ်များဖြစ်ကြသော်လည်း အနုဗညာသဘောအရ တခုနှင့်တခု ဆက်တွဲလျက်ရှိခြင်း၊ တခုနှင့်တခု ကျေးဇူးပြုလျက်ရှိခြင်း၊ နီးစပ်ခြင်း၊ တုံ့ပြန်ခြင်းသဘောတို့ ရှိကြသည်။ ထိုပညာသုံးရပ်လုံး တွဲဖက်ပါဝင်သော အဖွဲ့အစည်းတခုကို သဘင်ဟုခေါ်သည်။ သဘင်ပညာဖြင့် လူ့သဘာဝ၊ လောကသဘာဝတို့ကို အနုပညာရှင်သည် ထိရောက်စွာ သရုပ်ဖော်နိုင်သည်။ အလှမ်းအဆွေးအသောတည်းဟူသော စိတ်အရသာကိုးပါးကို ထိထိမိမိ လှုပ်ရှားစေနိုင်စွမ်းသည်။ ဇာတ်ကွက်ဇာတ်အိမ် အမြီးအမောက်တည့်ရန် ပြေပြစ်မှုသဘော၊ဇာတ်ဆောင်ဇာတ်ရံ၏ အသိုင်းအဝန်းတို့၏ အပေးအယူညီညွတ်၍ စည်းလုံးမှုရှိသောသဘော၊ အဆိုအတီးတို့၏ အပေးအယူညီညွတ်မှုသဘော၊ဇာတ်ဆောင်ဇာတ်ရံတို့၏ အံဝင်ခွင်ကျမှုသဘော၊ အဆိုနှင့်အတီး၊အလှမ်းနှင့်အသော အချီအချရှိမှုသဘော၊ တဖက်သတ်ဇာတ်မျှောကြီး ဖြစ်မသွားအောင် ထိန်းပေးသော ဟန်ချက်တို့ကို ပွဲကြည့်ပရိသတ်တို့ ဆင်ခြင်ရှုစားကသဘောပေါက်နိုင်ကြပေသည်။

မြန်မာပွဲကြည့်ပရိသတ်များ ကြည့်ဘူးမြင်ဘူးကြားဘူးကြသော မပဋ္ဌာနှင့် ကိုဒါသတို့၏ဇာတ်လမ်းကို ဆင်ခြင်ပါလေ။ ထိုဇာတ်လမ်း၌ အခန်းကြီးလေးခန်းပါသည်။ ပဌမအခန်းတွင် မပဋ္ဌာက ကိုဒါသကို လူပျိုလှည့်သော သစ္စာထားနှစ်ပါးသွားခန်းဖြစ်သည်။ထိုအခန်းသည်ပွဲကြည့်ပရိသတ်အား ကြည်နူးနှစ်သိမ့်မှုကို ပေးသည်။ မင်းသားမင်းသမီးတို့၏ အဆိုအကအပြင် လူရွှင်တော်တို့၏ပြက်လုံးများကြောင့် ရွှေပွဲလာတို့မှာ တသောသောရယ်မောကာ ကြည်နူးရွှင်မြူးကြရသည်။ ဒုတိယအခန်းမှာ ကိုဒါသကို မြွေခဲခန်းဖြစ်၍ တတိယအခန်းမှာ သားကြီးရေမျောသားငယ်စွန်ချီသောအခန်း ဖြစ်သည်။ ထိုအခန်းများတွင် ပရိသတ်တို့မှာ ထိတ်လန့်ခြင်း၊ သည်းထိတ်ရင်ဖိုဖြစ်ရခြင်း၊ ကရုဏာဖြစ်ရခြင်း စသောအရသာများကို ခံစားရသည်။



အာနန္ဒာကူ ဘုရား

ကျန်စစ်သားမင်း တည်ထားခဲ့သော ပုဂံအာနန္ဒာကူဘုရားသည် နိုင်ငံတော် ငြိမ်းချမ်းတည်တံ့မှု၊ မျှတမှု၊ အတင့်အတယ် အဖွယ်အရာရှိမှုတို့ကို ခင်းကျင်းထားသည်နှင့် တူလေသည်။

စတုတ္ထအခန်းသည် မပင္ဒါရှုးခန်းဖြစ်၍၊ ဇာတ်ဆောင်မင်းသမီး၏ ပညာပြကွက်တွင် ရွှေပွဲလာတို့မှာ ဝမ်းနည်းကြေကွဲစွာဖြင့် နှစ်မျောပါသွားကြရသည်။ ထိုဇာတ်တွင် မပင္ဒါအဖြစ်အသုံးတော်ခံသူ အနုပညာရှင်သည် အဓိကဖြစ်၍ အဓိကဖြစ်သူကလည်း မိမိ၏ပညာစွမ်းကို အစွမ်းကုန်ပြနိုင်သောဇာတ်လမ်း ဖြစ်သည်။ အခြံအရံများသည်ရင်း၊ ဇာတ်လမ်းဇာတ်ကွက်သည်ရင်း အဓိကဇာတ်ကောင်အားများစွာအထောက်အကူပြုသည်။ ဇာတ်ရံတို့၏နေရာသည်လည်း အကွက်ဝင်၍ အံဝင်ခွင်ကျဖြစ်သည်။ ဇာတ်လမ်းဇာတ်အိမ်တည်ပုံသည်လည်း အမြဲအမောက်တည့်သည်။ အလွမ်းများသောဇာတ်လမ်းတွင် သောခန်းများဖောက်ထား၍ နောက်ဆုံး မပင္ဒါ ကျောင်းတော်ဝင်ခန်းသည် အလွမ်းများ၍ ဇာတ်နာနေသည်ကို ပြန်၍ထိန်းလိုက်သောဟန်ချက်ဖြစ်လေရာ ထိုကြည်နူးနှစ်သိမ့်ဖွယ်ရာ အခန်းဖြင့် စခန်းသိမ်းလိုက်လေသည်။

ရသစာပေတို့သည် ရေးပုံရေးဟန်တို့ဖြင့် လူ့သဘာဝ၊ လောကသဘာဝကို သရုပ်ဖော်ကြသည်။ စာရေးဆရာနှင့် စာဆို ပညာရှင်တို့သည် လူ့လောက ပတ်ဝန်းကျင်၌ ယင်းတို့ မြင်သိတွေ့ကြုံရပုံတို့ကို ယင်းတို့၏ စေတနာအလျောက် ပျို့ ကဗျာ လင်္ကာ ဝတ္ထု ပြဇာတ်စသည်တို့အားဖြင့် လွမ်းစရာဖြစ်အောင်၊ ဆွေးစရာဖြစ်အောင်၊ သောစရာဖြစ်အောင်၊ ချီးကျူးစရာဖြစ်အောင် ရေးဖွဲ့ကြသည်။ အနုပညာရှင်တို့သည် အကြောင်းအရာတခုခုကို ရေးဖွဲ့ရာ၌ ရှေးဦးစွာ ရေးဖွဲ့မည့်အကြောင်းအရာတွင် စေတနာရောက်မှုရှိရသည်။ စေတနာရောက်မှု ရှိမှသာ အာရုံစူးစိုက်မှုရှိ၍၊ အာရုံစူးစိုက်မှုရှိလျှင် အကြောင်းအရာ၏ အမှုအရာကို သိမြင်မှု ရှိမြဲဖြစ်သည်။ အကြောင်းအရာ၏အမှုအရာကို သိမြင်မှု ရှိပြီးနောက်မှ ဖန်တီးဖွဲ့ဆိုမှုရှိသည်။

မြန်မာနိုင်ငံတွင် အင်းဝခေတ်မှစ၍ ကဗျာလင်္ကာ၊ ပျို့၊ ချောင်း၊ ရတုစသည့် အနုပညာစာပေ အဖွဲ့အနွဲ့တို့ အမျိုးမျိုး ပေါ်ထွက်ခဲ့သည်။ ထိုခေတ်စာဆိုတို့၏ အခါက အာရုံစိုက်သော အကြောင်းအရာသည် ဗုဒ္ဓစာပေနှင့် မင်းမှုးမတ်တို့ဖြစ်သည်။ ဗုဒ္ဓသာသနာကို တနိုင်ငံလုံးက အထွတ်အမြတ်ထားရာ၊ ဘုရားအလောင်းတော်တို့၏ အမှုအရာကို စာဆိုတို့က စေတနာရောက်၍ ချီးကျူးဖွဲ့ဆိုကြသည်မှာ အဆန်းမဟုတ်ချေ။ ထိုနည်းတူစွာပင် ကိုးကွယ်မှုဆိုင်ရာ ကဗျာ လင်္ကာအဖွဲ့အနွဲ့တို့သည် အာရှတိုက်၌လည်း ပေါ်ထွက်ခဲ့သည်။ ဥရောပတိုက်၌လည်း ပေါ်ထွက်ခဲ့သည်။ ထိုခေတ်ထိုအခါက နိုင်ငံအုပ်ချုပ်သူသည် သက်ဦးဆံပိုင်မင်းဖြစ်သည်။ ထိုမင်းကို လောကသမုတိနတ်အဖြစ်ထား၍၊ မင်း၊ မင်းညီမင်းသား အမှုးအမတ်များကို ပြားပြားဝပ်ကြောက်ရသည်။ ထိုခေတ်ထိုအခါက ဥရောပ၌လည်း ထိုအတိုင်းဖြစ်သည်။ အာရှ၌လည်း ထိုအတိုင်းဖြစ်သည်။ အုပ်ချုပ်သူ လူတန်းစားအား စာဆိုတို့က စေတနာရောက်၍ ချီးကျူးဖွဲ့ဆိုကြခြင်းသည် ထူးဆန်းအံ့ဖွယ်ရာဟု မဆိုသာချေ။

ထိုခေတ်အခါတွင် မြန်မာနိုင်ငံ၌ ထူးထူးခြားခြား ပေါ်ပေါက်ခဲ့သော အဖွဲ့အနွဲ့တို့ကား ဝန်ကြီးပဒေသရာဇာ၏ တျာချင်းများ ဖြစ်သည်။ (ပဒေသရာဇာ — လည်းရှု။) ဝန်ကြီး၏လယ်သမား၊ ထန်းတက်သမား စသော တျာချင်းတို့၌ လက်လုပ်လက်စား၊ အာဏာမဲ့၊ ဓနမဲ့ ကျေးတော်မျိုး ကျွန်တော်မျိုးတို့ မိမိတို့တဝမ်းတခါးအတွက် ရာသီအလိုက် ကြိုးပမ်းလုပ်ကိုင်ကြပုံကို ဝန်ကြီးဆင်ခြင်မိသည်။ ထိုလူတန်းစားတို့ကား တိုင်းပြည်ရိက္ခာဖူလုံရေး၏အရင်းအမြစ်ဖြစ်သည်ကိုလည်း ဆင်ခြင်မိသည်။ ထိုလူတန်းစားသည် စင်စစ် နိုင်ငံ၏ အရေးပါအရာရောက်သော ပြည့်အင်္ဂါတရပ်ဖြစ်သော်လည်း စားဝတ်နေရေး၌ လူတန်းမစေ့ကြသည့် အဖြစ်ကိုလည်း တွေးဆမိသည်။ ထိုကြောင့် ထိုလူတန်းစားအပေါ် သနားချစ်ခင်ခြင်း၊ ချီးကျူးခြင်း စေတနာတို့သက်ရောက်၍ ထိုလူတန်းစား၏ အမှုအရာကို လေ့လာပြီးလျှင် ဖွဲ့နွဲ့ဖန်တီးသော တျာချင်းများအနက် ပုံစံတခုကို လေ့လာရလျှင် ...

"ထန်းပင်ထန်းလက်၊ ထန်းရွက်ကယ်ဝေဝေ၊ စင်အောင်ခုတ်ထစ်၊ နုမျစ်ထန်းဦးရေ၊ မယားငယ်ဆွေ၊ ထန်းရေသိမ်းဆည်း၊ သားမြေးဟစ်ကြော်၊ ခွေးဝက်ခေါ်၊ ထန်းလျှော်ယုန်ပိုက်စည်းငယ်နှင့်လေး။"

ထန်းတက်သမားက ထန်းပင်ထက်တက်၍ ထန်းရည်ရအောင် ဆောင်ရွက်နေစဉ်၊ မယားသည် ထန်းပင်ခြေရင်း၌ ချသားသော ထန်းရည်အိုးတို့ကို သိမ်းဆည်းရသည်။ ထိုစဉ်တွင် သားမြေးငယ်တို့က ဖွတ်၊ ပုတတ်၊ ယုန်၊ ခါ၊ ငုံး၊ ကြွက်၊ မြွေပါမကျန် စားကောင်းသောသတ္တဝါတို့ကို ချောက်လှန့်ဖမ်းဆီးရသည်။ ယင်းသို့ဖြင့် အမိအဖ၊ သားငယ်မြေးငယ်မကျန် အလုပ်လုပ်၍၊ အလုပ်ပြီးလျှင် အိမ်သို့ပြန်ကာ အမဲလိုက်၍ရခဲ့သော တောသတ္တဝါတို့ကို ဖုတ်ကင်ချက်ပြုတ်၍ တပျော်တပါးစားကြပုံကို ထိထိမိမိ သရုပ်ဖော်ထားလေရာ၊ စာဖတ်ပရိသတ်တို့အဖို့ ထိုအိမ်သားစု၏အမှုအရာကို ကရုဏာသက်ရသည့်နည်းတူ ဖြစ်လေရာဘဝတွင် ဖြစ်သလိုနေ၊ ဖြစ်သလိုစားတတ်ကြသည်ကိုလည်း ချီးကျူးမိကြရလေသည်။

ရွှေပြည်စိုးဝတ္ထု၌ ဦးလတ်သည် ဗိလတ်ပြန်ဝတ်လုံမောင်သောင်းဘေ၏အဖွဲ့တွင် သူ့ခေတ်က ရန်ကုန်ပတ်ဝန်းကျင်၌ သူတွေ့ခဲ့ဘူးသော ဖောက်ပြန်လွယ်သည့် လူ့သဘာဝ (ဝါ) သွေးကြီးမွေးကြီး ဖြစ်တတ်သော သဘာဝ

ကို ဟာသဉာဏ်ရှိသူ၏ ဘဝအသိအမြင်ဖြင့် ဖွဲ့ပြထားရာ၊ စာဖတ်ပရိသတ်မှာ ဖတ်ရင်း ပြုံးမိကြရသည်။ သွေးကြီးမွေးကြီးဖြစ်တတ်သော သဘာဝသည် လောက၌ ဒေါမနဿဖြစ်စရာကောင်းသော သဘာဝဖြစ်သည်။ စာရှုသူတို့ကမူ မောင်သောင်းဘေ၏ အမူအရာကို ဒေါမနဿမဖြစ်ပဲ သင့်တင့်စွာ နှလုံးသွင်း၍သာ ပြုံးမိခြင်းသည် အနုပညာသဘောပေတည်း။ ရွှေပြည်စိုးဝတ္ထုတွင် မောင်မောင်စိုးနှင့် ခင်ခင်ထားတို့အကြောင်းသည် ပင်မဇာတ်လမ်းဖြစ်၍ မောင်သောင်းဘေ၏အဖွဲ့သည် ဇာတ်လမ်းလက်ဘက်ဖြစ်သည်။ စိုးနှင့်ထားတို့၏ ဇာတ်လမ်းသည် သနားစရာ၊ လွမ်းစရာ သက်သက်မျှလောက် ဖြစ်သည်။ မောင်သောင်းဘေနှင့် ဦးရာကျော်တို့ အကြောင်း၌မူ ဦးလတ်သည် လောကသဘာဝ၊ လူ့သဘာဝတို့ကို ပုံဖော်သွားလေသည်။ (လတ်၊ ဦး — လည်းရှု။)

နယ်ချဲ့လက်အောက်၌ နှစ်ပေါင်း ၂၀ ကျော်ခန့်ကြာခဲ့ပြီးနောက်တွင် မြန်မာတို့သည် မိမိတို့၏ အတိတ်ရာဇဝင်သမိုင်းနှင့် ယဉ်ကျေးမှုတို့ကို အမေ့မေ့အလျော့လျော့ဖြစ်လာကာ ဇာတိမာန်ဇာတိသွေး ကွယ်ပျောက်လုမတတ် ဖြစ်လာသည်ကို ဆရာကြီး သခင်ကိုယ်တော်မှိုင်းသည် မြန်မာလူထုတို့ နိုးကြားတက်ကြွ၍ ဇာတိသွေး ဇာတိမာန် ပြန်လည်ပေါ်ပေါက်စေရန် မြန်မာလူထုတို့ နားလည်နိုင်သော နည်းပရိယာယ်တို့ဖြင့် ကြံဆောင် နှိုးဆော်ခဲ့သည်။ ဆရာကြီး၏နည်းပရိယာယ်များမှာ မှာတော်ပုံကျမ်းများ၌ မြန်မာရာဇဝင်အကြောင်းကို လေးချိုးရှည်ကြီးများဖြင့် ဖွဲ့ပြသည်။ ဋီကာများ၌ မြန်မာစာပေ မြန်မာရာဇဝင်များကို မေးဖြေပြောကြားဟန် ဖွဲ့ပြသည်။ အကြောင်းသင့်တိုင်း မြန်မာ့ချို၊ လင်္ကာ၊ ရတု၊ မော်ကွန်း၊ ချေင်း အစရှိသည်တို့မှလည်း စာများကို ကောက်နုတ်ဖော်ပြသည်။ ဤသို့ဖြင့် မြန်မာစာပေ ယဉ်ကျေးမှုတို့ကို မြန်မာတို့သွမ်းဆွတ်ဖွယ်ဖြစ်အောင်၊ အားတက်ဖွယ်ဖြစ်အောင်၊ ကြည်ညိုဖွယ်ဖြစ်အောင် ဖွဲ့နွဲ့၍ မြန်မာတို့၏ စိတ်နှလုံးကို ယူကျုံးခဲ့ရာ ပုံစံပြရသော်....

"ဇာတိပင်အခြေပျောက်ပြန်ဘဲ့ ဘာပေမို့၊ သာကီဝင်တွေမောက်ဟန်လဲ မပြချင်ဘု၊ နောက်ယမန်သမဆီက၊ အသောက်မဘန် လှုခဲ့တဲ့။ မြန်မာ့ပလ္လင်ပျံ ကျွန်းပေမို့၊ ပေါ်ကြွန်ကျကာမှ၊ ဆရာ့မှာ အင်မဘန်လွမ်း...."

ပုဂံမြို့ဟောင်းဆောက်ခဲ့စဉ် အနော်ရထာ ကျန်စစ်သားတို့၏ခေတ်ကို မြင်ယောင်မိလျှင် နယ်ချဲ့ လက်အောက်ကျွန်အဖြစ် ရောက်နေရသော မြန်မာ့ဘဝနှင့် နိုင်းစာမိယင်း ရှေးမင်းများကို ရှက်မိကြောင်းကို ဇာတိမာန်တက်ကြွသံ၊ ဝမ်းနည်းပူဆွေးသံ၊ ရှက်သံနှောကာ ဖွဲ့နွဲ့ပြလေသည်။

အနုပညာ အဖွဲ့အနွဲ့၊ အနုပညာ လက်ရာ တို့သည် တခေတ်နှင့်တခေတ် မတူ ပြောင်းခဲ့ ကြသည်။ ပန်းချီ၊ ပန်းပု၊ ဗိသုကာစသော အနုပညာရပ် များ၌ စံနစ်နှင့် ဟန်တို့သည် ခေတ်အလိုက် ပြောင်း၍ပြောင်း၍ လာခဲ့ကြသည်။ တခေတ်တွင် ကောက်ကြောင်းပန်းချီစံနစ် ခေတ်စားခဲ့သော်လည်း တခေတ်တွင်မူ ဆေးအရောင်အသွေးဖြင့် အလင်းအမှောင်ကစားသည့်စံနစ် ထွန်းကားခဲ့သည်။ ပန်းပု၊ ဗိသုကာ၊ စာပေ၊ သဘင် စသည်တို့၌လည်း ထိုနည်းတူ တခေတ်နှင့်တခေတ်မတူ ပြောင်းလဲမှုများ ရှိခဲ့လေသည်။

အနုပညာ လက်ရာ တို့သည် ခေတ်၏ အခြေအနေကိုလည်း ထင်ဟပ်ပြကြသည်။ မြန်မာ နိုင်ငံ၏ ကမ္ဘာကျော် ရွှေတိဂုံ စေတီတော်ကြီး၏ ပုံတော်သည် (စာမျက်နှာ ၁၅၂ — ရှု။)နွဲ့နှောင်းသည်။ ပြေပြစ်သည်၊ စိတ်အေးချမ်းဖွယ်ရာဖြစ်သည်။ စေတီတော်ကို မွမ်းမံတည်ဆောက်သည့်ခေတ်သည် အောက် မြန်မာနိုင်ငံ၌ စစ်မက်အေးနေသောခေတ်ဖြစ်သည်။ မွမ်းမံသူဒါယကာတို့မှာ စိတ်အေးချမ်းသာစွာ နေလိုကြသော ဟံသာဝတီဘုရင် ဗညားကျန်းနှင့် ဘုရင်မ ရှင်စောပုတို့ဖြစ်သည်။ ထိုခေတ်တွင် တိုင်းသူပြည်သားတို့သည်လည်း စိတ်အေးချမ်းသာစွာ နေထိုင်ခဲ့ကြရသည်။ ထို့ကြောင့် ငြိမ်းချမ်းသော ခေတ်၏ သဘော၊ မွမ်းမံသူ မင်းနှစ်ပါး၏သဘော၊ တိုင်းသူပြည်သား တို့၏ သဘောသည် စေတီတော်ကို ပြုပြင်ပေးရသူ ပန်းရံ၊ ပုတို့အား ထင်ဟပ်သေသဖြင့် စေတီတော်၏ ဗိသုကာတွင် ပြေပြစ်နွဲ့နှောင်းမှုသဘော၊ ငြိမ်းချမ်းမှု သဘောတို့ ပေါ်လွင်လျက် တင့်တယ် သပ္ပါယ်လှပေသည်။

ညောင်ဦး ရွှေစည်းခုံ စေတီတော်၏ ဒါယကာများကား ဘုန်းလက်ရုံး ကြီးမား ကြသော အနော်ရထာမင်းကြီးနှင့် ကျန်စစ်သားမင်းတို့ ဖြစ်ကြသည်။ ထိုမင်းများလက်ထက်တွင် နိုင်ငံတော်၏ နယ်နိမိတ်သည် ယခုခေတ်ပြည်ထောင်စု မြန်မာနိုင်ငံ၏ နယ်နိမိတ် နီးပါး ကျယ်ဝန်းသည်။ ဗုဒ္ဓသာသနာကို ပဌမဆုံး တနိုင်ငံလုံး ကြည်ညိုမြတ်နိုးကြသောခေတ် ဖြစ်သည်။ တိုင်းသူပြည်သားတို့သည် နိုင်ငံရေး၊ သာသနာရေးစိတ်ဓာတ်များ တက်ကြွနေကြသည်။ စေတီတော်၏ ဒါယကာ မင်းနှစ်ပါးသဘော၊ ခေတ်၏သဘော၊ တိုင်းသူပြည်သားတို့၏ သဘောသည် စေတီတော်တည်ထားပုံ ဗိသုကာ၌ ပေါ်လွင်လျက် ရှိရာ ထိုသဘောတို့သည် စေတီတော်၏ ပုံတော် (စာမျက်နှာ ၁၅၃ — ရှု။) ကြံ့ခိုင်ခြင်း၊ ထက်မြက်ခြင်း၊ တက်ကြွအားရဖွယ် ရှိခြင်းတို့၌သာမက မုတ်ဦးခြသေ့ရုပ်များ၏ ပြည့်ဖြိုးခြင်း၊ ခွန်အားကြီးခြင်းတို့၌လည်း ထင်ရှားတွေ့မြင်ရလေသည်။



မြတ်ဘုရားရွှေတိဂုံ

စစ်မက်ကင်း၍ အေးငြိမ်းသောခေတ်တွင် မွမ်းမံဘည်ထားသော ရွှေတိဂုံစေတီတော်၏ ပုံတော်သည် ပြေပြစ်သည်။ နှဲနှောင်းသည်။ စိတ်အေးချမ်းဖွယ်ရာဖြစ်သည်။ စေတီတော်ကို မွမ်းမံဘည်ဆောက်သည့်ခေတ်သည် အောက်မြန်မာနိုင်ငံ၌ စစ်မက်အေးနေသောခေတ်ဖြစ်သည်။ မွမ်းမံခဲ့ကြသူ ဟံသာဝတီဘုရင်ဗညားကျန်းနှင့် ဘုရင်မရှင်စောပုတို့သည် စိတ်အေးချမ်းသာစွာ နေလိုကြသူများဖြစ်သည်။ ထိုခေတ်တွင် တိုင်းသူပြည်သားတို့လည်း စိတ်အေးချမ်းသာစွာနေထိုင်ခဲ့ကြရသည်။ ထို့ကြောင့် ငြိမ်းချမ်းသောခေတ်၏သဘော၊ မွမ်းမံသူမင်းနှစ်ပါး၏ သဘော၊ တိုင်းသူပြည်သားတို့၏သဘောသည် စေတီတော်ကိုပြုပြင်ပေးရသူ ပန်းရံပုံ့တို့အား ထင်ဟပ်လေသဖြင့် စေတီတော်၏ဗိသုကာတွင် ပြေပြစ်နှဲနှောင်းမှုသဘော၊ ငြိမ်းချမ်းမှုသဘောတို့ပေါ်လွင်တင့်တယ်သပ္ပါယ်လှပေသည်။

လူတမျိုးနှင့်တမျိုး အနုပညာချင်း မတူချေ။ အနုပညာသည် ကာလ၊ ဒေသ၊ အခြေ အနေနှင့် လူမျိုး၏ ဓလေ့ထုံးကိုမှီး၍ ဖန်တီးရသော ပညာဖြစ်သဖြင့် ရောမ အနုပညာနှင့် ဂရိအနုပညာချင်းမတူ၊ ဂရိအနုပညာနှင့် အီဂျစ် အနုပညာချင်းမတူ၊ အိန္ဒိယနှင့် တရုပ်အနုပညာချင်း မတူ၊ မြန်မာနှင့် အင်္ဂလိပ်တို့၏ အနုပညာချင်းလည်း ခြားနား ကြသည်။ ကာလ၊ ဒေသနှင့် လူမျိုး ဓလေ့စရိုက်ကို မှီးရသဖြင့် လူမျိုး တမျိုး၏ ယဉ်ကျေးမှုသည် ယင်း၏ အနုပညာတွင် ပေါ်လွင်နေသဖြင့် အနုပညာသည် ယဉ်ကျေးမှု၏ ကြေးမုံဟု ဆိုကြခြင်း ဖြစ်လေသည်။

နိဂုံးချုပ်အားဖြင့် ဆိုရလျှင် အနုပညာသည် ပညာတရပ် ဖြစ်သော်လည်း ပညာရပ် တိုင်းသည် အနုပညာမမည်ပေ။ အလွန် မွေ့သော ရေမွှေးကို ပြုလုပ်နိုင်ခြင်း၊ အလွန်အရသာ ရှိသော ခဲဘွယ်ဘောဇဉ်တို့ကို စီရင်ချက်ပြုတ်နိုင်ခြင်း စသည်တို့သည် အနုပညာဟုမခေါ်။ အတတ်ပညာသာလျှင်ဖြစ်သည်။ အနုပညာသည် စိတ်ကူးဉာဏ်စွမ်းဖြင့် ဖန်တီးရသော ပညာဖြစ်ပြီးလျှင် စိတ်ဖြင့်သာ အရသာ ခံစားနိုင်၍ စေတနာကို လှုံဆော်နှိုးဆွ ပေးနိုင်သော ပညာမျိုး ဖြစ်သည်။ ရေမွှေးနှင့် ခဲဘွယ်ဘောဇဉ်တို့၏ အဆိုးအကောင်းကို ကိုယ်တွေ့ လက်တွေ့ ခံစားသိရှိကြရ



ရွှေစည်းခုံ စေတီတော်

အံ့ဖွယ်ကိုးဂုဏ်၊ ကုံလုံပြည့်ဝသည့် ရွှေစည်းခုံစေတီတော်ကြီးသည် မူလဒါယကာ အနော်ရထာမင်း၏ လက်ထက်တွင် အပြီးမသတ်နိုင်ခဲ့ပဲ ကျန်စစ်သားမင်းလက်ထက်တွင်မှ ဆက်လက်တည်ဆောက် ပြီးမြောက်ခြင်းသို့ ရောက်သည်။ ထိုမင်းများကား ဘုန်းကန်ခိုးကြီးမားကာ ယင်းတို့၏ခေတ်တွင် နိုင်ငံတော်နယ်နိမိတ်သည် ယခုခေတ် ပြည်ထောင်စုမြန်မာနိုင်ငံ၏ နယ်နိမိတ်နီးပါး ကျယ်ဝန်း၍ ဗုဒ္ဓသာသနာကို ပဋမဆုံး တနိုင်ငံလုံး ကြည်ညိုမြတ်နိုးကြပြီးလျှင် တိုင်းသူပြည်သားတို့သည် နိုင်ငံရေး သာသနာရေး စိတ်ဓာတ်များ တက်ကြွနေကြသည်။ ရွှေစည်းခုံ စေတီတော်၏ ပုံတော်ဘွင် စေတီတော်၏ ဒါယကာမင်းနှစ်ပါးဖြစ်သော အနော်ရထာမင်း၊ ကျန်စစ်သားမင်းတို့၏သဘော၊ ထိုခေတ်၏သဘော၊ တိုင်းသူပြည်သားတို့၏သဘောထင်ဟပ်ကာ၊ ကြံ့ခိုင်ခြင်း၊ ထက်မြက်ခြင်း၊ တက်ကြွအားရဖွယ်ရှိခြင်း သဘောတို့ ပေါ်လွင်နေလေသည်။

သည်။ ဓာတ်ပုံ ရိုက်ကူးထားသကဲ့သို့ ပကတိ လူနှင့်ဘူအောင် ရေးဆွဲထားသော ပုံတူပန်းချီကားတချပ်သည်ပင် လျှင် စေတနာနှိုးဆွမှု သဘောမပါက အနုပညာ လက်ရာမြောက်သည် ဟု မဆိုကြပဲ ကျွမ်းကျင်မှုကို ပြသေ၍ အတတ်ပညာ တရပ်အဖြစ် ယူဆကြသည်။ သို့သော် ကမ္ဘာကျော် ဣတာလျံ ပန်းချီဆရာကြီး လီယိုနာဒို ဒါဗင်ချီ၏ "မိုနာလီဆာ" အမည်ရှိ အမျိုးသမီးတဦး၏ ပုံတူ ပန်းချီကား ကြီးသည်မူ စေတနာ လှုံ့ဆော်မှု အင်အား အကောင်းဆုံးသော အနုပညာ လက်ရာတခု အဖြစ် အသိအမှတ်ပြုကြရလေသည်။ (လီယိုနာဒို ဒါ ဗင်ချီ — လည်းရှု။)



အပြုံးရှင် မိုနာလီဆာ

မိုနာလီဆာ၏အပြုံးသည် မနိုတရို ပြုံးခြင်းလော၊ ပမာမခန့်ပြုံးခြင်းလော၊ လှောင်ပြုံး ပြုံးခြင်းလော၊ သရော်ပြုံး ပြုံးခြင်းလော၊ မချိပြုံး ပြုံးခြင်းလော၊ မိုနာလီဆာ၏ အသိခက်သော အပြုံးသည် ရှုမြင်ရသူ၏စိတ်ကို အမျိုးမျိုးလှုပ်ရှား နှိုးဆွပေးနိုင်စွမ်းသည်။

**အနုမြူ။** ။အက်တမ် — ရှု။

**အနုမြူဗုံး။** ။အက်တမ်ဗုံး — ရှု။

**အနုရုဒ္ဓါထေရ်။** ။အနုရုဒ္ဓါထေရ်သည် ဂေါတမမြတ်စွာဘုရား လက်ထက်တော်တွင် ထင်ရှားသော ထေရ်တပါး ဖြစ်သည်။ မြတ်စွာဘုရား၏ခမည်းတော် သုဒ္ဓေါဒနမင်း၏ ညီတော်ဖြစ်သော သုက္ကောဒနမင်း၏သားတော် အငယ်ဖြစ်သည်။ ငယ်စဉ်က အဆင်းလှ၍ ဘုန်းကံကြီးလျက် သိမ်မွေ့နူးညံ့သည်။ မရှိဟူသော စကားကို တရံခါမျှ မကြားစဘူးချေ။

တရံရောအခါ အနုရုဒ္ဓါမင်းသားသည် ဂုဏ်ဝါတူမျှသော အခြားသာကီဝင် မင်းသားတို့နှင့် အန်ကစားယင်း မုန့်များကိုအလောင်းအစားပြုရာ ရှုံးသဖြင့် မုန့်ကုန်ပြန်သော် မိခင်ထံသို့စေလွှတ်၍ တောင်းသည်။ မိခင်သည် သုံးလေးကြိမ်ရှိသော် မရှိတော့ဟူ၍ ပြောလိုက်ရာ ထိုစကားကို မုန့်အမည်ပင် ထင်မှတ်၍ မရှိမုန့်ကိုတောင်းသည်။ မိခင်က မရှိကြောင်းကို သိစေလို၍ ရွှေဖလားချည်း ပေးလိုက်ရာ နှစ်ဥက ပစ္စေကဗုဒ္ဓါ တပါးအား ထမင်း လှူခဲ့သော မင်းသား၏ ဘုန်းကံကြောင့် နတ်များက မုန့်ကိုထည့်ပေးကြသည်။ ထိုအကြောင်းကို မိခင်သိလျှင် ငါ့သားသည် ဘုန်းရှိသော ယောကျ်ားဖြစ်သည်။ ရှေးဆုတောင်း အကြောင်းကြီးစွာ ရှိလိမ့်မည်ဟု အောက်မေ့၍ မုန့်စားလို၍ တောင်းလျှင် အချည်းနှီးသော ရွှေခွက်ကို ဖုံးလျက်သာ ပေးလိုက်၏။ ထိုမှစ၍ အိမ်ရာထောင်သော လူ၏ဘောင်၌ နေသမျှကာလပတ်လုံး နတ်ပေးသောမုန့်များကို အစဉ်စား ရလေသည်။

အရွယ်ရောက်သော် နေခင်တော်မဟာနာမ်မင်းသားက

တိုင်ပင်လာသည့်အတိုင်း အခြား သာကီဝင်မင်းတို့ကဲ့သို့ ရဟန်းပြုရန် မယ်တော်အားတောင်းပန်ကာ မြတ်စွာဘုရား ကျောင်းတော်သို့ သွားရောက် ရဟန်းပြုသည်။ အနုရုဒ္ဓါ မင်းသားနှင့်အတူ အာနန္ဒာ၊ ဘဒ္ဒိယ၊ ကိမိလ၊ ဘဂု၊ ဒေဝဒတ် ဟူသော မင်းသားငါးပါးနှင့် ဆတ္တာသည် ဥပါလိ လိုက်ပါကြသည်။ မြတ်စွာဘုရားအထံတော်သို့ ရောက်လျှင် ဇာတိမာန်ခက်ထန်သော သာကီဝင်မင်းမျိုးအဖို့ ရဟန်းဖြစ်သောအခါ ရိုသေရာဖြစ်စေရန် ဥပါလိကို ဦးစွာရဟန်းပြုပေးပြီးမှ မင်းသားတို့ကို ရဟန်းပြုပေးသည်။

ရဟန်းဖြစ်ပြီးသော် မြတ်စွာဘုရား၏ တရားတော်ကို ကြားနာရလျှင် ဒိဗ္ဗစက္ခုဉာဏ်ကိုရတော်မူသည်။ ထိုနောက် ရှင်သာရိပုတ္တရာထံ၌ ကမ္မဋ္ဌာန်းကို သင်ကြားပြီးနောက် စေတိယတိုင်း ပါစီနဝံသမြို့သို့သွား၍ တရားအားထုတ်ရာ ပဋိသမ္ဘိဒါနှင့်တကွ ရဟန္တာ အဖြစ်သို့ ရောက်သည်။

ထိုအခါ ရှင်အနုရုဒ္ဓါထေရ်ဟု လွန်စွာထင်ရှားသည်။ ရှင်အနုရုဒ္ဓါထေရ်သည် ပဒုမုတ္တရဘုရားလက်ထက်တွင် အပါကဋမည်သော သူကြွယ်တဦးဖြစ်၍၊ဘုရားကျောင်းတော်သို့ သွားရောက်တရားတော်ကို နာကြားရာဝယ် ဒိဗ္ဗစက္ခုအဘိဉာဉ်အရာ၌ တေဒဂ်ရသော ရဟန္တာတပါးကို အားကျ၍ ဘုရားရှင်အား အလှူပေးကာ ပန်ဆင်ခဲ့သည့် ဆုထူးကြောင့် ဒိဗ္ဗစက္ခုအမြင်ထက်သန်ရာတွင် ထူးကဲစွမ်းဆောင်နိုင်သဖြင့် ဒိဗ္ဗစက္ခုအရာတွင် တေဒဂ်ဘွဲ့ဖြင့် မြတ်စွာဘုရားက ခြီးမြှောက်တော်မူသည်။

**အနေကဇာတင်ခြင်း။** ။မြတ်စွာဘုရား ကိုယ်တော်စားပြု၍ ကိုးကွယ်ရန် ထုလုပ်အပ်သော ရုပ်ဘုတော်ဆင်းတုတော်ဟူသော ဥဒ္ဒိဿကစေတီကို "အနေကဇာတိသံသာရံ" စသော ဂါထာတို့ကိုအစပြု၍ ရွတ်ဆိုပူဇော်ကာတင်ခြင်းကို အနေကဇာတင်ခြင်းဟုခေါ်သည်။ ထိုကြောင့် အနေကဇာ ဟူသော မြန်မာစကားသည် အနေကဇာတိဟူသော ပါဠိစကားမှ ဆင်းသက်၍လာသောစကားဖြစ်သည်ဟု မှတ်ယူသင့်၏။

အနေကဇာတိသံသာရံ စသောဂါထာတို့ကား ဥဒါန်းဂါထာတို့တည်း။ ဥဒါန်းဟူသောပုဒ်သည် ဥဒါနဟူသော ပါဠိစကားမှ ဆင်းသက်လာသဖြင့် နှစ်သက်ဝမ်းမြောက်ခြင်းအနက်ရှိ၏။ မြတ်စွာဘုရားသည် ဘုရားအဖြစ်သို့ ရောက်၍ ဆန္ဒပြီးမြောက်တော်မူသဖြင့်နှစ်သက်ဝမ်းမြောက်ခြင်းပီတိအဟုန်သည် ဖြစ်စေအပ်သော ဂါထာများဖြစ်၍ ထိုဂါထာတို့ကို ဥဒါန်းဂါထာဟုဆိုသည်။ အနေကဇာတင်ခြင်းကို နားလည်နိုင်ရန် ရှေးဦးစွာ စေတီအပြားကို သိသင့်ပေသည်။

### စေတီသုံးမျိုး

ဇာတ်အဋ္ဌကထာ ကာလိင်္ဂဗောဓိဇာတ်၌ စေတီသည် သာရီရိကစေတီ၊ ပရိဘောဂစေတီ၊ ဥဒ္ဒိဿကစေတီဟူ၍ သုံးမျိုးလာ၏။

ထိုသုံးမျိုးတို့တွင် –

(၁) မြတ်စွာဘုရားခန္ဓာကိုယ်၏ အစိတ်အပိုင်းဖြစ်သော ဓာတ်တော်၊ မွေတော်၊ ညှပ်ရိုးတော်၊ နဖူးသင်းကျစ်တော်၊ စွယ်တော်၊ သွားတော်၊ ဆံတော်၊ မွေးညှင်းတော်၊ ခြေသည်းတော်၊ လက်သည်းတော်သည်ရင်း၊ ယင်းတို့ကို ဌာပနာသွင်း၍ တည်ထားသော စေတီတော်သည်ရင်း သာရီရိကစေတီမည်၏။

(၂) ဘုရားလောင်း၏အသုံးအဆောင်ဖြစ်သော ဝတ်လဲတော်ပုဆိုး၊ ဆံတော်စသည်ရင်း၊ မြတ်စွာဘုရား၏အသုံးအဆောင်ဖြစ်သော ဗောဓိပင်၊ ကျောင်းတော်စသော အဆောက်အဦသည်ရင်း၊ သပိတ်တော်၊ သင်္ကန်းတော်၊ တောင်ဝှေးတော်စသော ပရိက္ခရာသည်ရင်း၊ ယင်းတို့ကို ဌာပနာသွင်း၍တည်ထားသော စေတီတော်သည်ရင်း ပရိဘောဂစေတီမည်၏။

(၃) ရွှေ ငွေ ကြေး သံ ခဲ ကျောက် အုတ် အင်္ဂတေ မြေ သစ်သား စသည်တို့ကို ထုလုပ်ထားသော ရုပ်တုတော်ဆင်းတုတော်သည်ရင်း၊ ဆေးမင်တို့ဖြင့် ရေးသားရိုက်နှိပ်ထားသော ဓာတ်ပုံဓာတ်ကားသည်ရင်း၊ယင်းတို့ကိုဌာပနာသွင်း၍တည်ထားသော စေတီတော်သည်ရင်း ဥဒ္ဒိဿကစေတီမည်၏။

သာရတ္ထဒီပနီဋီကာ ဗာဟိရနိဒါန်း၌ကား ပရိဘောဂစေတီ၊ ဓာတုစေတီ၊ ဓမ္မစေတီဟူ၍ စေတီသုံးမျိုးတနည်းပြဆို၏။

ထိုသုံးမျိုးတို့တွင် ပရိဘောဂစေတီမှာ ယခင် ပရိဘောဂစေတီနှင့် အတူတူပင်။ သာရီရိကစေတီနှင့် ဓာတုစေတီ ဆိုသည်မှာလည်း သဒ္ဒါသာကွဲ၍ အနက်မှာမထူးပြီ။ ဓမ္မစေတီတခုသာထူး၏။ မြတ်စွာဘုရားဟောကြားတော်မူအပ်သော ပဋိစ္စသမုပ္ပါဒ်စသော ပိဋကတ်တော်သည်ရင်း၊ ယင်းပိဋကတ်တော်ကို ရွှေပြား ငွေပြား ကြေးပြား သံပြား ခဲပြား ကျောက်ပြား စသည်တို့၌ ရေးထွင်းကာ ဌာပနာသွင်း၍ တည်ထားသော စေတီတော်သည်ရင်း ဓမ္မစေတီမည်၏။

### အနေကဇာတင်အပ်သောစေတီ

ဆိုအပ်ခဲ့ပြီးသောစေတီတို့တွင် ဥဒ္ဒိဿကစေတီတခုကိုသာ အနေကဇာတင်လေ့ရှိသည်။ ကြွင်းစေတီများကို အနေကဇာ တင်လေ့မရှိချေ။ "ဥဒ္ဒိဿကံ အဝတ္ထုကံ"ဟု ကာလိင်္ဂဗောဓိဇာတ်အဋ္ဌကထာ၌ လာရှိသည့်အတိုင်း ဥဒ္ဒိဿကစေတီမှာ အခြားသာရီရိကစေတီ၊ ပရိဘောဂစေတီ၊

ဓမ္မစေတီများကဲ့သို့ မြတ်စွာဘုရားနှင့်စပ်လျဉ်းသော ပူဇော်ဖွယ်ဝတ္ထုဟူ၍ တစုံတရာမရှိ။ မြတ်စွာဘုရားကိုရည်ညွှန်း၍ ကိုယ်တော်စားပြုထားအပ်သော စေတီမျှသာ ဖြစ်သည်။ ထို့ကြောင့် ရှင်ဘုရင်များကို ဘိသိက်မြှောက်ခြင်းကဲ့သို့ အလေးဂရု အထူးပြုရန်အတွက် အနေကဇာတင်ခြင်းဖြစ်သည်ဟု ယူဆဖွယ် ရှိ၏။

အနေကဇာတင် ဖြစ်ပေါ်လာပုံ

အနေကဇာတင်ခြင်းကို မည်သည့်အခါကာလကစ၍ ဖြစ်ပေါ်လာသည်ဟု အတိအကျဖော်ပြနိုင်ရန် ကျမ်းဂန်အထောက်အထား မတွေ့ရချေ။ သို့သော် ရုပ်တုတော်ဆင်းတုတော် ဖြစ်ပေါ်လာပြီးနောက် သဒ္ဓါတရားထက်သန်တိုးပွားစေရန် ရှေးပညာရှိကြီးများ တီထွင်ထားသောနည်းစံနစ်ကောင်းဟု ယူဆဖွယ်ရှိ၏။ သို့ဖြစ်၍ ရုပ်ဘုတော်ဆင်းတုတော် ဖြစ်ပေါ်လာရာကာလကို စိစစ်သင့်ပေသည်။

မြတ်စွာဘုရား လက်ထက်တော်အခါကာလမှစ၍ ရုပ်ပွားတော် ဆင်းတုတော် ထုလုပ်ကိုးကွယ်လာကြောင်း ဝဋ္ဋဂုံလိရာဇဇာတ်စသည်၌ ဆို၏။ ဝဋ္ဋဂုံလိရာဇဇာတ်၌ ကောသလမင်းကြီးသည် မြတ်စွာဘုရား၏ခွင့်ပြုတော်မူချက်အရ စန္ဒကူးနံ့သာကို ရုပ်တုတော်ထုလုပ်ကိုးကွယ်ကြောင်းအဆိုရှိ၏။

ဆကေသဓာတုဝင်၌လည်း မြတ်စွာဘုရား လက်ထက်ရဟန္တာအရှင်မြတ်တို့ မိန့်ကြားတော်မူချက်အရ သမုဒ္ဒရာနှင့်မနီးမဝေးသော ပစ္စန္တရစ်အရပ်၌ မြတ်စွာဘုရား၏ရုပ်တုတော်ကို သိကြားမင်းဖန်ဆင်းကြောင်း အဆိုရှိ၏။

သတ္တနာဝိကထုပဝင်၌လည်း လှေသူကြီး ခုနစ်ဦးနှင့်ကျေးလူမျိုးကုန်သည်တို့သည် ဆံတော်ဓာတ်ဌာပနာတိုက်အတွင်းဝယ် ဘုရားရုပ်တုတော်ကိုထုလုပ်၍ ဌာပနာသွင်းသည်ဟု အဆိုရှိ၏။

ယခုပြဆိုချက်များမှာ သင်္ဂါယနာတင်ကျမ်းစာများလာစကားမဟုတ်၍ အခိုင်အမြဲ စွဲယူမှတ်သားရန် သင့်လျော်မည်မထင်ပေ။ သမန္တစက္ခုဒီပနီ၌လည်း ဝဋ္ဋဂုံလိရာဇဇာတ်နှင့်စပ်လျဉ်း၍ "ယင်း ဝဋ္ဋဂုံလိရာဇဇာတ်စကားမှာ ယွန်းပဏ္ဏာသ ဇာတ်စကားဖြစ်သောကြောင့် တကြောင်း၊ သင်္ဂါယနာတင်ကျမ်းထွက်စကားမဟုတ်သောကြောင့် တကြောင်း ပညာရှိတို့ အမြတ်တနိုးမပြုကြကုန်"ဟု မုံရွေးဆရာတော် ဝေဖန်ထားလေသည်။

မြတ်စွာဘုရားရုပ်ပွားတော်များနှင့်စပ်လျဉ်း၍ သုတေသနပြုလုပ်ကြသော ကျောက်စာဝန်များက ရှာဖွေလေ့လာခဲ့ရာ ဘုရားလက်ထက်ကထုလုပ်သော ရုပ်ပွားတော်ဟူ၍ တဆူကိုမျှမတွေ့ရကြောင်း ဆိုကြ၏။ မြတ်စွာဘုရား ဒေသစာရီကြွတော်မူခိုက် ဘုရားကိုယ်စားတော်ပူဇော်အပ်သော စေတီအဖြစ်ဖြင့် ဇေတဝန်ကျောင်းတော်တံခါးမှာဗောဓိပင်စိုက်ခွင့်ပြုတော်မူကြောင်းသာ ကာလိင်္ဂဗောဓိ ဇာတ်အဋ္ဌကထာ၌လာ၏။ သိရိဓမ္မာသောကမင်းကြီး လက်ထက်ကလည်း ဘုရားရုပ်ပွားတော်များ ထုလုပ်ကိုးကွယ်ရိုးထုံးစံမရှိသေးဟု ထိုသုတေသနပြုလုပ်သောပညာရှိများဆိုကြ၏။ သိရိဓမ္မာသောကမင်းကြီးသည် မြတ်စွာဘုရား၏ရုပ်သဏ္ဌာန်ကို ဖူးမြင်လိုသောကြောင့် ကာဠနဂါးမင်းကို မင်းအာဏာဖြင့်ခေါ်ယူ၍ ထီးဖြူမိုးကာသော ရတနာပလ္လင်ထက်တွင်နေစေပြီးလျှင် မြတ်စွာဘုရားကို သင်ကိုယ်တိုင်မြင်ဘူးရသည်။ ငါမူကားမမြင်ရပါ။ ထိုဘုရားသဏ္ဌာန်ကို ငါ့အားဖန်ဆင်း၍ပြပါလေဟု ဆို၏။ နဂါးမင်းလည်း ဘုရားနှင့်တူအောင် ဖန်ဆင်း၍မပြနိုင်ကြောင်းဆိုသောအခါ အလုံးစုံတူအောင်မပြစွမ်းနိုင်လျှင် တစိတ်တဒေသမျှပင် ပြပါလေဟု ဆိုရာ နဂါးမင်းသည် ဘုရားအသွင်ဖန်ဆင်းပြကြောင်း မဟာဝင်စသည်၌ လာရှိ၏။

ရှေးအခါ မဇ္ဈိမဒေသတွင် ဗုဒ္ဓဝါဒီ သူတော်စင်တို့ မြတ်စွာဘုရား၏ကိုယ်စားတော် ဗောဓိပင်ပုံ၊ စေတီပုထိုးပုံ၊ ဓမ္မစကြာပုံစသော အမှတ်လက္ခဏာများကိုသာ ထုလုပ်ကိုးကွယ်လေ့ရှိကြ၏။ ယင်းသို့ရှိခဲ့ရာ အိန္ဒိယအနောက်မြောက်ပိုင်းမှ ဂန္ဓာရတိုင်းသားတို့ ဗုဒ္ဓဝါဒီများဖြစ်လာကြသည်။ ယင်းတို့အထဲတွင် မိလိန္ဒမင်းကြီးသည် ထင်ရှားသောပုဂ္ဂိုလ်ဖြစ်၏။ ထိုဂန္ဓာရတိုင်းသားတို့သည် ကျောက်ဆစ်အနုပညာ၌ အလွန်လိမ်မာ၏။ သူတို့လက်ထက်ကျမှပင် ဘုရားရုပ်ပွားတော်များ စတင် ပေါ်ပေါက်လာသည်ဟု သုတေသနပြုလုပ်ကြသောပုဂ္ဂိုလ်တို့ ဆိုကြသည်။ ယင်းသို့ ရုပ်တုတော် ဆင်းတုတော်များပေါ်လာပြီး နောင်ဘုရားကိုးဆူပူဇော်နည်းစသည်များကဲ့သို့ ဤအနေကဇာဘင်ခြင်းအလေ့အထမှာလည်း ဇင်းမယ်ပြည်မှစ၍ ဖြစ်ပေါ်လာပြီးလျှင် ထိုမှတဆင့် ဤမြန်မာနိုင်ငံသို့ ရောက်လာဟန်တူသည်ဟု ပညာရှိများဆိုကြသည်။ (ဘုရားကိုးဆူ — လည်းရှု။)

အနေကဇာတင်ပုံ

အနေကဇာမတင်မီ ဘုရားဒါယိကာဒါယိကာမတို့သည် အနေကဇာတင်မည့် ဥဒ္ဒိဿကစေတီတော်အား ဆွမ်းခဲဘွယ်ဘောဇဉ် ပန်း နံ့သာ ဆီမီး ထီး တံခွန် ကုက္ကား မုလေးပွားစသည်တို့ကို လှူဒါန်းပူဇော်ကြသည်။ ပင့်ဖိတ်ထားသောသံဃာတော်တို့အား ဆွမ်း ခဲဘွယ် ဘောဇဉ် စသောအထူးထူးသော လှူဖွယ်ဝတ္ထုတို့ကို လှူဒါန်းပူဇော်ကြသည်။ ပင့်ဖိတ်ထားသော မိတ်သင်္ဂဟဘို့အားလည်း ညှော်ခံကျွေးမွေးကြသည်။

ထိုနောက် သံဃာတော်တို့သည် ပန်း နံ့သာ ထီး တံခွန် ကုက္ကား မုလေးပွား စသည် တို့ကို ကိုင်ဆောင်ကာ အနေကဇာတင်မည့် ဥဒ္ဒိဿကစေတီတော်ကို ရှိခိုးလျက် —

(၁) အနေကဇာတိသံသာရံ၊ သန္ဓာဝိဿံ အနိဗ္ဗိသံ။
ဂဟကာရံ ဂဝေသန္တော၊ ဒုက္ခာ ဇာတိ ပုနပ္ပုနံ။
ဂဟကာရက ဒိဋ္ဌောသိ၊ ပုနဂေဟံ နကာဟသိ။
သဗ္ဗာ တေ ဖာသုကာဘဂ္ဂါ၊ ဂဟကူဋံ ဝိသင်္ခတံ။
ဝိသင်္ခါရဂတံ စိတ္တံ၊ တဏှာနံ ခယ မဇ္ဈဂါ။

ဟူသော ဥဒါန်းနှစ်ဂါထာကို ရွတ်ဖတ်သရဇ္ဈာယ်ကြ၏။ ထိုနှစ်ဂါထာအဓိပ္ပါယ်ကား–"အဖန်ဖန် ပဋိသန္ဓေနေရခြင်းသည် ဆင်းရဲလှသောကြောင့် ခန္ဓာအိမ်ကို ဆောက်လုပ်တတ်သူ တဏှာလက်သမားကို ရှာသောငါသည် ထိုတဏှာလက်သမားကို မြင်နိုင်သောဉာဏ် မရသေးသဖြင့် ဘဝများစွာ သံသရာပတ်လုံး ကျင်လည်ပြေးသွားခဲ့ရလေပြီ။

"ခန္ဓာအိမ်ကို ဆောက်လုပ်တတ်သော ဟယ်တဏှာလက်သမား၊ ငါသည်သင့်ကို ပညာမျက်စိဖြင့် ယခုမြင်အပ်ပြီ။ ခန္ဓာအိမ်ကို နောက်တဖန် သင်ဆောက်လုပ်ရတော့မည် မဟုတ်။ သင်၏ကိလေသာတည်းဟူသော အခြင်ရနယ်အားလုံးတို့ကို ငါချိုးဖျက်အပ်ကုန်ပြီ။ အဝိဇ္ဇာတည်းဟူသော အိမ်အထွတ်ကို ဖျက်ဆီးအပ်ပြီ။ ငါ၏စိတ်သည် ပြုပြင်ခြင်းကင်းရာနိဗ္ဗာန်သို့ ရောက်ပြီ။ တဏှာကုန်ရာကုန်ကြောင်း အရဟတ္တဖိုလ်ကို ငါရပြီ"ဟု ဆိုလိုသည်။

(၂) ထိုနောက် ပဋိစ္စသမုပ္ပါဒ် အနုလုံပဋိလုံ၊
(၃) ယဒါဟဝေ ပါတုဘဝန္တိဓမ္မာ စသော ဥဒါန်းဂါထာများ၊
(၄) ဇယန္တော ဗောဓိယာ မူလေ စသော အဘိသေကဂါထာများ၊
(၅) ဘုရားဂုဏ်တော်များ၊ ဇယော ဟိ ဗုဒ္ဓဿသိရီမတောအယံ စသော နဂါးဂဠုန် နတ်ဗြဟ္မာတို့ ဝမ်းမြောက်ဝမ်းသာ ဟစ်အော် ကြွေးကြော်ကြသော ဥဒ္ဒေါသနဂါထာများကို ရွတ်ဖတ်သရဇ္ဈာယ်ကြ၏။

ထိုနောက် သုနက္ခတ္တံ သုမင်္ဂလံ စသော အာသီသဂါထာများကို ရွတ်ဆိုပူဇော်ကာ အနေကဇာတင်ကြသည်။

အချို့လည်း စုပေါင်း အနေကဇာတင်ပြီးသောအခါ ရဟန်းသံဃာတပါးပါးက အမွှေးနံ့သာရည်ထည့်ထားသော ဖလားကိုကိုင်၍ သပြေခက်ကိုအမွှေးနံ့သာရည်တွင်နှစ်ကာ ရုပ်တုတော်ဆင်းတုတော်၏အထက်၌ ဇယန္တော ဗောဓိယာ မူလေစသော အဘိသေကဂါထာတို့ကိုရွတ်ဆိုလျက် အမွှေးနံ့သာရည်ဖြင့် ပက်ဖျန်းကာ ဗုဒ္ဓအဘိသိက်သွန်းလောင်းကြသည်။ ဤသို့ပြုလုပ်ခြင်းမှာ ရာဇာဘိသိက်၊ မင်္ဂလာဘိသိက်၊ သိရီပဝေသနာဘိသိက် သွန်းလောင်းခြင်းတို့ကို နည်းယူ၍ ပြုလုပ်ကြဟန်တူသည်။

(ဤအနေကဇာတင်ခြင်းကို ရဟန်းသံဃာတော်များသာ ပြုလုပ်လေ့ရှိကြသည်။ သို့သော် လူပုဂ္ဂိုလ်များလည်း တင်ကောင်း ကြသည်ဟု မှတ်ရမည်။)

**အနေကဇာတင်ခြင်းအကျိုး**

အနေကဇာတင်ခြင်းမှာ မြတ်စွာဘုရားကို ပူဇော်ခြင်းဖြစ်၍ ယခုပစ္စုပ္ပန်ဘဝ၌ပင် ကျက်သရေမင်္ဂလာတိုးတက်၍ အသက်ရှည်ခြင်း အဆင်းလှခြင်းစသော ကောင်းကျိုးချမ်းသာ အပြားပြားနှင့် ပြည့်စုံပြီးလျှင် နတ်ပြည်နိဗ္ဗာန် ရောက်နိုင်ခြင်း အကျိုးရှိ၏။

သာမန်ဖြစ်သော ရုပ်တုတော် ဆင်းတုတော်ကို အနေကဇာတင်ပြီးသောအခါ သက်တော်ထင်ရှား ဘုရားကဲ့သို့ အလွန် တန်ခိုးအာနုဘော်ကြီးမားလာသည်ဟု စိတ်တွင် ထင်မှတ်လာရသည်။ ရုပ်ပွားတော် ဆင်းတုတော်ကိုလည်း သက်တော်ထင်ရှား ဘုရားနှင့်မခြား လေးစားကြသည်။ ယင်းသို့ သက်တော်ထင်ရှား ဘုရားနှင့်မခြား စိတ်စေတနာ အညီအမျှထားနိုင်မှု အကျိုးအာနိသင်လည်း အညီအမျှပင် ရနိုင်၏။ ထိုကြောင့် အနေကဇာတင်ခြင်းသည် များမြတ်သောအကျိုးအာနိသင်ရှိသော ကောင်းသောအလေ့အထ တခုဟု မှတ်ယူသင့်ပေသည်။ ဆရာဉာဏ်

**အနဲမနီးကောင်။** ။ပင်လယ်မှိုကောင် — ရှု။

**အနဲမနီးပင်။** ။အနဲမနီးပင်သည် ဗြိတိန်နိုင်ငံသစ်တောနှင့် စားကျက်များတွင် နွေကူးရာသီ၌ အလေ့ကျပေါက်လေ့ရှိသော ပန်းပင်မျိုးဖြစ်၍ မျိုးတူ ဗတ်တားကပ်ပင်ကဲ့သို့ ရနန်းကူလေးစီအီး မျိုးရင်းတွင် ပါဝင် သည်။ အနဲမနီးဟူသော စကားမှာ ဂရိ ဘာသာစကား ဖြစ်၍ လေ ဟုအဓိပ္ပါယ် ရသည်။ လုပ၍ ကျက်သရေ ရှိသော အနဲမနီး ပန်းပွင့် အရိုင်းများသည် နွေကူး ရာသီ ကျစလေပြင်းတိုက်ခတ်ချိန်တွင် လေမည်မျှလောက် တိုက်ခတ်သော်လည်း ပန်းပွင့်များသည် အောက်သို့ ငိုက်ကျ၍ ဟိုဟိုသည်သည် ယိမ်းထိုးရုံမျှအပ မည်သည့်အခါမှ ကျိုးပြုသွားခြင်း မရှိချေ။ ထိုကြောင့်လည်း ယင်းပန်းပွင့်များကို လေဒဏ်ခံပန်းပွင့်ဟု တခါတရံ ခေါ်ကြသည်။ အနဲမနီးပန်းပင်များသည် သမပိုင်းရာသီဥတု၌ပေါက်ရာ အမေရိကန်ပြည်ထောင်စု မြောက်ပိုင်းနှင့် ကနေဒါ နိုင်ငံတို့၌လည်း ပေါက်သည်။

ဗြိတိန်နိုင်ငံ၌ တောထဲတွင် အလေ့ကျပေါက်သော အနဲမနီးပင် နှစ်မျိုးရှိရာ တမျိုးမှာ အပွင့်ဖြူ၍လှပသည်။ ယင်း၏ရုက္ခဗေဒအမည်မှာ အနဲမနီး နီမိုရိုဆ ဖြစ်၍ သစ်တောနှင့် စားကျက်များတွင် တွေ့ရသည်။ ဒုတိယအမျိုးမှာ ခရမ်းရောင်ပန်းများပွင့်၍ အင်္ဂလန်ပြည် အရှေ့နှင့် တောင်ပိုင်း ထုံးကျောက်စားကျက်များ၌ ပေါက်သည်။



လေဒကာခံ ပန်းပွင့်ခေါ် အနဲမနီးပန်းပွင့်များ

ယင်း၏ ရုက္ခဗေဒအမည်မှာ အနဲမနီး ပါလဆေးတီလ ဖြစ်သည်။ အခြားအမျိုးများသည် အာရှတိုက်၊ မြောက်အမေရိကတိုက်နှင့် ဥရောပ တိုက်တို့၌ ပေါက်ရောက်ကြသည်။ ဗြိတိန်နိုင်ငံတွင် ပေါ်ပီ အနဲမနီးနှင့် ဂျပန် အနဲမနီးတို့ အပါအဝင် အနဲမနီး ပန်းပင်အမျိုးမျိုးကို အိမ်တွင် အလှပြုပြင် စိုက်ပျိုးယူကြသည်။

အလေ့ပေါက်သော အနဲမနီးပင်၏အပွင့်များသည်ည၌ အချိန်၌သော်၎င်း၊မိုးသည်းထန်စွာရွာနေချိန်တွင်သော်၎င်း ပိတ်သွားလေသည်။ အချို့ အနဲမနီးပင် အထူး သဖြင့် အိမ်၌ပြုပြင် စိုက်ပျိုးယူသော အပင်မျိုး၏ ပင်စည်များသည် တောင့်တင်းခိုင်မာ၍ အပွင့်များမှာ အနီ၊ ပန်းရောင်၊ အပြာ စသည်ဖြင့် အရောင်အမျိုးမျိုးရှိကြသည်။

တရုပ်လူမျိုးများသည် အချို့သော အနဲမနီးပင်များကို အမြတ်တနိုးထားကြသည်။ သေဆုံးသူ ဆွေမျိုးမိဖများ၏ ဈာပနတွင် ဤပန်းများဖြင့် ဝတ်ပြုကန်တော့လေ့ရှိကြသည်။ ဂရိလူမျိုးတို့၏ ထုံးဟောင်း ပုံပြင်အရ အက်ဖရိုဒိုက်တီ နတ်သမီးသည် သူချစ်ကြိုက် နေသော အဒိုးနစ် လုလင်ပျိုကလေး သေဆုံးသွားကြောင်း ကြားသဖြင့် ဝမ်းနည်းပက်လက်ဖြစ်၍ ငိုကြွေးရာမှ မြေပေါ်သို့ ကျသောမျက်ရည်ပေါက်မှ ပေါက်သည့်ပန်းပင်ဟု ဆိုသည်။ ထိုပြင် လေသည်သာ ယင်းအပွင့်၏ ပွင့်ဖတ်ကို ဖွင့်ပေးနိုင်သည်ဟုလည်း ယုံကြည်ကြသည်။

**အနော်ရထာမင်း**(မြန်မာ ၄၀၆ – ၄၃၉)။ ။အနော်ရထာမင်းစော ဟူ၍လည်းတွင်သော အနော်ရထာ မင်းသည် ပဌမ မြန်မာ မွန် ပျူ နိုင်ငံတော်ကြီးကို စတင်တည်ထောင်ခဲ့သူဖြစ်သည်။ ပုဂံမင်း ၅၅ ဆက်အနက် ၄၂ ဆက်မြောက် မင်းဖြစ်သည်။

အနော်ရထာကား ပုဂံပြည့်ရှင် ဘုရင် ကွမ်းဆော်မင်းလည်း တွင်သော ကြောင်ဖြူမင်းနှင့် မိဖုရား မြောက်ပြင်သည်တို့မှ သက္ကရာဇ် ၃၇၆ ခုနှစ်တွင် မြင်သောသားတော်ဖြစ်သည်။

ခမည်းတော်အား နန်းချ၍ ထီးနန်းစိုးစံနေသော နောင်တော်စုက္ကတေးမင်းနှင့် အနော်ရထာသည် မြင်းစီးချင်းတိုက်၍အနိုင်ရသောအခါ ခမည်းတော်ရှိရာ ကျောင်းတော်သို့သွား၍ ခမည်းတော်အား မင်းပြုရန် တောင်းပန်လေသည်။ ခမည်းတော်လည်း ငါအသက်အရွယ်ကြီးပြီ၊ အမောင်သာ မင်းပြုတော့ဟု မိန့်တော်မူမှ သက္ကရာဇ် ၄၀၆ ခုနှစ်တွင် ရာဇာဘိသေကခံ၍ နန်းတက်သည်။ခမည်းတော်အားလည်း မင်းမြောက် တန်ဆာ ငါးပါးနှင့်တကွ မင်းဆောင် မင်းယောင် မင်းခမ်း မင်းနား အကုန်ကျင်းပစေ၍ ရဟန်းမင်းပြုစေသည်။ အနော်ရထာမင်း နန်းတက်သက္ကရာဇ်ကို မှန်နန်းရာဇဝင်၌ ၃၇၉ ခုနှစ်ဟုဆို၍ ဦးကုလား မဟာရာဇဝင်၌ ၃၆၄ ခုနှစ်ဟုဆိုသည်။ သို့ရာတွင် ဇာတာတော်ပုံ ရာဇဝင်အရရင်း၊ ကျောက်စာများနှင့်ရင်း ညှိနှိုင်းကြည့်သောအခါ ၄၀၆ ခုနှစ်ဟု တွေ့ရသည်။

အနော်ရထာမင်း နန်းတက်သော အခါ ပုဂံပြည်ဩဇာပြန့်နှံ့ရာအရပ်မှာ ယခု မန္တလေး၊ မိတ္ထီလာ၊ မြင်းခြံ၊ ကျောက်ဆည်၊ ရမည်းသင်း၊ မကွေး၊ စစ်ကိုင်း၊ ကသာ၊ ပခုက္ကူ၊ မင်းဘူး တဝိုက်မျှသာ ကျယ်ဝန်းဟန် တူသည်။

အနော်ရထာမင်းကြီးသည် နန်းတက်သည်နှင့်တပြိုင်နက်နိုင်ငံ၏စီးပွားရေးနှင့် စစ်အင်အားကို စည်းရုံးခဲ့သည်။ စီးပွားရေးအင်အား တောင့်တင်းရန်အတွက် ကျောက်ဆည်နယ်၌ တူးမြောင်းများကို စံနစ်တကျ ဆည်ဖို့စေလျက် မြစ်ငယ်၊ ပန်းလောင်နှင့် စမုန်တို့မှ စီးဆင်းလာသော ရေအားဖြင့် စပါး ကောက်ပဲသီးနှံ အများအပြားထွက်အောင် စီမံခန့်ခွဲခဲ့သည်။ ဤသို့ လယ်ယာစိုက်ပျိုးမှုကို ကောင်းစွာ အားပေးပြုစုသဖြင့် ကျောက်ဆည်နယ်သည် ပုဂံပြည်၏ စားရေရိက္ခာ သိုမှီးရာ စပါးကျီသဖွယ်ဖြစ်လာလေသည်။

စားရေရိက္ခာ လုံလောက် ပေါ်များ လာသောအခါ

အနော်ရထာမင်းသည် စစ်သည်ရဲမက်တို့ကို အရေးပေါ် လျှင် ပေါ်သည့်အားလျော်စွာ စုရုံး ဖွဲ့စည်း နိုင်ခဲ့သည်။ စွမ်းရည်သတ္တိနှင့် ပြည့်စုံသော သူရဲကောင်းများ ကိုလည်း မြတ်နိုးစွာ မြှောက်စား ချီးမြှင့်ခဲ့၏။ ထိုကြောင့်လည်း အမတ် သူရဲကောင်းများ ပေါမျာ း လေသည်။ အမတ် သူရဲကောင်းများအနက် သားဘော် ကျန်စစ်သားသည် အမြော်အမြင်နှင့် ပြည့်စုံ၍ လက်ရုံးတဆူ အားကိုးရသော မင်းသားဖြစ်သည်။ (ကျန်စစ်သားမင်း—ရှု။) ကျန်အမတ် သူရဲကောင်းများမှာ ငထွေးရူး၊ လုံးလက်ဖယ်၊ ညောင်ဦးဖီး၊ ဗျတ္တနှင့် ရွှေဖျဉ်းညီနောင် စသည်တို့ ဖြစ်ကြသည်။ မြန်မာ နိုင်ငံကြီးကို စည်းရုံး ဖွဲ့နှောင်လျက် ပြုစုပျိုးထောင်ရာ၌ ဤသူရဲကောင်း များသည် ကြီးစွာသော အကူ အညီ ပေးခဲ့သည်။

မင်းတရားကြီးသည် စစ်တပ်ကို ဖွဲ့စည်းရာ၌ လက် အောက်ခံရွာ၊ မြို့၊ ခရိုင်တို့၏ အင်အားကိုလိုက်၍ အချိုး ကျပါဝင်စေခဲ့သည်။ စစ်သည်များကို အချိုးကျ နည်း စံနစ်နှင့် အရဖြည့်တင်းပြီးသော် အနော်ရထာ မင်းကြီး သည် တကွဲတပြားစီ ဖြစ်နေသော ပြည်နယ်များကို တိုက် ခိုက်သိမ်းသွင်းခဲ့သည်။ အထက်တခိုဌ် နန်ချောင်မင်းတို့၏ ရန်ကို တားဆီးနိုင်၍ ဗန်းမော်၊ မြစ်ကြီးနား ဒေသတ ဝိုက်အထိ မိမိ၏အာဏာကို သက်ရောက် ပြန့်နှံ့စေလေ သည်။ နန်ချောင်မှအပြန် မောမည်သော ရှမ်းပြည်ကို အုပ်စိုးသည့်မင်းက သမီးတော် စောမွန်လှအား ဆက်သ လိုက်သည်ကို ထောက်၍လည်း မြန်မာတို့ မည်မျှ အင်အား ကြီးမားရှိနေကြောင်း သိသာသည်။

အနော်ရထာမင်း နန်းတက်စတွင် ပုဂံပြည်၌ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကိုရင်း၊ လောကနာထကို ရင်း၊ ပြဟ္မာ၊ ဗိဿနိုး၊ ပရမေသွာတို့ကိုရင်း၊ နတ်နဂါးနှင့် အရည်းကြီးတို့ကိုရင်း အားလုံးစုံကို ရောနှောယောင်မှား ၍ရင်း ကိုးကွယ်နေကြလေသည်။ (အရည်းကြီး — ရှု။) ထိုအခါ ယဉ်ကျေးမှုသည် မသန့်မရှင်း ဖြစ်နေလေသည်။ အနော်ရထာမင်းသည် ထိုအယူဝါဒ များကို မနှစ်သက် သဖြင့် မှန်သောတရားကိုသာ တောင့်တနေခိုက် သထုံ ပြည်မှ ဓမ္မဒဿီမည်သော ရဟန်းတော် ရှင်အရဟံသည် ပုဂံသို့ရောက်လာ၍ ဟောပြောသဖြင့် မင်းနှင့်တကွ တပြည် လုံး ဗုဒ္ဓအယူဝါဒ၌တည်ကြသည်။ (အရဟံ၊ ရှင် — ရှု။) ဗုဒ္ဓအယူဝါဒ တည်တံ့ပြန့်ပွား ထွန်းကားရေး အတွက် အနော်ရထာမင်းသည် အားထုတ်တော်မူပြန်သည်။ ထိုအ ချိန်တွင် သထုံပြည် မနူဟာ (မကုတ) မင်း၌ ပိဋကတ် တော်အစုံ ၃၀ ရှိသည်ဟု ကြားသိပြန်ရာ လက်ဆောင် အများနှင့်တကွ လိမ်မာသောအမတ်တယောက်ကို သထုံ ပြည်သို့လွှတ်၍ တောင်းစေသည်။ (မနူဟာ — လည်းရှု။)

သထုံမင်းသည် မဆင်ခြင်ပဲ မခြေ မင်သော စကားကို ဆိုလိုက်ရာ အနော်ရထာမင်းသည် ၄၁၉ ခုနှစ်တွင် စစ်သည် ဗိုလ်ပါ အလုံးအရင်းနှင့် ချီ၍ ပိဋကတ်တော်အစုံ ၃၀ ကို ပင့်ဆောင်လေသည်။ အနုပညာသည်၊ လက်မှုပညာသည် များကိုလည်း ယူသည်။ သထုံပြည်ကိုလည်း တနင်္သာရီ အထိ သိမ်းသွင်းလေသည်။ ထိုအခါမှစ၍ အနော်ရထာ မင်းသည် ပုဂံပြည်ရှိ ရဟန်း များအား ဘုရားရှင်၏ ပိဋကတ်တော်အစစ်ကို သင်ကြားစေလေသည်။ သင်ကြား နိုင်စိမ့်သောငှာ ပိဋကတ်တော်တို့ကို မွန်အက္ခရာမှ မြန်မာ အက္ခရာသို့ ပြန်စေပြီးလျှင် ပုဂံမြို့တွင် ပိဋကတ် တိုက် တော်ကို ဆောက်၍ လှူဒါန်းလေသည်။ ထိုပိဋကတ် တိုက်သည် ယခုတိုင် ပုဂံမြို့ဟောင်း၌ ရှိလေသည်။ ဤသို့ ဖြင့် မြန်မာနိုင်ငံဟုရင်း၊ မြန်မာနိုင်ငံ ယဉ်ကျေးမှုဟုရင်း ခေါ်နိုင်သော ပုဂံပြည်နှင့် ပုဂံယဉ်ကျေးမှု တို့သည် အနော် ရထာမင်းနှင့် ရှင်အရဟံတို့၏ ဉာဏ်ပညာ လုံ့လ တို့ကြောင့် ပြည်ထောင်စု သမိုင်းတွင် ပဌမအကြိမ် ကျယ်ပြန့်၍စည်းလုံးသော ဘဝကို ရလာလေသည်။

သထုံပြည်ကို အောင်နိုင်ပြီးနောက် အနော်ရထာ မင်းကြီးသည် ရခိုင်ပြည်မြောက်ပိုင်းကို ချီတက် တိုက်ခိုက် ပြန်သည်။ ထိုအခါက ရခိုင်ပြည်၏မြို့တော်မှာ စစ်တွေ နယ်ရှိ ပဥ္စာမြို့ ဖြစ်လေသည်။ ထိုစစ်ပွဲတွင် မြန်မာဘို့က အနိုင်ရသဖြင့် ရခိုင်ပြည် မြောက်ပိုင်းသည် ပုဂံခေတ်တ လျှောက်လုံး၌ မြန်မာ့ လက်အောက်ခံ နိုင်ငံတခု ဖြစ်လာ ခဲ့သည်။ ရခိုင်ပြည် ရာဇဝင်၌ ရခိုင်ပြည် မြောက်ပိုင်းကို အနော်ရထာစော တိုက်ခိုက်သိမ်းယူကြောင်းနှင့် ဆိုရာတွင် "ပျူကိုးသောင်းနှင့် ပျူမင်းလာသည်"ဟု ဖြစ်သည်။

မစ္စတာဘုဒ်ရေးသားသော ယိုးဒယားရာဇဝင်၌ ပုဂံ မင်း အနုရုဒ္ဓ (အနော်ရထာမင်းကို ခေါ်သော အမည်) သည် တရုပ်နိုင်ငံ တောင်ပိုင်းနှင့် ခမာ (မွန်) နိုင်ငံဖြစ် သော ကမ္ဗောဒီးယား နိုင်ငံကို အောင်မြင်ကြောင်း၊ ယိုးဒယားတနိုင်ငံလုံး၌ အနော်ရထာစော၏ တန်ခိုးအာ ဏာ လွှမ်းမိုးသည်ကို ယုံမှားဖွယ်မရှိကြောင်း၊ အနော်ရထာ မင်းကို အကြောင်းပြု၍ ဗုဒ္ဓအယူဝါဒ ထွန်းကားစည်ပင် ကြောင်းနှင့် ဆိုသည်။ ယိုးဒယားဘာသာနှင့် ရေးသောစာ တမ်းများ၌ အနော်ရထာမင်းကို "မဟာဇေယျဘာယမင်း" ဟု ဘွဲ့ပေးလေသည်။ ကိုချင်ချိုင်းနားပြည်အထိ အနော် ရထာမင်း တိုက်ခိုက် သိမ်းယူခဲ့ကြောင်းလည်း ဆိုသည်။ ထို့ပြင် ယိုးဒယား ရာဇဝင်တစောင်၌ ပုဂံပြည်ဘုရားများ သည် ဂျားဗားကျွန်းစေတီနှင့် ပုံတူသဖြင့် အနော်ရထာ မင်းသည် ဂျားဗားကျွန်းသို့လည်း စစ်ချီကြွရောက်ကောင်း ကြွရောက်လိမ့်မည်ဟု ရေးသားထားသည်ကို တွေ့ရခြင်းဖြင့် ရာဇဝင်ဆရာတို့သည် အနော်ရထာ မင်း၏ ဘုန်းတန်ခိုး

အာဏာကို မည်မျှ အသိအမှတ်ပြု ယုံစားကြကြောင်း ထင်ရှားသည်။

ယင်းသို့ နိုင်ငံတော်ကို ချဲ့ထွင်ရုံမက မင်းတရားကြီးသည် နိုင်ငံတော်ကိုလည်း စည်ပင် ဝပြောအောင် ပြုစုတော်မူသည်။ မြန်မာနိုင်ငံအလုံး၌ ဆည်မြောင်း ကန်ချောင်းများ ပြုစုတော်မူသည်။ မိတ္ထီလာကန်ကို ဆည်ဖို့သည်။ ကျောက်ဆည်ခရိုင်ရှိ ပြက်ခွေဘောင်၊ ကယွတ်တောင်ထက်မှ ကျသောရေကို အတန့်တန့်ဆည်၍ ရေသောက်ကန်ပြုပြီးလျှင် ပန်းလောင်မြစ်နား၌ ကင်းတား၊ ငနိုင့်သေဉ်၊ ပြောင်းပြာ၊ ကူမည်း ပေါင်းလေးဆည်၊ ဇော်ဂျီမြစ်နား၌ နွားတက်၊ ကွမ်းဆေး၊ ဂူတော်၊ (ငပြောင်း) ပေါင်းသုံးဆည် စုစုပေါင်း မင်းပယ်ရှစ်သိန်းကို ပြုတော်မူသည်။ ထိုနောက် ပင်လယ်၊ မြစ်မနား၊ မြစ်သား၊ မြင်းခုံတိုင်၊ ယမုံ၊ ပန်၊ မကွေး၊ တပြက်သာ၊ သင်တောင်၊ တမုတ်ဆိုးနှင့် ခံလူးဟူသော လယ်တွင်း ဆယ့်တစ်ရွာကို ပြုစုတော်မူသည်။ ရှမ်းပြည်နှင့် မြန်မာပြည် နှစ်ဖက်စပ်ကြား ရှမ်းယွန်းတို့ မရောစိမ့်သောငှာ မြောက်ဖက် အရှေ့ဖက်တို့၌ ကောင်းစင်၊ ကောင်းတုန်၊ ရွှေဂူ၊ မိုးတား၊ တကောင်း၊ ကြံညပ်၊ မကွေး၊ မြင်စိုင်း စသော ကင်းမြို့ပေါင်း ၄၃ မြို့ကို တပိုင်နက်တည်း အမြော်အမြင်ဖြင့် တည်လေသည်။ မြန်မာပြည်အလုံး၌ ဘုရား ဂူ ကျောင်း တန်ဆောင်း ဇရပ်တို့ကို အနှံ့အစပ် တည်ထားတော်မူ၍ နေပြည်တော် ပုဂံရာမသို့ ပြန်တော်မူသည်။

အနော်ရထာမင်း ပုဂံသို့ရောက်၍ မြို့တွင်းသို့ သရဘာ တံခါးမှဝင်မည်အရှိ အောင်သာမြစ်ခြေအရပ်ဝယ် ကျွဲရိုင်းတကောင်သည် လူသူမသွားလာနိုင်အောင် ရန်ပြုသည်ဟု နားတော်လျှောက်သဖြင့်စီးလာသောဆင်တော်ကိုပြန်လှည့်ကာ မြစ်ခြေအောင်သာသို့ချီတော်မူ၏။ ရောက်တော်မူ၍ ကျွဲရိုင်းကိုမြင်တော်မူလျှင် စီးတော်မူသောဆင်တော် သန်မြင်စွာကို ချွန်းဖွင့်၍လွှတ်တော်မူ၏။ သို့ရာတွင် ဆင်တော်ပေါ်၌ပင် ကျွဲခတ်မိ၍ နတ်ရွာစံတော်မူသည်။ သာသနာတော်စီးပွား၊ ကိုယ်တော်မြတ်စီးပွား၊ သားတော်အစဉ် မြေးတော်အဆက် မြစ်တော်အညွန့်တို့၏စီးပွား၊ ပြည်သူတကာတို့၏စီးပွားကို ၃၃ နှစ်ပတ်လုံး ဆောင်တော်မူခဲ့လေသည်။ အနော်ရထာမင်းကံကုန်သော် သားတော် စောလူးမင်းနန်းတက်သည်။ (စောလူးမင်း — ရှု။)

မင်းတရားကြီး ပြုစုပျိုးထောင်ခဲ့သော နိုင်ငံတော် အပိုင်းအခြားကား

(၁) အနောက်ဖက်တွင် ပင္ဂိကွယားမည်ကုလားပြည်သည် အခြားတည်း။

(၂) အနောက်မြောက်ထောင့်တွင် ကတူးနေားကြီး ရေတွင်းမီးလျှင် အခြားတည်း။

(၃) မြောက်ဖက်၌ကား ဂန္ဓာလရာဇ်မည် တရုပ်ပြည်လျှင် အခြားတည်း။

(၄) အရှေ့မြောက်ထောင့်၌ ကဝန္တိလည်းမည် ပန်းသေးပြည်လျှင် အခြားတည်း။

(၅) အရှေ့ဖက်၌ စတိဿမည် ပင်ကာပြည်လျှင် အခြားတည်း။

(၆) အရှေ့တောင်ထောင့်၌ အယောစလည်း မည် ဂျွမ်းတို့ပြည်လျှင် အခြားတည်း။

မင်းတရားကြီး ပြုတော်မူခဲ့သော ကောင်းမှုတော်တို့ကား များပြားလှစွာ၏။ ရွှေစည်းခုံဘုရား၊ ရွှေရင်မြော်ဘုရား၊ ရှမ်းပြည် ညောင်ရွှေမြို့ရှိ ပေါ်ရိသတ်ဘုရား၊ တန့်ကြည့်တောင်ဘုရား၊ လောကနန္ဒာဘုရား၊ တရွှင်းတောင်၊ ပြက်ဘောင်၊ ခရွှေတောင်၊ မန္တလေးတောင်၊ ရွှေကြက်ယက် ရွှေကြက်ကျဘောင်များပေါ်ရှိ ဘုရားများ၊ ဘောင်ပြုံးမှ ဆုတောင်းပြည့်ဘုရား၊မြင်းကပါဘုရား စသည်တို့ဖြစ်သည်။ (ရွှေစည်းခုံဘုရား — ရှု။)

**အနောက်ဖက်လွန်မင်း** (မြန်မာ ၉၆၇ – ၉၉၀)။ ။ ဆင်ဖြူများရှင် ဘုရင့်နောင်မင်းတရားကြီး စည်းရုံးတည်ဆောက်ခဲ့သော မြန်မာနိုင်ငံတော်ကြီးသည် သားတော် ငါးဆူဒါယကာ နန္ဒဘုရင်လက်ထက်တွင် အစိတ်စိတ်ကွဲသည်ကို မြေးတော် အနောက်ဖက်လွန်မင်းတရားလက်ထက် တဖန် ပြန်လည်စည်းရုံးပြီးစီးနိုင်ခဲ့သည်။ (ဘုရင့်နောင်။ နန္ဒဘုရင်၊ ငါးဆူဒါယကာ — ရှု။)

အနောက်ဖက်လွန်မင်းတရားကြီးသည် ညောင်ရမ်းမင်းတရားနှင့် မိဖုရားခေါင်ကြီးတို့မှ သက္ကရာဇ် ၉၃၇ ခုနှစ်တွင် ဖွားမြင်တော်မူသော သားတော်ကြီး သခင်လတ်ဖြစ်သည်။ (ညောင်ရမ်းမင်း — ရှု။) ခမည်းတော်အထွတ်အမြတ်သို့ ရောက်သည်နှင့် မဟာဓမ္မရာဇာအမည်နှင့် အိမ်ရှေ့စံရသည်။ ခမည်းတော် နတ်ရွာစံတော်မူသောအခါ သက္ကရာဇ် ၉၆၇ ခုနှစ် တပေါင်းလပြည့်ကျော် ၃ ရက် တနင်္ဂနွေနေ့တွင် ခမည်းတော်အရိုက်အရာဖြစ်သော ရတနာပူရအဝရွှေနန်းကို သိမ်းမြန်းစိုးစံတော်မူသည်။ မဟာဓမ္မရာဇာ ဟူသောအမည်ကိုလည်း ခံတော်မူသည်။

ရွှေနန်းတက်ပြီးသည်နှင့်တပြိုင်နက် မင်းတရားကြီးသည် ကျွန်တော်မျိုးအပေါင်းတို့၌ ခမည်းတော်ဘုရားအစုအဖွဲ့တွင် ကျန်သေသသူတို့ကို စိစစ်တော်မူ၍ မြန်မာလူမျိုး၊ ရှမ်းလူမျိုးတို့ပါဝင်သော ဆင်သည်စု၊ မြင်းသည်စု၊ ခြေသည်စုတို့ကို အသစ်ဖွဲ့စည်း၍ စစ်အင်အားဖြည့်တင်းတော်မူသည်။ ထိုနောက် ခမည်းတော်မင်းတရားလက်ထက် နိုင်ငံတော် စည်းရုံးရေးလုပ်ငန်းသည် ထက်ဝက်ခန့်မျှသာ ပြီးသေးသည်ကို ဆက်လက် ဆောင်ရွက်တော်မူသည်။

အထက်မြန်မာနိုင်ငံနှင့် ရှမ်းပြည်တလွှားသည် ခမည်းတော်လက်ထက်ကပင် လက်နက်နိုင်ငံဖြစ်ပြီးသော်လည်း ပြည်၊ တောင်ငူ၊ ပဲခူး၊ သံလျင် စသော ဒေသများကို သိမ်းသွင်းရန် ကျန်ရှိနေသေးသည်ကို မင်းတရားကြီးသည် သိမ်းသွင်းတော်မူသည်။

ရှမ်းပြည်တလွှားမှ ဆင့်ဆိုထားသောတပ်များ အညီအညွတ်ရောက်လာသောအခါ သက္ကရာဇ် ၉၆၉ ခုနှစ် တန်ဆောင်မုန်းလဆန်း ၄ ရက်နေ့တွင် တပ်မတော်နှင့်တကွ ပေါင်းခုနစ်တပ်တွင်ပါသည့် ကတ္တူလွန်းကြင်စသော သားလေ့ငှက်လှေ ၄၀၀၊ လှော်ကားသံလှေ ၃၆၀၊ ရိက္ခာတင်ကုန်လှေ ၂၀၀၊ စစ်သည်သူရဲခုနစ်သောင်းနှင့် ပြည်မြို့သို့ ချီတော်မူသည်။ မြို့စိုးပြစိုးများသည်နှင့် ပြောင်းသေနတ်ထူထပ်လှသောကြောင့် အထိအပါး အရှုအနများစွာခံရလျက် ဝန်းရံပြီးမှ ရှစ်လခန့်အကြာ သက္ကရာဇ် ၉၇၀ ပြည့် ဝါခေါင်လဆန်း ၁၁ ရက်နေ့တွင်မှ ပြည်မြို့ကိုရတော်မူသည်။ ပြည်မြို့ပျက်သော်လည်း ဘယဂါမဏိတူ အသက် ၁၃ နှစ်သာရှိသေးသော ငထင်ယယ်သည် သူ့အရှင် ပြည်မင်း ရန်နိုင်စား၏ ကျေးဇူးသစ္စာတော်ကို အသက်နှင့်လဲ၍ကာကွယ်မည်ဟူ၍ ဓားတဖက်တစင်းစွဲကိုင်ကာ တယောက်တည်းခံနေခဲ့သည်။ ဦးရီးတော်က "မြို့ပျက်၍ ပြည်အလုံးကို သူ့ရမ်ကဖြစ်ပြီးမှ တယောက်တည်းသာခံ၍ တတ်နိုင်မည်လော"ဆိုမှ "သူ့ဆန်ကိုစားသောကြောင့် ရဲရတော့သည်" ဆို၍ လက်နက်ချလေသည်။မင်းတရားကြီးသည် ငထင်ယယ်အား ကျေးဇူးတရားသိတတ်သူဟူ၍ အတွင်း၌ထား၍ စေတော်မူသည်။ ဘဝရှင်မင်းတရားကြီးသည် ကျေးဇူးသစ္စာသိတတ်သူကို မည်မျှလေးစားသနည်းဟူမူ ခမည်းတော်ဘုရားက ကွယ်လွန်ခါနီးတွင် "နောင် ပြည်မြို့ကို လုပ်ကြံ၍အလိုပြည့်လျှင် ရန်နိုင်စားကို မဈာပ်မျက်ပါနှင့်၊ ရန်နိုင်စားကျေးဇူး မောင်တို့ငါတို့တွင် ရှိချေသည်"ဟု မှာတော်မူခဲ့သည်နှင့်အညီ ပြည်မင်းနှင့်မိဖုရားကို အလုပ်အကျွေးလူတရာကျော်ခန့်နှင့် နေပြည်တော်အင်းဝသို့ပို့၍ တော်သလင်းတဲတော်ဆိပ်တွင် ကောင်းမွန်စွာတဲနှင့်နေစေသည်။ မင်းမှူးမတ်တို့ကိုမူ သစ္စာတော်ပေး၍ နေကောင်းသသူတို့ကို နေစေခဲ့ပြီးလျှင် ယူကောင်းသသူတို့ကို ယူခဲ့သည်။ တိပိဋကာလင်္ကာရ တောင်ဖီလာအကျော်ဆရာတော်ကိုလည်း ပင့်ခဲ့သည်။ ထို့ကြောင့် မင်းတရားကြီးက "ပြည်မြို့ကိုငါသိမ်းယူသည်၊ ရှင်တဆူလူတယောက်သာရခဲ့သည်"ဟု အမိန့်တော်ရှိခဲ့ခြင်းဖြစ်သည်။လူတယောက်ကား သစ္စာရှိသော ငထင်ယယ်တည်း။

သက္ကရာဇ် ၉၇၂ ခုနှစ်တွင် မြင်းခြောက်တပ်၊ တပ်ပေါင်း ၂၃ တပ်တွင်ပါသည့်တိုက်ဆင် ၅၀၀၊မြင်း ၁၆,၀၀၀၊စစ်သည်သူရဲတသိန်းနှစ်သောင်းနှင့် မင်းတရားကြီးသည် တောင်ငူကြောင်းချီတော်မူပြန်သည်။ မြင်းခြောက်ဘပ်နှင့် ကော်တော်ရဏမိတ် (မိုးညှင်းစလိုကြီးသား စလုံယယ်၊ စလုံယယ်သား စမော်ခန်၏ဘွဲ့)ကို နေပြည်တော်၌ အစောင့်အနေခန့်တော်မူသည်။ တောင်ငူကိုအောင်တော်မူလျှင် မင်းဆွေ၊ မင်းမျိုး၊ မင်းမှူးမတ်၊ ခေါင်းအကြီးအတွန်းရှိသမျှကို သစ္စာတော်ပေးပြီးနောက် တောင်ငူကိုမှန်ကင်းချ၍ တောင်ငူဘုရင်နတ်သျှင်နောင်ကိုပင်မင်းပြုစေကာ နေပြည်တော်သို့ ပြန်တော်မူသည်။

သက္ကရာဇ် ၉၇၄ ခုနှစ်တွင် သံလျင်မှ ပေါ်တူဂီလူမျိုး ဇေကာခေါ် ဖိလစ် ဒီဗရစ်တို့နှင့် ခမည်းခမက်တော်သူ မုတ္တမစား ဗညားဒလတို့ပူးပေါင်းလျက် ရေကြောင်းကြည်းကြောင်းဖြင့် တောင်ငူကိုလာရောက်တိုက်ခိုက်ကာ တောင်ငူဘုရင်နတ်သျှင်နောင်အား သံလျင်သို့ယူဆောင်သွား၍ နန်းတော် ကျောင်းကန် အိမ်ရာများကို မီးတိုက်သွားကြောင်း ကြားတော်မူသဖြင့် မင်းတရားကြီးကိုယ်တိုင် ထိုနှစ်တွင်ပင် သံလျင်သို့ ကြည်းကြောင်းရေကြောင်း ချီတက်တော်မူလေသည်။(ဒီဗရစ်ဘို—လည်းရှု။)ကြည်းဖက်ရေဖက်မှဆိုဝိုင်ဘ်သျှက် သုံးလအပြင်းအထန် လုပ်ကြံတော်မူရာ၊ ဒီဗရစ်တို့နှင့်တကွ သံလျင်တမြို့လုံးကို ရတော်မူသည်။ အနောက်ဖက်လွန်မင်းသည် သနားကြင်နာဘက်သည့် အလျောက် ဒီဗရစ်တို့နှင့် နတ်သျှင်နောင်တို့အား အမှားကိုသိ၍ အသနားခံတောင်းပန်လျှင် ခွင့်လွှတ်မည်ဟုဆိုခဲ့သော်လည်း မတောင်းပန်ကြသဖြင့် နှစ်ဦးလုံးကို ကွပ်မျက်လိုက်ရလေသည်။ (နတ်သျှင်နောင် — လည်းရှု။) သံလျင်မြို့ကို အနောက်ဖက်လွန်မင်းတရားကြီး အောင်နိုင်လိုက်ခြင်းမှာ မြန်မာနိုင်ငံတွင်း၌ စတင်ခြေကုပ်ယူနေသောနယ်ချဲ့စနစ်ကို အမြစ်မှနုတ်ပယ်ပစ်လိုက်ခြင်းပင် ဖြစ်သည်ဟုဆိုရပေမည်။

သံလျင်ကို အလိုတော်ပြည့်လျှင် မင်းတရားကြီးသည် သံလျင်၌တလခန့်နေတော်မူပြီးနောက် မွန်၊ မြန်မာ၊ ရှမ်း၊ ကုလားတို့ကို စာရင်းယူပြီးလျှင် ပေါ်တူဂီသူချူးလေးငါးရာကို သုံ့ပန်းအဖြစ်ယူ၍ ရွှေဘိုနယ်၊ စစ်ကိုင်းနယ်တို့ဖက်၌ အစုစုခွဲ၍ထားတော်မူသည်။ ထို့ကြောင့် ယခုတိုင် ထိုအရပ်များ၌ ဗရင်ဂျီရွာဟူ၍တွင်သောရွာများ ရှိနေခြင်းဖြစ်သည်။ ဘောင်ငူသားများကိုနှုကား တောင်ငူသို့ပြန်ပို့တော်မူသည်။ ဤသို့ စီရင်ခန့်ရန်တော်မူပြီးမှ ဟံသာဝတီသို့ ချီတော်မူသည်။ မင်းဘရားကြီး ဟံသာဝတီသို့ ရောက်ကြောင်း ကြားလျှင် မုတ္တမစား ဗညားဒလသည် မြို့ရွာ ၃၂ မြို့စားနှင့်တကွ ဆင်ကြီး မြင်းကြီး သားသမီး ရွှေငွေများစွာ လက်ဆောင်တော်ယူ၍ မင်းတရားကြီးထံကျွန်ခံလာသည်။ မင်းတရားကြီးကလည်း သစ္စာတော်ပေးပြီးလျှင် ဗညားဒလအား ဗညားဓမ္မရာဇာဟူသော အမည်နှင့် မုတ္တမမြို့ကို ပြန်ပေးတော်မူသည်။

သက္ကရာဇ် ၉၇၅ ခုနှစ်တွင် ဓားဝယ်မြို့ကိုရတော်မူပြန်သည်။ ဓားဝယ်ကိုရပြီးနောက် ၉၇၆ ခုနှစ်တွင် ဇင်းမယ်မြို့သို့ချီတက်လုပ်ကြံရာ မြို့ရွာ ၅၇ မြို့နှင့်တကွ ရတော်မူသည်။ လင်းဇင်းက စစ်ကူလာသော ရဲမက်တော်တို့ကိုလည်း အကုန်ပင်ရတော်မူသည်။အရေးတော်ပြီးလျှင် မူးကောင်း မတ်ကောင်းသူရဲသူကဲတို့ကိုလည်း စီစစ်၍ သိမ်းယူတော်မူသည်။ မင်းတရားကြီးသည် ဇင်းမယ်တွင်နေတော်မူပြီးနောက် ၉၇၇ ခုနှစ်တွင်မှ ဇင်းမယ်ဘုရင်၊ သားဘော်၊ အမှူးအမတ်၊ ဆင်မြင်းဗိုလ်ပါတို့ကိုယူတော်မူ၍ ဇင်းမယ်မှ ဟံသာဝတီသို့ ပြန်တော်မူသည်။ ထိုနှစ်တွင်ပင် ရခိုင်ဘုရင်က ကွမ်းသီးကျွန်း၊ အုန်းကျွန်းတောင်းလာသောကြောင့် အမျက်တော်ရှိ၍ တပ်ကြီးငါးတပ်၊ တိုက်ဆင် ၁၅၀၊ မြင်း ၁၅၀၀၊ စစ်သည်သူရဲကောင်း ၅၀,၀၀၀ နှင့် သံတွဲဥယျာဉ်ပုကြောင်းချီစေသည်။ သံတွဲပျက်၍ တမြို့လုံးကိုရတော်မူသော် လူသူသုံ့ပန်းကိုယူ၍ ပြန်ခဲ့စေသည်။

မင်းတရားကြီး၏နိုင်ငံတော်ကား အထက်ကိုဖန်းမော်အောက်ကို ဓားဝယ်ထိ၍ အရှေ့ကို ဇင်းမယ်ထိသည်။ ဗင်္ဂလားမြို့၊ အချည်မြို့၊ ဒေလီမြို့များက လက်ဆောင်များနှင့်သံများရောက်သည်။ ဂိုးအားမြို့ ပေါ်တူဂီဘုရင်ခံနှင့်လည်း ဆက်သွယ်ပေါက်ရောက်သည်။

မင်းတရားကြီးသည် ယင်းသို့ နိုင်ငံအလုံး စုရုံးဖွဲ့စည်းပြီးနောက် ဟံသာဝတီ၌ စံတော်မူမည်ဟု ကြံစည်တော်မူဟန်ရှိသည်။ အင်းဝမှ အပြီးသတ်မပြောင်းရွှေ့ရသေးမီ ဗေဒင်တတ်တို့က ဟံသာဝတီမှာလည်း ယာယီရှိသည်၊ ပြောင်းလွှဲတော် မူသင့်သည်ဟု လျှောက်သောကြောင့် ချောင်းသစ်အနောက်ဖက် ယာယီနန်းတော်သို့ ပြောင်းတော်မူသည်။ ယာယီနန်း၌စံမြန်းနေစဉ် သက္ကရာဇ် ၉၉၀ ပြည့်နှစ် ပဌမဝါဆိုလဆန်း ၈ ရက်နေ့တွင် သားတော်မင်းရဲဒိဗ္ဗလုပ်ကြံ၍ စည်းစိမ်ဓော် ၂၃ နှစ် သက်တော် ၅၁ နှစ်တွင် မင်းတရားကြီးနတ်ပြည်စံတော်မူသည်။ ချောင်းအနောက်ဖက်တွင် နတ်ရွာစံလွန်တော်မူသည်ကို စွဲ၍ အနောက်ဖက်လွန်မင်းဟုတွင်ခြင်းဖြစ်သည်။မင်းတရားကြီးကား ခမည်းတော်ညောင်ရမ်းဘုရား၏ ယုံကြည်ကိုးစားခြင်းခံရသော မင်းသားဖြစ်သည်။ စစ်ရေးကိစ္စများကို အတိုင်ပင်ခံရရုံမက ခမည်းတော်၏ “မောင့်မြို့မောင့်နန်း” ဆိုသည့် ဧကရာဇ်ဘဏ္ဍာတို့ပေးခဲလှစွာသောဆုကို ပေးတော်မူခြင်းခံရသည်။

မင်းတရားကြီးမိဖုရားကား နှမတော်အတုလစန္ဒာဒေဝီဖြစ်သည်။ ရှင်မိဖုရားနှင့် သားတော်သမီးတော်မဆွန်းကားချေ။ကိုယ်လုပ်တော်တို့တွင်မြင်သည့် သားတော်သမီးတော်တို့ကား ခမည်းတော်သမီးတော် မင်းသားဝရသူရနှမတွင်မြင်သည့် မင်းရဲဒိဗ္ဗချောင်းဘွဲ့ခံမင်းသားတပါး၊ မိုးကောင်းပန်ထွာစားသမီး ခင်မျိုးမြတ်တွင်မြင်သည့် မင်းရဲအောင်ထင်တပါး၊ လက်ဝဲရန္တမိတ်သမီး ခင်စန္ဒာတွင်မြင်သည့် သားတော်သခင်ပုတပါး၊ သက်တော် ၁၈ နှစ်၌လွန်သည့် သမီးတော် မြတ်မျိုးပဘာတပါး၊ ငယ်ကလွန်သမီးတော်တပါး၊ သားတော်သုံးပါး၊ သမီးတော်နှစ်ပါး ပေါင်း ငါးပါးတည်း။

ပြုတော်မူသောကောင်းမှုတော်တို့ကား အင်းဝရွှေမြို့တော် အနောက်တောင်ထောင့် လယ်ကြီးအရပ်၌ ပြာသာဒ်ရွှေကျောင်းဘော်၊ စစ်ကိုင်းမင်းဝံဘောင်ထိပ်၌ လေးထပ်ကျောင်းတော်၊ ပုညရှင်အနောက်တောင်ခြေရင်း၌ ရွှေဥမင်နှင့်ရွှေကျောင်းတော်တို့ဖြစ်သည်။ ခမည်းတော်ဘုရားကောင်းမှုတော် မဟာမြတ်မုနိဘုရားရှင်ကိုလည်း ရွှေလုံးတော်ပြည့်ထည့်၍ ထီးတင်တော်မူသည်။ ပုညရှင်ဘုရားကိုလည်း ရွှေလုံးတော်ပြည့်သည့် လှူတော်မူသည်။ကောင်းမှုတော်တွင် သုဓမ္မာဇရပ်တည်တော်မူသည်။ လေးထပ်ရွှေကျောင်းကို ပြီးအောင်ဆောက်၍ ဆရာတော်မဟာရာမဘုန်းကြီးအား လှူတော်မူသည်။ ဟံသာဝတီပြည်ကြီး၌ ရွှေမော်ဓောစေတီ၊ ဒဂုန်ဆံတော်ရှင်ဘုရားများကို ပြုပြင်တော်မူသည်။

မင်းတရားကြီးလက်ထက် ထင်ရှားသော စာဆိုကား သာချင်းများကို စတင်ရေးသားသူ မင်းဧယျရန္တမိတ်ဖြစ်သည်။

**အနောက် ဗာဂျင်နီးယားပြည်နယ်။** ။အနောက်ဗာဂျင်နီးယားပြည်နယ်သည် မူလဗာဂျင်နီးယားပြည်နယ်မှ ပေါက်ပွားလာသော အမေရိကန်ပြည်နယ် တခု ဖြစ်သည်။ အမေရိကန်လွတ်လပ်ရေးစစ်ပွဲမတိုင်မီ ၁၇၇၃ ခုနှစ်ကတည်းက ဗာဂျင်နီးယားပြည်နယ် အနောက်ပိုင်းတွင်နေထိုင်သူတို့သည် မိမိတို့ နေထိုင်ရာ နယ်မြေကို သီးခြားအုပ်ချုပ်ခွင့်ပေးရန် အင်္ဂလန်ပြည့်ရှင် ဘုရင်ထံ၌ ဘောင်းဆိုခဲ့ကြသည်။ အမေရိကန် လွတ်လပ်ရေးစစ်ပွဲ ဖြစ်ပွားလာသောအခါ အနောက် ဗာဂျင်နီးယား ပြည်နယ်သားတို့သည် လွတ်လပ်ရေးအတွက် လူအား၊ ပစ္စည်းအားဖြင့် အင်တိုက်အားတိုက် ကူညီခဲ့ကြသည်။ လွတ်လပ်ရေးစစ်ပွဲပြီးဆုံး၍ ဗာဂျင်နီးယားပြည်နယ်ကို ဖွဲ့စည်း တည်ဆောက်သည်တွင် အနောက်ပိုင်းနယ်ကိုလည်း ယင်း ပြည်နယ်ထဲသို့ သိမ်းသွင်းခဲ့ကြသေလည်။

အမေရိကန်ပြည်တွင်းစစ်ဖြစ်ပွားသောအခါ ဗာဂျင်နီးယားပြည်နယ်သည် အမေရိကန်ပြည်ထောင်စုမှ ခွဲထွက်ခဲ့သည်။ ဗာဂျင်နီးယား အနောက်ပိုင်း နယ်သားတို့က ပြည်ထောင်စုမှ ခွဲထွက်ခြင်းကို သဘောမတူ ကြသဖြင့် ၁၈၆၂ ခုနှစ်တွင် အနောက်ဗာဂျင်နီးယားဟူ၍ ပြည်နယ်

သင်တခုကို ဖွဲ့စည်းခဲ့ကြသည်။ ထိုနောက် ၁၈၆၃ ခုနှစ် ဇွန်လ ၂၀ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စုထဲသို့ ဝင်ရောက်ခဲ့သည်။ အနောက် ဗာဂျင်းနီးယား ပြည်နယ်၏ အကျယ်အဝန်းမှာ ၂၄,၁၈၁ စတုရန်းမိုင်ဖြစ်၍ လူဦးရေ ၁,၇၄၄,၂၃၇ ယောက် (၁၉၇၀)ရှိသည်။ (ဗာဂျင်းနီးယား ပြည်နယ် — လည်းရှု။)

အနောက် ဗာဂျင်းနီးယားပြည်နယ်သည် အမေရိကန် အရှေ့ပိုင်းပြည်နယ်တနယ် ဖြစ်၍ မြောက်ဖက်တွင် အိုဟိုင်းအိုပြည်နယ်၊ပင်ဆီလဗေးနီးယားပြည်နယ်၊မေရီလန်ပြည်နယ်တို့ တည်ရှိသည်။ အရှေ့ဖက်နှင့် တောင်ဖက်တွင် ဗာဂျင်းနီးယားပြည်နယ်၊ အနောက်ဖက်တွင် အိုဟိုင်းအိုပြည်နယ်နှင့် ကင်တပ်ကီးပြည်နယ်တို့ အသီးအသီး တည်ရှိကြသည်။ အရှေ့ဖက် နယ်နိမိတ်တလျှောက်တွင် အယ်လီဂနီတောင်တန်းရှိ၍ အနောက်ဖက် အိုဟိုင်းအို မြစ်ဝှမ်းအနိမ့်ပိုင်းမှလွဲလျှင် ပြည်နယ် တခုလုံးသည် အယ်လီဂနီကုန်းပြင်မြင့် ဖြစ်သည်။ အိုဟိုင်းအိုမြစ်၏ မြစ်လက်တက်များဖြစ်သော ဗစ်ဆန်ဒီမြစ်၊ ဂိုင်းယန်ဒေါ့မြစ်၊ ကာနောဝါမြစ်၊ မိုးနန်ဂေးဟီလာမြစ်၊ လစ်တဲကာနောဝါမြစ် တို့သည် ပြည်နယ်ကိုဖြတ်၍ စီးဆင်းကြသည်။ အရှေ့မြောက်ဖက်တွင် ပိုတိုမက်မြစ်သည် အနောက် ဗာဂျင်းနီးယားနှင့် မေရီလန်ပြည်နယ်တို့ကို ပိုင်းခြားထားသည်။

အနောက်ဗာဂျင်းနီးယား ပြည်နယ်သည် သဘာဝ ပစ္စည်းအား ကြွယ်ဝသော ပြည်နယ်ဖြစ်သည်။ ပြည်နယ်သုံးပုံ နှစ်ပုံနီးပါးခန့်သည် သစ်တောများ ဖုံးအုပ်လျက်ရှိသဖြင့် သစ်လုပ်ငန်းမှာ ကြီးကျယ်သည်။ သတ္တုတူးဖော်ခြင်း လုပ်ငန်းသည်လည်း ပြည်နယ်တွင် ထင်ရှားသော လုပ်ငန်းဖြစ်၍ ကျောက်မီးသွေး၊ ရေနံ၊ မြေဓာတ်ငွေ့၊ ဆား၊ ထုံးကျောက်တို့ကို တူးဖော်ရရှိသည်။ အထူးသဖြင့် ကျောက်မီးသွေးကို တူးဖော်လုပ်ကိုင်နိုင်သော မြေရီယာပေါင်း စတုရန်းမိုင် ၁၇,၀၀၀ မျှရှိရာ အနောက် ဗာဂျင်းနီးယားပြည်နယ်သည် အမေရိကန် နိုင်ငံတွင် ဗစ်တူမင်ကျောက်မီးသွေးအများဆုံးထွက်သော ပြည်နယ်ဖြစ်သည်။ ထို့ကြောင့် သံမဏိလုပ်ငန်းနှင့် ဓာတုပစ္စည်း ထုတ်လုပ်မှုလုပ်ငန်းတို့သည် ထင်ရှားသော စက်မှု လုပ်ငန်းများဖြစ်သည်။ သို့ရာတွင် အနောက်ဗာဂျင်းနီးယားပြည်နယ်သည် စက်မှုလုပ်ငန်းသက်သက် ထွန်းကားသော ပြည်နယ်မဟုတ်ချေ။ အိုဟိုင်းအိုနှင့် ပိုတိုမက်မြစ်ဝှမ်းများ၌၎င်း၊ တောင်ကြား ချိုင့်ဝှမ်းများ၌၎င်း သီးနှံပင်တို့ကို စိုက်ပျိုးသည်။ ပြောင်း၊ မြင်းစားဂျုံ၊ ရိုင်းစပါး၊ မုယော၊ ဆိုယာပဲ၊အာလူး၊ မြက်ခြောက်တို့ကို ပြည်နယ်တွင်းရှိ မြစ်ဝှမ်းနှင့် ချိုင့်ဝှမ်းများ၌ စိုက်ပျိုးသည်။ ဆေးပင်နှင့် ပန်းသီး၊ မက်မုံသီး၊ ဆီးသီးတို့ကိုလည်း အကြီးအကျယ် စိုက်ပျိုးသည်။ နွားနို့ထွက်ပစ္စည်းလုပ်ငန်းနှင့် ကြက်ငှက် မွေးမြူခြင်း လုပ်ငန်းတို့သည်လည်း ထင်ရှားသော လုပ်ငန်းများ ဖြစ်သည်။

အနောက် ဗာဂျင်းနီးယား ပြည်နယ်တွင် မီးရထားလမ်း မိုင်ပေါင်း ၄,၀၀၀ ကျော်ရှိသည်။ မြစ်များတွင် ရေပြင်ညီဆည်များဆောက်လုပ်၍ သင်္ဘောများ ခုတ်မောင်းသွားလာကြသည်။ လေကြောင်း ခရီးအတွက် လေဆိပ်များလည်း ရှိသည်။

ချားလစတန်မြို့သည် ပြည်နယ်မြို့တော်ဖြစ်၍ လူဦးရေ ၇၁,၅၀၅ ယောက် (၁၉၇၀) ရှိသည်။ အခြား ထင်ရှားသော မြို့ကြီးများမှာ ဟန်တင်ဒန်၊ ဗီးလင်း၊ ကလတ်စဗတ်၊ ပါးကားစဗက်၊ ဖဲယားမွန့်နှင့် မောဂန်တောင်းမြို့များ ဖြစ်သည်။ ၁၈၆၇ ခုနှစ်က တည်ထောင်ခဲ့သော အနောက် ဗာဂျင်းနီးယား တက္ကသိုလ်ကျောင်းရှိသည်။

**အနောက်အိန္ဒိယကျွန်းစု။** ။အနောက်အိန္ဒိယကျွန်းစုဆိုသည်မှာ မက္ကဆီကို ပင်လယ်ကွေ့နှင့် ကယ်ရစ်ဗျန်ပင်လယ်ကို ကာဆီးလျက် အမေရိကန်ပြည်ထောင်စု ဖလော်ရီဒါပြည်နယ်မှ တောင်အမေရိကတိုက် မြောက်ဖက်အထိ စီတန်းလျက်နေသော ကျွန်းစုများ ဖြစ်သည်။ အနောက်အိန္ဒိယကျွန်းစုဟူ၍ အမည်မှည့်ထားခြင်းမှာ ကိုလံဗပ်သည် အိန္ဒိယနိုင်ငံကို ရှာဖွေခဲ့စဉ်က ယင်းကျွန်းစုများဆီသို့ရောက်ရှိသွားသည်တွင်အိန္ဒိယနိုင်ငံသို့ရောက်ရှိပြီဟု ထင်မှတ်ခဲ့ခြင်းကြောင့် အနောက်အိန္ဒိယဟူ၍ ခေါ်တွင်ခဲ့ခြင်းဖြစ်သည်။ ထိုအမည်မှာ ယခုတိုင်မပြောင်းလဲပဲ တည်မြဲနေလေသည်။

အနောက်အိန္ဒိယကျွန်းစုတွင် ဗဟားမားကျွန်းစု၊ ဂရိတ်တား အန်တီလီကျွန်းစု၊ လက်ဆား အန်တီလီကျွန်းစုဟူ၍ ကျွန်းစုသုံးခု ပါဝင်သည်။ (ဗဟားမားကျွန်းစု — ရှု။) ကျွန်းကြီးလေးကျွန်းမှာ ကျူးဗား၊ ဂျမေးကား၊ ဟစ္စပါညိုလာနှင့် ပွာတိုရီးကိုးတို့ဖြစ်၍ ထိုကျွန်းစုကို အန်တီလီကျွန်းကြီးစု(ဝါ)ဂရိတ်တား အန်တီလီကျွန်းဟုခေါ်သည်။ (ကျူးဗားကျွန်း။ ဂျမေးကားကျွန်း။ ဟေးတီးနိုင်ငံ၊ ဒိုမီနီကန်နိုင်ငံ။ ပွာတိုရီးကိုးကျွန်း — ရှု။) ဗာဂျင်းကျွန်းစု၊ ဝင်းဝါဒ်ကျွန်းစု၊ လီးဝါဒ်ကျွန်းစုစသော ကျွန်းငယ်များပါဝင်သည့် ကျွန်းစုကိုမူ အန်တီလီကျွန်းငယ်စု (ဝါ) လက်ဆားအန်တီလီကျွန်းစုဟူ၍ခေါ်သည်။ ကျွန်းအားလုံး၏အကျယ်အဝန်းမှာ ၉၁,၁၂၃ စတုရန်းမိုင် ဖြစ်သည်။ ဂျမေးကားကျွန်းသည် ဗြိတိသျှ နယ်သဟာယအဖွဲ့ဝင်ဖြစ်၍ ဗာဂျင်းကျွန်းအချို့ကို အမေရိကန်ပြည်ထောင်စုက အုပ်ချုပ်သည်။ ပွာတိုရီးကိုးကျွန်းမှာ အမေရိကန် ပြည်ထောင်စု၏ ပင်လယ်ရပ်ခြား နယ်သဟာယနိုင်ငံ ဖြစ်သည်။ အနောက်အိန္ဒိယကျွန်းစုအဝင်အပါ အခြားလွတ်လပ်သော နိုင်ငံများမှာ ကျူးဗားနိုင်ငံ၊ ဟေးတီးနိုင်ငံနှင့် ဒိုမီနီကန်

## အနောက်အိန္ဒိယကျွန်းစု




အနောက် အိန္ဒိယကျွန်းစု တည်နေရာပြမြေပုံ

သမတနိုင်ငံတို့ဖြစ်၏။ ဂွါဒယ်လုနှင့် မာတီနစ်ကျွန်းများမှာ ပြင်သစ်ပိုင်ဖြစ်သည်။ ကူရာစာအိုကျွန်းမှာ ဒပ်ချ်ပိုင်ဖြစ်၍ ကျန်ကျွန်းများမှာမူကား ဗြိတိသျှပိုင်ဖြစ်ကြသည်။

အနောက်အိန္ဒိယ ကျွန်းစုသည် ကမ္ဘာ့ အပူပိုင်းဇုန် အတွင်းသို့ကျရောက်နေသော်လည်း ကျွန်းများဖြစ်သော ကြောင့် ရာသီဥတုမှာ များစွာမပြင်းထန်လှချေ။ ဆောင်း ရာသီနှင့် နွေရာသီမှာ အပူအအေး များစွာခြားနားခြင်း မရှိပေ။ သို့ရာတွင် မိုးသည် နွေရာသီ၌ရွာသွန်း၍ ဆောင်း ရာသီတွင် မရွာသွန်းချေ။ သစ်တောများ ထူထပ်စွာ ပေါက်ရောက်သည်။ ငှက်၊ မြွေ၊ ကင်းမြီးကောက်စသော ပိုးမွှားတိရစ္ဆာန်တို့ပေါများသည်။ သစ်တောများမှ အဖိုး တန်သစ်များထွက်သည်။

ကျွန်းအားလုံးတွင် နေထိုင်ကြသောလူတို့၏ အဓိက လုပ်ငန်းမှာ လယ်ယာစိုက်ပျိုးခြင်းဖြစ်သည်။ သကြား၊ သစ် သီး၊ ဆေးရွက်တို့ကို နိုင်ငံခြားသို့ တင်ပို့ရောင်းချသည်။ ရံဖန်ရံခါ လေပြင်းမုန်တိုင်းများကျရောက်တတ်သဖြင့် လူ တိရစ္ဆာန်နှင့် အဆောက်အအုံများ ပျက်စီးကြသည်။

ဒုတိယကမ္ဘာစစ်အတွင်းက အနောက်အိန္ဒိယကျွန်းစုရှိ ဗြိတိသျှပိုင်ကျွန်းများကို အမေရိကန် ရေတပ်စခန်းများ ပြုလုပ်ရန် လွှဲအပ်ထားခဲ့သည်။ ကျွန်းစုတွင် နေထိုင်သော ခန့်မှန်းခြေ လူဦးရေမှာ ၁၅ သန်းမျှရှိသည်။

မာတီနစ်ကျွန်းမှာအနောက်အိန္ဒိယကျွန်းစုမှ လက်ဆား အန်တီလီကျွန်းစုတွင်ပါဝင်သော ပြင်သစ်ပိုင်ကျွန်းကလေး ဖြစ်၏။ ထိုကျွန်း၏မြောက်ဖက် ၂၅ မိုင်အကွာတွင် ဒိုမီနီကား ကျွန်းရှိ၍ တောင်ဖက် မိုင် ၂၀ ခန့်အကွာတွင် စိန်လူစီယာ ကျွန်းရှိသည်။ ထိုကျွန်းနှစ်ကျွန်းစလုံးမှာ ဗြိတိသျှပိုင်ကျွန်း များဖြစ်ကြ၏။

မာတီနစ်ကျွန်းသည် မိုင် ၄၀ ရှည်လျား၍ ၂၁ မိုင် ကျယ်၏။ အကျယ်အဝန်းမှာ ၄၂၇ စတုရန်းမိုင် ရှိသည်။ ကျွန်း၏မြောက်ပိုင်းနှင့် တောင်ပိုင်းတွင် မီးတောင်များရှိ ၏။ အလယ်ပိုင်း၌ကား နိမ့်သောတောင်တန်းများရှိသည်။ မောင့်ပယ်လေမှာ အမြင့်ဆုံး မီးတောင်ကြီးဖြစ်၍ ပေ ၄,၄၃၀ ရှိသည်။ မာတီနစ်ကျွန်း၏ကမ်းရိုးတန်းမှာ အကွေ့ အကောက်များ၍ ကျောက်ဆောင်ထူထပ်လေသည်။ ရာ သီဥတုမှာ ပူပြင်း၍ မိုးကောင်းသည်။

မာတီနစ်ကျွန်းသည် လေပြင်းမုန်တိုင်းတို့၏ ဒဏ်ကို

မကြာခဏ ခံရသောကျွန်းကလေးဖြစ်၏။ ၁၇၆၇ ခုနှစ်က လေမုန်တိုင်းကြီးကျရာတွင် လူပေါင်း ၁,၆၀၀ မျှ သေဆုံးခဲ့သည်။ မြေလျှင်များလည်း မကြာခဏ လှုပ်တတ်၏။ တကျွန်းလုံးတွင် မီးတောင်များပေါများသောကြောင့် မီးတောင်များပေါက်ကွဲသည့်အခါ လူနေအိမ်ခြေနှင့် သက်ရှိသတ္တဝါအမြောက်အမြား သေကြေပျက်စီးကြရ၏။ ၁၉၀၂ ခုနှစ်က မောင့်ပယ်လေမီးတောင်ကြီး ပေါက်ကွဲလေရာ မာတီနစ်ကျွန်း၏ ကူးသန်းရောင်းဝယ်ရေး အချက်အခြာမြို့ဖြစ်သော စိန်ပီယာမြို့မှာ လုံးဝပျက်စီးသွားလေသည်။

မာတီနစ်ကျွန်းသည် မြေသြဇာထက်သန်ကောင်းမွန်၍ ကျွန်း၏ သုံးပုံတပုံခန့်တွင်လယ်ယာစိုက်ပျိုးကြ၏။ ထိုကျွန်း၏အဓိကထွက်ကုန်များမှာ သကြား၊ ရမ်အရက်၊ ကိုကိုး၊ ကော်ဖီ၊ ဆေးရွက်၊ ဝါဂွမ်းစသည်တို့ ဖြစ်သည်။

မာတီနစ်ဟူသောအမည်သည် မာဒီယားနား၊သို့မဟုတ် မန်တီနီနိုဟူသော တိုင်းရင်းသား ဘာသာစကားမှ ဆင်းသက်လာသည်ဟု အဆိုရှိ၏။ ကိုလံဗပ်သည် ထိုကျွန်းကို ၁၅၀၂ ခုနှစ်တွင် စတင်တွေ့ရှိခဲ့ပြီးနောက် နှစ်ပေါင်း ၁၀၀ ကျော်အကြာ ၁၆၃၅ ခုနှစ်တွင် ပြင်သစ်လူမျိုးများ လာရောက်၍ ပြင်သစ်ပိုင်အဖြစ် သိမ်းယူ နေထိုင်ကြသည်။ အင်္ဂလိပ်နှင့် ဒပ်ချတို့လည်း ထိုကျွန်းကလေးကို ပိုင်ဆိုင်နိုင်ရန် ကြိုးစားခဲ့ကြသေး၏။

ထိုကျွန်းတွင် ခန့်မှန်းခြေ လူဦးရေမှာ ၃၃၂,၀၀၀ ယောက်ရှိ၍ နီးဂရိုးခေါ် ကပ္ပလီလူမျိုး အများဆုံးနေထိုင်ကြသည်။ ကျွန်း၏ လူဦးရေသုံးရာခိုင်နှုန်းမှာ ဥရောပတိုက်သားများဖြစ်၏။

မာတီနစ်ကျွန်း၏မြို့တော်မှာ ဖို ဒါ ဖရန့်မြို့ဖြစ်၍ လူဦးရေ ၆၀,၆၀၀ ယောက်ရှိသည်။ မြို့တည်နေရာမှာ ဖို ဒါ ဖရန့်ပင်လယ်အော် ကမ်းပါးတွင်ဖြစ်၍ အလွန်သာယာသော ဆိပ်ကမ်းရှိသည်။ မာတီနစ်ကျွန်းနှင့် စပ်လျဉ်း၍ မှတ်သားဖွယ်ကောင်းသော အချက်တခုမှာ ဤကျွန်းသည် ကမ္ဘာ့သမိုင်းတွင် ထင်ရှားသော ပြင်သစ်နိုင်ငံ နပိုလီယန်ဘုရင်၏ မိဖုရား ဂျိုဇဖင်း၏ ချက်မြှုပ်ရာ ဇာတိ ဖြစ်သည်။

**အနန္တသူရိယအမတ်။** ။အနန္တသူရိယ အမတ်သည် အလောင်းစည်သူမင်းကြီးနှင့် သားတော် ကုလားကျမင်းဟုလည်းတွင်သော နရသူ၊ ထိုနရသူမင်း၏သားတော် မင်းယဉ်နရသိခ်၊ ဤမင်းသုံးဆက် လက်ထက်တော် တို့တွင် "အထိန်းတော်သား" အဖြစ် အမှုတော်ကို ကျေပွန်စွာ ထမ်းရွက်ခဲ့သူဖြစ်သည်။

"အထိန်းတော်သား" ဆိုရာ၌ အချို့သောစာစောင် မှတ်တမ်းတို့တွင် အထိန်းတော်၏သား ဆိုသည်။ အချို့သောပညာရှိသုတေသီတို့ကမူ ငယ်ရွယ်နုနယ်သောကလေး



ဝင်းဝါဒ်ကျွန်းစုမှ ဒုတိယအကြီးဆုံးနှင့်ရှုခင်းအသာဆုံး စိန်လူဒီယာကျွန်းမှ ရှုခင်းတရပ်

သူငယ်များကို ထိန်းသိမ်းစောင့်ရှောက်ကြသော "အထိန်းအယ" များနည်းဘူ မင်းညီမင်းသား မင်းသမီးများကို ထိန်းသိမ်းစောင့်ရှောက်ရသော "မင်းထိန်းမင်းယ" များအား "အထိန်းတော်သား" များဟု ခေါ်ကြသည်။ အနန္တသူရိယအမတ်သည် မင်းညီမင်းသားများကို ထိန်းသိမ်းစောင့်ရှောက်ကြရသော အဇိန်းတော်သား တို့တွင် တဦးအပါအဝင်ဖြစ်သည်။ အသင်းတသင်းတွင်ပါဝင်သောသူကို အသင်းသားဟူ၍ရှင်း၊ အဖွဲ့တဖွဲ့တွင်ပါဝင်သောသူကို အဖွဲ့သားဟူ၍ရှင်း၊ တပ်မတော်တခုတွင် ပါဝင်အမှုထမ်းသောသူကို တပ်မတော်သားဟူ၍ရှင်း ခေါ်ဝေါ်ဘိသကဲ့သို့ မင်းညီမင်းသားမင်းသမီးများကို ထိန်းသိမ်းစောင့်ရှောက်ရသော မင်းထိန်းမင်းယများကို အထိန်းတော်သားများဟု ခေါ်ခြင်းမျှသာဖြစ်သည်ဟု ဆိုလေသည်။

အလောင်းစည်သူမင်းကြီးသည် အထိန်းတော်သား အနန္တသူရိယ ကို သနားလည်းသနားတော်မူ၍ လုပ်ရည်ကိုင်ရည်ကိုလည်း နှစ်ခြိုက်တော်မူသဖြင့် မင်းသားတို့သာ ဝတ်ထိုက်သော ဒုယင်အခြေတပ်ဝတ်လုံတထည်ကို ပေးတော်မူ၏။ ထိုဝတ်လုံကို သဘင်ရှိသောအခါ အနန္တသူရိယဝတ်၍ တက်သည်ကို သားတော် မင်းရှင်စောမြင်လေသော် "ဤဖျင်ကား မင်းထိန်းမင်းယတို့ ဝတ်ထိုက်သောအဝတ်မဟုတ်၊ မင်းညီမင်းသားတို့သာ ဝတ်ထိုက်သောအဝတ် ဖြစ်သည်။ ဤကဲ့သို့ အရောရောမဝတ်စေနှင့် ဟုဆိုကာ အနန္တသူရိယနှင့်ထိုက်သော ဝတ်လုံကိုပေး၍ဒုယင်တပ်သောဝတ်လုံကို ချွတ်၍လဲစေ၏" ဟု ဦးကုလားမဟာရာဇဝင်ကြီးတွင် ဆိုထားသည်။ ဤနေရာ၌ အနန္တသူရိယသည် အလောင်းစည်သူမင်းကြီးကို ငယ်စဉ်အခါကာလမှစ၍ ထိန်းသိမ်းစောင့်ရှောက်လာရဘိသကဲ့သို့ဖြစ်နေသည်။ စင်စစ်သော်ကားအလောင်းစည်သူမင်းကြီးလက်ထက်၊မင်းကြီး၏ သားမြေးများကို ထိန်းသိမ်းစောင့်ရှောက်ရသော မင်းထိန်းမင်းယ အထိန်းတော်သားတဦးသာဖြစ်ချေမည်။

သက္ကရာဇ် ၅၃၂ ခုနှစ်တွင် ငယ်ရွယ်စဉ်အခါမှ စ၍ အနန္တသူရိယအမတ် ထိန်းသိမ်း စောင့်ရှောက် ခဲ့ရသော မင်းယဉ်နရသိခ် နန်းတက်တော်မူလေသည်။ နန်းတက်တော်မူသောအခါ ညီတော်နရပတိစည်သူကို အိမ်ရှေ့ပေးသနား၏။ သို့ရာတွင် သက္ကရာဇ် ၅၃၅ ခုနှစ်တွင် မင်းယဉ်နရသိခ်သည် ညီတော် နရပတိစည်သူ၏ အိမ်ရှေ့မိဖုရား ဝေဠုဝတီကို လုညှ်ဖြားသိမ်းပိုက်တော်မူသဖြင့် ထိုနှစ်အတွင်းမှာပင် ညီတော်ကပုန်ကန်သတ်ဖြတ်၍နန်းတက်တော်မူလေသည်။ ထိုနောက် နောင်တော်မင်းယဉ်နရသိခ်အား ငယ်ရွယ်စဉ်အခါမှစ၍ အစစအရာရာတွင် သွန်သင်ပြသ ဆုံးမ ပဲ့ပြင်ဘူးသော အထိန်းတော်သား အနန္တသူရိယအမတ်ကိုလည်းဖမ်း၍ သတ်လေဟု သူသတ်တို့အား အပ်လေ၏။ အမတ်လည်း သတ်အံ့ဆဲဆဲတွင် ရဲရင့်တည်ကြည်သောနှလုံးရှိသည်ဖြစ်၍ မည်သို့မျှတုန်လှုပ်ထိတ်လန့်ခြင်း မရှိပဲ မသေမီ အမျက်ဖြေလင်္ကာလေးပိုဒ်ကို အေးဆေးတည်ငြိမ်စပ်ဆို၍ မင်းကြီးအားဆက်ပါဟု အပ်ခဲ့၏။ သူသတ်တို့လည်း သတ်ပြီးမှစာကိုဆက်၏။

လင်္ကာလေးပိုဒ်ကား

"သူတည်းတယောက်၊ကောင်းဘို့ရောက်မူ၊ တယောက်သူမှာ၊ ပျက်လင့်ကာသာ၊ ဓမ္မတာတည်း။

"ရွှေအိမ်နန်းနှင့်၊ ကြငှန်းလည်းခံ၊ မတ်ပေါင်းရံလျက်၊ ပျော်စံရိပ်ငြိမ်၊ စည်းစိမ်မက္ခာ၊ မင်းချမ်းသာကား၊ သမုဒ္ဒရာ၊ ရေမျက်နှာထက်၊ ခဏတက်သည်၊ ရေပွက်ပမာ၊ တသက်လျှာတည်း။

"ကြင်နာသနား၊ ငါ့အားမသတ်၊ ယခုလွှတ်လည်း၊ မလွတ်ကြမ္မာ၊ လူတကာတို့၊ ခန္ဓာခိုင်ကျည်၊ အတည်မမြဲ၊ ဖောက်လွဲတတ်သည်၊ မချွတ်စသာ၊ သဘ္ဘာဝတည်း။

"ရှိခိုးကော်ရော်၊ ပူဇော်အကျွန်၊ ပန်ခဲ့ဘုံ၏၊ ခိုက်ကြုံဝိပါက်၊ သံသာစက်၌၊ ကြိုက်လတ်တွန်မူ၊ တုံမယူလို၊ ကြည်ညိုစိတ်သန်၊ သခင်မွန်ကို ချန်ဘိစင်စစ်၊ အပြစ်မဲ့ရေး၊ ခွင့်လျှင်ပေး၏၊ သွေးသည်အနိစ္စာ၊ ငါခန္ဓာဘည်း။"

ဤစာလေးပိုဒ်ကို ဖတ်စေ၍ ကြားတော်မူလျှင် လွှတ်လေဟု မိန့်တော်မူ၏။ သူသတ်တို့လည်း လွန်ခဲ့ပြီဟုနားတော်လျှောက်၏။ မင်းကြီးလည်း နင်တို့မသတ်ခင်က ဤစာကိုဆက်ကောင်းလျက် သတ်ပြီးမှဆက်သည်ဟူ၍ သူသတ်တို့ကို မျက်ပြန်လေ၏။ မင်းကြီးလည်း စာကိုကြားတော်မူသည်ကပင် တအောက်မေ့မေ့ တရှိုက်မက်မက်နောင်တကြီးစွာဖြစ်တော်မူ၏။ ထိုမှစ၍ အမျက်တော်ကိုချုပ်ရုပ်ဆည်းတားတော်မူ၏။ နောက်နောင် ငါအမျက်တော်ရှိ၍ သတ်လေဟုအမိန့်တော်ရှိသော်လည်း တလ ငါးသီတင်းထား၍ စစ်ကြောဘိ၊ သေတန်မှသေစေ၊ မသေတန်သသူကိုလွှတ်စေဟူ၍ မင်းဆွေစိုးမျိုးဖြစ်သော မဟာသမန်းကို အမိန့်တော်ရှိလေသည်။ (နရပတိစည်သူမင်း — လည်းရှု။)

**အနိုပ်ပညာ။** ။အနိုပ်ပညာဟူသည် အနာရောဂါရှိသူတို့အား ပျောက်ကင်းချမ်းသာရန် ဆုပ် နယ် နင်း နှိပ်ပေးသောပညာဖြစ်၏။ ထိုပညာအကြောင်းကို ရှေးဆရာကြီးတို့ရေးသားအပ်သော လင်္ကာ၌ "ကိုးဆယ်ခြောက်ပါး၊ ရောဂါများကို၊ လက်ဖျားထိရောက်၊ ကင်းကွာပျောက်

လိမ့်၊ မှတ်လောက်စရာ၊ ရှေးဆရာတို့၊ စဉ်လာဥပဒေ၊ ထားခဲ့ပေသား၊ အသေအချာ၊ နှိပ်ပုံမှာကား” စသည်ဖြင့် စပ်ဆိုထားသည်။ အနှိပ်ပညာကို ဆရာကောင်းသမားကောင်းတို့ထံ နည်းခံသင်ကြား ကောင်းစွာတတ်မြောက်ကျွမ်းကျင်သောဆရာများကား အနာရောဂါရှိသူတို့ကို အသေအချာစမ်းသပ်၍၊ သူ့ရောဂါနှင့်သူ နှိပ်ကွက်ကျကျ တကြိမ်နှိပ်ကာမျှဖြင့် ပျောက်ကင်းချမ်းသာသွား၏။ ဆေးဝါးခါတ်စာ စားရန်မလို။

အနှိပ်ပညာကား သေးနုပ်သိမ်ဖျင်းသောပညာမဟုတ်၊ ကြီးကျယ်မြင့်မြတ်သောပညာဖြစ်၏။ အသက်အန္တရာယ်ကို ကာကွယ်စောင့်ရှောက်နိုင်၏။ ကျန်းမာရေးအတွက် တာဝန်ယူနိုင်၏။ သင်ကြားရာ၌လည်း တကယ်တမ်းတတ်မြောက်၍ တိုင်းသူပြည်သားအကိုးကွယ်ခံ ဆရာတဆူလုပ်နိုင်လောက်အောင် သင်ကြားပါမူ တတ်မြောက်ကျွမ်းကျင်ရန် ခဲယဉ်း၏။ သိမ်မွေ့နက်နဲလှ၏။ ခဲယဉ်းပုံသိမ်မွေ့နက်နဲပုံကို အကျဉ်းချုပ်မျှ ပြဆိုပါအံ့။

သင်ကြားလိုသူသည် နှိပ်ပေးရမည့် ခန္ဓာကိုယ်ကြီးကို စိစစ်ဝေဖန်ရ၏။ ခန္ဓာကိုယ်ကြီးကား အဆောက်အဦကြီးတခု၊ သို့မဟုတ် ယန္တရားစက်ကြီးတခုအလား၊ အရိုးကြီးအရိုးငယ်တို့ကို အမာခံထား၍ အရိုးတခုနှင့်အရိုးဘခုကို အကြောကြီးအကြောငယ်တို့ဖြင့် မြဲမြံအောင် တုပ်နှောင်ဖွဲ့ချည်ဆက်စပ်ကာ၊ ထိုအရိုးနှင့်အကြောတို့ကို ပိုမိုတောင့်တင်းခိုင်မာလာအောင် အသားတို့ဖြင့် သုတ်လိမ်းမွမ်းမံလျက်၊ အပေါ်ယံက အရေထူအရေပါးတို့ဖြင့် အုပ်ဖုံးလွှမ်းခြုံပြီးဆောက်လုပ်ထားသော သက်ရှိအရာဝတ္ထုကြီးတခုဖြစ်သည်။

ထိုအရိုးအကြော အသားအရေတို့ဖြင့် ဆောက်လုပ်ထားသော ခန္ဓာကိုယ်ကြီးကို တဆင့်တက်၍ ဆံပင်၊ အမွေး၊ ခြေသည်း၊ လက်သည်းစသည်ဖြင့် အမာခံဖြစ်သော အဖတ်ပထဝီခါတ် ၂၀ နှင့် သည်းခြေ သလိပ်၊ ပြည်စသည်ဖြင့် ပျစ်ချွဲယိုစီးသော အရည် အာပေါခါတ် ၁၂ ပါးအားဖြင့် ၃၂ ကောဋ္ဌာသ (သုံးဆဲ့နှစ်ကောဋ္ဌာသ—ရှု။) ၃၂ ပုံပုံပြီးလျှင် ယင်း ၃၂ ကောဋ္ဌာသတို့၏ တည်နေပုံ အကြီးအငယ်အရှယ်သဏ္ဌာန်တခုနှင့်တခု ဆက်သွယ်ပုံ ပြုလုပ်ဆောင်ရွက်သည့် လုပ်ငန်းကိစ္စ ပြီးမြောက်နိုင်သည့် အင်္ဂမ်းသတ္တိစသည်တို့ကို အကြမ်းအားဖြင့် နားလည်အောင် စိစစ်၍သင်ကြားလေ့လာရသည်။

ထို ၃၂ ကောဋ္ဌာသတို့တွင် နှိပ်ရာ၌ အသုံးအဝင်ဆုံးဖြစ်သော ခန္ဓာကိုယ်ကြီးကို တဆင့်တက်ပြန်၍ တခုနှင့်တခု ဆက်စပ်ထောက်ကန်ထားသည့် အရိုးကြီးအရိုးငယ်သုံးရာတို့ကိုရင်း၊ ထိုပြင် ခန္ဓာကိုယ်ကြီး၏ ဝဲဖက်၊ ယာဖက်၊ ရှေ့ဖက်၊ နောက်ဖက်၊ လက်ခြေ ဤခြောက်ဌာနတို့၌ တဌာနလျှင် ငါးချောင်းစီဖြာဆင်းနေသော အကြောမကြီး ၆၀ နှင့် တကိုယ်လုံး ပိုက်ကွန်အုပ်ဖုံးသားသည့်အလား မြေးယှက်ကာ သွားနေသော အကြောငယ် ၉၀၀၊ သို့မဟုတ် များစွာတို့ကိုရင်း၊ တကိုယ်လုံးသုတ်လိမ်းမွမ်းမံထားသော အသားတုံးအသားတစ် ၉၀၀ တို့ကိုရင်း ယင်းတို့၏တည်နေပုံ၊ အကြီးအငယ်အရွယ်သဏ္ဌာန် တခုနှင့်တခု ဆက်သွယ်ပုံ၊ ပြုလုပ်ဆောင်ရွက်သည့် လုပ်ငန်းကိစ္စ၊ ပြီးမြောက်နိုင်သည့် အစွမ်းသတ္တိ စသည်တို့ကို လက်ဖြင့်စမ်းသပ်၍၊ သို့မဟုတ် အရိုးပုံ၊ အကြောပုံ၊ အသားပုံ တို့ကို ကြည့်ရှု၍ အသေးစိတ်နားလည်အောင်စိစစ်၍ သင်ကြားလေ့လာရသည်။

ခန္ဓာကိုယ်ကြီး၏အစိတ်အပိုင်းကို နားလည်ပြီးနောက် တဆင့်တက်ပြန်၍ အနာရောဂါဖြစ်လာပုံကို သင်ကြားရသည်။ သင်ကြားရာ၌ မည်သည့်အနာရောဂါသည် မည်သည့်ခန္ဓာကိုယ်အစိတ်အပိုင်း၌ ဖြစ်၏။ ထိုအစိတ်အပိုင်း၌လည်း မည်သည့်အရိုးရှိသည်၊ မည်သည့်အကြောရှိသည်၊ မည်သည့်အသားရှိသည်။ မည်သည့်အကြောကို ထိအောင်နှိပ်လျှင် အနာရောဂါ ပျောက်ကင်းနိုင်၏ စသည်ဖြင့် သင်ကြားလေ့လာရသည်။ သို့မှသာလျှင် ကောင်းစွာတတ်မြောက်ကျွမ်းကျင်သောအနှိပ်သည် ဖြစ်နိုင်သည်။ ထိုအနှိပ်သည်မျိုးဖြစ်ပါမှ လူတို့၏ ကျန်းမာရေးအတွက် ရဲဝံ့စွာ တာဝန်ခံနိုင်သည်။

အနှိပ်ပညာကား ယခုအခါမှ ပေါ်ပေါက်လာသော ပညာမဟုတ်၊ ရှေးရှေးအခါကပင် ပေါ်ပေါက်ခဲ့သော ပညာဖြစ်သည်ဟုယူဆသည်။ မင်းစိုးရာဇာ သဌေးသူကြွယ်စသော ဂုဏ်သရေရှိလူကြီးလူကောင်းတို့သည် ထူးခြားကြီးကျယ်သော အနာရောဂါမရှိသော်လည်း ညောင်းညာကိုက်ခဲသောအခါ၊ မအီမသာရှိသောအခါ လက်ဖြင့်ဆုပ်နယ်ခြင်း၊ နှိပ်ခြင်း၊ ခြေဖြင့်နင်းခြင်းဘို့ကို ခံလေ့ရှိကြ၏။ ဆရာသမားတို့ကို တပည့်တပန်းတို့က၊ အမိအဖတို့ကို သားသမီးတို့က၊ သက်ကြီးရွယ်ကြီးတို့ကို အသက်အရွယ်ငယ်သူတို့က ကျင့်ဝတ်တခုအနေဖြင့် ဆုပ်နယ်ခြင်း နင်းနှိပ်ခြင်းကို ပြုလုပ်ပေးလေ့ရှိကြ၏။ လူသာမက ယခုအခါ မြင်းမွေးသောသူတို့သည် မြင်းညောင်းညာသောအခါ၊ ဆီးဝမ်းချုပ်သောအခါ စသည်တို့၌ လက်ဖြင့် နှိပ်နယ်ပေးခြင်းကား မျက်မြင်သာဓကဖြစ်သည်။

ငါးရာ့ငါးဆယ် နိပါတ်တော် အသာတမန္တ ဇာတ်၌ တက္ကသိုလ်ဆရာကြီးထံ အသာတမန္တန်ကို သင်ကြားရန် လာသောတပည့်အား တက္ကသိုလ်ဆရာကြီးက အမောင် အသက် ၁၂၀ ရှိ၍ မျက်စိမမြင်သော ငါ၏မိခင်အိုကြီးအား လုပ်ကျွေးပြုစုပါ၊ အသာတမန္တန်ကို တတ်မြောက်ပါလိမ့်မည်၊ လုပ်ကျွေးပြုစုသောအခါ မိခင်အိုကြီးအား

ကိုယ်တိုင် ဆုပ်နယ်နင်းနှိပ်ပေးပါဟု မှာထားသောစကားသည် အနှိပ်ပညာအတွက် သာကေဖြစ်သည်။

မြန်မာနိုင်ငံ၌လည်း နှစ်ပေါင်းများစွာ ရှေးအခါကပင် အနှိပ်ခံသောအလေ့အထရှိသဖြင့် အနှိပ်ပညာရှိသည်ဟု ယူဆထိုက်၏။ တိုင်းရင်းသားဆေးပညာအစီရင်ခံစာ၌ "သက္ကရာဇ် ၁၁၆၉ ခုနှစ် (ဘိုးတော်မင်းတရားလက်ထက်လောက်တွင်) မဏိပူရက ကသည်းမင်းသမီးတပါးသည် မြန်မာဘုရင်မင်းမြတ်၏ မိဖုရားတပါးဖြစ်လာ၍ ယင်းနှင့်အတူ အနှိပ်အတတ်တွင်အထူးကျွမ်းကျင်သူဆရာတဦးပါလာသည်။ သက္ကရာဇ် ၁၂၆၀ ပြည့်နှစ်တွင် မန္တလေးမြို့၌ ဆရာစခေါ် ဆရာတဦးရှိဘူး၍၊ ထိုနည်းအတိုင်း များစွာကုသ၍ အလွန်ထင်ရှားခဲ့ကြောင်း" အဆိုရှိသည်။ သို့အတွက် မန္တလေးမြို့မှစ၍ မြန်မာနိုင်ငံ၌ ထိုစဉ်အခါကစ၍ ကသည်းအနှိပ်ပညာလည်း တစတစပျံ့သွား၏ဟု ယူဆဖွယ်ရှိသည်။

မင်းတုန်းမင်းလက်ထက်သို့ ရောက်သောအခါ အနှိပ်ပညာတိုးတက်ထွန်းကားလာသဖြင့် အနှိပ်ခံသောအလေ့အထလည်း ပိုမိုများပြားလာ၏။ အနှိပ်သည်တို့လည်း အဆင့်အတန်းမြင့်လာကြသည်။ ထိုကြောင့် စည်သူမောင်မောင်ကျော် ရေးသားအပ်သော မန္တလေးမြို့တည်နန်းတည်စာတမ်းတွင် သာသနာတော်ရေး၊ တိုင်းပြည်ရေးများကို ဆောင်ရွက်တော်မူသော အကြောင်းကို ပြရာ၌ "ဘဝရှင်မင်းတရားကြီးမှာ မှန်နန်းတော်ကြီးမြောက်ဖက်ရွှေနန်းတော်ကြီးတွင် အမြဲစံတော်မူသည်။ နံနက် ၆ နာရီခန့်အချိန် စက်တော်ခေါ်ရာမှနိုးတော်မူလျှင် ပဏ္ဏားဝန်ဟာဇနနှင့်တကွ အသင့်စောင့်နေသော ကသည်းအနှိပ်တော်ရှစ်ယောက်တို့က အနှိပ်ဆက်ရသည်" ဟု အဆိုရှိသဖြင့် အနှိပ်ခံသော အလေ့အထကား ဘုရင်မင်းမြတ်မှစ၍ တနိုင်ငံလုံးရှိခဲ့ကြောင်း ထင်ရှားသည်။

လွန်ခဲ့သောအင်္ဂလိပ်ခေတ်က မြန်မာနိုင်ငံမြောက်ပိုင်း ရွှေဘိုခရိုင်၊ ရေဦးမြို့နယ်ရွာတခုတွင် အနှိပ်ပညာကို ထူးချွန်စွာ တတ်မြောက်ကျွမ်းကျင်သော အနှိပ်သည် ဆရာကြီးတဦးရှိသည်။ ယင်းဆရာကြီးသည် တခါနှိပ်လျှင် အခငွေ ၅၀ ကျပ် ယူလေ့ရှိ၏။ မည်သည့်ရောဂါမဆို တခါနှိပ်လျှင် ပျောက်ကင်းချမ်းသာ၏။ အလွန်ခိုင်ခံ့သော ရောဂါဖြစ်လျှင် နှစ်ခါသာနှိပ်ရ၏။ ရောဂါသည်များ အိမ်သို့ခေါ်၍ မလိုက်၊ အနှိပ်ခံလိုသောရောဂါသည်တို့သည် ဆရာကြီးအိမ်သို့ လာကြရ၏။ နေ့စဉ်လာကြသော ရောဂါသည်များကား အိမ်ဝင်းအတွင်း၌ လူည်းဝိုင်းကြီးဖြစ်၍နေသည်။ ထိုဆရာကြီး၏ထူးခြားချက်ကား အိမ်သို့လာသောရောဂါသည်များနှင့် နောက်ပါလူတို့အား အမြဲထမင်းကျွေး၍ လွှတ်လေ့ရှိသည်။ (ထိုဆရာကြီး၏အကြောင်းကို အထက်သို့အမြဲတက်နေသော လေနာရောဂါကို တကြိမ်နှိပ်ရုံဖြင့် ပျောက်ကင်းသွားသော မိတ်ဆွေတဦး ပြောကြားသဖြင့် သိရသည်။)

ထို့ပြင် အင်္ဂလိပ်လက်ထက်ကပင် တောရွာတခုမှ ဦးပဉ္ဇင်းတပါးနှင့် ဘုရားဖူးလိုက်လာသော အနှိပ်သည် ဆရာကြီးတဦးသည် ရန်ကုန်မြို့ ဘုန်းကြီးကျောင်းတခုတွင် ခေတ္တတည်းခိုကာနေ၏။ ထိုအခိုက် ရန်ကုန်မြို့ရပ်ကွက်တခုတွင် လေဖြတ်ရောဂါသည်တဦးရှိ၏။ ရောဂါသည်ဇနီးသည် ယင်းဦးပဉ္ဇင်း၏ညွှန်ကြားချက်အရ ဆရာကြီးအားအိမ်သို့ ပင့်ခေါ်၍ ရောဂါသည်ကိုပြ၏။ ဆရာကြီးသည် ရောဂါသည်၏ဝမ်းဗိုက်ကို လက်ညှိုးဖြင့်အသာထောက်၍စမ်းသပ်ကြည့်သည်။ စမ်းသပ်ပြီးသောအခါ ရောဂါသည်၏ဇနီးကို တနေရာသို့ခေါ်ကာ သူငယ်မ၏ခင်ပွန်းကား ဤရောဂါမှ ထမြောက်တော့မည်မဟုတ်၊ နှိပ်ခွင့်မရှိ၊ နှိပ်သော်လည်း ရောဂါသည် ပင်ပန်းရုံသာ ရှိတော့မည်၊ လာမည့် သီတင်းကျွတ်လတွင် မချုပ်သေလိမ့်မည်၊ သေခါနီးလျှင် ရောဂါတိုးလာလိမ့်မည်၊ တိုးလာသောအခါ ငှက်ပျောသီးနှင့်ဝက်သားကိုတောင်းလာလိမ့်မည်ဟု ပြောဆို၍ ပြန်သွားသည်။ ထိုရောဂါသည်မှာ အနှိပ်သည်ဆရာကြီး ပြောဆိုသွားသည့်အတိုင်းပင် ဖြစ်ပြီးလျှင် သီတင်းကျွတ်လ၌ ကွယ်လွန်သွားရှာ၏။ (ထိုဆရာကြီး၏အကြောင်းကို ရောဂါသည်၏ဇနီး ပြောကြားသဖြင့် သိရသည်။) ဤဆရာကြီး နှစ်ဦး၏ အကြောင်းအရာကို ထည့်သွင်းဖော်ပြရခြင်းမှာ အနှိပ်ပညာ၏အစွမ်းသတ္တိကို သိရှိနားလည်ကြရန်ဖြစ်သည်။

ယခုအခါ အနှိပ်ပညာသည် သိသိသာသာကြီး ဆုတ်ယုတ်လာခဲ့၏။ အနှိပ်ပညာကို ကောင်းစွာတတ်ကျွမ်းသူ မရှိသလောက်ပင်ဖြစ်နေ၏။ လက်ရှိအနှိပ်သည်များလည်း အလုပ်မရှိသဖြင့် အလုပ်တခုဖြစ်ရန် လုပ်နေသူသာများ၏။ "အနှိပ်မတတ် အနင်းဖက်" ဆိုသည့်အတိုင်း နင်းလိုနင်း၊ နှိပ်လိုနှိပ်၊ ချိုးလိုချိုး ဖြစ်နေကြ၏။ ခန္ဓာကိုယ်အကြောင်းကိုနားမလည်၊ ရောဂါအကြောင်းကိုလည်း လုံးလုံးမသိကြ၊ ထင်မိထင်ရာ နင်းကြ နှိပ်ကြ ချိုးကြသည်မှာ အရိုးအဆစ်လွဲသွားမည်၊ အကြောလွဲသွားမည်၊ ကိုယ်အင်္ဂါ အစိတ်အပိုင်း ချွတ်ယွင်းသွားမည်ကို ကြောက်ဖွယ်ကောင်းလှသည်။ သတိရှိကြပါကုန်။

နိဂုံးချုပ်အနေဖြင့် တိုက်တွန်းလိုသည်မှာ အနှိပ်ပညာအကြောင်းအရာကိုသိလိုလျှင်၊ သူ့ရောဂါနှင့် သူ့နှိပ်ကွက်ကိုသိလိုလျှင် လောကဟိတရာသီကျမ်း အစတွင် ပြဆိုထားသော ရှေးဆရာကြီးတို့လက်ာသုံးပိုဒ်ကို ကြည့်ရှုလေ့လာမှတ်သားကြရန်ဖြစ်သည်။

ဦးကြီးဖေ

အပူ။ ။ နေသည် အပူရှိန်ကိုပေး၏။ မီးကိုကိုင်လျှင်

ပူ၏။ တုတ်နှစ်ချောင်းကိုပွတ်လျှင် ပူလာ၏။ လက်ပူတိုက်ရာတွင်လည်း အပူရှိန်ကိုလိုသဖြင့် လက်ဖဝါးနှစ်ဖက်ကို ပွတ်တိုက်ပေးရ၏။ ဤအချက်များကို လူတိုင်းပင် တွေ့ကြုံနားလည်ကြပေသည်။ သို့သော် အပူဆိုသည်မှာ မည်သည့်အရာမျိုးဖြစ်သနည်းဟု မေးလျှင်ကား လွယ်မယောင်နှင့် အလွန်ပင် အဖြေရခက်လှပေသည်။

လူတို့သည် ဝါးနှစ်လုံး၊ တုတ်နှစ်ချောင်းကို ပွတ်တိုက်ပေးခြင်း၊ ကျောက်နှစ်တုံးကို မီးခတ်ပေးခြင်းတို့ဖြင့် အလွန်ရှေးကျသောကာလကတည်းကပင် အပူကို လက်တွေ့ဖန်တီးနိုင်ခဲ့ကြပေသည်။ သို့ရာတွင် အပူသည် မည်သည့်ပစ္စည်းမျိုးဖြစ်မည်ကိုမူ အမှန်အတိုင်း မသိခဲ့ကြချေ။ မသိသည့်အတိုင်းလည်း အပူသည် မျက်စိဖြင့် မမြင်နိုင်၊ အလေးချိန်လည်းမစီးသော ထူးဆန်းသည့်ငွေ့ရည်တမျိုးဖြစ်၍ ထိုငွေ့ရည်သည် ပူသောကိုယ်ထည်မှ အေးသောကိုယ်ထည်သို့ စီးဝင်နိုင်သည်ဟု ယူဆကြပြီးလျှင် ထိုငွေ့ရည်ကို ကယ်လိုရစ်ဟု အမည်ပေးခဲ့ကြလေသည်။

ဤသို့လျှင် အပူကို အရာဝတ္ထုတခုအနေဖြင့် ကာလကြာညောင်းစွာ အမှတ်မှားလာခဲ့ကြရာ ခရစ် ၁၇၉၈–၉၉ ခုနှစ်သို့ရောက်သောအခါ ကောင့် ရမ်းဖို့နှင့် ဆာ ဟန်ဖရီဒေဗီဆိုသူ ပုဂ္ဂိုလ်ကြီးနှစ်ဦးက ထိုအယူဟောင်းကို တော်လှန်လိုက်ကြလေသည်။ (ဒေဗီ,ဆာဟန်ဖရီ—လည်းရှု။) ထိုပုဂ္ဂိုလ်ကြီးနှစ်ဦး၏ လက်တွေ့စမ်းသပ်မှုများအရ အပူသည် မြင်နိုင်၊ ကိုင်တွယ်နိုင်သည့် အရာဝတ္ထုမဟုတ်၊ ဒြပ်ဝတ္ထုများအတွင်းရှိမြူတို့၏ တုန်လှုပ်မှုပင်ဖြစ်သည်ဟု ထုတ်ဖော်လိုက်ကြသည်။ ဆိုလိုရင်းမှာ မော်လီကျူးခေါ် မြူတို့၏တုန်လှုပ်မှုသည် အပူဓာတ်ကိုဖြစ်ပေါ်စေသည်ဟု ဆိုလိုသည်။ သို့သော် ထိုပုဂ္ဂိုလ်ကြီးနှစ်ဦး၏ စမ်းသပ်မှုများနှင့် ဆိုလိုရင်း သဘောတို့မှန်ကန်ပုံကို နောင်နှစ်ပေါင်း ၄၀ အကြာတွင် ဂျိမ်း ပရက်စကော့ ဂျူးလက တဖန် မိမိ၏စမ်းသပ်တိုင်းတာမှုဖြင့် ထပ်မံရှင်းပြမှ ကမ္ဘာက နားလည် လက်ခံလာလေသည်။ ဂျူးလသည် အပူနှင့်အလုပ်တို့ ဆက်စပ်နေပုံ၊ မည်သို့တိုင်းတာရရှိပုံတို့နှင့်တကွ အပူ၏စံတင်ခုကိန်းကိုပါ သတ်မှတ်ခဲ့ရာ ထိုခုကိန်းကို ယခုထက်တိုင်အောင် လက်ခံသုံးစွဲလျက်ရှိသည်။ (ဂျူးလ,ဂျေ၊ပီ — လည်းရှု။)

ဒြပ်ဝတ္ထုအသီးအသီး၌ပါရှိသော မော်လီကျူးတို့သည် အမြဲတမ်း တုန်လှုပ်လျက်ရှိသဖြင့် အပူလည်းအမြဲတမ်းပင်ရှိသည်။ သို့ရာတွင် မော်လီကျူးများ သာမန်အခါထက် တိုးတက်လျင်မြန်စွာ တုန်လှုပ်လာမှ အပူမှာသိသာလာသည်။ အပြင်းအထန်တုန်လှုပ်သောအခါ ပူရုံမက မီးပင်ထတောက်နိုင်ပေသည်။ ထို့ကြောင့် တောမီးလောင်ခြင်းသည် ခြောက်သွေ့သောသစ်ကိုင်းများ အချင်းချင်းပွတ်တိုက်မိရာမှ အတွင်းရှိမော်လီကျူးများ ပြင်းထန်စွာတုန်လှုပ်မှုကြောင့် အပူလွန်ပြီး မီးထတောက်ကာ တတောလုံး ကူးစက်လောင်ကျွမ်းသွားခြင်း ဖြစ်လေသည်။

အရာဝတ္ထုတခုခုကို အပူတိုက်ပေးသောအခါ ထိုအပူကြောင့် အလေးချိန်တိုး၍မလာပေ။ သို့ရာတွင် ထိုအရာဝတ္ထုအတွင်းရှိ မော်လီကျူးများ တခုနှင့်တခု ကန်ကျောက်တုန်လှုပ်မှု ပြင်းထန်လာသည့်အတွက် မော်လီကျူးတခုနှင့်တခုတို့၏အကွာအဝေးမှာ ပိုမိုဝေးကွာလာကာ အရာဝတ္ထုကိုယ်ထည်သည် ယခင်ကထက် ကား(ကြီးထွား)လာရလေသည်။ မီးရထားသံလမ်းတလျှောက်ကိုကြည့်သောအခါ သံလမ်းအဆက်တိုင်း၌ သံလမ်းချင်းထိမနေစေပဲ အနည်းငယ်ခွာထားသည်ကို တွေ့ရလိမ့်မည်။ ထိုသို့ခွာထားခြင်းမှာ နွေအခါ နေပူလာသောအချိန်၌ သံလမ်းရှည်ထွက်လာသောအခါ အတော်ကျအောင် နေရာပေးထားခြင်းပင် ဖြစ်လေသည်။ ဤသို့ အပူကြောင့် ကားထွက်လာရာတွင် အရာဝတ္ထုတို့သည် အမျိုးအစားကိုလိုက်၍ ကားထွက်ပုံချင်း မတူကြပေ။ ပုံစံမှာ အရွယ်တူညီသောမှန်စတခုနှင့် သွပ်စတခုတို့ကို အညီအမျှအပူတိုက်ပေးသည်ဆိုပါစို့။ အပူတိုက်ပေးပြီးနောက် တိုင်းတာကြည့်လျှင် သွပ်စက မှန်စထက် ပိုပြီးကြီးနေသည်၊ (ဝါ)ကားလာသည်ကို တွေ့ရပေမည်။

အပူကိုတိုင်းတာရာတွင် အတိုင်းနှစ်မျိုးရှိ၍ ယင်းတို့မှာ အပူ(အအေး)ချိန်နှင့် အပူပမာဏတို့ဖြစ်လေသည်။ အရာဝတ္ထုတခုသည် မည်မျှပူသည်(အေးသည်)ကို သာမန်အားဖြင့် စင်တီဂရိတ်နှင့် ဖာရင်ဟိုက်ဒီဂရီအမှတ်ပြ ပြဒါးတိုင်(သာမိုမီတာ)များဖြင့် တိုင်းတာလေ့ရှိသည်။ (သာမိုမီတာ—လည်းရှု။)ဒြပ်ဝတ္ထုတွင်ရှိသောမော်လီကျူးများ ပိုမိုလျင်မြန်စွာ တုန်လှုပ်လာသောအခါ ထိုဒြပ်ဝတ္ထု၏အပူချိန်အမှတ်သည် မြင့်လာသည်။ ထို့ကြောင့် အပူ(အအေး)ချိန်သည် မော်လီကျူးတို့၏ တုန်လှုပ်မှုနှုန်းအပေါ်၌ တည်လျက်ရှိပေသည်။

သို့ရာတွင် အပူချိန်အမှတ်ချင်းတူညီသော ရေတစည်နှင့်ရေတခွက်ကို စဉ်းစားကြည့်ပါ။ ရေတစည်တွင်ရှိသော အပူပမာဏမှာ ရေတခွက်တွင်ရှိသော အပူပမာဏထက် များရပေမည်။ တဖန် အလေးထုချင်းတူညီစေကာမူ ပစ္စည်းတခုနှင့်တခု အမျိုးချင်းကွဲပြားပါကလည်း ပါရှိသောအပူပမာဏမှာ မည်သည့်နည်းနှင့်မျှ တူညီလိမ့်မည်မဟုတ်ပေ။ ပုံစံမှာ အလေးထုချင်းတူညီသောရေနှင့် ပြဒါးကို အပူတိုက်ပေးကြည့်မည်ဆိုပါစို့။ အပူချိန်အမှတ်ချင်း ညီတူညီမျှတက်ရလေအောင် ကျွန်ုပ်တို့သည် ပြဒါးထက်ရေကို အပူပိုပြီးတိုက်ပေးရသည်ကို တွေ့ရလိမ့်မည်။ လက်တွေ့စမ်းသပ်ချက်အရ ပြဒါးအလေးချိန်တပေါင်နှင့် ရေအလေးချိန်တပေါင်ကို အပူချိန်အမှတ် တဒီဂရီတက်စေလိုသောအခါ

ပြဒါးကိုတိုက်ပေးရသောအပူထက် အဆပေါင်း ၃၀ ကြီးသောအပူဖြင့် ရေကိုတိုက်ပေးရသည်ကို တွေ့ရလေသည်။ ထို့ကြောင့် အပူပမာဏသည် အရာဝတ္ထုတခု၏အလေးထုနှင့် အချိုးအစားအပေါ်တွင် တည်ရှိကြောင်း သိအပ်ပေသည်။

အပူပမာဏကို ကယ်လိုရီအားဖြင့်၎င်း၊ ဗြိတိသျှအပူခုကိန်းအားဖြင့်၎င်း တိုင်းတာလေ့ရှိသည်။ ကယ်လိုရီတခုမှာ တဂရမ်လေးသောရေကို အပူချိန်စင်တီဂရိတ်တဒီဂရီမြှင့်တင်ရန်လိုအပ်သည့် အပူပမာဏ၊သို့မဟုတ်အပူစွမ်းအင်ဖြစ်သည်။ ကယ်လိုရီကို သိပ္ပံကိစ္စအဝဝတွင် အသုံးအများဆုံးဖြစ်သည်။ ဗြိတိသျှအပူခုကိန်းတခုမှာမူ တပေါင်လေးသောရေကို ဖာရင်ဟိုက်တဒီဂရီမြှင့်တင်ရန် လိုအပ်သည့်အပူပမာဏ၊ သို့မဟုတ် အပူစွမ်းအင်ဖြစ်သည်။ ထိုခုကိန်းကို အင်ဂျင်နီယာများ အသုံးပြုလေ့ရှိကြသည်။

သိပ္ပံပညာပြဆိုချက်အရ ကျွန်ုပ်တို့သည် အရာဝတ္ထုတခုခုကို ဖာရင်ဟိုက်ဒီဂရီ – ၄၅၉၊ သို့မဟုတ် စင်တီဂရိတ်ဒီဂရီ – ၂၇၃ သို့တိုင်အောင် အအေးခံပေးနိုင်ပါက ထိုအရာဝတ္ထုအတွင်းရှိ မော်လီကျူးတို့၏လှုပ်ရှားမှုမှာ လုံးဝငြိမ်သက်သွားသဖြင့် အပူလည်း လုံးဝကင်းမဲ့သွားပေလိမ့်မည်။ သို့သော် လက်တွေ့အားဖြင့်ကား အဆုံးစွန်သုညဒီဂရီအမှတ်ဟု ခေါ်လေ့ရှိသော ထိုအအေးဆုံးအမှတ်သို့တိုင်အောင် မည်သူမျှမစွမ်းဆောင်နိုင်သေးချေ။

ဒြပ်ဝတ္ထုတို့သည်အပူ(အအေး)ချိန်ကိုလိုက်၍၊တနည်း မော်လီကျူးတို့၏တုန်လှုပ်မှု အမြန်အနှေးကိုလိုက်၍ ရုပ်အခြေအနေပြောင်းလဲကြပုံမှာ အတော်စိတ်ဝင်စားဖွယ်ကောင်းပေသည်။ မော်လီကျူးတို့၏တုန်လှုပ်မှုကို တဖြည်းဖြည်းလျှင်မြန်စေခြင်းဖြင့် ဒြပ်ဝတ္ထုတို့ကို အေးရာမှပူစေသောအခါ ဒြပ်ဝတ္ထုသည် အခဲမှအရည်သို့၎င်း၊ အရည်မှအငွေ့သို့၎င်း ပြောင်းလဲတတ်သည်။ တဖန်မော်လီကျူးတို့၏တုန်လှုပ်မှုကို တဖြည်းဖြည်းနှေးစေခြင်းဖြင့် ဒြပ်ဝတ္ထုကို ပူရာမှအေးစေသောအခါတွင်လည်း အငွေ့မှအရည်သို့၎င်း၊ အရည်မှအခဲသို့၎င်း ပြောင်းလဲသွားတတ်လေသည်။

အပူသည် (၁) စီးခြင်း၊ (၂) သယ်ဆောင်ခြင်း၊ (၃) ဖြာထွက်ခြင်းဟုခေါ်သော နည်းသုံးနည်းဖြင့် ပျံ့လွင့်သည်။ လွယ်ကူသောပုံစံများဖြင့် ထိုအပူပျံ့လွင့်ပုံနည်းသုံးနည်းကို ရှင်းပြပါအံ့။

(၁) အပူစီးခြင်း။ ။သံချောင်းတချောင်းကို မီးတောက်ထဲသို့ထိုးသည့်၍ တဖက်အစွန်းမှကိုင်ထားကြည့်ပါ။ထိုအခါ မီးထဲရောက်နေသော အစွန်းဖက်မှ စတင်ပူလာပြီးသော်၊ တဖြည်းဖြည်းနှင့် သံချောင်းတလျှောက် အပူစီးလာကာ ကိုင်ထားသောလက်အထိ ပူလာသည်ကို တွေ့ရလိမ့်မည်။ ဤသို့ဖြစ်ခြင်းမှာ မီးနှင့်ထိတွေ့သော သံချောင်းအစွန်းဖက်ရှိ မော်လီကျူးတို့သည် ရှေးဦးပဌမ ပြင်းထန်စွာ တုန်လှုပ်လာပြီးနောက် သံချောင်းတလျှောက်ရှိ ကျန်မော်လီကျူးများကို ကူးစက်ကာ တုန်လှုပ်သွားစေသောကြောင့် ဖြစ်သည်။

သို့သော် တခုမှတ်သားရန်မှာ ပစ္စည်းတခုကို အပူစီးရာတွင် ပစ္စည်းအတွင်းရှိ မော်လီကျူးများ တုန်လှုပ်သည်ဟု ဆိုရသော်လည်း အပူစီးခြင်းခံရသောပစ္စည်းမှာမူ အမြင်အားဖြင့် မည်သို့မျှ လှုပ်ရှားခြင်းမရှိပေ။ တဖန်အပူစီးသည့်နေရာတွင် ပစ္စည်းအမျိုးအစားကို လိုက်၍ အနှေးအမြန် အနည်းအများ အပူစီးပုံချင်းမတူညီချေ။ သစ်သားဖန်စသည်တို့မှာ အပူစီးအလွန်နည်းပါး၍ အပူစီးအကောင်းဆုံးပစ္စည်း၊ တနည်း အပူအကောင်းဆုံးစီးနိုင်သည့်ပစ္စည်းများမှာ သတ္တုများ ဖြစ်ကြလေသည်။

(၂) အပူသယ်ဆောင်ခြင်း။ ။သဲကန္တာရကို ဖြတ်သန်းလာသောလေသည် မခံမရပ်နိုင်အောင်ပူသည်။ မီးဖိုကို ဖြတ်လာသောလေသည်လည်း အလွန်ပူသည်ကို တွေ့ရသည်။ ဤသို့ဖြစ်ခြင်းမှာ အပူသည် တိုက်ခတ်လာသည့်လေဖြင့်အတူလိုက်ပါလာခြင်းကြောင့်ဖြစ်သည်။ထို့ကြောင့် အပူသယ်ဆောင်ခြင်းဆိုသည်မှာ ပူနေသည့်ဒြပ်ကိုယ်တိုင်ရွေ့ရှားခြင်းဖြင့် အပူကိုသယ်ဆောင်ခြင်းပင်ဖြစ်လေသည်။ အပူသယ်ဆောင်ခြင်းသည် လေပူ၌သာမဟုတ်၊ ရေနွေးနှင့်ရေနွေးငွေ့တို့၌လည်း ပါရှိနိုင်သည်။ အေးသောနိုင်ငံများတွင် တိုက်တာအိမ်ယာများကို နွေးစေရန်အတွက် လေပူ၊ ရေပူ၊ သို့မဟုတ် ရေနွေးငွေ့များ စီးဖြတ်ရာ ပြွန်များကို လိုအပ်သလို တပ်ဆင်ထားကြလေသည်။

(၃) အပူဖြာထွက်ခြင်း။ ။နေ၏အပူရှိန်ကို ကျွန်ုပ်တို့သည် အဘယ်ကြောင့်ခံစားကြရသနည်း။ နေနှင့်ကျွန်ုပ်တို့ကမ္ဘာ၏အကြားတွင် အတိုင်းမသိကျယ်ပြန့်၍ ဘာမျှမရှိသော လေဟာပြင်ကြီးသာလျှင်ရှိသည်။ ထို့ကြောင့် ကျွန်ုပ်တို့ဆီသို့ အပူရှိန်ရောက်လာသည်မှာ အပူစီးခြင်း၊ သို့မဟုတ် အပူသယ်ဆောင်ခြင်းတို့ဖြင့် ရောက်လာနိုင်ရန်အကြောင်းမရှိ၊ သူ့အလိုအလျောက် တိုက်ရိုက်ရောက်လာခြင်းသာ ဖြစ်ပေသည်။

သိပ္ပံပညာတွင် အသံလှိုင်း၊ အလင်းလှိုင်းများဟူ၍ လှိုင်းများရှိသကဲ့သို့ပင် အပူလှိုင်းများရှိကြောင်းကိုလည်း တွေ့ရလေသည်။ အသံနည်းတူပင် ပူသောကိုယ်ထည်တခုအတွင်းရှိ မော်လီကျူးများ တုန်လှုပ်မှုကြောင့် အပူလှိုင်းများဖြစ်ပေါ်လာပြီးလျှင် ပတ်ဝန်းကျင်သို့ ပျံ့နှံ့သွားလေသည်။ သို့သော် အပူလှိုင်းများကို မျက်စိဖြင့်မမြင်နိုင်ချေ။ အပူလှိုင်းဟုခေါ်ရသော်လည်း သာမန်သဘောအားဖြင့် ထိုလှိုင်းများသည် အလျှဉ်းပင် အပူမဟုတ်ကြပေ။ မိမိတို့နှင့် တွေ့ထိမိသောအရာဝတ္ထုတို့တွင် အပူကိုဖြစ်ပေါ်

စေအောင် စွမ်းအင်ရှိသည့် ရောင်ခြည်များသာဖြစ်လေသည်။ အပူလှိုင်းတို့နှင့် အရာဝတ္ထုတခုခုတွေ့ထိသောအခါ အပူလှိုင်းအချို့ကို အရာဝတ္ထုက စုတ်ယူလိုက်၍ ကျန်အပူလှိုင်းများကို ပြန်၍ဟပ်ထုတ်လိုက်လေသည်။ ထိုသို့စုတ်ယူလိုက်သည့် အပူလှိုင်းတို့၏ စွမ်းအင်ကြောင့် အရာဝတ္ထုအတွင်းရှိမော်လီကျူးများ တုန်လှုပ်လာကာ အရာဝတ္ထုကို ပူလာစေသည်။ အရာဝတ္ထုတို့သည် အပူလှိုင်းကိုစုတ်ယူရာတွင် တခုနှင့်တခု သတ္တိချင်းမတူညီကြချေ။ အမည်းရောင်ရှိသည့်ပစ္စည်းသည် အဖြူရောင်ပစ္စည်းထက် အပူလှိုင်းကို ပိုမိုစုတ်ယူနိုင်သည်။ ထို့ကြောင့် နွေအခါတွင် အဖြူထည်များကို ဝတ်ဆင်ခြင်းဖြင့် ကျွန်ုပ်တို့သည် အပူဒဏ်မှ ပို၍ သက်သာခွင့်ရကြလေသည်။

ရှေးနှစ်ပေါင်း ကုဋေကုဋာကပင် နေ၏အပူရှိန်သည် ကျွန်ုပ်တို့ကမ္ဘာပေါ်သို့ ကျရောက်နေခဲ့ပြီးလျှင် ကျောက်မီးသွေး၊ ဓာတ်ဆီ၊ ဓာတ်ဆီအငွေ့၊ ထင်းစသော လောင်စာများထဲတွင် ခိုအောင်းသိုမှီးပြီးနေခဲ့လေသည်။ ထို့ကြောင့် ယခုအခါ ကျွန်ုပ်တို့သည် အစားအစာချက်ပြုတ်ခြင်း၊ အလုပ်ရုံစက်ရုံမီးရထားစသည်တို့တွင် ထိုထင်းမီးလောင်စာတို့ကို လောင်ကျွမ်းစေခြင်းဖြင့် အပူစွမ်းအင်ကို ထုတ်နုတ်၍ အသုံးချနေနိုင်ခြင်း ဖြစ်ပေသည်။ ဓာတ်ပစ္စည်းတို့၏ ဓာတ်ဖောက်ပြန်မှုနှင့် လျှပ်စစ်ဓာတ်ကိုအသုံးပြုခြင်းတို့ဖြင့်လည်း အပူကို ဖန်တီးရယူနိုင်ပေသည်။ အမေရိကန်ပြည်ထောင်စုကာလီဖိုးနီးယားပြည်နယ် ပဆာဒီးနားမြို့၌ နေ၏အပူရှိန်ကို တိုက်ရိုက်အသုံးချထားသည့် နေမိုတာစက်ကြီးများ ရှိသည်။ ထို စက်များတွင် နေပူရှိန်ကို ပြောင်းသုံးပုံ ဗွိုင်လာ ရေနွေးအိုးပေါ်သို့ စုရုံးကျရောက်စေရန် အနေအထားအံကိုက် တပ်ဆင်ထားသော မှန်ကလေးပေါင်းများစွာဖြင့် စီမံထားသည်။ ဤသို့ဖြင့် ကျွန်ုပ်တို့သည် အပူကို ရှေးကစ၍ အလုပ်လုပ်ရန်အတွက်အမျိုးမျိုးအသုံးချခဲ့လေရာ ဂျိမ်းဝပ်စသော ရှေးအင်ဂျင်နီယာကျော်ကြီးများ၏ ကျေးဇူးကြောင့် တဖန် ကျွန်ုပ်တို့သည် ရေနွေးငွေ့စက်၊ မော်တော်အင်ဂျင်စက်တို့ဖြင့် အပူ၏လုပ်အားကို ထုတ်ယူကာ သယ်ယူပို့ဆောင်ရေး၊ ဓာတ်မီးထွန်းညှိရေး စက်အမျိုးမျိုးကို ခုတ်မောင်း လည်ပတ်ရေးတို့အတွက် အသုံးချနိုင်ခဲ့ပြန်လေသည်။ ယခုအခါတွင် အပူကို လျှပ်စစ်ဓာတ်ဖြင့်လည်း သက်သာလွယ်ကူစွာထုတ်နုတ်ကာ နေရာ အနှံ့အပြားမှာပင်တိုးတက်အသုံးချလျက် ရှိပေသည်။

**အပူဓာတ်ပေးခြင်း။** ။အလွန်အေးသော တိုင်းနိုင်ငံများတွင် အပူအအေး မျှမျှတတ နေထိုင်သွားနိုင်ရန် အိမ်တွင်း အပူဓာတ် ပေးစံနစ်ကို တီထွင်ရလေသည်။ ဤသို့ အပူဓာတ်ပေးခြင်းစံနစ် မရှိပါက အလွန်အေးသောဒေသများတွင် နေထိုင်သော လူများသည် အအေးဒဏ် ခံနိုင်အောင် လုပ်နေရသည်နှင့်ပင် အချိန်ကုန်လူပမ်း ဖြစ်ကြရပေမည်။ အခြား စီးပွားရေး၊ လူမှုရေး၊ ပညာရေးစသည်တို့ကို လုပ်ကိုင်ရန် အချိန်ရှိတော့မည် မဟုတ်ပေ။ပဌမဆုံး အပူဓာတ်ပေးစံနစ်မှာ မီးလင်းဖိုများပင် ဖြစ်သည်။တီထွင်မှု မပေါ်သေးမီ ရှေးခေတ်က လူများသည် အိမ်တွင်း၌ ထိုမီးလင်းဖိုမျိုးဖြင့်သာ အအေးဒဏ်ကို ခုခံခဲ့ကြသည်။ ထိုနောက် မီးလင်းဖိုများတွင် ခေါင်းတိုင်များ တပ်ဆင်လာကြသည်။တဖန် ခေါင်းတိုင်မှတဆင့် မီးဖိုများကို အုတ်၊ အုတ်ကြွပ်များနှင့် ပြုလုပ်လာကြသည်။ ထို့မှတဖန် သွန်းသံများနှင့် ပြုလုပ်ကြပြန်သည်။ နောက်ဆုံးတွင် ယခုခေတ် ကျောင်းများနှင့် အချို့အဆောက်အအုံများတွင် အသုံးပြုသည့် ဗဟိုအပူဓာတ်ပေးရုံများ ဆောက်လုပ်လာသည်အထိ တိုးတက်လာခဲ့လေသည်။

လူသည် သွေးနွေးသတ္တဝါဖြစ်၍ လူ၏ ကိုယ်အပူချိန်သည် ၉၈.၆ ဖာရင်ဟိုက် ဒီဂရီဖြစ်သည်။ စားလိုက်သော အစာသည် ကိုယ်အပူချိန်အတွက် ထင်းမီးဖြစ်သည်။ကိုယ်ခန္ဓာပတ်ဝန်းကျင်၏ အပူချိန်သည် အေးသောအခါ ကိုယ်ခန္ဓာမှ အပူများ ထွက်လျက် ရှိ၏။ အထည်အဝတ်သည် ကိုယ်မှထွက်သော အပူကို တားဆီး၏။ သို့သော် အလွန်အေးသောဒေသများတွင် အပူအအေး မျှမျှတတရှိစေရန် အိမ်တွင်း၌ အပူရအောင် ပြုလုပ်ရန် လိုအပ်ပေသည်။ ထို့ကြောင့် အိမ်တွင်း၌ အပူချိန် ၆၅ ဒီဂရီမှ ၇၀ ဒီဂရီ ရှိအောင် လုပ်ပေးရလေသည်။

အပူသည် နည်းသုံးမျိုးဖြင့် တနေရာမှ တနေရာသို့ ရောက်သွား၏။ နည်းသုံးမျိုးမှာ အပူစီးခြင်း၊ အပူ သယ်ဆောင်ခြင်းနှင့် အပူဖြာထွက်ခြင်းတို့ ဖြစ်သည်။ အပူစီးခြင်းဟူသည်မှာ လေသည် ပူသောပစ္စည်းတခုနှင့် တွေ့ထိရာမှ ပူလာခြင်းမျိုးဖြစ်သည်။ အပူသည် ပူသောပစ္စည်းမှ အနီးတဝိုက်ရှိ လေဆီသို့ တိုက်ရိုက် စီးလာခြင်း ဖြစ်သည်။ ဤအပူစီးခြင်းမျိုးသည် သံချောင်းတလျောက် အပူစီးလာခြင်းမျိုးနှင့် အလွန်တူ၏။ သံချောင်း တချောင်း၏ အစွန်းတဖက်ကို မီးတွင်ထား၍ အခြား အစွန်းတဖက်ကို လက်နှင့် ကိုင်ထားလျှင် အပူသည် သံချောင်းတလျောက် စီးလာသည်ကို တွေ့ရပေမည်။

အပူ သယ်ဆောင်ခြင်း ဟူရာ၌ ပူသော ပစ္စည်းသည် ပတ်ဝန်းကျင်လေကို ပူစေ၏။ ထိုပူသောလေသည် ပေါ့သွားသဖြင့် အပေါ်သို့ တက်၏။ အပေါ်သို့ တက်သွားသော လေနေရာ၌ အေးသောလေဝင်လာရာ ထိုလေလည်း ပူလာသဖြင့် အပေါ်သို့ တက်ပြန်၏။ ဤနည်းဖြင့် ပူသော ပစ္စည်းအနားမှ လေပူသည် အပေါ်သို့ တဆက်တည်း လှည့်၍ တက်နေလေသည်။

ပူသော ပစ္စည်းမှ အပူသည် ရေဒီယိုလှိုင်း၊ အလင်းလှိုင်းများကဲ့သို့ လှိုင်းအသွင်ဖြင့် ဖြာထွက်၏။ ဤအပူလှိုင်းများသည် ပလာနယ်ကိုဒင်း၊ လေထုကိုဒင်း မပူစေပဲ ဖြတ်ကျော်သွားနိုင်သော သတ္တိ ရှိသည်။ နေ၏ အပူသည် ကမ္ဘာမြေကြီးသို့ ရောက်၍ ပူလာရခြင်းမှာ အပူဖြာထွက်ခြင်းကြောင့် ဖြစ်သည်။ မီးအနားဌ် ရပ်နေလျှင် ကျွန်ုပ်တို့ထံသို့ ရောက်လာသော အပူသည် များသောအားဖြင့် အပူဖြာထွက်၍ ရောက်လာခြင်းဖြစ်သည်။

ဗဟိုအပူခတ်ပေး စံနစ်သည် အဆောက်အအုံ တခုတွင် ဗဟိုတနေရာမှ အခြားအပူအလိုရှိသည့် နေရာများသို့ ဖြန့်ဝေပေးသောစံနစ်ဖြစ်ရာ ဖြန့်ဝေပေးသည့်နည်းကြီး နှစ်နည်း ရှိသည်။ ပဌမနည်းသည် သွယ်ဝိုက်သောနည်း၊ သို့မဟုတ် လေပူပေးသောနည်းဖြစ်သည်။ ဒုတိယနည်းမှာ ရေနွေးငွေ့ သို့မဟုတ် ရေပူတို့ကို ရေဒီယေတာများ ရှိရာသို့ ပိုက်လုံးများဖြင့် ပို့ပေး၍ ထိုမှတဆင့် အပူခတ်ကို ထုတ်ပေးလေသည်။

လေပူပေး နည်းစံနစ်တွင် သယ်ဆောင် လာသော လေပူကိုသာ အခန်းရှင်များက ရကြသည်။ လေကို အဆောက်အအုံတခု၏ အောက်ထပ်တွင် ဖိုကြီးတခုနှင့် ပူအောင်လုပ်၏။ ပူသောလေသည် အပေါ်သို့ တက်စမြဲဖြစ်ရကား ပိုက်လုံးကြီးများဖြင့် အခန်းများသို့ ပို့ပေးလေသည်။ တခါတရံ လေမှုတ်စက်ဖြင့် ထိုလေပူများကို မှုတ်၍ အခန်းများသို့ အပူခတ် မျှမျှတတရရှိစေရန် ပို့ပေးသည်။ လေပူပေးစံနစ်သည် တပ်ဆင်ရာ၌ အဖိုးနှုန်း သက်သာသဖြင့် ကိုယ်ပိုင်အိမ်များတွင်အသုံးများကြသည်။ သို့ရာတွင် ရေနွေးငွေ့ သို့မဟုတ် ရေပူပေး စံနစ်လောက် မကောင်းလှပေ။

ရေနွေးငွေ့နှင့် ရေပူပေးစံနစ်ကို အဆောက်အအုံကြီးများ အားလုံးလောက်တွင် အသုံးပြုကြသည်။ ယင်းစံနစ်သည် လေပူပေးစံနစ်ထက်စရိတ်ကြီးလေးသော်လည်း အပူခတ်ရရာ၌ မှန်၍ ပို၍လည်း အားထားရသည်။ ရေနွေးငွေ့နှင့် ရေပူပေးစက်ရုံတွင် အရေးကြီးသော အစိတ်အပိုင်းများမှာ ဗွိုင်လာအိုး၊ ရေနွေးငွေ့သို့မဟုတ် ရေပူကို ဆက်သွယ်သွားသော ပိုက်လုံးများနှင့် အပူဖြန့်ဝေပေးသည့် ရေဒီယေတာများ ဖြစ်ကြသည်။

ရေနွေးငွေ့ဖြင့် အပူခတ်ပေးသည့် စံနစ်တွင် ဗွိုင်လာအိုးထဲ၌ ရေနွေးငွေ့သည် အပူချိန် ၂၁၂ ဒီဂရီ ဖာရင်ဟိုက် ရှိလာသောအခါ ဖြန့်ဝေပေးနိုင်သဖြင့် စရိတ် သက်သာပေသည်။ ဤသို့ အပူချိန်လျော့၍ ပေးလိုသည့်အခါ ပိုက်လုံးများနှင့် ရေဒီယေတာများတွင် လေမရှိအောင် စုတ်ထုတ်ပေးရသည်။ ဤအပူခတ်ပေးစံနစ်တွင် ရေနွေးငွေ့သည် ရေအဖြစ်သို့ ဖွဲ့သွားသဖြင့် နေရာအသီးအသီးတို့တွင် တစိတ်တဒေသအားဖြင့် ပလာနယ် ဖြစ်ပေါ်လာလေသည်။ ထိုအခါ ရေနွေးငွေ့ကို အပူချိန် ၁၅၀ ဒီဂရီ မျှလောက်နှင့် ဖြန့်ဝေပေးနိုင်သည်။

ရေနွေးငွေ့ သို့မဟုတ် ရေပူပေးစံနစ်တွင် အသုံးပြုသော ရေဒီယေတာများသည် အပူခတ်ကို အပူစီးခြင်း၊ အပူသယ်ဆောင်ခြင်းနှင့် အပူဖြာထွက်ခြင်းဟူသော နည်းသုံးမျိုးဖြင့် ထုတ်ပေးကြသည်။ များသော အားဖြင့် အပူစီးခြင်းနည်းဖြင့် ထုတ်ပေးသောအပူခတ်မှာ အလွန်နည်းလေသည်။ အပူသယ်ဆောင်ခြင်းနှင့် အပူဖြာထွက်ခြင်း နည်းကြီးနှစ်နည်းဖြင့်သာ ထုတ်ပေးလေ့ရှိကြသည်။ အပူဖြာထွက်ခြင်း နည်းဖြင့် ထုတ်ပေးသော အပူခတ်၏ ပမာဏမှာ ရေဒီယေတာ၏ အပူချိန်ပေါ်တွင် တည်ပေသည်။ (ရေဒီယေတာ — လည်းရှု။)

ရေပူဖြင့်အပူခတ်ပေးသောစံနစ်တွင် ရေပူ၏အပူချိန်သည် နည်းသည့်အလျောက် အပူခတ် ထုတ်လွှတ်ရာတွင် အပူဖြာထွက်ခြင်းနည်းဖြင့်မထုတ်လွှတ်ပဲ အပူသယ်ဆောင်ခြင်းနည်းဖြင့်သာ ထုတ်လွှတ်လေသည်။ အပူချိန်များသော ရေနွေးငွေ့ပေး စံနစ်တွင်မူ ရေဒီယေတာများသည် အပူခတ်ကို အပူဖြာထွက်ခြင်းနည်းဖြင့် ထုတ်လွှတ်ကြသည်။ ရေဒီယေတာမှ ထုတ်လွှတ်သော အပူခတ်၏ ပမာဏမှာ ရေဒီယေတာ၏ ပုံသဏ္ဌာန်နှင့် လုပ်ထားသော သတ္တုမျက်နှာပြင်ပေါ်တွင် များစွာတည်ပေသည်။ အပြင်တွင် လုပ်ထားသော သတ္တုမျက်နှာပြင် များလေလေ အပူခတ်များများ လွှတ်ထုတ်လေလေ ဖြစ်သည်။ ရေဒီယေတာများကို အိမ်ခန်းရှိ အပူခတ် များစွာထွက်သော နေရာများ၌ တပ်ဆင် ထားလေ့ ရှိကြသည်။ အထူးသဖြင့် ပြတင်းပေါက်တွင်ဖြစ်စေ၊ အောက်နားတွင် ဖြစ်စေ တပ်ဆင်ထားတတ်ကြသည်။ ပြတင်းပေါက်မှ အခန်းတွင်းသို့ လေအေး ဝင်လာသောအခါ ထိုလေသည် ရေဒီယေတာကြောင့် ပူလာသဖြင့် မျက်နှာကြက်ဆီသို့ တက်သွားလေသည်။

ရေဒီယေတာများဖြင့် အပူခတ် ပေးရာ၌ အခက်အခဲတခုမှာ မျက်နှာကြက် နားတွင် ရှိသော လေသည် အခြားနေရာများတွင်ရှိသော လေထက် ပို၍ ပူခြင်း ဖြစ်သည်။ ပုံစံအားဖြင့် အခန်းတခုတွင် ကြမ်းပြင်နေရာ၌ လေ၏အပူချိန်သည် ၅၃° ရှိလျှင် ဒူးဆစ်အမြင့်တွင် ၅၉.၄° နှာခေါင်းအမြင့်လောက်တွင် ၆၈.၇° အသီးအသီး ရှိ၍ မျက်နှာကြက်တွင် ၇၆° အထိ ရှိပေလိမ့်မည်။ ကြမ်းပြင်၌ ဤမျှအပူချိန် နည်းနေလျှင် သက်သာလိမ့်မည်မဟုတ်ပေ။ အကယ်၍ ကြမ်းပြင်နေရာရှိ လေအပူချိန်ကို မြှင့်တင်ပေးလိုက်လျှင် အခြား နေရာများတွင် မနေနိုင် မထိုင်နိုင်အောင် ပူလာပေလိမ့်မည်။ ထိုကြောင့် ဤမျှအပူချိန်

ခြားနားမှုမရှိစေရန် ရေဒီယေတာများအစား ကြမ်းပြင်တလျှောက်တွင် ရေပူပိုက်လုံးရှည်များ၊ သို့မဟုတ် ပိုက်လုံးခွေများကို တပ်ဆင်ထားကြသည်။ ထိုအခါ ရေပူသည် ပိုက်လုံးတလျှောက် ဝင်လာပြီးလျှင် အခန်းတွင်းရှိလူများအား နွေးစေလေသည်။ ရေဒီယေတာများမှာကဲ့သို့ အပူချိန် ခြားနားမှုများစွာ မရှိတော့သည့်ပြင် အပူချိန်မှန်၍ နေလေသည်။ ရေပူအစား လေပူကိုလည်း အသုံးပြုကြသေးသည်။

အပူရအောင် ဓာတ်ငွေ့ကို မီးလောင်စေသည့် ရေဒီယေတာ နှစ်မျိုးရှိ၏။ ပဌမအမျိုးတွင် ဓာတ်ငွေ့မီးသည် ရေဒီယေတာကို တိုက်ရိုက်ပူစေပြီးလျှင် ထိုမှတဆင့် အပူကို ထုတ်လွှင့်ပေးလေသည်။ ဒုတိယအမျိုးတွင် ဓာတ်ငွေ့မီးသည် ရေကို ရေနွေးငွေ့ဖြစ်အောင် ပြုလုပ်ပြီးလျှင် ရေပိုက်ခွေများဖြင့် အခန်းများသို့ လွှတ်ပေး၏။ ဤအပူပေးစံနစ်မျိုးကို ကိုယ်ပိုင် နေအိမ်များတွင် အသုံးပြုကြသည်။

ယခုအခါ လူသုံးများသည့် လျှပ်စစ် အပူပေးကရိယာတွင် ဝိုင်ယာကြိုးခွေများ ပါရှိ၍ ထိုဝိုင်ယာကြိုးခွေများသို့ လျှပ်စစ်ဓာတ်စီးကို လွှတ်ပေး၏။ ထိုဝိုင်ယာကြိုးခွေများသည် လျှပ်စစ် ဖိအားကို ခုခံ ထားသောကြောင့် နီရဲလာသဖြင့် ယင်းတို့မှ အပူဓာတ် ရရှိလေသည်။ထိုလျှပ်စစ် အပူပေးကရိယာများမှ အပူဓာတ်ကို အပူဖြာထွက်ခြင်းနည်းဖြင့် ရရှိသည်။ ကိုယ်ပိုင်နေအိမ်များတွင် အသုံးပြုသော ထိုအပူပေးစံနစ်များသည် ရေနွေးငွေ့နှင့် ရေပူရေဒီယေတာများထက် အပူဓာတ်ကို ပို၍ ထုတ်လွှတ်ကြသည်။ လျှပ်စစ်ဓာတ်ဖြင့် အပူပေးသော စံနစ်သည် သန့်ရှင်း၍ လွယ်ကူ၏။ သို့သော် လျှပ်စစ်ဓာတ်အားအတွက် ကုန်ကျသည့်စရိတ်သည် ကြီးလေးသောကြောင့် နေရာကျဉ်းသော အခန်းငယ်ကလေးများတွင် အချိန်အနည်းငယ်အတွက်သာ အသုံးပြုကြသည်။

ယခု ခေတ်တွင် လေသမစက်များကို နေအိမ်များ၊ စက်ရုံ အလုပ်ရုံများ၊ ကုန်တိုက်ကုန်လှောင်ရုံများ၊ ကပွဲရုံ၊ ရုပ်ရှင်ရုံနှင့် ဟော်တယ်စသည့် အဆောက်အအုံ များတွင် ထား၍ အပူအအေးကို မျှတစေသည်။ လေသမစေခြင်းစံနစ်သည် အဆောက်အအုံ အတွင်းရှိ အပူ အအေးကို တနှစ်ပတ်လုံး ညီမျှစေသည်။ ဆောင်းရာသီ အလွန်အေးသောအခါ လေသမစက်သည် သန့်ရှင်း၍ ပူနွေးသောလေကို ရစေသည်။ နွေရာသီ ပူအိုက်သောအခါ အေးမြခြောက်သွေ့၍ သန့်ရှင်းသော လေကို ရစေသည်။ လေသမစက်သည် လေကောင်းလေသန့်ကို အပြင်ဖက်မှ ဆွဲယူပြီးလျှင် ရေမှုန်ကလေးများ ထွက်နေသည့်နေရာသို့ ပို့ပေးလိုက်သည်။ ဆောင်းရာသီတွင် ဤရေမှုန်ကလေးများသည် လေကို စွတ်စိုစေ၍ နွေရာသီတွင်မူ လေတွင်ရှိသော ရေငွေ့ကို ခြောက်သွေ့သွားစေသည်။ ရေမှုန်ကလေးများအတွင်းသို့ ဖြတ်သန်းသွားပြီးနောက် လေသည် ရာသီဥတုကိုလိုက်၍ အပူဓာတ်ပေးဝိုင်ယာခွေ၊ သို့မဟုတ် အအေးဓာတ်ပေး ဝိုင်ယာခွေများဆီသို့ ရောက်သွားလေသည်။ ထိုနောက် လေသည် လေစစ် ရှိရာသို့ ရောက်သွားရာ ထိုလေစစ်က အဆောက်အအုံအတွင်းသို့ လေမရောက်မီဖုန်၊ ဗက်တီးရီးယားနှင့် မကောင်းသော အနံ့များကို စစ်ထုတ်လိုက်လေသည်။ ဤလေသမစံနစ်ဖြင့် နေရေး၊ ထိုင်ရေး၊ လုပ်ကိုင်ရေးတို့တွင် ပို၍ ကောင်းမွန်လာစေသည်။

**အပူပြင်းတိုင်း။** ။ပိုင်ရိုမီတာ — ရှု။

**အပေါ်လို။** ။ဂရိနတ်များ — ရှု။

**အပင်လောက။** ။ကျွန်ုပ်တို့သည်သက်ရှိအရာဟူသရွေ့ကို အပင်နှင့်သတ္တဝါဟူ၍ နှစ်မျိုးခွဲခြားထားရာ အပင်နှင့်သတ္တဝါများသည် အသွင် အပြင် အားဖြင့် ကွဲပြားကြသော်လည်း အရေးကြီးသော လုပ်ငန်းများနှင့် ဖွဲ့စည်းထားပုံမှာ အခြေခံ သဘော အားဖြင့် တူညီကြသည်။ အပင်သည် သတ္တဝါများနည်းတူ အသက်ရှူခြင်း၊ လှုပ်ရှားသွားလာခြင်း အစာမှီဝဲခြင်းတို့ကို ပြုလုပ်၍ မျိုးပွားခြင်းကိုလည်း ဖြင့်စေပြီးလျှင် သေဆုံးသွားကြလေသည်။

ကမ္ဘာပေါ်တွင် သက်ရှိများ စတင်ဖြစ်ပေါ်လာချိန်၌ ထိုသက်ရှိများသည် အပင်ဖြစ်သည်။ သတ္တဝါဖြစ်သည်ကို တိကျစွာ ခွဲခြား၍ မပြောနိုင်ချေ။ ထိုနည်းဘူစွာ အပင်လောကသည် သတ္တဝါလောကမှ ဆင်းသက်သည်။ သို့မဟုတ် သတ္တဝါလောကသည် အပင်လောကမှ ဆင်းသက်သည်ဟူသည်ကိုလည်း တိကျ မှန်ကန်စွာ မပြောနိုင်ချေ။ သို့ရာတွင် ကမ္ဘာပေါ်၌ ပဌမဦးစွာ ဖြစ်ပေါ်သောသက်ရှိသည် အလိုအလျောက် အစာပြုလုပ်နိုင်စွမ်း ရှိရမည်ဟူသော ယူဆချက် မှန်ကန်လျှင် အပင်သည် သတ္တဝါထက် ဦးစွာပေါ်သော သက်ရှိဖြစ်ရမည်ဟု သိပ္ပံ ပညာရှင်များက ယုံကြည်ကြသည်။ ဇီဝဗေဒပညာရှင်တို့ကမူ အပင်လောကနှင့် သတ္တဝါလောကသည် မျိုးရင်းပင်မ တခုမှ ဖြာထွက်လာကြသည်ဟု ယူဆကြသည်။ ဤယူဆချက်အရ ထိုမျိုးရင်းပင်မမှ သက်ရှိနှစ်မျိုး ခွဲထွက် လာကာ စံနစ်တကျ တဖြည်းဖြည်း ပြောင်းလဲ တိုးတက်လာကြပြီးလျှင် တမျိုးမှာ အမြင့်တန်းစား အပင်များနှင့် အခြား တမျိုးမှာ အမြင့်တန်းစား သတ္တဝါများဟူ၍ ဖြစ်လာကြလေသည်။ အစိမ်းရောင် ရှိသော အပင်များတွင် ပဌမဆုံး ပေါ်ပေါက်လာသည့် အပင်မှာ "အယ်လဂျေ" ခေါ် ပယ်လယ်၌ ပေါက်ရောက်တတ်သော အပွင့်မဲ့ အပင်တမျိုးဖြစ်

သည်။ (အယ်လဂျေပင် — ရှု။) ဝင်ရိုးစွန်းနှင့် အပူပိုင်းဒေသကြားရှိ ပင်လယ် ဟူသမျှတို့တွင် အယ်လဂျေနှင့် ကင်းသောပင်လယ်ဟူ၍ မရှိချေ။ သို့သော် အချို့သော ပင်လယ်ကမ်းခြေ များတွင် အခြားသော အရပ်ဒေသများမှာထက် အလွန်ထူထပ်စွာ ပေါက်ရောက်တတ်လေသည်။ အယ်လဂျေတို့ကြောင့် ပင်လယ်နီသည် တနှစ်လျှင် ကာလ အပိုင်းအခြားအားဖြင့် နီနေတတ်သည်။ အာတိတ်ဒေသတွင် အချို့သော ရေခဲပြင်တို့ မှာလည်း အယ်လဂျေ ကြောင့် နီနေ တတ်သည်။ အချို့ သော အယ်လဂျေများမှာ အလွန် သေးငယ်၍ မှန်ဘီလူးဖြင့် ကြည့်မှသာ မြင်နိုင်သည်။ သို့ရာတွင် ပစိဖိတ် သမုဒ္ဒရာတွင် ပေါက်ရောက်ကြသော အယ်လဂျေတို့၌ ပင်စည်နှင့် သဏ္ဌာန်တူသည့် အစိတ်အပိုင်းများ ပါရှိကြ၍ အချို့မှာ အမြင့်ဆုံးအပင်ထက်ပင် ရှည်လျား ကြသည်။ အချို့၌ ဆဲတခုတည်းသာ ရှိကြသည်။

အပင်များတွင် အယ်လဂျေပြီးသည့်နောက် ထင်ရှားသောအပင်မျိုးမှာ ဖန်ဂျိုင်းခေါ် မှိုမျိုးများ ဖြစ်သည်။ ဤအပင်များသည် အပင်များတွင် အထူးဆန်းဆုံးဖြစ်သည်။ ဖန်ဂျိုင်းတို့ကို အပင်ဟု ဆိုရငြား သော်လည်း ပုံသဏ္ဌာန်တွင်ရင်း၊ ဘဝတာ တိုခြင်းတွင်ရင်း၊ မျိုးပွားခြင်းတွင်ရင်း၊ အမျိုးအမည် အရေအတွက်အားဖြင့် များပြားပုံတွင်ရင်း အခြား မည်သည့် အပင်နှင့်မျှ မတူချေ။ ဗက်တီးရီးယား၊ တဆေး၊ မှိုနုများမှာ ဖန်ဂျိုင်းများ ဖြစ်ကြသည်။ အချို့သော ဖန်ဂျိုင်းတို့မှာ လူများနှင့် မကင်းနိုင်လောက်အောင် အသုံးဝင်သော်လည်း အချို့သော ဖန်ဂျိုင်းများမှာမူကား စိုက်ပျိုးပင်များကို ဖျက်ဆီးတတ်ခြင်း၊ လူနှင့်တကွ လူတို့မွေးမြူထားသောတိရစ္ဆာန်များအား ကြောက်မက်ဖွယ်ကောင်းသည့် ရောဂါဆိုးကြီးများကို ဖြစ်စေခြင်းတို့ကြောင့် လူတို့၏ ရန်သူကြီးများ ဖြစ်ကြသည်။ ဖန်ဂျိုင်းနှင့် စပ်သျှဉ်း၍ စိတ်ဝင်စားဖွယ်ကောင်းသောအချက်တချက်မှာ ဖန်ဂျိုင်းသည်အယ်လဂျေနှင့်မိတ်ဖက် (ပေါင်းဖက်)၍ သစ်ကပ်မှော်ပင် ဖြစ်လာခြင်းပင် ဖြစ်သည်။ ထိုသို့ ပေါင်းစပ် နေထိုင်ကြခြင်းကို ဆင်ဗိုင်အိုစစ်ဟုခေါ်သည်။ သစ်ကပ်မှော်ပင်တွင် ဖန်ဂျိုင်းသည် ရေနှင့်ဓာတ်ဆားများကို စုတ်ပေး၍ အယ်လဂျေသည် အပင်အတွက် အစာကို ပြုလုပ်ပေးသည်။ (ဆင်ဗိုင်အိုစစ် — လည်းရှု။)

တတိယအမျိုးတွင် ဖန်းများပါဝင်သည်။ ဤအပင်များသည် သတ္တဝါများတွင် ဖါးတို့ကဲ့သို့ ရေတပိုင်းကုန်းတပိုင်း အပင်များ ဖြစ်ကြ၍ ကုန်းပေါ်တွင် ပဌမဆုံး ပေါက်ရောက်သော အပင်မျိုးဟု ယခုခေတ် သိပ္ပံပညာရှင်ကြီးများက ယုံကြည်ကြသည်။ ရှေးနှစ် သန်းပေါင်းများစွာက ကမ္ဘာမြေပေါ်တွင် ဤအပင်မျိုး ကြီးစိုးခဲ့၍ ယခုခေတ်တွင် ကျွန်ုပ်တို့ သုံးစွဲနေသော ကျောက်မီးသွေးမှာ မြေအောက်တွင် နစ်မြုပ်ခဲ့သော ဖန်းပင်ကြီးများမှ ဖြစ်လာကြသည်ဟု အဆိုရှိသည်။ နောက်ဆုံးအမျိုးမှာ အပွင့် ပွင့်သော အပင်မျိုး ဖြစ်သည်။ ဤ အပင်များကို တနည်း အားဖြင့် အမြင့် တန်းစား အပင်များ ဟူ၍ ခေါ်သည်။



ထူးဆန်းသော အပင်တမျိုးဖြစ်သည့် ယင်ဖမ်းပင်

အပင်တို့တွင် တွေ့ရှိရသော အစိမ်းရောင်မှာ ကလိုရိုဖီဖြစ်သည်။ ကလိုရိုဖီသည် နေရောင်တွင် လေထဲ၌ရှိသော ကာဗွန်ဒိုင်အောက်ဆိုက်မှ ကာဗွန်ကို ခွဲယူ၍အမြစ်မှရရှိသော ရေဖြင့် အပင်တွင်လိုသော အစာကို ပြုလုပ်ပေးလေသည်။ သို့သော် အပင်တိုင်း၌ ဤသို့ အစာပြုလုပ်ရန် ကလိုရိုဖီ မပါရှိကြချေ။ အထက်၌ ဖော်ပြခဲ့ပြီးဖြစ်သော ဖန်ဂျိုင်းအမျိုးအားလုံးနှင့် အချို့သော အပင်မျိုး၌ ကလိုရိုဖီဟူ၍ လုံးဝမပါရှိကြသဖြင့် မိမိတို့လိုသောအစာကို မပြုလုပ်နိုင်ကြချေ။ ဤသို့ ကလိုရိုဖီမဲ့သောအပင်မျိုးမှာ နှစ်မျိုးနှစ်စား ရှိသည်။ တမျိုးမှာ မိမိတို့လိုသောအစာကို အခြားသက်ရှိများပေါ်၌ မှီခိုရသောအမျိုးဖြစ်၍ ပါရာဆိုက်ဟုခေါ်သည်။ ရွှေနွယ်ပင်၊ မစ္စတဲတိုး (ကျီးပေါင်းတမျိုး) ပင်တို့မှာ ပါရာဆိုက်များ ဖြစ်ကြသည်။ ကျန်တမျိုးမှာ ဆပရိုဖိုက်ခေါ် အပင်မျိုးဖြစ်၍ မိမိတို့လိုသော အစာကို ဆွေးမြည့် နေသော

အပင်များပေါ်တွင် ဖြစ်စေ၊ သို့မဟုတ် ပုပ်သိုးနေသော သတ္တဝါတို့၏ ရုပ်ကလာပ်များပေါ်တွင်ဖြစ်စေ မှီခိုနေကြရသည်။ မှို ၊မှိုနုတို့မှာဆပရိုဖိုက်များဖြစ်ကြသည်။ ထို့ကြောင့် လေတွင်ရှိသော ကာဗွန်ဒိုင်အောက်ဆိုက်သည် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အပင်ထဲသို့ ရောက်ရှိ လာပြီးလျှင် အပင်၏ ကိုယ်ထည်ပစ္စည်းများ ဖြစ်သွားကြသည်။ တဖန် အပင်မှအစိတ်အပိုင်းများကို လူကဖြစ်စေ၊တိရစ္ဆာန်များကဖြစ်စေ စားသောက် လိုက်သောအခါ ကိုယ်ခန္ဓာတွင် တငွေ့ငွေ့ လောင်ကျွမ်းမှုကြောင့် အောက်ဆီဂျင်နှင့် ပေါင်းစပ် သွားပြီးလျှင် အပင်မှ ပြန်လည် အသုံးချနိုင်ရန် ကာဗွန်ဒိုင်အောက်ဆိုက် အဖြစ်နှင့် ထွက်လာလေသည်။ (ဆပရိုဖစ်တစ်ဇင်း — လည်းရှ။)

အပင်များ သန်မာကြီးထွားစေရန် ပိုတက် ဆီယမ်၊ ကယ်လဆီယမ်၊ မက်ဂနီဇီယမ်နှင့် သံဓာတ် များကိုငှင်း၊ ကာဗွန်၊ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်၊ နိုက်ထရိုဂျင်၊ ဆာလဖာနှင့် ဖော့စဖောရပ်တို့ကဲ့သို့ သတ္တုမဟုတ်သည့်ဓာတ်များကိုငှင်း လိုလေသည်။ ထိုဓာတ်များ အနက် အပင်သည် ကာဗွန်ကို လေထဲရှိကာဗွန်ဒိုင်အောက်ဆိုက်မှ ငှင်း၊ အောက်ဆီဂျင်ကို လေမှ တိုက်ရိုက် အသက်ရှူခြင်းဖြင့် ငှင်း၊ ဟိုက်ဒရိုဂျင်ကို ရေထဲမှငှင်း ရရှိကြသည်။ကျန်သောဓာတ်များကို အပင်သည် မြေမှရေတွင် ပျော်ဝင်ပါရှိသော ဒြပ်ပေါင်းများအဖြစ်နှင့်စုတ်ယူရရှိလေသည်။ နိုက်ထရိုဂျင်



နင်မိအေးစီးမျိုးစဉ်တွင်ပါဝင်သော ကြာပင်

နှင့်စပ်လျဉ်း၍ ထူးခြားချက်တရပ်မှာ ကလိုဗာပဲပင် ရိုင်းနှင့်တကွ ယင်း၏ အမျိုးအနွယ်များဖြစ်သော အခြားပဲလုံး ပဲတောင့်ပင်တို့သည် လေမှနိုက်ထရိုဂျင်ကို ဗက်တီးရီးယားများ၏အကူအညီဖြင့် ဖမ်းယူနိုင်ကြခြင်းဖြစ်သည်။ ထိုအပင်တို့၏အမြစ်များကို စင်ဆေးကြည့်က အဖုကလေးများကို တွေ့ရမည်ဖြစ်သည်။ ထိုအဖုကလေးများ ဖြစ်နေခြင်းမှာ မြေကြီးထဲတွင်ရှိသော ဗက်တီးရီးယား များအမြစ်တွင်းသို့ဝင်၍ စုဝေးနေခြင်းကြောင့်ဖြစ်သည်။ ယင်းသို့စုဝေးနေထိုင်၍ လေထဲတွင် ပါဝင်သော နိုက်ထရိုဂျင်ဓာတ်ကို အစာအဖြစ်ဖြင့် တိုက်ရိုက် အသုံးပြုပြီး လျှင်နိုက်ထရိတ်အဖြစ်သို့ ပြောင်းလဲသွားစေသဖြင့် မြေသြဇာထက်သန်ကောင်းမွန်လာစေသည်။ ဤကဲ့သို့ အပင်သည် မြေမှ နိုက်ထရိုဂျင်ကို အစဉ်သဖြင့်ထုတ်ယူနေသောကြောင့် မြေတွင် နိုက်ထရိုဂျင်ဒြပ်ပေါင်းများ ကုန်ခန်းသွားဖွယ်ရာ ရှိသည်ဟု မထင်မှတ်အပ်ပေ။ အဘယ်ကြောင့် ဆိုသော် လေ၊ မြေ၊ အပင်နှင့် သတ္တဝါခန္ဓာကိုယ်တို့၌ရှိသော နိုက်ထရိုဂျင်ဓာတ်မှာ တနေရာမှ တနေရာသို့ လှည့်ပတ်သွားလာလျက် ရှိသောကြောင့် ဖြစ်သည်။ ရွှံ့ ထူထပ်သော အချို့အရပ်ဒေသများ၌ တခါတရံ ပိုးစားပင်များကို တွေ့ရတတ်သည်။ ဤအရပ်ဒေသမျိုးတွင် မြေထဲ၌ ရှိသည့်နိုက်ထရိုဂျင်ဓာတ်ပေါင်းတို့မှာ ရေတွင်ပျော်ဝင်၍ ပါသွားကြသဖြင့် ထိုထူးဆန်းသောအပင်တို့သည် မိမိတို့လိုသော နိုက်ထရိုဂျင်ကိုရရှိရန် ပိုးမွှားများကို ဖမ်းယူ စားသောက်ကြသည်။

ရေနှင့် ရေတွင် ပျော်ဝင်ပါရှိသော ဒြပ်ပေါင်း များသည် အပင်ထဲသို့ တဖက်သတ်စိမ့်ခြင်းဖြင့် ဝင်ရောက်လာသည်။ တဖက်သတ်စိမ့်ခြင်းကို အောက်ပါအတိုင်း စမ်းသပ်ကြည့်နိုင်သည်။ ဖန်ပြွန်ရှည်ရှည်တခု၏ အောက်ဖက်ကို ပါးလွှာသောအမြှေးဖြင့်ပိတ်၍ ခိုင်ခိုင်ချည်ထားပါ။ထိုနောက် ဖန်ပြွန်ထဲသို့ သကြားပျော်ဝင်ရည် အပြစ် လောင်းထည့်ပြီးလျှင် ထိုဖန်ပြွန်ကို သကြားပျော်ဝင်ရည် အကျဲထည့်ထားသော ဖန်ခွက်တခုတွင်နှစ်လျက် ဖန်ပြွန်ကို ညှပ်ခုံ၌ညှပ်၍ မတ်မတ်ထောင်ထားပါ။ (ဤနေရာ၌ သကြားအစား အခြားရေတွင်ပျော်ဝင်သောပစ္စည်းများကိုလည်း အသုံးပြုနိုင်သည်။) ထိုအခါ ဖန်ပြွန်အတွင်းရှိ သကြားပျော်ဝင်ရည်အပြစ်သည် တဖြည်းဖြည်းမြင့်တက်လာသည်ကိုတွေ့ရမည်။ ထိုသို့တဖက်သတ်စိမ့်၍ မြင့်တက်လာခြင်းမှာပျော်ဝင်ရည်အကျဲမှရေသည် ပျော်ဝင်ရည်အပြစ်ထဲသို့ စိမ့်ဝင်သောကြောင့်ဖြစ်သည်။ အထက်ပါစမ်းသပ်ချက်တွင် ဖန်ပြွန်သည် ရေကိုညှပ်ယူသော အမြစ်နှင့်တူ၍ ဖန်ပြွန်ထဲ၌ရှိရေသည် မြေဆီလွှာတွင်ရှိသောရေနှင့်တူသည်။ ဤနည်းဖြင့် ရေသည် မြေဆီလွှာမှအပင်ထဲသို့ ဝင်ရောက် လာပြီး

လျှင် အပင်၏အစိတ်အပိုင်းအသီးအသီးသို့ရောက်ရှိသွားကြလေသည်။ အပင်တွင် အမြစ်မှစုတ်ယူရရှိသော ရေ၌ ဓာတ်ဆား အနည်းငယ်သာ ပျော်ဝင်ပါရှိသဖြင့် အပင်သည် ထိုဓာတ်ဆားများကို လုံလောက်စွာ ရရှိစေရန် ရေအမြောက်အမြားကို စုတ်ယူရလေသည်။ ဤသို့စုတ်ယူရရှိသောရေများအနက်အနည်းငယ်မျှကိုသာ အပင်သည် အစာပြုလုပ်ရာ၌ အသုံးပြုလေသည်။ ကျန် ရေအနက် အချို့မှာ အပင်ကို တောင့်တင်းလျက် ရှိနေစေသော်လည်း များသောအားဖြင့် အရွက်များသို့ ရောက်ကာ အငွေ့အဖြစ်ဖြင့် ပြန်ထုတ်ပစ်လိုက်သည်။ ထိုသို့ ထုတ်ပစ်ခြင်းကို "ထရန်စပီရေးရှင်း" ဟု ခေါ်သည်။ အပင်တွင် အမြစ်မှရေသည် အရွက်သို့ ရောက်အောင် တက်ရောက်ရသောအမြင့်မှာ အပင်ကိုလိုက်၍ ဖြစ်သည်။ ပုပျပ်သော အပင်များတွင် အရွက်များမှာ အလွန်မမြင့်သဖြင့် ရေတက်ရောက်ပုံကို သိရှိနားလည်နိုင်သည်။ သို့သော် ယူကလစ်ပင် (ငုက်ချောက်ပင်)နှင့် ထင်းရှူးပင်အချို့တို့၌ ရေတက်ရောက်ရသော အမြင့်မှာ ပေ ၃၀၀ မှ ၄၀၀ အထိ မြင့်မားတတ်လေသည်။ရေသည် တဖက်သဘ်စိမ့်အားတခုတည်းဖြင့်ထိုမျှမြင့်မားသောနေရာသို့မတက်ရောက်နိုင်ချေ။ ဤအချက်တို့နှင့်စပ်လျဉ်း၍ အမြစ်တွင် သက်ရောက်လျက်ရှိသော ဖိအားသည် ရေကိုတနေရာသို့ရောက်အောင် ပို့ဆောင်ပေး၍ ထရန်စပီရေးရှင်းကြောင့် ဖြစ်လာသောဆွဲအားသည် ထိုနေရာမှတဆင့် ရေကိုအထက်သို့ မြှင့်တင်ယူသည်ဟု ထင်မှတ်ဖွယ်ရာရှိပေသည်။ တနည်းအားဖြင့်ဆိုသော် အမြစ်မှဖိအားသည် ရေကိုအောက်မှ တွန်းတင်ပေး၍ ထရန်စပီရေးရှင်းသည် ရေကိုအထက်မှ ဆွဲယူလေသည်။

အပင်တွင်ကြီးထွားမှုနှင့်လှုပ်ရှားမှုကိုပြုလုပ်ရန်စွမ်းအင်လိုသည်။ အပင်များသည် သက်ရှိသတ္တဝါကဲ့သို့ပင် နေ့ရောညဉ့်ပါ အသက်ရှူကြသည်။ အသက်ရှူရာ၌ အပင်များသည် အောက်ဆီဂျင်ကို အရွက်၌ရှိသောလေပေါက်ကလေးများမှ ရှူသွင်းကြသည်။ အောက်ဆီဂျင်သည် ပင်စည်အတွင်း၌ရှိသော ကာဗွန်ဓာတ်များကို လောင်ကျွမ်းသွားစေပြီးနောက် အပင်တွင် လိုသောစွမ်းအင်ကို ဖြစ်ပေါ်လာစေသည်။ ယင်းသို့ ဖြစ်ပေါ်လာသော စွမ်းအင်ကို လှုပ်ရှားမှုနှင့် အပင်ကြီးထွားမှုတွင် အသုံးပြုသည်။ ကာဗွန်ဓာတ်များ လောင်ကျွမ်းရာမှ ဖြစ်ပေါ်လာသော ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်မှာကား ပြင်ပသို့ထွက်သွားလေသည်။ ဤသို့အပင်များအသက်ရှူခြင်းကို "ရက်စပီရေးရှင်း"ဟု ခေါ်သည်။(ရက်စပီရေးရှင်း — ရှု။)

သစ်ရွက်များတွင်ကစီချက်လုပ်ရန် ကလိုရိုဖီ၊ နေရောင်ခြည်၊ ကာဗွန်ဒိုင်အောက်ဆိုက်နှင့် ရေတို့လိုအပ်ပေသည်။ ကစီချက်လုပ်သည်ဆိုရာ၌ ဦးစွာဖြစ်ပေါ်လာသော ပစ္စည်းမှာ သကြားဖြစ်၍ သကြားမှတဖန်ကစီအဖြစ်သို့ ပြောင်းလဲသွားသည်။ ဤသို့ သစ်ရွက်စိမ်းများသည် နေရောင်ခြည်တွင် သကြားချက်လုပ်၍ ကစီအဖြစ် ချက်ခြင်းပြောင်းလဲသွားခြင်းကို "ဖိုတိုဆင်းသဆစ်"၊ သို့မဟုတ် "အလင်းဖြင့်ဖွဲ့စည်းခြင်း"ဟုခေါ်သည်။(အလင်းဖြင့်ဖွဲ့စည်းခြင်း— ရှု။) ဖိုတိုဆင်းသဆစ်တွင် ဖြစ်ပျက်ပုံမှာ အရွက်များရယူသော လေထဲမှ ကာဗွန်ဒိုင်အောက်ဆိုက်သည် ကာဗွန်နှင့် အောက်ဆီဂျင်အဖြစ် ဓာတ်ကွဲသွားသည်။ ကွဲထွက်လာသော ကာဗွန်သည် ရေမှအောက်ဆီဂျင်၊ ဟိုက်ဒရိုဂျင်တို့နှင့် ပေါင်းစပ်၍ သကြားဖြစ်လာသည်။ အောက်ဆီဂျင်ကား ပြင်ပသို့ထွက်သွားလေသည်။ ဖိုတိုဆင်းသဆစ်ဖြစ်ချိန်တွင် ကာဗွန်ကိုသာသုံးခြင်းကြောင့် ဖိုတိုဆင်းသဆစ်ကိုကာဗွန်ဓာတ်စုဆောင်းခြင်းဟုလည်းခေါ်သည်။ သို့သော် အပင်များအသက်ရှူရာ၌ (ရက်စပီရေးရှင်း) အပင်သည် လေထဲမှ အောက်ဆီဂျင်ကို သွင်းယူပြီးလျှင်ကာဗွန်ဒိုင်အောက်ဆိုက်ကို ထုတ်ပစ်လိုက်သည်။ ဖိုတိုဆင်းသဆစ်ခေါ် ကာဗွန်စုဆောင်းခြင်း၌မူကား ကာဗွန်ဒိုင်အောက်ဆိုက်ကို အစာအဖြစ် အသုံးပြု၍ အောက်ဆီဂျင်ကို လေထဲသို့ ထုတ်ပစ်လိုက်သည်။ ထိုနှစ်မျိုးမှာ တမျိုးနှင့်တမျိုး ဆန့်ကျင်ဖက်ဖြစ်နေသော်လည်း နေ့အချိန်တွင် နှစ်မျိုးစလုံးတပြိုင်နက်တည်း ဖြစ်ပျက်လျက်ရှိကြသည်။ သို့သော် နေ့အချိန်တွင် အပင်သည် အသက်ရှူသည်ဟုဆိုရရုံလောက်သာ ရှူပြီးလျှင် ကာဗွန်စုဆောင်းခြင်း (ဖိုတိုဆင်းသဆစ်) ကိုမူကား အပြင်းအထန် ပြုလုပ်လျက်ရှိသည်။ ညဉ့်အချိန်မှသာ အသက်ရှူခြင်းကို များစွာပြုလုပ်သည်။

ပူအိုက်သော ဒေသများ၌ နွေရာသီတွင်ဖြစ်စေ၊ အေးသောအရပ်ဒေသများ၌ ဆောင်းရာသီတွင်ဖြစ်စေ အပင်သည် ရေကိုခဲခဲယဉ်းယဉ်းရယူကြရသောကြောင့် ရေကိုစွန့်ထုတ်ပစ်တတ်သည့် အရွက်ဘို့ကို ကြွေသွားစေတတ်သည်။ ပဌမဆုံးအပင်သည် အလွန်အဖိုးတန်သော သစ်ရည်ကို အထဲသို့ စုတ်ယူလိုက်၍ အရွက်သို့ရေမရောက်ရှိရအောင် ရွက်ညှာအောက်၌ ဖော့သားတက်လာစေသည်။ အရွက်သို့ ရေမရောက်ရှိဘဲ နေသောအခါ အရွက်သည် ခြောက်သွားပြီးလျှင် အပင်မှကြွေကျသွားလေသည်။အချို့သောအပင်တို့၌ ရေများစွာ ဆုံးရှုံးခြင်းမရှိရအောင် အရွက်များတွင် ရေကာအမွှေးများ ဖုံးအုပ်ပါရှိလေသည်။ တခါတရံအရွက်တို့၌ ရေထွက်ပေါက် အနည်းငယ်သာ ပါရှိသဖြင့် ရေအနည်းငယ်သာ ထွက်သွားနိုင်လေသည်။ သို့သော် များသောအားဖြင့် စိုစွတ်သောအရပ်ဒေသတွင် ပေါက်ရောက်ကြသောအပင်တို့၌ ရေအလွယ်တကူထွက်သွားနိုင်အောင် ပါးလွှာသောအရွက်များရှိဘဲ၍ ခြောက်သွေ့သောအရပ်ဒေသများတွင်မူကား ထူသောအရွက်များရှိတတ်သည်။

များသောအားဖြင့် ပင်စည်ပျော့သော အပင်ငယ်တို့သည် ပြင်းထန်သော ရာသီဥတုဒဏ်ကို မခံနိုင်ကြသဖြင့် နွေအခါ၌ဖြစ်စေ၊ ဆောင်းအခါ၌ဖြစ်စေ သေသွားကြလေသည်။ ထိုသို့သေမသွားမီ မြေအောက်အစာကို စုဆောင်းထားခဲ့ရာ ထိုအစာများမှာ ရာသီဥတု၏ဒဏ်ကြောင့် ပျက်စီးမသွားပဲ နွေရာသီ၊ သို့မဟုတ် ဆောင်းရာသီလွန်မြောက်သည်နှင့်တပြိုင်နက် အပင်များ ပေါက်ရောက်လာကြလေသည်။ ဤသို့မြေတွင် အစာကိုသိုလှောင်ထားတတ်သော အပင်များမှာ နှစ်နှစ်ခံပင်၊ သို့မဟုတ် နှစ်ကြာခံပင်များ ဖြစ်ကြသည်။ နှစ်နှစ်ခံအပင်များတွင် မုန်လာဥနီ၊ ဂေါ်ဘီထုပ်၊ မုန်လာဥဝါ၊ ဥစားမုန်လာများပါဝင်သည်။ သို့သော် ဤအပင်များသည် သမပိုင်းများ၌သာ နှစ်နှစ်ခံ၍ အပူပိုင်းများ၌မူကား တနှစ်ခံလေသည်။ နှစ်ကြာခံအပင်များတွင် လေထဲ၌ရှိသော အစိတ်အပိုင်းများမှာ နွေရာသီ၊ သို့မဟုတ် ဆောင်းရာသီ၌ သေသွားတတ်၍ မိုးကျလာသည်နှင့်တပြိုင်နက် မြေအောက်ရှိ ပင်စည်များမှ အစို့များထွက်လာလေသည်။ အချို့သော အပင်များမှာ လပိုင်း၊ သို့မဟုတ် အများဆုံး တနှစ်သာခံသဖြင့် တနှစ်ခံအပင်ဟု ခေါ်သည်။ မုန်ညင်း၊ လူဆန်ပဲပင်တို့မှာ တနှစ်ခံပင်များဖြစ်ကြသည်။ ဤအပင်များသည်မိမိတို့တွင်ရှိသမျှသောအစာရေစာတို့ကို နောင်အခါအတွက် သိုလှောင်ထားခြင်းမရှိပဲ အပင်နှင့် အစေ့များပြုလုပ်ခြင်းကြောင့် တနှစ်သာ ခံကြလေသည်။

အပင်တွင် အစိတ်အပိုင်းတို့သည် ပြင်ပလှုံ့ဆော်မှုကိုတုံ့ပြန်တတ်ရာ ထိုသို့ တုံ့ပြန်တတ်ခြင်းကြောင့် ဖြစ်ရသောလှုပ်ရှားမှုကို ထရိုပီဇင်းဟုခေါ်သည်။ (ထရိုပီဇင်း — ရှု။) အချို့သော အပင်တို့၌ရှိသည့် အစိတ်အပိုင်းများသည် တခုခုနှင့်တွေ့ထိမိသည်နှင့်တပြိုင်နက် လှုပ်ရှားလာကြသည်။ ဆန်းဒျူးခေါ် ပိုးမွှားစားပင်တမျိုး၌ ပိုးမွှားများလာရောက်နားသည်နှင့်တပြိုင်နက် ဦးမှင်တို့သည် လှုပ်ရှားလာပြီးလျှင် ပိုးမွှားကို ဖမ်းယူလေသည်။ နွယ်ပင်တွင် နွယ်နှာမောင်းတို့သည် လိမ်တက်ရန်အမှာခံတခုခုကို တွေ့ထိလာသည်နှင့်တပြိုင်နက် နွယ်နှာမောင်း၏ အတွင်းပိုင်းတွင် ကြီးထွားမှုရပ်စဲသွား၍ အပြင်ပိုင်းသာလျှင် ကြီးလာသဖြင့် နွယ်နှာမောင်းသည် အမှာခံပေါ်တွင် ရစ်ပတ်၍သွားလေသည်။ ဤလှုပ်ရှားမှုမျိုးကို ဟက်ပတို ထရိုပီဇင်းဟု ခေါ်သည်။ အပင်၏အစိတ်အပိုင်းအချို့သည် အလင်းရောင်ကို တုံ့ပြန်သည့် အနေနှင့်လည်း လှုပ်ရှားတတ်ရာ ထိုလှုပ်ရှားမှုမျိုးကို အလင်းကြိုက်ခြင်း(ဖိုတိုထရိုပီဇင်း)ဟုခေါ်သည်။ အကယ်၍ပြတင်းပေါက်တပေါက်တည်းသာ ဖွင့်ထားသော အခန်းတွင်း၌ အပင်တပင်ကို အိုးတွင်ထည့်၍ စိုက်ပျိုးထားလျှင် အရွက်များသည် ပြတင်းပေါက်ဖက်သို့ ညွတ်၍ ပေါက်ရောက်လာသည်ကို တွေ့ရပေမည်။ ဤအခြင်းအရာကို လင်းကြိုက်ခြင်းဟုခေါ်သည်။ မြေပဲပင်တွင် အပွင့်၏ရိုးတံသည် ဝတ်မှုန်စပ်ယှက်ခြင်းမပြုမီ အလင်းဖက်သို့ညွတ်လျက် ပေါက်ရောက်တတ်သော်လည်း ဝတ်မှုန် စပ်ယှက်ပြီးသည့်နောက် အလင်းမှရှောင်သွားတတ်သည်။ တောထူထပ်သော အရပ်ဒေသများ၌ အပင်များတွင် အထက်ဖက်မှသာ အလင်းကိုရရှိသဖြင့် ဖြောင့်တန်းရှည်လျားသော ပင်စည်များရှိတတ်သည်။ ကွင်းပြင်များတွင်ရှိသည့် အပင်များ၌မူကား အလင်းရောင်ကို အရပ်ရပ်မှ ရရှိသောကြောင့် ဘေးဖက်သို့ကားထွက်၍ ပေါက်ရောက် တတ်လေသည်။ အထက်ပါ လှုပ်ရှားမှုများအပြင် အပင်တွင် မြေဆွဲအား၊ ရေ၊ ဓာတ်ပစ္စည်းတို့ကို တုံ့ပြန်ခြင်းသဘောဖြင့်လည်း လှုပ်ရှားတတ်လေသည်။

အပင်တွင်သတ္တဝါများမှာကဲ့သို့ဘဝတည်မြဲရေးအတွက် လုံးပန်းကြရသည်။ အပင်ထူထပ်စွာ ပေါက်ရောက်သော အရပ်ဒေသတွင် လောင်းရိပ်မှလွတ်အောင် တပင်နှင့်တပင် အလုအယက် ပေါက်ရောက်ကြရသည်။ အမြစ်သည် အစာရေစာရရှိရေးအတွက် မြေတွင်နက်ရှိုင်းစွာ ထိုးဖောက်ဝင်ရောက်ကြရသည်။ အရွက်သည် နေရောင်ကို အများဆုံးရရှိစေရန် ဖြာထွက်၍ပေါက်ရောက်ကြရသည်။ ပင်စည်သည် အလွန်အဖိုးတန်သော သစ်ရည်ကို ခြောက်သွေ့မသွားရအောင် ရေလုံအခေါက်ဖြင့် ဖုံးအုပ်ထားရသည်။ အပင်၏ အစိတ်အပိုင်းများကို တိရစ္ဆာန်များ မဖျက်ဆီးနိုင်ရန် ဆူးများဖြင့် ကာကွယ်ထားရသည်။ အပင်သည် အစာကို ရနိုင်သမျှ ပြုလုပ်၍ မျိုးပွားစေရန် အစေ့ကိုများနိုင်သမျှ များအောင် ပြုလုပ်ကြရလေသည်။ အပွင့်တွင် တောက်ပသောအရောင်၊ မွှေးကြိုင်သောအနံ့၊ ချိုမြသော ပန်းဝတ်ရည်တို့မှာ အစေ့များအောင်မြင်အောင် ဝတ်မှုန်စပ်ယှက်ရာ၌ ကူညီပေးသော ပိုးမွှားတို့အားဖိတ်ခေါ်ရန်ဖြစ်သည်။ အောင်မြင်လာသော အစေ့များကို အပင်သည် ဖြစ်ကတတ်ဆန်း ကြွေကျမသွားစေပဲ ဝေးလံသောအရပ်သို့ မိမိ၏ မျိုးများရောက်ရှိသွားအောင် ဖြန့်ဖြူးပေးရလေသည်။ အကယ်၍ အပင်တပင်မှ ဖြစ်လာသော အစေ့တို့သည် အပင်မကြီးနား၌ ကပ်၍ကျရောက်ကြပါမူ အပင်မကြီး၏ လောင်းရိပ်တွင်မိခြင်း၊ အစာရေစာလုံလောက်စွာ မရရှိခြင်းတို့ကြောင့် သေသွားဖွယ်ရာရှိသည်။ ဤသို့မဖြစ်ရလေအောင် ကညင်ပင်၊သက်ငယ်ပင်တို့ကဲ့သို့ အချို့သောအပင်များသည် အစေ့များကို လေဖြင့် ဖြန့်ဖြူးပေးကြသည်။ ကပ်စေးနဲပင်၊ မြက်သီးပင်တို့ကဲ့သို့အပင်များသည် တိရစ္ဆာန်တို့၏ ကိုယ်ခန္ဓာတွင် တွယ်ကပ်၍ လိုက်ပါနိုင်ကြသော အစေ့များဖြင့် ဖြန့်ဖြူး ပေးကြသည်။ အချို့သော အပင်များ၌ အစေ့ပတ်ပတ်လည်တွင် အရည်ရွှမ်းသောအသားများပါရှိသဖြင့် ကျေးငှက်တိရစ္ဆာန်တို့သည် ထိုအသီးများကို

အစာအလို့ငှာ သယ်ဆောင်သွား၍ အပင်မှဝေးရာအရပ်၌ အစေ့ကို စွန့်ပစ်ခဲ့ကြသည်။

အပင်၏ အသုံးဝင်ပုံမှာ အလွန်တရာ များပြားလှပေသည်။ကျွန်ုပ်တို့စားသောက်သော အစာဟူသမျှကို အပင်မှ တိုက်ရိုက်ဖြစ်စေ၊ အပင်ပေါ်တွင်မှီခိုသော တိရစ္ဆာန်များမှ ဖြစ်စေ ရရှိကြသည်။ များသောအားဖြင့် ကျွန်ုပ်တို့အဘွက် အဝတ်အစားရက်လုပ်ရန် ပစ္စည်းရိုင်းများကို အပင်မှရသည်။ သစ်သားမှာ လူတို့တွင် ထင်းမီး၊ အိမ် အသုံးအဆောင်နှင့် အိမ်များဆောက်လုပ်ရန် အသုံးဝင်သည်။ ဆေး၊ ရေမွှေး၊ စက္ကူစသော လူတို့တွင်အသုံးဝင်သည့် ပစ္စည်းများစွာတို့ကိုလည်း အပင်မှရရှိကြသည်။ ယခုအခါ ကျွန်ုပ်တို့တွင် အလွန်အသုံးဝင်သောကျောက်မီးသွေးသည် ရှေးပဝေဏီက ပေါက်ရောက်ခဲ့သော အပင်များဖြစ်ကြသည်။ သက်ရှိသတ္တဝါများသည် အသက်ရှူရာ၌ အောက်ဆီဂျင်ကိုရှူသွင်း၍ ကာဗွန်ဒိုင်အောက်ဆိုက်ကို ရှူထုတ်ပစ်လေသည်။ အပင်များသည် ထိုသို့ရှူထုတ်ပေးသော ကာဗွန်ဒိုင်အောက်ဆိုက်မှ ကာဗွန်ကိုခွဲယူ၍ အောက်ဆီဂျင်ကို စွန့်ထုတ်ပေးလေသည်။ ထိုကြောင့် အကယ်၍ကမ္ဘာပေါ်တွင်အပင်များသာ မရှိခဲ့ပါမူ လေထဲ၌ရှိသောအောက်ဆီဂျင်သည် မကြာမီကုန်ခန်းသွား၍ သက်ရှိသတ္တဝါများသည် သေဆုံးသွားဖွယ်ရာရှိလေသည်။

**အပေါင်း အနုတ်။** ။ကျွန်ုပ်တို့သည် သက်ရှယ်ငယ်စဉ်က ကျောင်းသို့ တက်ရောက်ကြသောအခါ ဂဏန်းများကို ရေတွက် ပြီးလျှင် အပေါင်းကို စတင် သင်ယူခဲ့ကြရ၏။ ဤသို့ သင်ယူရခြင်း အကြောင်းမှာ ကြီးပြင်းလာသောအခါ အပေါင်း မတတ်လျှင် အလွန် အောက်ကျ နောက်ကျ ဖြစ်တတ်သောကြောင့်တည်း။ နောက်တကြောင်းကား အပေါင်းသည် အခြေခံတွက်နည်းတခု ဖြစ်သည်။

အပေါင်းကို ကျွမ်းကျင်စွာတွက်နိုင်လိုလျှင် ဤတွင်ရေးသားထားသော အကြံပေးချက်အနည်းငယ်ကို လိုက်နာဆောင်ရွက်ကြရပေမည်။ အတွက်တွက်ရာ၌ အလျင်စလိုပြုလုပ်ခြင်းနှင့် စိတ်အာရုံပျံ့လွင့်ခြင်းတို့သည် အကျိုးယုတ်စေတတ်သည်။ အပေါင်းလျင်မြန်လာအောင် (ဥဒါဟရဏ်အားဖြင့် ၇ နှင့် ၅ ပေါင်း ၁၂၊ သို့မဟုတ် ၉ နှင့် ၈ ပေါင်း ၁၇ ဟု အဖြေမှန်ကို ချက်ချင်းပြောနိုင်အောင်) တဖက်ပါ "အပေါင်းမှန်ကန်ချက်" ၈၁ ခုကို ကျွမ်းကျင်သည်တိုင်အောင် လေ့ကျင့်ရာသည်။မလေ့ကျင့်မီ လက်တွေ့အလုပ်ကို ဦးစွာလုပ်ပါ။ ဥဒါဟရဏ်အားဖြင့် အောက်ပါ ဇယားတွင်ပါသော ၆+၃=၉ ကို မကျက်မှတ်မီ မန်ကျည်းစေ့၊ သို့မဟုတ် ပဲစေ့ ခြောက်စေ့ကို ယူ၍ တဖက်ပါ ပုံအတိုင်း

ပုံ (၁)

တတန်းပြုလုပ်ပါ။ နောက်သုံးစေ့ကို တတန်းတန်းပါ။ ထို နောက် ဤနှစ်တန်းကို တတန်းတည်းဖြစ်အောင် ရွှေပါ။

(০c০c০০) + (c০০) = ০c০c০০c০০။

ဒိဋ္ဌတွေ့သောအခါမှ ယုံကြည်နိုင်မည်။ ယုံကြည်သောအခါမှ မှတ်သားပါ။ အာဂုံဆောင်ပါ။

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၁ | ၁ | ၁ | ၁ | ၁ | ၁ | ၁ | ၁ | ၁ |
| ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၂ | ၂ | ၂ | ၂ | ၂ | ၂ | ၂ | ၂ | ၂ |
| ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၃ | ၃ | ၃ | ၃ | ၃ | ၃ | ၃ | ၃ | ၃ |
| ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၄ | ၄ | ၄ | ၄ | ၄ | ၄ | ၄ | ၄ | ၄ |
| ၅ | ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၅ | ၅ | ၅ | ၅ | ၅ | ၅ | ၅ | ၅ | ၅ |
| ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၆ | ၆ | ၆ | ၆ | ၆ | ၆ | ၆ | ၆ | ၆ |
| ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၇ | ၇ | ၇ | ၇ | ၇ | ၇ | ၇ | ၇ | ၇ |
| ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ | ၁၆ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၈ | ၈ | ၈ | ၈ | ၈ | ၈ | ၈ | ၈ | ၈ |
| ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ | ၁၆ | ၁၇ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၉ | ၉ | ၉ | ၉ | ၉ | ၉ | ၉ | ၉ | ၉ |
| ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ | ၁၆ | ၁၇ | ၁၈ |

မှတ်ချက်။ ဥဒါဟရဏ်အားဖြင့် အထက်ပါ(၇+၉=၁၆) ကိုဤသို့ဦးစွာ စိတ်တွင်တွက်ပါ။၇+၉=၇+(၃+၆)= ၁၀+၆=၁၆။ အဘယ်ကြောင့်ဆိုသော် ခုဂဏန်း ၁၀ ခု ပြည့်၍ ဆယ်ဂဏန်းတခုဖြစ်အောင် လုပ်ဖို့အရေးကြီးသောကြောင့်တည်း။

အထက်ပါ အပေါင်းမှန်ကန်ချက်များတွင် ကျွမ်းကျင်လာသောအခါ "ကြိုး"ဟူသောပုဒ်ကို စသုံးမပေါင်းပဲ ဖတ်နိုင်သည့်နည်းတူ ကျွန်ုပ်တို့သည် ၅ အပေါင်း လက္ခဏာ ၇ ကို မြင်လျှင်မြင်ခြင်း ၁၂ ဖြစ်ကြောင်းသိရှိလာကြပေမည်။ အထက်ပါ အပေါင်းမှန်ကန်ချက် ၈၁ ခု အပြင်၊ ဂဏန်းနှစ်လုံးကိုပေါင်း၍ အဖြေ တမျိုးတည်းရသော အပေါင်းမျိုးကိုလည်း လေ့ကျင့်ကြရသည်။ ဥဒါဟရဏ်အားဖြင့် ၁ နှင့် ၁၀၊ ၂ နှင့် ၉၊ ၃နှင့် ၈၊ ၄ နှင့် ၇၊ ၅နှင့်၆၊ ၆နှင့်၅၊ ၇နှင့်၄၊ ၈နှင့်၃၊ ၉နှင့်၂၊၁၀နှင့်၁ ဟူသော ဂဏန်းစုံတွဲအသီးအသီးနှင့် ယင်းတို့၏ ပေါင်းလဒ်များကို ရွတ်ဖတ်ကျက်မှတ်ရသည်။ စိတ်ထဲတွင် ၉ နှင့် ၂ သည် ၁၁ ဟုဆိုကာ ကျက်မှတ်ပါ။

ထိုနောက် လွယ်ကူသော ဂဏန်းနှစ်လုံးစီ ပေါင်းခြင်းကို လေ့ကျင့်ကြရမည်။ လွယ်ကူသောပေါင်းခြင်းဟုဆိုရာ၌ အောက်ပါ အတွက်မျိုးကိုဆိုလိုသည်။ ဂဏန်း တစုံစီ အောက်တွင် ဆိုင်ရာအဖြေကိုရေးပါ။

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ၃ | ၄ | ၅ | ၁ | ၂ | ၅ |
| ၁ | ၂ | ၃ | ၁ | ၈ | ၃ | ၃ |

| | | | | | | |
|---|---|---|---|---|---|---|
| ၅ | ၃ | ၄ | ၃ | ၇ | ၂ | ၇ |
| ၄ | ၄ | ၂ | ၅ | ၂ | ၆ | ၁ |

အထက်ပါ အပေါင်းမျိုးကို လေ့ကျင့်ပြီးသော် တဖက်ပါ ပေါင်းရခက်သောဂဏန်းများနှင့် လေ့လာကြရမည်။ စိတ်တွင် ဤသို့တွက်ပါ ၈+၇=၈+(၂+၅) = ၁၀+၅။ ဤတွက်နည်းသည် စက္ကူပေါ်တွင် ဤမျှ ရှည်လျားသော်လည်း၊ စိတ်တွင် မျက်စိတမှိတ်အတွင်းအဖြေကိုဆောင်ပေသည်။

| | | | | | | | |
|---|---|---|---|---|---|---|---|
| ၈ | ၇ | ၆ | ၅ | ၄ | ၉ | ၇ | ၄ |
| ၇ | ၈ | ၅ | ၆ | ၉ | ၄ | ၄ | ၇ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| ၇ | ၅ | ၈ | ၃ | ၆ | ၇ | ၈ | ၉ |
| ၅ | ၇ | ၃ | ၈ | ၇ | ၆ | ၉ | ၈ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| ၈ | ၅ | ၈ | ၆ | ၉ | ၅ | ၉ | ၄ |
| ၅ | ၈ | ၆ | ၈ | ၅ | ၉ | ၄ | ၉ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| ၆ | ၇ | ၈ | ၉ | ၈ | ၄ | ၇ | ၉ |
| ၆ | ၇ | ၈ | ၉ | ၄ | ၈ | ၉ | ၇ |

အထက်ပါ အပေါင်းပုစ္ဆာများကို တပုဒ်ပြီးတပုဒ် တွက်သွားရသည်။ သို့သော် အနည်းငယ်လျှင်မြန်လာသောအခါ အစဉ်အလိုက်မတွက်ပဲ ကျော်၍တွက်ချက်ရသည်။ အခြားကောင်းမွန်သော လေ့ကျင့်နည်းတခုမှာ အောက်ပါအတိုင်း ဖြစ်သည်။ ပုံ၏ဗဟိုဌာနသည့် ကွက်လပ်တွင် ခုဂဏန်းတခုခုကို ရေးပါ။ လက်ဘဲဖြင့်




ပုံ (၂)

ပြထားသော အကွက် များကို တခုစီ ထောက်ပြီး ထိုအကွက်တွင် ရှိသော ဂဏန်းတို့ကို ပေါင်းပါ။ ပေါင်းရကိန်းကို ချက်ခြင်း မှန်ကန်စွာ ပြောဆိုနိုင်သည်တိုင်အောင် လေ့ကျင့်ပါ။ အလယ်ကွက်တွင် ရှိသော ဂဏန်းကို မကြာမကြာ ပြောင်းပေးပါ။ ဤသို့ လေ့ကျင့် နေစဉ် ဘေး၌ အမှားဖမ်း ပေးနိုင်မည့်သူ (ဆရာ) တယောက် ရှိလျှင် သာ၍ ကောင်းပါသည်။

ထိုနောက် မှန်ကန်သွက်လက်စွာ ပေါင်းတတ်အောင် ဂဏန်းများကို အောက်ပါအတိုင်း ဂဏန်းတိုင်များပြုလုပ်၍ ပေါင်းပါ။

| | | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| ၂ | ၄ | ၅ | ၆ | ၄ | ၅ | ၃ | ၃ | ၄ | ၃ | ၆ | ၉ | ၉ |
| ၃ | ၅ | ၆ | ၂ | ၅ | ၂ | ၇ | ၄ | ၇ | ၀ | ၉ | ၀ | ၇ |
| ၄ | ၃ | ၃ | ၃ | ၆ | ၆ | ၄ | ၇ | ၄ | ၄ | ၀ | ၀ | ၀ |
| ၅ | ၇ | ၄ | ၄ | ၅ | ၃ | ၃ | ၄ | ၀ | ၃ | ၄ | ၅ | ၇ |
| ၂ | ၄ | ၀ | ၅ | ၆ | ၅ | ၇ | ၅ | ၀ | ၉ | ၃ | ၉ | ၉ |
| ၁ | ၂ | ၇ | ၇ | ၄ | ၄ | ၅ | ၉ | ၉ | ၃ | ၉ | ၀ | ၅ |
| ၃ | ၃ | ၃ | ၆ | ၆ | ၆ | ၆ | ၂ | ၇ | ၉ | ၀ | ၆ | ၀ |
| ၅ | ၄ | ၂ | ၇ | ၇ | ၀ | ၀ | ၆ | ၄ | ၄ | ၉ | ၉ | ၀ |
| ၄ | ၂ | ၅ | ၇ | ၀ | ၇ | ၇ | ၇ | ၇ | ၃ | ၉ | ၅ | ၄ |
| ၆ | ၇ | ၆ | ၀ | ၀ | ၀ | ၄ | ၀ | ၃ | ၅ | ၅ | ၆ | ၉ |
| ၃ | ၃ | ၉ | ၆ | ၅ | ၇ | ၉ | ၉ | ၀ | ၂ | ၀ | ၉ | ၆ |

အထက်ပါ ဂဏန်းတိုင်များကို ပေါင်းရာ၌ ဦးစွာ ဂဏန်းတို့ကို အထက်မှ အောက်သို့ ပေါင်း၍ နောက်တဖန် အောက်မှ အထက်သို့ ပေါင်းခြင်းဖြင့် မိမိရရှိသော အဖြေသည် မှန်မမှန် စစ်ဆေးပါ။ ထိုနောက် ဆယ်ဂဏန်း၊ ရာဂဏန်း၊ ထောင်ဂဏန်း အစရှိသည်တို့ ပါဝင်သော အပေါင်းပုစ္ဆာများကို ဆက်လက် စမ်းသပ်တွက်ချက်ကြည့်ပါ။ ထိုသို့ စမ်းသပ် တွက်ချက်ရမည့် ဂဏန်းများကို ထောင်လိုက် ဖြစ်စေ၊ အလျားလိုက် ဖြစ်စေ တတန်းတည်းဖြစ်အောင် စီစဉ်ရေးသားကြရမည်။ ထိုအပြင် ပေါင်းနေစဉ် စကားလုံး နည်းနိုင်သမျှနည်းအောင် လေ့ကျင့်ပါ။ ဥဒါဟရုဏ်အားဖြင့် ၅၊ ၉၊ ၈ ကို ပေါင်းသောအခါ၊ ၅ နှင့် ၉ ပေါင်း ၁၄၊ ၁၄ နှင့် ၈ ပေါင်း ၂၂ ဟု မဆိုပဲ၊ ၁၄၊ ၂၂ ဟုဆိုကာ ပေါင်းရသည်။ ဂဏန်းများကို ပေါင်းသော အခါ၌ လက်ချိုးရေတွက်ခြင်း၊ "ကယ်ရီ" ခေါ် ဆောင်ယူဂဏန်းများ ပေါင်းရေးမှတ်ခြင်းတို့ကို အလျဉ်း မပြုလုပ်ပဲ၊ စိတ်တွင် မှတ်ထားပြီး တွက်ချက်ရန် ကြိုးစားရမည်။ ဤသြဝါဒကို လိုက်နာကာ အောက်ပါ ပုစ္ဆာများကို တွက်ပါ။

| | | | | |
|---|---|---|---|---|
| ၂၃၄ | ၂၇၉ | ၅၆၂ | ၆၄၅ | ၅၁၃ |
| ၃၆၅ | ၄၅၆ | ၄၇၅ | ၄၄၇ | ၇၆၉ |
| ၆၄၇ | ၆၇၂ | ၃၆၀ | ၀၂၃ | ၅၄၀ |
| ၄၀၅ | ၇၆၀ | ၅၉၉ | ၃၄၆ | ၀၅၄ |

ဤသို့ ရာဂဏန်း၊ ထောင်ဂဏန်းစသည်တို့ကို ပေါင်းသောအခါ အမှားအယွင်းများ မပါရှိရအောင် အောက်ပါနည်းများဖြင့် စစ်ဆေးကြည့်ရသည်။ ဥဒါဟရုဏ်အားဖြင့် အောက်၌ ဖော်ပြထားသည့် ကိန်းရှစ်လုံးကို ရိုးရိုးနည်းဖြင့် ပေါင်းလိုက်သောအခါ ၄၄၃၅ ရသည်။ ဤအဖြေမှန်မမှန် စစ်ဆေးသောနည်းတနည်းမှာ ဤကိန်းရှစ်လုံးကို လေးလုံးစီခွဲ၍ ပေါင်းပြီး ရရှိသော အဖြေ (ပေါင်းရကိန်းလဒ်) နှစ်ခုကို ထပ်မံပေါင်းယူသောနည်းဖြစ်သည်။

၂၃၄
၃၆၅
၆၄၇
၄၀၅
၅၁၃
၇၆၉
၅၄၀
၀၅၄
၄၄၃၅

ပဌမကိန်းလေးလုံးကိုပေါင်းလျှင် ၁၆၅၁ရ၍ကျန်ကိန်းလေးလုံးကို ပေါင်းသော် ၂၇၀၄ ကိုရ၏။ ဤအဖြေနှစ်ခုကို ထပ်၍ပေါင်းယူသော အခါ ၄၄၃၅ ကိုရသည်။ ဤကိန်းပြီးမျိုးကိုပေါင်းသောအခါ မျိုးတူချင်းသာလျှင် ပေါင်းနိုင်ကြောင်းကို သတိပြုပါ။ ခုဂဏန်းချည်း သက်သက်ကိုပေါင်း၊ နောက် ဆယ်ဂဏန်းချည်းသက်သက်ပေါင်း၊ ဤကဲ့သို့ ရာဂဏန်းစသည်တို့ကိုလည်း သီးသန့်ပေါင်းသွားပါ။ ဤညွှန်ကြားချက်သည် အောက်ပါ စာပိုဒ်တွင် ပိုမိုရှင်းပေလိမ့်မည်။

အခြားတနည်းမှာ ဤကိန်းရှစ်လုံးကို ရိုးရိုးအပေါင်းတွက်ရာတွင် ပြုလုပ်သကဲ့သို့ စီတန်းထားပြီးလျှင် ထောင်လိုက်ဖြစ်နေသော ဂဏန်းတိုင်အသီးအသီး၏ ပေါင်းလဒ်ကို ရေးချသောနည်း ဖြစ်သည်။ ပုစ္ဆာတွင် ပါသော ထောင်လိုက်ဂဏန်းတိုင်များကို တတိုင်စီပေါင်းသောအခါ ၄၅၊ ၃၉၊ ၄၀ ဟူသော ပေါင်းလဒ်တို့ကို ရရှိလာသည်။ ထိုနောက် ပေါင်းလဒ်အသီးအသီး၏ဂဏန်းများကို တန်ဖိုးအလျောက် ခုနေရာ၊ ဆယ်နေရာ၊ ရာနေရာစသည်တို့တွင် သူ့နေရာနှင့်သူ ရေးချပြီးပေါင်းလျှင် အဖြေမှန်ရနိုင်သည်။

၄၅
၃၉
၄၀
၄၄၃၅

ဤအပေါင်းနည်းတွင် အခြားပေါင်းနည်းထက် သာသောအချက်မှာ အကယ်၍ တနေရာရာတွင် မှားသွားခဲ့သော် ဂဏန်းအားလုံးကို ထပ်မံပေါင်းရပဲ မှားသွားသည့် ဂဏန်းတိုင်ကိုသာ ထပ်မံပေါင်းယူရသည့်အချက်ပင်ဖြစ်သည်။

အဖြေမှန်မမှန် စစ်ဆေးသော တတိယနည်းမှာအထက်တွင်ဖော်ပြပြီးသည့်အတိုင်း ထောင်လိုက် ဂဏန်းတိုင်များကို အထက်မှအောက်နှင့် အောက်မှ အထက်သို့ အပြန်အလှန်ပေါင်းယူနည်းဖြစ်သည်။

အပေါင်းကျင်လျင်အောင် လေ့ကျင့်ရာတွင် နေ့စဉ်မှန်မှန် လေ့ကျင့်ပေးနိုင်ဖို့လိုသည်။ သို့သော် တနေ့လျှင် ငါးမိနစ်၊ ၁၀ မိနစ်လောက်သာ လေ့ကျင့်ပါ။ လေ့ကျင့်ရန် အပေါင်းပုစ္ဆာများကို မိမိကိုယ်တိုင် ဖြစ်စေ၊ မိတ်ဆွေ အနည်းငယ်၏ အကူအညီနှင့်ဖြစ်စေ လွယ်ကူစွာပြုလုပ်နိုင်ပါသည်။ လေ့ကျင့်ခန်းများကို အပေါင်း အဖော်များနှင့်တွက်ချက်ပြီး အဖြေကို တိုက်ကြည့်နည်းသည် ကောင်းသောနည်းတခုဖြစ်သည်။ နောက်ဆုံးနှင့် အရေးကြီးဆုံးဖြစ်သော မှတ်သားထားရန် အချက်တခုမှာ အပေါင်းပုစ္ဆာများကို တွက်ချက်လေ့ကျင့်နေစဉ် အခြားနေရာများသို့ စိတ်ရောက်မသွားအောင် ပေါင်းခြင်းပေါ်မှာသာလျှင် အာရုံစူးစိုက်ရန် ဖြစ်ပေသည်။

အနုတ်တွင်လည်း အပေါင်းမှာကဲ့သို့ ကျင်လျင်လာစေရန်အလို့ငှာ လွယ်ကူသော အောက်ပါ "အနုတ်မှန်ကန်ချက်" (အနုတ်သစ္စာ) ၈၁ ချက်ကို သိဖို့အရေးကြီးသည်။ မိမိကိုယ်တိုင် မန်ကျည်းစေ့၊ သို့မဟုတ် ပဲစေ့တို့ဖြင့် အောက်ပါမှန်ကန်ချက်အသီးအသီးကို ကိုယ်ထိလက်ရောက် စစ်ဆေးပြီးသော် ထိုဟုတ်မှန်ချက်တို့ကို အာဂုံဆောင်ရသည်။ ခြားနားခြင်းနှင့် အကြွင်းတို့ကို ဤ ၈၁ ချက်တို့ဖြင့် လွယ်ကူစွာ တွက်ချက်နိုင်ပါသည်။

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ |
| ၁ | ၁ | ၁ | ၁ | ၁ | ၁ | ၁ | ၁ | ၁ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ |
| ၂ | ၂ | ၂ | ၂ | ၂ | ၂ | ၂ | ၂ | ၂ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ |
| ၃ | ၃ | ၃ | ၃ | ၃ | ၃ | ၃ | ၃ | ၃ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၅ | ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ |
| ၄ | ၄ | ၄ | ၄ | ၄ | ၄ | ၄ | ၄ | ၄ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၆ | ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ |
| ၅ | ၅ | ၅ | ၅ | ၅ | ၅ | ၅ | ၅ | ၅ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၇ | ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ |
| ၆ | ၆ | ၆ | ၆ | ၆ | ၆ | ၆ | ၆ | ၆ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၈ | ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ | ၁၆ |
| ၇ | ၇ | ၇ | ၇ | ၇ | ၇ | ၇ | ၇ | ၇ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၉ | ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ | ၁၆ | ၁၇ |
| ၈ | ၈ | ၈ | ၈ | ၈ | ၈ | ၈ | ၈ | ၈ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၁၀ | ၁၁ | ၁၂ | ၁၃ | ၁၄ | ၁၅ | ၁၆ | ၁၇ | ၁၈ |
| ၉ | ၉ | ၉ | ၉ | ၉ | ၉ | ၉ | ၉ | ၉ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |

ပုစ္ဆာ (၁)။ ရန်ကုန်မှ အင်းစိန်သည် ၁၀ မိုင်ဝေးသည်။ လူတယောက်သည် ရန်ကုန်သို့သွားရန် အင်းစိန်မှ လမ်းလျှောက်ခဲ့ရာ ၆ မိုင်မျှသွားပြီးသော် နောက်ထပ်မိုင်မည်မျှ သွားရဦးမည်နည်း။

ပုစ္ဆာ (၂)။ မောင်နီ၌ရှိသော ပဲစေ့ ၃ စေ့သည် ပဲစေ့ ၁၁ စေ့ဖြစ်လာဖို့ရန် မည်မျှလိုသေးသနည်း။

တွက်နည်း (၁)။ ပေါင်းနည်းကို သင်ကြားခဲ့စဉ်က ၄+၆ =၁၀ ကို သိရှိခဲ့၏။ စိတ်ထဲ၌ ၆ မိုင်ရှည်သော ခရီးကို ၁၀ မိုင်ရှည်သောခရီးနှင့် ယှဉ်ထားလျှင် ၆ မိုင်ရှည်သော ခရီးသည် ၁၀ မိုင်ရှည်သောခရီးဖြစ်ဖို့ရန် ၄ မိုင်မျှလိုသေးကြောင်းကို တွေ့ရပေမည်။ ထို့ကြောင့် ထိုသူ သွားရန် ၄ မိုင်လိုကြောင်းသိရသည်။ တနည်းအားဖြင့်ဆိုသော် ၁၀ နှင့် ၆ တို့၏ခြားနားခြင်းသည် ၄ ဖြစ်သည်။

တွက်နည်း (၂)။ ဒုတိယပုစ္ဆာတွင် ပဲစေ့ ၃ စေ့မှ ၁၁ စေ့သို့ ပြည့်တက်လာအောင် ရေတွက်သော် ၄၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၁၀၊ ၁၁ ဟူသောဂဏန်း ရှစ်လုံးကို ခေါ်ဆိုကာ ရေတွက်ရသည်။ ထို့ကြောင့် မောင်နီလိုသောပဲစေ့မှာ ၈ စေ့ဖြစ်သည်။ ဤနေရာ၌အပေါင်းကို ကျင်လျင်စွာတွက်နိုင်ခဲ့လျှင် ရှည်လျားစွာ ရေတွက်မနေရပဲ အဖြေကို ချက်ခြင်းရရှိနိုင်သည်။ "အပေါင်းမှန်ကန်ချက်"၈၁ ခုမှ ကျွန်ုပ်တို့သည် ၃+၈= ၁၁ ဟုသိကြ၏။ ထို့ကြောင့် ၁၁ ဖြစ်အောင်ပေးထားသော ၃ ထဲသို့ ၈ ပေါင်းထည့်ရမည်ကို ချက်ခြင်းသိနိုင်ပေသည်။

ပုစ္ဆာ (၃)။ မအေး၌ ပိုက်ဆံ ၁၄ ပြားရှိရာ ၆ ပြား ပျောက်သွားသော် မည်မျှကျန်သနည်း။

တွက်နည်း။ ဤပုစ္ဆာကိုအထက်တွင်ဖော်ပြထားသောနည်းအတိုင်း ၇ မှ ၁၄ အထိ ရေတွက်ခြင်းဖြင့် တွက်ချက်နိုင်သည်။ အခြားတနည်းမှာ ပဲစေ့ ၁၄ စေ့ကိုယူ၍ ၆ စေ့ကို ထုတ်ပစ်ပြီးသော် ကျန်သော ပဲစေ့များကို ရေတွက်ယူနည်းဖြစ်သည်။

**ပုစ္ဆာ (၄)။** ၁၆ ပေရှည်သော အဝတ်တစမှ ၉ ပေ ရှည်သောအဝတ်တစကို ညှပ်ယူလိုက်သောအခါ အဝတ်မည်မျှ ကျန်မည်နည်း။

**တွက်နည်း။** ၁၆ ဖြစ်အောင် ၉ နှင့် မည်သည့် ဂဏန်းကို ပေါင်းရမည် နည်းဟု ရှာယူသောအခါ ၇ ကို ရသည်။ အခြားတနည်းမှာ ၁၀ မှစပြီး ၁၆ အထိ ရေတွက်ယူ နည်းပင်ဖြစ်သည်။ ဤနှစ်နည်းတွင် ပဌမနည်းမှာ ပိုမို ကောင်းမွန်သော နည်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုနည်းသည် လျင်မြန်သည့်အပြင် မိမိ တဘ်မြောက်ပြီး ဖြစ်သော အပေါင်းနည်းတမျိုး ဖြစ်သောကြောင့်တည်း။




ပုံ (၇)

ပုံတွင် ပြထားသော နည်းဖြင့်လည်း အနုတ်ကို လေ့ကျင့်နိုင်သည်။ အလယ်၌ရှိသော စက်ဝိုင်းတွင် ၁၀ ထက် ကြီးသော ကိန်းတလုံးထည့်ပါ။ ထိုနောက် စက်ဝိုင်းကြီး၏ ပတ်လည်တွင် ရှိသော ဂဏန်း တလုံးလုံးကို ထောက်၍ အလယ်တွင်ရှိသောကိန်းနှင့် ထိုဂဏန်းတို့၏ ခြားနားချက် ကို တွက်ချက် လေ့ကျင့်ပါ။ ထိုသို့ လေ့ကျင့်သော အခါ အလယ်စက်ဝိုင်းရှိ ကိန်းကို မကြာမကြာ ပြောင်းပေးရ မည်။ ဤလေ့ကျင့်ခဏ်းကို မိမိသည် အဖော်တယောက် နှင့် တလှည့်စီထောက်ပေး၍ တလှည့်စီ ဖြေဆိုရာသည်။ ဤနည်းအားဖြင့် တယောက်ကို တယောက်က ဉာဏ်စမ်း ရာလည်း ရောက်သဖြင့် စိတ်ဝင်စားမှု ဖြစ်ပေါ်တိုးတက် လာပေမည်။

ပုစ္ဆာ (၄)တွင် ၁၆ မှ ၉ ကိုနုတ်ယူရန် အောက်ပါ အတိုင်း ရေးသားရသည်။ ဤနေရာ၌ ၁၆ သည် အနုတ် တည်ကိန်း၊ ၉ သည် နုတ်ကိန်း၊ ၇ သည် အကျန်ဖြစ်သည်။

| | |
|---|---|
| အနုတ်တည်ကိန်း | ၁၆ |
| နုတ်ကိန်း | ၉ |
| အကျန် | ၇ |

အနုတ်ပုစ္ဆာ တပုဒ်ကို တွက်ပြီးသော် အဖြေမှန် မမှန်ကို စစ်ဆေး ကြည့်နိုင်ပါသည်။ အကယ်၍ အကျန်နှင့် နုတ်ကိန်းကို ပေါင်းခြင်းဖြင့် အနုတ်တည်ကိန်းကို ရသော် အဖြေသည် ထိုအဖြေမှန် ဖြစ်သည်။ ဤ စစ်ဆေးနည်းကို အနုတ်ပုစ္ဆာ အားလုံးတွင် အသုံးပြုနိုင်သည်။ အနုတ်တည်ကိန်းမှ အကျန်ကို နုတ်လျှင် နုတ်ကိန်းကိုရနိုင်သည်။

လွယ်ကူသော အနုတ် ပုစ္ဆာများကို တွက်ချက်၍ ကျင်လျင်လာသောအခါ ခက်သော အနုတ်ပုစ္ဆာတို့ကို တိုးတက် ဆက်လက်၍ လေ့လာ သင့်သည်။

ပုစ္ဆာ (၅)။ က နှင့် ခတို့သည် ၂၇၉ မိုင် ကွာဝေးကြ၍ ကနှင့် ဂတို့သည် ၄၆၅ မိုင် ကွာဝေး ကြသည်။ အကယ်၍ က၊ ခ၊ ဂ တို့သည် ဖြောင့်သော လမ်းတခုတည်းပေါ်တွင် တည်ရှိကြလျှင် ခ နှင့် ဂ တို့သည် မိုင်မည်မျှကွာဝေးကြသနည်း။

အထက်ပါ ပုစ္ဆာ (၅) ကို မတွက်မီ ကျွန်ုပ်တို့သည် အောက်ပါ လွယ်ကူသော အတွက်များကို ပဌမ စစ်ဆေးကြည့်ကြရသည်။

ပုစ္ဆာ (၁)။ ၃၆ သည် ၂၁ ထက် မည်မျှကြီး သနည်း။

| တွက်နည်း၊ |
|---|
| ၃၆ |
| ၂၁ |
| ၁၅ |

ခုဂဏန်းတွင် ၁ နှင့်မည်သည့် ဂဏန်းကို ပေါင်းလျှင် ၆ ရမည် နည်း။ (၁ နှင့် ၅ ပေါင်းလျှင် ၆ ရသဖြင့် ၅ ကို ခုဂဏန်း အောက်တွင်ရေး ပါ။) ဆယ်ဂဏန်းနေရာတွင် ၂ နှင့် မည် သည့်ဂဏန်းပေါင်းလျှင် ၃ ဖြစ်မည်နည်း။ (၂ နှင့် ၁ ပေါင်းလျှင် ၃ ရသောကြောင့် ၁ ကို ဆယ်ဂဏန်းအောက်တွင်ရေးပါ။) ဤ နည်းအားဖြင့် ၃၆ သည် ၂၁ ထက် ၁၅ ကြီး သည်ဟူသော အဖြေကို ရသည်။

ဝတ္ထုပစ္စည်းဖြင့် တွက်နည်း—ပုစ္ဆာ (၂)။ ၄၃ သည် ၂၆ ထက် မည်မျှကြီးသနည်း။

ပဲကြီး ၁၀ စေ့ဝင် အထုပ် ၆ ထုပ်နှင့် အစေ့ ၉ စေ့ကို ယူပါ။ ထိုနောက် အောက်တွင် ဖော်ပြသည့်အတိုင်း ပဲစေ့ များကို စီထားပါ။




ပုံ (၄)

ပုံ (က) သည် ပဲစေ့ ၂၆ စေ့၏ပုံဖြစ်၍ ပုံ (ခ) မှာပဲစေ့ ၄၃ စေ့၏ ပုံဖြစ်သည်။ ပုံ (ဂ) မှာ ပဲစေ့ ၁၀ စေ့ဝင်အထုပ် တထုပ်ကို ဖြေ၍ထားသည်မှတပါး တန်ဖိုး၌ ပုံ (ခ) နှင့် မခြားနားချေ။ ပုံ (က) တွင်ပါရှိသည့် ပဲစေ့၏အရေအတွက်ကို ပုံ (ဂ) မှ ခဲနှင့်ခြယ်ခြင်းဖြင့် ဖယ်ရှားလိုက်သောအခါ ၁၇ ကျန်သည်။

အပေါင်းနည်းသုံးခြင်း

| (က) | | (ခ) |
|---|---|---|
| ၂၆ | | ၂၆ |
| ၁၇ | မည်သည့်ဂဏန်း | |
| ၄၃ | | ၄၃ |

တဖန် (က) တွင် ပြထားသော အပေါင်းကိုကြည့်ပါ။ ထိုနောက် ၁၇ ကိုချန်လှပ်၍ (ခ) တွင် ပြထားသည့်အတိုင်း ရေးပါ။ မည်သည့်ဂဏန်းနှင့် ၆ ကိုပေါင်းသော် ၁၃ ရမည်နည်း။ ကွက်လပ်တွင် ၇ ခုကိုရေးပြီးသောအခါ ဆယ်ဂဏန်းတခုကို တည်ကိန်းသို့ ယူသွားရသောကြောင့် ဆယ်ဂဏန်းရေးရာတွင်ရှိသော ၂ သည် ၃ ဖြစ်လာသည်။ ၃ နှင့် မည်သည့်ဂဏန်းကိုပေါင်းလျှင် ၄ ရမည်နည်း။

| |
|---|
| ၄၃ |
| ၂၆ |
| ၁၇ |

ယခု ကျွန်ုပ်တို့သည် ၄၃ မှ ၂၆ ကို နုတ်လိုက်သောအခြေသို့ ရောက်လာပေပြီ။ ၆ သည် ၃ ထက်ကြီးသောကြောင့် ၆ မှနေ၍ ၁၀၊ ၁၀ မှတဖန် ၁၃ အထိ ရေတွက်ယူသည်။ ၆ နှင့် မည်သည့်ဂဏန်းကို ပေါင်းလျှင် ၁၃ ရမည်နည်း။ ၆+၇ = ၁၃ ဟုသိရသဖြင့် ၇ ကို ခုဂဏန်းများအောက်တွင် ရေးသည်။ ၁ ဆယ်ကို နုတ်ကိန်း၏ ဆယ်နေရာတွင်ရှိသော ၂နှင့် ပေါင်းပါ။ ရရှိသော ၃ နှင့် မည်သည့်ဂဏန်းကိုပေါင်းလျှင် ၄ ဖြစ်ရမည်နည်း။ (၃ + ၁ = ၄) ဖြစ်သောကြောင့် ဆယ်ဂဏန်းများအောက်တွင် ၁ ကို ရေးပါ။ ထိုကြောင့် ၄၃ မှ ၂၆ ကို နုတ်ယူသောအခါ ၁၇ ကိုရသည်။ အထက်ပါပုစ္ဆာ (၅) တွင် ခ နှင့် ဂ တို့ မည်မျှကွာဝေးသည်ကို သိလိုလျှင် ၄၆၅ မှ ၂၇၉ ကို နုတ်ယူရမည်ဖြစ်သည်။ အထက်ပါနည်းနှစ်ခုအနက် တခုခုကိုအသုံးပြုကာ နုတ်ယူသောအခါ ခ မှ ဂ အထိ ၁၈၆ မိုင်ဝေးသည်ကို သိရှိရသည်။

အနုတ်ပုစ္ဆာများကို တွက်ချက်ရာ၌ မှန်ကန်ခြင်းနှင့် လျင်မြန်ခြင်းရှိစေရန် လက်ချိုးရေတွက်ခြင်းနှင့် နှုတ်ဖြင့်ရွတ်ဆိုခြင်းကို လုံးဝပယ်ရပေမည်။ လွယ်ကူသော အနုတ်မှန်ကန်ချက် ၈၁ ခုကို အာဂုံဆောင်ပါ။ ထိုအပြင် လေ့ကျင့်ခန်းများကို မကြာမကြာတွက်ချက်လေ့ကျင့်၍ နုတ်ပြီးတိုင်း မိမိ၏ အဖြေ မှန်မမှန်ကို စစ်ဆေး ကြည့်ရသတည်း။

**အပိုင်းဂဏန်း။** ။ကိန်းပြည့်တခုကို အစိတ်အပိုင်းများဖြစ်အောင် ပြုလိုပ်လိုက်သောအခါ အစိတ်အပိုင်းအားလုံးတို့သည် တခုနှင့်တခု ညီမျှကြလျှင် ထိုအစိတ်အပိုင်းအသီးအသီးကို အပိုင်းဂဏန်းဟု ခေါ်သည်။ ထိုအပိုင်းဂဏန်းအားလုံးကို ပေါင်းသော် ထိုကိန်းပြည့်ကို

ပုံ (၁)



ပြန်လည်ရရှိနိုင်သည်။ အပိုင်းဂဏန်းကို နားလည်ဖို့ရန် ပုံ(၁) ကိုကြည့်ပါ။ ပုံ (၁) (က) သည် တလက်မရှည်သော မျဉ်းဖြစ်၍ ပုံ (၁) (ခ) မှာ တလက်မကို အလယ်တွင် နှစ်ပိုင်းအညီအမျှ ပိုင်းထားသောပုံ ဖြစ်သည်။ ထိုသို့ ပိုင်းထားသော အပိုင်းတခုစီသည် တလက်မ၏တဝက်၊ သို့မဟုတ် နှစ်ပုံတပုံဖြစ်သည်။ထိုတဝက်မျဉ်း အသီးအသီးကို တဖန် နှစ်ပိုင်းစီ ထပ်မံပိုင်းယူသော် ပုံ (၁) (ဂ) တွင်ပြထားသည့် အစိတ်ငယ်များကို ရသည်။ ဤအစိတ်ငယ်ပိုင်း လေးခုသည် တလက်မနှင့် ညီသောကြောင့် အစိတ်ငယ်တခုသည် တလက်မ၏ လေးပုံတပုံ ဖြစ်သည်။ တဝက်ကို နှစ်ပိုင်းပိုင်းယူသောအခါ ၁/၄ ဟူသော အစိတ်ငယ်များကို ရသဖြင့် တဝက်၏ ၂ ပုံ ၁ ပုံသည် တခု၏ ၄ ပုံ ၁ ပုံဖြစ်သည်။ အကျဉ်းအားဖြင့် ၁/၂ ၏ ၁/၂ = ၁/၄ ။







ပုံ (၂)

တဖန် ပုံ (ဂ) တွင် ပြထားသည့် အစိတ်ငယ် အသီးအသီးကို နှစ်ပိုင်းစီအညီအမျှ ပိုင်းလိုက်သောအခါ ပုံ (ဃ) တွင် တခုနှင့်တခု ညီမျှသော အစိတ်ငယ်ရှစ်စိတ် ဖြစ်ပေါ်လာသည်။ ဤအစိတ်ရှစ်ခုကိုပေါင်းလျှင် တလက်မဖြစ်သည်။ ထိုကြောင့် ဤအစိတ်ငယ်များသည် တလက်မ၏ ၁/၈ ဖြစ်သည်။ ၁/၄ ဟူသောအစိတ်ကို အလယ်တွင် နှစ်ပိုင်းပိုင်းလိုက်သောအခါ ၁/၈ ဟူသော အပိုင်းကို ရသဖြင့်၊ ၁/၄ ၏ ၁/၂ သည် ၁/၈ နှင့် ညီသည်။ ထိုအတူ ၁/၈ ၏ ၁/၂ သည် ၁/၁၆ ပုံနှင့် ညီသည်။

ပုံ (၁) (င) ကိုကြည့်ပါ။

ဥဒါဟရဏ်အားဖြင့် ၃ ၏ ၁/၂ ကိုရှာလိုလျှင် စက္ကူပေါ်တွင် သုံးလက်မရှည်သောမျဉ်းကိုဆွဲ၍ အလယ်တွင် နှစ်ပိုင်းစီအညီအမျှပိုင်းလိုက်သည်။ တပိုင်းစီကို တိုင်းယူသောအခါ ၁ ၁/၂ လက်မကိုရသည်။ ဤနည်းဖြင့် ၇၊ ၉၊ ၁၁ တို့၏ နှစ်ပုံတပုံကို ရှာပါ။

ပုံ(၁) (ဂ) တွင် ၁/၂ သည် (၁/၄ + ၁/၄)နှင့်ညီမျှကြောင်း တွေ့ရပြီ။ ထိုကြောင့် ၁/၄ ကို ၁/၄ နှင့်ပေါင်းလျှင် ၁/၂ ဖြစ်သည်ဟုဆိုနိုင်သည်။ တဖန် ၁/၂ နှင့် ၁/၄ ကို မျဉ်းပေါ်တွင် ထောက်ကြည့်ပါ။ ထိုအခါ ၁/၂ သည် (၁/၄ + ၁/၄) နှင့် ညီကြောင်းကိုရှင်း၊ (၁/၄ + ၁/၄ + ၁/၄) သည် ၃/၄ နှင့် ညီကြောင်းကိုရှင်း၊ သို့မဟုတ် (၁/၂ + ၁/၄) သည် ၃/၄ နှင့် ညီကြောင်းကိုရှင်း တွေ့ရှိရပေမည်။

ပုံ (၂) ကိုကြည့်ပါ၊ ၃/၄ ကို ၃/၄ နှင့်ပေါင်းသော် မည်မျှရမည်နည်း။

၃/၄ ကို ၃/၄ နှင့် ပေါင်းသောအခါ၌ ပဌမ ၃/၄ တွင် ဒုတိယ ၃/၄ မှ ၁/၄ ကိုယူ၍ပေါင်းထည့်လိုက်လျှင် လက်ကျန်ဖက်တွင် ၁/၂ ကျန်သဖြင့် ( ၃/၄ + ၃/၄ ) သည် ၁ ၁/၂ နှင့် ညီမျှကြောင်း တွေ့ရသည်။

အပိုင်းဂဏန်းများကိုပေါင်းရာ၌ ဖြစ်စေ၊ ကိန်းပြည့်များပေါင်းရာ၌ဖြစ်စေ မျိုးတူဂဏန်းများကိုသာပေါင်းနိုင်ကြောင်းကို အမြဲသတိပြုပါ။ ထိုကြောင့် ၁/၂ + ၃/၄ = (၁/၄ + ၁/၄) + ၃/၄ = ၅/၄

နှစ်လီစိတ်၊ လေးလီစိတ်ဂဏန်းများနှင့် စပ်လျဉ်းသည့် ပုစ္ဆာများ။

(၁) အောက်ပါအပိုင်းဂဏန်းများကိုပေါင်းပါ။

| | | | | | |
|---|---|---|---|---|---|
| ၁ ၁/၂ | ၃ ၁/၂ | ၄ ၁/၂ | ၇ ၁/၂ | ၈ ၁/၂ | ၇ ၁/၂ |
| ၂ ၁/၂ | ၂ ၁/၂ | ၃ ၁/၂ | ၆ ၁/၂ | ၆ ၁/၂ | ၈ ၁/၂ |

(၂) အောက်ပါအပိုင်းဂဏန်းများကိုနုတ်ပါ။

| | | | | | |
|---|---|---|---|---|---|
| ၃ | ၄ | ၆ | ၇ | ၈ | ၁၂ |
| ၁ ၁/၂ | ၂ ၁/၂ | ၃ ၁/၂ | ၂ ၁/၂ | ၅ ၁/၂ | ၆ ၁/၂ |

(၃) အောက်ပါအပိုင်းဂဏန်းများကိုပေါင်းပါ။

| | | | | | |
|---|---|---|---|---|---|
| ၄ ၃/၄ | ၃ ၃/၄ | ၇ ၁/၂ | ၆ ၁/၂ | ၈ ၃/၄ | ၆ |
| ၃ ၁/၄ | ၅ ၁/၂ | ၄ ၁/၄ | ၅ ၃/၄ | ၃ ၁/၄ | ၆ ၁/၄ |

(၄) အောက်ပါဂဏန်းများကိုနုတ်ပါ။

| | | | | | |
|---|---|---|---|---|---|
| ၃ ၁/၂ | ၄ ၁/၂ | ၆ ၁/၄ | ၇ ၃/၄ | ၈ ၁/၄ | ၇ ၃/၄ |
| ၁ ၁/၄ | ၁ ၃/၄ | ၄ ၁/၄ | ၃ ၃/၄ | ၆ ၁/၂ | ၅ ၁/၂ |

ရှစ်လီစိတ်ဂဏန်းများ။ ၁/၂ သည် (၁/၄ + ၁/၄) နှင့် ညီကြောင်းကိုရှင်း၊ ၁/၄ သည် (၁/၈ + ၁/၈) နှင့် ညီကြောင်းကိုရှင်း သိခဲ့ရပြီ။ ထိုကြောင့် ၁/၂ ကို ၁/၈ နှင့် ပေါင်းသောအခါ

၁/၂ + ၁/၈ = (၁/၄ + ၁/၄ ) + ၁/၈

$= (\frac{၁}{၈} + \frac{၁}{၈}) + (\frac{၁}{၈} + \frac{၁}{၈} + \frac{၁}{၈}$

$= \frac{၅}{၈}$ ရကြောင်းသိရသည်။

$\frac{၇}{၈}$ ကို $\frac{၇}{၈}$ နှင့် ပေါင်းလျှင် မည်မျှရမည်နည်း။ ပုံ(၁) (ဃ) ကိုပြန်ကြည့်လျှင် $\frac{၁}{၈}$ ပုံသည် ၈ ပုံ ၁ ပုံစီ ရှိသော အစိတ်ငယ်သုံးခုနှင့် ညီကြောင်းကိုရင်း၊ ၈ ပုံ ၅ ပုံသည် ၈ ပုံ ၁ ပုံ အစိတ်ငယ်ငါးခုနှင့် ညီကြောင်းကိုရင်း တွေ့မြင်ရသည်။ သုံးစိတ်နှင့် ငါးစိတ်သည် ရှစ်စိတ်ဖြစ်၍ တခုနှင့်ညီကြောင်းကိုရင်း တွေ့မြင်ရသည်။ (အဘယ်ကြောင့်ဆိုသော် တလက်မတွင် ၈ ပုံ ၁ ပုံ ရှိသော အစိတ် ရှစ်ခုရှိသော ကြောင့်တည်း)။ $\frac{၇}{၈}$ ကို $\frac{၇}{၈}$ နှင့်ပေါင်းရမည်ဆိုလျှင် ခုနစ်စိတ်နှင့် ခုနစ်စိတ်ပေါင်းပါ။ ရရှိသောပေါင်းလဒ် ၁၄ စိတ်မှ ယူလိုက်သော ရှစ်စိတ်သည် တခုနှင့်ညီသဖြင့် $\frac{၇}{၈} + \frac{၇}{၈}$ သည် $၁\frac{၆}{၈}$ နှင့်ညီသည်။ ပုံ(၁) (ဃ)ကို ပြန်ကြည့်လျှင် ရှစ်ပုံတပုံ အစိတ်နှစ်ခုစီသည် $\frac{၁}{၄}$ နှင့်ညီကြောင်း တွေ့ရပေမည်။

ထို့ကြောင့် $\frac{၇}{၈} + \frac{၇}{၈} = \frac{၁၄}{၈} = ၁\frac{၆}{၈} = ၁ \frac{၃ \times ၂}{၄ \times ၂}$ $= ၁\frac{၃}{၄}$

$\frac{၆}{၈}$ မှ $\frac{၃}{၄}$ သို့ပုံပြောင်းလိုက်ခြင်းကို အငယ်ဆုံးဂဏန်းသို့ဖွဲ့ကျဉ်းခြင်းဟု ခေါ်သည်။

အောက်ပါအပိုင်းဂဏန်းများကို ပေါင်းပါ။

| | | | | | | |
|---|---|---|---|---|---|---|
| $၃\frac{၁}{၈}$ | $၂\frac{၁}{၈}$ | $၅\frac{၁}{၄}$ | $၆\frac{၁}{၂}$ | $၅\frac{၁}{၂}$ | $၅\frac{၃}{၈}$ | $၄\frac{၃}{၄}$ |
| $၂\frac{၁}{၈}$ | $၄\frac{၃}{၈}$ | $၃\frac{၁}{၈}$ | $၄\frac{၁}{၈}$ | $၆\frac{၃}{၈}$ | $၃\frac{၁}{၈}$ | $၆\frac{၃}{၄}$ |

အောက်ပါအပိုင်းဂဏန်းများကိုနုတ်ပါ။

| | | | | | | |
|---|---|---|---|---|---|---|
| $၄\frac{၁}{၈}$ | $၅\frac{၁}{၈}$ | $၆\frac{၁}{၂}$ | $၆\frac{၃}{၈}$ | $၅\frac{၁}{၁}$ | $၆\frac{၃}{၄}$ | $၇\frac{၁}{၂}$ |
| $၃\frac{၁}{၈}$ | $၃\frac{၁}{၄}$ | $၄\frac{၁}{၈}$ | $၅\frac{၁}{၂}$ | $၃\frac{၇}{၈}$ | $၃\frac{၁}{၈}$ | $၄\frac{၇}{၈}$ |










ပုံ (၃)

**သုံးလီစိတ်များ။** ပုံတွင်ပြထားသကဲ့သို့ မျဉ်းတကြောင်းကိုရေးဆွဲ၍ အညီအမျှ သုံးပိုင်းပိုင်းလိုက်ပါ။ မျဉ်းတကြောင်းတွင် ညီမျှသော အပိုင်းသုံးပိုင်း ပါဝင်သောကြောင့် အပိုင်းတပိုင်းစီသည် $\frac{၁}{၃}$ နှင့်ညီမျှ၍ နှစ်ပိုင်းသည် $\frac{၂}{၃}$ နှင့်ညီမျှသည်။ ထိုနည်းတူ သုံးပိုင်းမှာ $\frac{၃}{၃}$ ၊သို့မဟုတ် ၁ နှင့်ညီမျှသည်။

ပုစ္ဆာ ၁ (က)။ $၃\frac{၁}{၃}$ ကို $၂\frac{၁}{၃}$ နှင့် ပေါင်းပါ။

တွက်နည်း။ $\frac{၁}{၃}$ ကို $\frac{၁}{၃}$ နှင့် ပေါင်းသော် $\frac{၂}{၃}$ ကိုရသည်။ ၃ + ၂ သည် ၅ နှင့် ညီသဖြင့် $၃\frac{၁}{၃} + ၂\frac{၁}{၃}$ သည် $၅\frac{၂}{၃}$ နှင့် ညီသည်။

(ခ) $၄\frac{၂}{၃}$ ကို $၂\frac{၂}{၃}$ နှင့် ပေါင်းပါ။

တွက်နည်း။ $\frac{၂}{၃}$ နှင့် $\frac{၂}{၃}$ ကိုပေါင်းသော် $၁\frac{၁}{၃}$ ရသည်။ (၄+၂)သည် ၆ နှင့်ညီသဖြင့် $(၄\frac{၂}{၃} + ၂\frac{၂}{၃})$သည် $၇\frac{၁}{၃}$ နှင့်ညီသည်။

ပုစ္ဆာ ၂ (က)။ ၅ မှ $၁\frac{၂}{၃}$ ကို နုတ်ပါ။

တွက်နည်း။ ၅ မှ $၁\frac{၂}{၃}$ ကို နုတ်လိုသောအခါ ၅ ဖြစ်ရန် $၁\frac{၂}{၃}$ တွင် မည်သည့်ဂဏန်းပေါင်းထည့်ရမည်ကို ရှာပါ။ $၁\frac{၂}{၃}$ တွင် $\frac{၁}{၃}$ ကို ပေါင်းထည့်လျှင် ၂ ရသည်။ ၂ ကိုတဖန် ၃ ပေါင်းထည့်လျှင် ၅ ကိုရသည်။ ထို့ကြောင့် ၅− $၁\frac{၂}{၃}$ သည် $၃\frac{၁}{၃}$ ဖြစ်သည်။

ပုစ္ဆာ ၂ (ခ)။ $၆\frac{၁}{၃}$ မှ $၄\frac{၂}{၃}$ ကို နုတ်ပါ။

တွက်နည်း။ $၄\frac{၂}{၃}$ တွင် $\frac{၁}{၃}$ ထည့်ပေါင်းလျှင် ၅ ကိုရ၍၊ $၁\frac{၁}{၃}$ ထပ်ထည့်ပေါင်းလျှင် $၆\frac{၁}{၃}$ ကို ရသည်။ ထို့ကြောင့် $၆\frac{၁}{၃} - ၄\frac{၂}{၃}$ သည် $၁\frac{၂}{၃}$ နှင့် ညီသည်။

(၁) အောက်ပါဂဏန်းများကို ပေါင်းပါ။

| | | | | |
|---|---|---|---|---|
| $၃\frac{၁}{၃}$ | $၂\frac{၁}{၃}$ | $၅\frac{၂}{၃}$ | $၄\frac{၂}{၃}$ | ၆ |
| ၃ | $၃\frac{၁}{၃}$ | $၁\frac{၁}{၃}$ | $၃\frac{၂}{၃}$ | $၅\frac{၂}{၃}$ |

(၂) အောက်ပါဂဏန်းများကို နုတ်ပါ။

| | | | | |
|---|---|---|---|---|
| ၈ | $၄\frac{၁}{၃}$ | $၆\frac{၂}{၃}$ | $၇\frac{၁}{၃}$ | ၆ |
| $၂\frac{၁}{၃}$ | $၂\frac{၁}{၃}$ | $၃\frac{၁}{၃}$ | $၅\frac{၂}{၃}$ | $၄\frac{၂}{၃}$ |

ခြောက်လီစိတ်များ။ သုံးလီစိတ်ပြထားသောပုံ ၄ တွင် တပိုင်းလျှင် နောက်ထပ်နှစ်ပိုင်းစီ အညီအမျှ ပိုင်းလိုက်သောအခါ စုစုပေါင်း အပိုင်းခြောက်ခု ရရှိလာမည်။ ထိုအပိုင်း တခုစီသည် မူလမျဉ်း၏ ခြောက်ပုံတပုံ ဖြစ်သည်။ သုံးလီစိတ်အပိုင်း အသီးအသီးကို ညီမျှသော အပိုင်းနှစ်ပိုင်းဖြစ်အောင်အလယ်၌ ခွဲခြမ်းလိုက်သဖြင့် $\frac{၂}{၆}$ သည် $\frac{၁}{၃}$ နှင့်ရင်း၊ $\frac{၄}{၆}$ သည် $\frac{၂}{၃}$ နှင့်ရင်း၊ $\frac{၆}{၆}$ သည် ၁ နှင့်ရင်း အသီးအသီး ညီလေသည်။ အထက်ပါ $\frac{၁}{၆}$ , $\frac{၁}{၃}$ , $\frac{၁}{၂}$ $\frac{၂}{၃}$ , $\frac{၅}{၆}$ , ၁ ဟူသော ဂဏန်းများ ထင်ရှားလာစေသော မျဉ်းများကို ရေးဆွဲပါ။ ထိုမျဉ်းများ၌(ပုံ ၅ တွင်ပြထားသကဲ့သို့)ခြောက်ပုံ တပုံအပိုင်းများကိုလည်း ရေးမှတ်ထားပါ။ ထိုနောက်




ပုံ (၄)

ကြိုက်ရာအပိုင်းနှစ်ပိုင်းကို တခုနှင့်တခုဆက်၍ အပိုင်းဂဏန်းများကို ပေါင်းယူပါ။

ပုစ္ဆာ။ $\frac{၁}{၆} + \frac{၁}{၂}$




ပုံ (၅)

တွက်နည်း။ ပုံတွင် $\frac{၁}{၆}$ မျဉ်းကို $\frac{၁}{၂}$ မျဉ်းတွင် ဆက်ယူသောအခါ $\frac{၂}{၃}$ နှင့် တူညီကြောင်း တွေ့ရှိရသည်။

(၁) အောက်ပါအပိုင်းဂဏန်းများကို ပေါင်းပါ။

(က) $\frac{၁}{၂} + \frac{၁}{၆}$ (ခ) $\frac{၂}{၃} + \frac{၁}{၃}$

(ဂ) $\frac{၅}{၃} + \frac{၂}{၃}$ (ဃ) $\frac{၁}{၃} + \frac{၁}{၂}$

(င) $\frac{၅}{၆} + \frac{၂}{၃}$

တဖန် ကြိုက်ရာအပိုင်းနှစ်ပိုင်းကို ရွေး၍ ကြီးသောအပိုင်းမှ ငယ်သောအပိုင်းကိုနုတ်ပါ။

ပုစ္ဆာ။ $\frac{၁}{၂} — \frac{၁}{၆}$

တွက်နည်း။ $\frac{၁}{၆}$ မျဉ်းကို $\frac{၁}{၂}$ မျဉ်းပေါ်တွင် ထပ်၍ကြည့်သောအခါ $\frac{၂}{၆}$ မျဉ်းမှာ ကွက်လပ် ဖြစ်နေသည်ကို တွေ့ရသည်။

ထို့ကြောင့် $\frac{၁}{၂} — \frac{၁}{၆} = \frac{၂}{၆} = \frac{၁}{၃} \frac{\times}{\times} \frac{၂}{၂} = \frac{၁}{၃}$

(၂) အောက်ပါအပိုင်းများကိုနုတ်ပါ။

(က) $\frac{၁}{၃} — \frac{၁}{၆}$ (ခ) $\frac{၁}{၂} — \frac{၁}{၆}$ (ဂ) $\frac{၅}{၆} — \frac{၂}{၃}$

(ဃ) $\frac{၂}{၃} — \frac{၁}{၆}$

၁၂ လီစိတ်ဂဏန်းများ။

ခြောက်လီစိတ်ဂဏန်းအတွက် ရေးဆွဲထားသည့် ပုံတွင် $\frac{၁}{၆}$ ပြ မျဉ်းအသီးအသီးကို နှစ်ပိုင်းစီ အညီအမျှပိုင်းလျှင် အပိုင်းပေါင်း (မျဉ်းငယ်ပေါင်း) ၁၂ ကို ရရှိလာမည်။ ဤမျဉ်းငယ်တပိုင်းစီသည် $\frac{၁}{၁၂}$ နှင့်ညီသည်။ ခြောက်လီစိတ် အပိုင်းဂဏန်းများ တွက်စဉ်ကကဲ့သို့ အောက်ပါ အပိုင်းဂဏန်းပုစ္ဆာများကို တွက်ယူပါ။

(၁) ပေါင်းပါ၊

(က) $\frac{၁}{၁၂} + \frac{၁}{၆}$ (ခ) $\frac{၅}{၁၂} + \frac{၁}{၃}$

(ဂ) $\frac{၅}{၁၂} + \frac{၅}{၆}$ (ဃ) $\frac{၇}{၁၂} + \frac{၁}{၃}$

(င) $\frac{၅}{၁၂} + \frac{၅}{၆}$

(၂) နုတ်ပါ၊

(က) $\frac{၁}{၆} — \frac{၁}{၁၂}$ (ခ) $\frac{၁}{၃} — \frac{၁}{၁၂}$

(ဂ) $\frac{၂}{၃} — \frac{၅}{၁၂}$ (ဃ) $\frac{၅}{၆} — \frac{၇}{၁၂}$

(င) $\frac{၁၁}{၁၂} — \frac{၂}{၃}$

အပိုင်းဂဏန်းများကိုပေါင်းခြင်း။ $\frac{၁}{၃} + \frac{၁}{၃}$ သည် $\frac{၂}{၃}$ နှင့် ညီမျှကြောင်းကို သုံးလီစိတ် အပိုင်းဂဏန်းများတွင် တွေ့ရှိခဲ့ရပြီဖြစ်သည်။ မျိုးတူဂဏန်းများကိုသာ ပေါင်းနိုင် နုတ်နိုင်သဖြင့် ပေါင်းရန်ဖြစ်သော အပိုင်းဂဏန်းတို့နှင့် မတူသောပိုင်းခြေများရှိလျှင်၊ ရှေးဦးစွာ ထိုအပိုင်းဂဏန်းများကို အငယ်ဆုံး ဗုံပိုင်းအခြေခံသော အပိုင်းဂဏန်းများဖြစ်အောင် ဖွဲ့ယူရမည်။ ထိုသို့ဖွဲ့ပြီးသော ဂဏန်းများကို အထက်ပါအပေါင်းပုစ္ဆာတွက်သကဲ့သို့ ပေါင်းယူရမည်။

ပုစ္ဆာ $\frac{၁}{၃}$ နှင့် $\frac{၁}{၄}$ ကို ပေါင်းပါ။

တွက်နည်း

၄ ၏ ဆတိုး ကိန်းများမှာ ၄ ၊ ၈ ၊ ၁၂ စသော ဂဏန်းများဖြစ်ကြသည်။ ၃ ၏ ဆတိုး ကိန်းများမှာ ၃၊ ၆၊ ၉၊ ၁၂ စသော ဂဏန်းများဖြစ်၏။

ထို့ကြောင့် ၁၂ သည် အငယ်ဆုံး ဗုံပိုင်းခြေဖြစ်သည်။ $\frac{၁}{၃} + \frac{၁}{၄}$ ကိုအငယ်ဆုံးဗုံပိုင်းခြေခံ၍ ရေးသားပြီးပေါင်းယူသော် $\frac{၄}{၁၂} + \frac{၃}{၁၂} = \frac{၇}{၁၂}$ ကိုရသည်။

ပုစ္ဆာ။( ၁ ) ပေါင်းပါ။

$\frac{၁}{၆} + \frac{၃}{၈}$.

တွက်နည်း

၆ ၊ ၁၂ ၊ ၁၈ ၊ ၂၄ ၊ ၃၀ ၊ ၃၆ ၊ ၄၂ ၊ ၄၈ = ၆၏ ဆတိုးကိန်းများဖြစ်၍ ၊ ၈ ၊ ၁၆ ၊ ၂၄ ၊ ၃၂ ၊ ၄၀ ၊၄၈ = ၈ ၏ ဆတိုးကိန်းများဖြစ်သည်။ ( ၆ × ၈ )သည် ၆ နှင့် ၈ နှစ်မျိုးလုံး၏ ဆတိုးကိန်းဖြစ်သည်။ ၂၄ သည်လည်း ထိုဂဏန်းနှစ်မျိုးလုံး၏ ဆတိုးကိန်းဖြစ်သည်။

သို့သော် ၂၄ သည် အငယ်ဆုံး ဗုံပိုင်းခြေဖြစ်သည်။ အထက်ပါအပိုင်းဂဏန်းများကို အငယ်ဆုံး ဗုံပိုင်းခြေခံ၍ ပေါင်းယူသော် အောက်ပါအတိုင်း ရရှိသည်။

$\frac{၁}{၆} + \frac{၃}{၈} = \frac{၄}{၂၄} + \frac{၉}{၂၄} = \frac{၁၃}{၂၄}$

အသေးစိတ်တွက်နည်း ။$\frac{၁}{၆} + \frac{၃}{၈} = \frac{၁ \times ၄}{၆ \times ၄} + \frac{၃ \times ၃}{၈ \times ၃} = \frac{၄}{၂၄} + \frac{၉}{၂၄} = \frac{၁၃}{၂၄}$ ။

ပုစ္ဆာ ( ၂ )။ $\frac{၅}{၁၂} - \frac{၂}{၉}$

တွက်နည်း။ ၁၂၊ ၂၄၊ ၃၆၊ ၄၈၊ ၆၀၊ ၇၂၊ ၈၄၊ ၉၆၊ ၁၀၈ = ၁၂ ၏ ဆတိုးကိန်းများ။

၉၊ ၁၈၊ ၂၇၊ ၃၆၊ ၄၅၊ ၅၄၊ ၆၃၊ ၇၂၊ ၈၁၊ ၉၀၊ ၉၉၊ ၁၀၈ = ၉ ၏ ဆတိုးကိန်းများ။

(၉ × ၁၂)သည် ၉ နှင့် ၁၂ တို့၏ ဆတိုးကိန်းဖြစ်သည်။ ၃၆ နှင့် ၇၂ ဟူသော ကိန်းနှစ်ခုသည်လည်း ထိုဂဏန်းနှစ်မျိုးလုံး၏ ဆတိုးကိန်းများပင် ဖြစ်သည်။

သို့သော် ၃၆ သည် အငယ်ဆုံး ဗုံပိုင်းခြေဖြစ်သည်။ ထို့ကြောင့် $\frac{၅}{၁၂} - \frac{၂}{၉} = \frac{၁၅}{၃၆} - \frac{၈}{၃၆} = \frac{၇}{၃၆}$

**အပိုင်းဂဏန်းစစ်၊ အပိုင်းဂဏန်းယောင်နှင့် ကိန်းရောများ။**

အပိုင်းဂဏန်း တခု၏ ပိုင်းဝေသည် ပိုင်းခြေထက်ငယ်သောအခါ ထိုအပိုင်းဂဏန်းကို အပိုင်းဂဏန်းစစ်ဟု ခေါ်သည်။

ဥဒါဟရုဏ်။ $\frac{၁}{၃}$ ၊ $\frac{၂}{၅}$ ၊ $\frac{၁၇}{၂၅}$ တို့သည် အပိုင်းဂဏန်းစစ်များ ဖြစ်ကြသည်။

အပိုင်းဂဏန်း တခု၏ ပိုင်းဝေသည် ပိုင်းခြေထက်ကြီးသောအခါ ထိုအပိုင်းဂဏန်းကို အပိုင်းဂဏန်းယောင်ဟုခေါ်သည်။

ဥဒါဟရုဏ်။ $\frac{၅}{၃}$ ၊ $\frac{၇}{၅}$ ၊ $\frac{၂၈}{၂၅}$ တို့သည် အပိုင်းဂဏန်းယောင်များ ဖြစ်ကြသည်။

ကိန်းတခု၌ ကိန်းပြည့်နှင့် အပိုင်းဂဏန်း ရောပါလာလျှင် ထိုကိန်းကို ကိန်းရောဟု ခေါ်သည်။

ဥဒါဟရုဏ်။ $၃\frac{၁}{၅}$ သည် ကိန်းရောဖြစ်သည်။

အပိုင်းဂဏန်းယောင်များကို ကိန်းရောသို့၎င်း၊ ကိန်းရောကို အပိုင်းဂဏန်းယောင်သို့၎င်း ပြောင်းလဲနိုင်သည်။

ပုစ္ဆာ။ (၁) $\frac{၁၇}{၅}$ သည်မည်သည့်ကိန်းရောနှင့် ညီမျှသနည်း။

တွက်နည်း။ $\frac{၁၇}{၅} = ၁၇ \div ၅ = ၃\frac{၂}{၅}$

ပုစ္ဆာ။ (၂) $၆\frac{၃}{၇}$ သည် မည်သည့် အပိုင်းဂဏန်းယောင်နှင့် ညီမျှသနည်း။

တွက်နည်း။ $၆ = \frac{၆ \times ၇}{၇} = \frac{၄၂}{၇}$

$\therefore ၆\frac{၃}{၇} = \frac{၄၂}{၇} + \frac{၃}{၇} = \frac{၄၅}{၇}$

**ကိန်းရောများကို ပေါင်းခြင်းနှင့် နုတ်ခြင်း။**

ကိန်းရောများကို ပေါင်းရာတွင် အပိုင်းဂဏန်းတခုစီကို ဗုံပိုင်းခြေခံပြီး ပေါင်းရသည်။ သို့သော် ကိန်းပြည့်များကို ရှေးဦးစွာ သီးခြားပေါင်းပါ။

ပုစ္ဆာ။ $၁\frac{၁}{၂} + ၃\frac{၁}{၃} + ၂\frac{၃}{၈}$

တွက်နည်း။ အပိုင်းဂဏန်း တခုစီကို ဗုံပိုင်းခြေခံ၍ ရေးသောအခါ $\frac{၁}{၂}$ သည် $\frac{၁၂}{၂၄}$ ဟူ၍၎င်း၊ $\frac{၁}{၃}$ သည် $\frac{၈}{၂၄}$ ဟူ၍၎င်း၊ $\frac{၃}{၈}$ သည် $\frac{၉}{၂၄}$ ဟူ၍၎င်းအသီးအသီးဖြစ်လာသည်။

$\therefore ၁\frac{၁}{၂} + ၃\frac{၁}{၃} + ၂\frac{၃}{၈} = ၁+၃+၂+\frac{၁၂}{၂၄} + \frac{၈}{၂၄} + \frac{၉}{၂၄}$

$= ၆ + \frac{၁၂+၈+၉}{၂၄}$

$= ၆ + ၁\frac{၅}{၂၄} = ၇\frac{၅}{၂၄}$ ။

ကိန်းရောများကို နုတ်ရာတွင်လည်း ဤနည်းအတိုင်းပင် နုတ်ကြရသည်။

ပုစ္ဆာ။ $၁၀\frac{၁}{၆} - ၄\frac{၃}{၄}$

တွက်နည်း။ (၁) အပိုင်း ဂဏန်းကို ဗုံပိုင်းခြေခံ၍ ရေးယူသော အခါ $၁၀\frac{၂}{၁၂} - ၄\frac{၉}{၁၂}$ ကို ရရှိသည်။

သို့သော် $\frac{၂}{၁၂}$ မှ $\frac{၉}{၁၂}$ ကို မနုတ်လောက်။

ထို့ကြောင့် $၁၀\frac{၂}{၁၂} - ၄\frac{၉}{၁၂} = ၉\frac{၁၂+၂}{၁၂} - ၄\frac{၉}{၁၂} = ၅\frac{၅}{၁၂}$ (အဖြေ)

တွက်နည်း။ (၂) $\frac{၉}{၁၂} + (\frac{၅}{၁၂}) = \frac{၁၄}{၁၂} = ၁\frac{၂}{၁၂}$ ။

$၄ + ၁\frac{၂}{၁၂} + (၅) = ၁၀\frac{၂}{၁၂}$ ။

ထို့ကြောင့် $(၅\frac{၅}{၁၂})$ (အဖြေ)။

**အပိုင်းဂဏန်းအမြှောက်။** အပိုင်းဂဏန်းတွင် အမြှောက်ကို သေချာစွာ သိရှိနားလည်ဖို့ရန် အလျား ၆ လက်မ၊ အနံ ၄ လက်မရှိသော ထောင့်မှန် စတုဂံ ပုံတပုံကို ရေးဆွဲ၍ အလျားနှင့် အနံတွင် တလက်မ အကွာအဝေးကို သတ်မှတ်ပြီးသော် တဖက်ပါ ပုံအတိုင်း အလျား မျဉ်းနှင့် ထောင်လိုက် မျဉ်းများကို ရေးဆွဲပါ။ ထိုအခါ စုစုပေါင်း တလက်မစတုရန်းစီရှိသော အကွက်ငယ် ၂၄ ကွက်ပေါ်လာပေမည်။ ဤအကွက်ငယ်များသည် တခုနှင့်တခု တူညီကြသဖြင့် အသီးအသီးသည် မူလထောင့်မှန် စတုဂံ၏ $\frac{၁}{၂၄}$ နှင့် ညီသည်။

ပုံ (၆)



ပုံ (၇)

အကယ်၍ $\frac{၁}{၆}$ ကို $\frac{၁}{၄}$ နှင့် မြှောက်လိုလျှင် မူလစတုဂံ၏ $\frac{၁}{၆}$ ကို ပြသည့် မျဉ်းမတ် နှစ်ခုကြားရှိ ကော်လံကို ယူပါ။ (ထိုကော်လံတွင် $\frac{၁}{၄}$ အကွက်ကို အမည်းရောင် ချယ်၍ပြထားသည်။) ($\frac{၁}{၆} \times \frac{၁}{၄}$) ၏ အဓိပ္ပာယ်မှာ "$\frac{၁}{၆}$ ၏ ၄ ပုံ ၁ ပုံ"ဖြစ်သည်။ဒုတိယပုံအရ ($\frac{၁}{၆}$ ၏ $\frac{၁}{၄}$) $= \frac{၁}{၂၄}$ ထို့အတူ $\frac{၂}{၆} \times \frac{၁}{၄} = \frac{၂}{၂၄} = \frac{၁ \times ၂}{၁၂ \times ၂} = \frac{၁}{၁၂}$။ ပိုင်းခြေ နှင့် ပိုင်းဝေတွင် တူညီသော ဆခွဲကိန်းကိုပယ်လိုက်သည်။

ပုစ္ဆာ။ $\frac{၃}{၆} \times \frac{၃}{၄}$ $\left\{\left(\frac{၃}{၆} ၏ \frac{၁}{၄}\right) \times ၃\right\}$ မှာ $\frac{၃}{၆}$ ၏ ၄ ပုံ ၁ ပုံကို ၃ ဆပြုလုပ်ပါ ဟူသော အဓိပ္ပာယ် ရှိသည်။ သို့သော် တိုအောင် ဤသို့တွက်ပါ။

တွက်နည်း။ $\frac{၃}{၆} = \frac{၃}{၄} = \frac{၁}{၆} \times \frac{၃}{၄} = \times ၃ =$ $\left(\frac{၃}{၆} ၏ \frac{၁}{၄}\right) \times ၃$

$\frac{\frac{၃}{၆}}{၂} \times \frac{၃}{၄} = \frac{၃}{၈}$ ၊ သို့မဟုတ် $\frac{၃}{၆} \times \frac{၃}{၄} = \frac{၁ \times ၃}{၂ \times ၃} \times \frac{၃}{၄}$

$= \frac{၁}{၂} \times \frac{၃}{၄}$

$= \frac{၃}{၈}$

**အပိုင်းဂဏန်း အစားပုစ္ဆာ။** $၁ \div \frac{၁}{၃}$

**တွက်နည်း။** သုံးလီစိတ်အပိုင်းဂဏန်းပြပုံတွင် ၁ ၌ $\frac{၁}{၃}$ ဟူသော အပိုင်းပေါင်းသုံးပိုင်းပါရှိကြောင်း တွေ့ခဲ့သည်။

$၃ \times \frac{၁}{၃} = ၁$

ထို့ကြောင့် $၁ \div \frac{၁}{၃} = ၃$

**ပုစ္ဆာ (၁)။** $၆ \div \frac{၁}{၃}$

**တွက်နည်း။** $၁ \div \frac{၁}{၃} = ၃$

$၆ \div \frac{၁}{၃} = ၃ \times ၆ = ၁၈$ (တနည်းအားဖြင့်ဆိုသော် ၁ သည် $\frac{၁}{၃}$ ၏ ၃ ဆဖြစ်သည်။ ၃ ဆ၏ ၆ ဆသည် ၁၈ ဖြစ်သည်။)

**ပုစ္ဆာ (၂)။** $၅ \div \frac{၂}{၅}$

**တွက်နည်း။** $၁ \div \frac{၁}{၅} = ၅$ (၁ တွင် $\frac{၁}{၅}$ ဟူသော အပိုင်း ငါးခုရှိသောကြောင့်ဖြစ်သည်။)

$၅ \div \frac{၁}{၅} = \left\{(၅ \times ၁) \div \frac{၁}{၅}\right\} = \left\{၅ \times \left(၁ \div \frac{၁}{၅}\right)\right\}$

$= ၅ \times ၅ = ၂၅$

$\therefore ၅ \div \frac{၂}{၅} = ၅ \div \left(\frac{၁}{၅} \times ၂\right) = \left(၅ \div \frac{၁}{၅}\right) \div ၂$

$= \frac{၂၅}{၂} = ၁၂\frac{၁}{၂}$

**ပုစ္ဆာ (၃)။** $\frac{၃}{၄} \div \frac{၁}{၅}$

**တွက်နည်း။** $\frac{၃}{၄} \div \frac{၁}{၅} = \frac{၃}{၄} \times ၁ \div \frac{၁}{၅}$

$= \frac{၃}{၄} \times \left(၁ \div \frac{၁}{၅}\right)$

$= \frac{၃}{၄} \times ၅$

$= ၅ \times \frac{၃}{၄}$

$= \frac{၁၅}{၄}$

$= ၃\frac{၃}{၄}$

**ပုစ္ဆာ (၄)။** $\frac{၃}{၄} \div \frac{၃}{၅}$

**တွက်နည်း။** $= \frac{၃}{၄} \times \frac{၅}{၃} = \frac{၃ \times ၅}{၄ \times ၃} = \frac{၅ \times ၃}{၄ \times ၃}$

$= \frac{၅}{၄} = ၁\frac{၁}{၄}$

နောက်ဆုံးနည်းမှတပါး အထက်ဖော်ပြပါ နည်းများသည် နားလည်အောင် ရေးသားရသဖြင့် ရှည်လျားကြသည်။ နောက်ဆုံးနည်းသည် လက်သုံးဥပဒေကို ဖော်ပြသည်။ ဥပဒေကား ကိန်းတခုကို အပိုင်းဂဏန်းတခုနှင့် စားရာတွင် အပိုင်းဂဏန်း ပိုင်းခြေကို ပြောင်းပြန်လှန်ပြီးသော် တည်ကိန်းကို ပြောင်းပြန်လှန်ကိန်းနှင့် မြှောက်ရသည်။ ထိုနည်းတူ အပိုင်းဂဏန်း မြှောက်ခြင်းနှင့် သက်ဆိုင်သော လက်သုံးဥပဒေကား အပိုင်းဂဏန်း နှစ်ခုကိုမြှောက်ရာတွင် ပိုင်းဝေခြင်းမြှောက်၍ ပိုင်းခြေချင်းမြှောက်ရသည်။ ဥဒါဟရဏ်ကား $\frac{၃}{၅} \times \frac{၂}{၇} = \frac{၃ \times ၂}{၅ \times ၇} = \frac{၆}{၃၅}$

**အပုပ်နိုင်ဆေး။** ။အပုပ်နိုင်ဆေး (အန်တီဆက်ပတစ်) (အနာမယဉ်းဆေး)ဆိုသည်မှာ ရောဂါဖြစ်စေသည့် ဗက်တီးရီးယား ပိုးများကိုသတ်၍ ဗက်တီးရီးယားတို့ကြောင့်ဖြစ်သော ပုပ်သိုးခြင်းကို တားဆီးနိုင်သည့်ဆေးကို ဆိုသည်။ လူတို့သည် ဆီ၊ ဆားနှင့်တကွ အခြားဓာတ်ပစ္စည်းများကိုအသုံးပြု၍ အစာများကို မပုပ်မသိုးအောင် ကာကွယ်လေ့ရှိကြသည်။ ထိုနည်းကိုသိခဲ့ကြသည်မှာ ကမ္ဘာဦးအခါလောက်ကပင်ဖြစ်သည်ဟု ဆိုသင့်လေသည်။ သို့သော် အပုပ်နိုင်ဆေးကို ခွဲစိတ်ပညာတွင် စတင်အသုံးပြုခဲ့သည်မှာ ဗြိတိသျှလူမျိုး ဆရာဝန်ကြီးလစ်စတာလက်ထက် ခရစ် ၁၈၆၅ ခုနှစ်တွင်ဖြစ်သည်။ (လစ်စတာ့,ဂျိုးဇက် — ရှု။) လစ်စတာသည် ဗက်တီးရီးယားကြောင့် ရောဂါဖြစ်သည်ဟူသော ပါးစတား၏အဆိုကိုအခြေပြုပြီး စုံစမ်းမှုများကို ပြုလုပ်ခဲ့၏။ (ပါးစတား — ရှု။) သူ၏ယုံကြည်ချက်တခု

မှာ ဒဏ်ရာများ၌ပြည်တည်ခြင်းသည် ထိုဒဏ်ရာတွင် ဗက်တီးရီးယားများဝင်လာသောကြောင့် တည်ရသည်ဟူသော အချက် ဖြစ်လေသည်။ လစ်စတာသည် ခွဲစိတ်ရာ၌ ဗက်တီးရီးယားများ ဝင်မလာနိုင်အောင် အပုပ်နိုင်ဆေးသုံးနည်းကို ကြံစည်သည်။ ပဌမဆုံးသူသည် အညစ်အကြေးများကို သန့်စင်အောင်လုပ်ရာ၌ အသုံးပြုလေ့ရှိသည့် ကာဗောလစ်အက်ဆစ်ကို အပုပ်နိုင်ဆေးအဖြစ်ဖြင့် အသုံးပြုကြည့်သည်။ ကာဗောလစ်အက်ဆစ်ကို ခွဲစိတ်သည့်အခန်းတွင် ရောဂါပိုးများသေစေရန် ပက်ဖျန်းပေးရုံမျှမက အနာနှင့်တကွ ခွဲစိတ်သောကရိယာတန်ဆာပလာများ၊ စပန်းရေမြှုပ်နှင့် အနာစည်းပတ်တီးများကိုပါ ကာဗောလစ်အက်ဆစ်နှင့် စီရင်ပေးလေသည်။

လစ်စတာ ကွယ်လွန်ပြီးသည့်နောက်တွင် ခွဲစိတ်ပညာသည် တမျိုးတဖုံ ပြောင်းလဲ တိုးတက်ခဲ့ လေသည်။ အမြောက်အမြားပေါ်လာသော အပုပ်နိုင်ဆေးတို့တွင် မာကျူရစ်ကလိုရိုဒ်၊ မာကျူရိုကရုမ်၊ ဗောရစ်အက်ဆစ်၊ အိုင်အိုဒင်း၊ ဆီးလဗားဓာတ်ပေါင်းများနှင့် အခြားဩဂဲနစ်ပစ္စည်းများသည် အသုံးအများဆုံးဖြစ်လေသည်။ ခွဲစိတ်မှုမပြုလုပ်မီ ခွဲစိတ်ရာ၌သုံးမည့်ကရိယာများကိုရင်း၊ ဆရာဝန်နှင့် သူနာပြုဆရာမများကိုရင်း ဗက်တီးရီးယားများကင်းစင်အောင် ပြုလုပ်ထားတတ်လာကြလေသည်။ ခွဲစိတ်သည့်အခန်းကိုလည်း ဗက်တီးရီးယားများမဝင်နိုင်အောင် စီမံထားတတ်လာကြလေသည်။

ခွဲစိတ်ပညာနှင့်စပ်လျဉ်း၍ တွေ့ရှိမှုများအနက် အပုပ်နိုင်ဆေးကိုတွေ့ရှိမှုသည် အရေးပါ အရာရောက်ဆုံးသော တွေ့ရှိမှုတခု ဖြစ်သည်။ လစ်စတာခေတ်မတိုင်မီက ခွဲစိတ်ကုသခြင်းဟူသမျှသည် အလွန်စိုးရိမ်စရာ ဖြစ်ခဲ့လေသည်။ ခွဲစိတ်ကုသရာ၌အောင်မြင်သော်လည်း လူနာသည် အဆိပ်တက်၍သေဆုံးသွားတတ်လေသည်။ ထိုအခါက ခွဲစိတ်ခြင်းကို ခြေလက်များတွင်သာ အနည်းအကျဉ်း ပြုလုပ်နိုင်ခဲ့သော်လည်း ယခုအခါ၌မူကား မည်သည့်အင်္ဂါရပ်တွင်မဆို ဘေးအန္တရာယ်ကင်းရှင်းစွာနှင့် ပြုလုပ်နိုင်ပေပြီ။

ယခုအခါ အိမ်အခန်းများတွင် ကူးစက်တတ်သော ရောဂါပိုးများနှင့်တကွ အခြားပိုးမွှားများကို သုတ်သင်ရှင်းလင်းပစ်ရန် မှိုင်းတိုက်နည်းကို အသုံးပြုလေ့ရှိကြသည်။ မှိုင်းတိုက်လိုသောအခါ မှိုင်းတိုက်ပေးရမည့်နေရာကို အလုံပိတ်၍ အဆိပ်ဓာတ်ငွေ့များဖြစ်သော ဖောမဲဒီဟိုက်၊ ဆာလဖာဒိုင်အောက်ဆိုက်၊ သို့မဟုတ် ဟိုက်ဒြိုဆိုင်ယန်နစ်အက်ဆစ်ဓာတ်ငွေ့များကို လွှတ်ပေးသည်။ ဟိုက်ဒြိုဆိုင်ယန်နစ်အက်ဆစ်မှာ အလွန်ပြင်းထန်သောဓာတ်ငွေ့ဖြစ်၍ အသုံးပြုသောသူများကိုပင် သေစေတတ်သဖြင့် မြို့ပေါင်းများစွာတွင် ထိုဓာတ်ငွေ့ကိုအသုံးမပြုရန် တားမြစ်ထားလေသည်။ ဖော်ပြပါဓာတ်ငွေ့များသည် ရောဂါပိုးများနှင့် အခြားပိုးမွှားများကို နာရီအနည်းငယ်အတွင်း သေကြေပျက်စီးစေနိုင်သည်။

အပုပ်နိုင်နည်းနှစ်နည်းရှိသည်။ ပဌမနည်းမှာ အထက်တွင်ဖော်ပြသကဲ့သို့ ပိုးများကိုသေအောင် သုတ်သင်ပစ်သောနည်းဖြစ်၍ ဒုတိယနည်းမှာမူကား ပိုးများကိုထကြွခြင်းမရှိရအောင် နှိမ်ထားသောနည်းဖြစ်သည်။ လတ်ဆတ်သောအသားများတွင် အပုပ်နိုင်ဆေးအဖြစ် ဓာတ်များကို အသုံးမပြုနိုင်သဖြင့် ဒုတိယနည်းဖြစ်သော အအေးဓာတ်ပေးနည်းကို အသုံးပြုကြရသည်။ အအေးဓာတ်ပေးသောအခါ ပိုးများ၏ပုပ်သိုးအောင်လုပ်သောလုပ်ငန်းသည် ရပ်ရုံသာရပ်သွား၍ ပိုးများမှာမူကား သေဆုံးမသွားကြချေ။ အသားတွင် အအေးဓာတ်ပြယ်သွားသောအခါ ပိုးများပြန်လည်ထကြွလာကြပြီး အသားကို တဖန် ပုပ်သိုးအောင်ပြုကြပြန်လေသည်။

အသားနှင့် အသီးအနှံများကိုစည်သွတ်ရာ၌ ပဌမနည်းဖြစ်သော ပိုးသေအောင်သတ်နည်းတို အသုံးပြုကြလေသည်။ စည်သွတ်ရာတွင် အစာကိုကြပ်တိုက်၍ရင်း၊ ဆားနယ်၍ရင်း၊ အကျက်ချက်၍ရင်း ပြုလုပ်ပြီးမှ လေလုံသောစည်တွင်ထည့်ထားကြသည်။ ဤသို့ပြုလုပ်ခြင်းမှာ အစာထဲတွင် ရှိရင်းစွဲ ပုပ်သိုးစေတတ်သည့်ပိုးများကို သေသွားစေရန်အပြင် အစာထဲသို့ နောက်ထပ်၍ ပိုးအသစ်များ မဝင်ရောက်လာနိုင်ရန် ဖြစ်လေသည်။

သစ်သားများဆွေးမြည့်ခြင်းမှာလည်း ပိုးများကြောင့်ပင်ဖြစ်သည်။ ထိုသို့ဆွေးမြည့်ခြင်းမဖြစ်ရအောင် လေပြင်ဖော်ထားသောသစ်သားကို ကရီအိုဆုတ်ခေါ် သစ်ဆီတမျိုးဖြင့်ဖြစ်စေ၊ ကတ္တရာစေးဖြင့်ဖြစ်စေ သုတ်လိမ်းပေးရသည်။

**အဗာဒင်းမြို့။** ။အဗာဒင်းမြို့သည် စကော့တလန်ပြည် အရှေ့မြောက်ကမ်းခြေပေါ်တွင်တည်ရှိသော ပင်လယ်ဆိပ်ကမ်းမြို့ကြီးတမြို့ဖြစ်၍ အက်ဒင်ဗာရာမြို့မှ ၉၇ မိုင်၊ လန်ဒန်မြို့မှ ၅၂၇ မိုင်ကွာဝေးသည်။ အဗာဒင်းမြို့သည် ဒွန်းမြစ်နှင့် ဒီးမြစ်တို့အကြားတွင်ရှိသည်ဟု အကြမ်းအားဖြင့် ပြောဆိုကြသည်။ သို့ရာတွင် မြို့၏စည်ကားရာရပ်ကွက်တို့မှာ ဒီးမြစ်၏မြောက်ဖက် ဒီးမြစ်ဝအနီးတွင် ရှိပေသည်။

အဗာဒင်းမြို့သည် အလွန်ရှေးကျသော မြို့တမြို့ဖြစ်သည်။ ခရစ် ၇၀၀ ပြည့်နှစ်ခန့်က တည်ထောင်ခဲ့သည်ဟု အဆိုရှိသည်။ သို့သော် ၁၁၇၉ ခုနှစ်တွင်မှ မြို့အဖြစ်ပြဋ္ဌာန်းကျေညာခဲ့လေသည်။ အဗာဒင်းမြို့မှာ အဗာဒင်းခရိုင်၏မြို့တော်ဖြစ်ပြီးလျှင် ယခုအခါ စကော့တလန်ပြည်တွင် တတိယအကြီးဆုံးမြို့ဖြစ်လေသည်။

အဗာဒင်းမြို့အနီး ရုဗစ်လောအရပ်နှင့် ဒွန်းမြစ်ဝှမ်းတို့

မှ နှမ်းဖတ်ကျောက် အများအပြား တူးဖော်ရရှိသဖြင့် မြို့ပေါ်ရှိအဆောက်အအုံများစွာတို့ကို နှမ်းဖတ်ကျောက်များဖြင့် ဆောက်လုပ်ရုံမက ယင်းသည့် နှမ်းဖတ်ကျောက်များကို လန်ဒန်စသော မြို့ကြီးများသို့လည်း တင်ပို့ရောင်းချရသေးသည်။

မြို့မှာ စံနစ်တကျတည်ဆောက်ထားသည့်ပြင် ကျောက်သားဖြင့်ပြီးသောအိုးအိမ်တိုက်တာများကြောင့်သန့်ရှင်းလှပေသည်။ မိုးရွာပြီးစ အချိန်များတွင်ကျောက်ဖြင့်ဆောက်လုပ်ထားသော အဆောက်အအုံကြီးများမှာ ငွေသားကဲ့သို့ ဖြူဖွေးနေပေတော့သည်။ ထိုကြောင့် ဤမြို့ကို “ပင်လယ်အနီးက ငွေမြို့တော်ကြီး” ဟုပင် ခေါ်ကြသေးသည်။

အဗာဒင်းမြို့အနီး၌ ဆာမန်ငါးနှင့်အခြားပင်လယ်ငါးများကိုလည်း ရရှိသည်။ နှမ်းဖတ်ကျောက်၊ ငါးစိမ်း၊ ငါးဆားနယ်၊ သိုးမွေးနှင့်သားရေများကို ပြည်တွင်းပြည်ပများသို့ တင်ပို့ရောင်းချသည်။ မြို့ပတ်ဝန်းကျင်၌ စက္ကူလုပ်ငန်း၊ သစ်လုပ်ငန်း၊ ဘီးလုပ်ငန်းနှင့် အခြားအထည်လုပ်ငန်းများကိုလည်း လုပ်ကိုင်ကြသည်။ မြို့နယ်တွင် ပြည်တွင်းလုပ်ငန်းများ ထွန်းကားသဖြင့် ဤမြို့ကို “ဖူလုံသောမြို့” ဟုလည်း ခေါ်စမှတ်ပြုကြသည်။

အဗာဒင်းတက္ကသိုလ်သည် ဗြိတိန်ကျွန်းတွင် ရှေးအကျဆုံးတက္ကသိုလ်ဖြစ်သည်။ ၁၄၉၄ ခုနှစ်တွင် အဗာဒင်းတက္ကသိုလ်ကို ဘုရင့်ကောလိပ်အမည်ဖြင့် တည်ထောင်ခဲ့သည်။ မာရစ်ရှယ်ကောလိပ်ကျောင်းကိုကား ၁၅၉၃ ခုနှစ်တွင် တည်ထောင်သည်။ ၁၈၆၀ ပြည့်နှစ်သို့ ရောက်သောအခါ ယင်းကောလိပ်နှစ်ခုကို ပူးပေါင်း၍ တက္ကသိုလ်တခုတည်းအဖြစ် တည်ထောင်လိုက်သည်။ မာရစ်ရှယ်ကောလိပ်ကျောင်းကို နှမ်းဖတ်ကျောက်ဖြင့် ဆောက်လုပ်ထားရာ ကမ္ဘာပေါ်ရှိ ကျောက်ဖြင့်ဆောက်လုပ်သော အဆောက်အအုံကြီးများအနက် ဤအဆောက်အအုံမှာ အလှပဆုံးဖြစ်လေသည်။ အဗာဒင်းမြို့ပေါ်ရှိ သဒ္ဒါကျောင်းခေါ် အထက်တန်းကျောင်းမှာလည်း ၁၂၆၂ ခုနှစ်ကစ၍ တည်ထောင်လာခဲ့ခြင်းဖြစ်သည်။

အဗာဒင်းမြို့မှာ အနောက်ဖက်ရှိ စကော့တလန်ကုန်းမြင့်ဒေသနှင့် အရှေ့မြောက်ဖက်ရှိ မြေနိမ့်ပိုင်းတို့အကြားတွင် ရှိရကား ကုန်စည်ကူးသန်းမှုထွန်းကားရာ အချက်အခြာနေရာလည်း ဖြစ်ပေသည်။

အဗာဒင်းမြို့၏ အကြီးအကျယ်ဆုံးသောထွက်ကုန်မှာ ငါးပင်ဖြစ်သည်။ သင်္ဘောဆိပ်များတွင် ငါးဖမ်းသင်္ဘောများကို တွေ့ရှိနိုင်သည်သာမက ဤမြို့၌ ငါးလုပ်ငန်းသုတေသနဌာနများပင် ဖွင့်လှစ်ထားရှိလေသည်။

အဗာဒင်းမြို့လယ်ကို ယူနီယန်လမ်းမကြီး ဖြတ်သွားသည်။ မြို့တော်ခန်းမကြီး၊ ဈေးသစ်ကြီး၊ အနုပညာပြ



အဗာဒင်းမြို့တွင်းတနေရာ၏ရှုခင်း

တိုက်၊ စစ်မော်ကွန်းကျောက်တိုင်၊ ဈေးရှေ့မော်ကွန်းတိုင်နှင့် စိန်မတ်ချာဘုရားရှိခိုးကျောင်းတို့မှာ ထင်ရှားသောအဆောက်အအုံများဖြစ်ကြသည်။ မြို့နှင့်ငါးမိုင်ခန့်အကွာတွင် လေဆိပ်ဘခုရှိသည်။

အဗာဒင်းမြို့သည် ဗြိတိန်ကျွန်း၏ မြောက်ဖက်အပိုင်းတွင်ရှိသော်လည်း နွေရာသီ၌ ညဥ့် ၁၀ နာရီကျော်အထိ နေရောင်ကို တွေ့မြင်ရလေသည်။ လန်ဒန်မြို့ထက် တနာရီ ၁၅ မိနစ်ခန့် နေကိုပို၍မြင်ရသည်။ တနှစ်အတွင်း နာရီပေါင်း ၁၄၁၁ နာရီမျှ နေကိုမြင်ရလေသည်။ ထို့ကြောင့် နွေရာသီ၌ အထူးလှပသာယာသောမြို့တမြို့ ဖြစ်ပေသည်။ ပတ်ဝန်းကျင်မှာလည်း တောပန်း တောင်ပန်းများဖြင့် ဝေဆာဘင့်တယ်လှပေသည်။ အထူးသဖြင့် ဒီးမြစ်ကမ်းတလျှောက်မှာ သာယာကြည်နူးဖွယ်ကောင်းလှရကား နှစ်စဉ်နှစ်တိုင်း ခရီးသည်များလာရောက်လည်ပတ်လေ့ရှိကြသည်။

၁၉၇၁ ခုနှစ် ခန့်မှန်းခြေစာရင်းအရ အဗာဒင်းမြို့၌ လူဦးရေ ၁၈၁,၇၈၅ ယောက်ရှိသည်။

**အဗေလား,ပီယဲ** ( ခရစ် ၁၀၇၉–၁၁၄၂ )။ ။ပီယဲ အဗေလားသည် ထင်ရှားသော ပြင်သစ်လူမျိုးဒဿနိက



အဗေလားနှင့် အေလိုအီးတို့၏ ရုပ်အလောင်းများထားရှိရာ သင်းချိုင်းဂူ

ဗေဒနှင့် ဗြဟဒေဝဗေဒပညာရှင်တဦး ဖြစ်သည်။ ၁၀၇၉ ခုနှစ်တွင် ပြင်သစ်နိုင်ငံအနောက်မြောက်ဖက်ရှိ ဗရစ်တန္နီနယ် နန့်မြို့အနီး ပဲလေးရွာ၌ မှူးမတ်မျိုးရိုးမှ ဖွားမြင်ခဲ့၍ သားအကြီးဆုံးဖြစ်သည်။ အဗေလားသည် စာပေတတ်မြောက်၍ ပညာတတ်ပုဂ္ဂိုလ်တဦး ဖြစ်လိုသည့်ရည်ရွယ်ချက် ရှိသည့်အားလျော်စွာ မိဖဘိုးဘွားတို့၏ အမွေအနှစ်ဖြစ်သော စည်းစိမ်ဥစ္စာတို့ကိုစွန့်လွှတ်၍ ပညာကိုသာ အပတ်တကုတ်ကြိုးစားသင်ကြားလေသည်။ မိဖအမွေအနှစ်များနှင့်သာ နေထိုင်သွားပါက တသက်ပတ်သုံး ဆင်းရဲငြိုငြင်မှု မရှိပဲ အထက်တန်းကျကျ နေထိုင်သွားနိုင်ပေသည်။ အဗေလားသည် သင်္ချာ၊ ဂီတ၊ ဥပဒေပညာ၊ အလယ်ခေတ်က ခေတ်စားလျက်ရှိသော ဗြဟဒေဝဗေဒ စသည့် ပညာရပ်အမျိုးမျိုးကို သင်ကြားခဲ့သည်။

အဗေလားသည် ဦးစွာ၌ မိမိမွေးဖွားရာဗရစ်တန္နီတွင် ဆရာတဦးထံ၌ ပညာသင်ကြား၏။ အသက် ၂၀ အရွယ်ခန့်တွင် ပါရစ်မြို့ရှိ နိုထရာဒမ်ဘုရားရှိခိုးကျောင်းကြီးတွင် အခြားဆရာတဦးထံ၌ ပညာဆက်လက်ဆည်းပူးပြန်သည်။ ဗဟုသုတကြွယ်ဝသည့်ပြင် ပညာဉာဏ်အလွန်ထက်မြက်ရကား ပါရစ်မြို့၌ ပညာဆည်းပူး၍ မျှားမကြာမီပင် သင်ဆရာထက်ကျော်လွန်၍ တတ်မြောက်ခဲ့လေသည်။ ဝါဒဆွေးနွေးပွဲများ၌ ဆရာနှင့်တပည့်အငြင်းပွားမှုများ ဖြစ်ခဲ့ရာ တပည့်က ဆရာကို အနိုင်ရရှိနေသည်နှင့် ဆရာတပည့်အဆင်မပြေမှုများ ဖြစ်ခဲ့သည်။ နောက်ဆုံးတွင် အဗေလားသည် ဘုရားရှိခိုးကျောင်းမှ ထွက်ခွာသွားရလေသည်။ ယင်းသို့ ထွက်ခွာသွားပြီးနောက် ပါရစ်မြို့အနီးအနားတွင် မိမိကိုယ်တိုင် ကျောင်းဆောင်၍ တပည့်များစွာတို့အား ပညာသင်ကြားပေးလာခဲ့ရာ မျှားမကြာမီပင် အလွန်ဆင်ရှားသောဆရာကြီးတဦး ဖြစ်လာလေသည်။ အဗေလားသည် ယုတ္တိဗေဒ၌အထူးစိတ်ဝင်စားသည့်ပြင် ဗြဟဒေဝဗေဒ၌လည်း ပြောင်မြောက်သဖြင့် သူ့ခေတ်ရှိ ပညာတတ်ပုဂ္ဂိုလ်များထဲတွင် ကျော်ကြားသော ပညာရှင်တဦးအဖြစ် လွန်စွာမှထင်ရှားလာလေသည်။ ပြင်သစ်နိုင်ငံမှ ကျောင်းသားများသာမက ဥရောပတတိုက်လုံးလောက်မှ ဆောင်သောင်းမကသော ကျောင်းသားများသည်လည်း သူ၏သင်တန်းသို့ တက်ရောက်နာယူကြသည်။ သူ၏ဟောပြောပွဲရှိရာသို့ အစဉ်လိုက်၍ နားထောင်ကြသော လူထုပရိသတ်မှာလည်းနည်းလှသည်မဟုတ်ပေ။ ယင်းသို့ဖြင့် အဗေလား၏ကျော်စောထင်ရှားမှုမှာ အထွတ်အထိပ်သို့ ရောက်ခဲ့လေသည်။ ၁၁၁၅ ခုနှစ်တွင် သူသည် နိုထရာဒမ်ဘုရားရှိခိုးကျောင်း၌ ဆရာနှင့်လက်သောက်ဘုန်းကြီးဖြစ်လာရာ သူ၏အယူအဆနှင့်ဝါဒကို သက်ဝင်ယုံကြည်ကြသော ပရိသတ်ကြီးသည် နိုထရာဒမ်သို့ဧရုံးလာကြသည်။ ထိုအခါက အဗေလားလောက် လူထုပရိသတ်၏စိတ်ဓာတ်ကို ဆွဲဆောင်နိုင်သောသတ္တိမည်သည့်ဆရာတဦးတယောက်တွင် မျှမရှိခဲ့ချေ။

သို့ရာတွင် အဗေလား၏ကံကြမ္မာ ညှိုးမှိန်စပြုလာသောအခါ သူ့အားအဖက်ဖက်မှ အကုသိုလ်ကံအမျိုးမျိုး ဖိစီးနှိပ်စက်လာတော့၏။ အဗေလားသည် တတ်သိလိမ်မာ၍ ရုပ်ဆင်းအင်္ဂါလှပသော နိုထရာဒမ် ဘုရားရှိခိုးကျောင်းဘုန်းတော်ကြီးဖူးလဗတ်၏တူမ အသက် ၁၇ နှစ်အရွယ်ရှိ အေလိုအီးနှင့် စာသင်ကြားပေးယင်း အလွန်အမင်းချစ်ကြိုက်ခဲ့ကြသည်။ ယင်းအဖြစ်အပျက်ကို ဦးလေးတော်သူ သိရှိသောအခါ စိတ်ဆိုးသဖြင့် ချစ်သူနှစ်ဦးတို့ ဗရစ်တန္နီသို့ ထွက်ပြေးခဲ့ကြသည်။ သားတယောက်မွေးဖွားပြီးနောက် လျှို့ဝှက်စွာ လက်ထပ်လိုက်ကြ၏။ သို့သော် အေလိုအီးသည် အဗေလား၏သာသနာ့ဝန်ထမ်းလုပ်ငန်း တိုးတက်ကြီးပွားမှုတွင် အဟန့်အတား အနှောင့်အရှက်ဖြစ်မည်စိုးသဖြင့် လက်ထပ်ခဲ့ခြင်းကို မည်သူ့ကိုမျှအသိမပေးပဲ လျှို့ဝှက်စွာထားရှိခဲ့ရာမှ နောက်ဆုံးတွင် လူအများသိရှိသွားလေသည်။ သို့ဖြင့် အေလိုအီးသည် ပါရစ်မြို့ သီလရှင်ကျောင်းတကျောင်းသို့ သွားရောက်နေထိုင်လိုက်၏။ ဤ

အကြောင်းအရာကို ဦးလေးတော်သူ ဖူးလဗတ် သိရှိသွားသောအခါ သူ၏တူမအား အဗေလားပစ်သွားပြီအထင်နှင့် အလွန်ဒေါသဖြစ်ကာ လက်စားချေသည့်အနေဖြင့် ညဥ့်အချိန် အဗေလား၏အခန်းထဲသို့ဝင်၍ တသက်လုံး လူစဉ်မမှီအောင် ရက်စက်စွာ သင်းကွပ်လိုက်လေသည်။ အဗေလားသည် အလွန်စိတ်ပျက်သဖြင့် စိန့်ဒိနစ်ဘုရားရှိခိုးကျောင်းသို့ဝင်၍ ဘုန်းကြီးလုပ်၏။ အေလိုအီးလည်း သီလရှင်လုပ်လိုက်သည်။ သို့ဖြင့် ချစ်သူနှစ်ဦးတို့၏ ဘဝဇာတ်လမ်းသည် တဦးနှင့်တဦး အထွန်ချစ်လျက်နှင့် နိဂုံးသတ်လိုက်ရတော့သည်။

အဗေလားသည် နောက်တနှစ်တွင် ပြဟဒေဝဗေဒကျောင်းဖွင့်၍ တပည့်အပေါင်းတို့အား သင်ကြားပေးသေး၏။ သို့ရာတွင် ရှေးက သူ၏ရန်သူဖြစ်ခဲ့သောပုဂ္ဂိုလ်တို့က ယခုအခါ သူ့အားဝိုင်း၍ ရန်ရှာလာကြ၏။ အနှောင့်အရှက်ပြုလာကြ၏။ ပျက်စီးချိန်ရောက်လာလျှင်ပင် အဗေလားသည် နောက်ဆုံးတွင်မိစ္ဆာဒိဋ္ဌိအဖြစ်ဖြင့် အများပြည်သူတို့၏ရှုတ်ချခြင်းကို ခံရလေသည်။ ကျန်းမာရေးလည်း ချို့တဲ့လာရကား ၁၁၄၂ ခုနှစ် ဧပြီလ ၂၁ ရက်နေ့တွင် သေဆုံးသွားလေသည်။ အဗေလားသေဆုံးသွားသော်လည်း သူ၏ ပြဟဒေဝဗေဒဆိုင်ရာ အယူအဆဝါဒကား ကျန်ရစ်ခဲ့သည်။ သူ၏သင်ကြားပြသမှုကြောင့် ပါရစ်တက္ကသိုလ်သည် ဥရောပတိုက်တွင် ပညာသင်ကြားရာဗဟိုဌာနကြီး ဖြစ်ခဲ့လေသည်။

အေလိုအီးသည် အဗေလားနှင့် ခွဲခွာနေခဲ့ရပြီးသည်နောက် ချစ်သူထံရေးခဲ့သောစာများအရ အေလိုအီး၏ မြင့်မြတ်သော စိတ်နေသဘောထားများသည် ခေတ်အဆက်ဆက် စံတင်ရလောက်အောင် ချီးကျူးထိုက်ပေသည်။ သီလရှင်ဘဝနှင့် နှစ်ပေါင်းများစွာ နေခဲ့ပြီးသည်နောက် အေလိုအီးသည် အဗေလားသေဆုံးပြီး၍ ၂၂ နှစ်အကြာ ၁၁၆၄ ခုနှစ်တွင် သေဆုံးသွားလေသည်။ နောင်အခါ ထိုချစ်သူနှစ်ဦး၏ ရုပ်အလောင်းများကို ပါရစ်မြို့သို့ ယူဆောင်၍ အတူတူယှဉ်ပြိုင်မြှုပ်နှံထားလေသည်။

**အဘိဓာန်**။ ။အဘိဓာန်ဆိုသည်မှာ ဘာသာရပ်တခု၏ ဝေါဟာရစကားလုံးများကို အက္ခရာဝလိအရ စီစဉ်၍ အနက်အဓိပ္ပါယ်နှင့် အခြားသိအပ်သော အချက်အလက်တို့ကို ထိုဘာသာရပ်ဖြင့်ဖြစ်စေ၊ အခြားဘာသာတရပ်ရပ်ဖြင့်ဖြစ်စေ ဖော်ပြထားသော စာအုပ်ဖြစ်သည်။ အဘိဓာန်အမျိုးမျိုးရှိလေသည်။

ပုံစံအားဖြင့် အင်္ဂလိပ်မြန်မာအဘိဓာန်တွင် ပဌမဆုံး အင်္ဂလိပ်အက္ခရာအေ ( A ) မှ နောက်ဆုံးအက္ခရာ( Z ) အထိ အက္ခရာအစဉ်အတိုင်း စကားလုံးများကို မြန်မာအနက်အဓိပ္ပါယ်သို့ပြန်ဆိုထားခြင်းဖြစ်၏။ ထိုအတူမြန်မာအင်္ဂလိပ်အဘိဓာန်တွင် ပဌမဆုံး မြန်မာအက္ခရာ (က) မှ နောက်ဆုံးအက္ခရာ (အ) အထိ မြန်မာဝေါဟာရစကားလုံးများကို အက္ခရာအစဉ်အတိုင်းစီစဉ်၍ အင်္ဂလိပ်ဘာသာဖြင့် အနက်အဓိပ္ပါယ် ဖော်ပြထားခြင်း ဖြစ်သကဲ့သို့ မြန်မာအဘိဓာန်တွင် မြန်မာအက္ခရာ (က) မှ (အ) အထိ မြန်မာဝေါဟာရစကားလုံးများကို မြန်မာဘာသာဖြင့် အနက်ဖွင့်ဆိုထားခြင်း ဖြစ်လေသည်။

မြန်မာနိုင်ငံရှိ အင်္ဂလိပ်စကားလုံးများကို မြန်မာသို့ အနက်ပြန်ထားသော အဘိဓာန်များထဲတွင် ဂျပ်ဆင်အဘိဓာန်၊ ထိုနောက်ထွက်သော ဦးထွန်းညိမ်း အဘိဓာန်တို့ကို ယခုတိုင်သုံးစွဲလျက်ရှိကြ၏။ နောက်ဆုံးပေါ်နှင့်အစုံဆုံးအဘိဓာန်မှာ ဒေါက်တာဘဟန် ပြုစုသော တက္ကသိုလ် အင်္ဂလိပ်–မြန်မာအဘိဓာန်ဖြစ်၏။

ရန်ကုန်တက္ကသိုလ်၌ ၁၉၄၇ ခုနှစ်မှ စတင်၍ မြန်မာအဘိဓာန် ကျမ်းတစောင်ကို ပြုစုပုံနှိပ်ထုတ်ဝေလျက်ရှိရာ ၁၉၆၄ ခုနှစ်တွင် တက္ကသိုလ်မြန်မာအဘိဓာန်၊ အပိုင်း ၅ (ဆ)အက္ခရာ အထိ ပုံနှိပ်ထုတ်ဝေခဲ့ပြီးဖြစ်သည်။ (မြန်မာအဘိဓာန် — လည်းရှု။)

သို့သော်လည်း မြန်မာနိုင်ငံတွင် တပြေးညီစွာ တညီတညွတ်တည်း လက်ခံသုံးစွဲနိုင်လောက်အောင် ကျယ်ပြန့်ပြည့်စုံသည့် မြန်မာအဘိဓာန်ကြီးတဆူ လိုအပ်နေသည်ကို သိမြင်ပြီးဖြစ်သော မြန်မာနိုင်ငံတော်လှန်ရေးအစိုးရသည် ၁၉၆၉ ခုနှစ်တွင် ထိုအဘိဓာန်ပြုစုရေးအတွက် ပညာရေးဝန်ကြီးဌာန ဒုတိယဝန်ကြီးဒေါက်တာညီညီ ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည့် မြန်မာစာကော်မီရှင်အဖွဲ့ကို တာဝန်ပေးအပ်ခဲ့သည်။

မြန်မာစာကော်မီရှင်အဖွဲ့သည် မိမိစုဆောင်းရရှိထားသော ဝေါဟာရများကို "လုပ်သားပြည်သူ့နေ့စဉ်" နှင့် "ဗိုလ်တထောင်" သတင်းစာများတွင် ထည့်သွင်းကျေညာ၍ ရဟန်းရှင်လူ ပြည်သူများ၏ ဖြည့်စွက် အကြံပေးချက်များကို တောင်းခံခဲ့၏။ ရဟန်းရှင်လူပြည်သူများကလည်း အားကြိုးမာန်တက် ဖြည့်စွက်အကြံပေးခဲ့ကြသည်။ မြန်မာစာ ကော်မီရှင်အဖွဲ့သည် မူလ စုဆောင်းထားသော ဝေါဟာရများနှင့် ပြည်သူတို့ ဖြည့်စွက်ပေးပို့သည့် ဝေါဟာရများကို စုပေါင်း၍ အဘိဓာန် ဝေါဟာရမူကြမ်း စာအုပ်များ ပုံနှိပ်ခဲ့သည်။ ထိုမူကြမ်း စာအုပ်များကို မြန်မာစာကော်မီရှင်၏ အဘိဓာန်ပြုစုရေးလုပ်ငန်းတွင် ပါဝင် ကူညီရန်အတွက် လမ်းစဉ်ပါတီ ဌာနချုပ်၏ ညွှန်ကြားချက်အရ မြို့နယ်ပါတီယူနစ်နှင့် မြို့နယ်လုံခြုံရေးနှင့် အုပ်ချုပ်မှုကော်မီတီ အသီးအသီးတို့က ဦးဆောင်ဖွဲ့စည်းထားသည့် မြို့နယ် မြန်မာစာအဖွဲ့များသို့ ပေးပို့ခဲ့သည်။ မြို့နယ် မြန်မာစာ

အဖွဲ့ဝင်များက လေ့လာပြီးလျှင် ထိုမူကြမ်းစာအုပ်များတွင် မပါဝင်ပဲ ကြွင်းကျန်နေသေးသည့် ဝေါဟာရများကို ထပ်ဖြည့်ပေးရမည်။ ထိုဖြည့်စွက်ချက်များကို နောက်ထပ် ပေါင်းပြီးလျှင် အဘိဓာန်စာအုပ်ကြီး ထုတ်ဝေမည် ဖြစ်လေသည်။

မြန်မာစာ ကော်မီရှင်သည် က-အက္ခရာမှ မ-အက္ခရာအထိ ဝေါဟာရပေါင်း ၅၉,၅၇၂ လုံးကို အက္ခရာစဉ်အလိုက် မူကြမ်းစာအုပ် ငါးအုပ် ခွဲရိုက်ကာ သက်ဆိုင်ရာ မြို့နယ် မြန်မာစာအဖွဲ့အသီးအသီးသို့ပေးပို့ခဲ့ပြီးဖြစ်သည်။

ပြုစုနေဆဲ မြန်မာအဘိဓာန်ကြီးတွင် ယနေ့ မြန်မာနိုင်ငံ၌ ပြောဆို ရေးသား သုံးစွဲနေသည့် ဝေါဟာရများ၊ ရှေးက အသုံးပြုခဲ့သည့် ပေါရာဏများ၊ဒေသသုံး ဝေါဟာရများ၊ အတတ်ပညာဆိုင်ရာ ဝေါဟာရများ၊ ဘန်းစကားနှင့် ခေတ် စကားများ စသည်တို့ကို အကြွင်းအကျန်မရှိ ထည့်သွင်းဖော်ပြမည်ဖြစ်၍ ဝေါဟာရ တသိန်းခန့်ရှိမည်ဟု ခန့်မှန်းသည်။ ထိုပြင် ထိုဝေါဟာရများကို အဓိပ္ပါယ် ဖွင့်ပြရခြင်း၊ အကိုးအကား ထောက်ပြရခြင်း၊ လိုအပ်သည့်နေရာတွင် သရုပ်ဖော်ပုံများဖြင့် ပြရခြင်း၊ အသံထွက်ပုံပြရခြင်း၊ ဝေါဟာရ အရင်းအမြစ် ဖော်ပြရခြင်း စသည်တို့ကြောင့် ရေရှည်လုပ်ငန်းကြီးတရပ်ဖြစ်နေရကား အဘိဓာန်ကြီးမပေါ်သေးမီ လောလောဆယ်ဆယ် ရဟန်းရှင်လူ ပြည်သူလူထုတို့ အသုံးပြုသွားနိုင်ရန်အတွက် ဝေါဟာရ နှစ်သောင်းခန့် ပါဝင်မည့် အဘိဓာန်ချုပ်တခုကို ၁၉၇၄ ခုနှစ်အတွင်း ရှေးဦးစွာ ထုတ်ဝေနိုင်ရန် စီစဉ် ဆောင်ရွက်လျက် ရှိသည်။

အင်္ဂလိပ်အဘိဓာန် စာအုပ်ကြီးများထဲတွင် အောက်စဖို့ အဘိဓာန်မှာ စကားတလုံး၊ စာတပိုဒ်၏ မူလဇာစ်မြစ်ကိုရင်း၊ ရွတ်ဖတ်ရန် သံနေသံထားကိုရင်း၊ အခြား သက်ရောက်နိုင်သော အနက်တို့ကိုရင်း အသုံးအနှုန်း စသည်တို့ကိုပါ ဖော်ပြထားသည်ဖြစ်ရာ အဘိဓာန်ဟု ဆိုရစေကာမူ စွယ်စုံကျမ်းတမျှ စုံလင်လှပေသည်။

ဒေါက်တာ ဆယ်မျူယယ် ဂျွန်ဆင်ပြုစု၍ ၁၇၅၅ ခုနှစ်တွင်ပုံနှိပ်ထုတ်ဝေသောအင်္ဂလိပ်အဘိဓာန်သည် ပဌမဆုံးအဘိဓာန်ဖြစ်လေသည်။ထိုအဘိဓာန်ကိုရှစ်နှစ်တာမျှပြုစုရ၏။

အထူးသဖြင့် ဂရိဘာသာ စကားများ ပါဝင်သည့် လက်ဇီကွန်ခေါ် အဘိဓာန်မျိုးတွင် ဝေါဟာရစကားများ၊ ကေဝိနာမ်များ၏ အသံထွက်များ၊ အတိုင်းအတာနှင့် အခြင်အတွယ်များ၊ အဓိပ္ပါယ်တူ စကားလုံးများ၊ ဆန့်ကျင်ဖက် ဝေါဟာရများ စသည်ဖြင့် စုံလင်အောင် ပါရှိလေသည်။

သမ္မာကျမ်းစာနှင့် သက်ဆိုင်၍ ပြုစုထားသော အဘိဓာန်ကို ကျမ်းပြိုင်စာအုပ်ဟု ခေါ်သည်။ မျိုးခြားဘာသာစကားကို သင်ကြား လေ့လာရာ၌ အဘိဓာန် များမှ အထောက်အပံ့များစွာ ရနိုင်လေသည်။

**အဘိဓမ္မာ။** ။"အဘိဓမ္မာ"ဟူသော ဝေါဟာရသည် အဘိဟူသောဥပသာရနှင့် ဓမ္မသဒ္ဒါပေါင်းစပ်၍ဖြစ်သော အဘိဓမ္မဟူသောပါဠိမှ ဆင်းသက်လာသော ဝေါဟာရဖြစ်သည်။ သုတ္တန်ဓမ္မထက် သာလွန်ထူးခြားသည့်ဓမ္မဖြစ်သောကြောင့် အဘိသဒ္ဒါဖြင့်အထူးပြု၍ အဘိဓမ္မာဟု ဆိုလေသည်။ သုတ္တန်၌လည်း ခန္ဓာစသောပရမတ္ထတရားများ ဝေဖန်ထားသော်လည်း အဘိဓမ္မာ၌ကဲ့သို့ ထူးထူးခြားခြား အကျယ်ဝေဖန်မှုမရှိချေ။

ပိဋကတ်သုံးပုံတွင် အဘိဓမ္မာလည်း ပိဋကတ်တပုံဖြစ်ရာ၊ ထိုအဘိဓမ္မာပိဋကတ်၌ ဓမ္မသင်္ဂဏီ၊ ဝိဘင်း၊ ဓာတုကထာ၊ ပုဂ္ဂလပညတ်၊ ကထာဝတ္ထု၊ ယမိုက်၊ ပဋ္ဌာန်းဟူ၍ ကျမ်းအားဖြင့် ခုနစ်ကျမ်းရှိလေသည်။

ယင်းအဘိဓမ္မာ ပိဋကကို ဒေသနာဘေဒစသည်ဖြင့် ဝေဖန်ရသော်အာဏာဒေသနာ၊ဝေါဟာရဒေသနာ၊ပရမတ္ထဒေသနာဟူ၍ ဒေသနာအပြားသုံးပါးရှိရာတွင် များသောအားဖြင့် ပရမတ္ထတရားတို့ကိုသာ ဖူးရင်းထား၍ ဟောကြားရာဖြစ်သောကြောင့် ပရမတ္ထဒေသနာမျိုး ဖြစ်လေသည်။

ယထာပရာဓ သာသနာ၊ ယထာနုလောမ သာသနာ၊ ယထာဓမ္မသာသနာဟူ၍ သာသနာအပြားသုံးပါးရှိရာတွင် အကယ်စင်စစ်ထင်ရှားရှိသော ပရမတ္ထတရားတို့၌ သတ္တဝါတို့သည် ခွဲခြားဝေဖန်၍သိမြင်နိုင်စွမ်းမရှိသဖြင့် "ငါ"ဟူ၍ရင်း၊ "ငါ၏ဥစ္စာ"ဟူ၍ရင်း အတ္တအစွဲတည်းဟူသော အယူအဆလွဲမှားနေသူတို့အား တရားမှန်အတိုင်းသိမြင်အောင် ဆုံးမဟောကြားတော်မူသောကြောင့် ယထာဓမ္မသာသနာဟုခေါ်သည်။

သံဝရာသံဝရကထာ၊ ဒိဋ္ဌိဝိနိဝေဌနကထာ၊ နာမရူပပရိစ္ဆေဒကထာဟူ၍ ကထာအပြားသုံးပါးရှိရာ နာမ်ရုပ်နှစ်ပါးကို ပိုင်းခြားသိမြင်အောင် ဟောကြားရာ ဖြစ်သောကြောင့် နာမရူပပရိစ္ဆေဒကထာဟု ခေါ်သည်။

အဓိသီလသိက္ခာ၊ အဓိစိတ္တသိက္ခာ၊ အဓိပညာသိက္ခာဟူ၍ သိက္ခာအပြားသုံးပါးရှိရာ အဘိဓမ္မာပိဋကတ်၌ အဓိပညာဆိုင်ရာတို့ကို အထူးတလည်ဟောကြားတော်မူသည်။ ပရမတ္ထတည်းဟူသော ရုပ်နာမ်တို့ကို ဝိပဿနာဉာဏ်ဖြင့် ထိုးထွင်းသိမြင်၍မဂ်ဉာဏ်ဖိုလ်ဉာဏ်သို့ရောက်အောင်ဟောကြားရာဖြစ်သောကြောင့် အဓိပညာသိက္ခာဟု ခေါ်သည်။

ဝီတိက္ကမပဟာန်၊ ပရိယုဋ္ဌာနပဟာန်၊ အနုသယပဟာန်ဟူ၍ ပဟာန်အပြားသုံးပါးရှိရာ ပညာသည် အစဉ်ကိန်းဝပ်လျက်ရှိသော အနုသယကိလေသာ၏ ဆန့်ကျင်ဖက်ဖြစ်သောကြောင့် အနုသယပဟာန် မည်ပေ၏။

စကားအစဉ်၏နက်နဲခြင်း၊ အနက်အဓိပ္ပါယ်၏ နက်နဲခြင်း၊ ဖော်ထုတ်ဟောပြမှု၏ နက်နဲခြင်း၊ မှန်ကန်စွာသိရှိနားလည်မှု၏ နက်နဲခြင်း တည်းဟူသော နက်နဲခြင်းလေးမျိုးနှင့်လည်း ပြည့်စုံပေ၏။

ဤသို့လျှင် အမြင့်ဆုံးဒေသနာ၊ အကျယ်ဝန်းဆုံး သာသနာ၊ အနက်ဆုံးကထာ၊ အကြီးဆုံးသိက္ခာ၊ အထက်ဆုံးပဟာန် ဆိုင်ရာတို့ကို ဦးစားပေး၍ ဟောကြားတော်မူရာ အဘိဓမ္မာပိဋကတ် တရားမြတ်သည်ကား သာဝကဗောဓိဉာဏ်မျိုး၊ ပစ္စေကဗောဓိဉာဏ်မျိုးတို့ဖြင့် တီထွင်ဟောကြားနိုင်သည့်တရားမျိုး မဟုတ်ချေ။ သာမညပါရမီရှင်တို့ သိမြင်နိုင်ဖွယ်မရှိ၊ အလွန်ခဲယဉ်းလှသည့်ဤကိစ္စကို သမ္မာသမ္ဗုဒ္ဓမြတ်စွာသနင်း တရားမင်းတို့သာလျှင် ချင်းနင်းကုန်စင်တီထွင်၍ မယ်တော်မိနတ်သားကိုအမှူးထား၍ တာဝတိံသာနတ်ပြည်၌ နတ်အများတို့အား ဟောကြားတော်မူရခြင်း ဖြစ်ပေသည်။

ထို့ကြောင့်မိလိန္ဒပဉှာပါဠိတော် အရူပဓမ္မဝဝတ္ထာနပဉှာ၌လည်း အောက်ပါအတိုင်း ဟောကြားထားတော်မူသည်။

(မိလိန္ဒမင်းကြီး) မြတ်စွာဘုရား ပြုလုပ်ဆောင်ရွက်တော်မူခဲ့သည့် ခဲယဉ်းသောအရာ ရှိပါသလားဘုရား။

(အရှင်နာဂသိန်) ခဲယဉ်းသောအရာ ရှိပါသည်။

(မိလိန္ဒ) ခဲယဉ်းစွာပြုလုပ်ခဲ့သောအရာဟူသည် အဘယ်ပါနည်းဘုရား။

(နာဂသိန်) မြတ်စွာဘုရားသည် တခုတည်းသောအာရုံ၌ ဖြစ်ကြသည့် စိတ် စေတသိက် နာမ်တရားတို့ကို "ဤတရားသဘောကား ဖဿတည်း၊ ဤတရားသဘောကား ဝေဒနာတည်း၊ ဤတရားသဘောကား သညာတည်း၊ ဤတရားသဘောကား စေတနာတည်း၊ ဤတရားသဘောကား စိတ်တည်း"ဟု ဝေဖန်ပိုင်းခြားလျက် ဟောကြားတော်မူခြင်းသည် ခဲယဉ်းစွာပြုအပ်သောအရာမည်ပါ၏။

(မိလိန္ဒ) မြင်သာအောင် ဥပမာပြုတော်မူပါဦးဘုရား။

(နာဂသိန်) ဥပမာသော်ကား ယောကျ်ားတယောက်သည် လှေဖြင့် မဟာသမုဒ္ဒရာသို့သက်ဝင်ပြီးနောက်၊ မဟာသမုဒ္ဒရာရေကို လက်ခုပ်ဖြင့်ယူပြီးလျှင် လျှာဖြင့်လျက်၍ "ဤရေသည် ဂင်္ဂါမြစ်ရေတည်း၊ ဤရေသည် ယမုနာမြစ်ရေတည်း၊ ဤရေသည် အစိရဝတီမြစ်ရေတည်း၊ ဤရေသည် သရဘူမြစ်ရေတည်း၊ ဤရေသည် မဟီမြစ်ရေတည်း"ဟု သိနိုင်ရာပါသလော။

(မိလိန္ဒ) သိနိုင်ရန် ခဲယဉ်းလှပါသည်ဘုရား။

(နာဂသိန်) တခုတည်းသောအာရုံ၌ဖြစ်ကြသည့် နာမ်ဖြစ်ကြသော။ ပ ။ဝေဖန်ပိုင်းခြားလျက် ဟောကြားတော်မူခြင်းသည် ဤရေကိုအသိခက်သည်ထက် အလွန်ခဲယဉ်းစွာပြုတော်မူအပ်သောအရာ ဖြစ်ပါ၏။

(မိလိန္ဒ) ကောင်းလှပါပေ၏ အရှင်ဘုရား။

ဤသို့ ခက်ခဲနက်နဲသောဂုဏ်နှင့် ပြည့်စုံမှုကြောင့်ပင်လျှင် ကာလကြာ၍ ပရိယတ္တိသာသနာကွယ်ပရာတွင် အဘိဓမ္မာပိဋကတ်ကစ၍ ကွယ်လိမ့်မည်ဟု အဋ္ဌကထာများတွင် ဖွင့်ပြတော်မူကြသည်။ ထိုစကားကို အတန်ငယ် ချဲ့ဦးအံ့။

သာသနာကွယ်ခြင်းသည် (၁) ပရိယတ်ကွယ်ခြင်း၊ (၂) ပဋိပတ်ကွယ်ခြင်း၊ (၃) ပဋိဝေဓကွယ်ခြင်း၊ (၄) ရဟန်းအသွင်ကွယ်ခြင်း၊ (၅) ဓာတ်တော်မွေတော်ကွယ်ခြင်းဟူ၍ ငါးမျိုးရှိကြောင်း သမ္မောဟဝိနောဒနီအဋ္ဌကထာ ဉာဏဝိဘင်းအဖွင့် စသည်တို့၌ ပြဆို၏။

ထိုငါးမျိုးတို့တွင် ပရိယတ္တိသာသနာတည်လျှင် ပဋိပတ္တိသာသနာ၊ ပဋိဝေဓသာသနာနှစ်ပါးကို ဖြည့်ကျင့်နိုင်သောကြောင့် ပရိယတ္တိသာသနာသည်သာလျှင် သာသနာတော်၏တည်ရင်းအကြောင်း ဖြစ်ပေသည်။

ကာလကြာလေသော် ပရိယတ္တိ သာသနာတော်ကြီးသည် တစထက်တစ ယုတ်လျော့မည်ဖြစ်သည်။ ပရိယတ္တိသာသနာတော်၌လည်း ပိဋကတ်သုံးပုံအနက် အဘိဓမ္မာပိဋကသည် ရှေးဦးစွာကွယ်ပျောက်မည်ဖြစ်သည်။ အဘိဓမ္မာပိဋကတွင်လည်း ပဋ္ဌာန်းကျမ်းကြီးကစ၍ အစဉ်အတိုင်း ကွယ်ပလိမ့်မည်ဖြစ်ကြောင်း အဋ္ဌကထာတို့၌ အကျယ်ဖွင့်ပြတော်မူလေသည်။

ထို့ကြောင့်ပင် ရှေးရှေးပုဂ္ဂိုလ်တို့သည် သုတ္တန်ပိဋကထက် လွန်ကဲထူးခြားသော ထိုအဘိဓမ္မာပိဋကကို အထူးအားစိုက်ကာ သင်ကြားလေ့လာတော်မူကြကုန်သည်။

ထို့ကြောင့် ဗုဒ္ဓဝါဒ၏ အဆုံးသတ်ရည်ရွယ်ချက် သံသရာစက်၏ စခန်းသိမ်း အေးငြိမ်းရာမှန် ပြည်နိဗ္ဗာန်သို့ ရောက်ရှိရန်အတွက် အဘိဓမ္မာဉာဏ်ရင့်သန်ရန် ကြိုးစားသင့်လှပေသတည်း။

ဆရာဉာဏ်

**အဘိဓမ္မာအခါတော်နေ့။** ။သီတင်းကျွတ် လပြည့်နေ့ — ရှု ။

**အမရပူရမြို့။** ။အမရပူရမြို့သည် ယခင်က အထက်မြန်မာနိုင်ငံ မန္တလေးတိုင်း မန္တလေးခရိုင်တွင် ပါဝင်ခဲ့၍ အမရပူရနယ်နှင့် မြို့နယ်တို့ ရုံးစိုက်မြို့ ဖြစ်ခဲ့သည်။ ယခု အမရပူရမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်၍ အမရပူရမြို့နယ်သည် မန္တလေးတိုင်း၌ပင် ပါဝင်လေသည်။

အမရပူရမြို့နယ်သည် ယခင်အမရပူရနယ်၏ တောင်ဖက်မြို့နယ် ဖြစ်၍၊ မြောက်ဖက်တွင်မန္တလေးမြို့နှင့် ပုသိမ်ကြီးမြို့နယ်တို့ ရှိကြသည်။ အမရပူရမြို့နယ်သည် ၉၁ စတုရန်းမိုင်ကျယ်ဝန်း၍၊ကျေးရွာပေါင်း ၄၆ ရွာပါဝင်ပြီးလျှင် ၁၉၇၃ ခုသန်းကောင်စာရင်းအရလူဦးရေ ၁၀၆,၁၄၉ယောက်ရှိသည်။



အမရပူရမြို့ မဟာသကျရံသီ ကျောက်တော်ကြီးဘုရား

အမရပူရမြို့သည် မန္တလေးမြို့၏ အနောက်ဘောင်ဖက် မန္တလေး–မြစ်ကြီးနားမီးရထားလမ်းပေါ် ၌ရင်း၊မန္တလေး–စစ်ကိုင်း–မြွေဘို မော်တော်ကားလမ်းပေါ် ၌ရင်း တည်ရှိ၍၊ မန္တလေးမြို့မှ မီးရထားလမ်းအတိုင်း ခြောက်မိုင်မျှသာ ဝေး၍ မော်တော်ကားလမ်းအတိုင်း ငါးမိုင်မျှသာ ဝေးသည်။ မြို့၏အနီးတွင် တောင်သမန်အင်း ရှိသည်။ ပုဂံမင်းလက်ထက်က မြို့စာရေး မောင်ပိန်သည် ထိုအင်းကို ဖြတ်၍ သစ်သားတန်တားကြီးတခု ဆောက်လုပ်လှူဒါန်းခဲ့ရာ ယခုတိုင် ရှိသေးသည်။ ထိုတန်တားကို ဦးပိန်တန်တား ဟုခေါ်တွင်သည်။ အမရပူရမြို့ အနောက်တောင်ထောင့်တွင် စစ်ကိုင်းမင်း အမည်ခံ မှန်နန်းရှင် ဘကြီးတော်မင်း တည်ထားကိုးကွယ်ခဲ့သော စည်းခုံတော် ပုထိုးတော်ကြီး စေတီရှိရာ ဘွဲ့တော်မှာ "မဟာဝိဇယရံသီ" ဖြစ်၍ အသွန်ထင်ရှားသည်။ တောင်သမန်အင်း တဖက်တွင် ပုဂံမင်း တည်ထားခဲ့သော ကျောက်တော်ကြီးဘုရား ရှိသည်။ အမရပူရမြို့၏ အဓိကလုပ်ငန်းမှာ ပိုးထည်ရက်လုပ်ခြင်း လုပ်ငန်းဖြစ်၍ ရက်ကန်းစင်များ အိမ်တိုင်းလောက်မှာပင် ရှိကြသည်။ ယင်းပိုးထည်လုပ်ငန်းကြီးကို အကြောင်းပြု၍ ခရစ် ၁၉၁၂ ခုနှစ်လောက်ကတည်းက ဆောင်းဒါးရက်ကန်းကျောင်းကို တည်ထောင်ဖွင့်လှစ်ခဲ့ပြီးလျှင် မြန်မာနိုင်ငံတဝှန်းလုံးမှ ရက်ကန်းကျောင်းသူကျောင်းသားများအား ပညာသင်အထောက်အပံ့ကြေး ပေးကာ လာရောက်သင်ကြားစေလေသည်။

အမရပူရမြို့သည် မြို့နယ်ရုံးစိုက်မြို့ ဖြစ်သည်အားလျော်စွာ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးရုံး၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ စာတိုက်၊ ပြည်သူ့ဆေးရုံ၊ အစိုးရဘာန်းမြင့်ကျောင်း၊ အလယ်တန်းကျောင်း၊ မူလတန်းကျောင်း၊ ဈေး စသည့် အဆောက်အအုံများ သိုက်မြိုက်စွာ ရှိလေသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၀,၅၁၉ ယောက်ခန့် ရှိ၍ ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုး အများဆုံး နေထိုင်ကြသည်။

"ပဒုမ္မာရွှေကြာ၊ ဘိုးဘော်စံရာ၊ နတ်ပြည်နှင့်တူလေခြင်း၊ ဘိုးဘော်စံခင်း" ဟူသည်နှင့်အညီ အမရပူရမြို့သည် ခေတ်ကောင်းချိန် ရှေးနှစ်ပေါင်း ၁၇၀ လောက်က ဆိုလျှင်

နတ်ဘုံနတ်နန်းတမျှ ခမ်းနားသိုက်မြိုက်သော မင်းနေပြည်တော်ကြီး ဖြစ်ခဲ့ဘူးလေသည်။ "သေခြင်းကင်းရာပြည်သာယာ" ဟုအဓိပ္ပါယ်ရသည့် အမရပူရမြို့၏ ပဌမမြို့တည်နန်းတည် ဖြစ်သော မင်း ကား အလောင်းမင်းတရားကြီး၏ စတုတ္ထ သားတော် ဖြစ်၍ ငယ်မည် "မောင်ဝိုင်း" အမည်ရ ဘိုးတော် ဗဒုံမင်းတရားကြီး ပင်တည်း။ ဘိုးတော်ဘုရားသည် သက္ကရာဇ် ၁၁၄၃ ခုနှစ်တွင် အင်းဝထီးနန်းကို သိမ်းပိုက်အုပ်စုးပြီးသည်နောက် မကြာမတင်ပင် အမရပူရမြို့ကို ပဌမဆုံးတည်ဆောက်စေခဲ့ပြီးလျှင်၊ ၁၁၄၅ ခုနှစ်တွင် အင်းဝ နေပြည်တော်မှ အမရပူရ နေပြည်တော်သို့ ပြောင်းရွှေ့ စိုးစံတော်မူခဲ့သည်။ ၃၆ နှစ်တိုင်တိုင် စိုးစံတော်မူပြီးသည်နောက် ၁၁၈၁ ခုနှစ်တွင် နတ်ရွာစံသည်။ ထိုနောက် ဘကြီးတော် အမည်ရ မြေးတော် စစ်ကိုင်းမင်း၊ သာယာဝတီမင်း ခေါ် ကုန်းဘောင်မင်း၊ ပုဂံမင်း၊ မင်းတုန်းမင်းတို့ အသီးအသီး အမရပူရနန်းမွေကို ဆက်ခံလာကြရာ ၁၂၁၉ ခုနှစ်တွင်မှ မင်းတုန်းမင်းကြီးသည် အမရပူရနေပြည်တော်ကြီးကို စွန့်ခွာ၍ မန္တလေးမြို့တော်သို့ ပြောင်းရွှေ့ခဲ့လေသည်။ ယင်းသို့ဖြင့် အမရပူရရွှေမြို့တော်ကြီးတွင် မင်းဆက်ငါးဆက် စိုးစံခဲ့၍ နန်းသက်အားဖြင့် ၇၄ နှစ်ကျော်ကျော်မျှ ကြာမြင့်ခဲ့ရာ၊ မည်မျှ ခမ်းနားသိုက်မြိုက်၍ စိုပြည်သာယာခဲ့ကြောင်း သိနိုင်ပေသည်။

အမရပူရနန်းတော်ရာ၌ ထင်ရှားစွာ တည်ရှိနေသေးသော အဆောက်အအုံများအနက် ဘိုးတော်ဘုရား၏ ပြဿာဒ်ဂူ၊ ဘကြီးတော်ဘုရား၏ ပြဿာဒ်ဂူ၊ ကုန်းဘောင်မင်း၏ ပြဿာဒ်ဂူများလည်း ပါဝင်သည်။ ယခုအခါ အမရပူရမြို့ကို မြို့ဟောင်း ဟူ၍ငြင်း၊ တောင်မြို့ ဟူ၍ငြင်း ခေါ်ကြသည်။

**အမီးဗား။** ။အမီးဗားသည် ဆဲတခုတည်းနှင့်သာဖွဲ့စည်းထားသော အလွန်သေးငယ်သည့် သတ္တဝါမျိုး ဖြစ်သည်။ ယင်း၏ခန္ဓာကိုယ် တည်ဆောက်ထားပုံမှာ ရိုးရိုးနှင့်ရှင်းရှင်းဖြစ်သဖြင့် တိရစ္ဆာန်လောကတွင် အဆင့်အတန်းအနိမ့်ဆုံးနှင့် ရှေးအကျဆုံးသတ္တဝါဖြစ်သည်ဟု သိပ္ပံပညာရှင်များကယူဆကြသည်။ သာမန်အမီးဗားများမှာ အလွန်သေးငယ်သောကြောင့် ပကတိမျက်စိဖြင့်မမြင်နိုင်ပဲ မိုက္ကရိုစကုပ် (အဏုကြည့်မှန်ပြောင်း)ဖြင့် ကြည့်မှသာ မြင်နိုင်သည်။ အရွယ်ပမာဏမှာ တလက်မ၏ အပုံတရာတွင် တပုံမျှလောက်သာရှိသည်။ သို့သော် အကြီးဆုံးအမီးဗားမျိုးကိုမူကား မျက်စိဖြင့်သေချာစွာကပ်ကြည့်က သေးငယ်သော အစက်ကလေးများသဖွယ် မြင်ရသည်။ ယင်းတို့သည် ရေကန်များရှိ ရေညှိထဲတွင်ငြင်း၊ ရေကန်အောက်ပိုင်းရှိ ရွှံ့နွံများတွင်ငြင်း၊ ပင်လယ်ရေညှိပင်များနှင့် ရေနှော၍ငြင်း၊ လူတို့၏ခန္ဓာကိုယ်အတွင်းရှိ အစာကြောင်း၌ငြင်း ကျက်စားနေထိုင်လေ့ရှိကြသည်။ အမီးဗားမျိုးစိတ်တမျိုးသည် လူတို့အား ဝမ်းကိုက်ရောဂါ ဖြစ်စေတတ်၍ မြေဆီလွှာထဲ၌နေသော အခြားတမျိုးမှာမူကား ဗက်တီးရီးယားများကို စားသောက်ပစ်သောကြောင့် လူတို့၏ အကျိုးကို ဆုတ်ယုတ်စေတတ်သည်။

ရေကန်ထဲရှိ ရေညှိများသောနေရာမှ ရေတစက်ကိုယူ၍ ဆလိုက်ခေါ် မှန်ပြားကလေးပေါ်တွင် တင်ပြီးသော် မိုက္ကရိုစကုပ်ဖြင့်ကြည့်က ရေစက်ထဲတွင် အမီးဗားများ ဟိုမှသည်မှ သွားလာလှုပ်ရှားနေသည်ကို တွေ့ရမည်။ အမီးဗား၏ကိုယ်ခန္ဓာတွင် ဆဲတခုတည်းသာရှိ၍ ထိုဆဲတွင် ဆဲနံရံမရှိချေ။ ထို့ကြောင့် ယင်း၏ကိုယ်ခန္ဓာ ပုံသဏ္ဌာန်သည် အတည်အကျမရှိပဲ အမြဲပြောင်းလဲနေသည်။ အမီးဗားဟူသောဝေါဟာရမှာ ကိုယ်ခန္ဓာပုံပန်းသဏ္ဌာန် အမြဲပြောင်းလဲလျက်ရှိသော သတ္တဝါငယ်ဟု အဓိပ္ပါယ်ရသည်။

အမီးဗားများ လှုပ်ရှားသွားလာပုံမှာ အခြားမည်သည့်တိရစ္ဆာန်နှင့်မျှ မတူချေ။ ယင်း၏ကိုယ်ခန္ဓာဆဲထဲတွင် သဏ္ဌာန်မဲ့သည့် ပရိုတိုပလက်ဇမ်ခေါ် ကျောက်ချောကဲ့သို့သောပစ္စည်းတမျိုး ရှိသည်။(ပရိုတိုပလက်ဇမ် — ရှု။) ထိုပရိုတိုပလက်ဇမ်သည်အလိုရှိရာဖက်သို့စူထွက်လာပြီးနောက် ထိုနေရာသို့ ကျန်သောပရိုတိုပလက်ဇမ်က စီးဝင်သွားရာ ကိုယ်ခန္ဓာတခုလုံးမှာ ရှေ့သို့ ရောက်သွားလေတော့သည်။ ဤကဲ့သို့ ဆက်ကာဆက်ကာစူထွက်ခြင်းဖြင့် အမီးဗားသည် မိမိ အလိုရှိရာနေရာသို့ သွားလာလေ့ရှိသည်။ အမီးဗားတွင် ဤသို့ စူထွက်နေသော အစိတ်အပိုင်းကို ဆူဒိုပိုဒ်ယ (ခြေတု) ဟုခေါ်သည်။ ပရိုတိုပလက်ဇမ်သည် အမီးဗား၏ အသက်တည်ရာဖြစ်သဖြင့် အကယ်၍ ထိုအပိုင်းအခန်းခြောက်သွားပါက အမီးဗားသည် သေဆုံးသွားလေသည်။

အမီးဗား၌ ခြေ၊ လက်၊ မျက်စိ၊ ဦးနှောက်စသည့် အမြင့်တန်းစားတိရစ္ဆာန်မျိုးထွင် ပါရှိတတ်သောအင်္ဂါရပ်များ မရှိချေ။ အသက်ရှူရန် အထူးအင်္ဂါရပ်ဟူ၍မပါပဲ တကိုယ်လုံးမှအသက်ရှူ၏။ ယင်းသည် မိမိနေထိုင်လျက်ရှိသောရေတွင် ပျော်ဝင်နေသည့် အောက်ဆီဂျင်ကို ရှူသွင်း၍ ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ကို စွန့်ထုတ်ပစ်သည်။ အမီးဗားကို မိုက္ကရိုစကုပ်ဖြင့်သေချာစွာကြည့်လျှင် ကိုယ်ခန္ဓာအတွင်း၌ ဝိုင်း၍မည်းနေသော သဏ္ဌာန်တခုကို တွေ့ရမည်။ ဤအမည်းဝိုင်းကလေးကို နျူးကလိယပ်ဟုခေါ်သည်။ ယင်းသည် အမီးဗား၏ အရေးအကြီးဆုံးသောအစိတ်အပိုင်း ဖြစ်သည်။ အကယ်၍ နျူးကလိယပ်ကို တနည်းနည်းဖြင့် အပြင်သို့ထုတ်ပစ်လိုက်ပါက အမီးဗားသည် သေဆုံးသွားတော့၏။

အမီးဗားများသည် အခြားသတ္တဝါများကဲ့သို့ပင် မိမိ

တို့အသက်ရှင်ရေးအတွက် အစာစားကြသည်။ သို့ရာတွင် အစာစားရန် ပါးစပ်နှင့်အစာပြွန်ချောင်း မရှိပေ။ ယင်းတို့စားသောအစာများမှာ ရေထဲတွင်ရှိ အလွန်သေးငယ်သည့် အယ်လဂျေ၊ ဗက်တီးရီးယားစသည်တို့ ဖြစ်သည်။ စားသောက်ပုံမှာ ယင်းသည် အပင်ငယ်ကို ဝိုင်းမိအောင် စီးသွားပြီးလျှင် ထိုအပင်ကို သိမ်းသွင်းယူလိုက်သည်။ ထို့နောက် အပင်၏ပတ်လည်တွင် အစာကိုကြေစေမည့် အရည်ကြည်တစက် ဖြစ်ပေါ်လာ၍ အပင်ငယ်၏ ကြေနိုင်မည့် အစိတ်အပိုင်းများသည် အမဲဖားအတွက် အစာဖြစ်သွားလေသည်။ အမဲဖားသည် အပင်ငယ်မှ ချေ၍ရနိုင်သော အစိတ်အပိုင်းများကို ချေယူပြီးနောက် အကြွင်းအကျန်များထားပစ်ခဲ့ကာ အခြားနေရာသို့ စီးသွားပြန်သည်။

အမဲဖား၏ အထူးနုနယ်သောကိုယ်ခန္ဓာသည် ရေကိုအမြဲတန်းလိုရာ အကယ်၍ ယင်းတို့နေသောရေကန်၊ သို့မဟုတ် ရွှံ့နွံများ ခန်းခြောက်သွားပါက သေကြေပျက်စီးခြင်းမရှိရအောင် ယင်းတို့၏ကိုယ်ခန္ဓာကိုလုံးပြီးလျှင် ထူထပ်သောအခွံဖြင့် ဖုံးအုပ်လိုက်သည်။ ထိုနောက် မိုးပြန်ကျလာသောအခါ အတွင်း၌ရှိသော ပရိုတိုပလက်ဇမ်သည် အပိုင်းအပိုင်းဖြစ်သွား၍ အပြင်မှအခွံလည်းပေါက်ကွဲကာ အမဲဖားအကောင်ကလေးများ ထွက်လာပြန်သည်။ ဤကား အမဲဖား၏မျိုးပွားနည်းတနည်း ဖြစ်သည်။

အမဲဖားတွင် အခြားမျိုးပွားနည်းတနည်း ရှိသေး၏။ ယင်းမှာ ကွဲပွားခြင်းဖြစ်သည်။ အမဲဖားများသည် အစာကို အစဉ်မပြတ်စားသောက်လျက်ရှိခြင်းကြောင့် ယင်းတို့ခန္ဓာကိုယ်သည် တဖြည်းဖြည်းကြီးထွားလာသည်။ ထိုသို့ကြီးထွားလာသောအခါကိုယ်အတွင်းရှိန္ယူးကလိယပ်သည် ရှေးဦးစွာ ရှည်ထွက်လာပြီးလျှင် အလယ်ဗဟိုတွင်သိမ်၍ နောက်ဆုံးတွင်ပြတ်သွားကာ အရွယ်တူန္ယူးကလိယပ်ငယ် နှစ်ခု ဖြစ်လာသည်။ ကိုယ်ခန္ဓာအတွင်း၌ကျန်ရှိသော ပရိုတိုပလက်ဇမ်သည်လည်း ဤနည်းအတိုင်း အရွယ်တူနှစ်ပိုင်းကွဲသွားပြန်သဖြင့် တပိုင်းတွင် န္ယူးကလိယပ်ငယ်တခုစီပါလာကာ အမဲဖားငယ်နှစ်ကောင် ဖြစ်လာ၏။ ဤနည်းဖြင့် တကောင်မှ နှစ်ကောင်၊ နှစ်ကောင်မှ လေးကောင် စသည်ဖြင့် ပွား၍ပွား၍လာလေသည်။ ဤသို့ဖြစ်ပေါ်လာသော အမဲဖားများမှာ မိခင်ကမွေးထုတ်လိုက်သော အကောင်သစ်များ မဟုတ်ပဲ မူလအမဲဖား၏ကိုယ်ကွဲများသာ ဖြစ်သောကြောင့် ယင်းသည် ထာဝစဉ်အသက်ရှင်လျက်ရှိသည်ဟု ဆိုရပေမည်။ သို့သော် ဘေးအန္တရာယ်နှင့် တွေ့ဆုံသောအခါ၌မူကား သေကြေပျက်စီးသွားလေသည်။

**အမေရိကတိုက်။** ။တောင်အမေရိကတိုက်။ မြောက်အမေရိကတိုက် — ရှု။

**အမေရိကတိုက်အလယ်ပိုင်း။** ။မြောက် အမေရိကတိုက်နှင့် တောင်အမေရိကတိုက်စပ်ကြား၌ အနောက်မြောက်မှ အရှေ့တောင်သို့ သွယ်တန်းတည်ရှိသောမြေထုကို အမေရိကတိုက်အလယ်ပိုင်းဟုခေါ်သည်။ မြောက်ဖက်၌ မက္ကဆီကိုနိုင်ငံ၊ တောင်ဖက်၌ ကိုလံဘီယာနိုင်ငံ၊ အရှေ့ဖက်နှင့် အနောက်ဖက်တို့၌ ကယ်ရစ်ဗျန်ပင်လယ်နှင့် ပစိဖိတ်သမုဒ္ဒရာတို့ အသီးအသီးတည်ရှိကြသည်။ အမေရိကတိုက်အလယ်ပိုင်းတွင်ပါဝင်သော နိုင်ငံငယ်များမှာ ဂွာတီးမားလ၊ ဟွန်ဒူးရပ်၊ အယ်ဆယ်လဗာဒေါ၊ နစ်ကရားဂွ၊ ကော်စတာရီးကား၊ ပနားမားနှင့် ဗြိတိသျှဟွန်ဒူးရပ်တို့ ဖြစ်ကြသည်။ (ဂွာတီးမားလနိုင်ငံ။ ဟွန်ဒူးရပ်နိုင်ငံ။ အယ်ဆယ်လဗာဒေါနိုင်ငံ။ နစ်ကရားဂွနိုင်ငံ။ ကော်စတာရီးကားနိုင်ငံ။ ပနားမားနိုင်ငံ။ ဟွန်ဒူးရပ်၊ ဗြိတိသျှ — တို့လည်းရှု။)

အမေရိကတိုက်အလယ်ပိုင်းသည် အလျားမိုင်ပေါင်း ၁,၀၀၀ ခန့်ရှိ၍ အကျယ်မှာ အချို့နေရာ၌ မိုင် ၅၀၀ ကျော်သော်လည်း အချို့နေရာ၌မူ မိုင် ၅၀ မျှပင် မရှိတတ်ချေ။ ဧရိယာအကျယ်အဝန်းမှာ ၂၂၇,၅၇၇ စတုရန်းမိုင် ရှိသည်။ အမေရိကတိုက်အလယ်ပိုင်း မြေပုံကိုကြည့်လျှင် ထူးဆန်းသောအသွင်အပြင်ရှိသည်ကို တွေ့ရပေမည်။ ပင်လယ်ကမ်းရိုးတန်းမှာ တပြေးညီညာမဟုတ်ပဲ အကွေ့အကောက်အဖုအထစ်များသဖြင့် ကျွန်းဆွယ်များပေါ်ထွန်းလျက် ရှိလေသည်။ အကြီးဆုံးနှင့် အရေးပါအရာရောက်ဆုံးကျွန်းဆွယ်မှာ မက္ကဆီကိုပင်လယ်ကွေ့နှင့် ကယ်ရစ်ဗျန်ပင်လယ်တို့ကို ပိုင်းခြားထားသော ယူးကတန်ကျွန်းဆွယ်ဖြစ်သည်။ (ယူးကတန် — ရှု။)

အမေရိကတိုက်အလယ်ပိုင်းသည် အပူပိုင်းဒေသတွင်းသို့ ကျရောက်နေသော်လည်း မြေအနိမ့်အမြင့်မညီမျှသောကြောင့် ရာသီဥတုမှာ သုံးမျိုးကွဲပြားလျက်ရှိသည်။ ပင်လယ်ကမ်းရိုးတန်းတလျှောက်ရှိ မြေနိမ့်ပိုင်းတွင် ရာသီဥတုမှာ ပူအိုက်၍ စိုစွတ်ထိုင်းမှိုင်းသည်။ ဤဒေသတွင် ငှက်ပျောပင်အမြောက်အမြား စိုက်ပျိုးကြသည်။ ကုန်းပြင်မြင့်ဒေသတို့မှာ သမပိုင်းရာသီဥတုရှိသည်။ သို့ဖြစ်၍ ယင်းဒေသတို့၌ လူနေများသည်ကိုတွေ့ရသည်။ တောင်တန်းဒေသအထက်ပိုင်းတွင်ကား ရာသီဥတုသည် အေးချမ်း၍ ပျမ်းမျှအပူချိန် ၆၀ ဒီဂရီလောက်သာရှိသည်။

အမေရိကတိုက်အလယ်ပိုင်းပေါ်သို့ ဖြတ်သန်း၍ လေယာဉ်ပျံဖြင့် ခရီးသွားပါက ကတော့ခွက်သဏ္ဌာန်ရှိသော မီးတောင်များကို တသီတတန်း တွေ့မြင်ရပေလိမ့်မည်။ အချို့သောမီးတောင်များမှာ ယခုတိုင် မီးခိုးမီးငွေ့များ ထွက်လျက်ရှိသေးသည်။ ယင်းမီးတောင်များ တည်ရှိသော တောင်တန်းကြီးကို ကော်ဒီလားရားတောင်တန်းဟု ခေါ်




အမေရိကတိုက်အလယ်ပိုင်း တည်နေရာပြမြေပုံ

သည်။ ဤတောင်တန်းမှာ ပစိဖိတ်သမုဒ္ဒရာကို မျက်နှာမူကာ ကျောရိုးကြီးသဖွယ် မြင့်မားစွာ တည်ရှိနေလေသည်။ တောင်တန်းသည် အနောက်ဖက်၌ မတ်စောက်၍ အရှေ့ဖက်သို့ တဖြည်းဖြည်းနိမ့်ဆင်းသွားသည်။ သစ်တောများတွင် မဟော်ဂနီ၊ ပျဉ်းကတိုးစသော အဖိုးတန်သစ်ပင်များ ပေါက်ရောက်သည်။

ဗြိတိသျှပိုင် ဟွန်ဒူးရပ်နယ်မပါသော အမေရိကတိုက်အလယ်ပိုင်း၏ လူဦးရေမှာ ၆,၉၅၇,၀၀၀ ဖြစ်၍ လူများစုမှာ တိုင်းရင်းသားအင်ဒီးယန်း လူမျိုးများပင် ဖြစ်သည်။ စပိန်အင်ဒီးယန်း ကပြားများလည်း ရှိသည်။ စပိန်သွေးအစစ်လူမျိုးလည်း အနည်းငယ်ရှိသည်။

အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးရေး ဖြစ်သည်။ စိုက်ပျိုးသောအသီးအနှံပင်များမှာ ကာဖီ၊ ဂျုံ၊ ပြောင်း၊ ငှက်ပျော၊ အုန်း၊ ကကေးအိုး၊ ကြံပင်၊ ကြက်ပေါင်စေးပင်နှင့် ပဲအမျိုးမျိုးဖြစ်သည်။ အမေရိကတိုက်အလယ်ပိုင်းတွင် ရွှေ၊ ငွေ၊ ကြေးနီ၊ ခဲ၊ သွပ်၊ သံ စသော အဖိုးတန်သတ္တုများလည်း ထွက်သည်။ သို့ရာတွင် ရွှေနှင့်ငွေတူးဖော်ခြင်းလုပ်ငန်းကိုသာ အများဆုံးလုပ်ကိုင်ကြသည်။

အမေရိကတိုက်အလယ်ပိုင်းတွင် လမ်းပန်းဆက်သွယ်ရေးမှာ များစွာအောက်တန်းကျလျက်ပင် ရှိသေးသည်။ မော်တော်ကားလမ်းများမှာ ပြုပြင်ခြင်းမရှိသဖြင့် ပျက်စီးနေသည်။မီးရထားလမ်းလည်းအနည်းငယ်သာရှိသည်။ဤသို့ လမ်းပန်းအဆက်အသွယ်ညံ့ဖျင်းခြင်းကြောင့် နိုင်ငံတိုးတက်မှုမှာ မနှောင့်နှေးသင့်ပဲနှောင့်နှေးလျက်ရှိရချေသည်။

အမေရိကတိုက်အလယ်ပိုင်းကို ၁၅၀၂ ခုနှစ်တွင် ကိုလံဗပ်က ရှေးဦးစွာတွေ့ရှိခဲ့သည်။ နောက်အနှစ်သုံးရာအတွင်း၌ စပိန်တို့သည် နယ်အားလုံးနီးနီးကို သိမ်းပိုက်မိကြလေသည်။ ဟွန်ဒူးရပ်နယ်တခုကိုသာ ဗြိတိသျှတို့က ရရှိလိုက်သည်။ ၁၈၂၃ ခုနှစ်တွင် ထိုနယ်အားလုံးလိုပင် သမတနိုင်ငံကလေးများ ဖြစ်လာကြသည်။ ထိုနိုင်ငံအားလုံးပင် ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့ဝင်များ ဖြစ်နေကြလေပြီ။

**အမေရိကန် ပြည်ထောင်စု။** ။မြောက် အမေရိကတိုက်တွင်တည်ရှိသော အမေရိကန်ပြည်ထောင်စုကြီးသည်ကား ကမ္ဘာ့နိုင်ငံကြီးများတွင်တခုအပါအဝင်ဖြစ်၍ ကမ္ဘာ့အနောက်ခြမ်းတွင်မူ ဒုတိယအကြီးဆုံးနိုင်ငံ ဖြစ်လေသည်။



အမေရိကန်ပြည်ထောင်စုနိုင်ငံ တည်နေရာပြမြေပုံ

## အမေရိကန် ပြည်ထောင်စု

အမေရိကန် ပြည်ထောင်စုသည် မြောက်သမပိုင်းဇုန်တွင် ကျရောက်နေ၍ မြောက်လတ္တီတွဒ် ၂၄° ၂၀′ မှ ၄၉° နှင့် အနောက်လောင်ဂျီတွဒ် ၆၆° ၅၅′ မှ ၁၂၄° ၄၅′ အကြားတွင် တည်ရှိသည်။ ဧရိယာ အကျယ်အဝန်းအားဖြင့် ၃,၅၄၇,၉၇၄ စတုရန်းမိုင် ရှိလေသည်။ မြောက်ဖက်၌ ကနေဒါနိုင်ငံ၊ အနောက်ဖက်၌ ပစိဖိတ်သမုဒ္ဒရာ၊ အရှေ့ဖက်၌ အတ္တလန္တိတ်သမုဒ္ဒရာ၊ တောင်ဖက်၌ မက္ကဆီကိုနိုင်ငံနှင့် မက္ကဆီကိုပင်လယ်ကွေ့တို့ ရှိကြသည်။

အရှေ့ဖက်သမုဒ္ဒရာမှ အနောက်ဖက်သမုဒ္ဒရာအထိ မိုင်ပေါင်း ၃,၁၀၀ ရှည်လျား၍ မြောက်မှတောင်သို့ အဝေးဆုံးနေရာမှာ မိုင်ပေါင်း ၁,၇၈၀ ရှည်လေသည်။

အမေရိကန်ပြည်ထောင်စု အရှေ့ဖက်ကမ်းရိုးတန်းသည် အကွေ့အကောက် ပေါများသောကြောင့် သင်္ဘောဆိပ်ကောင်းများ ရှိလေသည်။ ကမ်းရိုးတန်းသည် တောင်ဖက် ဖော့စတန်မြို့အထိ ကျောက်ဆောင်ထူထပ်၍ ဖော့စတန်မှ လွန်သွားသော် နိမ့်၍ သဲမြေများရှိရာ ဒေသသို့ ရောက်၏။ ဖော့စတန်မြို့မြောက်ဖက် မိန်းပြည်နယ်၌ ပင်လယ်အော်များနှင့် ရေလက်ကြား အမြောက်အမြား ရှိလေသည်။ နယူးယော့သင်္ဘောဆိပ်သည်ကား ကမ္ဘာပေါ်တွင် အကြီးဆုံးနှင့် အကောင်းဆုံးဖြစ်၍ အမေရိကန်ပြည်ထောင်စုအဖို့ အထူးအရေးကြီး အသုံးဝင်သော ဌာနတခုဖြစ်၏။ အနောက်ဖက်ကမ်းရိုးတန်းမှာလည်း အရှေ့ဖက်နည်းတူ မညီညွတ်သဖြင့် သင်္ဘောဆိပ်ကောင်းများ ရှိလေသည်။ ဆန်ဖရန်စစ္စကိုနှင့် ဆန်ဒီယေးဂိုးတို့သည် နာမည်ကျော် ဆိပ်ကမ်းကောင်းများ ဖြစ်ကြ၏။ အရှေ့အတ္တလန္တိတ်ကမ်းရိုး၌ ကျွန်းစုကလေး မြောက်မြားစွာရှိသည့်အနက် ထင်ရှားသောကျွန်းများမှာ မောင့်ဒဲဆတ်၊ နန်တပ်ကက်၊ ဗလော့ကျွန်း၊ စတက်တင်ကျွန်းတို့ ဖြစ်လေသည်။ တောင်ဖက် ဖလော်ရီဒါကမ်းရိုး၌ကား ဗဟားမားနှင့် ကျူးဗားကျွန်းစုများရှိ၍ အနောက်ဖက်၌ ဆန်တာ ကက်တလီနားနှင့် ဆန်တာ ဗားဗရားကျွန်းစုများ ရှိသည်။

အမေရိကန်ပြည်ထောင်စု၏ မြေမျက်နှာပြင်မှာ သဘာဝအတိုင်း အရှေ့အတ္တလန္တိတ် ကမ်းရိုးတန်းဒေသ၊ အက်ပလက်ချီယန် တောင်တန်းဒေသ၊ ကျယ်ပြန့်သော အလယ်ပိုင်းလွင်ပြင်၊ အတွင်းကျသော ကုန်းမြင့်ပိုင်းနှင့် အနောက်ဖက် ကော်ဒီလားရား တောင်တန်းဒေသဟူ၍ ပိုင်းခြားလျက်သားဖြစ်နေသည်ကို တွေ့ရ၏။ အရေးအကြီးဆုံးမှာ အတ္တလန္တိတ် ကမ်းရိုးတန်းဒေသ ဖြစ်သည်။ ထိုဒေသသည် မြောက်ဖက် နယူးယော့မှ တောင်ဖက် ဖလော်ရီဒါစွန်းထိ ရှည်လျား၍ သစ်သီးဝလံ၊ ဆန်စပါး၊ ဆေးနှင့် ကောက်စပါးစသော စိုက်ပျိုးသီးနှံ အမျိုးမျိုးထွက်သည်။ ဤကမ်းရိုးဒေသ၏ အနောက်ဖက်၌ မြောက်ပိုင်း အယ်လဗားမားပြည်နယ်မှ ပြည်ထောင်စု၏ အရှေ့မြောက်ဖက်ထောင့်စွန်းအထိ ကျယ်ပြန့်သော အက်ပလက်ချီယန်တောင်တန်းဒေသရှိ၏။ ထိုဒေသ၌ ပင်လယ်နှင့် အလွန်နီးသော နေရာများမှာ လွန်စွာအေး၏။ မြောက်ပိုင်း ကယ်ရိုလီးနားပြည်နယ်၌ကား မာကျောသော ကျောက်တောင်ကြီးများသည် မြင့်မားစွာ တည်ရှိနေကြသည်။ မစ်ချဲတောင်သည် အမြင့်ပေ ၆,၆၈၄ ရှိ၏။ မြောက်ပိုင်းတွင် သလင်းကျောက်တောင် ခါးပန်းကြီးများဖြင့် ပိုင်းခြားထား၏။ ယင်းတို့မှာ နယူးဟမ့်ရှိုင်ယာ၌ ဗိုက်တောင်၊ မက်ဆချူးဆက်၌ ဗတ်ရှိုင်ယာနှင့် ဗားမောင့်ရှိ ဂရင်းတောင်များ ဖြစ်ကြ၏။

အမေရိကန်ပြည်ထောင်စု အရှေ့ဖက် အက်ပလက်ချီယန် တောင်တန်းများနှင့် အနောက်ဖက် ကော်ဒီလားရား တောင်တန်းဒေသနှစ်ခု စပ်ကြား၌ ကျယ်ပြန့်ညီညာသော လွင်ပြင်ကြီးများရှိ၏။ မစ်စစ်စပီ၊ အိုဟိုင်းအိုးနှင့် မစ်ဇူးရီမြစ်တို့သည် လွင်ပြင်ကြီးများကိုဖြတ်၍ စီးဆင်းကြသောကြောင့် မြေသြဇာထက်သန် ကောင်းမွန်သဖြင့် ထိုဒေသတွင် နေထိုင်ကြသောလူများသည် လယ်ယာစိုက်ပျိုးခြင်းလုပ်ငန်းကို အဓိကထား၍ လုပ်ကိုင်ကြလေသည်။ အရှေ့ဖက်၌ရေကောင်းစွာရ၍ မြေသြဇာကောင်းသောမြေများ၊ မြက်ခင်းပြင်ကြီးများရှိ၍ မြောက်ပိုင်း၌ ရှေးအခါက ရေခဲပြင်ကြီး တိုက်စားသွားခဲ့သော မြေဟောင်းများ ရှိလေသည်။ စစ္စကွန်းဆင်၊ မစ်ရှီဂန်နှင့် မင်နီဆိုးတား ပြည်နယ်များ၌ အဖိုးတန် ကြေးနီနှင့် သံတွင်းများရှိ၏။ တောင်ဖက်ရှိ ပရေရီမြက်ခင်းပြင်သည် မက္ကဆီကို ပင်လယ်ကွေ့မှ အရှေ့တောင်ဖက် အတ္တလန္တိတ် ကမ်းရိုးအထိ ကျယ်ပြန့်ရှည်လျားလေသည်။

အမေရိကန်ပြည်ထောင်စု၏ အနောက်ဖက် သုံးပုံတပုံမှာကား ယေဘုယျအားဖြင့် တောတောင်ထူထပ်၏။ ထိုဒေသမှ ရော့ကီးတောင်တန်းကြီးသည် အရှေ့ဖက် ကျယ်ပြန့်သော လွင်ပြင်ပိုင်းမှစ၍ တက်သွားရာ တောင်တန်းများ အသွယ်သွယ် ဖြာထွက်ပြီးနောက် ကော်လိုရားဒိုးပြည်နယ်၌ အမြင့်ဆုံးဖြစ်သွား၏။ သို့ရာတွင် ဝိုင်အိုးမင်းအလယ်ပိုင်း၌ နိမ့်ကျသွားပြီးလျှင် တဖန် မွန်တာနာနှင့် အိုက်ဒဟိုးပြည်နယ်များတွင် မြင့်တက်သွားပြန်လေသည်။ ထိုတောင်တန်း၏ အနောက်ဖက်၌ကား မြင့်မားသော ကုန်းပြင်မြင့်ကြီးများရှိ၏။ တောင်ဖက်၌ ကော်လိုရားဒိုးကုန်းပြင်မြင့်ရှိ၍ ကော်လိုရားဒိုးမြစ်က ဖြတ်စီးလျက်ရှိ၏။ ထို့နောက် ယူးတားပြည်နယ်ရှိ ဝေါဆက်တောင်နှင့် ကာလီဖိုးနီးယားရှိ ဆီယယ်ရာ နီဗားဒတောင်တို့ ကြား၌လည်း ဂရိတ်ဗေဆင်အမည်ရှိ ကုန်းပြင်မြင့်ကြီးတခုရှိ၏။ ထိုကုန်းပြင်မြင့်၏ မြောက်ဖက်တွင် ကိုလမ္ဘီးယား ကုန်းပြင်မြင့်ရှိ၍



နယူးယော့မြို့မှ အမေရိကန်လွတ်လပ်ရေးအထိမ်းအမှတ် ရုပ်တု

လက်ျာလက်ဖြင့် မီးရှူးတိုင်ကို ကိုင်မြှောက်ထားသည့် အမျိုးသမီးပုံ - သံမဏိအားကူဖြည့်ထားသည့် ကြေးရုပ်တုဖြစ်သည်။ ၂၂၅ တန် လေး၍ ၁၅၂ ပေမြင့်သည်။ နယူးယော့ဆိပ်ကမ်းအတွင်းရှိ လွတ်လပ်ရေးကျွန်းပေါ်တွင် သမုဒ္ဒရာဖက်မျက်နှာမူ၍ တည်ရှိ၏။ အမေရိကန်လွတ်လပ်ရေး နှစ်တရာပြောက်လက်ဆောင်အဖြစ် ပြင်သစ်-အမေရိကန်သမဂ္ဂမှပေးခဲ့ရာ ဒေါ်လာ ၂၅၁,၀၀၀ ကုန်ကျသောဟူ၏။

ကိုလမ္ဗီးယားမြစ်လည်းရှိ၏။ အမေရိကန် ပြည်ထောင်စု၌ အမြင့်ဆုံးသော တောင်များကို ကာလီဖိုးနီးယားပြည်နယ်၌သာ တွေ့ရ၏။ အမြင့်ဆုံးတောင်မှာ ပေပေါင်း ၁၄,၄၉၆ ရှိ ဝှစ်တနီတောင် ဖြစ်လေသည်။ ဝှစ်ဘနီဘောင်၏ အရှေ့ဖက်၌ ဒက်ဗဲလီခေါ် သေမင်းချိုင့်ဝှမ်းရှိ၏။ ထိုတောင်ကြားတစိတ်တဒေသသည် သဲကန္တာရဖြစ်ပြီးလျှင် ကာလီဖိုးနီးယားအထိ ရှည်လျားသေသည်။

ဆီယယ်ရာ နီဗားဒဘောင်တန်းသည် အနောက်မြောက်ဖက်ရှိ ဩရီဂန်နှင့် ဝါရှင်တန်ပြည်နယ်များသို့ပင် ရောက်၍ ထိုဒေသများ၌ ကက်စကိတ်တောင်တန်းဟု အမည်တွင်၏။ အနောက်ဖက် ကမ်းရိုးတလျှောက်သို့ ကပ်လျက်ဘည်ရှိသော ဘောင်တန်းများမှာကား ကိုစရိန့်ဟု တွင်၏။ ထိုကမ်းနားဘောင်တန်းများသည် ကက်စကိဘ်နှင့် ဆီယယ်ရာ ဘောင်တန်းများလောက် မမြင့်ဲ အချို့နေရာများတွင် တောင်တန်းများသည် ပင်လယ်သို့အရောက် နိမ့်ဆင်းသွားလေသည်။ ကက်စကိဘ်တောင်နှင့် မြောက်ပိုင်း ဆီယယ်ရာတွင် မီးဘောင်များရှိ၍ အချို့နေရာများတွင် မီးဘောင်သေများနှင့် ချော်များဖုံးလွှမ်းထားသော နေရာအချို့ကို တွေ့ရသည်။ အမေရိကန်ပြည်ထောင်စု၌ ယခုဘိုင်ရှိနေသေးသော မီးတောင်ရှင်တခုမှာ မြောက်ပိုင်း ကာလီဖိုးနီးယားရှိ လက်ဆင်မီးဘောင် ဖြစ်လေသည်။

အမေရိကန် ပြည်ထောင်စုသည် ကြီးမား ကျယ်ဝန်းသလောက် အင်း၊ အိုင်၊ စိမ့်စမ်း၊ ရေဘံခွန်များ ပေါများသောနိုင်ငံ ဖြစ်ပေသည်။ မြောက်ပိုင်း ဝစ္စကွန်ဆင်နှင့် မင်နီဆိုးတား ပြည်နယ်များ၌ အထူးသဖြင့် အင်းအိုင်ငယ်ကလေးများ ပေါများ၏။ ပရေရီမြက်ခင်းပြင်၏ မြောက်ဖက်အစွန်၌ ထင်ရှားကျော်စောသော "ဂရိတ်လိတ်" ခေါ် ရေအိုင်ကြီးများရှိ၏။ ထိုရေအိုင်ကြီးများသည် အလွန်ကျယ်ဝန်း၍ ကုန်းတွင်း၌ တည်ရှိသောကြောင့် ကုန်းတွင်းပင်လယ်များဟုပင် ခေါ်နိုင်လေသည်။ ကနေဒါနိုင်ငံရှိ စိန်လောရင့်မြစ်သည် ထိုရေအိုင်များမှနေ၍ အတ္တလန္တိတ်သမုဒ္ဒရာသို့ စီးဆင်းလေသည်။ ဆူပီးရီးယားအိုင်ကြီးနှင့် ဟူရွန်အိုင်ကို ဆန် မာရေးတူးမြောင်းဖြင့်ဆက်သွယ်ထား၍ ဟူရွန်အိုင်မှ အီရီအိုင်၊ တဖန် အီရီအိုင်မှ အွန်တေးရီအိုအိုင်တို့ကို လှေသင်္ဘောများ အသွားအလာ လွယ်ကူစေရန် တူးမြောင်းများဖြင့် ဆက်သွယ်ထားလေသည်။ နိုင်အဂ္ဂရာရေတံခွန်ကြီးသည် ဤအိုင်ကြီးများအနီး၌ တည်ရှိ၍ ပြည်ထောင်စု၏ ကျက်သရေကို ဆောင်နေလေသည်။ (နိုင်အဂ္ဂရာရေတံခွန် - ရှု။) အီရီအိုင်အရှေ့ဖက်စွန်းမှ ဟဒ်ဆန်မြစ်အထိ လှေသင်္ဘောများ သွားလာနိုင်ရန်အတွက် ဂီရီတူးမြောင်းကို ဖောက်လုပ်ထားသည်။ ထိုရေအိုင်ကြီးများအပြင် အမေရိကန်ပြည်ထောင်စု မြောက်ပိုင်းတွင် ရေအိုင်ကလေး အများအပြား ရှိပေသေးသည်။ အမေရိကန် ပြည်ထောင်စုအတွင်း၌ ရေရှိသောဒေသများ အားလုံး၏ အကျယ်အဝန်းမှာ ၅၃,၀၁၃ စတုရန်းမိုင် ဖြစ်လေသည်။



ဖိလဒဲလဖီးယားမြို့ရှိ လွတ်လပ်ရေးခန်းမဆောင်အတွင်းမှ လွတ်လပ်ရေးခေါင်းလောင်း

အမေရိကန် ပြည်ထောင်စုသည် မြောက်သမပိုင်းဇုန်အတွင်း၌ တည်ရှိသော်လည်း ရာသီဥတုမှာ အပူအအေး မညီမျှချေ။ ယေဘုယျအားဖြင့် ရာသီဥတုသည် တိုင်းပြည်မြေချက်နှာပြင်ကို လိုက်၍ ပြောင်းလဲ တတ်သောကြောင့် တောတောင်ထူထပ်သော ပင်လယ်ကမ်းရိုး တောင်တန်းဒေသနှင့် ကက်စကိဘ်တောင် အနောက်ဖက်တို့တွင် စိုစွတ်ထိုင်းမှိုင်းကာ အရှေ့ဖက်၌ ခြောက်သွေ့လေသည်။ အရှေ့ဖက်ကမ်းရိုးတလျှောက်ကိုကား အရှေ့မြောက်ရာသီလေက မိုးရေနှင့်အအေးဓာတ်ကိုပေးကာ အတ္တလန္တိတ်ဖက်မှ တိုက်ခတ်လာသော တောင်လေက အပူဓာတ်ပေး၍ စွတ်စိုထိုင်းမှိုင်းခြင်းဖြစ်စေလေသည်။ အနောက်ဖက် ကမ်းရိုးတန်းသည် ပစိဖိတ်ပင်လယ်လေကြောင့် အရှေ့ဖက်လောက် ရာသီဥတု မပြင်းထန်ချေ။ ဆောင်းရာသီတွင် အလွန်အမင်း မအေးပဲ နွေရာသီ၌လည်း အလွန်အမင်း မပူချေ။ အနောက်ဖက်ဒေသ၌ ဆောင်းတွင်းမှာသာ မိုးရွာသွန်း၍ တနှစ်လုံးအတွက် ပျမ်းမျှမိုးရေချိန်ကိုကြည့်သော် မိုးများသည်ဟု ဆိုနိုင်ပေသည်။ ရော့ကီးတောင်နှင့် ဆီယယ်ရာ နီဗားဒ စပ်ကြားရှိဒေသ၌ကား မိုးအလွန်နည်းသောကြောင့်

အရှေ့တောင် ကာလီဖိုးနီးယားဖက်သို့ ရောက်သော် သဲကန္တာရကိုပင် တွေ့ရ၏။ အတ္တလန္တိတ်ဖက်ရှိ နယ်ပယ်များတွင်မူ နွေအခါ၌ လွန်စွာပူ၍ ဆောင်းအခါ၌ လွန်စွာအေးလေသည်။ မိုးရေမှာ ကောက်ပဲသီးနှံများစိုက်နိုင်ရုံလောက်သာ ရွာသွန်းသည်။ တောင်ဖက် မက္ကဆီကို ပင်လယ်ကွေ့တဝိုက်ရှိ နယ်များ၌ နွေရာသီတွင် အလွန်ပူ၍ ဆောင်းရာသီ၌ အသင့်အတင့်အေးချမ်းကာ ရံဖန်ရံခါ ဆီးနှင်းများသည်းဘန်စွာကျ၏။ မိုးလည်းအတော်များ၏။ အလယ်ပိုင်းလွင်ပြင်များ၌ ဆောင်းရာသီမှာ အလွန်အေး၍ တခါတရံ ဆီးနှင်းများ မုန်တိုင်းများ ကျ၏။ ထိုဒေသများ၌ တနှစ်လုံးရွာသောမိုး၏ ၃/၄ သည် ဧပြီနှင့် စက်တင်ဘာလ စပ်ကြား၌ ရွာသွန်းလေသည်။

အမေရိကန် ပြည်ထောင်စုသည် နိုင်ငံသက်တမ်းအားဖြင့် နုသေးသော်လည်း မြေသြဇာ အကောင်းဆုံးသော အရပ်၊ ဓာတ်သတ္တု များစွာထွက်သောအရပ်၊ အစားအသောက်နှင့် ကုန်စိမ်းကုန်ရိုင်းတို့ထွက်သော အဖိုးတန် အရပ်ဒေသများကို ပိုင်ဆိုင်လေရာ ကမ္ဘာပေါ်တွင် အချမ်းသာဆုံးနိုင်ငံတခု ဖြစ်သည်ဟု ဆိုရပေမည်။ နိုင်ငံအတွင်း၌ မှီတင်းနေထိုင်သော လူမျိုးများမှာလည်း ကမ္ဘာ့အရပ်ရပ်မှ ပြောင်းရွှေ့လာသော လူမျိုးပေါင်းစုံတို့ ဖြစ်လေသည်။ အင်္ဂလန်ပြည်မှ ပျူရီတန်ဂိုဏ်းဝင်တို့သည် ကိုးကွယ်မှုနှိပ်ကွပ်ခြင်းများကို မခံရပ်နိုင်ကြသဖြင့် အမေရိကန်ပြည်ထောင်စုသို့ လာရောက်နေထိုင်ကြ၏။ ဒပ်ချ်လူမျိုးနှင့် ဆွစ်လူမျိုးတို့သည်လည်း ကုန်ဆောင်းဝယ်ရေး လုပ်ငန်းကို လုပ်ကိုင်ရန်အလို့ငှါ နယူးယော့၊ နယူးဂျာစီ အရပ်ဘို့၌ လာရောက်နေထိုင်ကြ၏။ စပိန်လူမျိုးတို့သည်း ရွှေငွေရှာဖွေရန် ဖလော်ရီဒါ၊ တက်ဆက်နှင့် ကာလီဖိုးနီးယားပြည်နယ်များသို့ လာရောက်၍ အခြေစိုက် နေထိုင်ကြ၏။ ဂျာမန်၊ ဩစတြီးယန်း၊ပိုးလူမျိုးနှင့် အိုင်ရစ်လူမျိုးတို့သည်လည်း စီးပွားရေးနှင့် နိုင်ငံရေးအကြောင်းများကြောင့် မစ်စစ်စပီမြစ်ဝှမ်း တလျှောက်တွင် လာရောက်နေထိုင်ကြ၏။ ကွိတ်ကာဂိုဏ်းဝင်များနှင့် အယူဝါဒဆိုင်ရာ ဂျာမန်



အမေရိကန်ပြည်ထောင်စု၏ အကြီးဆုံးမြို့ဖြစ်သော နယူးယော့မြို့ရှုခင်း

ဒုက္ခသည်များသည် ပင်ဆီလဗေးနီးယားပြည်နယ်ကို တည်ထောင်နေထိုင်ကြ၏။ ပစိဖိတ်ကမ်းခြေနှင့် အနီးအနားရှိ ကျွန်းစုများတွင်ကား မလေး၊ ဂျပန်နှင့် တရုပ်များရှိ၏။ ရုရှလူမျိုးတို့မှာ အလာစကာနယ်တွင် နေထိုင်ကြ၍ ဣတာလျံ၊ ယဟူဒီ၊ ဆလဗ်၊ အာမီးနီးယန်းနှင့် ဆီးရီးယန်းတို့ကိုကား နေရာတကာ၌ တွေ့မြင်ရ၏။ အမေရိကန်၏တိုင်းရင်းသား လူမျိုးများဖြစ်သော အင်ဒီးယန်းလူမျိုးများကား ကမ္ဘာအရပ်ရပ်မှ လာရောက်နေထိုင်သော လူမျိုးများကြောင့် လူမျိုးပင် ပျောက်ကွယ်လုမတတ်ဖြစ်နေတော့၏။ သို့ဖြစ်လေရာ ကမ္ဘာပေါ်တွင် အမေရိကန် ပြည်ထောင်စုကဲ့သို့ လူမျိုးစုံသောနိုင်ငံကား မရှိတော့ပြီ။

ယင်းသို့အားဖြင့် ကမ္ဘာအရပ်ရပ်မှ လူအမျိုးမျိုး လာရောက်နေထိုင်ကြရာမှ နောင်အခါအမေရိကတိုက်တွင် အင်္ဂလိပ်လက်အောက်ခံ ကိုလိုနီနယ် တဆဲ့သုံးနယ်ဟူ၍ ဖြစ်လာ၏။ ထိုကိုလိုနီနယ်များသည် ၁၇၇၅ ခုနှစ်တွင်အင်္ဂလိပ်အစိုးရအားတော်လှန်၍လွတ်လပ်သော အမေရိကန်ပြည်ထောင်စုကိုတည်ထောင်လိုက်ကြသည်။ ထိုအခါမှစ၍ တဖြည်းဖြည်းကြီးပွားတိုးတက်လာလေရာ ယခုအခါ အမေရိကန်ပြည်ထောင်စုတွင် ပါဝင်သော ပြည်နယ်ပေါင်းမှာ ၅၀ ရှိလေသည်။ ထိုပြည်နယ်များမှာ အယ်လဗားမား၊ အလာစကာ၊ အယ်ရီဇိုးနား၊ အာကင်ဆော၊ ကာလီဖိုးနီးယား၊ ကော်လိုရာဒိုး၊ ကွန်နက်တီကတ်၊ ဒဲလဝဲယား၊ ဖလော်ရီဒါ၊ ဂျော်ဂျီယာ၊ အိုက်ဒဟိုး၊ အီလီနွိုင်၊ အင်ဒီးယားနား၊ အိုင်ယိုးဝါး၊ ကန်းဆတ်၊ ကင်တပ်ကီး၊ လူဝီဇီယန္နား၊ မိန်း၊ မေရီလန်၊ မက်ဆချူးဆက်၊ မစ်ရှီဂန်၊ မင်နီဆိုးတား၊ မစ်စစ်စပီ၊ မိဇူးရီ၊ မွန်တာနာ၊ နီဗရက်စကာ၊ နီဗားဒါ၊ နယူးဟမ့်ရှိုင်ယာ၊ နယူးဂျာစီ၊ နယူးမက္ကဆီကို၊ နယူးယော့၊ မြောက်ကယ်ရိုလီးနား၊ မြောက်ဒကိုးတား၊ အိုဟိုင်းအိုး၊ အိုကလာဟိုးမား၊ ဩရီဂန်၊ ပင်ဆီလဗေးနီးယား၊ ရုတ်ကျွန်း၊ တောင်ကယ်ရိုလီးနား၊ တောင်ဒကိုးတား၊ တင်နက်ဆီ၊ တက်ဆက်၊ ယူးတား၊ ဗားမောင့်၊ ဗာဂျင်းနီးယား၊ ဝါရှင်တန်၊ အနောက်ဗာဂျင်းနီးယား၊ ဝစ္စကွန်းဆင်း၊ ဝိုင်အိုးမင်းနှင့် ဟာဝိုင်တို့ဖြစ်လေသည်။ အထက်ပါ ပြည်နယ်များအပြင် အမေရိကန်ပြည်ထောင်စု လက်အောက်ခံ ပင်လယ်ရပ်ခြားနယ်များလည်း ရှိပေသေးသည်။

မူလသဘာဝအားဖြင့် ပစ္စည်းအင်အား တောင့်တင်းလှသော အမေရိကန်ပြည်ထောင်စု၌ အဖိုးတန်ဓာတ်သတ္တုများထွက်သော ပြည်နယ် မြောက်မြားစွာရှိသည့် အနက် ကျောက်မီးသွေးထွက်သည့် နယ်ပေါင်းမှာ သုံးဆယ်ခန့်ရှိ၏။ ပင်ဆီလဗေးနီးယားပြည်နယ်သည် ကျောက်မီးသွေးအများဆုံးထွက်၍ စက်မှုလုပ်ငန်းများ တွင်ကျယ်စွာ လုပ်နိုင်သော ပြည်နယ်ဖြစ်၏။ မြောက်ဖက် အိုဟိုင်းအိုး၊ အီလီ



ကမ္ဘာပေါ်တွင် အမြင့်ဆုံးဖြစ်သော
အင်ပါယာစတိတ် အဆောက်အအုံ

နွိုင်နှင့် နယူးယော့ပြည်နယ်များတွင်လည်း ကျောက်မီးသွေးအရိုင်းနှင့် မီးဖုတ်ပြီး ကျောက်မီးသွေးများထွက်၏။ ကြီးကျယ်သော သံမဏိလုပ်ငန်းများမှာ ပစ္စဗတ်မြို့၌ရှိ၍ ဂရိတ်လိတ်ဒေသရှိ သတ္တုတွင်းများမှထွက်သော သံများကို ထိုမြို့သို့ တင်ပို့ရ၏။ ယာဉ်ရထားများ၊ လယ်ယာစိုက်ပျိုးရေး ကရိယာများ၊ အပ်ချုပ်စက်များ၊ စက်ဘီး စသောစက်ကရိယာများကို အရှေ့မြောက်၊ မြောက်ဖက်၊ အလယ်ပိုင်းနယ်ပယ်များ၌ ပြုလုပ်ကြ၏။ ဒီးထရွိုက်၊ ကလိဗလန်၊ အယ်လစ်ဇဗက်၊ နယူးဂျာစီ၊ ဖီလဒဲလဖီးယားနှင့် ရှီကာဂိုမြို့ကြီးများသည် စက်မှုလက်မှုလုပ်ရာ ဌာနကြီးများ ဖြစ်ကြသည်။

အမေရိကန်ပြည်ထောင်စုသည်ကမ္ဘာပေါ်တွင်ကုန်ပစ္စည်းအများအပြားထွက်သော နိုင်ငံလည်း ဖြစ်၏။ ၁၉၇၀ ပြည့်နှစ်တွင် ကမ္ဘာတဝှန်းလုံးမှထွက်သော ရေနံ ၄၂ ဂါလန်ဝင်စည်ပေါင်း ၁၄,၆၇၉ သန်းအနက် အမေရိကန်ပြည်ထောင်စုမှ ၃,၅၁၇ သန်းထွက်လေသည်။ သံထည်များလည်း အများအပြားထွက်၍ အယ်ရီဇိုးနားနှင့် မွန်တာနာပြည်နယ်များမှ ကြေးနီထွက်၏။ ရွှေအထွက်တွင် အမေရိကန်ပြည်ထောင်စုက ကမ္ဘာတွင် တတိယလိုက်၍ ငွေအထွက်တွင် ဒုတိယ

လိုက်လေသည်။ အိုဇတ်ကုန်းပြင်မြင့်၌ ခဲနှင့်သွပ် အမြောက်အမြားထွက်၏။ အိုးခွက်လုပ်ရန် မြေကို ပြည်နယ်တိုင်းလိုလို၌ ရနိုင်၍ ထုံးကျောက်၊ ဂဝံကျောက်၊ ကျောက်စရစ်အဖြူနှင့် သင်ပုန်းကျောက်များကို အက်ပလက်ချီယန်ဒေသ၊ မိန်းပြည်နယ်နှင့် ဗားမောင့် ပြည်နယ်များ၌ ရှိလေသည်။

အမေရိကန် ပြည်ထောင်စု၏ အဓိကလုပ်ငန်းကြီးများတွင် အထည်အလိပ်လုပ်ငန်းလည်း အပါအဝင် ဖြစ်ပေသည်။ အမေရိကန်နိုင်ငံသည် ဝါဂွမ်းနှင့်သိုးမွေး အမြောက်အမြားထွက်သောနိုင်ငံ ဖြစ်လေရာ နိုင်ငံခြားမှ အထည်ကြမ်းများ တင်သွင်းရန် မလိုတော့ချေ။ အထည်အလိပ်လုပ်ငန်း၏ ဗဟိုဌာနမှာ နယူးအင်္ဂလန်နယ်များ ဖြစ်၍ တောင်ကယ်ရိုလီးနား၊ ဂျော်ဂျီယာနှင့် အယ်လဗားမား ပြည်နယ်များတွင်လည်း လုပ်ကိုင်ကြ၏။ သိုးမွေးထည်လုပ်ငန်းကို ပင်ဆီလဗေးနီးယား၊ မက်ဆချူးဆက်၊ ရုတ်ကျွန်းတို့၌ လုပ်ကိုင်ကြ၏။ နယူးဂျာစီပြည်နယ် ပေတာဆန်မြို့မှာ ပိုးထည် အကြီးအကျယ် ရက်လုပ်ရာဌာန ဖြစ်၏။ အမေရိကန်ပြည်ထောင်စု၏ ထွက်ကုန်များအနက် ၇၅ ရာခိုင်နှုန်းသည် စက်မှုလက်မှုနှင့် ဆိုင်သော ကုန်များသာ ဖြစ်လေသည်။ အဓိကထွက်ကုန်များမှာ စည်သွတ်အသားဗူးများ၊ ပေါင်မုန့်ခြောက်၊ အဝတ်အစား၊ သဘော်၊ မော်တော်ကား၊ လယ်ထွန်စက်ပစ္စည်း အစိတ်အပိုင်းများ၊ သံမဏိထည်များ၊ ဓာတုဗေဒပစ္စည်းနှင့် ဆေးဝါးများ၊ ဖိနပ်၊ ကြက်ပေါင်စေးနှင့်လုပ်သောကုန်များ၊ လျှပ်စစ်ဓာတ်အားပေးသောစက်များ အစရှိသည်တို့ ဖြစ်လေသည်။

အတ္တလန္တိတ်ဖက်တွင် ကယ်ရိုလီးနား မြောက်ပိုင်း၊ ပစိဖိတ်ဖက်တွင် ဆန်ဖရန်စစ္စကို မြောက်ပိုင်းနှင့် ဂရိတ်လိတ်ဒေသတို့၌ တံငါလုပ်ငန်းသည်အကြီးအကျယ်ထွန်းကားသည်။ ရှီကာဂိုမှ ကန်းဆတ်အထိ ကောက်ပဲသီးနှံများကြိတ်ရန်စက်ရုံများနှင့် အသားငါးများ ထုတ်လုပ်ရန်စက်ရုံများ ရှိလေသည်။ အသီးအနှံများစည်သွတ်ခြင်းကိုဗောလတီးမိုး၌ အကြီးအကျယ် လုပ်ကိုင်၏။ ဂရိတ်လိတ်ဒေသနှင့် အနောက်ဖက်နယ်များမှ ထောပတ်နှင့် ဒိန်ခဲထွက်၏။ ကြက်ပေါင်စေးလုပ်ငန်းကို အိုဟိုင်းအိုးပြည်နယ်အက္ကရွန်း၌ရင်း၊ ဖိနပ်လုပ်ငန်းကို နယူးအင်္ဂလန်နယ်များနှင့် မိဇူးရီပြည်နယ်၌ရင်း၊ ရုပ်ရှင်လုပ်ငန်းကို ကာလီဖိုးနီးယားပြည်နယ် ဟော်လီဝုဒ်၌ရင်း အသီးအသီး လုပ်ကိုင်ကြ၏။ အထက်ပါလုပ်ငန်းများအပြင် သစ်ရွှေခြင်း လုပ်ငန်းသည်လည်း အမေရိကန်ပြည်ထောင်စု၌ အရေးကြီးသော လုပ်ငန်းတရပ်ဖြစ်၍ တောင်ပိုင်းပြည်နယ်များနှင့် ကာလီဖိုးနီးယား၊ ဝါရှင်တန်၊ ဩရီဂန်ပြည်နယ်တို့၌ လုပ်ကိုင်ကြ၏။ သို့ရာတွင် မစ်စစ်စပီ၊ လူဝီဇီယန္နား၊ အယ်လဗားမား၊ အာကင်ဆော၊ တက်ဆက်၊ မိန်းနှင့် မြောက်ကယ်ရိုလီးနား ပြည်နယ်များ၌ သာ၍ ကြီးကျယ်စွာ လုပ်ကိုင်၏။ သစ်သား



ကိုလံဗပ်တို့လူစု အမေရိကန်မြေပေါ်သို့ ရောက်ရှိစဉ်

ပျော့ပတ်နှင့် စက်ရုံလုပ်ငန်းများကို ဂရိတ်လိတ်ဒေသနှင့် မိန်းပြည်နယ်တဲ့ကြ၌ တွေ့ရ၍ အိမ်ဆောင် ပရိဘောဂ ပစ္စည်းများကို မစ်ချီဂန်၊ ဝါရှင်တန်နှင့် အရှေ့တောင်ဖက် ပြည်နယ်များ၌ လုပ်ကိုင်ကြ၏။ အမေရိကန်ပြည်ထောင်စု ကြီးသည် စက်မှုလက်မှုလုပ်ငန်းများတွင်သာမက လယ်ယာ စိုက်ပျိုးရေးလုပ်ငန်း၌လည်း ကြီးကျယ်ပေသည်။ အိုဟိုင်း အိုးမြစ်ဝှမ်းနှင့် ရေအိုင်ဒေသစပ်ကြားရှိ အလယ်ပိုင်း လွင် ပြင်အရပ်တွင် ကောက်ပဲသီးနှံ အမျိုးမျိုးကို စိုက်ပျိုးကြ ၏။ ကမ္ဘာပေါ်၌ထွက်သော ပြောင်းစပါးအားလုံး၏ ⅔ ပုံ မှာ အမေရိကန်ပြည်ထောင်စုက ဖြစ်၏။ ဒုတိယ အများ ဆုံးစိုက်ပျိုးသော အပင်မှာ ဝါဂွမ်းဖြစ်၍ ကမ္ဘာ့ထွက်ကုန် ၏ ၅၀ ရာခိုင်နှုန်းခန့် ရှိလေသည်။ ဝါဂွမ်းကို မြောက်နှင့် တောင်ကယ်ရိုလိုင်းနား၊ ဂျော်ဂျီယာ၊ တင်နက်ဆီ၊ အယ်လ ဗားမား၊ မစ်စစ်စပီ၊ လူဝီဇီယာနား၊ အာကင်ဆော၊ တက် ဆက်နှင့် ကာလီဖိုးနီးယား ပြည်နယ်များတွင် အမြောက် အမြား စိုက်ပျိုးကြ၏။ တတိယအများဆုံး စိုက်ပျိုးသော အပင်မှာ ဂျုံဖြစ်လေသည်။ ကမ္ဘာ့ထွက် ဂျုံများတွင် ⅓ ပုံမှာ အမေရိကန်ပြည်ထောင်စုမှ ဖြစ်၏။ ဂျုံကို နေရာ တိုင်းမှာပင် စိုက်ပျိုးသော်လည်း အများဆုံးစိုက်သော ပြည်နယ်မှာ ကန်းဆတ်ပြည်နယ်နှင့် ယင်းနယ်၏ မြောက် ဖက်နှင့် အရှေ့ဖက်တို့၌ ဖြစ်လေသည်။ ဝါရှင်တန်ပြည်နယ် နှင့် ဩရီဂန်ပြည်နယ်တို့၌လည်း ဂျုံအမြောက်အမြား စိုက် ပျိုးကြ၏။ မြင်းစားဂျုံများကို ပြောင်းစပါး စိုက်ပျိုးရာ ဒေသများ၏ မြောက်ဖက်နှင့် တောင်ဖက်တို့၌ အများဆုံး စိုက်ပျိုး၏။ မုယောကို ဂျုံစိုက်ရာဒေသများ၌ အနည်းငယ် စိုက်ပျိုး၏။ လူဝီဇီယာနား၊ အာကင်ဆော၊ တက်ဆက်၊ ဂျော်ဂျီယာနှင့် ကယ်ရိုလိုင်းနား တောင်ပိုင်းနယ်များ၌ ဆန် စပါးကို အသင့်အတင့် စိုက်ပျိုးကြ၏။ ကျွဲနွားတိရစ္ဆာန် များအတွက် မြက်ပင်များသည် သင့်တော်သော ရာသီ ဥတုနှင့် မိုးရေလုံလောက်စွာရသော ဒေသများ၌ ပေါက် ရောက်၍ ဝါဂွမ်းစိုက်ရာဒေသများ၌ ကျွဲစာနွားစာ ဖြစ် သော တောသပင်များ၊ ပဲပင်များ စသည်တို့ ပေါက် ရောက်လေသည်။ ဒကိုးတား၊ မင်နီဆိုးတားနှင့် မွန်တာ နာပြည်နယ်များ၌ ပိုက်ဆံပင်များကို စိုက်ပျိုးကြ၍ လျှော် များကို ကင်တပ်ကီးပြည်နယ်တွင် ပေါက်ရောက်သော အပြာရောင်မြက်တမျိုးမှ ရရှိ၏။ လူဝီဇီယာနား၌ ကြံများ အကြီးအကျယ် စိုက်ပျိုးသည်။ တက်ဆက်၊ အယ်လဗား မား၊ ဂျော်ဂျီယာနှင့် ဖလော်ရီဒါပြည်နယ်များတွင်လည်း ကြံကိုစိုက်ပျိုးသည်။ မေပယ်ပင်များကို ဗားမောင့်၊ နယူး ယော့နှင့် ပင်ဆီလဗေးနီးယား ပြည်နယ်တို့၌ တွေ့ရှိနိုင်၏။ သစ်သီးဝလံများကို ပြည်နယ်တိုင်း၌လိုလိုပင် စိုက်ပျိုးကြ သော်လည်း အထူးသဖြင့် ဩရီဂန်၊ ဝါရှင်တန်၊ ကာလီဖိုး



အမေရိကန်ပြည်ထောင်စု၏ အနောက်ပိုင်းနယ်မြေများကို စွန့်စားရှာဖွေခဲ့သူ ဝီလျံ ဖရက်ဒရစ် ကိုဒီ

နီးယား၊ ဖလော်ရီဒါ၊ နယူးအင်္ဂလန်နယ်များ၌ ပိုမိုစိုက် ပျိုးကြသည်။ အမေရိကန်ပြည်ထောင်စု၏ ထွက်ကုန်များ တွင် အရေးကြီးသော ထွက်ကုန်တခုဖြစ်သည့် ဆေးကို ကား ကင်တပ်ကီး၊ မြောက်ကယ်ရိုလိုင်းနား၊ တောင်ကယ် ရိုလိုင်းနား၊ ဗာဂျင်းနီးယား၊ တင်နက်ဆီ၊ ကွန်နက်တီ ကတ်၊ အိုဟိုင်းအိုး၊ မေရီလန်နှင့် ဝစ္စကွန်းဆင်း ပြည်နယ် များ၌ စိုက်ပျိုးလေသည်။

အမေရိကန် ပြည်ထောင်စုသည် အပြောကျယ်လေရ ကား တိရစ္ဆာန်များသည် အရေအတွက် များပြားသည် နှင့်အမျှ အမျိုးလည်း ကွဲပြားကြ၏။ သမင်၊ ဒရယ်၊ မုစ ကောင်၊ ဝက်ဝံပြောင်၊ တောင်ခြသေ့၊ တောကြောင်မြီးတို၊ အမေရိကန်ကျားသစ်၊ ဝံပုလွေ၊ မြေခွေး၊ ဘောင်ဆိတ်၊ သိုး၊ ပရေရီခွေး၊ အမေရိကန်ဖျံ၊ ရှဉ့်၊ ယုန်၊ ပင်လယ်ဖျံ၊ ပင်လယ်လိပ်နှင့် အခြားတိရစ္ဆာန် အမျိုးပေါင်းများစွာ ရှိလေသည်။ ငှက်မျိုးထဲမှလည်း ရစ်ပုမျိုး၊ ရိုးရိုးရစ်၊ စွန်၊ သိမ်းငှက်၊ သစ်တောက်ငှက်၊ ငှက်ပြာ၊ သပိတ်လွယ်ရင်အုပ် နီ၊ သဘိတ်လွယ်၊ ကြိုးကြာနီ၊ မြေလူးငှက်၊ မြေလူးငှက်ဝါ၊ ဝံပိုငှက် စသည်ဖြင့် အမျိုးမျိုးရှိသည်။ တောင်ဒကိုးတား




အမေရိကန် နီးဂရိုးခေါင်းဆောင်တဦးဖြစ်သူ ဗွတ်ကာတီဝါရှင်တန်၏ အထိမ်းအမှတ် ကျောက်ရုပ်

ဗုတ်ကာတဲဝါရင်တန်သည် ငွေဝယ်ကျွန်အဖြစ် မွေးဖွားခဲ့သော်လည်း ကိုယ်ဒူးကိုယ်ချွန်ကြိုးစားခဲ့၍ ဘွဲ့ရခဲ့ပြီးနောက် အမေရိကန် နီးဂရိုးများ၏ ဘဝမြှင့်တင်ရေးအတွက် နာမည်ကျော် တပ်စကီးဂီးတက္ကသိုလ်ကို တည်ထောင်ခဲ့သည်။



အမေရိကန်ပြည်ထောင်စု အိုက်ဒဟိုးပြည်နယ်မှ
ကျေးလက်ပျိုမြူ

မိဇူးရီ၊ ဝစ္စကွန်းဆင်း၊ အိုင်ယိုးဝါး၊ နီဗရက်စကနှင့် ကန်းဆတ် ပြည်နယ်များ၌ ကျွဲနွားတိရစ္ဆာန်များကို အကြီးအကျယ် မွေးမြူကြ၏။ သိုးများကို တက်ဆက်၊ မွန်တာနာ၊ ကာလီဖိုးနီးယား၊ အိုက်ဒဟိုး၊ ဝိုင်အိုးမင်းနှင့် ဩရီဂန်ပြည်နယ်ဘို့၌ရင်း၊ ဝက်များကို အိုင်ယိုးဝါး၊ အီလီနွိုင်၊ နီဗရက်စကာ၊ အင်ဒီယားနား၊ မင်နီဆိုးတားနှင့် မိဇူးရီ ပြည်နယ်တို့၌ရင်း မွေးမြူကြ၏။ ကမ္ဘာ၏ လေးပုံတပုံသော ဝက်များနှင့် ဆယ်ပုံတပုံသော ကျွဲနွားများမှာ အမေရိကန်ပြည်ထောင်စုတွင် ရှိလေသည်။

အုပ်ချုပ်ရေး

အမေရိကန်နိုင်ငံသည် အင်္ဂလိပ်လက်အောက်မှ လွတ်မြောက်သည့် အချိန်ကစ၍ ပြည်ထောင်စုနိုင်ငံအဖြစ် ဖွဲ့စည်းတည်ထောင်ထားသည်။ ၁၇၈၇ ခုနှစ် စက်တင်ဘာလ ၁၇ ရက်နေ့က အတည်ပြုခဲ့သော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ အမေရိကန်ပြည်ထောင်စု အုပ်ချုပ်ရေးတွင် ဌာနကြီးသုံးခုရှိ၏။ ယင်းတို့မှာ (၁) အုပ်ချုပ်ရေးဌာန၊ (၂) ဥပဒေပြုဌာနနှင့် (၃) တရားဌာနတို့ ဖြစ်ကြသည်။ ဤဌာနကြီးသုံးခုသည် စည်းလုံးညီညွတ်စွာ နိုင်ငံ၏တာဝန်ကို ထမ်းဆောင်ကြရ၏။ ဌာနတခုစီ တခုစီ၌ ကိုယ်ပိုင်တန်ခိုးအာဏာများရှိရာ ထိုတန်ခိုးအာဏာများကို ကျန်ဌာနနှစ်ခုက ဖြည့်စွက်ခြင်း၊ ရုပ်သိမ်းခြင်း မပြုလုပ်နိုင်ချေ။

အုပ်ချုပ်ရေး ဌာနတွင် သမတသည် အချုပ်အခြာအာဏာပိုင်ဖြစ်၏။ သမတကို လေးနှစ်တကြိမ်ရွေးကောက်တင်မြှောက်ရ၏။ နိုင်ငံ၏ အခြေခံဥပဒေအရ သမတအား အပ်နှင်းထားသော အာဏာများမှာ လွန်စွာပင် များပြားကျယ်ဝန်းလှပေသည်။ သမတသည် နိုင်ငံခြား တိုင်းပြည်များနှင့် စာချုပ်ချုပ်နိုင်၏။ သံအမတ်များ၊ တရားလွှတ်တော်ချုပ် တရားသူကြီးများနှင့် အရေးပါသော အဆက်တန်း အရာရှိကြီးများကို ခန့်ထားနိုင်၏။ သို့ရာ

တွင် ဤသို့ခန့်ထားတိုင်း အထက်လွှတ်တော်၏ သဘော တူညီချက်ကို ခံယူရလေသည်။

ဥပဒေပြုဌာနတွင် အထက်လွှတ်တော်၊ အောက်လွှတ် တော်ဟူ၍ နှစ်ပိုင်းရှိ၏။ ထိုလွှတ်တော်နှစ်ခုစလုံးကို ကွန် ဂရက်ဟုခေါ်လေသည်။ အောက်လွှတ်တော်တွင် ပြည်သူ တို့က ရွေးကောက်တင်မြှောက်လိုက်သော ကိုယ်စားလှယ် အမတ်များ ပါဝင်၏။ အမတ်အရေအတွက်မှာ လူဦးရေ အနည်းအများပေါ်တွင် တည်လေသည်။ ကိုယ်စားလှယ် တဦးစီ၏ သက်တမ်းမှာ နှစ်နှစ်ဖြစ်၏။ အထက်လွှတ်တော် အမတ်များကို ပြည်နယ်တနယ်လျှင် နှစ်ဦးကျစီ ရွေး ကောက်တင်မြှောက်ရ၏။ အထက်လွှတ်တော်အမတ်တဦး စီ၏သက်တမ်းမှာ ခြောက်နှစ်ဖြစ်လေသည်။

တရားစီရင်ရေးကို ပြည်ထောင်စု တရားလွှတ်တော် ချုပ်နှင့် လက်အောက်ခံ ပြည်နယ်တရားလွှတ်တော်များ က ဆောင်ရွက်ရ၏။ တရားလွှတ်တော်ချုပ် တရားသူကြီး များသည် ကွန်ဂရက်လွှတ်တော်မှ အတည်ပြုလိုက်သော တရားဥပဒေများ၏ သဘောသက်ရောက်ပုံ အဓိပ္ပါယ်ကို ကောက်ယူနိုင်သော အာဏာရှိကြ၏။

အမေရိကန်ပြည်ထောင်စုတွင် ပြည်နယ်ပေါင်း ၅၀ ရှိရာ ထိုပြည်နယ်များသည် မိမိတို့သက်ဆိုင်ရာ အရေးကိစ္စများ တွင် လွတ်လပ်စွာဆောင်ရွက်ပိုင်ခွင့် ရှိကြ၏။ ပြည်နယ် တိုင်း၌ သီးခြားရေးဆွဲထားသော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေ ခံဥပဒေတခုစီ ရှိကြရာ အုပ်ချုပ်ပုံ နည်းလမ်းများမှာလည်း တနယ်နှင့်တနယ် တူညီကြသည်။ ယခုလက်ရှိ အမေရိကန် ပြည်ထောင်စု၏ သမတမှာ မစ္စတာ ဂျရယ် ဖို့ ဖြစ်သည်။

အမေရိကန် ပြည်ထောင်စု၏ လူဦးရေမှာ ၁၉၇၀ ပြည့် နှစ်၌ ၂၀၃,၂၃၅,၂၉၈ ဖြစ်၏။ ၁၉၆၀ ပြည့်နှစ်က လူဦးရေ ၁၇၉,၃၂၃,၁၇၅ မျှရှိလေရာ ဆယ်နှစ်အတွင်း လူဦးရေ မည်မျှ တိုးပွားလာသည်ကို ခန့်မှန်းနိုင်ပေသည်။ ၁၉၇၀ ပြည့်နှစ် လူဦးရေတွင် နီဂရိုးလူမျိုးများ၏ ဦးရေမှာ ၂၂ သန်းကျော်မျှ ပါရှိလေသည်။

အမေရိကန် ပြည်ထောင်စု၏ မြို့တော်မှာ ဝါရှင်တန်မြို့ ဖြစ်၍ မည်သည့်နယ်တွင်မျှမပါပဲ ကိုလမ်ဗီယာခရိုင်တွင် တည် ရှိသည်။ လူဦးရေမှာ ၁၉၇၀ ပြည့်နှစ်တွင် ၇၅၆,၅၁၀ ဖြစ် သည်။ မြို့ကြီးများမှာ လော့စ်အိန်းဂျလီး၊ ရှီကာဂို၊ နယူး ယော့၊ ဖီလဒဲလဖီယာ၊ ဗော့စတန်၊ ဆန်ဖရန်စစ္စကို၊ ပစ္စ ဗတ်၊ ကလီဗလန်၊ ဒီးထရွိုက်၊ စိန့်လူဝီ စသည်တို့ ဖြစ် သည်။ နယူးယော့မြို့မှာ ၁၉၇၀ ပြည့်နှစ်တွင် လူဦးရေ ၇၈၉၅၆၃ ရှိ၍ ကမ္ဘာအနောက်ခြမ်းတွင် အကြီးဆုံးနှင့် လူဦးရေအများဆုံး မြို့ကြီးဖြစ်သည်။ အမေရိကန် ပြည် ထောင်စု၏ ကူးသန်းရောင်းဝယ်ရေး မြို့တော်လည်း ဖြစ်သည်။



နယူးယော့မြို့ရှိ ကမ္ဘာ့ကုလသမဂ္ဂ အမဆောက်အအုံ

အမေရိကန်ပြည်ထောင်စုသည် စက်မှုလက်မှုထွန်းကား သောနိုင်ငံဖြစ်၍ လမ်းပန်းဆက်သွယ်ရေးတွင် မီးရထား လမ်း၊ ကားလမ်း၊ ရေလမ်း၊ လေကြောင်းလမ်းများကို နေရာအနှံ့အပြားတွင် ဖွင့်ထားလေသည်။ အမေရိကန်ပြည် ထောင်စုတွင် အရှေ့ဖက် အတ္တလန္တိတ်ကမ်းခြေမှအနောက် ဖက် ပစိဖိတ်ကမ်းခြေသို့ရှင်း၊ တောင်ဖက် အစွန်ဆုံးနေရာမှ မြောက်ဖက် အစွန်ဆုံးနေရာသို့ရှင်း မီးရထားလမ်းများ ဖောက်လုပ်ထားပေသည်။

**အမဲလိုက်ခြင်း။** ။ရှေးကမ္ဘာဦးလူတို့၏အရေးအကြီး ဆုံးဖြစ်သော အသက်မွေးဝမ်းကျောင်းမှာ အမဲလိုက်ခြင်း ဖြစ်လေသည်။ ကျောက်ခေတ်လူများ လက်ထက်၌ အမဲ လိုက်ခြင်းသည် အသက်တည်မြဲရေးအတွက် အရေးကြီး သော ကိစ္စတရပ်ဖြစ်ပေသည်။ အကြောင်းမှာ ထိုခေတ် လူများသည် အသက်ရှင်နေနိုင်ရန်အလို့ငှာ တောတိရစ္ဆာန် တို့၏ အသားပေါ်တွင် မှီတင်းနေထိုင်ကြရသောကြောင့် ဖြစ်၏။ ထိုနောက် လူတို့သည် တဖြည်းဖြည်း အသိဉာဏ် တိုးတက်လာကြ၍ ကောက်ပဲသီးနှံများကို အစားအစာ အလို့ငှာ စိုက်ပျိုးတတ်လာကြသည့် အခါ၌ကား အမဲလိုက်

ခြင်းသည် ရှေးကကဲ့သို့ လူတို့၏ နေရေး ထိုင်ရေးအတွက် အရေးပါလှတော့သည် မဟုတ်ချေ။ ယခုခေတ်တွင် အမဲလိုက်ခြင်းဖြင့် အသက်မွေးသော လူရိုင်းမျိုး အနည်းငယ်မှတပါး အမဲလိုက်ခြင်းကို နိုင်ငံတကာတွင် အပျော်သက်သက် တောကစားမှုအနေနှင့်သာ သဘောထားကြလေတော့သည်။

အင်္ဂလန်၊ အမေရိကန်ပြည်ထောင်စုစသော နိုင်ငံများတွင် အမဲလိုက်ခြင်းသည် လွန်စွာခေတ်စားလျက် လူတို့၏ ပျော်ရွှင်မှုတရပ်ဖြစ်လေသည်။ ထိုနိုင်ငံများ၌ မြေခွေး၊ ဆတ်နီ၊ ဖျံအစရှိသော တိရစ္ဆာန်များကို ကိုးဝိုင်းသစ်တောများတွင် အပျော်အပါး အမဲလိုက်ရန် သက်သက်အတွက် သီးသန့်မွေးမြူထားကြ၏။ အကယ်၍သာ ထိုသို့မွေးမြူမထားခဲ့လျှင်လည်း ထိုတိရစ္ဆာန်မျိုးတို့သည် မကြာမီ မျိုးပြုတ်ကွယ်ပျောက်သွားဖွယ်ရာရှိသည်ဟု အမဲလိုက်သမားများက ဆိုကြသည်။

ကောင်းသည် ဆိုးသည်ဟူသော အချက်ကို ချန်လှပ်ထားခဲ့လျှင် အမဲလိုက်ခြင်းသည် ပျော်ရွှင်ဖွယ်ရာကောင်းသော ကစားမှုတခုဖြစ်သည်ကို ငြင်းဆိုနိုင်ရန် ခဲယဉ်းကြပေမည်။ ကြည်နူးဖွယ် ကောင်းသည့် တောတောင်ရှုခင်းများ၊ စိမ့်စမ်း ရေတံခွန်နှင့် ချောင်းငယ်များ၏ သဘာဝသာယာမှုနှင့်တကွ အသွေးအရောင် အကြောင်းအကျားရှိသော အမဲလိုက်ခွေးများကို ကြည့်ရမြင်ရသည်မှာ များစွာပင် မျက်စိပသာဒရှိလှသည်။ ထို့ပြင် သန့်ရှင်းကောင်းမွန်သော လေကို ရှူရှိုက်ရသည်မှာလည်း အကျိုးရှိလှပေသည်။

မြေခွေးလိုက်ခြင်းသည် အင်္ဂလန်ပြည်တွင် လူကြိုက်များပြီးလျှင် ခေတ်အဆက်ဆက်မှ ထင်ရှားခဲ့သော အပျော်အပါး ကစားမှုတခုဖြစ်ခဲ့သည်။ မြေခွေးလိုက်သည့် ရာသီမှာ ဆောင်းတွင်း အေးချိန် နိုဝင်ဘာလမှ နွေဦးပေါက်ချိန် ဧပြီလအထိ ဖြစ်သော်လည်း အလေ့အကျင့်သဘောဖြင့် စက်တင်ဘာလနှင့် အောက်တိုဘာလများတွင် မြေခွေးပေါက်ကလေးများကို စတင်လိုက်လေ့ရှိကြ၏။ မြေခွေးပေါက်ကလေးများသည် ထိုအချိန်လောက်တွင် ခြောက်လမှ ရှစ်လအရွယ်မျှသာ ရှိကြသေးသဖြင့် မြေခွေးလိုက် ကျင့်သားရစေရန် အမဲလိုက်ခွေးငယ်များနှင့် အမဲလိုက်ခွေးသစ်များကို ကျင့်သားရပြီးသော အမဲလိုက်ခွေးကြီးများနှင့် အတူလိုက်စေကြလေသည်။

နိုဝင်ဘာလလောက် ရောက်၍ သာမန်မြေခွေးလိုက်ထွက်သည့်အခါ မုဆိုးများသည် မြင်းပေါ်မှ လိုက်ကြ၍ ခွေးများသည် မြေပြင်မှ လိုက်ကြရလေသည်။ ခွေးများသည် အနံ့ခံသွားယင်း မြေခွေးကို တွေ့သည့်အခါ ငြာသံပေး၍ ပြေးလိုက်ကြသည်။ ခေါင်းဆောင်မုဆိုးသည် မိမိ၏ ခွေးများ စုံလင်သည် မစုံလင်သည်ကို သတိပြု၍ ကြည့်ရှုစစ်ဆေးရ၏။ မစုံလင်ကြောင်း တွေ့ရှိလျှင် သူ၏လက်ထောက်များအနက်၊ တယောက်သောသူအား ခွေးများကို စုံလင်အောင် လိုက်လံ ရှာဖွေစုဆောင်းပေးရန် ညွှန်ကြားရလေသည်။ လက်ထောက်မုဆိုးတို့သည် ခေါင်းဆောင်မုဆိုး၏ အရိပ်အခြေကို အစဉ် အကဲခတ်နေကြရ၏။ ခေါင်းဆောင်မုဆိုး၏ တံပိုးမှုတ်သံကို အမြဲတမ်း နားစွင့်ကာ အမိန့်ကို နာခံလျက်နေကြရသည်။ ထို့ပြင် ခွေးများသည် လိုက်ယင်းသားကောင်မှ လွှဲဖယ်ကာ အခြားသားကောင်နောက်သို့ အလိုက်မမှားစေရန်လည်း သတိပြု၍ ထိန်းပေးရလေသည်။ မြေခွေးကို မိ၍ မြေခွေးလိုက်ခြင်း ပြီးဆုံးသည့်အခါ ရရှိသော သားကောင်၏ ဦးခေါင်း၊ အမြီး၊ ခြေထောက် စသည်တို့ကို ဆုအဖြစ် ဝေခြမ်းခဲ့စိတ်ယူကြပြီးနောက် အကြွင်းအကျန်တို့ကို ခွေးများအား သားကောင်အဖြစ် ကျွေးလိုက်ကြလေသည်။ တခါတရံ တနေကုန်တနေခန်း လိုက်သည့်တိုင်အောင် သားကောင်တကောင်မျှ မရပဲရှိတတ်၏။ တခါတရံလည်း သားကောင်အမြောက်အမြား ရရှိတတ်လေသည်။

မြေခွေးလိုက် မုဆိုးများသည် မြေခွေးလိုက်ခွေးများကို စံနစ်တကျ မွေးမြူလေ့ရှိကြ၏။ မွေးခါစခွေးကလေးများကို ယုယစွာ မွေးမြူခြင်းဖြင့် တစတစကြီးပြင်းလာသောအခါ လယ်သမားကြီးများနှင့်အတူ လယ်တောသို့ လိုက်စေ၍ ခြေကျင့်ပေးစေသည်။ ခြေကျင့်သားရလာသောအခါ အမဲလိုက်ရာသို့ ခွေးကြီးများနှင့်အတူ လိုက်ပါစေလေသည်။ မြေခွေးလိုက်ခွေးတို့သည် များသောအားဖြင့် နူးညံ့ပျော့ပျောင်းသော အမွေးချောများ ရှိကြပြီးလျှင် အရောင်အဆင်းမှာ အဖြူပေါ်တွင် အညိုကွက်နှင့် အနက်ကွက်များ ရှိသော အကြောင်းအကျားများ ဖြစ်ကြ၏။

ဆတ်လိုက်ခွေးနှင့် မြေခွေးလိုက်ခွေးဘို့၏ ပုံပန်းအသွင်အပြင်မှာ တူသည်က များ၏။ သို့ရာတွင် ဆတ်လိုက်ခွေးသည် အတန်ငယ် ပို၍ကြီးထွားပြီးလျှင် အဖြူရောင်များလေသည်။ ဆတ်လိုက်ခွေးများနှင့် ဆတ်များ၊ ချေများကို လိုက်သည့်အခါ၌ ခွေးများကိုနှစ်စုခွဲ၍ လိုက်စေရသည်။ တစုသည် သားကောင်ကို ဘောချောက်ပေးရ၍ ကျန်တစုက ထွက်လာသော သားကောင်ကို အမိအရ လိုက်၍ ဖမ်းရသေသည်။

ယုန်လိုက်ခွေးများကိုလည်း သီးခြား မွေးမြူကြရ၏။ အရောင်အဆင်းမှာ မြေခွေးလိုက်ခွေးနှင့် တူသော်လည်း ယုန်လိုက်ခွေးသည် အနည်းငယ် သေး၍ ခြေထောက်တိုသည်။ ဖျံလိုက်ခွေးမှာကား အမျိုးမျိုးရှိ၏။ အဖိုးအတန်ဆုံးနှင့် အရှားပါးဆုံး ဖြစ်သော ဖျံလိုက်ခွေးမျိုး၏ ပုံသဏ္ဌာန်မှာ ကိုယ်ခန္ဓာ ကြီးထွားတုတ်ခိုင်၍ အမွေးထူထဲ



ခေတ်မှီ အမဲလိုက်နည်းတွင် အမဲလိုက်ခွေးများကို အသုံးပြုသည်။

ကြမ်းတမ်းသည်။ ဖျံ့လိုက်ခွေးများသည် ကုန်းပေါ်တွင် သာမက ရေထဲတွင်လည်း ကျွမ်းကျင်စွာ သွားလာနိုင်သော သတ္တဝါများ ဖြစ်ကြ၏။ ဖျံ့လိုက်ခြင်းသည် အခြားသော သတ္တဝါများကို လိုက်ရသကဲ့သို့ မလွယ်ကူလှချေ။ ကျွမ်းကျင်မှုနှင့် အလေ့အကျင့် များစွာလိုလေသည်။ တနေကုန် တနေခန်း လွင်ပြင်တွင် နေရသောကြောင့် လယာပြင်

လောကကို နှစ်သက်၍၊ လူသူကင်းဝေးသော တောအရပ်ဒေသတို့ကို နှစ်ခြိုက် သဘောကျသူများမှာ ဤအပျော်အပါး ကစားမှုနှင့် များစွာ သင့်လျော်ပေသည်။

ကမ္ဘာပေါ်ရှိလူမျိုးတိုင်းမှာပင် အမဲလိုက်ဝါသနာပါသူများ ရှိစမြဲဖြစ်၏။ လိုက်သည့်သားကောင်၏ အမျိုးအစားမှာကား တနိုင်ငံနှင့်တနိုင်ငံ မတူကြပေ။ အင်္ဂလန်၊ အမေရိကန်ပြည်ထောင်စုစသော နိုင်ငံတို့တွင် ဖျံ၊ မြေခွေး၊ ယုန်စသော သတ္တဝါမျိုးလိုက်ခြင်းကို အထူး နှစ်သက်ကြ၍ အိန္ဒိယနိုင်ငံတွင် တောဝက်လိုက်ခြင်းကို လူကြိုက်များလေသည်။ မြန်မာနိုင်ငံရှိ တောလိုက်မုဆိုးများ ဂရုစိုက်လေ့ရှိသော သတ္တဝါများကား ဆတ်၊ ပြောင်၊ တောဝက်စသော သတ္တဝါများဖြစ်ကြသည်။ အမဲလိုက်ရာတွင်လည်း ခွေးနှင့်သာမဟုတ် သေနတ် လက်နက်ကိုလည်း သုံးကြလေသည်။

အမဲလိုက်သမားများ၏ စည်းမဲ့ကမ်းမဲ့ပစ်ခတ်သတ်ဖြတ်ခြင်းကြောင့် အပြစ်မဲ့သော တောသတ္တဝါများ အချည်းနှီးပြုန်းတီးခြင်းမရှိစေရန် နိုင်ငံတော်အစိုးရများက အမဲလိုက်ဥပဒေများကို ပြုလုပ်ထားကြလေသည်။ ထိုဥပဒေများအရ အစိုးရထံမှလိုင်စင်ရရှိပြီးသူများသာ အမဲလိုက်နိုင်ခွင့်ရရှိကြ၏။ ထိုပြင် အစိုးရတို့သည် အချို့သော တိရစ္ဆာန်များအား တွေ့ရခဲသည်၊ ရှားပါးသည်ဟူသော အကြောင်းပြချက်ဖြင့် ဘေးမဲ့ ပေးထားတတ်ကြသေး၏။ ထိုကဲ့သို့သော တိရစ္ဆာန်မျိုးကို မည်သူမျှ ပစ်ခတ်သတ်ဖြတ်နိုင်ခွင့်မရှိချေ။ အမဲလိုက်ဥပဒေ စည်းကမ်းများကို ကျူးလွန်ဖောက်ဖျက်သူတို့အား အစိုးရက တရားစွဲဆိုခြင်းဖြင့် အရေးယူလေသည်။

တိရစ္ဆာန်များ ပြုန်းတီးခြင်းမှ ကာကွယ်ရန် နိုင်ငံအစိုးရတို့ ပြုလုပ်လေ့ရှိသော အစီအမံတခု ရှိသေး၏။ ယင်းမှာ ဘေးမဲ့ နယ်ပယ်များကို သတ်မှတ်ထားရှိခြင်းပင်ဖြစ်လေသည်။ ထိုနယ်ပယ်များအတွင်းတွင် မည်သူမျှ အမဲလိုက်နိုင်ခွင့် မရှိချေ။ မြန်မာနိုင်ငံသည် သစ်ပင် တောတောင်များ လွန်စွာ စည်ပင်ထူပြောသော နိုင်ငံတခုဖြစ်ရကား တောတိရစ္ဆာန်များ ပေါများလှသည်။ ထိုတိရစ္ဆာန်များ အကြောင်းမဲ့ပြုန်းတီးသွားခြင်း မရှိစေရန် မြန်မာနိုင်ငံအစိုးရက အမဲလိုက် ဥပဒေများကို ပြုလုပ်ထားခြင်း၊ ဘေးမဲ့တောများကို သတ်မှတ်ထားခြင်း အစရှိသည်တို့ဖြင့် စီမံကာကွယ်ထားလေသည်။

**အမည်မှည့်ခြင်း**။ ။လူတယောက်နှင့် တယောက်၊ တိရစ္ဆာန် တကောင်နှင့် တကောင်၊ အရာဝတ္ထု တခုနှင့် တခုကို ခွဲခြားသိရှိနိုင်ရန် နာမည်ပညတ်များကို ပေးထားလေ့ ရှိကြပေသည်။ ထိုနာမည် ပညတ်များ၏ အရင်းအမြစ်နှင့် သမိုင်းကို စူးစမ်းလေ့လာရသည့် အလုပ်မှာ လွန်စွာစိတ်ဝင်စားဖွယ် ကောင်းလေသည်။ ရှေးပဝေဏီအခါက နေထိုင်ခဲ့ကြသော လူရိုင်းများနှင့် ယဉ်ကျေးမှုထွန်းကားစ ခေတ်အခါက လူများအဖို့ နာမည်သည် အလွန်အရေးကြီးသော လူ၏ကိစ္စတရပ်ဖြစ်လာလေသည်။ ထိုခေတ်တွင် လူတယောက်နှင့်တယောက်ကို နာမည်ရင်းဖြင့် မခေါ်ကြပဲ အများပေးသော နာမည်ပြောင်များဖြင့်သာ ခေါ်လေ့ရှိကြသည်။ ကလေးသူငယ်များကိုလည်း မကောင်းဆိုးဝါးများက မှတ်မိမည်ကို စိုးရိမ်သည်ဆိုပြီးလျှင် နာမည်မှည့်ခြင်းကို ချက်ခြင်းမပြုကြဟု သိရသည်။ သို့တည်းမဟုတ် တစ္ဆေ မှင်စာများကို လှည့်စားသည့်သဘောနှင့် ကလေးသူငယ်များအား ယုတ်ညံ့သော နာမည်များကို ပေးထားတတ်ကြလေသည်။

ယခုခေတ်တွင်ကား ကလေးသူငယ်များကို မွေးဖွားပြီးနောက် ရက်သတ္တတပတ်၊ သို့မဟုတ် နှစ်ပတ်ကြာသော အခါ နာမည်မှည့်ခြင်းကို မြန်မာနိုင်ငံ၌ အခမ်းအနားနှင့် ပြုလုပ်တတ်ကြ၏။ ထိုသို့ နာမည်မှည့်သည့် အခမ်းအနားကို မြန်မာနိုင်ငံ၌ ကင်ပွန်းတတ်မင်္ဂလာ ဆင်ယင်သည်ဟု ခေါ်၏။ (ကင်ပွန်းတပ်မင်္ဂလာ — ရှု။)

မြန်မာလူမျိုးများတွင် နာမည် မှည့်သည့် စံနစ်ကို တထစ်ချ သတ်မှတ်ထားခြင်း မရှိသော်လည်း ကလေး၏ နာမည်ကို မွေးဖွားသည့် နေ့နံနှင့်လိုက်အောင် မှည့်တတ်ကြ၏။ "အရင်းမွေးနံ၊ အဖျားခံ၊ မှည့်ရန်ပဉ္စပွတ်။ ။ သားသမီး ရတနာ၊ မည်သညာ၊ ပြုရာ လောကဝတ်" ဆိုသော ဗေဒင်ကျမ်းဆောင်ပုဒ်နှင့်အညီ ခေါ်ဝေါ်သမုတ်ကြသည်။ ပုံစံအားဖြင့် ဗုဒ္ဓဟူးနေ့ မွေးသောကလေးကို ဗုဒ္ဓဟူးနံ အခံထား၍ ဗုဒ္ဓဟူးမှ ငါးရက်မြောက်သော တနင်္လာနံကို အဖျားတွင်ထားလျက် မှည့်ခေါ်ရမည်ဟု ဆိုလိုသည်။ ထို့ကြောင့် ဗုဒ္ဓဟူးနေ့သား၏ အမည်ကို မောင်ဝင်းကျော်ဟုရင်း၊ ဗုဒ္ဓဟူးသမီး၏အမည်ကို မဝင်းကြည်ဟုရင်း မှည့်ခေါ်တတ်ကြ၏။ ဇာတာတွင်ပါရှိသော နာမည်များမှာ များသောအားဖြင့် နေ့နံနှင့် ဆီလျော်အောင် မှည့်ထားသောနာမည်များ ဖြစ်ကြသည်။

ထိုမှတပါး အမည်နာမ ဝေါဟာရ ပညတ်များတွင် ချောင်း၊ မြစ်၊ ပန်း၊ ကျောက်၊ သစ်ပင်ဟူသော ငါးမျိုးတို့၏ အမည်ကိုမမှည့်အပ်ကြောင်း၊ နာမည်နောက်များက ရ၊ လ အက္ခရာများ မထည့်အပ်ကြောင်း၊ သုတိဩဘာမင်္ဂလာအလို မတိုမရှည် ထိုက်သည်အလျောက်သာ မှည့်သင့်ကြောင်းနှင့် အမတ်မင်းရာဇာ စီရင်သည့် ဟိတကာရီလင်္ကာတွင် ဖော်ပြထားလေသည်။

သို့သော် အချို့မှာ ကလေး၏ရုပ်ဆင်းသဏ္ဌာန်ကို လိုက်၍ ဝသောကလေးကို မောင်ဝကြီးဟူ၍ရင်း၊ မောင်ဖိုး

ထွားဟူ၍ရင်း၊ အသားမည်းသောကလေးကို မောင်မဲဟူ၍ရင်း၊ မောင်နက်ဟူ၍ရင်း မှည့်ခေါ်လေ့ရှိကြ၏။ ထိုအပြင် ရုပ်ဆင်းသဏ္ဌာန်နှင့် ဆန့်ကျင်ဖက်အဓိပ္ပါယ်ရသော နာမည်များကိုလည်း မှည့်ခေါ်တတ်ကြသေး၏။ ပုံစံအားဖြင့် လွန်စွာပျော့ပြောင်းသော ကလေးကို သန်မာစေလိုသော ရည်ရွယ်ချက်ဖြင့် မောင်သံချောင်းဟူ၍ရင်း၊ လွန်စွာထွားကြိုင်းသန်မာသော ကလေးကို မောင်ပိန်သေး ဟူ၍ရင်း မသေးသေးဟူ၍ရင်း မှည့်ခေါ်တတ်ကြ၏။ဤသို့ မှည့်ခေါ်ကြခြင်းမှာ ပညတ်သွားရာ ဓာတ်သက်ပါစေရန် သဘောနှင့် မှည့်ခေါ်ကြခြင်းဖြစ်၏။

ရုပ်ဆင်းသဏ္ဌာန်ကို လိုက်၍မဟုတ်ပဲ စိတ်နေသဘောထားကိုလိုက်၍လည်း နာမည်မှည့်တတ်ကြသေး၏။ ပမာဆိုသော် လွန်စွာ သဘောကောင်းသော ကလေးကို မောင်စိတ်ကောင်း ဟူ၍ရင်း၊ ရဲရင့်သော ကလေးကို မောင်ရဲမြတ် ဟူ၍ရင်း၊ လွန်စွာ စိတ်တိုသောကလေးကို မောင်ကောက်ဟူ၍ရင်း မှည့်ခေါ်တတ်ကြပေသည်။ ဤသို့ ရုပ်ဆင်းသဏ္ဌာန်၊ စိတ်နေ သဘောထားနှင့် ဆီလျော်အောင် မှည့်ခေါ်ထားသော နာမည်ကို အနွတ္တအမည် ဟူ၍ ခေါ်ကြသည်။

အချို့ကလေးများကိုကား မွေးဖွားသောနေ့ရပ်ကိုရင်း၊ အချိန်ကာလ သမယကိုရင်း အစွဲပြု၍ နာမည်မှည့်ခေါ်တတ်ကြပေသည်။ ပမာဆိုသော် အမျိုးသားအောင်ပွဲနေ့တွင် မွေးဖွားသောကလေးကို မောင်အောင်နိုင်ဟူ၍ရင်း၊ စစ်ကြီးပြီးဆုံးသည့်နေ့တွင် မွေးဖွားသည့်ကလေးကို မောင်စစ်အေး ဟူ၍ရင်း မှည့်ခေါ် တတ်ကြလေသည်။ အချို့သောမိဖများသည် မိမိတို့ သားသမီးများ၏ နာမည်များတွင် ဖခင်၏နာမည်နှင့် မိခင်၏နာမည်များပါအောင် ပေါင်းစပ်၍ မှည့်ခေါ်ကြ၏။ ပမာဆိုသော် ဦးသိန်းမောင်၊ ဒေါ်အေးရီတို့မှမွေးဖွားသောကလေးများကို ယောကျာ်းကလေးဖြစ်လျှင် မောင်အေးမောင်ဟူ၍ရင်း၊ မိန်းကလေးဖြစ်လျှင် မသိန်းရီဟူ၍ရင်း မှည့်တတ်ကြ၏။

အချို့သောမိဖများကမူ မိမိတို့သားသမီးများ၏ နာမည်ကို နဘောထပ်နှင့် ကြီးစဉ်ငယ်လိုက် မှည့်ခေါ်တတ်ကြ၏။ ပမာဆိုသော် သားများကို မောင်ဖိုးထွား၊ မောင်ဖိုးကျား၊ မောင်ဖိုးပြားဟူ၍ရင်း၊ သမီးများကို မအေးတင့်၊ မအေးဆင့်၊ မအေးမြင့်ဟူ၍ရင်း ကြီးစဉ်ငယ်လိုက် မှည့်ခေါ်တတ်ကြလေသည်။ အချို့သော မိဖများမှာ မိမိတို့၏ ကလေးများကို ငယ်ရွယ်စဉ်အခါက ချစ်စနိုး၍ ရိုးရိုးဖြစ်သော နာမည်များဖြင့် မမှည့်ခေါ်သေးပဲ ဝက်ကြီး၊ နီတွတ်၊ မိခွေး၊ အနီစသော ငယ်နာမည်များဖြင့် ခေါ်တတ်ကြ၏။ ကျောင်းထားရသည့်အရွယ်သို့ ရောက်သောအခါမှ နာမည်ပြောင်း၍ မှည့်ခေါ်ကြလေသည်။

အင်္ဂလိပ်၊ အမေရိကန်အစရှိသော အနောက်တိုင်းသားများတွင် နာမည်မှည့်သောစံနစ် အတည်တကျရှိခဲ့လေသည်။ သူတို့၏သားသမီးများသည် ဖခင်၏အမည်ကို ယူကြ၏။ ပုံစံအားဖြင့် မစ္စတာဂျွန်ဆန်ဆိုသူ၏သားသည် မစ္စတာ အဲလဗတ် ဂျွန်ဆန်ဟူသောနာမည်ကိုရင်း၊ သမီးသည် မစ္စ မာရီ ဂျွန်ဆန်ဟူသော နာမည်ကိုရင်း ယူရ၏။ ဖခင်၏နာမည်ကို နောက်ဆုံးကထားရလေသည်။ မိန်းမများသည် လက်ထပ်သောအခါ လင်ယောကျာ်း၏နာမည်ကို ယူကြရသည်။ပုံစံအားဖြင့် မစ္စတာ ချား ဂျွန်ဆန်၏ သမီး မစ္စ မာရီ ဂျွန်ဆန်သည် မစ္စတာ မော်ဂင်ဆိုသူနှင့်လက်ထပ်လျှင် မစ္စ မာရီ ဂျွန်ဆန် မဟုတ်တော့ပဲ မစ္စ် မာရီ မော်ဂင် ဖြစ်လာလေသည်။ လင်ယောကျာ်း၏နာမည်ကို နောက်ဆုံးတွင် ထည့်ရလေသည်။ မြန်မာမိန်းမများကား လက်ထပ်သော်လည်း နာမည်ပြောင်းလဲခြင်း မရှိချေ။လက်မထပ်မီက မခင်မေသည် လက်ထပ်ပြီးသော အခါတွင်လည်း မခင်မေပင် ဖြစ်၏။ အိမ်ထောင်ဆက် မည်မျှပင်ပြောင်းသော်လည်း မခင်မေဆိုသော နာမည်ကား ပြောင်းလဲခြင်း မရှိပေ။ အင်္ဂလိပ် အမေရိကန်စသော အနောက်တိုင်းအမျိုးသမီးများမှာကား အိမ်ထောင်ပြောင်းတိုင်းပင် နာမည်ကိုလည်း ပြောင်း၍ခေါ်ကြရလေသည်။

မြန်မာလူမျိုးများသည် ယောကျာ်းများ၏ နာမည်ရှေ့တွင် မောင်၊ ကို၊ ဦး စသည်တို့ကို တပ်ဆင်ခေါ်ဝေါ်ကြရသကဲ့သို့ အင်္ဂလိပ် အမေရိကန်လူမျိုးများသည်လည်း ယောကျာ်းများ၏ နာမည်ရှေ့တွင် မစ္စတာဆိုသော စကားလုံးကို တပ်၍ ခေါ်ကြရ၏။ ထိုနည်းတူစွာ ပြင်သစ်လူမျိုးများသည် မွန်ဆီယာဟူ၍ရင်း၊ ဂျာမန်လူမျိုးများသည် ဟားဟူ၍ရင်း၊ ဒပ် ချ လူမျိုးများသည် ဗန်ဟူ၍ရင်း နာမည်ရှေ့မှတပ်၍ ခေါ်ကြရလေသည်။ ထိုအပြင် မိမိတို့၏ မျိုးရိုးနာမည်များ ရှေ့တွင်တပ်၍ အသုံးပြုကြသော စကားလုံးများလည်း လူမျိုးကိုလိုက်၍ ကွဲပြားလေသည်။ ပမာဆိုသော် စကော့လူမျိုးများသည် မက်ဆိုသော စကားလုံးကိုရင်း၊အိုင်ရစ်လူမျိုးများသည် အိုဆိုသောစကားလုံးကိုရင်း၊ နော်မန်ပြင်သစ်လူမျိုးများသည် ဖစ် (ဇ) ဆိုသော စကားလုံးကိုရင်း မိမိတို့၏မျိုးရိုးနာမည်ရှေ့က တပ်ဆင်ကြလေသည်။ ရုရှားလူမျိုးများမှာ အိုဗစ်ဆိုသော စကားလုံးကို သူတို့၏မျိုးရိုးနာမည်နောက်မှတပ်၍ မှည့်ခေါ်ကြ၏။ အိုဗစ်ဆိုသော စကားလုံးမှာ မြန်မာလိုသားဟု အဓိပ္ပါယ်ရ၍ အိုင်ဗင်နိုဗစ် ဟူသော ရုရှားနာမည်မှာ အိုင်ဗင်အမည်ရှိသော သူ၏သား ဟု အဓိပ္ပါယ်ရှိပေသည်။

လူများ၏ နာမည်များအပြင် မြို့ရွာအရပ်ဒေသများ၏ နာမည်များလည်း ရှိပေသေးသည်။ မြို့ရွာအရပ်

ဒေသနာမည်များ၏ နောက်ပိုင်းတွင် သမိုင်းဝင် အဖြစ်အပျက်ကလေးများ ရှိတတ်လေရာ၊ ယင်းတို့ကိုလေ့လာရခြင်းမှာ များစွာစိတ်ဝင်စားဖွယ်ရာ ကောင်းပေသည်။ ပမာဆိုသော် မုဆိုးဘို၊ ကုန်းဘောင်၊ ရတနာသိင်္ခ၊ ရန်ကြီးအောင်၊ ရွှေဘိုဟူ၍ အမည်ငါးမျိုးရသော မြန်မာနိုင်ငံအထက်ပိုင်းရှိ ယခုခေတ်အခေါ် ရွှေဘိုမြို့သည် ထိုအမည်ငါးခုကို မည်သို့ရရှိခဲ့သည့်အကြောင်းကို လေ့လာရသည်မှာ လွန်စွာစိတ်ဝင်စားဖွယ်ကောင်း၏။ အခြားသော မြို့ရွာများ၏ နာမည်များတွင်လည်း အလားတူစိတ်ဝင်စားဖွယ်ကောင်းသော အကြောင်းအရာများကို တွေ့နိုင်ပေသည်။

**အမျိုးသားနေ့။** ။အုပ်ချုပ်သူနယ်ချဲ့အစိုးရကို ပဌမဆုံး ထိထိရောက်ရောက် တော်လှန်ခဲ့သော နေ့ကို နောင်လာ နောက်သား အမျိုးသားတို့ အမှတ်တရ ရှိစေရန် အလို့ငှာ မြန်မာနိုင်ငံ၌ တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့ကို အမျိုးသားနေ့ဟူ၍ ရုံးပိတ်ရက်အဖြစ် သတ်မှတ်ကာ နှစ်စဉ် ဆင်ယင်ကျင်းပကြလေသည်။

တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့ကို အမျိုးသားနေ့ဟူ၍ သတ်မှတ်ရခြင်းကား ခရစ် ၁၉၂၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ၅ ရက်၊ မြန်မာ ၁၂၈၂ ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့တွင် ရန်ကုန် ကောလိပ်နှင့် ဂျပ်ဆင်ကောလိပ် ကျောင်းသား များသည် ရန်ကုန် တက္ကသိုလ်အက်ဥပဒေကို ကန့်ကွက်သည့် အနေဖြင့် သပိတ်မှောက်သော နေ့ဖြစ်သောကြောင့် ဖြစ်သည်။ ယင်းသို့ သပိတ်မှောက်လိုက်ခြင်းသည် မြန်မာနိုင်ငံကို ဗြိတိသျှ နယ်ချဲ့တို့ သိမ်းပိုက်လိုက်သည်မှစ၍ လူမျိုးခြား လက်အောက်မှ ပြန်လည် လွတ်မြောက်ရေးအတွက် အမျိုးသား တော်လှန်ရေးကြီးကို စတင်လိုက်ခြင်းပင် ဖြစ်သည်။ ထိုသပိတ်ကြီးမှ တဖွားဖွား ပေါ်ထွက်လာသော ဝံသာနု စိတ်ဓာတ်ဖြင့် အမျိုးသား စည်းလုံး ညီညွတ်မှုကို တည်ဆောက်ကာ လွတ်လပ်ရေးတိုက်ပွဲဆင်နွှဲခဲ့ရာ လွတ်လပ်ရေးအောင်ပန်းကို ဆွတ်ခူးနိုင်ခဲ့ခြင်းဖြစ်သည်ဟု ဆိုလျှင် မသွဲချေ။ ထို့ကြောင့် လွတ်လပ်ရေး ရရှိပြီးသည့်တိုင် တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့ကိုပင် အမျိုးသားနေ့အဖြစ် ဆက်လက် အသိအမှတ် ပြုခဲ့လေသည်။

ဗြိတိသျှလက်တွင်းသို့မြန်မာနိုင်ငံသက်ဆင်းရပြီးနောက် မြန်မာ လူထုသည် လက်နက်ကိုင်၍တသွယ်၊ စည်းဝေးပွဲများ အကြိမ်ကြိမ်ပြုလုပ်၍တမျိုး၊ မြန်မာ့ ကိုယ်စားလှယ်များကို ဗြိတိသျှအစိုးရ ကိုယ်စားလှယ်များနှင့် အရေးဆိုရန် စေလွှတ်၍တဖုံ နည်းမျိုးစုံတို့ဖြင့် လွတ်လပ်ရေးအတွက် တောင်းဆိုခဲ့သော်လည်း တကယ် ထိထိ ရောက်ရောက် အုံကြွဆန္ဒပြမှုကား ၁၂၈၂ ခုနှစ် တန်ဆောင်မုန်း လဆုတ် ၁၀ ရက်နေ့တွင် ပေါ်ပေါက်ခဲ့သော ကောလိပ် သပိတ်ပင်ဖြစ်သည်။

ဗြိတိသျှအစိုးရသည် သူတို့၏ နယ်ချဲ့ရာ၌ အကောင်းဆုံးသော လက်နက်တခု ဖြစ်သည့် ပညာရေး စံနစ်သစ် တက္ကသိုလ်အက်ဥပဒေကြမ်းကြီးကို ၁၉၂၀ ပြည့်နှစ် ဇွန်လတွင် တိုင်းပြည်မှ ဝေဖန်လေ့လာနိုင်ရန် ထုတ်ပြန် ကြေညာသည်။ ထိုဥပဒေကြမ်းတွင် ပါရှိသော အချက်များဖြစ်သည့် (၁) မြန်မာပြည်တွင် တက္ကသိုလ်တခုတည်းသာ ရှိရမည်။ တက္ကသိုလ် လက်အောက်တွင် ကောလိပ် ကျောင်း တကျောင်းသာ ရှိရမည်။ (၂) ကောလိပ် ကျောင်း၌ ပညာသင်လိုသူများ ကျောင်းအိပ်ကျောင်းစားသာ ဖြစ်ရမည်။ (၃) တက္ကသိုလ်ဝင် စာမေးပွဲ မထားရှိတော့ပဲ အစိုးရက ပြုလုပ်သော ဟိုက်စကူးဖိုင်နယ်ခေါ် ဆယ်တန်းစာမေးပွဲကို အောင်ရမည်။ အင်္ဂလိပ်ဘာသာနှင့် အခြားဘာသာတခုတွင် ထူးချွန်စွာ တတ်မြောက် အောင်မြင်မှ တက္ကသိုလ်ဝင်ခွင့်ရမည်။ (၄) ဂုဏ်ထူးနှင့် ဝိဇ္ဇာဘွဲ့တန်းတွင် တခါဖြေဆို၍ မအောင်မြင်ပါက နောက်နောင် ဖြေဆိုခွင့်မပြု။ (၅) ဟိုက်စကူးဖိုင်နယ်အောင်၍ တက္ကသိုလ်သို့ ဝင်ခွင့်ရသော်လည်း တက္ကသိုလ်ပညာရပ်များကို တခါတည်း စ၍မသင်ရသေးပဲ တက္ကသိုလ်ပညာရပ်ကို ကောင်းမွန်စွာ လိုက်နိုင်ရန် ပြင်ဆင်မှုအတန်းတွင် တနှစ်နေရမည်။ (၆) ပြင်ဆင်မှုအတန်းတွင် တနှစ်နေသော်လည်း နှစ်ကုန်သည့်အခါ တက္ကသိုလ် ပညာများကို လိုက်နိုင်ရန် အရည်အခြင်း မရှိသေးဟုဆိုလျှင် တက္ကသိုလ်ပညာကိုဆက်လက် သင်ခွင့်ရဦးမည်မဟုတ် စသော အချက်များကို ကောလိပ် ကျောင်းသား များသာမက သတင်းစာများနှင့် ဂျီစီဘီအေ နယ်ဒေသ အစည်းအဝေး များကပါ ဝိုင်းဝန်း ကန့်ကွက်ကြလေသည်။

မည်သို့ပင်ကန့်ကွက်ကြသော်လည်း မြန်မာပြည် ဘုရင်ခံဆာ ရယ်ဂျီနယ် ကရက်ဒေါက်က မြန်မာများသည် ပညာရေးအကြောင်း နားမလည်ဟု ဆို၍ တောင်းဆိုချက်များကို လျစ်လျူရှုကာ ထိုနှစ် ဒီဇင်ဘာလ ၁ ရက်နေ့မှစ၍ တက္ကသိုလ် အက်ဥပဒေကို အတည်ပြုကြောင်း ကြေညာလိုက်သည်။ ထို့ကြောင့် ဒီဇင်ဘာလ ၂ ရက်နေ့တွင် ကောလိပ်ကျောင်းသား ခေါင်းဆောင်များသည် တိုင်ပင် ဆွေးနွေး၍ ရန်ကုန်တက္ကသိုလ် အက်ဥပဒေကို ကန့်ကွက်သည့် အနေဖြင့် ကောလိပ်နှစ်ခုလုံး သပိတ်မှောက်ရန် ဆုံးဖြတ်ကြသည်။ ဒီဇင်ဘာလ ၄ ရက်နေ့တွင် ရန်ကုန်မြို့ ဗဟန်းရပ်၊ ရွှေကျင်တိုက် ဆရာတော် ဦးအရိယ ကျောင်းတိုက်၌ ကျောင်းသား အစည်းအဝေးပွဲကြီး ပြုလုပ်သည်။ ယင်းအစည်းအဝေးမှ ဒီဇင်ဘာလ ၇ ရက်နေ့တွင် တက္ကသိုလ်ကို



အမျိုးသားနေ့အခမ်းအနားကို စီတန်းလှည့်လည်ပွဲများဖြင့် ဤသို့ တခမ်းတနားကျင်းပပေသည်။ ပုံမှာ ၁၉၃၈ ခုနှစ်က အမျိုးသားနေ့တွင် ရန်ကုန်မြို့တွင်း၌ စီတန်းလှည့်လည်နေကြပုံ ဖြစ်၏။

သပိတ်မှောက်ရန်နှင့် ပညာရေး ပြုပြင်မှု တောင်းဆို၍ တောင်းဆိုချက်များ မပေးသမျှကာလပတ်လုံး ကျောင်းပြန်မတက်ရန်တို့ကို ဆုံးဖြတ်ကြသည်။ ဒီဇင်ဘာလ ၇ ရက်နေ့တွင် သပိတ်မှောက်ရန် မူလက စီစဉ်ထားသော်လည်း အခြေအနေ ပြောင်းလဲသွားသဖြင့် ဒီဇင်ဘာလ ၅ ရက်၊ တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့တွင် ကျောင်းသားများသပိတ်မှောက်ကြသည်။ ကျောင်းသားခေါင်းဆောင်ကိုဘဦးကိုယ်တိုင် လက်မှတ်ထိုး၍ ကျောင်းသား ကြေညာချက်ကို ဘုရင်ခံထံ ပို့သည်။ ယင်း ကြေညာချက်သည် ရန်ကုန်တက္ကသိုလ် အက်ဥပဒေပါ အချက်များကို ကန့်ကွက်စာပင်ဖြစ်သည်။ဘုရင်ခံထံမှ အကြောင်းပြန်ကြားခြင်းမပြုသဖြင့် သပိတ်စခန်းတွင် အမျိုးသားကျောင်းများ တည်ထောင်ရန် ကျောင်းသားများသည် ဂျီစီဘီအေ ခေါင်းဆောင်များနှင့် တိုင်ပင်ဆွေးနွေးသည်။ တက္ကသိုလ်သပိတ်ကို တတိုင်းပြည်လုံးကဝိုင်းအုံထောက်ခံကြသည်။တက္ကသိုလ်အက်ဥပဒေသည် တက္ကသိုလ်ရောက် ကျောင်းသားများထက် တက္ကသိုလ်သို့ရောက်ခါနီး ဟိုက်စကူး ကျောင်းသားများ အ တွက် ပို၍ ထိခိုက် သဖြင့် ဟိုက်စကူး ကျောင်း (အထက်တန်းကျောင်း) များကပါ သပိတ် မှောက်ကြသည်။ ၁၉၂၁ ခုနှစ် ဇန္နဝါရီလတွင် မြန်မာပြည်ဘုရင်ခံက

အိန္ဒိယဘုရင်ခံချုပ်ထံ နှစ်ပတ်တကြိမ် ပေးပို့သော အစီရင်ခံစာတွင် ရန်ကုန်တက္ကသိုလ်သပိတ်မှောက်သည့် အရေးကို ထိထိရောက်ရောက်မနှိမ်နင်းလျှင် မြန်မာပြည်သည် အင်္ဂလိပ်လက်အောက်မှ လွတ်မြောက်သွားရန် အကြောင်း ရှိသည်ဟု အစီရင်ခံရသည့် အခြေအထိ မြန်မာတို့၏ ဝံသာနုစိတ်ဓာတ် အုံကြွခဲ့လေသည်။ အစိုးရက ကျောင်းသားများ တောင်းဆိုချက်ကို လိုက်လျောသည်ဖြစ်စေ၊ မလိုက်လျောသည် ဖြစ်စေ ရန်ကုန်တက္ကသိုလ် လက်အောက်ခံ ကောလိပ်ကျောင်းများကို မည်သည့်နည်းနှင့်မျှ ပြန်မတက်တော့ပြီဟု တက္ကသိုလ်ကို ရာသက်ပန် သပိတ်မှောက်ရန် တညီတညွတ်တည်း ဆုံးဖြတ်ကြလေသည်။ ၁၉၂၀ ခုနှစ် ဩဂုတ်လတွင် ရန်ကုန်မြို့ ဗဟန်းရပ်၊ ရွှေကျင် ကျောင်းတိုက်ကြီးတွင် အမျိုးသား ကောလိပ်ကို ဖွင့်လှစ် လိုက်ကြသည်။ အမျိုးသား ပညာရေးကောင်စီဟုလည်း ပေါ်ပေါက်လာကာ မြန်မာနိုင်ငံ တဝှန်းလုံး၌ အမျိုးသား ကျောင်းများ အများအပြား ပေါ်ထွက် လာခဲ့သည်။ ၁၉၂၀ ပြည့်နှစ် သပိတ်ကြောင့် ယင်းသို့ ပညာရေးအမြတ်များ ထွက်ပေါ်လာခဲ့ရုံမက ပြည်သူလူထုတွင်လည်း နယ်ချဲ့ ဆန့်ကျင်ရေး အမျိုးသားစိတ်ဓာတ်များ အပြင်းအထန် ပေါ်ပေါက်လာခဲ့လေသည်။ ယင်းသည်ပင် မြန်မာတို့၏ စိတ်ဓာတ်တော်လှန်ရေး အောင်ပွဲကြီးဟု ခေါ်ရမည် ဖြစ်လေသည်။

ထိုကြောင့် ၁၉၂၁ ခုနှစ် ဒီဇင်ဘာလအတွင်း မန္တလေးမြို့၌ ကျင်းပသော ဂျီစီဘီအေ ပြည်လုံးကျွတ်ညီလာခံကြီး၌ အမျိုးသားနေ့သတ်မှတ်ကျင်းပရန် စဉ်းစားကြသောအခါ ၁၉၂၀ ပြည့်နှစ် ကျောင်း သား သ ပိတ် စတင်သော တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့ကို လက်ခံနိုင်ကြခြင်း ဖြစ်သည်။ ထိုညီလာခံတွင် အချို့က သီပေါဘုရင် ပါတော်မူသော တန်ဆောင်မုန်းလဆုတ် ၈ ရက်နေ့ကို အကြံပေး၍ အချို့က ဦးဥတ္တမ အဖမ်းခံရသော နေ့ကို အကြံပေးကြသည်။ ၁၉၂၀ ပြည့်နှစ် သပိတ် ၁၁ ဦးကော်မီတီတွင် ပါဝင်ခဲ့သော ဦးမြင့်က ဂျီစီဘီအေ ကွန်ဖရင့်သို့ ကျောင်းသား ကိုယ်စားလှယ်အဖြစ် တက်ရောက်ပြီးလျှင် နန်းကျသော နေ့နှင့် အဖမ်းခံရသော နေ့များသည် မင်္ဂလာမရှိ၊ နယ်ချဲ့ ဗြိတိသျှကို ပဋ္ဌမဆုံး ထိထိရောက်ရောက် တော်လှန်သော နေ့ဖြစ်သည့် ကျောင်းသားများ သ ပိတ် မှောက် သော တန်ဆောင်မုန်းလဆုတ် ၁၀ ရက် နေ့ကို အမျိုးသားနေ့ သတ်မှတ်သင့်ကြောင်း အကြံပေးလေသည်။ ထိုမန္တလေး ကွန်ဖရင့်ကြီးမှ အမျိုးသားနေ့ကို တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့တွင် ကျင်းပရန် ဆုံးဖြတ်ချက် ချခဲ့ရာ ယနေ့ တိုင်အောင် အမျိုးသားနေ့ဟူ၍ ပြည်ထောင်စုမြန်မာနိုင်ငံတွင် နှစ်စဉ် ကျင်းပဆဲ ဖြစ်သည်။ (ဂျီ၊ စီ၊ ဘီ၊ အေ— လည်းရှု။)

**အမျိုးသားသီချင်းများ။** ။နိုင်ငံတော် သီချင်းများ — ရှု။

**အမြဲစိမ်းသစ်တော။** ။ကမ္ဘာပေါ်ရှိ သစ်တောများသည် အပူချိန်၊ မိုးရွာသွန်းမှု၊ ကုန်းမြေအနိမ့်အမြင့်၊ မြေဆီလွှာနှင့် ကျောက်အမျိုးအစားပေါ်တွင် တည်နေသောကြောင့် သစ်တောအမျိုးအစား အမျိုးမျိုးကွဲပြားလျက်ရှိကြောင်း တွေ့ရပေသည်။ ထိုသစ်တောများအနက် အမြဲစိမ်းသစ်တော (ရွက်မပြတ်သစ်တော) များသည် မြေဆီလွှာအတွင်းမှ ရေအမြဲတမ်းရရှိမှသာ ပေါက်ရောက်နိုင်ရကား မိုးများစွာရွာသွန်းသောအရပ်များတွင် မြေဆီလွှာအတွင်း၌ ရေတနှစ်ပတ်လုံးတည်ရှိနိုင်သဖြင့် ထိုအမြဲစိမ်းသစ်တောများကို တွေ့နိုင်ပေသည်။ မိုးရေချိန် လက်မ ၁၂၀ ကျော်ရွာသွန်းသော ဒေသများတွင် အမြဲစိမ်းသစ်တောများ ပေါက်ရောက်ကြသည်။ ထို့ပြင် မိုးရေချိန်လက်မ ၆၀ နှင့် ၁၂၀ အတွင်းရှိသည့်ဒေသများ၌လည်း အမြဲစိမ်းသစ်တောများကို ပျောက်ကြားတွေ့ရသည်။ အထူးသဖြင့် မြစ်ချောင်းများ၏ ပဲယာအရပ်များနှင့် နေရောင်ခြည် မထွန်းတောက်နိုင်သည့် လျှိုကြီးမြောင်ကြီးများအတွင်း၌ အမြဲစိမ်းတောများကို တွေ့နိုင်သည်။

မြန်မာနိုင်ငံတွင် ရခိုင်ကမ်းရိုးတန်း၊ တနင်္သာရီကမ်းရိုးတန်းနှင့်ပဲခူးရိုးမတို့တွင် အမြဲစိမ်းသစ်တောများကို တွေ့ရသည်။ ထိုတောများရှိ သစ်ပင်ကြီးများသည် များသောအားဖြင့် ပေ ၁၅၀ ကျော်မြင့်မား၍ ယင်းတို့အောက်တွင် ချုံနွယ်ပိတ်ပေါင်းများ အလွန်ပေါများသည်။ ထိုချုံနွယ်ပိတ်ပေါင်းများသည် အလွန်ပေါများထူထပ်ရကား ထိုးဖောက်သွားလာရန်ပင် ခဲယဉ်းလှပေသည်။ ထို့ပြင် ကြိမ်တောနှင့်ဝါးရုံတောများကိုလည်း တွေ့ရသေးသည်။ ထိုသို့ ရှုပ်ထွေးထူထပ်သော တောလက္ခဏာများသည် သားရဲတိရစ္ဆာန်များကို လူတို့၏ ဘေးရန်မှ အကာအကွယ်ပေးနေသကဲ့သို့ ရှိနေသောကြောင့် ဆင်များ၊ ကျားများ အစရှိသော တောရိုင်း တိရစ္ဆာန်များ နေထိုင်ကြသည်။

အမြဲစိမ်းသစ်တောများ၌ ပေါက်ကြသော သစ်ပင်အမျိုးပေါင်း မြောက်မြားစွာအနက် စီးပွားရေးအနေနှင့် အရေးကြီးသောသစ်ပင်များမှာ ကညင်၊ သင်္ကန်း၊ သင်္ကန်းတူ (သင်္ကန်းတူ)၊ ပျဉ်းမ၊ ကောင်းမှူ၊ သစ်ခါး၊ တောင်သရက်နှင့် ဘိုင်တို့ဖြစ်ကြသည်။ ဝါးတို့မှာ ဒေသအလိုက် အမျိုးကွဲပြားလျက်ပေါက်ရောက်ကြရာ ပဲခူးရိုးမနှင့် အောက်မြန်မာနိုင်ငံ၌ ဝါးသပွတ်၊ ဝါးပိုးကိုင်း၊ တနင်္သာရီနယ်၌ ဝါးနွယ်ခေါ်ဝါးပါးကိုင်း၊ အထက်မြန်မာနိုင်ငံ၌ ဝါးပိုးမျက်ဆန်ကျယ်ကိုင်း တွေ့ရှိရသည်။

တောင်အမေရိကတိုက်ရှိ အမွန်မြစ်ဝှမ်း၊ အာဖရိကတိုက်ရှိ ကွန်ဂိုမြစ်ဝှမ်း၊ အရှေ့အိန္ဒိယကျွန်းစု၊ ထရင်းနီးဒက်ကျွန်းစုများတွင် အမြဲစိမ်းသစ်တောများကို တွေ့ရသည်။ ထိုဒေသများသည် အီကွေတာမျဉ်းကြောင်းတလျှောက်၊ မြောက်ဖက်နှင့်တောင်ဖက်အကြားတွင်ရှိသဖြင့် အီကွေတာရာသီဥတုမျိုးကို ရရှိကြရကား၊ အမြဲ မိုးသည်းထန်စွာ ရွာသွန်းလေ့ရှိသည်။ ထိုဒေသများ၌ ပျမ်းမျှအပူချိန်သည် အမြဲ ၈၀ ဒီဂရီဖာရင်ဟိုက်လောက်ရှိ၍ တနှစ်လုံးတွင် ပျမ်းမျှမိုးရေချိန်မှာ လက်မ ၈၀ ကျော်ရှိလေသည်။ ပူအိုက်၍ မြေဆီလွှာအတွင်း၌ ရေတနှစ်ပတ်လုံးတည်ရှိနေသဖြင့် ထိုဒေသများသည် အမြဲစိမ်းသစ်တောပေါက်ရာဒေသများ ဖြစ်ကြသည်။ ပေ ၂၀၀ ကျော်မြင့်သော သစ်ပင်ကြီးများသည် တပင်နှင့်တပင် နီးကပ်ထူထပ်စွာပေါက်ရောက်ကြသဖြင့် အထက်၌ယှက်သန်းလျက်ရှိသော အကိုင်းအခက်အရွက်များမှာ နေရောင်ခြည် အလျှင်းမဖောက်ထွင်းနိုင်လောက်အောင် ပိတ်ဆို့နေကြ၏။ ပင်လုံးတလက်မမှတပေအချင်းရှိသော နွယ်ပင်ကြီးများသည်လည်း အလင်းရောင်ကိုရရန် အလုအယက် နွယ်တက်လျက် ရှိကြသည်။ ထိုသစ်တောမျိုးအတွင်း၌ နေရောင်ခြည်သည် မြေသို့အလျှင်းကျရောက်ခြင်းမရှိပဲ အစဉ် မှောင်မဲစိုစွတ်လျက် ရှိတတ်လေသည်။

အမြဲစိမ်းသစ်တောတွင်သစ်ပင်မျိုးစုံပေါက်သော်လည်း များသောအားဖြင့် သစ်မာပင်မျိုးများဖြစ်ကြသည်။ ကွန်ဂိုမြစ်ဝှမ်းဒေသတွင် မဟောဂနီပင်ကဲ့သို့ အလွန်မာ၍ကောင်းသောသစ်မျိုး ထွက်သော်လည်း ခုတ်လှဲရန်စရိတ်ကြီးသည့်ပြင် မလွယ်ကူလှချေ။ အမွန်မြစ်ဝှမ်းဒေသရှိ အမြဲစိမ်းသစ်တောများသည် ကြက်ပေါင်စေးပင်တို့၏ စတင်ပေါက်ရောက်ရာ ပင်ရင်းဌာန ဖြစ်သည်။ ကမ္ဘာပေါ်တွင် ကြက်ပေါင်စေးအကောင်းဆုံးနှင့် အများဆုံးထွက်သော သီဟိုဠ်ကျွန်း၊ မလ္လာယုကျွန်းဆွယ်၊ အရှေ့အိန္ဒိယကျွန်းစုနှင့် မြန်မာနိုင်ငံတောင်ပိုင်းဒေသများရှိ ကြက်ပေါင်စေးခြံများသည် အမွန်မြစ်ဝှမ်းမှ မျိုးစေ့ကိုယူ၍ စိုက်ပျိုးသောခြံများ ဖြစ်ကြသည်။ ကွီနိုင်ခေါ် အဖျားဖြတ်ဆေးဖော်ရသော ဆင်ကိုနားပင်သည်လည်း အမြဲစိမ်း သစ်တောများတွင် ပေါက်ရောက်သောအပင်များ ဖြစ်လေသည်။

**အမြောက်။** ။ကောင်းကင်အမြင့်တွင် လျင်မြန်သောနှုန်းဖြင့် ပျံသန်းနေသော အစက်ကလေးလောက် မြင်ရသည့် လေယာဉ်ပျံကို လေယာဉ်ပစ်အမြောက်ဖြင့် ထိမှန်အောင် ပစ်နိုင်ခြင်းသည် သာမန်အစွမ်းမဟုတ်ပေ။ မြေပြင်မှပစ်သော အမြောက်ဆံများကို ရှောင်လိုက် တိမ်းလိုက် ပြုလုပ်နေသည့်ကြားမှ ထိမှန်အောင်လိုက်၍ ပစ်နိုင်ခြင်းမှာ လေယာဉ်ပစ် အမြောက်တွင် ချိန်တံဟု ခေါ်သော ကရိယာတခု ရှိသောကြောင့်ဖြစ်သည်။ ထိုချိန်တံသည် ပစ်လိုက်သည့်အမြောက်ဆံနှင့် ရန်သူ လေယာဉ်ပျံတို့တွေ့ဆုံမည့်နေရာကို ချိန်နိုင်သည့် အလိုအလျောက်ကရိယာ ဖြစ်သည်။ အဝေး၌ ရှိသော လေယာဉ်ပျံကိုအမြောက်နှင့် တိုက်ရိုက်ပစ်ပါက အမြောက်ဆံရောက်ချိန်တွင် လေယာဉ်ပျံသည် ရှေ့သို့ရောက်နှင့်နေမည်ဖြစ်ရကားအမြောက်ဆံမှာ အချည်းနှီးဖြစ်ရလေသည်။ ထိုသို့ မဖြစ်ရအောင် ချိန်တံဖြင့် ချိန်၍ပစ်ရသည်။ လေယာဉ်ပျံ၏ အမြင့် ညွှန်း ဒီဂရီ လမ်းကြောင်း အသွားနှုန်းတို့အပြင် လေတိုက်နှုန်းနှင့် လေ မည်သည့်ဖက်သို့ တိုက်နေသည် စသည်တို့ကိုချိန်တံသည် တိတိကျကျ တွက်ချက်၍ အမြောက်ဆံနှင့် လေယာဉ်ပျံတို့ တွေ့ဆုံမည့်နေရာကို ပြနိုင်သည်။

လေယာဉ်ပစ်အမြောက်နှင့် ချိန်တံတို့သည် လျှပ်စစ်ဓာတ်ကြိုးဖြင့် ဆက်သွယ်ထား၏။ တွေ့ဆုံမည့် နေရာကို တွက်ချက်သည့်အခါ ချိန်တံတွင် ရှိသည့် အတံများသည် လျှပ်စစ်ဓာတ်ဖြင့် အမြောက်တွင် လာ၍ပေါ်၏။ ထိုအခါ အမြောက်များကို ဘေးသို့ ဖြစ်စေ၊ အပေါ်သို့ ဖြစ်စေ လိုရာဖက်သို့ လက်ဖြင့်သော်၎င်း၊ လျှပ်စစ်ဓာတ်အားဖြင့် သော်၎င်း လှည့်၍ချိန်ထားပြီးလျှင် စနက်တံကလည်းအရံသင့်ရှိနေလေသည်။ အချိန်ကိုက်လာသည်နှင့် ပစ်လိုက်ရာ လေယာဉ်ပျံကို မလွဲတမ်း မှန်တော့၏။ ရေဒါသည်လည်း ချိန်တံကို ပို၍တိကျမှန်ကန်အောင် ပြုလုပ်ပေးသည်။ ရေဒါဖြင့် တိမ်ထဲတွင် ဖုံးကွယ်နေသော လေယာဉ်ပျံများကို ပစ်နိုင်သည့်ပြင် ညဥ့်အခါ မီးမောင်းကြီးများမပါပဲ ထိမှန်အောင် ပစ်နိုင်သည်။ (ရေဒါ — ရှု။) ပြောင်း၀ ၄.၅ လက်မရှိသော အမြောက်လေးခုတပ်ခွဲတွင် ရေဒါ၏အကူအညီဖြင့် ရန်သူဗုံးကြဲလေယာဉ်ပျံ ရှိရာသို့ တမိနစ်လျှင် ၅၅ ပေါင်ရှိ အမြောက်ဆံ ၃၆ ခုကို ပစ်နိုင်စွမ်းရှိသည်။

ဒုတိယကမ္ဘာစစ်အတွင်း ဗြိတိသျှစစ်တပ်တွင် အသုံးပြုသော လေယာဉ်ပစ်အမြောက်များတွင် ၄၀ မီလီမီတာ (၁.၅ လက်မခန့်) အမြောက်ဆံနှင့် အမြန်ပစ် နှစ်ပေါင်လေးအမြောက်ဆံများပါဝင်၏။ နှစ်ပေါင်လေးအမြောက်ဆံနှင့် ပစ်သောအမြောက်များကို အနိမ့်ပျံသော လေယာဉ်များနှင့် ပစ်မှတ်အငယ်စားများကို ခုခံပစ်ရာ၌ များစွာ အသုံးပြုသည်။ အမြင့်ပေ ၃၀,၀၀၀ ကျော် အထိရောက်အောင်ပစ်နိုင်သော ၃.၇ လက်မ၊ ၄.၅ လက်မနှင့် ၅.၂၅ လက်မအမြောက်ကြီးများကို မြို့စောင့် အဖြစ်မြို့ပတ်လည်၌ ချထားတတ်ကြသည်။

ဗြိတိသျှ မြေပြင်ပစ် အမြောက်ကြီးများတွင် ကိုက် ၁၃,၀၀၀ အဝေးပစ် ၂၅ ပေါင်ဒါ အမြောက်ဆံသည် စံအမြောက်ဆံဖြစ်သည်။ ဤလက်နက်သည် အမှန်အားဖြင့်

အခြား လက်နက်များနည်းတူ ဟောင်ဝစ်ဇာ အမြောက် ဖြစ်သည်။ ဟောင်ဝစ်ဇာသည် ဝေးဝေးသို့ မပစ်နိုင်သည့်ပြင် အမြောက်ဆံမှာ မြန်လည်း မမြန်ချေ။ အမြောက်ဆံသည် အပေါ်သို့ ခပ်မတ်မတ် ကောက်တက် သွားပြီးလျှင် မြေပြင်ပေါ်သို့ တည့်တည့်လောက် ကျလာတတ်သည်။ အမြောက်ကား အမြောက်ဆံကို အပေါ်သို့ မတ်မတ် ကောက်တက်မသွားစေပဲ မြေပြင်နှင့် ဖြောင့်ဖြောင့်ကြီး မြန်မြန်နှင့် ဝေးဝေး ပစ်နိုင်သည်။

၃.၇ လက်မ ဟောင်ဝစ်ဇာသည် ပုံဟောင်းဖြစ်သည်။ ယင်းကို အစိတ်စိတ် ခွဲလိုက်နိုင်ပြီးလျှင် လားများဖြင့် ယူဆောင်၍ တောင်ပေါ် အမြောက်တပ်ခွဲများက အသုံးပြုကြသည်။ ထိုဟောင်ဝစ်ဇာကို တဖန်အသုံးပြုလိုက ပြန်၍ အသုံးပြုနိုင်သည်။ လေယာဉ်ပျံနှင့် သယ်ဆောင် ယူသွားနိုင်သည်။ ယင်းသည် ၂၀ ပေါင် အမြောက်ဆံဖြင့် ကိုက် ၆,၀၀၀ အဝေးသို့ ထိမှန်အောင်ပစ်နိုင်သည်။ အခြားမြေပြင်ပစ် ဟောင်ဝစ်ဇာအမြောက်များမှာ ၄.၅ နှင့် ၅.၅ လက်မမှ အကြီးစား ၉.၂ လက်မအထိ ရှိသည်။

ရန်သူလေယာဉ်ပျံများကို ပစ်ချရာ၌ တုံးပျံများကိုလည်း အသုံးပြုကြသေးသည်။ တုံးပျံများကို "ပရိုဂျက်တာ"ခေါ် တုံးပျံပစ်ခုံများပေါ်ရှိ သံလမ်းများပေါ်တွင် တပ်ဆင်ထားသည်။ ယင်းတုံးပျံပစ်ခုံများကို အောက်သို့ ငှင်း၊ အပေါ်သို့ငှင်း မြှင့်တင်နိုင် နှိမ့်ချနိုင်သည့်ပြင် ဘေးဖက်သို့လည်း အလိုရှိသလိုရွှေ့ပေးနိုင်သည်။ သံလမ်းပေါ်တွင်တပ်ဆင်ထားသော တုံးပျံများကို တကြိမ်လျှင်တုံးပျံနှစ်ခုကျ တုံးပျံပစ်ခုံနံဘေးရှိ လျှပ်စစ်ခလုတ်ဖြင့်ပစ်ရသည်။ တုံးပျံများကိုပစ်ရာ၌ အမြောက်ဆံများကဲ့သို့ လည်၍သွားခြင်းမရှိသဖြင့် တုံးပျံသွားလမ်းသည် တိတိကျကျ မမှန်တတ်ချေ။ သို့သော် တုံးပျံအမြောက်အမြားကို ပစ်ထုတ်သောကြောင့် တခုနှင့်မမှန်လျှင် တခုနှင့်မှန်နိုင်လေသည်။ တုံးပျံပစ်ခုံတခုတွင် တုံးပျံနှစ်ခုစီ တပ်ဆင်ထားသော တုံးပျံပစ်ခုံ ၆၄ ခုမှ တပိုင်နက်တည်း တုံးပျံပေါင်း ၁၂၈ ခုကို ပစ်ထုတ်နိုင်လေသည်။ မြေပြင်တွင်လည်း အလားတူတုံးပျံများကို အမြောက်အလတ်စားသဖွယ်အသုံးပြုကြသည်။

ဒုတိယ ကမ္ဘာစစ်အတွင်း အမြောက်များကို များသောအားဖြင့် လေးဘီးတပ် ထရက်တာခေါ် ဝန်ဆွဲယာဉ်များဖြင့် ဆွဲယူကြသည်။ သို့သော်လည်း နောက်တွင်မဆွဲရတော့ပဲ တင့်ကား သဘောမျိုးကဲ့သို့ ဖာသာ မောင်းသွားနိုင်သည်။ အမြောက်များကို တင့်ကား အောက်ခံကိုယ်ထည်တွင် တပ်ဆင်၍ အမြောက်ပစ် သမားများသည် အတွင်းမှ ထိုင်လိုက်ရသည်။ ယင်းအမြောက်တင်တင့်ကားများသည် တင့်ကားများကဲ့သို့ လိုရာ သွားနိုင်သည်။ အမြောက်များမှာ ၁၇ ပေါင်ဒါမှ ၁၀၅ မီလီမီတာ(အချင်း



၁၅၅-မမ ဟောင်ဝစ်ဇာအမြောက်

၄ လက်မခန့်) အထိနှင့် ၇ လက်မ အမြောက်ထိ ရှိကြသည်။ အမေရိကန်တို့က ၃၁ တန်အလေးချိန်ရှိသော ၈ လက်မ အမြောက်ကြီးကို ထုတ်လုပ်ကြသည်။ ယင်းတို့သည် မိုင် ၂၀ အကွာအဝေးသို့ ပေါင် ၂၄၀ အမြောက်ဆံဖြင့် ပစ်နိုင်သည်။

တန်ချိန် ၁,၅၀၀ ရှိ၍ ၇.၅ တန်လေးသော အမြောက်ဆံကို ၂၈ မိုင်အထိ ပစ်နိုင်သောအမြောက်ကြီးကို ဒုတိယကမ္ဘာစစ် အတွင်းက ဂျာမန်များ အသုံးပြုခဲ့ကြသည်။ ယင်းအမြောက်ကြီးကို မီးရထားသံလမ်းပေါ် တင်၍ လူပေါင်း ၁,၅၀၀ ဖြင့် ကိုင်တွယ်ရသည်။ ဤအမြောက်ကြီးမှ အမြောက်ဆံတခုကို လန်ဒန်မြို့ ဘုရင့်စစ်ပြတိုက်တွင် ပြထားသည်။

ဗြိတိသျှကင်းစောင့် အမြောက်တပ်တွင် လှည့်စင်ပေါ်၌တပ်ဆင်ထားသော ၆ လက်မအမြောက်မျိုးကိုနှစ်ပေါင်းများစွာကပင် လက်နက်ကောင်းတခု အနေဖြင့် အသုံးပြုခဲ့ကြသည်။ ယင်းအမြောက်မျိုးသည် ကိုက်ပေါင်း၂၆,၀၀၀ ဝေးသောနေရာသို့ ပစ်နိုင်၍ယင်း၏ ပေါင် ၁၀၀အမြောက်ဆံသည် ဖျက်သင်္ဘောတစင်းကို နှစ်မြှုပ်နိုင်သည်။ သို့တည်းမဟုတ် သင်္ဘောကြီးတစင်းကို တိုက်ခိုက် ပျက်စီးစေနိုင်သည်။ ၉.၂ လက်မ၊ ၁၂ လက်မနှင့် ၁၈ လက်မ စသောအမြောက်ကြီးများကိုလည်း ကမ်းစောင့်အတွက် အသုံးပြုသည်။ ခံတပ်ဖျက် အမြောက်ကြီး များသည် တတန်ကျော်ကျော် လေးသောအမြောက်ဆံကို တနာရီလျှင် မိုင် ၉၀၀ နှုန်းဖြင့် မိုင် ၂၀ အဝေးသို့ ပစ်နိုင်သည်။

အချို့အမြောက်များကို အမျိုးမျိုး အသုံးပြုနိုင်သည်။ ရွှေ့ပြောင်းလွယ်သော ၃.၇ လက်မလေယာဉ်ပစ်အမြောက်များကို မြေပြင်ပစ် အမြောက်များ အဖြစ်ဖြင့် အသုံးပြု

နိုင်သောကြောင့် စစ်သင်္ဘောများ ပင်ရာ၌ အသုံးပြုခဲ့သည်။ ယင်းအမြောက်၏ပြောင်းကို လိုသလိုမြှင့်နိုင်သောကြောင့် အမြောက်များမမှီသော ပစ်မှတ်များကို ပစ်နိုင်သည်။ ဒုတိယကမ္ဘာစစ်အတွင်း အထူးသဖြင့် မြောက်အာဖရိက စစ်မျက်နှာတွင် ၂၅ ပေါင်ဒါ အမြောက်ကို တင့်ကားဖျက်ဆီးရာ၌ အသုံးပြုခဲ့သည်။ ဂျာမန်လုပ် ၈၈ မီလီမီတာအမြောက်သည် လေယာဉ်ပျံ၊ တင့်ကား၊ သို့မဟုတ် မြေပြင်ပစ်မှတ်များကို ပစ်နိုင်သဖြင့် အလွန်အောင်မြင်ခဲ့သည်။

တခါတရံ ၄၀ မီလီမီတာ အမြောက်ကို စက်အမြောက်အကြီးစားအဖြစ် အသုံးပြုခဲ့ကြ၍ သင်္ဘောကလေးများကို ပစ်ရာ၌ အလွန်ထိရောက်ခဲ့သည်။ သဲကန္တာရတွင် ညဥ့်တိုက်ပွဲများ၌ တိုက်စစ်ဆင်လျက်ရှိသော မိမိတို့၏ ခြေလျင်တပ်သားများအား စစ်မျက်နှာ အကန့်အသတ်နှင့် ဦးတည်ရာအရပ်ကို ညွှန်ပြရန်အတွက် ဤအမြောက်များက တပ်သားများ၏ ဦးခေါင်းပေါ်မှ လင်းကျည်များကို မှန်မှန်ပစ်ပေးလျက်ရှိသည်။ တုံးပျံပစ် အမြောက်များကလည်း လေယာဉ်ပျံများကို ပိုက်စိတ်တိုက် ပစ်ခတ်ပေးကြ၏။ ကမ်းသို့ ချဉ်းနင်းဝင်ရောက် တိုက်ခိုက်လာသော ရန်သူများကို ကမ်းစောင့်အမြောက်တပ်က ခုခံတိုက်ခိုက်လေ့ရှိသည်။ အမှန်အားဖြင့် ကမ်းစောင့်အမြောက်တပ်၏ အလုပ်မှာ ပင်လယ်တွင်းရှိ ပစ်မှတ်များကိုပစ်ခတ်ရန် ဖြစ်သည်။ ယင်းတို့ကို ဆိပ်ကမ်းပတ်ဝန်းကျင်တွင် ရေမြုပ်ဗုံးများချရန်လာသည့် ရန်သူလေယာဉ်ပျံများကို ပစ်ခတ်ရာတွင်လည်း အသုံးပြုသည်။

အမြောက်ဆံများသည် များသောအားဖြင့် ထိပ်ချွန်သံမဏိဒလိမ့်ပုံ ဖြစ်၍ အတွင်း၌ စနက်တံပါသည်။ စနက်တံ၏ ရည်ရွယ်ချက်မှာ အလိုရှိသည့်အချိန်တွင် အမြောက်ဆံကို ပေါက်ကွဲရန် ဖြစ်၍ အမြောက်ဆံ၏ အသိမ်မွေ့ဆုံးသော အပိုင်း ဖြစ်သည်။ စနက်တံသည် မာသောအရာဝတ္ထုနှင့် ထိသောအခါမှ ပေါက်ကွဲသော စနက်တံမျိုး၊ သို့မဟုတ် ပစ်လိုက်၍ အောက်သို့ မကျမီ အလိုရှိသည့်အချိန်၌ ပေါက်ကွဲစေနိုင်သည့် စနက်တံမျိုး၊ သို့မဟုတ် သဘောနှစ်မျိုးလုံး စနက်တံမျိုး ဟူ၍ အမျိုးမျိုး ရှိလေသည်။

လေယာဉ်ပစ် အမြောက်ဆံတွင်းရှိ စနက်တံမျိုးကား လေယာဉ်ပျံကို မမှန်ပါက အလိုအလျောက် ပေါက်ကွဲသော စနက်တံမျိုး ဖြစ်သည်။ သို့မှသာ မြေပြင်ပေါ်သို့ မကျသဖြင့် မဆိုင်သူများ ထိခိုက်ဒဏ်ရာရခြင်းမှ သက်သာလေသည်။ ကြောက်စရာကောင်းသော စနက်တံတမျိုးမှာ ရေဒီယိုစနက်တံဖြစ်သည်။ ယင်းတွင် ရေဒီယိုလှိုင်းလွှင့်ခွက်နှင့် ဖမ်းခွက်အသေးကလေးတခုအပြင် ဓာတ်ခဲနှင့် ကောင်းကင်ကြိုး အပြည့်အစုံ ပါရှိသည်။ ယင်းစနက်တံမျိုးကို ၃.၇ လက်မ အမြောက်ဆံ၏ ထိပ်တွင် တပ်ဆင်ထားသည်။ အမြောက်ဆံကို ပစ်ထုတ်၍ လေထဲတွင်ရှိစဉ် ရေဒီယိုလှိုင်းလွှင့်ခွက်ကလေးက လှိုင်းများကို လွှင့်၏။ အမြောက်ဆံသည် လေယာဉ်ပျံနှင့် ပေ ၇၀ အတွင်းသို့ ရောက်သွားသောအခါ ရေဒီယိုလှိုင်းများသည် ဖမ်းခွက်သို့ ပြန်၍ ပဲ့တင်ရိုက်ခတ်လာသောကြောင့် ယင်းတွင် ပါသော ခလုတ်က စနက်တံကို လျှပ်စစ်ခလုတ်ဖြင့် ထိသဖြင့် ပေါက်ကွဲတော့၏။ သို့ဖြင့် လေယာဉ်ပျံကို ထိမှန်ပြီး ပျက်စီးသွားစေလေသည်။

သာမန်အမြောက်ဆံတွင် ပြင်းထန်သော ပေါက်ကွဲပစ္စည်းများ ထည့်ထားရာ အလွန်အန္တရာယ်ကြီး၏။ တင့်



အဝေးပစ် စက်အမြောက်ကြီး

ကားကို ဖောက်ထွင်းပျက်စီးစေသည့် အမြောက်ဆံမှာ ခေါင်းပိတ်ဖြစ်သည်။ အစိတ်စိတ်အမွှာမွှာ ပေါက်ကွဲသည့် အမြောက်ဆံသည် ပေါက်ကွဲသည့်အခါ အစိတ်စိတ် ပျံထွက်သွားအောင် အမြောက်ဆံခွံကို တစိတ်တဒေသ ခွဲထားသည်။ လေထီးတွင် ချိတ်ဆွဲထားသော မီးကျည်သည်လည်း အမြောက်တမျိုးမှ ပစ်ထုတ်သော အမြောက်ဆံဖြစ်သည်။ ယင်းမီးကျည်သည် မြေပြင် ရေပြင်သို့ တဖြည်းဖြည်းကျဆင်းလာယင်း အလွန်ထိန်လင်းသော အလင်းရောင်ကို ပေးသဖြင့် ရန်သူတို့၏ လှုပ်ရှားမှုကို ကောင်းစွာ မြင်နိုင်သည်။

အမြောက်ငယ်များကို ခရစ် ၁၃၄၆ ခုနှစ်၌ ဥရောပတိုက်၊ ကရေဆီးစစ်ပွဲတွင် ပဌမဆုံး အသုံးပြုခဲ့ကြသည်။ သတ္တုပြွန်ချောင်းကလေးများကို အထောက်များတွင် ချည်၍ အမြောက်ငယ်အဖြစ် စတင်အသုံးပြုရာမှ ၁၃၈၂ ခုနှစ်တွင် အတော်အသင့် ကြီးသော အမြောက်များအထိ ဖြစ်လာလေသည်။ ဂင့်တိုက်ပွဲတွင် အသုံးပြုသောအမြောက်ကြီးမှာ အလေးချိန် ၁၃ တန်ရှိ၍ ၁၆ ပေရှည်ပြီးလျှင်၊ ပေါင် ၇၀၀ လေးသော ၂၅ လက်မ ကျောက်ခဲလုံးဖြင့် ပစ်၏။ ၁၆ ရာစုနှစ် အလယ်ပိုင်းသို့ ရောက်လာသောအခါ အမြောက်များကို ဘီးများပေါ်တွင်တင်၍ အသုံးပြုလာကြသည်။ အမြောက်ဆံများမှာလည်း ကျောက်ခဲမဟုတ်ပဲ ခေါင်းပိတ်၊ သို့မဟုတ် ခေါင်းပွသံလုံးများဖြစ်လာကြသည်။ ခေါင်းပွသံလုံးများတွင် ယမ်းများ ထည့်လိုက်သောအခါ ပဌမဆုံးအမြောက်ဆံများ ဖြစ်လာတော့၏။

ရှေ့ထိုးပြောင်းချော ရှေးအမြောက်များသည် အနီးကပ်၍တော့ပစ်သည်မှတပါးမထိမှန်ချေ။၁၉ ရာစုနှစ်အလယ်ပိုင်းသို့ ရောက်သောအခါ အမြောက်ပြောင်း အတွင်း၌ ဝက်အူရစ်သွင်းကြောင်းများ ပြုလုပ်လာကြရာ အမြောက်များ ပို၍အားကောင်းလာလေသည်။ ယင်းထွင်းကြောင်းများကြောင့် ပစ်လိုက်သည့်အခါ အမြောက်ဆံသည် လည်၍ ထွက်သွားသောကြောင့် လမ်းတွင် ချာလပတ်မလည်ချေ။ ယခုအခါ ရှေ့ထိုး အမြောက်များ မရှိတော့ချေ။ အမြောက်ပစ်သည့်အခါ နောက်သို့ ပြန်ကန် တတ်သောကြောင့် တခါပစ်ပြီးလျှင် တဖန် ပြန်၍ ချိန်ရသည်။ သို့သော် ယင်းသို့ပြန်မကန်နိုင်သည့် ကြားအခံကရိယာတခုကို တီထွင်လိုက်သောကြောင့် ဆက်ကာဆက်ကာ မနားတမ်းပစ်နိုင်လာသည်။

ယမ်းထက် အလွန်ပြင်းထန်သော ပေါက်ကွဲစရာများ တွေ့ရှိလာသောကြောင့် အဝေးသို့ ပို၍ ပစ်နိုင်ပြီးလျှင် သတ္တုတတိုးတည်းမှ သွန်းလုပ်ယူသော အမြောက်မှာ အသုံးမကျ ဖြစ်လာလေသည်။ ယခုခေတ် ပြင်းထန်သော ပေါက်ကွဲစရာများသည် ယင်းကဲ့သို့သောအမြောက်များကို စက္ကူကဲ့သို့ ကြေမွသွားစေနိုင်သည်။ ထို့ကြောင့် ယခုအခါ သံမဏိတုံးတတုံးကို အတွင်းပြောင်းတခု ဖြစ်အောင် ထွင်းပြီးလျှင် ဒုတိယပြောင်းတခုကို လုပ်ပြန်သည်။ ဒုတိယပြောင်းသည် အေးနေသောအခါ အပေါက်ဝ သေးနေသောကြောင့် ပဌမအတွင်းပြောင်းကို မသွင်းနိုင်ချေ။ သို့သော် အပူပေး၍ ကျယ်လာသောအခါ ပဌမအတွင်းပြောင်းသည် အနေတော် ဝင်သွားပြီးနောက် အအေးခံလိုက်သောအခါ ပြုတ်တူနှင့် ညှပ်ထားသကဲ့သို့ ကျပ်သွားတော့၏။ ဤနည်းဖြင့် တတိယပြောင်း၊ စတုတ္ထပြောင်းထိအောင်ပင် ပြုလုပ်ထည့်သွင်းကြသည်။ အချို့အမြောက်များကို ပြောင်းတခုနှင့်တခု အကြား၌ အခိုင်ခံဆုံးသော ဝိုင်ယာကြိုးများနှင့် ရစ်ပတ်ထားကြသည်။

အမြောက်တပ်တွင် ခဲယမ်းမီးကျောက်များကို တနေရာတည်း၌ ရနိုင်ရန် ပြဿနာမှာ အရေး အကြီးဆုံး ပြဿနာဖြစ်သည်။ ၁၇၁၅ ခုနှစ်တွင် ဝါးတာလူး တိုက်ပွဲ၌ တိုက်ပွဲတခုလုံးအတွက် နှစ်ဖက်စလုံး၌ ၃၇ တန်ထက် မပိုသော အမြောက်ဆံများကိုသာ အသုံးပြုခဲ့သည်။ ယခုခေတ်တွင်ကား တမိနစ်လျှင် အမြောက်ဆံ ငါးခုအထိ ပစ်နိုင်သော ၂၅ ပေါင်ဒါ အမြောက်သည် မိနစ် ၂၀ အတွင်း ခဲယမ်း မီးကျောက် တတန်ကို အသုံး ပြုနိုင် သည့်ပြင် အမြောက်တပ်စိတ်တခုတည်းက ဤကဲ့သို့သောအမြောက်မျိုး ၁၀၀ ကျော်ကို ဤနှုန်းဖြင့် ပစ်နိုင်ကြပေသည်။

ကျွမ်းကျင်သော အမြောက်တပ်သား တယောက် ဖြစ်ဖို့ရန် မလွယ်ချေ။ အချိန်ကြာမြင့်စွာ ပြင်းပြင်းထန်ထန် သင်တန်းတက်ရန် လိုပေသည်။

အမြင်အတိုင်းရေးဆွဲခြင်း။ ။ပါစပက်တစ် ရေးဆွဲနည်း — ရှု။

အမြစ်။ ။အမြစ်သည် သစ်ပင် တပင်လုံး၏ မှီခိုအားထားရာဖြစ်သည်။ အမြစ်များသည် မြေကြီး အတွင်း၌ ဖြာထွက်လျက်ရှိပြီးလျှင် မြေကြီးကို ခိုင်မြဲစွာ ကုတ်ဆားခြင်းကြောင့် လေပြင်းမုန်တိုင်း ကျရောက်သည့်အခါတွင် ယိုင်လဲမသွားပဲ မတ်မတ်မားမား ရပ်တည် နေနိုင်သည်။ ရေတိုက်စားခြင်းမှလည်း ရုတ်တရက် ပါမသွားနိုင်သည့်ပြင် အပင် တပင်လုံး၏ အသက်ရှင်ရေးနှင့် ကြီးထွားရေးအတွက် သဘာဝအလျောက် မြေကြီးထဲတွင် ဖြစ်ပေါ်နေသော ရေနှင့်ဓာတ်ဆားရည်များကို စုတ်ယူ၍ ပင်စည်မှ တဆင့် နောက်ဆုံးအရွက်များအထိ တပင်လုံးသို့ဖြန့်ဖြူးရာ အချက်အချာ ဌာနလည်း ဖြစ်သည်။ မြေကြီးထဲမှစုတ်ယူ ရရှိသောရေနှင့် ဓာတ်ဆားရည်တို့သည် အပင်စာချက်လုပ်ရာ၌ အဓိကလိုအပ်သည့် ပစ္စည်းကြမ်းများဖြစ်ကြသည်။

သရက်စေ့၊ ပဲစေ့၊ လိမ်မော်စေ့စသော အချို့အပင်များ၏ အစေ့တို့တွင် အစေ့ရွက် နှစ်ခုစီရှိကြသည်။ စပါး၊ ပြောင်း၊ ဝါး၊ ထန်းမျိုးနှင့် မြက်စသော အခြားအပင်များ၏ အစေ့တို့တွင် အစေ့ရွက်တခုစီသာ ရှိကြသည်။ အစေ့ရွက်နှစ်ခုရှိသော အစေ့ရွက်စုံအပင်နှင့် အစေ့ရွက်တခုသာ ရှိသော အစေ့ရွက်ထီး အပင်တို့မှ ထွက်သော အမြစ်တို့သည် ခြားနားကြသည်။ အစေ့ရွက်စုံပင်မှထွက်သော အမြစ်တွင် ဗဟိုအမြစ်မကြီး ရှိ၍ ယင်းမှ တဆင့် အမြစ်ငယ်များ ပြန့်ထွက်သွားကြသည်။ ထိုအရင်းခံအမြစ်မကြီးကို ရေသောက်မြစ်ဟုခေါ်သည်။ ရေသောက်မြစ်သည် မြေဆီလွှာအောက်သို့ နက်စွာဝင်ရောက် ထိုးဖောက်သွားတတ်သည်။ အစေ့ရွက်စုံပင်၏ ထူးခြားချက်တရပ်မှာ ရေသောက်မြစ်ရှိခြင်းပင်ဖြစ်သည်။ အစေ့ရွက်ထီးပင်၌ကား ရေသောက်မြစ်ဟူ၍ မရှိချေ။ အမြစ်များသည် သေးငယ်၍ အရွယ်အစား ခြင်းလည်း တူညီသလောက်ရှိကြသည်။ ဤသို့သောအမြစ်များကို အမြစ်ဖွားများဟုခေါ်သည်။ ယင်းအမြစ်ဖွားများသည် အပေါ်ယံမြေဆီလွှာ၌သာ ပေါက်လေ့ရှိသည်။ မုန်လာဥဝါ၊ မုန်လာဥနီနှင့် မုန်လာဥဝိုင်းစသော အချို့အပင်တို့၏ ရေသောက်မြစ်တို့မှာ ပွယောင်းနေသည်။ ယင်းသို့ပွယောင်းနေသည်မှာ ယင်းတို့၌ အပင်စာအပိုများ သိုထားခြင်းကြောင့်ဖြစ်သည်။

အမြစ်များသည် များသောအားဖြင့် မြေအောက်သို့သာ ထိုးဖောက် ဝင်သွားပြီးလျှင် ရေနှင့် ဓာတ်ဆားများကို ရှာဖွေကြသည်။ သို့သော် အချို့အနည်းငယ်မျှသော အပင်တို့၏ အမြစ်များသည် မြေပေါ်တွင်ထွက်ကြသည်။ ဤကဲ့သို့ မြေပေါ်တွင် ပေါက်ရောက်ကြခြင်းဖြင့် ထိုအမြစ်များသည် ပင်စည်ကို ပို၍ခိုင်မြဲစေသည်။ ယင်းတို့ကို မြေထောက်မြစ်များဟု ခေါ်သည်။ ပြောင်းဖူးပင်၊ ညောင်ပင်စသည်တို့တွင် မြေထောက်မြစ်များရှိကြသည်။ အချို့သော သစ်ခွပန်းပင်၊ တိုက်ကပ်ပင်တို့၏ အမြစ်များသည် မြေကြီးပေါ်တွင် မထွက်ပဲ လေထဲတွင်သာရှိကြသည်။ ထိုအမြစ်မျိုးကို လေရှုမြစ်ဟု ခေါ်သည်။ ဤလေရှုမြစ်များသည် လေထဲမှ ရေငွေ့ကိုယူ၍ အသက်ရှင်ကြသည်။ ဗေဒါပင်ကဲ့သို့သော အပင်၏ အမြစ်များသည် ရေထဲတွင်သာ ပေါက်၍ အသက်ရှင်ရကား ယင်းအမြစ်များကို ရေမြစ်ဟုခေါ်သည်။

အပင်၏ အမြစ်တက်များသည် အဖက်ဖက်သို့ဖြာထွက်လျက် ရေနှင့်ဓာတ်ဆားများကို ရှာဖွေကြသည်။ အမြစ်တက်များဖြစ်သော အမြစ်ငယ်များ၏ ထိပ်ဖျားအနီး၌ အမြစ်မွေးဟုခေါ်သော နုနယ်သည့်အမွေးကလေးများရှိသည်။ အမြစ် ထိပ်ဖျားမှ တစ်စင်တီမီတာလောက်အတွင်း၌ ထိုအမြစ်မွေးများကို မတွေ့ရချေ။ ထိပ်ဖျားအနီး၌သာ တွေ့ရသည်။ ရင့်သော အမြစ်ပိုင်း၌လည်း ထိုအမြစ်မွေးများ မရှိချေ။ မြေဆီလွှာရှိရေနှင့် ဓာတ်ဆားရေတို့သည် ထိုအမြစ်မွေးတို့မှတဆင့် အပင်ထဲသို့ဝင်ရောက်နိုင်သည်။ အခြားအမြစ်၏ အစိတ်အပိုင်း များမှ မဝင်ရောက်နိုင်ချေ။ ဝင်ရောက်ရာ၌လည်း တဖက်သပ် စိမ့်၍ဝင်လာခြင်းဖြစ်သည်။ အပင်ပေါက်ကလေး တပင်ကို ဆွဲနုတ်လိုက်သည့်အခါ အမြစ်မွေးများ အားလုံး လိုလိုပင် ပျက်စီးကုန်ကြသည်။ ထို့ကြောင့် အပင်များကို ပြောင်းရွှေ့စိုက်ပျိုးသည့်အခါ အမြစ်များကိုရှိလျက် မြေဆီလွှာမြောက်မြားစွာ ပါလာစေရန် သတိပြုကြရမည်။ သို့မဟုတ်လျှင် အမြစ်မွေးများ ပျက်စီးကုန်လိမ့်မည်။

**အမြိတ်ပန်းထည်။** ။မြန်မာ့အနုပညာရပ်များတွင် အမြိတ်ပန်းထည်ရက်လုပ်ခြင်းအတတ်သည် သီးခြားထင်ရှားခြင်း မရှိခဲ့သော်လည်း မြန်မာရက်ကန်း အတတ်တွင် အမြိတ်ဆင်အချိတ်ဆင်များ၊ ရွှေခြည်ထိုး ငွေခြည်ထိုး အထည်များသည် အထူးထင်ရှားခဲ့ပေသည်။ မြန်မာရက်ကန်းအတတ်တွင် အမြိတ်ကောက်ခြင်း၊ အချိတ်ကောက်ခြင်းတို့သည်လည်း အမြိတ်ပန်းထည်ရက်လုပ်ခြင်းနှင့် များစွာနီးစပ်ပေသည်။

အမြိတ်ပန်းမှာ အသည်တွင် ရက်ချိုးတိုင်ခြည်၊ ဖောက်ခြည်များဖြင့် ရိုးရိုးရက်လုပ်သကဲ့သို့မဟုတ်ပဲ တိုင်ခြည်တွင် အဆင်စုံအသွေးစုံခြည်များဖြင့် လိုရာပုံစံကို ကောက်၍ယူခြင်းပင်ဖြစ်ပေသည်။ မြန်မာတို့၏ အမြိတ်ထည် အချိတ်ထည်များမှာ များသောအားဖြင့် မင်းသုံးပိုးသားပုဆိုးများ၊ ထဘီများသာဖြစ်၍ အနောက်တိုင်း အမြိတ်ပန်းထည်များမှာ ထိုသို့မဟုတ်ချေ။ နန်းတော်အိမ်တော်စသည့် ခန့်ညားသောအဆောက်အအုံကြီးများ၏ အတွင်းခန်းနံရံတို့တွင် အလှအပချိတ်ဆွဲထားသော ကန့်လန့်ကာကြီးများဖြစ်၏။ သဘောချင်းတူသော်လည်း အနောက်တိုင်း အမြိတ်ပန်းထည်ကြီးများသည် မြန်မာ့ အသုံးအဆောင်တို့တွင် ပန်းချီကားကြီးများ၊ သို့မဟုတ် အခင်းကော်ဇောကြီးများသဖွယ်သာ ဖြစ်ပေလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် မြန်မာတို့တွင် နံရံကို အမြိတ်ပန်းကန့်လန့်ကာဖြင့် အုပ်သော အလေ့အထ များစွာမရှိခဲ့သောကြောင့်ဖြစ်၏။

အနောက်တိုင်း၌ ရှေးအခါက ဆောက်လုပ်ခဲ့သော ရဲတိုက်နန်းတော်စသည့် အဆောက်အအုံကြီးများတွင် နံရံများသည် ချောမွေ့ညီညာခြင်းမရှိခဲ့သေး၍ ထိုသို့မညီညာသောနံရံများကို ဖုံးကွယ်ထားရန် နံရံပြည့်ပန်းချီကားကြီးများ၊ အဆိုပါအမြိတ်ပန်းထည်ကြီးများကို သုံးကြသည်။ ထို့ကြောင့် အနောက်တိုင်း အမြိတ်ပန်းထည်ကြီးများသည်



ခေတ်ဟောင်း အမြိတ်ပန်းထည်လုပ်ငန်းဌာနတခု၏ လုပ်ငန်းခွင်

အနုပညာရပ်များတွင် ပန်းချီ၊ ပန်းပု၊ ဗိသုကာပညာရပ်များကဲ့သို့ပင် အရေးပါ အရာရောက်ခဲ့ခြင်း ဖြစ်ပေသည်။

မြန်မာရက်ကန်းအဘော်တွင် အမြိတ်ကောက်အတတ်ကို အလွန်ကျွမ်းကျင်တတ်မြောက်သော ရက်ကန်းသည်များသာလျှင် ရက်လုပ်တတ်ကြသကဲ့သို့ အနောက်တိုင်း အမြိတ်ပန်းထည်များကိုလည်း ပန်းချီနှင့် ရက်ကန်းအတတ်၌ အထူးလက်ရာပြောင်မြောက်သူများသာလျှင် ရက်လုပ်နိုင်ပေသည်။ အမြိတ်ပန်းထည်ရက်လုပ်ခြင်းမှာ သီးခြားပညာရပ်တခုအဖြစ် သင်ယူမှ တတ်မြောက်နိုင်၏။

အမြိတ်ပန်းထည်ကို မြန်မာနိုင်ငံ၌ ကန့်လန့်ကာကြီးများအဖြစ် သုံးလေ့သုံးထ မရှိလှသော်လည်း တရုပ်နှင့် ဂျပန်နိုင်ငံတို့တွင် ရှေးအခါက သုံးခဲ့သည်။ သို့ရာတွင် အနောက်တိုင်းအမြိတ်ပန်းထည်များနှင့်ကား မတူလှပေ။ တရုပ်လူမျိုးတို့သည် ပိုးခြည်ကိုနိုင်နင်းသူများဖြစ်၍ ပိုးဖြင့် ရုပ်စုံကန့်လန့်ကာကြီးများ ရက်လုပ် သုံးစွဲခဲ့ကြသည်။ အနောက်တိုင်း အမြိတ်ပန်းထည်များမှာမူ သိုးမွေးခြည်နှင့် ရွှေခြည်ငွေခြည်များဖြင့် ရက်လုပ်ကြ၏။ မြန်မာအမြိတ်ပန်းများမှာ များသောအားဖြင့် ပုဆိုးမြိတ်များတွင် လှပဆန်းကျယ်စွာဘော်ရဘော်၍ ပိုးသားဘင် ရွှေခြည်ငွေခြည်ဖြင့် ရက်လုပ်လေ့ရှိခဲ့ပေသည်။ အမြိတ်ပန်းထည်များမှာ ရိုးရိုးရက်လုပ်သောပိုးထည်၊ ခြည်ထည်၊ သိုးမွေးထည်များကဲ့သို့ မဟုတ်ပဲ ပန်းချီဆေးရေးကားကြီးများကဲ့သို့ ခန့်ညားလှပ၍ အဖိုးများစွာထိုက်တန်၏။ ပန်းထိုးပန်းချုပ်အတတ်ဖြင့် ပုံစံအမျိုးမျိုးကို ချုပ်လုပ်သကဲ့သို့ အမြိတ်ပန်းအတတ်ဖြင့်လည်း ရက်နိုင်သည်။ ခြားနားချက်မှာ ပန်းထိုးပန်းချုပ်တွင် ရိုးရိုးတိုင်ခြည်ဖောက်ခြည်ဖြင့် ရက်လုပ်ပြီးအထည်ပေါ်၌ နောက်ထပ် လိုရာခြည်ဖြင့် လိုရာပုံစုံကိုချုပ်လုပ်ရ၍၊ အမြိတ်ပန်းမှာ တိုင်ခြည်တွင် လိုရာခြည်ဖြင့် လိုရာပုံစံကို ရက်ယူခြင်းပင်ဖြစ်သည်။

အမြိတ်ပန်းထည်ရက်လုပ်ခြင်း၏သမိုင်းအစသည် လူတို့၏ ယဉ်ကျေးမှုသမိုင်းအစလောက်ကပင် စတင်ခဲ့သည်ဟု ဆိုရပေမည်။ အမြိတ်ပန်းထည်များတွင် ရှေးအကျဆုံးပစ္စည်းမှာ ခရစ်မပေါ်မီ ၄၀၀ ပြည့်နှစ်ခန့်က ရက်လုပ်သည်ဟု ခန့်မှန်းရသော ကန့်လန့်ကာကြီးများဖြစ်၍ ကရိုင်းမီးယားကျွန်းဆွယ်တွင် တွေ့ရှိခဲ့ကြ၏။ ထိုမှတပါး ရှေးအကျဆုံးရုပ်စုံကန့်လန့်ကာမှာ ပြင်သစ်နိုင်ငံဗေယူမြို့တိုက်ရှိ ဗေယူအမြိတ်ပန်းထည်ကြီးဖြစ်၍ ၁၀၆၆ ခုနှစ်၌ အင်္ဂလန်ပြည်ကို ဝီလျံဘုရင် တိုက်ခိုက်အောင်မြင်ခဲ့စဉ်က စစ်ပွဲများအကြောင်း ကမ္ဘည်းနှင့်ရုပ်ပုံများ ရက်လုပ်ထားခဲ့သည်။ သို့ရာတွင် ဗေယူအမြိတ်ပန်းထည်မှာ အမြိတ်ပန်းထိုးပန်း

ချုပ်အတတ်ဖြင့်ပြုလုပ်ခဲ့သော ရုပ်စုံကန့်လန့်ကာကြီးများသာ ဖြစ်သည်ဟု ဆိုကြလေသည်။

ဥရောပတိုက်တွင် ၁၁ ရာစုနှစ်များအထိ အမြိတ်ပန်းထည်များခေတ်စားခဲ့၍ ရဲတိုက်ကြီးများ၊ နန်းတော်ကြီးများနှင့် ဘုရားရှိခိုးကျောင်းကြီးများတွင် အများအပြားသုံးခဲ့လေသည်။ထိုခေတ်များက အဆိုပါအဆောက်အအုံတခုခု၏ ကြီးကျယ်ခမ်းနားပုံကိုဖော်ပြရာတွင် အမြိတ်ပန်းကန့်လန့်ကာကြီးများမပါလျှင် မစုံလင်နိုင်ချေ။

အမြိတ်ပန်းထည်ရက်လုပ်ရာတွင် အဘိုင်ခြည်ကို အလျားလိုက်၊ သို့မဟုတ်ထောင်လိုက် ရက်ကန်းရှယ်သကဲ့သို့ ထား၍ ရက်လေ့ရှိကြ၏။ ယင်းအဘိုင်ခြည်တွင် ရိုးရိုးရက်ကန်းရက်သကဲ့သို့ လွန်းဖြင့် ထိုး၍မရက်ပဲ အရောင်စုံခြည်ရက်ဖောက်များဖြင့် လိုရာအရောင်တခုချင်းကို သွင်း၍ ဘီးသွားဖြင့်ဖိပေးရ၏။ အတိုင်ခြည်များ အောက်ဖက်၊ သို့မဟုတ် ရက်လုပ်သူ၏အခြားဖက်၌ ရက်လုပ်ရန် ပုံစံပန်းချီကားကိုထား၍ ထိုကားအတိုင်း အတိုင်ခြည်များအကြားမှကြည့်၍ ခြည်သွင်းရသည်။ တနည်းမှာ ပုံစံကားကို ရက်သူ၏နောက်မှထား၍ ရှေ့ဖက်တွင် မှန်တချပ်ထောင်ထားကာ ထိုမှန်ထဲတွင်မြင်ရသည့်အတိုင်း ခြည်သွင်းသည်။ ရက်လုပ်သူသည် အမြိတ်ထည်၏အလှဖက်ကိုလည်း မှန်ထဲတွင်သာကြည့်ရ၏။ အဘယ်ကြောင့်ဆိုသော် အမြိတ်ပန်းထည်၏အလှဖက်မှာ ရက်လုပ်သူ၏အခြားဖက်၌သာရှိသောကြောင့်တည်း။

ဤသို့ရက်လုပ်ရာတွင် များသောအားဖြင့် သိုးမွေးခြည်ကိုသုံး၏။ ရက်လုပ်ရာတွင် ခက်ခဲလက်ဝင်လှရုံမက စေ့စပ်သေချာရန်လည်း များစွာလိုသောကြောင့် ရက်သတ္တတပတ်လျှင် တပေပတ်လည်မျှသာ ပြီးစီးတတ်၏။ ခက်ခဲမှုမှာ ရက်လုပ်ရသည့်ပုံစံနှင့် ခြည်ရောင်အလိုက်ဖြစ်၍ အချို့မှာ ထိုထက်ပိုမို၍ကြာနိုင်ပေသည်။ တစဘာစတိုးတက်လာခဲ့သော အမြိတ်ပန်းထည်ရက်လုပ်ခြင်းအတတ်သည် ၁၇ နှင့် ၁၈ ရာစုနှစ်များတွင် ရှေးကကဲ့သို့မဟုတ်တော့ပဲ ပန်းချီကျော်ကြီးများ ရေးဆွဲပေးသည့် ပန်းချီကားကြီးများအတိုင်း တသဝေမတိမ်းတူအောင် ရက်လုပ်နိုင်ခဲ့ကြ၍ ပန်းချီကားကြီးများနည်းတူ ထင်ရှား ကျော်ကြားခဲ့ပေသည်။



အာဖရိကတိုက်သားတို့၏လက်ရာ အမြိတ်ပန်းထည်

အမြိတ်ပန်းထည်များခေတ်စားခဲ့သော ၁၇ ရာစုနှစ် အတွင်းက ပြင်သစ်နိုင်ငံ ၁၄ ဆက်မြောက် လူဝီဘုရင်သည် ဥရောပအနှံ့အပြားရှိ အမြိတ်ပန်းထည် ရက်လုပ်သူများ အား စုဆောင်းခေါ်ယူ၍ ဂိုဗီလင်မြို့တွင် အလုပ်ရုံကြီးတခု ဖွင့်လှစ်ကာ အမြိတ်ပန်းထည်များ ရက်လုပ်စေလေသည်။ ထိုအနုပညာသည်များ၏လက်ရာတို့သည် ယခုတိုင်ထင်ရှား သော ပြင်သစ်နိုင်ငံ၏ရတနာများအဖြစ် ကျန်ရစ်ခဲ့ပေ သည်။ ဂိုဗီလင်အလုပ်ရုံမှထွက်သော လက်ရာများအနက် ၁၄ ဆက်မြောက် လူဝီဘုရင်၏ နန်းတက်ပွဲပုံ၊ လက်ထပ်ပွဲပုံ၊ စစ်ပွဲပုံစသည်တို့ဖြင့် ဝေဝေဆာဆာရှိလှသော အမြိတ် ပန်းထည်များနှင့် ၁၅ ဆက်မြောက်လူဝီဘုရင်၏ တောအမဲ လိုက်ခန်းကိုပြသည့် ရုပ်စုံကန့်လန့်ကာကြီးများမှာ ပန်းချီ အကျော်အမော်တို့၏ လက်ရာများကဲ့သို့ပင် သေသပ်၍ သဘာဝရှုခင်းကို အထူးပေါ်လွင်စေလေသည်။ ဤကား အမြိတ်ပန်းထည်ဖြစ်၏ဟု သိမထားသူတို့အဖို့ ပန်းချီကား ဟုပင် ထင်မြင်မိမှားလောက်အောင် ကောင်းမွန်၏။

ယခုခေတ်တွင် အမြိတ်ပန်းထည်များကို သုံးစွဲလျက်ပင် ရှိသေးသော်လည်း စက်မှုပညာထွန်းကားလာသောကြောင့် စက်ရက်အမြိတ်ပန်းထည်များ ပေါ်ပေါက် လာသည်။ စက်ရက်အမြိတ်ပန်းထည်များသည် လက်ရက်ထည်များ ကဲ့သို့ မကောင်းမွန်လှသော်လည်း တွင်ကျယ်စွာရက်လုပ် နိုင်သဖြင့် လက်ရက်အမြိတ်ပန်းထည်များသည် တစတစ တိမ်ကောလာခဲ့ရလေသည်။ သို့ရာတွင် လုံးဝကွယ်ပျောက် သွားသည်မဟုတ်ပဲ အရေအတွက် မများလှသော်လည်း အဖိုးများစွာထိုက်တန်သော လက်ရက်အမြိတ်ပန်းထည် များကို ရက်လုပ်လျက်ပင် ရှိပေသည်။

**အမြန်တိုင်း။** ။စပီဒိုမီတာ — ရှု။

**အမွေ။** ။အမွေ ဆိုသည်မှာ လူတဦးတယောက် ကွယ် လွန်လျှင် ကျန်ရှိသော ထိုသူ၏ ပိုင်ဆိုင်ပစ္စည်းများကိုဆိုလို သည်။ ပိုင်ဆိုင်ပစ္စည်း ဟူရာတွင်လည်း ရွှေ့ပြောင်းနိုင်သော ပစ္စည်းများနှင့်မရွှေ့ပြောင်းနိုင်သောပစ္စည်းများဟူ၍ရှိ၏။

အနောက်တိုင်းနိုင်ငံများတွင် အမွေဆက်ခံခြင်းနှင့် စပ်လျဉ်း၍ သေတမ်းစာရေးနိုင်သည့် အခွင့်အရေး ရှိလေ သည်။ သေတမ်းစာ ဆိုသည်မှာ ပစ္စည်းရှင်သည် မိမိ သေဆုံးသောအခါ မိမိ၏ ပစ္စည်းများကို မည်သို့မည်ပုံ ဝေဖန်ချထားလိုကြောင်း မိမိ၏ ရည်ရွယ်ချက်ကို ဖော် ထုတ်ထားသည့် တရားဝင် ကျေညာချက်စာတမ်း ဖြစ် သည်။ (သေတမ်းစာ — လည်းရှု။)

သို့သော် အကယ်၍ လူတဦးတယောက်သည် သေ တမ်းစာ ရေးထားခြင်း မရှိပဲ ကွယ်လွန်သွားခဲ့သော် အ မွေဆက်ခံခြင်း ဥပဒေများအရ ထိုသူကျန်ရစ်သော ပစ္စည်း များကို စီမံခန့်ခွဲပေးရလေသည်။ ထိုဥပဒေများအရ ထိုသူ ကွယ်လွန်သည်နှင့် တပြိုင်နက် ထိုသူ၏ မရွှေ့မပြောင်း နိုင်သော ပစ္စည်းများကို ထိုသူ၏ အမွေခံများက ရရှိ လေသည်။ အမွေခံများ ဟူသည်မှာ အကယ်၍ သား သမီးများ ရှိလျှင် ထို သားသမီးများကိုပင် ဆိုလို၍၊ ယင်းတို့သည် ထိုပစ္စည်းများကို အညီအမျှခွဲဝေယူကြရ သည်။ သို့သော်လည်း ရွှေ့ပြောင်းနိုင်သော ပစ္စည်းများ ကိုမူ ထိုသူ၏ ပစ္စည်းထိန်း ဖြစ်သူကရယူ၍ ပေးစရာရှိသော ကြွေးမြီများကို အပြေအလည် ရှင်းပေးပြီးနောက် ကျန် သမျှ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကို အမွေ ဆက်ခံရသူများကိုပင် ခွဲဝေပေးရ၏။ အကယ်၍ ရွှေ့ ပြောင်းနိုင်သော ပစ္စည်းများဖြင့် ကြွေးမြီပေးဆပ်ရန် မလုံ လောက်ခဲ့လျှင် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကိုပင် ထုခွဲ၍ ကြွေးဆပ်ရလေသည်။

ကွယ်လွန်သူတွင် သားသမီးများ မကျန်ခဲ့လျှင်လည်း မည်သူတို့ကို ကျန်ရစ်ခဲ့သော အမွေပစ္စည်း ခွဲဝေပေးရ မည်ကိုလည်း ဥပဒေများဖြင့် သတ်မှတ်ထားသည်။ ထို့ အပြင် ဥပဒေများတွင် ကျန်ရစ်သူ မုဆိုးမအတွက် မရွှေ့ မပြောင်း နိုင်သော ပစ္စည်းများနှင့် ရွှေ့ပြောင်း နိုင်သော ပစ္စည်းများမှ အချိုးအစား မည်မျှ ရရှိရမည် ဟူသည်ကို လည်း သတ်မှတ်ပြဋ္ဌာန်းထားလေသည်။

ဗုဒ္ဓအယူဝါဒီ မြန်မာများသည် သေတမ်းစာ ရေး ခွင့်မရှိသဖြင့် မိမိတို့ပစ္စည်းများကို မိမိတို့ ပေးလိုသည့်သူ များကို သေတမ်းစာဖြင့် ပေးခွင့်မရှိပေ။

ဗုဒ္ဓအယူဝါဒီ မြန်မာတယောက်၏ အမွေဆက်ခံ ရေးနှင့် စပ်လျဉ်း၍ ရှေးဖောင်းဓမ္မသတ်များ၌ မည်သူ မည်ဝါသည် အမွေခံအမွေစားများ ဖြစ်ရမည်၊ မည် သည့် အစီအရင်နှင့် အမွေဆက်ခံရမည်၊ ယင်းတို့၏ ဝေစုသည် မည်ရွေ့မည်မျှ ဖြစ်ရမည် စသည်ဖြင့် အထင် အရှား သတ်မှတ်ထားသည်။ မြန်မာ့ ဓလေ့ထုံးတမ်း ဥပဒေ အမွေခန်းဆိုင်ရာ၌ ဩရသမှ လွဲလျှင် လင်သေ လျှင် မယားသည်၄င်း၊ မယားသေလျှင် လင်သည်၄င်း တဦးတည်းသော အမွေခံအမွေစားအဖြစ် ဆက်ခံခြင်းမှာ အခြားသော အယူဝါဒီတို့၏ ဓလေ့ထုံးတမ်းဥပဒေများနှင့် မတူ၊ လွန်စွာ ခြားနားမှတ်သားလောက်သည့်အချက် ဖြစ် ပေသည်။ လင်မယားနှစ်ယောက်စလုံး ကွယ်လွန်မှသာ လျှင် သားသမီးများ အမွေဆက်ခံရသည်။ သားသမီး များ ကွယ်လွန်လျှင် မြေး၊ မြစ်တို့ ဆက်ခံခွင့်ရသည်။ ထိုကဲ့သို့ လင်၊မယား၊သား၊သမီး၊မြေး၊မြစ် တို့မရှိမှသာ လျှင် ဗုဒ္ဓအယူဝါဒီ မြန်မာတယောက်၏ အမွေကို သက် ဆိုင်ရာ ဆွေမျိုးသားချင်းတို့ အမွေဆက်ခံကြရသည်။ အ

မွေဆက်ခံရာ၌ အမိဖက်မှ အမျိုး၊ အဖဖက်မှ အမျိုးဟူ၍ ခြားနားခြင်းမရှိချေ။

မြန်မာ့ဓလေ့ဆိုးတမ်း ဥပဒေ၌ သေဆုံးသူ၏ အမွေခံအမွေစား ဖြစ်သည်ကို၊ သိသာထင်ရှားစေရန်အတွက် အခြေခံပြုရသည့် အရေးအကြီးဆုံး နည်းဥပဒေမှာ "အမွေသည် အောက်သို့ စုန်နိုင်လျှင် အထက်သို့ မဆန်ရခြင်း" ဖြစ်သည်။ ထိုအခြေခံဥပဒေအရ သေသူ၏ အမွေကို အစုန်ဖက်ရှိ အမျိုးအနွယ်များကသာ အမွေဆက်ခံခွင့် ရှိသည်။ အစုန်ဖက်တွင် အမျိုးအနွယ်များ မရှိမှသာလျှင် အဆန်ဖက်တွင် ရှိသည့် အမျိုးအနွယ်များက အမွေဆက်ခံခွင့်ရကြသည်။ အဆန်ဖက်ရှိအမျိုးဟူသည် မိဖ၊ ဘိုးဘွား၊ ဘီဘင် စသည်တို့ကို ဆိုလို၍၊ အစုန်ဖက်ရှိ ဆွေမျိုးဟူသည် သားသမီး၊ မြေး၊ မြစ်စသည်တို့ကို ဆိုလိုသည်။

ထိုအခြေခံနည်းဥပဒေနောက် ဒုတိယအရေးကြီးသည့် အမွေဆက်ခံရေး အခြေခံနည်းဥပဒေမှာ "အမျိုးဆက်နီးသူက ဝေးသူကို အမွေမှ ပယ်ထုတ်ခြင်း" ဖြစ်သည်။ ဤအခြေခံနည်းဥပဒေအရ သေဆုံးသူတယောက်၏ အမွေကို ယင်း၏ အနီးဆုံးသော ဆွေမျိုးက ဆက်ခံရရှိမည် ဖြစ်လေသည်။ အမျိုးဆက် အနီးအဝေးကို သိရှိရန် ရှေးဦးစွာ သေဆုံးသောသူမှ စတင်၍ သေဆုံးသူနှင့် အမွေတောင်းခံသူ နှစ်ဦးတို့၏ သက်ဆိုင်ရာ ဘိုးဘေးဖြစ်သောသူသို့ရောက်သည်အထိ အထက်ဆန်ပြီးသော် အမျိုးဆက် ရေတွက်ရ၏။ တဖန် ထိုဘိုးဘေးမှ အမွေတောင်းခံသူသို့ ရောက်သည်အထိ အောက်သို့ စုန်ပြီးလျှင် အမျိုးဆက်ကို ဆက်လက်ပေါင်း၍ ရေတွက်ရလေသည်။

ယခုအခါ အတည်ဖြစ်လျက်ရှိသော မြန်မာ့ဓလေ့ထုံးတမ်း ဥပဒေဆိုင်ရာ တရားလွှတ်တော် စီရင်ထုံးများအရ အမွေဆက်ခံရမည့် ဆွေမျိုးသားချင်းများ၏ အစီအစဉ်မှာ အောက်ပါအတိုင်း ဖြစ်၏။

(၁) ညီအစ်ကို မောင်နှမများ၊
(၂) မိဖများ၊
(၃) ဘိုးဘွားများ၊
(၄) တူ၊ တူမများ၊
(၅) ဘကြီး၊ ဘထွေး၊ ဦးကြီး၊ ဦးလေး၊ အရီးကြီး၊ အရီးလေး၊ ကြီးတော်၊ အဒေါ်များ၊
(၆) တူ၊ တူမများ၏ သားသမီးများ၊
(၇) တဝမ်းကွဲညီအစ်ကိုမောင်နှမများ၊
(၈) တူ၊ တူမများ၏ မြေးများ၊
(၉) တဝမ်းကွဲညီအစ်ကို မောင်နှမများ၏ သားသမီးများ၊
(၁၀) တဝမ်းကွဲညီအစ်ကို မောင်နှမများ၏ မြေးများ၊

လင်နှင့်မယား နှစ်ယောက်စလုံး ကွယ်လွန်မှသာလျှင် သားသမီးများ အမွေဆက်ခံရသည်ဟု အထက်တွင် ဖော်ပြခဲ့ရာ ရှေးဟောင်းဓမ္မသတ်များ၌ အမွေခံထိုက်သော သားခြောက်ပါးနှင့် အမွေမခံထိုက်သော သားခြောက်ပါး ဟူ၍ အောက်ပါအတိုင်း ပြသည်။

အမွေခံထိုက်သော သားခြောက်ပါးမှာ (၁) ဩရသ–ရင်၌ဖြစ်သော သား၊ (၂) ခေတ္တဇ–ကျွန်မနှင့်သင့်နေရာ မွေးသော သား၊ (၃) ဟေဋ္ဌိမ–အပြောင်မယား သစ်း၊ (၄) ပုဗ္ဗက–မယားပါ လင်ပါအထက်သား၊ (၅) ကိတ္တိမ–အမွေခံသားအဖြစ်ဖြင့် အထင်အရှား မွေးစားသောသား၊ (၆) အပတိဋ္ဌ–ကောက်၍ မွေးသော သား ဟူ၍ ဖြစ်လေသည်။

အမွေမခံထိုက်သောသားခြောက်ပါးမှာ (၁) ဒိန္နက–သူတပါးပေး၍ရသော သား၊ (၂) အဟောစု–ဝယ်၍ရသော သား၊ (၃) ပုနာနုဗ္ဗဝ–မိမိမယား သူတပါးနှင့် ပျော်ပါး၍ရသော သား၊ (၄) ကီဠိတ–ကစားမြူးတူးရာ ရသော သား၊ (၅) သွာနုတ္တ–မိဖစကား နားမထောင် ခွေးနှင့်တူသော သား၊ (မိဖကို ရန်သူကဲ့သို့ ကျင့်သောသားမျိုး ဟူလို။) (၆) ဆာတဘတ္တ–ထမင်းငတ်သည့်အခါ မှီခိုလာသည့် သား ဟူ၍ ဖြစ်လေသည်။

သို့သော် ယခုအခါတွင် အောက်ပါအချက်များနှင့် ပြည့်စုံသူများကို ဩရသဟု သတ်မှတ်ထားသည်။

(၁) တရားဝင်သားသမီး ဖြစ်ရမည်။
(၂) သားရင်းသမီးရင်း ဖြစ်ရမည်။
(၃) သားဖြစ်လျှင် အဖမကွယ်လွန်မီရင်း၊ သမီးဖြစ်လျှင် အမိမကွယ်လွန်မီရင်း အသက် ၁၈ နှစ် ပြည့်ရမည်။
(၄) ၁၈ နှစ်ပြည့်ချိန်တွင် သားသမီးများတွင် အကြီးဆုံး ဖြစ်ရမည်။ သားဖြစ်လျှင် အဖ၊ သမီးဖြစ်လျှင် အမိ၏ တာဝန်ဝတ်တရားများကို ကူညီဆောင်ရွက်နိုင်စွမ်းရှိသူ ဖြစ်ရမည်။
(၅) သားဖြစ်လျှင် အဖ၏ ဥစ္စာပစ္စည်းရှာဖွေရေးတွင်ရင်း၊ သမီးဖြစ်လျှင် အမိ၏ အိမ်ထောင်ရေးဝတ်တရားများကိုရင်း ကူညီလုပ်ကိုင်ဆောင်ရွက်ရမည်။

လင်၊ သို့မဟုတ် မယားသေဆုံးချိန်တွင် ဩရသသားသမီး ကျန်ရစ်လျှင် မုဆိုးဖို၊ မုဆိုးမတို့သည် သေဆုံးသူ၏ တဦးတည်းသော အမွေခံအမွေစား မဖြစ်ပေ။ ဩရသသားသမီးများအဖို့ အဖ၊ သို့မဟုတ် အမေသေဆုံးသည်နှင့် တပြိုင်နက် ပစ္စည်းအရပ်ရပ်၏ လေးပုံတပုံ တောင်းဆိုခွင့် ရရှိပြီးဖြစ်သောကြောင့်တည်း။

သားသမီးမရှိသည့် လင်မယားနှစ်ဦး အမှတ်မဲ့ ကံကြမ္မာဆိုးနှင့် တွေ့ကြုံ၍ တပြိုင်နက် ပျက်စီးခဲ့လျှင်သော်ရင်း၊ သို့မဟုတ် တယောက် သေဆုံးပြီးနောက် မကြာမီ ကျန်

တယောက် သေဆုံးလျှင်သော်ရင်း နှစ်ဖက်မိဘတို့သည် အမွေကို အညီအမျှ ခွဲဝေယူကြရသည်။ မိဘများ မရှိလျှင် လင်ဖက်မှ ဆွေမျိုးနှင့် မယားဖက်မှ ဆွေမျိုးများ အညီအမျှ တဝက်စီ ခွဲဝေယူကြရသည်။

မြန်မာ့ဓလေ့ထုံးတမ်းဥပဒေ၌ မိဘသည် သားသမီးကို အမွေမှ ပယ်မထုတ်နိုင်ပေ။ သို့ရာတွင် (၁) သူတပါးအား မွေးစားရန် ပေးအပ်ခံရခြင်း၊ (၂) မိဘများကွာရှင်းပြတ်စဲကြပြီးနောက် သားသမီးဖြစ်သူသည် မိဘတဦးနှင့် အတူနေထိုင်ပြီးလျှင် ကျန်တဦးကို သားသမီးတို့၏ ပြုရသော ဝတ်ကြီးဝတ်ငယ်များကို ဆက်လက်မပြုစုခြင်း၊ (၃) သားသမီးတို့၏ ကျင့်ဝတ်များ ပျက်ပြားခြင်း တည်းဟူသော အကြောင်းသုံးရပ်ကြောင့် သားသမီးများသည် မိဘအမွေကို ဆက်ခံခွင့် ဆုံးရှုံးနိုင်လေသည်။

သေဆုံးသူ၌ ယင်း၏ ပစ္စည်းများကို အမွေဆက်ခံရန် မည်သည့် ဆွေမျိုးသားချင်းမျှ မရှိလျှင် ထိုသူ၏ ပစ္စည်းများကို နိုင်ငံတော်အစိုးရက မင်းဘဏ္ဍာအဖြစ် သိမ်းယူမည် ဖြစ်လေသည်။

**အမွှေး။** ။အမွှေးသည် နို့တိုက် သတ္တဝါတို့၏ အရေမှ ပြင်ပသို့ ထိုးထွက်နေသော အရာများကို ခေါ်ခြင်း ဖြစ်သည်။ ပိုးမွှားနှင့် အပင်တို့မှ ဤနည်းအတိုင်း ထွက်နေသော အမျှင်များကိုလည်း ခေါ်ဝေါ်ကြသည်။

အမွှေးရှိခြင်းသည် နို့တိုက်သတ္တဝါဘို့၏ ထူးခြားသော ဂုဏ်တရပ်ဖြစ်၍ ယင်းတို့အတွက် များစွာ အကျိုးကျေးဇူး ဖြစ်ထွန်းစေသည်။ အရပ်ဒေသ အမျိုးမျိုး၌ ရာသီဥတု အခြေအနေနှင့် လိုက်လျော၍ တိရစ္ဆာန်တို့၌ ထူထဲသော အမွှေးများ၊ သို့မဟုတ် နည်းပါးသော အမွှေးများ ရှိသည်ကို တွေ့ရ၏။ ရေခဲရာ ဒေသများရှိ ဝက်ဝံဖြူ၊သမင်တို့၌ ထူထဲသော အမွှေး ရှိခြင်းကြောင့် အအေး ဒဏ်ကို ခံနိုင်ရည်ရှိ၏။ အပူပိုင်း တိရစ္ဆာန်များ၌မူကား များသောအားဖြင့် အမွှေး နည်းပါး ပေသည်။ ဖြူကောင် များ၌ အမွှေးသည် ရှည်လျားသော ဆူးသဏ္ဌာန် တည်ရှိသော ကြောင့် အပူအအေးကို ကာကွယ်ရုံတွင်မက ရန်သူနှင့် ဘေးအန္တရာယ်မှလည်း ကာကွယ်နိုင်လေသည်။ လူတို့တွင် အမွှေးသည် အခြား တိရစ္ဆာန် များနှင့် နှိုင်းရှည့်လောက် အောင် မထူထဲပေ။ ခေါင်းမွေးသည် အပူ အအေးကို ကာကွယ်ပေး၏။ ကျိုင်း (ဂျိုင်း)မွှေး စသည် တို့သည် အသားအရေပွန်းတိုက်မှုကို လျော့စေ၏။ အခြား နေရာတို့၌ အမွှေးမရှိသလောက်ပင် ဖြစ်သည်။

အမွှေးသည် ညှတ်ပျောင်းခိုင်ခံ့သော ခြည်မျှင်သဖွယ်ရှိ၍ မာကျောသော ဆံများပါရှိလေသည်။ နို့တိုက်သတ္တဝါတို့၏ အမွှေးများသည် အရေထဲရှိ တွင်းငယ်ကလေးများ၌ ဖြစ်ပေါ်၏။ ထိုတွင်းကလေးများကို အမွှေးအိမ်ဟု ခေါ်သည်။ အမွှေးအိမ်၌ အထပ် နှစ်ထပ်ရှိ၏။ အတွင်းထပ်သည် အမွှေးရင်းကို နီးကပ်စွာ ပတ်ထား၍ ပြင်ပ အထပ်သည် ဆက်စပ်သော အသားမျှင် ဖြစ်၏။ အမွှေးအိမ် အရင်း၌ အသားပိုကလေးတခု ရှိ၏။ ထိုအသားပိုကလေး အပေါ်မှ ပျော့ပျောင်းသော ဆဲများသည် ပွားများ ကြီးထွားလာ၍ ရှည်လျားသော အရောင်ရှိ အမွှေးမျှင် ဖြစ်လာ၏။ အမွှေးမျှင်သည် သွေးကြောများနှင့် ဆက်သွယ်လျက် ရှိသဖြင့် အာဟာရကိုရသည့်ပြင် အမွှေးမျှင်၌ ဖြစ်ပေါ်လာသော စွန့်ပစ္စည်းများကို ထုတ်ပစ် နိုင်သည်။ ဂလင်းများသည် အဆီဖြင့် စိုပြည် ပျော့ပျောင်းစွာ ရှိနေနိုင်၏။ အာရုံကြောများနှင့်လည်း ဆက်သွယ်လျက်ရှိသောကြောင့် ထူးခြားသော အာရုံခံစားမှု အင်္ဂါများလည်း ဖြစ်လေသည်။ သင်စိတ်ဆိုးလျှင် အမွှေးများ ထောင်လာသည်ကို တွေ့ရ၏။အမွှေးအိမ်သည် ထောင်စေသည့် ကြွက်သားနှင့် ဆက်သွယ်နေသဖြင့် ကြွက်သား ကျုံ့သောအခါ အမွှေးများကို ထောင်စေလေသည်။

လူ၏ အမွှေးသည် ယေဘုယျအားဖြင့် တခုနှင့်တခု ဆောက်တည်ပုံ တူညီသော်လည်း အရှည်၊ အရောင်၊ က[illegible] လန့်ဖြတ်အသွင်တို့မှာ တမျိုးနှင့်တမျိုး ဖိုနှင့်မ ကွဲပြား ခြားနားသည်ကို တွေ့ရ၏။ဆောက်တည်ပုံ သုံးမျိုးသုံးစား ရှိသည်။

(၁) တို၍ လိမ်ကောက်လျက်ရှိသော အမွှေး၊ ယင်းတွင် မည်းနက်သော အရောင်ရှိ၍ ကန့်လန့်ဖြတ်အားဖြင့် ဘဲဥပုံ၊ သို့မဟုတ် ကျောက်ကပ်ပုံ ရှိသည်။ အိန္ဒိယ တိုင်းရင်းသားနှင့် ဩစတြေးလီးယန်း လူမျိုး တို့မှ အပ လူမည်းမျိုးများ၌ တွေ့နိုင်သည်။ ဤအမွှေးမျိုးကိုလည်း နှစ်စားခွဲထားပြန်သည်။ တစားမှာ အမွှေးသည် ရှည်၍ အလိမ်သည် ကြဲ၏။ ကပ္ပလီလူမျိုးများ၌ တွေ့နိုင်သည်။ အခြားတစား၌ အလိမ်သည် သေးငယ်ကျစ်လျစ်၍ ရှုတ်ကောင်းစေ့များ တင်ထားသကဲ့သို့ ရှုပ်ထွေးသော အစုကလေးများ ဖြစ်နေပြီးလျှင် အချို့နေရာများမှာ အမွှေးကင်းသော ကွက်လပ်များသဖွယ် ရှိနေသည်။ ဗွတ်ရှမန်းလူမျိုးများ၌ တွေ့နိုင်သည်။

(၂) ကြမ်းတမ်းရှည်လျား၍ဖြောင့်တန်းသောအမွှေး၊ ယင်းတွင် ကန့်လတ်ဖြတ် အဝိုင်းပုံသဏ္ဌာန်ရှိသည်။ တရုပ်၊ မွန်ဂို၊ အမေရိကန်၊ အိန္ဒိယလူမျိုးများတွင် တွေ့နိုင်သည်။

(၃) ငွေဖြည်မျှင်ကဲ့သို့ ချောမွတ်၍ လှိုင်းထလျက်ရှိသော အမွှေး၊ ယင်းတွင် ကန့်လန့်ဖြတ် ဘဲဥပုံရှိသည်။ ဥရောပတိုက်သားများ၌ တွေ့နိုင်၏။

ဩစတြေးလီးယန်နှင့် နူဗီယန် လူမျိုးတို့၌ မည်းနက် ထူထဲ လိပ်ခွေသော အမွှေးတမျိုး ရှိ၏။ အာရှတိုက်၊

ဥရောပတိုက်သားများ၏ အမွေးနှင့် ကွဲပြားသော်လည်း ကပ္ပလီ လူမျိုးတို့၏ အမွေးနှင့် များစွာ မခြားနားလှချေ။

အမွေး၏အရောင်သည်အမွေးထဲ၌ပါဝင်သောအရောင်ဆေးတမျိုးကြောင့် ဖြစ်၏။ ဖြောင့်တန်းသော အမွေး၊ လိမ်ကောက်သောအမွေးများ၏အရောင်သည် မည်းနက်၍ လွှင်းသသော အမွေး၏ အရောင်များမှာ အညို၊ အဝါ၊ အနီ စသည်ဖြင့် အမျိုးမျိုး ရှိလေသည်။ အသားအရေ မသန့်ရှင်းသော အခါ၌သော်၎င်း၊ မကျန်းမမာသော အခါများ၌သော်၎င်း အမွေးများ ကျွတ်ကျတတ်၍ ကျန်းမာလာသောအခါမှ တဖန်ပြန်၍ ပေါက်လေသည်။ အမွေးသည် အသွန်အသုံးဝင်သော ပစ္စည်းတခု ဖြစ်ပေသည်။ သိုး၊ ဆိတ်၊ ကုလားအုပ်၊ အယ်လပါကာ မွေးများကို အထည်အဝတ် ရက်လုပ်ကြ၍ ယုန်မွေးကို ဦးထုပ် သက္ကလတ်စများ ပြုလုပ်ကြလေသည်။ သက္ကလဘ်ထည်အကြမ်းများ၌ မြင်းမွေး၊ နွားမွေးများ ပါဝင်၏။ ဝက်မွေး၊ ကုလားအုပ်မွေးများကို စုတ်တံပြုလုပ်ရာတွင် အသုံးချကြလေသည်။

**အမြှောက် အစား။** ။ကလေးတယောက်သည် ပဲကြီးစေ့သည့်ဘူးသော တောင်းထဲမှ တကြိမ်လျှင် ငါးစေ့ကျ လေးကြိမ်ယူလျှင် ပဲကြီးစေ့မည်မျှရရှိသနည်း။ (အကြိမ်၊ အခါ၊ အလီဟူသော ဝေါဟာရသည် အဓိပ္ပါယ်ချင်းတူကြသည်။)

ကလေးရရှိသော ပဲကြီးစေ့ အရေအတွက်ကို သိရှိအောင် ပဲကြီးစေ့များကို တတန်းလျှင် ငါးစေ့စီ လေးတန်းစီထားကြရမည်။ကလေးသည် တကြိမ်ယူလျှင် တတန်းတွင်

o o o o o ပါရှိသော ပဲကြီးစေ့ ငါးစေ့ကို
o o o o o ရရှိသဖြင့် လေးကြိမ်ယူလျှင်
o o o o o ငါးစေ့စီပါသောအတန်း လေး
o o o o o တန်းကို ရပေမည်။ ပဲကြီးစေ့

များကို ရေတွက်ကြည့်သောအခါ ၂၀ ရှိသည်ကို တွေ့ရသည်။ ဤပုစ္ဆာကို နည်းနှစ်နည်းဖြင့် တွက်ချက် ဖြေဆိုနိုင်သည်။ ပဌမနည်းသည် ၅ ကို ၄ ကြိမ်ဆက်၍ ပေါင်းယူခြင်းဖြစ်သည် (၅+၅+၅+၅=၂၀)။ အခြားတနည်းမှာ ၅ လေးလီ ၂၀ ဟူသော တွက်ယူနည်းဖြစ်သည်။ ဤသို့ ကိန်းတခုတည်းကို အကြိမ်ကြိမ်ပေါင်းယူခြင်းကို အမြှောက်ဟု ခေါ်သည်။ ကျွန်ုပ်တို့သည် အလီဇယားကိုသိလျှင်၊ ဤတွက်နည်းကို ၅×၄=၂၀ ဟု အတိုကောက်ရေးသားနိုင်သည်။ တနည်းအားဖြင့် $\frac{\times ၅}{၂၀}$ ဖြစ်သည်။ ဤနေရာ၌ ၅ သည် (အမြှောက်) တည်ကိန်းဖြစ်၍ ၄ သည် မြှောက်ကိန်း၊ ၂၀ သည် မြှောက်လဒ်ဖြစ်ကြသည်။



ပုံ (၁)

အထက်ပါပဲကြီးစေ့ပုံတွင် အတန်းလေးတန်း၌ တတန်းလျှင် ပဲကြီးငါးစေ့စီရှိ၍၊ တိုင်ငါးတိုင်တွင် တတိုင်လျှင် လေးစေ့စီရှိသည်။ ပဲကြီးစေ့ကို အတန်းလိုက်ရေတွက်သောအခါ ၂၀ ရသကဲ့သို့ တိုင်လိုက်ရေတွက်သော အခါ၌လည်း (၄+၄+၄+၄+၄)၊သို့မဟုတ် ၂၀ ပင် ရသည်။ထို့ကြောင့် ငါးစေ့လေးကြိမ်၊ သို့မဟုတ် လေးစေ့ငါးကြိမ်တွင် ပဲကြီးစေ့ ၂၀ ရှိသည်။
အကျဉ်းအားဖြင့် ၅×၄=၄×၅= ၂၀ ဖြစ်သည်။



o o o o o o o o o
o o o o o o o o o

တဖန်ပဲကြီးစေ့များကို တတန်းလျှင် ကိုးစေ့စီပါရှိသော အတန်းနှစ်တန်းစီ၍ ၂၊ ၄၊ ၆၊....စသည်ဖြင့် ပဲစေ့များကို ရေတွက်ပြီးလျှင် အောက်ပါ ကွက်လပ်များတွင် ဖြည့်ထည့်ပါ။

၂×၁= — ၂×၃= — ၂×၅= — ၂×၇=
၂×၂= — ၂×၄= — ၂×၆= — ၂×၈=
၂×၉= —

အထက်ဖော်ပြပါပုံတွင် ၂ ကိုးကြိမ်နှင့် ၉ နှစ်ကြိမ်တို့ တူညီကြောင်းကို တွေ့ရသည်။ အထက်ပါပဲကြီးစေ့ပုံများဖြင့် (၂×၃) သည် (၃×၂) နှင့် ညီမျှကြောင်းကို၎င်း၊ (၂×၅)သည် (၅×၂)နှင့် ညီမျှကြောင်းကို၎င်း၊ (၂×၈) သည် (၈×၂)နှင့် ညီမျှကြောင်းကို၎င်း ပြပါ။

ပဲကြီးစေ့များကို တတန်းလျှင် ခုနစ်စေ့စီပါသော အတန်းသုံးတန်းစီပြီးလျှင် အောက်ပါ ကွက်လပ်များတွင် အဖြေကို ဖြည့်ထည့်ပေးပါ။

o o o o o o o ၃×၁=—၃×၃=—၃×၅=—
o o o o o o o ၃×၆=—
o o o o o o o ၃×၂=—၃×၄=—၃×၇=—

ထို့နောက် ၃×၇ သည် ၇×၃ နှင့် ညီကြောင်းကို ပြပါ။

ပဲကြီးစေ့များကို စီတန်း၍ အောက်ပါ အပေါင်းပုစ္ဆာများကို တွက်ပါ။

| | | | | | | | |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |

ဤသို့ဆက်လက်၍ အစဉ်အတိုင်း ပြုလုပ်သောအခါ ၅၊ ၆၊ ၇၊ ၈ ဟူသော ဂဏန်းများ၏အလီဇယားများကို ရရှိလာကြသည်။ ဂဏန်းကြီးများကို မြှောက်လိုသောအခါ၌ မှုကား တွက်ချက်၍မြှောက်ယူကြရသည်။ ထိုသို့မြှောက်ယူရာတွင် လွယ်ကူစေရန် အောက်ပါ ၁ မှ ၁၂ အထိ အလီဇယားကို နှုတ်တိုက်ရထားဖို့လိုသည်။

| | | | |
|---|---|---|---|
| ၁× ၁= ၁ | ၂× ၁= ၂ | ၃× ၁= ၃ | ၄× ၁= ၄ |
| ၁× ၂= ၂ | ၂× ၂= ၄ | ၃× ၂= ၆ | ၄× ၂= ၈ |
| ၁× ၃= ၃ | ၂× ၃= ၆ | ၃× ၃= ၉ | ၄× ၃=၁၂ |
| ၁× ၄= ၄ | ၂× ၄= ၈ | ၃× ၄=၁၂ | ၄× ၄=၁၆ |
| ၁× ၅= ၅ | ၂× ၅=၁၀ | ၃× ၅=၁၅ | ၄× ၅=၂၀ |
| ၁× ၆= ၆ | ၂× ၆=၁၂ | ၃× ၆=၁၈ | ၄× ၆=၂၄ |
| ၁× ၇= ၇ | ၂× ၇=၁၄ | ၃× ၇=၂၁ | ၄× ၇=၂၈ |
| ၁× ၈= ၈ | ၂× ၈=၁၆ | ၃× ၈=၂၄ | ၄× ၈=၃၂ |
| ၁× ၉= ၉ | ၂× ၉=၁၈ | ၃× ၉=၂၇ | ၄× ၉=၃၆ |
| ၁×၁၀=၁၀ | ၂×၁၀=၂၀ | ၃×၁၀=၃၀ | ၄×၁၀=၄၀ |
| ၁×၁၁=၁၁ | ၂×၁၁=၂၂ | ၃×၁၁× ၃၃ | ၄×၁၁=၄၄ |
| ၁×၁၂=၁၂ | ၂×၁၂=၂၄ | ၃×၁၂=၃၆ | ၄×၁၂=၄၈ |

| | | | |
|---|---|---|---|
| ၅× ၁= ၅ | ၆× ၁= ၆ | ၇× ၁= ၇ | ၈× ၁= ၈ |
| ၅× ၂=၁၀ | ၆× ၂=၁၂ | ၇× ၂=၁၄ | ၈× ၂=၁၆ |
| ၅× ၃=၁၅ | ၆× ၃=၁၈ | ၇× ၃=၂၁ | ၈× ၃=၂၄ |
| ၅× ၄=၂၀ | ၆× ၄=၂၄ | ၇× ၄=၂၈ | ၈× ၄=၃၂ |
| ၅× ၅=၂၅ | ၆× ၅=၃၀ | ၇× ၅=၃၅ | ၈× ၅=၄၀ |
| ၅× ၆=၃၀ | ၆× ၆=၃၆ | ၇× ၆=၄၂ | ၈× ၆=၄၈ |
| ၅× ၇=၃၅ | ၆× ၇=၄၂ | ၇× ၇=၄၉ | ၈× ၇=၅၆ |
| ၅× ၈=၄၀ | ၆× ၈=၄၈ | ၇× ၈=၅၆ | ၈× ၈=၆၄ |
| ၅× ၉=၄၅ | ၆× ၉=၅၄ | ၇× ၉=၆၃ | ၈× ၉=၇၂ |
| ၅×၁၀=၅၀ | ၆×၁၀=၆၀ | ၇×၁၀=၇၀ | ၈×၁၀=၈၀ |
| ၅×၁၁=၅၅ | ၆×၁၁=၆၆ | ၇×၁၁=၇၇ | ၈×၁၁=၈၈ |
| ၅×၁၂=၆၀ | ၆×၁၂=၇၂ | ၇×၁၂=၈၄ | ၈×၁၂=၉၆ |

| | |
|---|---|
| ၉ × ၁ = ၉ | ၁၀ × ၁ = ၁၀ |
| ၉ × ၂ = ၁၈ | ၁၀ × ၂ = ၂၀ |
| ၉ × ၃ = ၂၇ | ၁၀ × ၃ = ၃၀ |
| ၉ × ၄ = ၃၆ | ၁၀ × ၄ = ၄၀ |
| ၉ × ၅ = ၄၅ | ၁၀ × ၅ = ၅၀ |
| ၉ × ၆ = ၅၄ | ၁၀ × ၆ = ၆၀ |
| ၉ × ၇ = ၆၃ | ၁၀ × ၇ = ၇၀ |
| ၉ × ၈ = ၇၂ | ၁၀ × ၈ = ၈၀ |
| ၉ × ၉ = ၈၁ | ၁၀ × ၉ = ၉၀ |
| ၉ × ၁၀ = ၉၀ | ၁၀ × ၁၀ = ၁၀၀ |
| ၉ × ၁၁ = ၉၉ | ၁၀ × ၁၁ = ၁၁၀ |
| ၉ × ၁၂ = ၁၀၈ | ၁၀ × ၁၂ = ၁၂၀ |

| | |
|---|---|
| ၁၁ × ၁ = ၁၁ | ၁၂ × ၁ = ၁၂ |
| ၁၁ × ၂ = ၂၂ | ၁၂ × ၂ = ၂၄ |
| ၁၁ × ၃ = ၃၃ | ၁၂ × ၃ = ၃၆ |
| ၁၁ × ၄ = ၄၄ | ၁၂ × ၄ = ၄၈ |
| ၁၁ × ၅ = ၅၅ | ၁၂ × ၅ = ၆၀ |
| ၁၁ × ၆ = ၆၆ | ၁၂ × ၆ = ၇၂ |
| ၁၁ × ၇ = ၇၇ | ၁၂ × ၇ = ၈၄ |
| ၁၁ × ၈ = ၈၈ | ၁၂ × ၈ = ၉၆ |
| ၁၁ × ၉ = ၉၉ | ၁၂ × ၉ = ၁၀၈ |
| ၁၁ × ၁၀ = ၁၁၀ | ၁၂ × ၁၀ = ၁၂၀ |
| ၁၁ × ၁၁ = ၁၂၁ | ၁၂ × ၁၁ = ၁၃၂ |
| ၁၁ × ၁၂ = ၁၃၂ | ၁၂ × ၁၂ = ၁၄၄ |

ဤအလီဇယားအသီးအသီးကို ပဉ္စမ ပါကြီးစေ့များဖြင့် ကိုယ်တိုင်ဆောက်လုပ်ပြီး ရေးယူလျှင် နှုတ်တိုက်ကျက်ရာ၌ လွယ်ကူလာမည်။




ပုံ (၂)

အလီဇယားများကို မှန်ကန် တိကျစွာ မှတ်မိရန် အထက်ပါပုံကို ရေးဆွဲ၍ အလယ်ကွက်တွင် ခုဂဏန်း

တလုံးကို တည်ကိန်းအဖြစ်ဖြင့် ရေးထည့်ပါ။ စက်ဝိုင်းအနားတွင်ရှိသော ဂဏန်းတခုခုကို မိမိ၏အဖော်တယောက်က ထောက်လျှင်ထောက်ခြင်း ဂဏန်းတို့၏ မြှောက်လဒ်ကို မစဉ်းစားပဲ လျင်မြန်စွာပြောနိုင်သည့်အထိ လေ့ကျင့်ပါ။ အလယ်ဂဏန်းကိုလည်း မကြာမကြာ ပြောင်းလဲပေးပါ။ ဤလေ့ကျင့်ခဏ်းကို အဖော်တဦးဦးနှင့် ပြုလုပ်ရသဖြင့် နှစ်ဦးစလုံးပင် အလီဇယားတွင် အခြေခံကောင်းလာပေမည်။

အတိုမြှောက်နည်း။ ခုဂဏန်းနှင့် မြှောက်သောအခါ ဤနည်းကို အသုံးပြုသည်။

ဉဒါဟရဏ်။ ၁၆ ကို ၃ နှင့်မြှောက်ပါ။

၁၆ ကို ၃ နှင့်မြှောက်ရာတွင် ၁၆ သည် ၁၀ နှင့် ၆ တို့၏ ပေါင်းရကိန်းဖြစ်၍ ၁၀ နှင့် ၆ ကို ၃ နှင့်ခွဲ၍ မြှောက်ပြီးလျှင် ရသောအဖြေနှစ်ခုကို ပေါင်းယူရသည်။

တွက်နည်း။ ၆×၃= ၁၈
၁၀×၃= ၃၀
ထို့ကြောင့် ၁၆×၃= ၄၈

ထိုအတူ ၃၄ ကို ၃ နှင့် အောက်ပါအတိုင်း မြှောက်နိုင်သည်။

၄×၃ = ၁၂
၃၀×၃ = ၉၀
၃၄×၃ = ၁၀၂

အကျဉ်းအားဖြင့် တွက်နည်းကို အောက်ပါအတိုင်း ရေးသားဖော်ပြနိုင်သည်။

၃၄ ဤနေရာ၌ ၄ ခု ၃ လီသည် ၁၂ ခု ဖြစ်သည်။
၃ ထို့ကြောင့် ခုဂဏန်းနေရာတွင် ၂ ကိုရေးချ၍
၁၀၂ ကျန် ၁၀ ခုကို ဆယ်ဂဏန်း ၁ ခုပြုလုပ်သည်။
၃ ဆယ် ၃ လီသည် ၉ ဆယ်ဖြစ်သည်။ ၉ ဆယ်နှင့် ၁ ဆယ် ပေါင်းသော် ဆယ်ဂဏန်း ၁၀ ခုရသည်။ ယင်းကို ရာဂဏန်း ၁ ခုဖွဲ့၍ ရာဂဏန်းနေရာတွင် ရေးထည့်သည်။ ဆယ်ဂဏန်း မရှိသဖြင့် ဆယ်ဂဏန်းနေရာတွင် သုညကိုထည့်သွင်းသည်။

ဆခွဲကိန်းပိုင်းခြားမြှောက်နည်း

ပုစ္ဆာ(က)။ ၃၄ ကို ၃၀ နှင့် မြှောက်ပါ။

တွက်နည်း။ ၃၀ ၏ ဆခွဲကိန်းများအနက် (၃×၁၀) တို့သည် မြှောက်ရာတွင် အလွယ်ကူဆုံးဖြစ်ကြ၍ ယင်းတို့ကို ဤတွင် အသုံးပြုသည်။

၃၄×၃၀=၃၄×၃×၁၀=(၁၀၂)×၁၀=၁၀၂၀

ပုစ္ဆာ(ခ)။ ၃၄ × ၃၀၀

တွက်နည်း။ ၃၄ × ၃၀၀ = ၃၄ × ၃ × ၁၀၀ = ၁၀၂ × ၁၀၀ = ၁၀၂၀၀

ထို့ကြောင့် ပေးထားသောမြှောက်ကိန်းသည် ဆယ်ဂဏန်းဖြစ်လျှင် ယင်းကို ခုဂဏန်းကဲ့သို့ အသုံးပြုကာ မြှောက်ပြီးသော် မြှောက်လဒ်တွင် သုညတလုံးထည့်လျှင် အဖြေကိုရရှိသည်။ ထိုအတူ မြှောက်ကိန်းသည် ရာဂဏန်းဖြစ်လျှင် မြှောက်လဒ်တွင် သုညနှစ်လုံးထည့်သောအခါ အဖြေကိုရရှိသည်။

ပုစ္ဆာ(ဂ)။ (၃၄×၁၂)ကို ဆခွဲကိန်းများဖြင့် မြှောက်ပါ။

တွက်နည်း။ ၃၄×၃×၄=၁၀၂×၄=၄၀၈

ပုစ္ဆာ(၁)။ ၂၄၅၆ ကို ၃၈ နှင့် မြှောက်ပါ။

(၂)။ ၂၄၅၆ ကို ၃၀၈ နှင့် မြှောက်ပါ။

(၁) တွက်နည်း။
၂၄၅၆
၃၈
၇၃၆၈
၁၉၆၄၈
၉၃၃၂၈

(၂) တွက်နည်း။
၂၄၅၆
၃၀၈
၇၃၆၈
၁၉၆၄၈
၇၅၆၄၄၈

တွက်နည်း။ ပဌမဦး တည်ကိန်းကိုရေး၍ နောက် ၃၈ ကို တည်ကိန်း၏ ၅၆ အောက်တည့်တည့်၌ ရေးပါ။ ထိုနောက် တည်ကိန်းကို ပဌမအကြိမ်၌ ၃ ဆယ်နှင့်ရင်း၊ ဒုတိယအကြိမ်၌ ၈ ခုနှင့်ရင်း နှစ်ဆင့်ခွဲ မြှောက်ပါ။ ဤမြှောက်လဒ်နှစ်ရပ် ကို ပြထားသည့်အစီအစဉ်အတိုင်း ရေး၍ ပေါင်းယူပါ။ ၁၉၆၄၈ ခု သည် ၂၄၅၆ ကို ၈ ခုနှင့် မြှောက်၍ရသော မြှောက်လဒ်ဖြစ်သည်။ ၇၃၆၈ ဆယ်သည် ၂၄၅၆ကို ၃ ဆယ်နှင့်မြှောက်၍ရသော မြှောက်လဒ်ဖြစ်သဖြင့် ဆယ်ဂဏန်း၏အကွက်တွင် မြှောက်လဒ်၏ ၈ ဂဏန်းကို ရေးရသည်။ ထိုအတူ ဒုတိယပုစ္ဆာတွင် ၇၃၆၈ ရာသည် ၂၄၅၆ကို ၃ ရာနှင့် မြှောက်၍ရသော မြှောက်လဒ် ဖြစ်သောကြောင့် ရာဂဏန်း၏အကွက်တွင် မြှောက်လဒ်၏ဂဏန်းကို စတင်ရေးယူရသည်ကို သတိပြုပါလေ။ (ဒုတိယပုစ္ဆာတွင် ၀ နှင့် ၂၄၅၆ ကို မြှောက်သော် သုညပင်ရ၍ဒုတိယမြှောက်လဒ်ကိုရေးသားဖော်ပြရန်မလိုချေ။) အထက်ပါစာပိုဒ်တွင်ပြထားသည့်အတိုင်း (၁) တွက်နည်းတွင် ၇၃၆၈ဆယ်ကို ၇၃၆၈၀ ဟုရင်း၊ (၂) တွက်နည်းတွင် ၇၃၆၈ရာကို ၇၃၆၈၀၀ ဟုရင်း ရေးသားဖော်ပြခွင့်ရှိသည်။

မြှောက်ရာ၌ အဖြေမှန်အမြန်ရရှိရန်မှာ အရေးကြီးသည်။ ပုစ္ဆာ(၁)တွင် ၂၄၅၆ ကို ၈ နှင့်မြှောက်ရာ၌ ၈နှင့် ၆ တို့၏မြှောက်လဒ် ၄၈ ကိုရသည်။ ၄ ဆယ်ကို စိတ်တွင်ဆောင်၍ ၈ ကိုရေးချပါ။ တဖန် ၈ နှင့်၅ ကိုမြှောက်ပြီး ၄

ကိုပေါင်းယူရာတွင် စိတ်ထဲ၌ ၄၀၊၄၄၊ ဟုဆိုကာ ၄ ရာကို စိတ်တွင်ဆောင်ပြီး ၄ ဆယ်ကို ရေးချပါ။ ဤသို့စိတ်တွင် လျှင်မြန်စွာတွက်ချက်မှတ်သားနည်းသည် နှုတ်ဖြင့်ရွတ်ဆို တွက်ချက်နည်းထက် မြန်ပေသည်။

မြှောက်ပြီးသော် မိမိ၏မြှောက်လဒ်မှန်မမှန်ကို စစ်ဆေးကြည့်နိုင်သည်။ စစ်ဆေးနည်း အနည်းငယ်ရှိရာ ပဌမနည်းမှာ မြှောက်ကိန်းကို တည်ကိန်းပြုလုပ်၍ တည်ကိန်းကို မြှောက်ကိန်းပြုလုပ်ပြီး မြှောက်ကြည့်သောနည်းဖြစ်သည်။ ဒုတိယနည်းမှာမူကား မြှောက်လဒ်ကို တည်ကိန်းဖြင့် ဖြစ်စေ၊ မြှောက်ကိန်းဖြင့်ဖြစ်စေ စား၍ကြည့်သောနည်းဖြစ်သည်။ မြှောက်လဒ်ကို တည်ကိန်းဖြင့်စားသောအခါ မြှောက်ကိန်းကို ပြန်လည်ရရှိ၍ မြှောက်ကိန်းဖြင့်စားသောအခါ တည်ကိန်းကိုပြန်လည်ရရှိလျှင် မြှောက်လဒ် မှန်ကြောင်းကိုသိရသည်။ တတိယချိန်ကိုက်နည်းမှာ အမြှောက်ပုစ္ဆာကို တဖန်တွက်ကြည့်နည်းပင် ဖြစ်သည်။

**အမြှောက်နည်းတိုများ** (၁) ၃၆ ကို ၁၀၊ ၁၀၀၊၁၀၀၀၊ စသောဂဏန်းမျိုးဖြင့် မြှောက်ရသောအခါ ၃၆ နောက်၌ သုညတလုံး၊ နှစ်လုံး၊ သုံးလုံး၊ အသီးအသီးထည့်သွင်းပေးကာမျှဖြင့် ကိစ္စပြီးစီးနိုင်သည်။ဤအကြောင်းကို အထက်ပါ "အခွဲကိန်းပိုင်းခြားမြှောက်နည်း" ဟူသော ခေါင်းစဉ်အောက်တွင် ဖော်ပြခဲ့ပြီ။

ဥဒါဟရုဏ်။ ၃၆×၁၀ = ၃၆၀။၃၆×၁၀၀ = ၃၆၀၀။ ၃၆×၁၀၀၀ = ၃၆၀၀၀။

(၂) ဂဏန်းတလုံးကို ၂၅ဖြင့်မြှောက်လိုသောအခါ ထိုဂဏန်းကို ၁၀၀ နှင့်မြှောက်ပြီးလျှင် ၄ နှင့်စားပါ။ အကြောင်းမူက း ၂၅ သည် ၁၀၀ ၏ လေးပုံတပုံဖြစ်သောကြောင့်တည်း။ ဥဒါဟရုဏ်။ $၃၇ \times ၂၅ = ၃၇ \times \frac{၁၀၀}{၄} = \frac{၃၇၀၀}{၄} = ၉၂၅$

ထိုအတူ ဂဏန်းတလုံးကို ၁၂၅ နှင့် မြှောက်လိုသော် ၁၀၀၀ နှင့်မြှောက်ပြီး ၈ နှင့်စားပါ။ အကြောင်းမူကား ၁၂၅ သည် ၁၀၀၀၏ ရှစ်ပုံတပုံဖြစ်သောကြောင့်တည်း။

ဥဒါဟရုဏ်။ $၄၉ \times ၁၂၅ = ၄၉ \times \frac{၁၀၀၀}{၈} = ၆၁၂၅$

(၃) ဂဏန်းတလုံးကို ၅၉နှင့်မြှောက်လိုလျှင် ပဌမ ၆၀ နှင့် မြှောက်ပြီးသော် မြှောက်လဒ်မှ ထိုဂဏန်းကိုနုတ်ယူလျှင် အဖြေကိုရသည်။

**ဥဒါဟရုဏ်။**

$၃၈ \times ၅၉ = (၃၈ \times ၆၀) - ၃၈ = ၂၂၈၀ - ၃၈ = ၂၂၄၂$

၁၆ တွင် ၄ ဘယ်နှစ်လီရှိသနည်းဟု မေးသောအခါ၊ ၄ ၏အလီဇယားကို ဆင်ခြင်ရသည်။ ၄ လေးလီ ၁၆ ဖြစ်သောကြောင့် ၁၆ တွင် ၄ လေးလီရှိကြောင်း သိရသည်။ ဤတွက်နည်းသည် အမြှောက်နှင့် အပြန်အလှန်ဖြစ်သည်။ ယင်းကို အစားဟုခေါ်သည်။

အင်္ဂလိပ်သမား တဦးသည် ပိတ်ကိုတိုင်းရန် ကိုက်တံကိုအသုံးပြုသောအခါ သူသည် အစားတွက်နည်းကို မသိမသာ သုံးစွဲလိုက်ခြင်းပင်ဖြစ်သည်။ ထိုသို့တိုင်းယူရာ၌ သူသည် ၂ တောင်၊ ၄ တောင်၊ ၆ တောင်၊ ၈ တောင် စသည်ကိုဆိုကာ တိုင်းတာသွားသည်။ အလျား ၁၀ လက်မရှိသော စက္ကူစရှည်ကို နှစ်လက်မစီ ရှိသော စက္ကူစတိုများဖြစ်အောင် ဖြတ်ယူလိုသောအခါ ပေတံကို စက္ကူပေါ်တွင်တင်ပြီးလျှင် ၂၊ ၄၊ ၆၊ ၈၊၁၀ ဆိုကာ ခဲဖြင့်မှတ်သားပြီးလျှင် ထို အမှတ်များကို ရေတွက်ခြင်းဖြင့် စက္ကူစမည်မျှရှိမည်ကို သိရှိနိုင်ပေသည်။ ဤဥဒါဟရုဏ်နှစ်ရပ်သည် ကိုယ်ထိလက်ရောက်နည်းဖြင့် အစားပုစ္ဆာတွက်ပုံကို ဖော်ပြကြသည်။

ပုစ္ဆာ။ ငွေ ၂၈ ကို ကလေး ၄ ယောက်အား အညီအမျှခွဲဝေပေးသောအခါ ကလေးတယောက်လျှင် ငွေ မည်မျှစီရမည်နည်း။

တွက်နည်း။ ကလေးတယောက်ကို ငွေ ၁ ကျပ်စီပေးလျှင် ငွေ ၄ ကျပ်ကုန်သည်။ ထိုကြောင့်–

ပဌမ အကြိမ် ၁ ကျပ်စီပေးဝေသော် ၄ ကျပ်ကုန်၏။

ဒုတိယအကြိမ် ၁ ကျပ်စီပေးဝေသော် ၄ ကျပ်ကုန်ပြန်၏။

ဒုတိယအကြိမ် ငွေဝေပြီးသော် ၈ ကျပ်ကုန်၏။ သို့ဖြစ်၍ ၄ ကျပ်အကြိမ်ပေါင်း မည်မျှသည် ၂၈ ဖြစ်သည်ကို ရှာရပေသည်။ ၄ အလီဇယားကိုရွတ်ဆိုရာတွင် ၄ ခုနစ်လီသည် ၂၈ ဖြစ်၍ ၄ ကျပ်ကိုခုနစ်ကြိမ်ပေးလျှင် ၂၈ ကျပ်ကုန်သဖြင့် ကလေးတယောက်လျှင် ခ ကျပ်စီ ခုနစ်ကြိမ်(ဝါ) ၇ ကျပ်စီရလေသည်။ တနည်းအားဖြင့် ၂၈ ကို ၄ နှင့်စားလျှင် ၇ ရသည်၊ သို့မဟုတ် $၂၈ \div ၄ = ၇$

(မှတ်ချက်။ ကိန်းနှစ်ခုကြားတွင် ÷ လက္ခဏာကို ရေးထားလျှင် ထိုလက္ခဏာ၏ရှေ့၌ရှိသောကိန်းကို နောက်ကိန်းဖြင့်စားရမည်။) ဤနေရာ၌ ၂၈ သည် (အစား) တည်ကိန်း၊ ၄ သည်စားကိန်း၊ ၇ သည် စားလဒ်ဖြစ်သည်။

ပုစ္ဆာ (၁)။ ကွမ်းသီး ၃၂ လုံးပါသောအိတ်မှ တကြိမ်လျှင် ကွမ်းသီး ၄ လုံးကျထုတ်ယူသော် အကြိမ်ပေါင်းမည်မျှထုတ်ယူနိုင်သနည်း။

ပုစ္ဆာ (၂)။ လူတယောက်သည် မိမိ၏သမီးသုံးယောက်အတွက် ပလာစာအုပ် ၂၇ အုပ်ဝယ်လာ၍ အညီအမျှစီဝေပေးသော် တယောက်လျှင် မည်မျှစီရရှိမည်နည်း။

တွက်နည်း (၁)။ ပဌမပုစ္ဆာတွင် တကြိမ်ယူလျှင် ၄လုံးဖြစ်၍ ၄ လုံး အကြိမ်မည်မျှသည် ၃၂ ဖြစ်ကြောင်းသိလိုသော် ၃၂ ကို ၄ နှင့် စားရမည်ဖြစ်သည်။

$၃၂ \div ၄$ = မည်မျှနည်း။

တွက်နည်း(၂)။ဒုတိယပုစ္ဆာတွင်လည်းတယောက်ရရှိသောစာအုပ်ပေါင်းကိုသိလိုလျှင် ၂၇ ကို၃နှင့်စားရမည်ဖြစ်သည်။

၂၇÷၃ = မည်မျှနည်း။

မျိုးမတူသောဂဏန်းကိုစားလိုသောအခါ ထိုဂဏန်းနှစ်လုံးကို မျိုးတူအောင် ပြောင်းလဲပေးပြီးမှ စားနိုင်သည်။ ဥဒါဟရုဏ်။ ၄ ပေရှည်သောကြိုးမှ ၈ လက်မစီရှည်သောကြိုးစများကို ဖြတ်ယူသောအခါ ကြိုးစမည်မျှရမည်နည်း။

ဤပုစ္ဆာတွင် ပေးထားသောကြိုးစမှာ ပေနှင့်ဖြစ်၍ ဖြတ်ယူရမည့်ကြိုးစမှာ လက်မနှင့်ဖြစ်သည်။ ထို့ကြောင့် ပေးသားသော ၄ ပေရှိသည့်ကြိုးကို လက်မဖွဲ့ပေးရသည်။ (၁ ပေ=၁၂ လက်မဖြစ်၍ ၄ ပေ=၄၈ လက်မဖြစ်သည်။)

ကြိုးစပေါင်း=၄၈÷၈=မည်မျှနည်း။

တခါတရံအစား၌ စားကိန်းသည် တည်ကိန်းတွင် တိတိကျကျမဝင်နိုင်ကြောင်းကို တွေ့ရှိရသည်။ ဥဒါဟရုဏ်အားဖြင့် ၅ကို ၂နှင့်စားလျှင် ၂လီနှင့်လည်း မပြတ် ၃လီလည်း မဝင်နိုင်ဖြစ်သည်။ ထိုအခါ နှစ်လီသာဝင်၍ ၂နှစ်လီသည် ၄ ဖြစ်သောကြောင့် အကြွင်း ၁ ကို ပုံတွင်ပြသားသည့်အတိုင်း ရေးမှတ်ရသည်။

$$\begin{array}{r|l} ၂ & \underline{၅\quad} \\ & ၂\ လီ၊\ အကြွင်း\ ၁ \end{array}$$

**အတိုစားနည်း**

အလီဇယားကိုအသုံးပြုကာ ကိန်းတခုကို အခြားကိန်းတခုနှင့်စားသောအခါ စိတ်ဖြင့်တွက်နိုင်လျှင် ထိုစားနည်းကို အတိုစားနည်းဟု ခေါ်သည်။ ဤတွက်နည်းတွင် စားလဒ်ကိုသာ ရေးချရသည်။

ဥဒါဟရုဏ်။ ၃၆၉ ကို ၃ နှင့်စားသောအခါ တွက်နည်းကို စိတ်ထဲတွင် ပြုလုပ်၍စားလဒ်ကိုသာ ရေးချရသည်။ (တည်ကိန်း၏ လက်ဝဲဖက်ဆုံး ဂဏန်းကို စားကိန်းနှင့်စား၍ စားလဒ်ကို ထိုဂဏန်းအောက်၌ ရေးရသည်။ အကြွင်းမရှိလျှင် နောက်ဂဏန်းတလုံးကို စားကိန်းနှင့်စား၍ရွှေနည်းအတူ ထိုဂဏန်းအောက်၌ ရေးရသည်။ ဤနည်းဖြင့် တည်ကိန်းရှိဂဏန်းအားလုံး ကုန်သွားသည့်ဘိုင်အောင် ဆက်၍စားသွားရမည်။ တွက်နည်း၏အဓိပ္ပါယ်ကား အောက်ပါအတိုင်းဖြစ်သည်။ ရာဂဏန်း ၃ ခုရှိသည့်အနက် တခါလျှင် ရာ ၃ ခုစီယူသော် ဘယ်နှစ်ခါယူနိုင်သနည်း။ တခါသာယူနိုင်သဖြင့် စားလဒ်တွင် ၁ ကိုရေးချသည်။ ဆယ်ဂဏန်း ၆ ခုအနက် ဆယ် ၃ ခုစီ ဘယ်နှစ်ခါယူနိုင်သနည်း။ ၂ ခါသာယူနိုင်သဖြင့် ၂ ကိုစားလဒ်တွင် ရေးချပြန်သည်။ ဤနည်းအတိုင်း ဆက်လက်စဉ်းစားရန်ဖြစ်သည်။ စားရာတွင် ကျင်လျှင်လာစေရန် အောက်ပါပုစ္ဆာများကို လေ့ကျင့်ပါလေ။

$$\begin{array}{r|l} ၃ & \underline{၃၆၉} \\ & ၁၂၃ \end{array}$$

**စိတ်တွက်**

| | | | | |
|---|---|---|---|---|
| (၁) | ၂ \| ၆ | ၂ \| ၈ | ၂ \| ၁၄ | ၂ \| ၁၈ |
| | ၂ \| ၇ | ၂ \| ၁၃ | ၂ \| ၁၅ | ၂ \| ၂၃ |
| | ၃ \| ၁၂ | ၃ \| ၂၁ | ၃ \| ၃၆ | ၃ \| ၁၁ |
| | ၃ \| ၂၅ | ၃ \| ၃၉ | ၄ \| ၁၃ | ၄ \| ၁၇ |
| | ၄ \| ၂၆ | ၄ \| ၃၉ | ၅ \| ၂၁ | ၅ \| ၃၉ |
| | ၅ \| ၄၈ | ၆ \| ၁၈ | ၆ \| ၂၃ | ၆ \| ၄၂ |
| | ၆ \| ၃၅ | ၆ \| ၇၁ | ၆ \| ၅၄ | ၆ \| ၄၈ |
| | ၇ \| ၁၄ | ၇ \| ၂၃ | ၇ \| ၃၆ | ၇ \| ၂၈ |
| | ၇ \| ၄၂ | ၇ \| ၅၃ | ၇ \| ၈၃ | ၈ \| ၂၄ |
| | ၈ \| ၁၅ | ၈ \| ၃၁ | ၈ \| ၄၀ | ၈ \| ၄၈ |
| | ၈ \| ၆၄ | ၈ \| ၇၅ | ၉ \| ၃၆ | ၉ \| ၃၀ |
| | ၉ \| ၆၃ | ၉ \| ၄၈ | ၉ \| ၈၁ | ၉ \| ၅၇ |

အောက်ပါအစားပုစ္ဆာများကိုစား၍ အဖြေကိုရေးထည့်ပါ။ တွက်နည်းကို ဤတွင် ဥဒါဟရုဏ်တခုဖြင့် ဖော်ပြပါအံ့။ ၅ ရာထဲမှ ၃ ရာစီ ၂ ခါယူ၍ မလောက်၊ထို့ကြောင့် တခါသာယူသည်။ ကျန်သည့် ၂ ရာကို ဆယ်ဖွဲ့သော် ၂၀ ဆယ်ရသဖြင့် လက်ရှိ ၂၈ ဆယ် ဖြစ်လာသည်။ ယင်းမှ သုံးဆယ်စီ ၉ ခါယူနိုင်သည်။ ကျန် ၁ ဆယ်ကို ခုဖွဲ့၍ အထက်နည်းအတိုင်း ဆက်လက်တွက်ပါ။

$$\begin{array}{r|l} ၃ & \underline{၅၈၅} \\ & ၁၉၅ \end{array}$$

| | | | |
|---|---|---|---|
| (၁) | ၃ \| ၆၉၅၇၆ | (၂) | ၂ \| ၃၇၀၉၆ |
| (၃) | ၄ \| ၅၈၂၆၈ | (၄) | ၃ \| ၁၄၄၁၄ |
| (၅) | ၅ \| ၁၀၉၁၅ | (၆) | ၄ \| ၄၂၃၆၆ |
| (၇) | ၃ \| ၃၆၇၈၉၃ | (၈) | ၅ \| ၆၆၃၂၅ |
| (၉) | ၆ \| ၅၇၄၉၉ | (၁၀) | ၇ \| ၃၀၇၅၆ |
| (၁၁) | ၆ \| ၈၀၈၆၈ | (၁၂) | ၈ \| ၄၂၃၆၆ |
| (၁၃) | ၇ \| ၅၁၇၈၆ | (၁၄) | ၈ \| ၂၈၆၃၂ |

(၁၅) ၉ | ၃၁၂၁၂ (၁၆) ၈ | ၄၄၅၀၂

(၁၇) ၉ | ၂၄၃၀၄၄ (၁၈) ၇ | ၃၅၈၄၆၁

(၁၉) ၈ | ၉၃၆၇၄၅ (၂၀) ၉ | ၆၇၃၄၈၆

**အခွဲမြောက်ကိန်းပိုင်းခြားစားနည်းနှင့်အရှည်စားနည်း**

စားကိန်းကို အခွဲမြောက်ကိန်းများရအောင် ခွဲခြမ်းနိုင်လျှင် ထိုအခွဲမြောက်ကိန်းများဖြင့် တည်ကိန်းကိုစားနိုင်ပေသည်။

ဥဒါဟရုဏ်။ ၅၆၆၄ ÷ ၂၄ = ၅၆၆၄ ÷ (၄ × ၆) = ၅၆၆၄ ÷ ၄ ÷ ၆။

၄ | ၅၆၆၄
၆ | ၁၄၁၆
  ၂၃၆

ဤနည်းနှင့် အောက်ပါ အရှည်စားနည်းကို ယှဉ်ကြည့်ရသည်။ အခွဲမြောက်ကိန်းများ ခွဲ၍မရလျှင်အရှည်စားနည်းအတိုင်း စားကြရသည်။ အထူးသဖြင့် စားကိန်းတွင် ဆယ်ဂဏန်းရာဂဏန်းစသည့် ဂဏန်းကြီးများပါဝင်နေလျှင် ဤနည်းရှည်ကိုအသုံးပြုသည်။

ပုစ္ဆာ။ ၅၆၆၄ ကို ၂၄ နှင့်စားပါ။

ဤပုစ္ဆာမှာ "၅၆၆၄ ကျပ်ကိုလူ ၂၄ ယောက်အားအညီအမျှဝေပါ" ဟူသော အဓိပ္ပါယ်ရှိသည်။ ဤအဓိပ္ပါယ်ကို သတိပြုလျှင် အောက်ပါတွက်နည်းကို နားလည်ပေမည်။ ၅၆၆၄ ကို ၂၄ နှင့်စားရာတွင် ၅၆ ရာကိုယူ၍ စားလဒ်တွင် ၂ ရာကို ရေးသည်။ ၂၄ နှင့် ၂ ရာတို့၏ မြောက်လဒ်သည် ၄၈ ရာဖြစ်၍ဤဂဏန်းကို ၅၆ ရာအောက်တွင် ရေးပြီးလျှင် နုတ်လိုက်သောအခါ ၈ ရာကျန်သည်။ တည်ကိန်းမှ ၆ ဟူသောနောက်တလုံးကို ယူချ၍ ရေးလိုက်သောအခါ ၈၆ ဆယ် ဖြစ်လာသည်။ ၈၆ ဆယ်ကို ၂၄ နှင့်စားသောအခါ စားလဒ် ၃ ဆယ် အကြွင်း ၁၄ ဆယ်ကိုရသည်။ ဤနည်းအတိုင်း တည်ကိန်းတွင် ဂဏန်းကုန်သည်တိုင်အောင် ဆက်လက်၍စားရသည်။

တွက်နည်း

   ၂၃၆
၂၄ | ၅၆၆၄
   ၄၈
   ၈၆
   ၇၂
   ၁၄၄
   ၁၄၄

အရှည်စား၌ လုပ်နည်းသုံးဆင့်ပါသည်။ ပဌမအဆင့်တွင် စားလဒ်ကို စိတ်တွင်မှန်းဆပြီးလျှင် ရေးချရသည်။ ဒုတိယအဆင့်တွင် စားကိန်းနှင့်စားလဒ် မြောက်၍ရသောမြောက်လဒ်ကို ဆိုင်ရာတည်ကိန်းအောက်တည့်တည့်တွင် ရေးချရသည်။ နောက်ဆုံးအဆင့်တွင် တည်ကိန်းမှ မြောက်လဒ်နုတ်ရသည်။ အရှည်နည်းတွင် စားလဒ်၏ ပဌမဂဏန်းကို ရေးသောအခါ တည်ကိန်း၏ လက်ျာဖက်အစွန်းရှိ ဆိုင်ရာဂဏန်းအထက်၌ ရေးချရန် သတိပြုရမည်။ ထိုနောက် တည်ကိန်း၏ဂဏန်းအသီးအသီးကို ပြောင်းရွှေ့ယူတိုင်း ထိုဂဏန်း၏အထက်တွင် စားလဒ်ဂဏန်းများကို အစဉ်အတိုင်းရေးရမည်။ ဥဒါဟရုဏ်အားဖြင့် ၅၆၆၄ ကို ၂၄ နှင့်စားသောအခါ ၅၆ ရာတွင် ၂၄ ဖြင့် ၂ လီဝင်သောကြောင့် ၂ ကို ၆ ဂဏန်းပေါ်၌ တည့်တည့်ရေးမှတ်ရသည်။ ထိုနောက် ၆ တလုံးကို ပြောင်းရွှေ့ယူသောအခါ ဒုတိယစားလဒ်ဂဏန်းကို ဒုတိယ ၆ ဂဏန်းတည့်တည့်ပေါ်တွင် ရေးရသည်။ ဤနည်းဖြင့် တည်ကိန်းတွင် ဂဏန်းများကုန်သွားသည့်တိုင်အောင် စားလဒ်ဂဏန်းများကို သက်ဆိုင်ရာနေရာ၌ ရေးထည့်ရသည်။

မှန်းခြေစားလဒ်များ။ ၁၇၆ ကို ၂၂ ဖြင့်စားလိုသောအခါ တည်ကိန်းနှင့်စားကိန်းမှ ဂဏန်းတလုံးစီ ပယ်ပစ်ပြီးလျှင် ၁၇ ကို ၂ ဖြင့် စိတ်ကူးထဲတွင် စားကြည့်သောအခါ ၈ လီဝင်နိုင်ကြောင်းတွေ့ရသည်။ ထိုကြောင့် ၁၇၆ တွင် ၂၂ ဖြင့် ၈ လီဝင်နိုင်ကြောင်း ခန့်မှန်းနိုင်သည်။ ၁၃၃ ကို ၁၉ ဖြင့်စားရာတွင် ၁၉ ကို ၂၀ ဟုယူဆပြီးလျှင် အထက်တွင်ဖော်ပြခဲ့သည့်နည်းအတိုင်း တည်ကိန်းနှင့်စားကိန်းတို့မှ ဂဏန်းတလုံးစီပယ်၍ ခန့်မှန်းကြည့်သော် ၆ လီဝင်နိုင်ကောင်းမည်ဟု တွေ့ရှိရသည်။ ထို့အတူ ၃၈၄ ကို ၄၈ ဖြင့်စားရာတွင် ၃၈ ကို ၅ ဖြင့်စားသည်ဟုရင်း၊ ၁၇၄ ကို ၂၉ ဖြင့်စားရာတွင် ၁၇ ကို ၃ ဖြင့်စားသည်ဟုရင်း၊ ၈၈၂ ကို ၉၈ ဖြင့်စားရာတွင် ၈၈ ကို ၁၀ ဖြင့်စားသည်ဟုရင်း ခန့်မှန်းနိုင်သည်။

အစားကိုမြန်မြန်နှင့် တိကျမှန်ကန်စွာ တွက်နိုင်လိုလျှင် (၁) ပုစ္ဆာများကို အချိန်မှန် တွက်ချက် လေ့ကျင့်ရမည်။ (၂) အလီဇယားကို နိုင်နိုင်နင်းနင်း အသုံးပြုနိုင်အောင် ကျက်မှတ်ထားရမည်။ (၃) ဂဏန်းများကို ရေးသောအခါ အကွက်ကျမှန်ကန်အောင်ရေးချရမည်။ (၄) စားပြီးသောအခါ အဖြေကို ချိန်ကိုက်ကြည့်ရမည်။ (စားကိန်းနှင့်စားလဒ်ကိုမြောက်၍ အကြွင်းကိုပေါင်းကြည့်သောအခါ တည်ကိန်းကိုရလျှင် ရရှိသောအဖြေသည် အဖြေမှန်ဟု သိရှိရသည်။) (၅) အစားပုစ္ဆာကိုတွက်နေစဉ် စားလဒ်၏ဂဏန်းအသီးအသီးကို တခုပြီးတခု မှန်းဆစစ်ဆေးပြီးမှ ရေးချရသည်။

အမွေးနံ့သာ။ ။အိဂျစ်၊ ဗက်ဗီလုံးနှင့် တိုင်ယာ စသောတိုင်းပြည်များ ကောင်းစားစဉ်ကပင် နံ့သာမွေး၊ လောဗန်စသည့် အမွေးနံ့သာများဖြင့် နတ်များကို တင်မြောက်ပသခဲ့ကြ၏။ ရှေးအခါက အိန္ဒိယနိုင်ငံ၊ တရုပ်နိုင်ငံ၊ ပါးရှားနိုင်ငံတို့ရှိ ဘုရားရှိခိုးကျောင်းများ၌ အမွေးနံ့သာတို့

ဖြင့် သင်းပျံ့လျက်ရှိခဲ့ကြသည်။ မိုးဇက်လက်ထက်တွင် ဂျီဟိုဗာဘုရားအား အမွှေးနံ့သာများဖြင့် ပူဇော်ခဲ့ကြသည်ဟုအမှတ်အသားများ ရှိလေသည်။ ကမ္ဘာ့အရှေ့ပိုင်း ရှေးယဉ်ကျေးမှုတည်တံ့ရာ ဒေသများမှ အမွှေးနံ့သာ ပုလင်းများကို တူးဖော်ရရှိခဲ့ကြသည်။ ထိုခေတ်အခါက ထွန်းကားခဲ့သည့် စာပေများတွင် လူတို့သည် အမွှေးနံ့သာများ ပြုလုပ်တတ်ကြပုံကိုရင်း၊ အမွှေးနံ့သာများကို အမြတ်တနိုး သုံးစွဲခဲ့ကြပုံကိုရင်း တွေ့ရှိကြရ၏။ အလယ်ခေတ်တွင် အာရပ်တို့သည် အမွှေးနံ့သာများ ပြုလုပ်ရာ၌ အလွန်ထင်ရှား ကျော်ကြားခဲ့ကြသည်။ ရှေးအခါက အမွှေးနံ့သာများကို သုံးစွဲကြခြင်းမှာ မီးရှို့၍ ယဇ်နတ်ပူဇော်ရာမှ ထွက်ပေါ်လာသည့် အနံ့ကို ပပျောက်သွားစေရန် ရည်ရွယ်ရင်း ဖြစ်ဟန်တူသည်။ နောင်အခါ သင်းပျံ့သော အနံ့ကြောင့် အမွှေးနံ့သာများကို လူအများ နှစ်သက်လာကြသည်။ အမွှေးနံ့သာများကို မီးရှို့ပူဇော်ခြင်းမှာ စင်ကြယ်သော အထိမ်းအမှတ် ဖြစ်၍ ယခုအခါ အယူဝါဒတိုင်း၌လိုပင် မိမိတို့အယူဝါဒအလျောက် ပူဇော်ပသကြရာတွင် အမွှေးတိုင်၊ လောဗန် စသည်များကို သုံးစွဲလေ့ရှိကြသည်။

ယခုခေတ်တွင် အသုံးပြုလျက်ရှိသော အမွှေးနံ့သာများကို များသောအားဖြင့် ပန်းပွင့်များမှ ရရှိကြသည်။ အမွှေးနံ့သာ ပြုလုပ်ရာ၌ ပဌမ အပွင့်များမှ အဆီကို ထုတ်ယူရ၏။ ထိုနောက် ဤအဆီကို အလွယ်တကူ လွင့်ထွက်မသွားအောင် စီမံပေးကြရ၏။ ယခုအခါ ဓာတုဗေဒပညာမှာ အလွန်ထွန်းကားခဲ့သည့်အလျောက် သိပ္ပံပညာရှင်များသည် အပွင့်မှ ရရှိသော အမွှေးနံ့သာများနှင့် ဆင်တူရိုးမှား ဖြစ်သည့် အမွှေးနံ့သာများကို ဓာတ်ခွဲခန်း၌ ချက်လုပ်ယူနိုင်ကြပြီ ဖြစ်၏။ သို့သော် အမွှေးနံ့သာများကို စပ်ယူရသည့် လုပ်ငန်းမှာ ထင်သလောက် မလွယ်ကူသောကြောင့်တကြောင်း၊ အသုံးပြုသည့် ပစ္စည်းများတွင် အညစ်အကြေးများ ကင်းစင်ရန် ခဲယဉ်းသောကြောင့် တကြောင်း လူတို့ စီမံယူသော အမွှေးနံ့သာများသည် ပန်းများမှ ရရှိသည့် အမွှေးနံ့သာများလောက်မကောင်းသေးချေ။

အမွှေးနံ့သာကို ပွင့်ဖတ်မှ ထုတ်ယူကြရ၏။ အပွင့်တပွင့်တွင် ပါသည့် အမွှေးနံ့သာမှာ အလွန်နည်းသောကြောင့် တအောင်စခန့် ရရှိရန် အသုံးပြုရသော အပွင့်စုစုပေါင်းမှာ အလေးချိန်အားဖြင့် ပေါင် ၂၅၀ ခန့်ရှိ၏။ အမွှေးနံ့သာတို့ကို အပွင့်တခုတည်းမှသာ ရရှိခြင်း မဟုတ်ပေ။ လိမ်မော်ပင်တွင် လိမ်မော်ခွံမှ ရရှိ၏။ သစ်ကြံပိုးပင်တွင် အခေါက်များမှရင်း၊ ကရဝေးနှင့် ဇာတိပ္ဖိုလ်ပင်တွင် အစေ့များမှရင်း၊ ကရမက်ပင်တွင် ပင်စည်၊ သို့မဟုတ် အမြစ်များမှရင်း ရရှိကြ၏။ အမွှေးနံ့သာများကို ထုတ်ယူရာတွင် အငွေ့ပျံ့တက်၍ ဆုံးရှုံးမှု မရှိရအောင် အထူးဂရုစိုက်ကြရ၏။ နှင်းဆီပန်းများမှ အဆီကို ထုတ်ယူသည့် လုပ်ငန်းတွင် ပဌမ ပန်းများကို ဤကိစ္စအတွက် အထူးသီးသန့်၍ စိုက်ပျိုးကြရ၏။ အပွင့်များ မွေးကြိုင်လာသောအခါ ခူး၍ ပေါင်းအိုးတွင် ထည့်ပြီးလျှင် ရေနွေးငွေ့ လွှတ်ပေးသည်။ ထိုအခါ အပွင့်တွင် ကိန်းအောင်းနေသည့် အဆီသည် အပူကြောင့် အငွေ့ပျံတက်သွား၍ ရေနွေးငွေ့နှင့် ရောပါသွားသည်။ ရေငွေ့ကို အအေးခံလိုက်သောအခါ ရေအဖြစ်သို့ စုရုံးသွား၍ နှင်းဆီပွင့်မှ အဆီသည် ရေပေါ်တွင် ပေါ်နေတော့၏။ ဤအဆီမှာ နှင်းဆီ၏ အဆီစုပင် ဖြစ်၏။ နှင်းဆီ အဆီတပေါင် ရရှိအောင် မြေတဧကမှ ထွက်သော နှင်းဆီပွင့်များကို အဆီထုတ်ယူရ၏။ နှင်းဆီ အဆီသည် အလွန်သတ္တိပြင်းသဖြင့် တဂါလံခန့်ရှိသော ရေမွှေးကို ပြုလုပ်ယူရာ၌ အစက်တစက်မျှသာ ထည့်ပေးရန် လိုလေသည်။

အခြားပန်းပွင့်များတွင်လည်း များသောအားဖြင့် ဤနည်းကို အသုံးပြုကြသည်။ သို့သော် စံပယ်ပန်းနှင့် နှင်းပန်းတို့သည် အလွန်နုနယ်သဖြင့် ရေနွေးငွေ့ဖြင့် အဆီထုတ်ယူသောအခါ ပျက်စီးသွားကြ၏။ ဤသို့ နုနယ်သော ပန်းမျိုးမှ အဆီကို အခြားတနည်းဖြင့် ထုတ်ယူနိုင်သည်။ ထိုနည်းတွင် အမဲဆီကဲ့သို့ အဆီသည် အနံ့များကို ထိန်းသိမ်းထားနိုင်သည် ဟူသော အချက်ကို အသုံးပြုသည်။ အသုံးပြုပုံမှာ မှန်များတွင် အမဲဆီ၊ သို့မဟုတ် ဝက်ဆီကဲ့သို့သော အဆီများကို သုတ်လိမ်း၍ ထောင်ထားပြီးလျှင် မှန်ချပ်ကြား၌ ပန်းများကို ထည့်ထား၏။ အဆီက ပန်းများမှ အနံ့ကို စုတ်ယူပြီးသောအခါ ပန်းဟောင်းများကို ဖယ်ရှားပစ်ပြီးလျှင် ပန်းသစ်များကို ထည့်ပေးရသည်။ ဤသို့ အနံ့ကို စုတ်ယူပြီးစီးရန် အချိန်မှာ နာရီ အနည်းငယ် ကြာ၏။ မှန်၌ သုတ်လိမ်းထားသည့် အဆီတွင် ပန်းနံ့ ပြည့်ဝလာသောအခါ ထိုအဆီကို ခြစ်ယူ၍ ဓာတုဗေဒနည်းဖြင့် ပြုပြင်ပေးပြီးလျှင် ပန်း၏ အဆီကို ထုတ်ယူသည်။

အမဲဆီကဲ့သို့သော အဆီများကို အသုံးပြု၍ ထုတ်ယူသည့်နည်းတွင် အအေးနည်းနှင့် အပူနည်း ဟူ၍ နှစ်မျိုးရှိရာ အထက်ပါနည်းမှာ အအေးနည်း ဖြစ်သည်။ ဒုတိယနည်းဖြစ်သော အပူနည်းတွင် ပန်းများကို ခြည်အိတ်များတွင် ထည့်၍ ဒီကရီ ၁၂၀ တိုင်အောင် အပူတိုက်ပေးထားသည့် အမဲဆီ၊ သို့မဟုတ် ဝက်ဆီအိုးများပေါ်၌ ချိတ်ဆွဲထားရ၏။ ပဌမနည်းမှာကဲ့သို့ အဆီသည် ပန်းမှ အနံ့ကို စုတ်ယူလိုက်ပြီးနောက် ထိုအဆီကို တဖန် ပြုပြင်ပေးသောအခါ ပန်း၏ အဆီကို ရရှိလေသည်။

အခြားထုတ်ယူနည်း တနည်းမှာ အယ်လကိုဟောဖြင့် ထုတ်ယူနည်း ဖြစ်သည်။ ထုတ်ယူပုံမှာ ပန်းပွင့်များကို ချေ၍ အယ်လကိုဟောဖြင့် ရောပေးသောအခါ အဆီသည် အယ်လကိုဟောတွင် ပျော်ဝင်သွားသည်။ ထိုအယ်လကိုဟောကို တဖန် တမျိုးတဖုံ စိမ်ပေးသောအခါ ပန်း၏ အဆီကို ရသည်။ အိုင်ရစ်ပန်းမှ အမွှေးနံ့သာများကို ဤနည်းဖြင့် ထုတ်ယူသည်။ ရှောက်သီး၊ လိမ်မော်သီးများမှ အဆီကို ထုတ်ယူသောအခါ ညှစ်၍ ထုတ်ယူကြသည်။

ပန်းများမှ အဆီကို ဤနည်းများဖြင့် ထုတ်ယူပြီးရုံမျှနှင့် အမွှေးနံ့သာ လုပ်ငန်းမှာ ဆုံးခန်းတိုင် မရောက်သေးပေ။ ထိုအဆီများမှာ အလွန်ထက်မြက်ပြီးလျှင် အနံ့ပြင်း၏။ ပုံစံအားဖြင့် ဆိုလျှင် နှင်းဆီမှ ရရှိသည့် အဆီစစ်စစ် အနံ့သည် မခံမရပ်နိုင်အောင် စူးရှ၏။ ထိုအတူ အခြားပန်းများစွာမှ အဆီတို့၏ အနံ့သည်လည်း ဤအတိုင်းပင် ဖြစ်သည်။ ထို့ကြောင့် ပန်းများမှ ရရှိသည့် အဆီများကို ပေါ့သွားအောင် အခြားပစ္စည်းများဖြင့် ရောပေးကြရ၏။ အဖိုးအတန်ဆုံး ရေမွှေးများမှာပင်လျှင် ပန်းမှ ရရှိသည့် အဆီစစ်စစ် အနည်းငယ်မျှသာ ပါ၏။ အပေါစား ရေမွှေးများတွင်မူကား ဓာတုဗေဒနည်းဖြင့် ချက်ယူသော အဆီများကိုသာ အသုံးပြုကြသဖြင့် ပန်းအဆီ ဟူ၍ လုံးဝ မပါရှိပေ။ အမျိုးကောင်း အမွှေးနံ့သာများကို ပြုလုပ်ရာ၌ အသုံးပြုလေ့ရှိသော နည်းများမှာ ထူးဆန်း၍ ငွေကုန်ကြေးကျများသော နည်းများ ဖြစ်၏။ အမွှေးနံ့သာများမှ အနံ့ ရုတ်တရက် ပျယ်မသွားစေရန် အပင်အဆီအမျိုးမျိုးနှင့် ကော်အမျိုးမျိုးကို အသုံးပြုကြရ၏။ ထိုပစ္စည်းများကို ရေမွှေးလုပ်ငန်းအတွက် အထူး သီးသန့် ပြုလုပ်ထားသောကြောင့် ပန်း၏ အနံ့ဖြင့် ရောထွေးသွားခြင်း မရှိချေ။

တခါဘရံ ကတိုးကောင်မှ ရရှိသည့် ကတိုးကို ထည့်သွင်း အသုံးပြုကြ၏။ (ကတိုးကောင် — ရှု။) ကတိုးကောင်ကို အာရှတိုက် အလယ်ပိုင်း၊ အထူးသဖြင့် ဟိမဝန္တာတောင်တွင် တွေ့ရှိကြရ၏။ အထီး၏ ကိုယ်ခန္ဓာတွင် အိတ်ငယ်တအိတ်အတွင်း၌ မွှေးကြိုင်သော ပစ္စည်းတမျိုး ပါရှိသည်။ ထိုပစ္စည်းကို အမွှေးနံ့သာများ ပြုလုပ်ရာ၌ အသုံးပြု၏။ ဤတိရစ္ဆာန်များသည် တဖြည်းဖြည်း ရှားလာပြီ ဖြစ်၍ ယခုအခါ ကတိုးကို အဖိုးကြီးပေး၍ ဝယ်ယူကြရလေသည်။ အာရှတိုက် အလယ်ပိုင်း ဒေသတွင် နေထိုင်ကြသော သူတို့သည် ကတိုးကို အတွင်းမှ ခဲပြားခံထားသည့် သေတ္တာငယ်များတွင် ထည့်၍ အမွှေးအကြိုင် ပြုလုပ်သော တိုင်းပြည်များသို့ တင်ပို့ရောင်းချလေ့ ရှိ၏။ ကမ္ဘာပေါ်တွင် အဖိုးအတန်ဆုံး ရေမွှေးသည် ငါးကြီးအံဖတ် ပါရှိသော ရေမွှေး ဖြစ်၏။ ငါးကြီး အံဖတ်သည် ဖယောင်းနှင့် သဏ္ဍာန် တူ၏။ အရောင်မှာ မဲ့ပြာရောင် ဖြစ်၍ ကြည့်မကောင်းသော ပစ္စည်းများ ဖြစ်၏။ ထိုအံဖတ်ကို မမာမကျန်းဖြစ်နေသော ဝေလငါး၏ အူအတွင်းမှ ထုတ်ယူကြသည်။ သို့သော် မကျန်းမာသော ဝေလငါးကို ရှာဖွေဖမ်းဆီးရန် ကိစ္စမှာ မလွယ်ကူသောကြောင့် ဤပစ္စည်းသည် အချိန်မရွေး ရရှိနိုင်သော ပစ္စည်းမျိုး မဟုတ်ချေ။ အိန္ဒိယသမုဒ္ဒရာနှင့် အခြားအပူပိုင်းဒေသရှိ ပင်လယ်ရေပြင်ကြီးများတွင် ပေါလောမျောနေသော ငါးကြီးအံဖတ်တို့ကို မကြာခဏတွေ့ကြရ၏။ တခါတရံ ရေပေါ်တွင် မျော၍ တွေ့ရသော ငါးကြီးအံဖတ်မှာ ပေါင် ၂၀၀ အထိပင် အလေးချိန် စီးတတ်၏။ သို့သော် ဤသို့ ရရှိရန် အလွန်ခဲယဉ်းသောကြောင့် ငါးကြီးအံဖတ်မှာ အလွန် အဖိုးတန်၏။ တခါက ၂၄၇ ပေါင်စီးသည့် ငါးကြီးအံဖတ် တတုံးကို ပြင်သစ်နိုင်ငံမှ အမွှေးနံ့သာ လုပ်ငန်းပိုင်ရှင်တဦးက ဒေါ်လာ ၆၆,၀၀၀ ပေး၍ ဝယ်ခဲ့ဘူးလေသည်။

ပြင်သစ်နိုင်ငံသည် အမွှေးနံ့သာ ပြုလုပ်ရာ၌ ကမ္ဘာပေါ်တွင် အကျော်ကြားဆုံးနိုင်ငံ ဖြစ်၏။ နီးစ၊ ကန်းနှင့် ဂရပ်မြို့များ၏ ပတ်ဝန်းကျင်တွင် ရှိသည့် ကွင်းများ၌ ကမ္ဘာပေါ်တွင် နာမည်ကျော် အမွှေးနံ့သာများကို ပြုလုပ်ရန် ပန်းများကို စိုက်ပျိုးထားသဖြင့် ထိုနေရာတိုက်တွင် သင်း၍သော အနံ့ဖြင့် ဖုံးလွှမ်းလျက်ရှိသည်။ ကမ္ဘာပေါ်တွင် ထိုအရပ်ဒေသများထက် သာယာပြီးလျှင် စိတ်ဝင်စားဖွယ်ကောင်းသော အရပ်ဒေသ ဟူ၍ အလွန်ရှားသည်။ ပန်းအဆီမှ အမွှေးနံ့သာ ပြုလုပ်ယူသော လုပ်ငန်းသည် အတတ်ပညာ တရပ်ပင် ဖြစ်၏။ အမျိုးကောင်းသော အမွှေးနံ့သာများ ပြုလုပ်သူတိုင်း၌ လျှို့ဝှက်သည့် နည်းများ ရှိ၏။ ထိုနည်းများကို အဖမှသား၊ သားမှမြေး၊ မြေးမှမြစ် အစရှိသည်ဖြင့် မျိုးဆက်တဆက်မှ တဆက်သို့ လက်ဆင့်ကမ်းခဲ့ကြ၏။ ပန်းများမှ အဆီထုတ်ယူနည်းနှင့် ထိုအဆီမှ တဖန် အမွှေးနံ့သာ ပြုလုပ်ယူနည်းတွင် ပြင်သစ်လူမျိုးတို့သည် ပြိုင်ဖက်ကင်းအောင် အထူးကျွမ်းကျင်တတ်မြောက်ကြလေသည်။

အယောင်ဆောင်ခြင်း။ ။ရှေးအခါက တတိုင်းပြည်နှင့်တတိုင်းပြည် စစ်မက်အင်္ဂါ ဖြစ်ပွားကြသော အခါတွင် သာမန်လက်နက်များကိုသာ အသုံးပြုကြသည်။ ထိုအခါက စစ်ကရိယာများကို ရုပ်ဖျက်၍ အယောင်ဆောင်ရန် များစွာမလိုလှသဖြင့် ထိုကရိယာများကို မသိမသာရုံလောက်သာလျှင် ရုပ်ဖျက်ခဲ့ကြလေသည်။ သို့သော် ခရစ် ၁၉၁၄–၁၈ ခုနှစ် အတွင်း၌ ဖြစ်ပွားသည့် ပဌမကမ္ဘာစစ်ပွဲမှ စ၍ ထက်မြက်ပြင်းထန်သော လက်နက်ထူး လက်နက်ဆန်းများ ပေါ်ပေါက်လာခဲ့သည့်အလျောက် စစ်သုံးကရိယာ

များကို ရုပ်ဖျက် အယောင်ဆောင်ပေးရန်မှာ တဖြည်းဖြည်း အရေးကြီးလာတော့၏။

စစ်တိုက်ခိုက်ရာတွင် လေယာဉ်ပျံများကို ရန်သူစခန်းကို ကင်းထောက်ရန် ပဋ္ဌမလွှတ်တတ်ကြသဖြင့် ဗုံးကျင်းများ၊ ခံတပ်များနှင့် အခြားအရေးကြီးသည့် စစ်ပစ္စည်းများကို ရုပ်ဖျက်ကာ အယောင်ဆောင်ထားရလေသည်။ ထိုကဲ့သို့ ရုပ်ဖျက်အယောင်ဆောင်မထားပါမူ ကင်းထောက်လေယာဉ်ပျံများက မည်သည့်နေရာ၌ မည်သည့်စစ်မက်ကရိယာများထားသည်ကို သေချာတိကျစွာ သိရှိသွားမည် ဖြစ်လေသည်။ ယင်းသို့ သိရှိသွားပါက ထိုစစ်သုံးပစ္စည်းများကို အလွယ်တကူနှင့် လာရောက်ဖျက်ဆီးပစ်နိုင်ကြပေလိမ့်မည်။ ရုပ်ဖျက် အယောင်ဆောင်ရာတွင် ထိုသို့ ရုပ်ဖျက်အယောင်ဆောင်လိုသည့် ပစ္စည်းများပေါ်တွင် သစ်ကိုင်းများ အုပ်ဆိုင်းထားလေ့ ရှိကြသည်။ တခါတရံတွင် ရွက်ထည်ကြီးများကို ထိုပစ္စည်းများပေါ်တွင် အုပ်ထားပြီးလျှင် ရွက်ထည်ပေါ်တွင် ကျောက်ဆောင်ပုံကို ရေးဆွဲထားလေ့ ရှိကြသဖြင့် ကင်းထောက်လေယာဉ်ပျံမှ ထိုပစ္စည်းကို ကျောက်တောင်ကြီး ဖြစ်တန်ရာသည်ဟု အထင်အမြင်လွဲမည် ဖြစ်တော့၏။ တခါတရံ ခံတပ်တုများနှင့် အခြားအရေးကြီးသည့် စစ်သုံးကရိယာများကို အတုပြုလုပ်၍ ထားကြရလေသည်။ သို့မှသာလျှင် စစ်သုံးကရိယာ အစစ်များနှင့် ဝေခွဲမရနိုင်ပဲ ရှိနေမည် ဖြစ်လေသည်။

ထိုစစ်သုံးပစ္စည်းများကို ရုပ်ဖျက် အယောင်ဆောင်ရာတွင် ဆေးရောင်များဖြင့် အကွက်များ၊ သို့မဟုတ် အစင်းကြီးများကို မညီမညာ ကွေ့ကွေ့ကောက်ကောက် ရေးဆွဲထားလေ့ရှိကြသည်။ စစ်သင်္ဘောကြီးများကို ထိုကဲ့သို့ ရေးဆွဲထားသဖြင့် ရန်သူများက ထိုသင်္ဘောကြီးကို မည်သည့်ဖက်သည် ဦးပိုင်းဖြစ်၍ မည်သည့်ဖက်သည် ပဲ့ပိုင်းဖြစ်ကြောင်းကိုပြောနိုင်ရန် ခဲယဉ်းပေလိမ့်မည်။ ဤမျှမကသေး သင်္ဘောကြီးသည် မည်သည့်ဖက်သို့ သွားနေ၍ မည်သည့်အမျိုးအစားဖြစ်သည်ဟု အဝေးမှနေ၍ ပြောနိုင်မည် မဟုတ်တော့ချေ။ထို့ပြင် ထိုကဲ့သို့မညီမညာ ဆေးချယ်ပြီး ရုပ်ဖျက်အယောင်ဆောင်ထားသဖြင့် ထိုသင်္ဘောကြီးသည် စစ်သင်္ဘောကြီးပင်လော၊သို့မဟုတ်လှေနှင့်သင်္ဘောကြီးပင်လောဟု ပြောနိုင်ရန်ပင် ခဲယဉ်းပေလိမ့်မည်။

ဗုံးကြဲလေယာဉ်ပျံများနှင့် တိုက်လေယာဉ်ပျံများကိုလည်း ရုပ်ဖျက်အယောင်ဆောင်ထားလေ့ရှိကြ၏။ များသောအားဖြင့် လေယာဉ်ပျံများ၏ အောက်ပိုင်းကို အမဲရောင်သုတ်လေ့ရှိကြပြီးလျှင် အပေါ်ပိုင်းများကို အညိုနှင့် အစိမ်းရောင်ဖြင့် မညီညာသည့် အကွက်ကြီးများကို ခပ်မှိန်မှိန်ခြယ်ထားလေ့ရှိကြသည်။ သို့မှသာလျှင် ပျံနေသည့်အခါ၌ဖြစ်စေ၊ မြေပေါ်တွင် ရပ်နားနေသည့်အခါ၌ဖြစ်စေ အပေါ်မှကြည့်သူသည် မြေရောင်နှင့် ကွဲပြားမြင်နိုင်ရန် ခဲယဉ်းပေလိမ့်မည်။

**အယုဒ္ဓယမြို့။** ။အယုဒ္ဓယမြို့သည် ယိုးဒယား(ထိုင်း) နိုင်ငံ၏ ရှေးမြို့တော်ဟောင်း ဖြစ်၍ ဗန်ကောက်မြို့မှ မြောက်ဖက်သို့ မိုင် ၅၀ ခန့်အကွာ၊ အောက်မဲနမ်(ချောင်ဖယား) မြစ်အတွင်းရှိ ကျွန်းပေါ်တွင် တည်ရှိသည်။ အယုဒ္ဓယမြို့ဟောင်းကို ခရစ် ၁၃၅၀ ပြည့်နှစ်၌ ပဋ္ဌမ ရာမာဓိပတိ ဘွဲ့ခံ ယိုးဒယားဘုရင်တပါးက စတင်တည်ဆောက်ခဲ့ရာမှ ခမ်းနားကြီးကျယ်သော မင်းနေပြည်တော်ကြီး ဖြစ်ခဲ့ဘူးသည်။ ယင်းသို့ ယိုးဒယားမင်း အဆက်ဆက် စိုးမိုးအုပ်ချုပ်ခဲ့၍ နှစ်ပေါင်း ၄၁၇ နှစ်တိုင်တိုင် မားမားမတ်မတ်တည်တံ့ခဲ့သော အယုဒ္ဓယ နေပြည်တော်ကြီးသည် မြန်မာသက္ကရာဇ် ၁၁၂၈ ခုနှစ်၌ နောက်ဆုံးဖြစ်ပွားခဲ့သော ယိုးဒယား–မြန်မာစစ်ပွဲတွင် မြန်မာတို့ လက်သို့ ကျရောက်၍ ရာဇဝင်တင်လောက်အောင် ဆုံးရှုံးပျက်စီးခဲ့ရ လေသည်။ ယခုအခါ၌ကား ယခင်ကလောက် စည်ကားခြင်း မရှိတော့ပဲ ဘုရားပျက် ကျောင်းပျက်များသာ ရှိနေပေသည်။

အယုဒ္ဓယမြို့သည် ကျွန်းပေါ်တွင် တည်ဆောက်ထားသည် ဖြစ်ရကား မြစ်ကမ်းနားတလျှောက်ရှိ အဆောက်အအုံများမှာ မိုးရာသီ မြစ်ရေလျှံတက်မှုမှ လွတ်ကင်းရန် တိုင်များဖြင့် အမြင့်ဆောက်လုပ်ထားကြသည်။ မြို့တွင်း၌ မဲနမ်မြစ်မှ နေ၍ မြို့ကို ဖြတ်သန်းဖောက်လုပ်ထားသော တူးမြောင်း အမြောက်အမြားကို မြို့တွင်းကူးသန်းသွားလာရေးအတွက် အသုံးပြုကြသည်။ ကမ်းနားတလျှောက်နှင့် တူးမြောင်းများထဲတွင် ဆင်းရဲသားများ နေထိုင်ကြသော လှေအိမ်နှင့် ရေပေါ် ဈေးဆိုင် အမြောက်အမြား ရှိရာ ဈေးဝယ်ရာ၌ရင်း၊ တအိမ်နှင့်တအိမ် ကူးသန်းသွားလာရာ၌ရင်း လှေကလေးများကိုအသုံးပြု၍ ကူးသန်းသွားလာကြသည်။ မြို့အတွင်းဖက်၌ကား လမ်းကြီးလမ်းငယ် အသွယ်သွယ် ဖောက်လုပ်ထားသဖြင့် ကုန်းလမ်းခရီးဖြင့်လည်း အခြားမြို့များသို့ လွယ်ကူစွာ သွားလာနိုင်သည်။

အယုဒ္ဓယမြို့သည် ယိုးဒယားနိုင်ငံ၏ ဆန်စပါး အများဆုံးထွက်ရာ ဗဟိုဌာန ဖြစ်သည်။ ဆန်နှင့်ကျွန်းသစ်များကို အမြောက်အမြား လုပ်ကိုင်ကြ၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချသည်။ ငါးဖမ်းခြင်းအလုပ်ဖြင့်လည်း အရေးပါသောမြို့ ဖြစ်သည်။ အယုဒ္ဓယမြို့မှ ဗန်ကောက်နှင့် အခြားရေလမ်းခရီးမြို့များသို့ မော်တော် သင်္ဘောများဖြင့် အဆက်မပြတ် ကူးသန်းသွားလာလျက် ရှိကြသည်။ ထင်ရှားသော ရှေးမြို့ဟောင်းကြီး ဖြစ်သည့်ပြင် ပျက်စီးလျက်ရှိသော ဘုရားပျက်ကျောင်းပျက်နှင့် အဆောက်အအုံပျက်များကို ရှေးကအတိုင်း လက်ရာမပျက် ယခုတိုင် တွေ့နေရသေးသော

ကြောင့် ကမ္ဘာ့အရပ်ရပ်မှ ခရီးသည်များနှင့် ရှေးဟောင်းပစ္စည်းနှင့် ကမ္ပည်းကျောက်စာ လေ့လာလိုက်စားသူ အမြောက်အမြား လာရောက်လည်ပတ် ကြည့်ရှုကြသည်။ အယုဒ္ဓယမြို့၏ ၁၉၅၇ ခုနှစ် ခန့်မှန်းခြေလူဦးရေမှာ ၃၀,၉၅၇ ဖြစ်သည်။

မြန်မာသက္ကရာဇ် ၉၃၀ ပြည့်နှစ် တောင်ငူခေတ် တပင်ရွှေထီးမင်းလက်ထက်မှ စ၍ ယိုးဒယားနှင့် မြန်မာတို့သည် မကြာခဏ တိုက်ခိုက်လာခဲ့ကြရာ တခါတရံ မြန်မာတို့က အယုဒ္ဓယမြို့ထိ ရောက်ခဲ့ကြ၍၊ တခါတရံ ယိုးဒယားတို့က တနင်္သာရီ၊ ထားဝယ်၊ မုတ္တမထိ ရောက်ခဲ့ကြသည်။ တပင်ရွှေထီးမင်းလက်ထက်တွင် အယုဒ္ဓယမြို့ကို တလခန့် လုပ်ကြံသော်လည်း မြို့စီးပြစီး ထူထပ်လှသဖြင့် မအောင်မြင်ချေ။ ဘုရင့်နောင်(ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရား)လက်ထက်၊ သက္ကရာဇ် ၉၂၅ ခုနှစ်တွင် တကြိမ်၊ ၉၃၀ ပြည့်နှစ်တွင် တကြိမ် နှစ်ကြိမ်တိုင်တိုင် အယုဒ္ဓယမြို့ကို အလုံးအရင်းကြီးစွာဖြင့် လုပ်ကြံတိုက်ခိုက်ရာ အောင်မြင်သဖြင့် မြို့နှင့်တကွ ရွှေငွေရတနာ ဘဏ္ဍာများစွာကို သိမ်းယူပြီးလျှင် မင်းညီမင်းသားများနှင့် မြို့စားမှူးမတ်များ အပါအဝင် သုံ့ပန်းအမြောက်အမြားကို ဟံသာဝတီသို့ ယူဆောင်လာခဲ့သည်။ သို့သော် မြို့ကြီးကား အပျက်အစီး များစွာမရှိခဲ့ချေ။

အလောင်းမင်းတရားကြီးလက်ထက် သက္ကရာဇ် ၁၁၂၁ ခုနှစ်တွင် အယုဒ္ဓယမြို့ကို ဝန်းရံလုပ်ကြံသော်လည်း မရလေ။ ဤသို့ လုပ်ကြံစဉ်တွင် ကိုယ်တော် မကျန်းမာသည်နှင့် ပြန်လာရာ မုတ္တမကျေး ကင်းရွာသို့ အရောက်တွင် နတ်ရွာစံတော်မူသည်။ သက္ကရာဇ် ၁၁၂၈ ခုနှစ် အလောင်းမင်းတရားကြီး၏ သားတော် ဆင်ဖြူရှင်မင်းတရား လက်ထက်တွင် တဖန် အယုဒ္ဓယမြို့ကြီးကို လုပ်ကြံတိုက်ခိုက်ပြန်ရာ ဤအကြိမ်သည် အယုဒ္ဓယမြို့၏ ပျက်စီးခြင်း အကြောင်း နောက်ဆုံးအကြိမ်ပင်တည်း။ အယုဒ္ဓယမြို့ကြီးကို ဝိုင်းရံတိုက်ခိုက်ရာ၌ မြန်မာတို့က ယိုးဒယားမြို့အောက်သို့ ရောက်အောင် ဥမင်ကြီးများ ဖောက်၍ ထင်း၊ လောင်စာအပြည့်သွင်း၍ မီးရှို့သည်။ မီးခိုးလျှံပြင်းလှသဖြင့် မြို့ရိုးပြိုသည်နှင့် မြန်မာရဲမက်များ ဝင်နိုင်သည်တွင် အယုဒ္ဓယမြို့တမြို့လုံးကိုရ၍ ယိုးဒယားမြို့သား မိန်းမယောကျ်ားတို့ကို သုံ့ပန်းအဖြစ် ဖမ်းယူသည်။ အိမ်ရာ ကျောင်းကန် စရပ် တန်ဆောင်းများကို အန္တအစပ် မီးတိုက်ရှို့သည်။ ဤတွင် ယိုးဒယားဘာသာ ရာဇဝင်စာပေ အမြောက်အမြား ပျက်စီးဆုံးရှုံးသည် ဟုဆိုသည်။ အယုဒ္ဓယမြို့မှာ မြို့ပျက်ကြီးအဖြစ်သို့ ရောက်သွား၍ နောက်ထပ် မြို့ကို မထူထောင်တော့ဘဲ ဗန်ကောက်မြို့သို့ ပြောင်း၍ မြို့နန်းထူဆောင်လေတော့သည်။

အရသာ။ ။ကျွန်ုပ်တို့ သိရှိနေကြသော အရသာဟူသည့်အာရုံသည် အနံ့နှင့် များစွာဆက်စပ်လျက် ရှိသည်။ ပုံစံအားဖြင့် သစ်သော့သီးကို နှာခေါင်းပိတ်၍ စားကြည့်လျှင် ယခင်စားရိုးအတိုင်း စားစဉ်ကနှင့် လုံးဝမတူပဲ သစ်သော့သီးသည် ကြက်သွန်၏ အရသာကဲ့သို့ ဖြစ်နေသည်ကို တွေ့ရပေမည်။ အနံ့နှင့်အရသာ ခွဲခြား၍မရလောက်အောင်ဒွန်တွဲနေခြင်းကြောင့် လူတို့သည် အရသာဟူသော စကားလုံး၏ အမှန်သဘောတရားကို မသိရှိနိုင်ကြချေ။

အနံ့ကိုပင် အရသာဟုယူဆကြပြီးလျှင် အထင်မှားအပြောမှား ဖြစ်တတ်ကြသည်။ တခါတရံ အအေးမိ၍ နှာစေးပြီး နှာခေါင်းပိတ်နေသောအခါ မည်သည့်အစာကိုပင်စားစား ယခင်ကကဲ့သို့ အနံ့မရချေ။ ယင်းသို့ အနံ့မရသဖြင့် စားသောက်မကောင်း ဖြစ်သည်ကို အရသာပျက်သည်ဟု ပြောဆိုလေ့ရှိကြ၏။ အမှန်မှာ အရသာပျက်ခြင်း မဟုတ်ချေ။ အနံ့မရတော့သဖြင့် ယခင်က အရသာဟုထင်မှတ်မှားသောအနံ့တွင် ချွတ်ယွင်းခြင်းသာလျှင် ဖြစ်သည်။

အမှန်အားဖြင့် အရသာကို လျှာပေါ်၌ရှိနေသော အရသာဖုကလေးများဖြင့်သာ ခံစားနိုင်ကြ၏။ ထိုအရသာဖုကလေးများ၏ထိပ်တွင် ရသာရုံ နာဗ်ကြောစွန်းများသည် အနှံ့အပြား ယှက်သန်း၍နေကြ၏။ ရသာရုံ သတင်းကို ရသာရုံ နာဗ်ကြောတို့သည် ဦးနှောက်သို့ ဆောင်ယူသွားကြသဖြင့် အရသာသိမှု ဖြစ်ပေါ်လာလေသည်။ သို့သော် အရသာကို ကျွန်ုပ်တို့သည် လျှာတခုလုံးတွင် အနှံ့အပြား ခံစားရခြင်း မဟုတ်ချေ။ လျှာ၏ အလယ်ကောင်အပိုင်းသည် အရသာမပေါ်သောအပိုင်း ဖြစ်၏။ ရသာရုံ နာဗ်ကြောတို့ အနေများရာ၌သာလျှင် အရသာကို ကောင်းစွာ ခံစားနိုင်ကြလေသည်။ လျှာဖျားသည် ချိုသောအရသာကို ပိုမိုခံစားနိုင်၍ လျှာရင်းမှာမူကား ခါးသောအရသာကို ပိုမိုခံစားနိုင်လေသည်။ အငန်နှင့်အချဉ် အရသာများကို လျှာ၏ဘေးနှစ်ဖက်တွင် ခံစားနိုင်သည်။

များစွာသောအစာတို့တွင် အရသာတမျိုးတည်း မရှိပဲ အရသာပေါင်းစုံ ရောလျက်ရှိတတ်သည်။ အချို့တွင် အနံ့သာလျှင်ရှိ၍ အရသာလုံးဝမရှိသည်ကို တွေ့ရသည်။ မည်သည့်အရာဝတ္ထုပင် ဖြစ်စေကာမူ အရည်မပျော်ပဲ အတုံးအခဲဖြစ်နေလျှင် အရသာမပေါ်ချေ။ ပါးစပ်ကိုဟ၍ အသက်ရှူရှိုက်ပေးပါက လျှာသည် ခြောက်၍လာပေမည်။ ယင်းသို့ခြောက်နေစဉ် သကြားမှုန့်များကို လျှာပေါ်တွင် တင်ပေးပါက မည်သည့်အရသာမျှ မပေါ်သည်ကို တွေ့ရမည်။ အတန်ကြာ၍ သကြား အရည်ပျော်သောအခါမှ သာလျှင် ချိုသောအရသာ ပေါ်လာလေသည်။

အချို၊ အချဉ်၊ အငန်၊ အခါးဟူ၍ အရသာလေးမျိုး ရှိ၏။ ထိုအရသာတခုစီ၌ ဆိုင်ရာ နာဗ်ကြောစွန်းများနှင့်

ဆိုင်ရာနာဗ်ကြောမျှင်များ ရှိကြသည်။ ဦးနှောက်၌လည်း အရသာတခုစီကို ချုပ်ကိုင်သောဌာန ရှိပေမည်။ ထိုအရသာလေးမျိုးမှလွဲ၍ ကျန်အရသာများမှာ အနံ့ကိုသာလျှင် အကြောင်းပြု၍ ဖြစ်ကြသည်။

အနံ့သည် အရသာနှင့် များစွာ ဆက်သွယ်မှုရှိသည်။ ကျွန်ုပ်တို့ခံစားရသော အနံ့အသက်ဟူသည်မှာ အနံ့နှင့် သက်ဆိုင်သော နာဗ်ကြောစွန်းများ ရှိသည့်နေရာတွင် ဓာတ်ပစ္စည်းများ လာရောက် တွေ့ထိသောကြောင့် ဖြစ်ပေါ်သည်။ အနံ့အသက်တမျိုးစီသည် နာဗ်ကြောတမျိုးစီနှင့် သက်ဆိုင်၍ ထိုနာဗ်ကြောကို သွားရောက် တွေ့ထိသောအခါမှ ဆိုင်ရာအနံ့အသက်ကို ရရှိခြင်းဖြစ်၏။ ပစ္စည်းတခုသည် ဓာတ်ငွေ့အဖြစ်ဖြင့် တည်ရှိမှသာလျှင် ထိုပစ္စည်း၏အနံ့ကို ရရှိနိုင်၏။ ဓာတ်ငွေ့များသည် ပျံ့နှံ့တတ်သောသဘောရှိ၍ အဝေး၌ရှိသော ပစ္စည်းများကို အနံ့ဖြင့် သိရှိကြရလေသည်။

**အရဟံ၊ ရှင်။** ။အရိမဒ္ဒန ပုဂံပြည်ကြီး၌ သာသနာတော်နေဝန်းကို စတင်ထွန်းလင်း တောက်ပစေတော်မူခဲ့သော ဓမ္မဒဿီဘွဲ့ခံ ရှင်အရဟံမထေရ်မြတ်၏ ရာဇဝင်လာ အကြောင်းကား ဤသို့တည်း။

သုနာပရန္တတိုင်း၊ တမ္ဗဒီပတိုင်းတို့တွင် သာသနာတော် မထွန်းလင်းသေးချေ၊ ဘုရားဗျာဒိတ် ထားတော်မူခဲ့သည့်အတိုင်း ထွန်းလင်းစေအံ့ဟု ရဟန္တာအရှင်မြတ်တို့ ကြံကြပြီးလျှင် သိကြားမင်းထံသွား၍ သာသနာပြုနိုင်မည့်သူကို ညီညာတောင်းပန်ပါ ဆိုကုန်၏။ သိကြားမင်းလည်း တာဝတိံသာ၌ရှိနေသော နတ်သားတယောက်ကို တောင်းပန်၍ ပုဏ္ဏေးမဝမ်း၌ သန္ဓေနေလာစေ၏။ နေ့လစေ့၍ ဖွားသည်ရှိသော် သီလဗုဒ္ဓိအမည်ရှိသော ရဟန္တာမြတ်သည် စောင့်ကြပ်မစ၍ အရွယ်ရောက်လျှင် ရဟန်းပြု၏။ ပိဋကတ်ကျမ်းဂန် တတ်မြောက်၍ ရဟန္တာအဖြစ်သို့ ရောက်လျှင် အရဟံဟူသောအမည်ဖြင့် ဇမ္ဗူဒိပ်မြေပြင်အလုံး ကျော်စောထင်ရှားလေ၏။

ထိုရဟန်းသည် သုနာပရန္တတိုင်း၊ တမ္ဗဒီပတိုင်း၌ သာသနာတော် မတည်ချေသေးဟူ၍ အနော်ရထာမင်းစောလက်ထက် သထုံပြည်မှ ပုဂံရာမသို့ ကြွတော်မူလာ၍ ပြည်နှင့် မနီးမဝေးသော တောအုပ်တခု၌ နေတော်မူ၏။ သိကြားမင်းသည် မုဆိုးတယောက်ကို လှည့်ပတ်၍ ရှင်အရဟံကိုမြင်စေသော် နှစ်သက်ကြည်ညိုဖွယ်သော ဣန္ဒြေရှိသည်ဖြစ်၍ ဤလူကား လူထူးလူမြတ် ဖြစ်ရာသည်။ ပြည်သို့ဆောင်၍ မင်းအားဆက်မည်ဟု ဆောင်လေ၏။ ရှင်အရဟံလည်း ပရိက္ခရာရှစ်ပါးကိုယူလျက် လိုက်တော်မူ၏။ မုဆိုးလည်း တောအုပ်တခု၌ ဤသူကိုတွေ့၍ ဆောင်ခဲ့သည်



ပုဂံ အာနန္ဒာဘုရားအတွင်းမှ ရှင်အရဟံရုပ်တု

ဟုလျှောက်လျှင် မြတ်သောဣန္ဒြေနှင့် ပြည့်စုံသောအဖြစ်ကို အနော်ရထာမင်းစောမြင်၍ ဤသူကား သူယုတ်မဟုတ်၊ မြတ်သောသူတည်း။ ဤသူကိုယ်တွင်း၌ မြတ်သောတရားရှိသည်ဖြစ်ရာ၏ဟူ၍ ကြံစည်ဆင်ခြင်တော်မူ၏။ သဘောကိုစုံစမ်းလိုသဖြင့် လျှောက်ပတ်သော နေရာ၌ နေတော်မူဟုဆိုသော် အရှင်အရဟံသည် ရာဇပလ္လင်သို့တက်၍ နေတော်မူ၏။ မင်းကြီးလည်း ဤသူကား နေရာကြီးကျယ်လှသည်၊ မြတ်သောသူမှန်ပြီဟု ဆင်ခြင်စဉ်းစားပြီးလျှင် ဤသို့ မေးတော်မူ၏။

“ငါ့ရှင်ကား အဘယ်သူ၏ အမျိုးအနွယ် ဖြစ်တော်မူသနည်း၊ အဘယ်အရပ်မှ ကြွလာတော်မူသနည်း၊ အဘယ်သူ၏အဆုံးအမကို ခံတော်မူသနည်း” ဟုမေးတော်မူသော် အရှင်အရဟံလည်း “ငါ၏ အမျိုးအနွယ်သည်ကား ဂုဏ်တော်ကိုးပါး၊ ဘုန်းတော်ခြောက်ပါး၊ အစိန္တေယျလေးပါးနှင့် ပြည့်စုံတော်မူသော သမ္မာသမ္ဗုဒ္ဓ ဘုရားအမျိုးအနွယ်တည်း။ သမ္မာသမ္ဗုဒ္ဓ အမည်တော်ရှိသော ဘုရားသခင်သည် ဟောကြားတော်မူအပ်သော နူးညံ့သိမ်မွေ့နက်ခဲနက်နဲလှသော အာဏာဒေသနာတော်မှလာသော အဆုံးအမ

ကိုခံသည်။ ငါ၏ဆရာဥပဇ္ဈာယ် အပေါင်းအဖော် သံဃာရှိရာနေရာအရပ်မှ လာခဲ့သည်”ဟူ၍ မိန့်တော်မူ၏။

မင်းကြီးလည်း အားရနှစ်သက် ဝမ်းမြောက်ဝမ်းသာရှိ၍ ငါ့ရှင်ဆရာ ဘုရားသခင် ဟောကြားတော်မူအပ်သော တရားဘော်ကို တစိတ်တဒေသမျှ ငါ့အားဟောကြားတော်မူပါဟု တောင်းပန်လေလျှင်၊ သိရိဓမ္မသောကမင်းကြီးအား နိဂြောဓသာမဏေ ဟောတော်မူအပ်သော “အပ္ပမာဒ” အစရှိသောတရားတို့ကို ဟောတော်မူသည်။ တရားဟောတော်မူသောအဆုံး၌ မင်းကြီးသည် ဤသို့လျှောက်ပြန်၏။ ငါ့ရှင် သမ္မာသမ္ဗုဒ္ဓဘုရားကား ယခု အတီအရပ်မှာရှိတော်မူသနည်း။ ဘုရားသခင်ဟောတော်မူအပ်သော တရားတော်ကား အတီမျှ အရေအတွက် ရှိပါသနည်း။ ဘုရားသခင် တပည့်သားတော်ကား ငါ့ရှင်မှတပါး အခြားရှိသေးသလော၊ မရှိပြီလောဟုလျှောက်သော် သမ္မာသမ္ဗုဒ္ဓဘုရား နိဗ္ဗာန်လားတော်မူကြောင်းကိုရင်း၊ ဓာတ်တော်မွေတော်သာ ယခု ရှိကြောင်းကိုရင်း၊ တရားတော်သည် ဓမ္မက္ခန္ဓာ ရှစ်သောင်းလေးထောင်အရေအတွက်ရှိကြောင်းကိုရင်း၊ သထုံပြည်ဝယ် ပိဋကတ်သုံးပုံ အစုံသုံးဆယ်ရှိကြောင်းကိုရင်း၊ မိမိမှတပါး ပရမတ္ထသံဃာ၊ သမုတိသံဃာများစွာရှိကြောင်းကိုရင်း မိန့်တော်မူ၏။

ထိုစကားကို အနော်ရထာမင်းစော ကြားတော်မူသော် အတိုင်းထက်အလွန်သဒ္ဓါခြင်းပြင်းစွာဖြစ်၍ ဤသို့လျှောက်ပြန်၏။ ကျွန်ုပ်အား ယခုမျက်မှောက်၌ အရှင်မှတပါး အခြားကိုးကွယ်ရာမရှိ။ ယနေ့မှစ၍ ကျွန်ုပ်၏အသက်ကို အရှင်အား ဆောက်နှင်းတော့သည်။ အရှင်အဆုံးအမကိုလည်းအကျွန်ုပ်ခံတော့သည်ဟူ၍ လျှောက်ပြီးလျှင် အရည်ကင်ရသောအရပ်၌ သာယာလှစွာသောကျောင်း ဆောက်လုပ်လှူဒါန်း၏။ အရည်းတို့အယူကိုလည်း ပယ်တော်မူ၏။ ပြည်သူပြည်သားအပေါင်းတို့ကိုလည်း ပယ်စေတော်မူ၏။ အရည်းတို့သည် လာဘ်သပ်ပကာမှ လျော့ကုန်သည်ဖြစ်၍ ရှင်အရဟံကို ရန်ငြိုးကြီးစွာ ထားကြကုန်၏။ မင်းကြီးလည်း ထိုအကြောင်းကို ဆင်ခြင်မိ၍ စိုးရိမ်တော်မူသဖြင့် အရည်းကြီးတို့ကို နိုင်လောက်အောင် အစောင့်အနေ ခန့်ထားစောင့်ဧရေ၏။ အရည်းကြီးသုံးကျိပ်နှင့်တကွ တပည့်လက်သား ခြောက်သောင်းတို့ကိုလည်း လူဝတ်လဲစေ၍ အဲးမောင်းကိုင်၊ လှံကိုင်၊ ဆင်ချေးကျုံး၊ မြင်းချေးကျုံး ထည့်တော်မူလေ၏။ (အရည်းကြီး — လည်းရှု။)

ရှင်အရဟံလည်း သာသနာတော်၌ ကြည်ညိုကုန်သောသူတို့ကို ရဟန်းပဥ္စင်းပြုတော်မူ၍ သာသနာဘော်မြတ်သန့်ရှင်းထွန်းလင်းစေ၏။ ရှင်အရဟံ၏ မိန့်တော်မူချက်အတိုင်း အနော်ရထာမင်းစောသည် သထုံမှ ပိဋကတ်တော်များကို ယူဆောင်ပြီးလျှင် သာသနာပြုတော်မူသည်။ ထိုအချိန်မှစ၍ ပုဂံပြည်၏ ဗုဒ္ဓသာသနာတော်သည် အလွန်ထွန်းလင်းတောက်ပလာလေသည်။

ရှင်အရဟံသည် သက်တော် ဂ၁ နှစ်အထိ အနော်ရထာမင်း၊ ကျန်စစ်သားမင်း၊ အလောင်းစည်သူမင်း နန်းစံနှစ်နှစ်တိုင်အောင် ထင်ရှားသော မင်းသုံးဆက်တို့လက်ထက်ဝယ် သာသနာပြုစု ပျိုးထောင်ခဲ့လေသည်။

**အရာတော်မြို့။** ။အရာတော်မြို့သည် အထက်မြန်မာနိုင်ငံ စစ်ကိုင်းတိုင်း၊ မုံရွာခရိုင် မုံရွာခရိုင်ခွဲတွင် ပါဝင်ခဲ့၍ ယခုစစ်ကိုင်းတိုင်း အရာတော်မြို့နယ်၏ မြို့ပိုင်ရုံးစိုက်ရာမြို့ဖြစ်သည်။ မုံရွာမြို့၏ အရှေ့မြောက်ဖက် ၂၇ မိုင်အကွာတွင် တည်ရှိ၍ မုံရွာမှ မော်တော်ကားလမ်း ရှိသည်။ မိုးနည်းရေရှား ရပ်ဝန်းဒေသတွင် တည်ရှိ၍၊ နွေအခါ အတော်အတန်ပူပြင်းခြောက်သွေ့သဖြင့် ရေရှားပါးသောကြောင့် ရေကန်များစွာဘူးလျက် ကန်ရေကိုသာ အားထားကြရသည်။ မြို့နယ်သူသုသည် များသောအားဖြင့် လယ်ယာလုပ်ကိုင်သူများ ဖြစ်ကြ၍ ပြောင်း၊ပဲ၊နှမ်းနှင့် ဝါဂွမ်းများကို စိုက်ပျိုးကြသည်။ အိုးခွက်နှင့် ပန်းပဲအလုပ်ကိုလည်း လုပ်ကိုင်ကြသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ အရာတော်မြို့၏ လူဦးရေမှာ ၂,၄၄၄ ယောက် ဖြစ်သည်။

အရာတော်မြို့နယ်၏ အရှေ့ဖက်၌ ယခင်က မုံရွာခရိုင်နှင့် ရွှေဘိုခရိုင်ကို ပိုင်းခြားထားသော မူးမြစ်၊အနောက်ဖက်၌ မုံရွာမြို့နယ်၊ တောင်ဖက်၌ ချောင်းဦးမြို့နယ်နှင့် မြင်းမူမြို့နယ်၊ မြောက်ဖက်၌ ရေဦးမြို့နယ်ဘို့ အသီးအသီး ရှိကြသည်။ အရာတော်မြို့နယ်သည် မုံရွာခရိုင်တွင်ပါဝင်ခဲ့စဉ်က အရှေ့တောင်ဖက်ကျသော မြို့နယ် ဖြစ်သည်။ မြို့နယ်တခုလုံးသည် ၄၇၃ စတုရန်းမိုင် ကျယ်ဝန်း၍ သူကြီးပိုင်နယ် ၄၀ ပါဝင်သည်။ ၁၉၇၃ ခုနှစ် သန်ကောင်စာရင်းအရ အရာတော်မြို့နယ်၏ လူဦးရေမှာ ၁၁၅,၂၆၅ ယောက်ဖြစ်သည်။

**အရိယာရှစ်ပါး။** ။မြင့်မြတ်ဖြူစင်သော ပုဂ္ဂိုလ်ရှစ်ပါးကို ခေါ်သည်။ ထိုအရိယာရှစ်ပါးဟူသည်မှာ–

၁။ သောတာပတ္တိမဂ်သို့ရောက်ဆဲ သောတာပတ္တိမဂ်ပုဂ္ဂိုလ် ၁ ပါး၊

၂။ သကဒါဂါမိမဂ်သို့ရောက်ဆဲ သကဒါဂါမိမဂ်ပုဂ္ဂိုလ် ၁ ပါး၊

၃။ အနာဂါမိမဂ်သို့ရောက်ဆဲ အနာဂါမိမဂ်ပုဂ္ဂိုလ် ၁ ပါး၊

၄။ အရဟတ္တမဂ်သို့ ရောက်ဆဲ အရဟတ္တမဂ်ပုဂ္ဂိုလ် ၁ ပါး၊

၅။ သောတာပတ္တိဖိုလ်သို့ရောက်နေသော သောတာ

ပန်ပုဂ္ဂိုလ် ၁ ပါး၊

၆။ သကဒါဂါမိဖိုလ်သို့ရောက်နေသော သကဒါဂါမ် ပုဂ္ဂိုလ် ၁ ပါး၊

၇။ အနာဂါမိဖိုလ်သို့ ရောက်နေသော အနာဂါမ် ပုဂ္ဂိုလ် ၁ ပါး၊

၈။ အရဟတ္တဖိုလ်သို့ရောက်နေသော ရဟန္တာပုဂ္ဂိုလ် ၁ ပါးဟူ၍ မဂ်ပုဂ္ဂိုလ်လေးပါး၊ ဖိုလ်ပုဂ္ဂိုလ်လေး ပါး၊ ပေါင်းအရိယာရှစ်ပါးဖြစ်သည်။

**အရေပြား။** ။ကိုယ်ခန္ဓာတခုလုံးရှိ အကြီးဆုံးသော အင်္ဂါအစိတ်အပိုင်းတို့တွင် အရေပြားသည် တခုအပါ အဝင်ဖြစ်သည်။ သို့သော် အခြားအင်္ဂါအစိတ်အပိုင်းများ ကဲ့သို့ တနေရာတွင် စု၍တည်နေသည်မဟုတ်ပဲ၊ ကိုယ်ခန္ဓာ တခုလုံးကိုဖြန့်၍ ဖုံးအုပ်နေသောအင်္ဂါရပ် ဖြစ်၏။

အရေပြား တခုလုံးကိုခွာ၍ ချိန်ကြည့်မည် ဆိုလျှင် ဦးနှောက်၏အလေးချိန် နှစ်ဆနီးနီး လေးကြောင်း တွေ့ရ ၏။ အရေပြား၏ အကျယ်အဝန်းမှာ စတုရန်းလက်မ ၃,၁၀၀ ခန့်ရှိသည်။ ကိုယ်ခန္ဓာတခုလုံးတွင် လှည့်ပတ်သွား လာနေသော သွေး၏ သုံးပုံတပုံခန့်သည် အရေပြားသို့ ရောက်သည်ချည်းဖြစ်၏။ တံဆိပ်ခေါင်းခန့်ပမာဏရှိသော အရေပြားကို နမူနာမှကွက်၍ လှီးကြည့်မည်ဆိုလျှင် ဆဲသန်း ပေါင်း ၃၀၀ ခန့်၊ ချွေးထွက်သော ဂလင်းပေါင်း ၁၀၀ ကျော်၊ ဆီကြည်ထွက်သောဂလင်းပေါင်း ၁၅ ခုခန့်၊ ၃၉ လက်မခန့်ရှည်သော သွေးကြောများ၊ ၁၅၆ လက်မခန့်ရှည် သော နဗ်ကြောများစသည်ဘို့ကို တွေ့ရပေမည်။ ဤမျှ လောက် သေးငယ်သောအရေပြားတွင်ပင် အင်္ဂါအစိတ် အပိုင်းပေါင်း များစွာပါရှိခဲ့သော် ကိုယ်ခန္ဓာ တခုလုံးရှိ အရေပြား၌ကား အဘယ်သို့ဆိုဖွယ်ရာရှိတော့အံ့နည်း။

အရေပြားတွင် အလွှာနှစ်လွှာရှိ၏။ အပြင်လွှာသည် အရေပါးလွှာဖြစ်၍၊ အတွင်းလွှာမှာ အရေထူလွှာဖြစ် သည်။ ထိုအလွှာနှစ်ခုသည် တခုနှင့်တခု ပူးကပ်၍နေကြ ၏။ သို့သော် မီး၊ သို့မဟုတ် ရေနွေးပူလောင်သည့်အခါ အပြင်အရေပါးလွှာသည် ဖောင်းကြွလာပြီးလျှင် အတွင်း အရေထူလွှာမှ ကွာသွားလေသည်။ သေသောအခါ၌ လည်း အပြင်လွှာသည်ပုပ်သိုးပြီး အရေထူမှကွာကျသွား လေသည်။

အပြင်အရေပါးပေါ်တွင် အထက်သို့ မို့တက်နေသော အကြောင်းများ ရှိသည်။ အတွင်းအရေထူပေါ်တွင်လည်း အလားတူအကြောင်းများရှိရာ၊ ထိုအရေပြားနှစ်ခုသည် တခုနှင့်တခု အံကိုက်ဖြစ်နေကြသည်။ လက်ဖဝါးခြေဖဝါးရှိ အရေပြားပေါ်တွင် ထိုအကြောင်းတို့သည် အလွန်ထင် ရှားစွာ ပေါ်လွင်လျက်ရှိကြသည်။ ထိုအကြောင်းတို့ဖြစ် ပေါ်ပုံသည် လူတယောက်နှင့်တယောက်မှာ မတူညီသဖြင့် လူကိုမှတ်သားရန် လက်ပုံစံ၊ ခြေပုံစံတို့ကို ယူထားလေ့ရှိကြ လေသည်။

အရေပြားတွင် ချွေးထွက်သောဂလင်းနှင့် ဆီကြည် ထွက်သောဂလင်းဟူ၍ ဂလင်းနှစ်မျိုးရှိ၏။ ဆီကြည်ဂလင်း မှာ အရေထူပေါ်တွင်တည်ရှိ၍ ကိုယ်ခန္ဓာတွင် အမွေး အမှင်ပေါက်ရောက်ရေးနှင့် သက်ဆိုင်သည်။ ဤဂလင်းကို လက်ဖဝါးနှင့် ခြေဖဝါးမှလွဲ၍ တကိုယ်လုံးတွင် အနှံ့အပြား တွေ့ရ၏။ ဆီကြည်ဂလင်း၏ဝတ်တရားမှာ အရေပြားနှင့် တကွအမွေးအမှင်များကို ဆီများဖြင့် ထောက်ပံ့ပေးရန် ဖြစ်၏။

ချွေးဂလင်းသည် ဆီကြည်ဂလင်းထက် အနေနက်၏။ တကိုယ်လုံးတွင် အနှံ့အပြား တည်ရှိကြသော်လည်း ဆီ ကြည်ဂလင်းများမရှိသော လက်ဖဝါးခြေဖဝါးတွင် အများ ဆုံးတွေ့ရသည်။ ထူ၍မာသော အရေပါးနေရာတွင် ချွေး ပြွန်များသည် ဝက်အူရစ်ကဲ့သို့ ကောက်ကွေ့ကာ မျက်နှာ ပြင်သို့ ဖောက်ထွက်လျက်ရှိကြ၏။

အရေပြားသည် ကိုယ်ခန္ဓာတွင် အလွန်အသုံးဝင်သော အင်္ဂါတရပ်ဖြစ်၏။ ပဌမနည်းအားဖြင့် အသုံးဝင်ပုံမှာ အရေပြားသည် အတွင်းမှတင်ရှူး (အသားမျှင်) များကို ပျက်စီးမသွားစေရန် ကာကွယ်ထားသည်။ အထူးသဖြင့် ခြေဖဝါးကဲ့သို့ အပွန်းအတီးများပြားသောနေရာတွင်အဆီ ဖြင့် ထူထဲစွာခံပေး၍ မာနေအောင်ပြုပြင်သည်။ ဒုတိယ နည်းအားဖြင့် အသုံးဝင်ပုံမှာ အရေပြားသည် အတွေ့ အာရုံများကို ခံစားစေနိုင်၍ လောကအကြောင်းကို သိရှိ စေနိုင်သည်။ ကျွန်ုပ်တို့၏အရေပြားတွင်ရှိသော အာရုံ အင်္ဂါများဖြင့် အပူအအေး၊ နာကျင်ခြင်း စသည်တို့ကို သိရှိကြရသည်။ နောက်ဆုံးနည်းအားဖြင့် အသုံးဝင်ပုံမှာ အရေပြားသည် ကိုယ်ခန္ဓာတွင် အပူချိန်ကို တသမတ် တည်းရှိအောင် ထိန်းသိမ်းထားသည်။ နွေရာသီတွင် ပတ် ဝန်းကျင်လေထု၏အပူချိန်ကြောင့် ကိုယ်တွင်း၌ အပူတိုး လာတတ်ပေသည်။ ထိုအခါ အရေပြားသည် ချွေးများ ထွက်လာစေပြီးလျှင် အပလေသို့အငွေ့ပျံသွားစေသဖြင့် ကိုယ်ခန္ဓာ၏အပူချိန်မှာ သာမန်အနေအတိုင်း တည်ရှိ လေသည်။

**အရေးအသား။** ။ကျွန်ုပ်တို့၏ အတွေးအခေါ်၊ အ ပြောအဆိုများကို လူအများနားလည်စေခြင်းဖြင့် လူလျှင် လူချင်း အဆက်အသွယ်ပြုရန်မှာ ထိုအတွေး အခေါ်၊ အပြောအဆိုတို့ကို အမှတ်သင်္ကေတတို့ရေး၍ မှတ်တမ်း တင်ခြင်းပင်ဖြစ်၏။ ဤသို့ရေးမှတ်ခြင်းကို အရေးအသား ဟု ခေါ်လေသည်။ သို့သော် ရှေးသူဟောင်း တို့သည်

ထိုသို့ မှတ်တမ်းတင်ထားနိုင်ရန် စာရေးသားမှုကို မတတ်ကျွမ်းကြ သေးချေ။ ထို့ကြောင့် သူတို့၏ သဘာဝအလျောက် အတွေးအခေါ်ချင်း ဆက်သွယ်သောနည်းတို့ကို တီထွင်ခဲ့ကြလေသည်။ ပုံစံအားဖြင့် ရုရှနိုင်ငံတောင်ပိုင်းနေ ရှေးဟောင်း ဆီသီယန်လူမျိုးတို့သည် ပါးရှင်းလူမျိုးတို့ထံ ငှက်တကောင်၊ ကြွက်တကောင်၊ ဖားတကောင်နှင့် မြားငါးစင်း ပေးပို့ ခဲ့ဘူးသည်။ ယင်းသို့ပေးပို့ခြင်း၏ အဓိပ္ပါယ်မှာ "အချင်းပါးရှင်းတို့၊သင်တို့သည် ငှက်ကဲ့သို့ ပျံတက်နိုင်၏လော၊ ကြွက်ကဲ့သို့ တွင်းအောင်းနိုင်၏လော၊ ဖားကဲ့သို့ ရွှံ့ညွန်ထဲ၌ ခုန်ပြေးနိုင်၏လော၊ ယင်းသတ္တဝါများကဲ့သို့ မပြုမူနိုင်လျှင် ငါတို့အား စစ်မဖက်လေနှင့်၊ ငါတို့သည် သင်တို့အား မြားမိုးရွာစေအံ့" ဟူ၍ ဖြစ်သည်။ ဤသဘောသည် ဆီသီယန်တို့၏ စိတ်နေသဘောထားကို ပါးရှင်းတို့အား သိစေရန် အကြောင်းကြားခြင်းသဘောဖြစ်၏။ယခုခေတ် စာရေး၍အကြောင်းကြားသည့်အရာကို စာမပေါ်မီခေတ်က ငှက်၊ ကြွက်၊ ဖား၊ မြား အထိမ်း အမှတ်တို့နှင့် အကြောင်း ကြား ခြင်း ပင်ဖြစ်၏။ ဤနှင့် အလားတူ တီထွင် ကြံဆချက်များသည် ကမ္ဘာဦးလူတို့ခေတ်၌ များစွာရှိခဲ့ဘူးသည်။ အခြားပုံစံတခုမှာ မြောက်အမေရိကတိုက်နေ လူရိုင်း အချို့သည် စစ်နှင့်ငြိမ်းချမ်းရေး သဘောကို "ကဲလုမက်"ခေါ် အသုအပ ခြယ်စီထားသည့် ကျူရိုးဆေးတံဖြင့် အဆုံးအဖြတ်ပြုခဲ့ကြပုံ ဖြစ်သည်။ ခေါင်းဆောင်များ ဆွေးနွေးတိုင်ပင်သော မီးပုံဝိုင်း၌ ယင်းဆေးတံကို ခေါင်းဆောင်တဦးစီတဦးစီသို့ ကမ်းပေး၏။ ကမ်းပေးသောဆေးတံကို လှမ်းယူခြင်းသည် ချစ်ကြည်ငြိမ်းချမ်းရေးသဘောဖြစ်၍ ငြင်းပယ်ခြင်းသည် စစ်ဖက်ရန်သဘောပင်ဖြစ်သည်။ မြန်မာနိုင်ငံနယ်စပ်၌ နေထိုင်လျက် ရှိကြသော ဝလူမျိုးများသည် တဖက်နှင့်တဖက် စစ်ပြုလိုက လက်ဖက်ခြောက်၊ ကျည်ဆံတတောင့်နှင့် အနီရောင် ငရုတ်သီးများကို ပို့၍အကြောင်းကြားသော အလေ့အထ ရှိခဲ့သည်။ တဖန်စစ်ကူတောင်းသောအခါ၌လည်း ငရုပ်သီးနှင့်ကြက်တောင်ကိုပို့၍ရှင်း၊ စစ်ကူပို့လိုက်ပြီဟု အကြောင်းပြန်လိုက ကြံသကာနှင့် လက်ဖက်ခြောက်ကို ပို့၍ရှင်း အကြောင်းကြားသောအလေ့အထ ရှိခဲ့လေသည်။

ရှေးသူဟောင်းတို့ အမှတ်အသားပြုပုံများ တိုးတက်လာပုံမှာ ကြိုးထုံးများဖြင့်၎င်း၊ တုတ်များ၌ ထစ်၍၎င်း မှတ်သားတတ်လာကြခြင်း ဖြစ်သည်။ ထိုနည်းကို ရှေးဟောင်းတရုပ်၊ တိဗက်၊ ပါးရှင်း၊ မက္ကဆီကန်လူမျိုးများနှင့် မယ်လာနီရှားမှ ဖော်မိုဆာကျွန်းဆွယ်ဘလျောက်ရှိ အချို့သောရှေးသူဟောင်းများ၊အာဖရိကတိုက် အသယ်ပိုင်းနှင့်အနောက်ပိုင်းနေ ရှေးသူဟောင်းများ၊ အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားနှင့် ပီရူးတောင်းပိုင်းသားရှေးသူဟောင်းများ အသုံးပြုခဲ့ကြသည်။ ကြိုးထုံးဖြင့် မှတ်သားခြင်း စံနစ်သည် ရှေးဟောင်း ပီရူးလူမျိုးများထံမှ အခြေပြုခဲ့သည်။ တုတ်၌ထစ်၍ မှတ်သားခြင်းစံနစ်ကို ရှေးဟောင်းစကင်ဒီနေးဗီးယား ကျွန်းဆွယ်၌ အသုံးပြုခဲ့သည်။ဩစတြေလီးယားတိုက်ရှိ မယဉ်ကျေးသေးသောလူရိုင်းအချို့သည် ယင်းစံနစ်ကို မကြာသေးမီကာလအထိ စစ်ပွဲအကြောင်း သတင်းပေးပို့ရာ၌၎င်း၊ လူထုအစည်းအဝေးများကျင်းပရာ၌၎င်း အသုံးချခဲ့ကြလေသည်။ ၁၈၁၂ ခုနှစ်အထိ အင်္ဂလိပ်အစိုးရသည် မိမိအားငွေကြေးချေးငှားသူများကို တာလီဘုတ်ချောင်းများ ထုတ်ဝေပေး၍ မှတ်သားခြင်း ပြုခဲ့ပေသည်။

ထို့နောက် တိုးတက်လာသည်ကား ရုပ်ပြစာများဖြစ်သည်။ ယင်းရုပ်ပြစာ၏သဘောမှာ အကြောင်းအရာတခုနှင့် ထိုအကြောင်းအရာနှင့် ဆက်သွယ်သော ကြံစည်အားထုတ်မှုတို့ကို ဖော်ပြခြင်းပင်ဖြစ်သည်။ ပမာ လူဟုဆိုလိုက လူရုပ်ဆွဲပြ၍ တိရစ္ဆာန်ဟုဆိုလိုက တိရစ္ဆာန်ရုပ်ဆွဲပြခြင်း ဖြစ်သည်။ စက်ဝိုင်းသင်္ကေတဆွဲပြခြင်းမှာမူ နေကိုဆိုလိုခြင်း ဖြစ်သည်။ ယင်းကမ္ဘာဦးခေတ် ရုပ်ပြစာများကို ဂူနံရံများ၌၎င်း၊ တိရစ္ဆာန်များ၏ အရိုးများပေါ်၌၎င်း၊ ကျောက်တုံးများပေါ်၌၎င်း တွေ့ရှိရသည်။ သို့သော်ပိုမိုတိုးတက်လာသော ရုပ်ပြစာများ၌မူ သဘောအဓိပ္ပါယ်မှာ ပိုမိုကျယ်ပြန့်လာသည်။ ပမာအားဖြင့် လသွံကိုရေးဆွဲပြခြင်းသည် ကောင်းကင်ပေါ်ရှိလကို ဆိုလိုခြင်းအပြင် အချိန်အပိုင်းအခြားဖြစ်သော တလ နှစ်လ သုံးလစသည်ကို ဆိုလိုခြင်းလည်းဖြစ်လာသည်။ စက်ဝိုင်းပုံသင်္ကေတသည် နေကိုဆိုလိုခြင်းအပြင် အပူရှိန်၊ အလင်းရောင် နေနှင့်စပ်ဆိုင်သောဘုရားနှင့် တနေ့တာတို့ကို ဆိုလိုခြင်းလည်း ဖြစ်လာသည်။ လူ၏ခြေထောက်ပုံသင်္ကေတသည် လမ်းလျှောက်ခြင်း အဓိပ္ပါယ်ကို ဆောင်သည်။ လူ၏ပါးစပ်ပုံသင်္ကေတသည် စကားပြောခြင်း အဓိပ္ပါယ်ဆောင်သည်။ မျက်စိသည် မြင်ခြင်းကိုဆောင်သည်။ နားသည် ကြားခြင်းကိုဆောင်သည်။ မြောက်အမေရိကတိုက်နေ လူရိုင်းများ၏ရုပ်ပြစာများ၌မူ ဖောင်းကြွသောလှေ့ရွက် သင်္ကေတသည် လေဓာတ်ကို ဖော်ပြ၍၊ လင်းယုန်ငှက်သင်္ကေတသည် ရဲရင့်ခြင်း၊ သို့မဟုတ်သတ္တိအသွင်ကို ဖော်ပြသည်။

ထိုသို့ တဆင့်ထက် တဆင့် တိုးတက် ပေါ်ပေါက်လာသည့် ရုပ်ပြစာများတွင် တကယ် စံနစ်ကျနစ္စ၍ ပြည့်စုံပြီးမြောက်သော ရုပ်ပြစာများကား အလွန် နည်းပါး လေသည်။ ယင်းတို့မှာ ရှေးဟောင်း မက်ဆိုပိုတေးမီးယားမှဆူမားရီးယန်းလူမျိုးတို့ တီထွင်ခဲ့သော ကျူးနီးဖောင်းခေါ် စာရေးနည်း၊ ရှေးဟောင်း အီဂျစ်လူမျိုးများတီထွင်

ခဲ့သောဟိုင်ယာရိုဂလစ်ဖစ်ခေါ် ရုပ်ပုံစာရေးနည်း၊ အိန္ဒိယနိုင်ငံ အိန္ဒုမြစ်ဝှမ်းနေ ရှေးဟောင်းလူမျိုးများ၏ စာရေးနည်း၊ ရှေးဟောင်းပေါ်လီနီးရှင်း လူမျိုးများ၏ စာရေးနည်းနှင့် မက္ကဆီကိုနိုင်ငံနှင့် အမေရိကတိုက် အလယ်ပိုင်းနေ ရှေးဟောင်း အက်ဇတက်နှင့် မာယာခေါ် လူမျိုးများ၏ စာရေးနည်းတို့ဖြစ်သည်။ သို့သော် ယင်းစာရေးနည်းများသည် ရုပ်ပြသင်္ကေတ ရေးနည်းနှင့် အသံထွက်ကို လိုက်၍ ရေးသော ရေးနည်းနှစ်မျိုး ရောထွေး နေသည်။ အချို့သော ရုပ်ပြသင်္ကေတများသည် အကြောင်းအရာတခုနှင့် ထိုအကြောင်းအရာနှင့် ဆက်သွယ်လျက် ရှိသော အဓိပ္ပါယ်ကို ဖော်ပြသည်။ အချို့သောရုပ်ပြသင်္ကေတများမှာကား နှုတ်မှ ရွတ်ဆိုလိုက်သော အသံထွက်ကို ဖော်ပြသည်။ ဤသို့လျှင် ရောထွေးစွာရှိနေကြသည်။ တဖန်ပိုမိုရောထွေးလာပြန်သည်မှာ စာလုံးတည်းတည်းကိုပင် အသံထွက်အမျိုးမျိုးထွက်၍ အဓိပ္ပါယ် အမျိုးမျိုး ကောက်ယူခြင်းပင်ဖြစ်သည်။

ကျူးနီးဖောင်း စာရေးနည်းသည် အစာဆုံး ပေါ်ပေါက်ခဲ့သော စာရေးနည်းပင်ဖြစ်သည်ဟု ယူဆရသည်။ ယင်းကို လွန်ခဲ့သောနှစ်ပေါင်း ၆၀၀၀ ခန့်က မက်ဆိုပိုတေးမီးယား၌ နေထိုင်သော ဆူမားရီးယန်းလူမျိုးများက တီထွင်ခဲ့သည်။ပဌမ၌ ရုပ်ပြသင်္ကေတဖြစ်သော်လည်း နောင်သော် အခုံးသဏ္ဍာန်ထောင့်ချိုးစာလုံးများဖြစ်လာသည်။ ရေးသားသောအခါ၌ ကျူရိုး၊ သို့မဟုတ် အရိုး၊သို့မဟုတ် သတ္တု၊ သို့မဟုတ် မာကျောသော သစ်သားဖြင့် ပြုလုပ်ထားသော စတိုင်းလတ်ခေါ် အဖျားချွန်သောကရိယာဖြင့် ရွှံ့ပြားပေါ်တွင် ဖိနှိပ်ရေးသားရသည်။ ယင်းကို မက်ဆိုပိုတေးမီးယားမှ ဆီးမိုက်အနွယ်ဝင် လူမျိုးများသည် ဘီစီ ၃၀၀၀ ခန့်ကစ၍ ခရစ်နှစ်ပေါ် ဦးကာလအထိ ရေးသားသုံးစွဲခဲ့ကြသည်။ ဘီစီ ၁၅၀၀ ခန့်ကာလသို့ ရောက်သောအခါ၌ ယင်းစာရေးနည်းကို အရှေ့ဖျားတခွင်၌ နေထိုင်သော ယဉ်ကျေးပြီးလူမျိုးတိုင်းလိုလိုမှင် အသုံးပြုလာကြသည်။ အများဆုံး အသုံးပြုကြသူများမှာ ရှေးဟောင်းဆူမားရီးယန်း လူမျိုးများ၊ရှေးဟောင်း ဗက်ဗီလုံးနီးယားနိုင်ငံသားများနှင့် ရှေးဟောင်း အဆီးရီးယန်းလူမျိုးများဖြစ်သည်။ သို့သော် အထက်ပါ ကျူးနီးဖောင်းစာများကို လေ့လာဖတ်ကြားနိုင်မှု အသိသည် နှစ်ရာပေါင်းများစွာ ပျောက်ကွယ်နေခဲ့ပြီးမှ ၁၉ ရာစုနှစ် အလယ်ပိုင်းသို့ရောက်လာသောအခါ တဖန်ပြန်လည်ပေါ်ပေါက်ခဲ့သည်။

ထိုနောက် ယဉ်ကျေးမှုတိုးတက် ကျယ်ပြန့်လာသည်နှင့် အမျှစာရေးနည်းများလည်း တိုးတက်ကျယ်ပြန့်လာသည်။ အသံထွက်ကိုလိုက်၍ရေးသော စာရေးနည်းမှ ပေါ်ပေါက်လာသော အက္ခရာနှင့် စာရေးနည်းသည် အတိုးတက်ဆုံးနှင့် အကျယ်ပြန့်ဆုံးဖြစ်လာလေသည်။ ယင်းစာရေးနည်း၌ အက္ခရာများသည် တလုံးချင်း အနေဖြင့် အသံထွက်၍ စုပေါင်းလိုက်သောအခါမှ အဓိပ္ပါယ်ရှိသော စကားလုံးဖြစ်လာသည်။ ယင်းကို ဂရိနှင့် ရောမလူမျိုးများက စတင်တီထွင် သုံးစွဲခဲ့ရာမှ ယနေ့ကမ္ဘာ၌အများဆုံးအသုံးပြုလျက်ရှိသော ရောမအက္ခရာများ ပေါ်ပေါက် လာခဲ့ပေသည်။ (အက္ခရာစဉ် — လည်းရှု။)

**အရိုး။** ။သက်ရှိသတ္တဝါတို့၏အရိုးများသည် တစ်ရှူးခေါ် အမျှင်အမာစားတမျိုးဖြင့် ဖွဲ့စည်းဆားသည့်ပစ္စည်းဖြစ်သည်။ အရိုးစုတခုလုံးသည် ကိုယ်ခန္ဓာတခုလုံးကို အခြင်အနေဖြင့် ထောက်ခံထားရုံမက၊ သိမ်မွေ့နူးညံ့သော အင်္ဂါစုများကိုလည်း ကာကွယ်ထားသည်။ အဆုံးများတွင် ကြွက်သားများဖြင့် ဆက်လျက်ရှိ၍ ထိုကြွက်သားများက ကိုယ်ခန္ဓာအစိတ်အပိုင်းများကို လှုပ်ရှားနေသည်။ လူတကိုယ်၏အရိုးစုတွင် သီးခြားအရိုးအစိတ်အပိုင်းပေါင်း ၂၀၀ ကျော်မျှ ပါဝင်၏။ အရိုးတွင် ကယ်လဆီယမ်ဖော့စဖိတ် ၆၀ ရာခိုင်နှုန်း၊ အခြားတွင်းထွက် ဓာတ်ဆားများ ၁၀ ရာခိုင်နှုန်းနှင့် ဩဂဲနစ်ခေါ် သက်ရှိဆိုင်ရာပစ္စည်း ၃၀ ရာခိုင်နှုန်း အသီးအသီးပါဝင်သည်။ ယင်းတို့အနက် အင်ဩဂဲနစ်ခေါ် သက်မဲ့ဆိုင်ရာ ပစ္စည်းများက အရိုးကိုမာကျောစေ၍၊ ဩဂဲနစ်ပစ္စည်းများက အရိုးကို ခိုင်မြဲကာကျုံနိုင်ကန်နိုင်သောသတ္တိကို ဖြစ်စေသည်။

အရိုးများသည် အရိုးမာ ဖြစ်မလာမီ ရှေးဦးစွာ ဩဂဲနစ်ပစ္စည်းများဖြင့် ဖွဲ့စည်းခံထားသော အရိုးနုများသာဖြစ်ကြသည်။ အသက်အရွယ်ကြီးပြင်းလာစဉ် အင်ဩဂဲနစ်ပစ္စည်းများ တဖြည်းဖြည်း များပြားလာသောအခါကျမှ အရိုးသည် မာကျော၍ ဆတ်လာသည်။ ထိုကြောင့် အရိုးတို့သည် ကလေးအရွယ်တွင် ပျော့ပျောင်း၍ ကျိုးခဲပြီးလျှင် လူကြီးအရွယ်တွင် ကျိုးလွယ်၍ ကျိုးပါကလည်း ကလေးအရွယ်မှာထက် အဆက်ရခက်တတ်ပေသည်။ ဖြစ်လာသမျှအရိုးနုတိုင်းကား အရိုးမာအဖြစ်သို့ ပြောင်းလဲသွားခြင်းမရှိပေ။ ပုံစံအားဖြင့် လူ၌ နှာခေါင်းနှင့် နားရွက်တွင်ရှိသော အရိုးများသည် အရိုးနု အဖြစ်နှင့်ပင် အသက်ထက်ဆုံး အစဉ်သဖြင့် တည်ရှိ၍နေလေသည်။ အရိုးနုပေါ်တွင် ကယ်လဆီယမ်ဓာတ်ပေါင်းများ တင်နိုင်အောင် ဗီတာမင်ဒီဓာတ်ကိုလိုသည်။ နေရောင်ခြည်နှင့် ငါးကြီးဆီတို့သည် ဗီတာမင်ဒီဓာတ်ကို ကြွယ်ဝစေသည်။ ထိုကြောင့် ဆရာဝန်များသည် အရိုးပျော့နာ စွဲကပ်နေသော ကလေးများအား နေရောင်ခြည်ခံပေးခြင်း၊ ငါးကြီးဆီတိုက်ကြွေးခြင်း စသည့်နည်းများဖြင့် ကုသကြလေသည်။

အရိုးကို ထက်ခြမ်းခြမ်းကြည့်လျှင် အပြင်ဖက်အပိုင်းသည် တသားတည်းဖြစ်၍ မာနေပြီးလျှင် အတွင်းပိုင်းသည် ရေမြှုပ်ကဲ့သို့ ပွ၍နေတတ်သည်ကို တွေ့ရသည်။ ရေမြှုပ်ကဲ့သို့ပွနေသောအပိုင်းသည် အလွန်သေးငယ် မှုန်မွှားသော အကြောကလေးများ တည်ရှိရာနေရာဖြစ်၍ အဆိုပါအကြောကလေးများတွင် သွေးမှ သွေးဖြူရည်ဖြင့် ပြည့်လျက် ရှိသည်။ အရိုး၏ အချို့နေရာများတွင်လည်း သွေးကြောများ ဝင်ရောက်လျက်ရှိသည်။ ထိုသွေးကြောများ၏ဝတ်တရားမှာ အထက်ပါ အကြောကလေးများကို သွေးဖြူရည်ဖြင့်ထောက်ပံ့ရန်ဖြစ်၏။ သွေးဖြူရည်များစီးဝင်နေခြင်းကြောင့်လည်း အရိုးသည် ထွားနိုင်လေသည်။ ခြေလက်စသည်တို့တွင်ရှိသည့် ရှည်သော အရိုးများသည် များသောအားဖြင့် ခေါင်းပွဖြစ်ကြ၍၊ ထိုခေါင်းပွများထဲ၌ ရိုးတွင်းခြင်ဆီခေါ် အနီရောင်ပျော့ဖတ်တမျိုး ပါရှိသည်။ အရိုးတွင် ရေမြှုပ်ကဲ့သို့ ပွနေသော နေရာများ၌လည်း ခြင်ဆီပါရှိတတ်ပေသည်။ ခြင်ဆီသည် ပျက်စီးယိုယွင်းသွားသော သွေးနီဉများကို အစားထိုးပေးရန် သွေးနီဉသစ်များကို ပြုလုပ်ပေးသဖြင့် သက်ရှိသတ္တဝါတို့၏ခန္ဓာကိုယ်တွင် အလွန်အရေးကြီးသောပစ္စည်းတခုဖြစ်၏။ သွေးအားကောင်းစေသော ဓာတ်များပါရှိသဖြင့် အဖိုးတန်သော အစာတခုလည်းဖြစ်ပေသည်။

အရိုးများကို မည်သို့မျှ မပြုမပြင်ပဲ ဓားရိုး၊ ကြယ်သီးစသော ပစ္စည်းများပြုလုပ်ရာ၌ သုံးသည်။ အရိုးတွင် ထုံးနှင့်ဖော့စဖိတ်များစွာပါသဖြင့် အရိုးကို အမှုန့်ဖြစ်အောင် ကြိတ်ချေလျှင် အလွန်ကောင်းသော မြေသြဇာတမျိုးကိုရသည်။ အရိုးတွင်ပါသောအဆီနှင့် အရွက်များမှ ဆပ်ပြာနှင့် ကော်စသည်တို့ကို ချက်ယူနိုင်သည်။ အရိုးများကို လေလုံပိတ် ပေါင်းအိုးကြီးများတွင်ထည့်၍ မီးပြင်းတိုက်ပေးသောအခါ မီးထွန်းနိုင် မီးမွှေးနိုင်သော ဓာတ်ငွေ့တမျိုး၊ အရိုးကတ္တရာနှင့် အမ်မိုးနီးယားဓာတ် ပါဝင်သော အရည်များကိုရသည်။ အရိုးကတ္တရာမှ ဗွိုင်လာအိုးမီးမွှေးနိုင်သော အရိုးဆီခေါ် လောင်စာဆီတမျိုးနှင့် အရောင်တင်ဆီအမည်းပြုလုပ်နိုင်သော ကတ္တရာဖွဲ့လျက်တို့ကို ထုတ်ယူနိုင်သည်။ အမ်မိုးနီးယားအရည်များမှ မြေသြဇာကို ချက်ယူနိုင်သည်။ အဖိုးအဘန်ဆုံးကား သေလုံပိတ်ပေါင်းအိုးကြီးများထဲတွင် ကျန်ရစ်သော အရိုးမီးသွေးပင်ဖြစ်၏။ အရိုးမီးသွေးကိုအမှုန့်ကြိတ်ပြီးသော် အစားစားခွဲ၍ရောင်းချအသုံးပြုကြသည်။ အရိုးမီးသွေးကို အရောင်နှင့်အညစ်အကြေးများချွတ်ရန် အသုံးပြုနိုင်၍ အထူးသဖြင့် သကြားချွတ်ရာ၌ ရှေးကစပြီးအသုံးပြုခဲ့ကြလေသည်။

**အရိုးစု၊ အရိုးသရုပ်။** ။အရိုး၊ အရိုးနုတို့ဖြင့် ကိုယ်ခန္ဓာသရုပ်ပေါ်အောင် တည်ဆောက်ထားသော အမာခံအထည်ကို အရိုးစု (ဝါ) အရိုးသရုပ်ဟု ခေါ်သည်။ ဤအရိုးစုတို့သည် နူးညံ့ပျော့ပျောင်းသော အသားမျှင်များကို ထောက်ကန်ကာကွယ်ထားသည်။ အားလုံးသော အထက်တန်းသတ္တဝါများ၌ အရိုးစုများသည် ကိုယ်ခန္ဓာအတွင်း၌ရှိ၍ ထိုအရိုးစုအလယ်တွင် ကျောရိုး ရှိသည်။ အင်းဆက်ပိုးကောင်များ၊ ခုံးပျော့၊ ဇုစ္ဆန်တုပ်၊ ကမာ၊ ယောက်သွားစသော အောက်တန်းသတ္တဝါများ၏ အမာခံအထည်ဟုခေါ်သော အရိုးသရုပ်သည် အပြင်ဖက်တွင်ရှိကြသည်။ ပင်လယ်ခူ၊ ကင်းမွန်ဘဲလိပ်နှင့် ဘဝဲစသော ရေသတ္တဝါများတွင် အရိုးသရုပ်မရှိပဲ ရေ၏ဖေးမထောက်ပံ့မှုကို ရရှိသဖြင့် ဖျတ်လတ်စွာ ကူးခတ်သွားလာနိုင်ကြသည်။ သို့ရာတွင် ကုန်းပေါ်ရောက်လာသောအခါ ထိုအတိုင်း ရွေ့ရှားသွားလာရန် မစွမ်းနိုင်ကြတော့ပေ။ အရိုးစုသည် သတ္တဝါဘို့၏ အသက်ရှင်ရေးတွင် အရေးကြီးရကား အထက်တန်းသတ္တဝါတို့တွင် ကျောရိုးရှိကြသည်ချည်းဖြစ်သည်။ လူသည် အထက်တန်းအကျဆုံးသော ကျောရိုးရှိသတ္တဝါဖြစ်သည်။

သာမန်လူတယောက်၏ အရိုးစုတွင် အရိုးပေါင်း ၂၀၄ ခုရှိ၏။ ယင်းအရိုးများသည် ကြွက်သားများ တခုနှင့်တခုဆက်စပ်နေရန် အမာခံအသည်အဖြစ်ဖြစ်စေ၊ နုနယ်သော အင်္ဂါအစိတ်အပိုင်းများကို အကာအကွယ်ပြုရန်ဖြစ်စေ သူ့နေရာနှင့်သူ အံကျဖြစ်လျက်ရှိနေကြသည်။ အချို့အရိုးများသည် တခုနှင့်တခု စွဲမြဲစွာဆက်၍ အချို့ကား တော်ရုံမျှဆက်လျက် ရှိကြသည်။ ကိုယ်ထည် ဆောက်ထည်ရာ၌ အခြေခံသည် ကျောရိုးတိုင်ဖြစ်၏။ ယင်းတွင် ဦးခေါင်းရိုး၊ လည်ပင်းရိုးနှင့် ကိုယ်လုံးရိုးများ ပါဝင်ကြသည်။

နို့စို့သူငယ်အရွယ်၏ကျောရိုးတွင် မညီညာသောကျောရိုးဆစ်ပေါင်း ၃၃ ခု ရှိ၏။ အသက်အနည်းငယ်ကြီးလာသောအခါ အောက်ပိုင်းကျောရိုးဆစ် ကိုးခုအနက်အပေါ်ငါးခုသည် မြီးထူးအဖြစ်သို့၎င်း၊ ကျန်လေးခုသည် မြီးညောင်းအဖြစ်သို့၎င်း ပေါင်းစပ်သွားကြလေသည်။ ထို့ကြောင့် အရွယ်ရောက်ချိန်မှစ၍ နောက်ပိုင်းတွင် လူ၌ကျောရိုးဆစ် ၂၄ ခုသာ ရှိလေသည်။ ထို ၂၄ ခုအနက်လည်ရိုးတွင် ခုနစ်ခု၊ ရင်ပတ်တွင် နံရိုးကိုထိန်းထားသောအဆစ် ၁၂ ခုနှင့် ခါးပိုင်းတွင် ငါးခုဘို့ဖြစ်ကြသည်။ ကျောရိုးဆစ်အသီးအသီးသည် ကွင်းကလေးကဲ့သို့ တခုပေါ်တခုဆင့်ကာဆင့်ကာထပ်လျက် ယင်းတို့ကြားတွင် အရိုးနုများဖြင့်ခံထားသည်။

ရင်ပိုင်းကျောရိုးဆစ်များ၏ တဖက်တချက်စီတွင် နံရိုး ၁၂ ချောင်းစီရှိ၏။ ယင်းတို့အနက် အပေါ်နံရိုးခုနစ်စုံသည် ရှေ့တွင်ရှိသော ရင်ရိုးနှင့် ဆက်လျက်ရှိသည်။ ကျန်ငါးစုံ



လူ၏အရိုးစုနှင့် ဂေါ်ရီလာမျောက်ဝံ၏ အရိုးစု

အနက် သုံးစုံသည် အရိုးနုများနှင့် ဆက်လျက်ရှိပြီးလျှင် နောက်ဆုံးနှစ်စုံကား ဆက်လျက်မရှိချေ။ ရင်ပတ်နံရံအလယ်တန်းတွင်ရှိသော ရင်ရိုးသည် ဓားသွားကဲ့သို့ပြားနေသည်။ ရင်ရိုး၊ နံရိုးနှင့် ကျောရိုးဆစ် ၁၂ ခုသည် ရင်အခေါင်း၏ အမာခံကိုယ်ထည်ဖြစ်လေသည်။ လည်တိုင် မည်မျှလောက်ပင် ရှည်စေကာမူ ဝင်ရိုးကျောရိုးဆစ်ခုနစ်ခု ပါစမြဲဖြစ်သည်။ အပေါ်ပိုင်းနှစ်ခုသည် ကျောရိုး ပဌမဆစ်နှင့် ဝင်ရိုးတို့ဖြစ်ကြသည်။ ကျောရိုးပဌမဆစ်သည် ဦးခေါင်းကို ထောက်မထားပြီးလျှင် ဝင်ရိုးတွင် ဆုံလည်သကဲ့သို့ ဦးခေါင်းနှင့်လိုက်၍လည်သည်။

ဦးခေါင်းခွံတွင် ဦးနှောက်ရိုးနှင့် မျက်နှာရိုးများပါရှိ၏။ ဦးနှောက်ကို ဦးထိပ်ခွံဆဲတွင် ထည့်သွင်းထိန်းသိမ်းထားရန်နှင့် မျက်စိရိုး၊ နားရိုးတို့အတွက် အရိုးပေါင်းရှစ်ခု ဆက်လျက်ရှိသည်။ ယင်းတို့မှာ နောက်စေ့ရိုး၊ ချိုစောင်းရိုးနှစ်ခု၊ နားဆင်ရိုး၊ နဖူးရိုး၊ သပ်ရိုး၊ အက်သမွိုက်ရိုးနှင့် တူပုံနားတွင်းရိုး၊ ပေပုံနားတွင်းရိုးနှင့် နားတွင်းရိုးတို့ ဖြစ်ကြသည်။ မျက်နှာတွင် အရိုးပေါင်း၁၄ ခုရှိ၏။ ယင်းတို့မှာ အောက်မေးရိုးတခု၊ အထက်မေးရိုးနှင့် အာခေါင်အတွက် နှုတ်ရိုးနှစ်ခု၊ နှာတံအတွက် နှာရိုးနှစ်ခု၊ နှာခြားရိုးတခု၊ ပါးရိုးနှစ်ခု၊ မျက်ရည်ဖြစ်စေသော အရိုးတစုံ၊ အာခေါင်အတွက် အရိုးတစုံနှင့် အရိုးလိပ်တစုံတို့ဖြစ်ကြသည်။

လက်နှစ်ချောင်း၊ ခြေနှစ်ချောင်းတို့သည် ကျောရိုးတိုင်နှင့်ဆက်စပ်လျက်ရှိကြသည်။ လက်မောင်းများကို လက်ပြင်ဆုံက ထိန်းထားပြီးလျှင် ထိုလက်ပြင်ဆုံတဖက်စီတွင် ညှပ်ရိုးနှင့် လက်ပြင်ရိုးတခုစီ ရှိကြသည်။ လက်မောင်းကို နှစ်ပိုင်းပိုင်း၍ အထက်ပိုင်းကို လက်မောင်းရိုးဟူ၍၎င်း၊ အောက်လက်ဖျံပိုင်းကို လက်ဖျံရိုးနှင့် ရေဒီယတ် လက်ဖျံရိုးဟူ၍၎င်း ခေါ်သည်။ လက်တွင် လက်မျက်ရိုး ရှစ်ခု၊ လက်ဝါးရိုး ငါးခုနှင့် လက်ချောင်းရိုး ၁၄ ခု အသီး အသီး ရှိသည်။

ခြေထောက်ရှိ အရိုးသရုပ်များသည်လည်း လက်အရိုးသရုပ်ကဲ့သို့ပင် တည်ဆောက်ထားသည်။ တင်ပါးရိုးနှစ်ခုပါရှိသည့်အနက် တခုစီကို တင်ပါးရိုး၊ တင်ခံရိုးနှင့် ဆီးခုံရိုးဟူ၍ သုံးပိုင်းခွဲထားသည်။ တင်ပါးရိုးများသည် ကျောရိုးတိုင်မှ မြီးထူး၊ မြီးညောင်းတို့နှင့် ဆက်ပြီးလျှင် တင်ပါးဆုံဖြစ်လာသည်။ ထိုတင်ပါးဆုံသည် ခြေထောက်များကိုထိန်းထားသည်။ ခြေထောက်တွင် ပေါင်ရိုး၊ ဒူးခေါင်း၊ ညိုတံကျည်းရိုးနှင့် ခြေဖျံရိုးများ ရှိကြသည်။ ခြေမျက်စိနေရာတွင် အမျိုးမျိုးကွေးနိုင်ရန်အတွက် ခြေမျက်ရိုးကလေးခုနစ်ခု၊ ခြေမျက်လွှန်ရိုး ငါးခုရှိသည့်ပြင် ကောင်းမွန်လှပစွာ လမ်းလျှောက်နိုင်ရန် ခြေချောင်းရိုး ၁၄ ခု ရှိသည်။

ကိုယ်ခန္ဓာအတွင်းရှိ အရိုးများသည် ကွေးနိုင်သောရိုးဆက်ရွက်များဖြင့် တခုနှင့်တခု မြဲမြံစွာ ဆက်လျက် ရှိကြသည်။ ထိုအရိုးဆက်နေရာများတွင် အစွပ်ပါးပါးဖြင့် ဖုံးအုပ်ထားသည့် အရိုးနုများ၊ အဆစ်တွင်းမြှေးများက ခံထားကြပြီးလျှင် ဆီဖြင့်လည်း သုတ်လိမ်းထားလျက်ရှိသည်။ ဆီအဆက်မပြတ် ရရှိနေသောကြောင့် ထိုအရိုးဆက်နေရာများသည် အဆက်မပြတ် သွားလာလှုပ်ရှားလျက် ရှိသော်လည်း ပျက်စီးယိုယွင်းသွားခြင်းမရှိချေ။ အရိုးနှစ်ခုဆက်သည့်အဆစ်များကို (၁) မလှုပ်ရှားနိုင်သောအဆစ်၊ (၂) အနည်းအကျဉ်းလှုပ်ရှားနိုင်သောအဆစ်၊ (၃) လွတ်လပ်စွာလှုပ်ရှားနိုင်သောအဆစ်များဟူ၍ သုံးမျိုးသုံးစား ခွဲခြားထားနိုင်သည်။ ဦးထိပ်ခွံရှိ အဆစ်များသည် မလှုပ်ရှားနိုင်သော အဆစ်များဖြစ်၍ ကျောရိုးဆစ်များမှာ အနည်းအကျဉ်းမျှသာ လှုပ်ရှားနိုင်လျက် ပခုံးဆစ်များကား လွတ်လပ်စွာ လှုပ်ရှားနိုင်သော အဆစ်များဖြစ်ကြသည်။ ကြွက်သားများသည် အဆစ်များကိုကန့်လန့်ဖြတ်ကာ အရိုးများနှင့်ဆက်လျက်ရှိရကားထိုကြွက်သားများကို ကျုံ့လိုက်ခြင်းအားဖြင့် လှုပ်ရှားမှုဖြစ်လာလေသည်။

**အရက်**။ ။အရက်ချက်လုပ်ကြရာ၌ ပစ္စည်း အမျိုးမျိုးကို အသုံးပြုကြသော်လည်း၊ များသောအားဖြင့် ချက်လုပ်နည်းမှာ အတူတူပင် ဖြစ်သည်။ အရက်ဟု ဆိုရာ၌ ပေါင်းခံသော နည်းဖြင့်ချက်ယူရရှိ၍ သတ်မှတ်ထားသော ပမာဏထက် အယ်လကိုဟော ပိုမိုပါရှိသော မူးယစ်စေတတ်သည့် အရည်အားလုံးကို ဆိုလိုပေသည်။ ထို့ကြောင့် ဗရန်ဒီ၊ရမ်၊ဝီစကီနှင့်တကွ စက်မှုလက်မှုသုံးအယ်လကိုဟော အားလုံးသည် အရက်များပင် ဖြစ်ကြသည်။

ဝီစကီကို ချက်လုပ်ကြရာတွင် မုယောစပါးကိုဖြစ်စေ၊ ရိုင်းစပါးကိုဖြစ်စေ၊ အုတ်ခေါ် မြင်းစားဂျုံကို ဖြစ်စေ၊ သို့မဟုတ် ထိုဂျုံသုံးမျိုးစလုံးကို ရောစပ်၍ဖြစ်စေ အသုံးပြုလေ့ ရှိကြသည်။ ထိုဂျုံ တမျိုးမျိုးကို အညှောက်ပေါက်လာစေရန် ရေတွင်စိမ်ပြီးနောက် ရက်သတ္တ သုံးပတ်မျှ ကြာသည့်တိုင်အောင် ကြမ်းပေါ်တွင် ဖြန့်ထားရလေသည်။ ထိုနောက် စည်ကြီးတခုထဲသို့ ထည့်ပြီးလျှင် ရေပူပူဖြင့် ချေပေးရ၏။ ချေပြီးသောအခါ အအေးခံ၍ တဆေးနှင့် ကဇော်ဖောက်ရသည်။ ထိုအခါ အယ်လကိုဟောအရက်ကိုရရှိ၍ထိုအယ်လကိုဟောကို ပေါင်းခံနည်းဖြင့် ခွဲထုတ်ယူလိုက်သောအခါတွင် ဝီစကီကို ရလေသည်။

ရမ်ချက်ရာတွင် ကြံရည်ကို ကဇော်ဖောက်၍ ချက်ယူရသည်။ ဗရန်ဒီ ချက်ရာတွင် ကဇော်ဖောက်ရန်အတွက် စပျစ်ရည်ကို အသုံးပြုကြသည်။ ရောင်းတမ်း အရက်များကို ချက်လုပ်ရာ၌ကား မုန်လာဥနီ၊ သို့မဟုတ် အာလူး၊ သို့မဟုတ် သစ်သီးများကို အသုံးပြုကြသည်။ အထက်ဖော်ပြပါအရက်များကို ချက်ကြရာတွင် ဆိုင်ရာ အစိုးရပိုင်းရှိ ယစ်မျိုးဌာနများမှ အထူးကြပ်မ အရေးယူကာ စစ်ဆေးပြီးလျှင် အကောက်အခွန်များကို ကောက်ယူလေ့ ရှိကြလေသည်။

**အရက်ပြန်**။ ။အယ်လကိုဟော — ရှု။

**အရင်းရှင်စံနစ်**။ ။အရင်းရှင်စံနစ်ဟူသည် ကုန်ထုတ်အရင်းအနှီးများကို ပုဂ္ဂလိကပိုင်ဆိုင်သော လူမှုစီးပွားရေးစံနစ်တရပ်ဖြစ်သည်။ စီးပွားကုန်သွယ်ရေး လုပ်ငန်းတခု၌ မရှိမဖြစ်သော လုပ်ငန်းသုံးပစ္စည်းကရိယာများ၊ မြေယာ အဆောက်အဦများနှင့်ငွေကြေးအရင်းအနှီးများကိုပုဂ္ဂလိကအရင်းရှင်လူနည်းစုက အကြွင်းမဲ့ ပိုင်ဆိုင်ပြီးလျှင် အလုပ်သမားတို့၏ လုပ်အားကို ရောင်းကုန်ပစ္စည်းအဖြစ် တန်ဖိုးဖြတ်ဝယ်ယူ၍ အမြတ်အစွန်းရရေးကိုသာ အဓိက ဦးတည်ကာ ကုန်ပစ္စည်းထုတ်လုပ်ရောင်းချသော စီးပွားရေးစံနစ်လည်းဖြစ်သည်။

အရင်းရှင်စံနစ်သည် ဥရောပနိုင်ငံများ၌ စက်မှုတော်လှန်ရေး(စက်မှုလက်မှု အရေးပုံ)နှင့်အတူ ပေါ်ပေါက်လာခဲ့သော စံနစ်ဖြစ်သည်။ ၁၆ ရာစုနှစ်တွင် မြေရှင်ပဒေသရာဇ်စံနစ် ပျက်ဆုံးသွားခဲ့သဖြင့် ထိုစံနစ်နေရာတွင် အရင်းရှင်စံနစ်က အစားဝင်ရောက်ခဲ့ခြင်းဖြစ်သည်။ မြေရှင်ပဒေသရာဇ်တို့သည် ဆင်းရဲသား မြေကျွန်ယာကျွန်များ၊ လက်မှုပညာသည် အလုပ်သမားများနှင့် ကုန်သည်ပွဲစားများ အစရှိသော ပြည်သူလူထုတရပ်သုံးအပေါ်တွင် စီးပွားရေးအရ ခေါင်းပုံဖြတ် အမြတ်ကြီးစားကာ သဘောရှိ ချယ်လှယ်လာခဲ့ကြသည်။ ထိုအခါ ကုန်သည်လူတန်းစားနှင့် တောင်သူ လယ်သမား၊ အလုပ်သမားတို့ပူးပေါင်းလာကြပြီးလျှင် ကုန်ပစ္စည်းထုတ်လုပ်ရောင်းချရေး လုပ်ငန်းကို တိုးချဲ့လုပ်ကိုင်လာခဲ့ကြသည်။

နောင်အခါတွင် ကုန်သည်လူတန်းစားများသည်ရောင်းဝယ်ရေးလုပ်ငန်းမှ အမြတ်အစွန်းများရရှိလာကြပြီးလျှင် ဓနဥစ္စာအမြောက်အမြားကို စုဆောင်း မိလာကြသည်။ သို့ဖြင့် ကုန်သည်များသည် မိမိတို့စုဆောင်းရရှိသော ဓနဥစ္စာအရင်းအနှီးများဖြင့် ကုန်ထုတ်အလုပ်ရုံ၊ စက်ရုံများ တည်ဆောက်၍ လက်မှုပညာသည် အလုပ်သမား များ၏ လုပ်အားကို အခပေးဝယ်ယူကာ ကုန်ပစ္စည်းများထုတ်လုပ်ရောင်းချခဲ့ကြသည်။

တချိန်တည်းတွင် ဥရောပ နိုင်ငံများ၌ သိပ္ပံပညာ အစွမ်းကြောင့် စက်မှုကရိယာများကို တီထွင်သုံးစွဲလာကြသဖြင့် ကုန်ထုတ်စက်ရုံ အလုပ်ရုံများမှာလည်း တိုးတက်ကျယ်ပြန့်လာခဲ့လေသည်။ ဤသို့ဖြင့် ကုန်သည် လူတန်းစားတို့သည် စက်ရုံအလုပ်ရုံပိုင် အရင်းရှင် လူတန်းစားဘဝသို့ ရောက်ရှိလာခဲ့ခြင်းဖြစ်သည်။

အရင်းရှင်စံနစ်သည် ကုန်ထုတ်အရင်းအနှီး၊ အရင်းရှင်နှင့်အလုပ်သမားတို့ ပါဝင်ဖွဲ့စည်းထားသောစံနစ်ဖြစ်သည်။

ကုန်ထုတ်အရင်းအနှီး ဆိုသည်မှာ မြေယာများ၊ မြေတွင်းမြေပေါ်ရှိ သဘာဝဓာတ်သတ္တု ပစ္စည်းများ၊ သစ်တောများ၊ မြစ်ချောင်း၊ တူးမြောင်း၊ အင်းအိုင်၊ ပင်လယ်များ၊ ကုန်ကြမ်းကုန်ချောများ၊ စက်ရုံအလုပ်ရုံများ၊ ကုန်ထုတ်ကရိယာများ၊ ကုန်ပစ္စည်းဖြန့်ဝေရေး လုပ်ငန်းများ၊ လမ်းပန်းဆက်သွယ်ရေးနှင့် သယ်ယူပို့ဆောင်ရေးလုပ်ငန်းများ၊ ဘဏ်တိုက်များ၊ ကုမ္ပဏီများ၊ အစုရှယ်ယာများ၊ ငွေပင်ငွေရင်းများ စသည်တို့ကို ပေါင်းရုံးခေါ်ဝေါ်ခြင်းဖြစ်သည်။

အရင်းရှင် စီးပွားရေးစံနစ်တွင် ဆိုခဲ့သော ကုန်ထုတ်အရင်းအနှီးဟူသမျှကို ပုဂ္ဂလိက အရင်းရှင် တဦးကသော်လည်းကောင်း၊ အရင်းရှင်တစုကသော်လည်းကောင်း ပိုင်ဆိုင်လေသည်။

ကုန်ထုတ်လုပ်ငန်းတခုအတွက် ငွေပင် ငွေရင်း မြှုပ်နှံ

တည်ထောင်သော အရင်းရှင်လည်း ရှိပြီ။ ကုန်ထုတ် အရင်းအနှီးများလည်း ရှိပြီ။ ဤမျှဖြင့် ကုန်ထုတ်လုပ်ငန်းကြီး လှုပ်ရှားလည်ပတ်နိုင်ပါပြီလော။ မည်သည့်နည်းနှင့်မျှ မလည်ပတ်နိုင်သေးချေ။အကြောင်းသော်ကား ကုန်ထုတ်လုပ်ငန်းတရပ်၏ ပင်မအချက်အချာကျသော၊ အခြေခံကျသော "လုပ်အား"လိုနေသေးသောကြောင့်ဖြစ်သည်။

ထိုကြောင့် ကုန်ထုတ် လုပ်ငန်း၏ အဓိက အချက်အချာကျသော အခြေခံ မောင်းနှင် အားမှာ "အလုပ်သမား"ပင် ဖြစ်သည်။ အလုပ်သမားများသည် အရင်းရှင်တို့အား မိမိတို့၏ လုပ်အားကို ရောင်းကုန် အဖြစ်ဖြင့် ရောင်းချသည်။ အလုပ်သမားများက မိမိတို့၏ လုပ်နိုင်စွမ်းရည်အလိုက်၊ အလုပ်ချိန် အပိုင်းအခြားအလိုက် လုပ်ကိုင်ပေးသော လုပ်အားအတွက် အရင်းရှင်က အခကြေးငွေ ပေးသည်။ တနည်းဆိုသော် အလုပ်သမားတို့၏ လုပ်အားသည်လည်း ကုန်ထုတ်အရင်းအနှီးတမျိုးပင်ဖြစ်သည်။

လုပ်အားကို ပိုင်ဆိုင်သော အလုပ်သမားများ၊ အလုပ်သမားတို့၏ ကြံစည်တီထွင်မှုများ၊ အသိဉာဏ် ဗဟုသုတများ၊ ကျွမ်းကျင်မှုများနှင့် ကုန်ထုတ် အရင်းအနှီးများအားလုံးကို စုပေါင်းသိမ်းရုံးလျက် ကုန်ထုတ် စွမ်းအားစုဟူ၍ ခေါ်ဆိုပေသည်။ ယင်း ကုန်ထုတ် စွမ်းအားစုသည်ပင်လျှင် ကုန်ထုတ် လုပ်ငန်း တခု၏ ပင်မသွေးကြော ဖြစ်လေသည်။ ကုန်ထုတ်စွမ်းအားစုတွင်လည်း အလုပ်သမားတို့၏ လုပ်အားသည် ပဓာနအကျဆုံးသော အင်အားဖြစ်သည်။ ဆိုလိုသည်မှာ ကုန်ထုတ် လုပ်ငန်းတရပ် လည်ပတ်အောင်မြင်အောင် စွမ်းဆောင် လုပ်ကိုင်ပေးသူမှာ လုပ်အားရှင် အလုပ်သမားပင် ဖြစ်သည်။

သို့ဆိုလျှင် ကုန်ထုတ် လုပ်ငန်း၏ အဓိက လုပ်အားရှင်ဖြစ်သောအလုပ်သမားတို့သည် မိမိတို့လုပ်အားအလျောက် သင့်တင့်မျှတသော လုပ်ခကို ရရှိကြပါ၏လော။အရင်းရှင်စီးပွားရေးစနစ်တွင် သင့်တင့်မျှတသော လုပ်ခကို မရနိုင်ကြချေ။ ဤသည်ပင်လျှင် အရင်းရှင်စနစ်၏ ထင်ရှားသော ဝိသေသလက္ခဏာတရပ် ဖြစ်ပေသည်။

အရင်းရှင်စနစ်တွင် လူသုံးကုန် ပစ္စည်းများကို ထုတ်လုပ်ရာ၌ အမြတ်အစွန်းကိုသာ ပဓာနထားသည်။ အမြတ်များများရရေးသည် အရင်းရှင်စနစ်၏ အန္တိမ ရည်မှန်းချက်ဖြစ်သည်။ "အရင်းရှင်တဦးအဖို့ အမြတ်အစွန်း ပို၍ပို၍ ရမည်ဆိုလျှင် စက်တိုင်ပင် တက်ရတက်ရ ဝန်မလေး" ဟူ၍ ကမ္ဘာကျော် အဆိုတရပ် ရှိလေသည်။

ထိုကြောင့် အရင်းရှင်သည် အလုပ်သမား၏ လုပ်အားကို မိမိ၏ကိုယ်ကျိုးအတွက် ခေါင်းပုံဖြတ်ရန် လိုအပ်လာသည်။ အလုပ်သမားတို့၏ "အစွန်းထွက်တန်ဖိုး"ကို ရနိုင်သမျှ ယူရန် ဦးတည်လာရသည်။အစွန်းထွက်တန်ဖိုးဆိုသည်မှာ အရင်းရှင်သည် အလုပ်သမားတဦး၏ ၁၀၀ တန်သော လုပ်အားကို ၁၀ သာပေးပြီး ပိုသော ၉၀ တန် လုပ်အား၏ အကျိုးကျေးဇူးများကို မိမိ၏အရင်းအနှီးတိုးပွားရေးအတွက် အခမဲ့ရယူလိုက်သော တန်ဖိုးဖြစ်သည်။ အလုပ်သမားအား လုပ်သင့်သည့်အချိန်ထက်ပို၍ စေခိုင်းခြင်းနှင့် လုပ်အားတန်ဖိုးကို အပြည့်အဝမပေးခြင်းတို့ဖြင့် အရင်းရှင်သည် အစွန်းထွက်တန်ဖိုးကို မိမိကိုယ်ကျိုးအတွက် ထုတ်ယူခြင်းဖြစ်သည်။ ထိုကြောင့် အရင်းရှင်စနစ်၌ အလုပ်သမားသည် လုပ်အားပေးသလောက် လုပ်ခကို မည်သည့်အခါမှ အပြည့်အဝ မရရှိနိုင်ပေ။

ဤသို့ဖြစ်ရသည်မှာ အရင်းရှင်စနစ်၏ တကိုယ်ကောင်းဆံသော (ဝါ) တိုင်းပြည်လူထုအကျိုးထက် မိမိအကျိုးကို ပို၍ ရှေးရှုသော အခြေခံ သဘောတရားများကြောင့် ဖြစ်သည်။

အရင်းရှင်စနစ်၏ အခြေခံ သဘောတရားများကား (၁) ကုန်ထုတ်လုပ်မှုနှင့် ဖြန့်ချိမှုကို အရင်းရှင်လူနည်းစုကသာ ချုပ်ကိုင်ထားခြင်း၊ (၂) မိမိအတွက်အကျိုးရှိမည်ထင်သော ကုန်ပစ္စည်းများကိုသာ စီမံကိန်းမရှိပဲ အသုံးလယ် ထုတ်လုပ်ခြင်း၊ (၃) အရင်းမဲ့လုပ်သားတို့၏ လုပ်အားကို ခေါင်းပုံဖြတ်ခြင်း၊ (၄) အမြတ်အစွန်း ပို၍ပို၍ ရရှိရေးကိုသာ မျှော်မှန်းခြင်း၊ (၅) ငွေသာပဓာနသဘောထားဖြင့် အစိုးရအာဏာကို ငွေဖြင့် မြှူဆွယ်၍ မိမိအကျိုးအတွက် အသုံးချခြင်း စသည်တို့ဖြစ်လေသည်။

အထက်တွင် ဆိုခဲ့သည့်အတိုင်း အရင်းရှင်စနစ်သည် စက်မှုလုပ်ငန်း တိုးတက်မှုနှင့်အတူ တိုးတက်လာခဲ့သဖြင့် ရှေးဦးပိုင်း အရင်းရှင်စနစ်ကို စက်မှုအရင်းရှင်စနစ်ဟူ၍ ခေါ်ဆိုခဲ့ကြသည်။နှစ်ဆယ်ရာစု အစပိုင်းရောက်လာသောအခါ သိပ္ပံပညာနှင့် စက်မှုအတတ်ပညာရှင်တို့၏ အလုပ်အကျွေးပြုမှုကြောင့် အရင်းရှင်စနစ်သည် အမြင့်ဆုံးနှင့် နောက်ဆုံးအဆင့်ထိ ရောက်ရှိလာခဲ့သည်။

ဤအဆင့်တွင် ကုန်ပစ္စည်းများကို အပြိုင်အဆိုင်ထုတ်လုပ်လာခြင်း၊ ပြည်တွင်းပြည်ပ ဈေးကွက်များကို လက်ဝါးကြီးအုပ်လာခြင်း၊ပြည်တွင်း၌သာမက ပြည်ပ၌လည်းအရင်းအနှီးမြောက်မြားစွာ မြှုပ်နှံ၍ကုန်ပစ္စည်းများထုတ်လုပ်လာခြင်း စသော လုပ်ငန်းအဆင့်ဆင့်ကို အရင်းရှင်စနစ်က အတောမသတ် တိုးချဲ့လုပ်ကိုင်လာခဲ့သည်။သို့ဖြင့်အရင်းရှင်စနစ်သည် စက်မှုအရင်းရှင်စနစ်၊ လက်ဝါးကြီးအုပ် အရင်းရှင်စနစ်၊ ဘဏ္ဍာအရင်းရှင်စနစ်နှင့် နယ်ချဲ့အရင်းရှင်စနစ်ဟူ၍ အမည်အမျိုးမျိုးဖြင့် ကမ္ဘာ့စီးပွားရေးနယ်ပယ်တွင် ရေပန်းစားခဲ့သည်။

အရင်းရှင်စနစ်သည် ကုန်ထုတ်လုပ်ငန်းနှင့် ကုန်ပစ္စည်းဖြန့်ချိရေးလုပ်ငန်းတွင် အမြတ်အစွန်းကိုသာ အဓိကထား၍

စီမံကိန်းမရှိပဲ အပြိုင်အဆိုင်လက်ဝါးကြီးအုပ် လုပ်ကိုင်ခြင်းကြောင့်၊ စီးပွားရေးတွင် တရားမရှိ မေးမရှိဖြစ်လာခြင်း၊ ကမ္ဘာ့စီးပွားရေးကပ်ကြီးများ မကြာခဏပေါ် ပေါက်ခြင်း၊ အလုပ်လက်မဲ့ ပြဿနာ တာရှည်ခြင်း၊ အများ ပြည်သူတို့ ဆင်းရဲ ကြပ်တည်းခြင်းနှင့် နောက်ဆုံးတွင် နိုင်ငံ အချင်းချင်း စီးပွားရေးစစ်ပွဲများ ဖြစ်ပွားခြင်း တို့ကိုသာ ပေးစွမ်းနိုင်သော စံနစ်ဟူ၍ ဆိုရှယ်လစ် စီးပွားရေး ပညာရှင်တို့က ကောက်ချက် ချကြပေသည်။

**အရောင်။** ။အရောင်သည် အလင်း၏ စွမ်းအင်တမျိုးကို မျက်စိဖြင့် ခံယူရရှိသောအခါ၌ ဖြစ်ပေါ်သော အာရုံခံစားမှုပင် ဖြစ်သည်။ အလင်း၏ စွမ်းအင်သည် သိပ္ပံပညာအလိုအရ တနေရာမှ တနေရာသို့ လှိုင်းကလေးများ အသွင်ဖြင့် သွားလာသည်ဟု ယုံကြည်ရသည်။ အလင်းလှိုင်းများသည် တမျိုးနှင့်တမျိုး အတိုအရှည်ချင်း ခြားနားနိုင်ပြီးလျှင် ထိုမျိုးမတူသော အ လင်း လှိုင်း များ ကျွန်ုပ်တို့ မျက်စိအပေါ် သို့ ကျရောက် လာသော အခါ၌ ဖြစ်ပေါ်သည့် အာရုံကိုလိုက်၍ အရောင်အမျိုးမျိုးကို မြင်ရခြင်းဖြစ်သည်ဟု ဆိုလေသည်။ တခါတရံတွင် အရောင်အသီးအသီးကိုမှန်ကန်စွာ ခွဲခြားပြီး မမြင်နိုင်သော လူစားမျိုးကို တွေ့ရတတ်သည်။ အရောင်တမျိုးတည်းကိုပင်လျှင် တမျိုးစီ ကွဲလွဲပြီးမြင်ရသောလူစားမျိုးလည်းရှိသေးသည်။ ထိုသို့ ဖြစ်ခြင်းမှာ အလင်းလှိုင်းနှင့် မည်သို့မျှ မသက်ဆိုင်ပေ။ မျက်စိ၌ တခုခု ချွတ်ယွင်းမှုကြောင့် ခံစားရသည့် အာရုံ လွဲမှားခြင်းဖြစ်ရာ ထိုအဖြစ်မျိုးကို အရောင်မြင်မှားခြင်းဟု ဆိုရလေသည်။

အရာဝတ္ထုအသီးအသီး၌ အနီ၊ အဝါ၊ အပြာ အစရှိသည်ဖြင့် အရောင်အမျိုးမျိုး ထင်လျက်ရှိရာတွင် အမှန်စင်စစ် ထိုအရာဝတ္ထုများ၌ ကိုယ်ပိုင်အရောင်ဆို၍ မရှိပေ။ အဆိုပါ အရာဝတ္ထုတို့မှ ပြန်ဟပ်လိုက်သော အလင်းရောင်ကို မြင်ရခြင်းသာ ဖြစ်လေသည်။ အရာဝတ္ထု အသီးအသီးတွင် အချို့က မိမိအပေါ် ကျရောက် လာသော အလင်းရောင် အားလုံးကို ပြန်ဟပ်ပေးသည်။ အချို့က အလင်းရောင်ခြည်အားလုံးကို စုတ်ယူလိုက်သည်။ အချို့ကမူ အလင်းရောင်ခြည်အချို့အဝက်ကို စုတ်ယူ၍ ကျန်ရောင်ခြည်များကို ပြန်ဟပ်ပေးလေသည်။

အလင်းရောင်ခြည်အားလုံးကို ပြန်ဟပ်ပေးတတ်သော အရာဝတ္ထုမျိုးမှာ အလင်းရောင် အပြာတွင် အပြာရောင် အဖြစ်ဖြင့်၎င်း၊ အလင်းရောင် အဝါတွင် အဝါရောင်အဖြစ်ဖြင့်၎င်း၊ရောင်စုံအလင်းလှိုင်းအားလုံးပါဝင်သည့် နေရောင်ကဲ့သို့သော အလင်းရောင်အဖြူတွင် အဖြူရောင်အဖြစ်ဖြင့်၎င်း မြင်ရလေသည်။

အလင်းရောင်ခြည်အားလုံးကိုစုတ်ယူလေ့ရှိသော အရာဝတ္ထုမျိုးမှာ မည်သည့်အလင်းရောင်တွင် ဖြစ်စေ အနက်ရောင်အဖြစ်ဖြင့်သာ မြင်ရမြဲ ဖြစ်လေသည်။

အလင်းရောင်ခြည်အချို့ကို စုတ်ယူ၍ အချို့ကိုပြန်ဟပ်ပေးတတ်သော အရာဝတ္ထုမျိုးမှာမူ ထိုအရာဝတ္ထုပြန်ဟပ်ပေးသော အလင်းရောင်ခြည်ကို လိုက်၍ အရောင် အမျိုးမျိုး ထင်ရလေသည်။ ပုံစံအားဖြင့် အစိမ်းရောင် မြင်ရသော သစ်ရွက်တို့သည် အစိမ်း အလင်းရောင်ခြည်ကိုသာ ပြန်ဟပ်ပေး၍ အခြားအလင်းရောင်ခြည်အားလုံးကို စုတ်ယူလိုက်သည်။ ထိုကြောင့် သစ်ရွက်ကို နေ့ဖက်တွင် အစိမ်းရောင် မြင်ရပြီးလျှင် နေရောင်တွင် မဟုတ်ပဲ အနီရောင် အလင်းတွင် ပြသောအခါ၌မူကား ပြန်ဟပ်စရာ အစိမ်း အလင်းရောင်ခြည် မရှိသည့်အတွက် အနက်ရောင်ဖြစ်သွားလေသည်။ အနီရောင်ပစ္စည်းတခုကို အပြာရောင် အလင်းတွင် ပြက အနက်ရောင်ထင်ခြင်းမှာလည်း ဤသဘောပင် ဖြစ်သည်။အလင်းပိတ်ပစ္စည်းမှန်လျှင် အားလုံး ဤအတိုင်းပင် ဖြစ်လေသည်။

ရေ၊ မှန်စသော အလင်းပေါက်ပစ္စည်းများ အရောင်အမျိုးမျိုး ထင်ရခြင်းမှာ ထိုပစ္စည်းတို့ကို ဖောက်ထွင်းသွားနိုင်သော အလင်းရောင်ခြည်အပေါ်တွင် အခြေတည်လေသည်။ ပုံစံအားဖြင့် အစိမ်းရောင် မှန်တချပ်သည် အစိမ်းရောင်မဟုတ်သော အခြားအလင်းရောင်ခြည်ဖြစ်က ဖောက်ထွင်းဖြတ်သန်းခွင့်ကို မပေးပေ။ ရေကြည် ရေသန့်မှာမူ မည်သည့် အလင်းရောင်ခြည်ကို မဆို ညီတူ ညီမျှ ဖောက်ထွင်းခွင့်ပေး၍ ဤပစ္စည်းကို အရောင်မဲ့ ပစ္စည်းဟု ခေါ်လေသည်။

ပန်းချီဆရာသုံး အရောင်ဆေးများနှင့် အခြား မင်အမျိုးမျိုး၊ ဆိုးဆေး၊ သုတ်ဆေးအမျိုးမျိုးတို့တွင် အနီ၊ အဝါနှင့် အပြာ အရောင်သုံးမျိုးရှိက ထိုအရောင်များမှ အခြား မိမိလိုရာ အရောင်များကို စပ်ယူနိုင်သဖြင့် ထိုအရောင်သုံးမျိုးကို မူလအရောင်များဟု ခေါ် စမှတ်ပြုကြသည်။ အနီနှင့် အဝါကိုစပ်လျှင် လိမ်မော်ရောင်ကို၎င်း၊ အဝါနှင့် အပြာကိုစပ်လျှင် အစိမ်းရောင်ကို၎င်း၊ အပြာနှင့် အနီကိုစပ်လျှင် ခရမ်းရောင်ကို၎င်း ရ၍ ထိုသို့ တဆင့်ခံ ရရှိသော အရောင်များကို တခါတရံ တဆင့်ခံ အရောင်များဟု ခေါ်ကြပြန်သည်။ တဖန် အနီနှင့် စိမ်းပြာကို၎င်း၊ အဝါနှင့် မဲပြာကို၎င်း ရောစပ်လျှင် အနက်ရောင်ရ၍ ထိုသို့ အနက်ရောင်ပေးသော အရောင် စုံတွဲများကိုမူ ဖြည့်ဖက် အရောင်များဟူ၍ ခေါ်ကြလေသည်။အရောင် တမျိုးတွင် အဖြူရောင်ကို ရောစပ် ပေးလျှင် အရောင်နုကို ရရှိ၍ အရောင်ပုပ်ကို လိုလျှင်ကား အနက်ရောင်ကို ရောစပ်ပေးရလေသည်။ သိပ္ပံပညာရှင်တို့၏ အဆိုအရ သာမန်မျက်စိ

ဖြင့် ကြည့်မြင်နိုင်သော အရောင်ပေါင်းမှာ တထောင်ခန့်ရှိ၍ အရောင်နု အရောင်ပုပ် ပေါင်းမှာ နှစ်သန်းကျော်မျှရှိသည်ဟု ဆိုလေသည်။

**အရောင်ချွတ်ခြင်း။** ။ချည်ထည်၊လင်နင်ထည်၊လျှော်ဖျင်နှင့် အခြား အထည်များကို နဂိုရှိရင်းစွဲ အရောင်မှ ဆွတ်ဆွတ်ဖြူလာအောင် ပြုလုပ်ခြင်းကို အရောင်ချွတ်ခြင်းဟု ခေါ်သည်။ ယင်းအထည်များကို ဖြူအောင် လုပ်သည့် ရှေးရိုးနည်းမှာ နေတွင် လှန်းခြင်း ဖြစ်သည်။ နေရောင်နှင့် လေသည် သဘာဝ အရောင်ဆေးကို အောက်ဆီဂျင်နှင့် ပေါင်းစပ်သွားစေပြီးလျှင် အရောင်မရှိသော အောက်ဆီဂျင် ဒြပ်ပေါင်း အဖြစ်သို့ ပြောင်းသွားစေလေသည်။ ကောက်ရိုး ဦးထုပ်များကို နေပူတွင် ဆောင်းဖန်များ၍ ကြာလာသောအခါ ဖြူသွားခြင်းမှာ နေရောင်ကြောင့် ဖြစ်သည်။ ရှေးက ချည်ထည်နှင့် လင်နင်ထည် များကို ကောစတင်ရည်နှင့် ပြာရည်များတွင် အဖန်ဖန် အထပ်ထပ်ပွတ်ပြီးလျှင် နေတွင်လှန်း၍ အရောင်ချွတ်ကြသည်။

ကလိုရင်း ဓာတ် ငွေ့ နှင့် ယင်း ဒြပ်ပေါင်း များသည် အလွန် ကောင်း သော အရောင်ချွတ် ပစ္စည်းများ ဖြစ်ကြောင်း ခရစ် ၁၉၇၀ ပြည့်နှစ်လောက်၌ တွေ့ရှိလာပြီးသည့်နောက်တွင် အရောင်ချွတ်ဆေးမှုန့်ကို အသုံးပြုလာကြသဖြင့် ယခင်က လနှင့်ချီ၍ အရောင်ချွတ်ရသော လုပ်ငန်းသည် ရက်လောက်နှင့် ပြီးစီးသွားလေသည်။ အရောင်ချွတ် ဆေးမှုန့်ကို ကလိုရိုက် အော့(ဖ) လိုင်းဟု ခေါ်၍ မဟောက်ထုံးကို ကလိုရင်းဓာတ်ဖြင့် ပြုလုပ်ယူသည်။ သို့ဖြင့် ကလိုရင်းနှင့် ယင်း၏ ဒြပ်ပေါင်းများသည် ရေငွေ့ ရှိမှသာ အရောင်ချွတ်နိုင်သည်။ ရေငွေ့၊ သို့မဟုတ် အစိုဓာတ် မရှိပါက အဝတ်စုတ်ကိုပင် အရောင်မချွတ်နိုင်။

အရောင်ချွတ် ဆေးမှုန့်ကို ရေတွင် ဖျော်သိုက်သော အခါ ယင်းမှ အောက်ဆီဂျင်ဓာတ် အများအပြား ထွက်လာ၏။ ထိုအောက်ဆီဂျင်ဓာတ်သည် သဘာဝ အရောင်ဆေး၊ (သို့မဟုတ် အထည်များတွင် ရှိသော ဆိုးဆေး) နှင့် ပေါင်းစပ်သွားပြီးလျှင် အရောင်မရှိသော ဒြပ်ပေါင်း ဖြစ်လာသည်။ စင်စစ် အထည်မှ အရောင်ကို ထုတ်ယူလိုက်သဖြင့် ဖြူလာခြင်း ဖြစ်သည်။ ချည်ထည်၊ လင်နင်ထည်စသော အထည်များကို အရောင်ချွတ်ရာ၌ ယင်းတို့ကို အရောင်ချွတ် ဆေးမှုန့်ရည်တွင် ဖြူလာသည်တိုင်အောင် အကြိမ်ကြိမ် နှစ်ပေးရသည်။ ထိုနောက် ကလိုရင်းဓာတ်၊ သို့မဟုတ် အရောင်ချွတ်ဆေးမှုန့် အားလုံး စင်သွားသည်တိုင်အောင် ရေနှင့်လျှော်ပစ်လိုက်ရသည်။ သို့တည်းမဟုတ် အရောင်ချွတ်ပစ္စည်းကို ဓာတ်ပြယ် သွားစေသည့် ဓာတ်ဆေးရည် တခုခုတွင် နှစ်ပေးရသည်။ ခေါသည်၊ ပင်းမင်းသည်များသည် အရောင်ချွတ်ဆေးမှုန့်အစား ဆိုဒီယမ်ဟိုက်ပိုကလိုရိုက်ကိုလည်း အသုံးပြုကြသေးသည်။ ကလိုရင်းသည် သိုးမွေး၊ ကောက်ရိုး စသော ပစ္စည်းများကို ပျက်စီးစေသဖြင့် အရောင်ချွတ်သူများသည် အရောင်ချွတ်ဆေးမှုန့်ကဲ့သို့ သတ္တိရှိသော ဟိုက်ဒရိုဂျင် ပါရောက်ဆိုက်၊ ဆာလဖာဒိုင်အောက်ဆိုက်နှင့်အခြားပစ္စည်းများကို အသုံးပြုကြသည်။

အရောင်ချွတ်ဆေးမှုန့်မှ ထွက်လာသော အောက်ဆီဂျင်ဓာတ်နှင့် ကလိုရင်းဓာတ်တို့ကြောင့် ယင်းကို ပိုးနှိမ်ဆေး၊ ပိုးသတ်ဆေးများတွင် များစွာ အသုံးပြုကြသည်။

**အရောင်တင်ဆီ။** ။အရောင် တင်ဆီ သည် တောက်ပြောင်၍ ကြည်လင် အသင်းပေါက်သည့်အပြင် မာတင်းသော မျက်နှာပြင်ကို ဖြစ်စေနိုင်သော အရည် ဖြစ်သည်။ အရောင်တင်ဆီ အမျိုးမျိုး ရှိရာတွင် အရက်ပြန်ဆီစသော အဖျော်ပစ္စည်းကိုလိုက်၍ရင်း၊ ထင်းရှူးဆီ၊ ချိပ်စသော ပျော်ဝင်ပစ္စည်းကိုလိုက်၍ရင်း အမည်အမျိုးမျိုး မှည့်ခေါ်တတ်ကြသည်။

အရောင်တင်ဆီလုပ်ရန် ကောင်းသော အဖျော်ပစ္စည်းနှစ်မျိုးမှာ အရက်ပြန်နှင့် လင်းဆီဆီခေါ် ဘီသွာဆီတို့ဖြစ်ကြ၏။ သာမန်အားဖြင့် ရက်ဇင်ဟု ခေါ်သော သစ်စေးတမျိုးမျိုးကို အရက်ပြန်၊ သို့မဟုတ် ဘီသွာဆီတွင် ပျော်ဝင်စေသောအခါ အရောင်တင်ဆီ ဖြစ်လာ၏။

အရောင်တင်ဆီ ဖော်စပ်ရာ၌ အသုံးပြုသည့် အဖျော်ပစ္စည်းမှာ အရက်ပြန်ဖြစ်လျှင် အရက်ပြန် အရောင်တင်ဆီဟူ၍ရင်း၊ အက်ဆီဘုန်းဖြစ်လျှင် အက်ဆီဘုန်း အရောင်တင်ဆီဟူ၍ရင်း၊ တာပင်တိုင်ဆီ (တာရပင်ဆီ) ဖြစ်လျှင် တာပင်တိုင် အရောင်တင်ဆီဟူ၍ရင်း မှည့်ခေါ်လေ့ရှိ၏။ ပျော်ဝင် ပစ္စည်းအလိုက် မှည့် ခေါ် ရာ တွင် အကယ်၍ ပျော်ဝင်ပစ္စည်းသည် ကိုပယ်ဖြစ်လျှင် ကိုပယ်အရောင်တင်ဆီဟူ၍ရင်း၊ ချိပ်ဖြစ်လျှင် ချိပ်အရောင်တင်ဆီဟူ၍ရင်း၊ ပယင်းဖြစ်လျှင် ပယင်းအရောင်တင်ဆီဟူ၍ရင်း မှည့်ခေါ်လေ့ ရှိကြပြန်သည်။

ချိပ်နှင့် ပယင်းအပြင် အရောင်တင်ဆီ ဖော်စပ်ရာတွင် အသုံးပြုလေ့ရှိသော အခြား ရက်ဇင်များမှာ မတ်စတစ်၊ ဆန်းဒရက်နှင့် ဒမားတို့ ဖြစ်ကြလေသည်။

**အရစ်ကျငွေချေစံနစ်။** ။တလလျှင်ဝင်ငွေ ၂၀၀ ကျပ်ရှိသောသူဘယောက်သည် ကြိုတင်စုဆောင်းထားသောငွေမရှိလျှင် အဖိုးငွေ ၂၀၀ ကျပ်တန်ပစ္စည်းတခုကို လက်ငင်းပေး၍ဝယ်ယူရန်မှာ မဖြစ်နိုင်လောက်အောင်ပင် ခဲယဉ်းပေသည်။ထိုငွေ ၂၀၀ ကျပ်တန်ပစ္စည်းမှာ သူအဖို့ အလွန်

အသုံးလိုနေ၍ ဝယ်မှဖြစ်မည်ဆိုလျှင်လည်း လစဉ်ဝင်ငွေထဲမှ ချေတာစုဆောင်းပြီးနောက် လိုသောငွေကိုရမှသာ ဝယ်နိုင်ပေမည်။ သို့ရာတွင် ထိုငွေ ၂၀၀ ကျပ်ကိုစုမိရန် ဆယ်လ၊ သို့မဟုတ်တနှစ်ကြာချင်ကြာလိမ့်မည်။ ငွေစုနေစဉ် အတွင်း အသုံးလိုသောပစ္စည်းကို မရသေး၍ အခက်အခဲတွေ့ရဦးမည်ဖြစ်သည်။ ငွေစုမိသောအချိန်တွင် ထိုပစ္စည်းမျိုးရချင်မှလည်းရတော့မည်။ ပမာအားဖြင့် အပ်ချုပ်စက်ကို ငွေပြေပေး၍မဝယ်နိုင်လျှင် ထိုအကြံကိုလက်လျှော့ရမည်သာဖြစ်သည်။သို့မဟုတ် ခက်ခဲစွာငွေစု၍ဝယ်ရပေမည်။

ဤကဲ့သို့သောအခက်အခဲများကို များသောအားဖြင့် လခစားများကြုံတွေ့ရတတ်၏။ ထိုအခက်အခဲများသည် ၁၉ ရာစုနှစ်အတွင်းက အရစ်ကျငွေချေစံနစ်ပေါ်ပေါက်လာရာတွင် ပြေရှင်းသွားလေတော့သည်။ ထိုစံနစ်အရ ရှေးဦးစွာ တန်ဖိုးငွေအားလုံးမှ အချို့အဝက်ကိုပေးသွင်း၍ ပစ္စည်းကိုယူကာ ကျန်ငွေကို အရစ်ကျ တဖြည်းဖြည်း အချိန်မှန်မှန် ပေးဆပ်သွားနိုင်ကြသည်။ ယင်းသို့ပစ္စည်းကို အရစ်ကျပေး၍အကြွေးရောင်းချရာတွင် ရောင်းသူနှင့်ဝယ်သူ သဘောတူစာချုပ် ချုပ်ဆိုရလေသည်။ ထိုစာချုပ်အရ ငွေအပြေမပေးသွင်းရသေးမီ ပစ္စည်းကိုဝယ်ယူသူက လုံးဝမပိုင်ဆိုင်သေးချေ။ တန်ဖိုးငွေကို အပြေဆပ်ပြီးမှသာလျှင် ပိုင်ဆိုင်ခွင့်ရရှိလေသည်။ မည်သို့ပင်ဖြစ်စေ ဤသို့သော အရောင်းအဝယ်များတွင် တစုံတရာကျေခဲ့မှုမရှိ၊ အကယ်၍ ဝယ်ယူသူသည် လစဉ်အရစ်ကျငွေကို မှန်ကန်စွာပြေလည်အောင် မပေးဆပ်နိုင်ပါက ရောင်းချသည့်ကုမ္ပဏီက ပေးသွင်းပြီးငွေများကိုပြန်မပေးပဲ ပစ္စည်းကိုပြန်လည်သိမ်းယူလေသည်။

ဤစံနစ်ကို အမေရိကန်ပြည်ထောင်စုတွင် ၁၉ ရာစုနှစ်အစလောက်က အိမ်ထောင်ပရိဘောဂဆိုင်ကြီးတဆိုင်မှ စတင်အသုံးပြုခဲ့သည်။ ထိုနောက်တွင် အင်္ဂလန်ပြည်နှင့် ကမ္ဘာအနှံ့အပြား တိုင်းပြည်များတွင် သုံးစွဲလာကြပြီးလျှင် အရစ်ကျအဖိုးချေစံနစ်အတွက် ပါလီမန်ဥပဒေရပ်များကိုပင် သတ်မှတ်ပြဋ္ဌာန်းထားလေသည်။

ဤစံနစ်ပေါ်ပေါက်လာသောအခါမှစ၍ အိမ်ထောင်ပရိဘောဂတိုက်ဆိုင်ကြီးများ၊ မော်တော်ကားနှင့် အခြားစက်ကရိယာဆိုင်ကြီးများ၊ စာအုပ်တိုက်ကြီးများတွင် အရောင်းအဝယ် ပိုမိုတွင်ကျယ်ဖွံ့ဖြိုးလာသည်ကို တွေ့ရ၏။ ထို့ပြင် ယင်းစံနစ်ဖွံ့ဖြိုးလာသောကြောင့် ငွေရှင်းများစွာ စုဆောင်းပြီးသားမရှိသော်လည်း အိမ်ယာအဆောက်အအုံများမှအစ အဖိုးတန်ပစ္စည်းအမျိုးမျိုးကို အပိုင်ဝယ်ယူသုံးစွဲနိုင်ကြလေသည်။

**အရစ္စတိုကရေစီ။** ။အရစ္စတိုကရေစီဟူသည်မှာ ဂရိဘာသာမှဆင်းသက်လာသော ဝေါဟာရဖြစ်၍ အကောင်းဆုံးသောလူတစုပါဝင်သည့် အစိုးရဟု အနက်ရသည်။ ကြေးရည်တတ်အနည်းငယ်၊ သို့မဟုတ် လူလောကတွင် ထင်ပေါ်သည့် မြို့သူမြို့သားအနည်းငယ်တို့က ကြိုးကိုင်သည့် အစိုးရမျိုးဖြစ်သည်။

အရစ္စတိုကရေစီကို နိုင်ငံရေး သဘောတရားတခုအနေဖြင့် နိုင်ငံရေးပါရဂူပလေးတိုက စတင်ခဲ့လေသည်။ ပလေးတို၏သဘောတရားကို သူ၏တပည့်ဖြစ်သူ အယ်ရစ္စတိုတယ်က ချဲ့ထွင်လိုက်ပြန်သည်။ အယ်ရစ္စတိုတယ်၏ သဘောအရတွင်ကား အရစ္စတိုကရေစီမှာ အကျင့်အားဖြင့်၎င်း၊ ဉာဏ်ပညာအားဖြင့်၎င်း ထူးကဲမြင့်မြတ်၍ အများအကျိုးကို ရှေးရှုသည့် အကောင်းဆုံးသော လူတစုပါဝင်သောအစိုးရဖြစ်၏။ သူခွဲခြားဖော်ပြခဲ့သော အစိုးရစံနစ်ကောင်းသုံးမျိုးတွင် အပါအဝင် ဖြစ်လေသည်။ (ပလေးတို။ အယ်ရစ္စတိုတယ် — လည်းရှု။)

ထို့ပြင် အရစ္စတိုကရေစီအစိုးရတွင်ပါဝင်သည့် လူတစုသည် အကျင့်ဖောက်ပြန်ကာ ကိုယ်ကျိုးရှာလာသောအခါ အစိုးရအသွင်သဏ္ဍာန်တမျိုးပြောင်းသွားပြီးလျှင် အော်လီဂါးကီးခေါ် ကိုယ်ကျိုးရှာ လူတစုအစိုးရ ဖြစ်သွားတတ်သည်ဟု အယ်ရစ္စတိုတယ်က ဆက်လက်ဖော်ပြပြန်၏။ သို့သော်အရစ္စတိုကရေစီကိုပင် ကိုယ်ကျိုးရှာသူတစုအစိုးရဖြစ်သော အော်လီဂါးကီးနှင့် မကြာခဏမှားယွင်းတတ်သဖြင့် ကိုယ်ကျိုးရှာလူတစု အစိုးရဟူသော အနက်ကိုဆောင်သည်ဟု ယူဆလာကြသည်။ နောင်အခါတွင်ကား အများက အရစ္စတိုကရေစီသည် ကိုယ်ကျိုးရှာအထက်တန်းစားတစုပါဝင်သည့် အစိုးရပင်ဖြစ်သည်ဟု အသိအမှတ်ပြုလာကြပြန်သည်။ ထို့ကြောင့်ပင်လျှင် ယခုအခါတွင် အရစ္စတိုကရေစီသည် အထက်တန်းစားဟူသောအနက်ကို ဆောင်နေလေသည်။ နိုင်ငံရေးသဘောတရား သမိုင်းတလျှောက်လုံးတွင် အရစ္စတိုကရေစီသည် စံတင်လောက်သည့် အကောင်းဆုံးအစိုးရစံနစ်တမျိုးဖြစ်သည်ဟူ၍ ယူဆခဲ့ကြလေသည်။

**အရည်းကြီး။** ။ပုဂံခေတ်က အလွန်တန်ခိုးကြီး ခဲ့ကြသည့် လူနှင့်အတူ အပြုအမူအယူဝါဒရှိသော ရှင်ယောင်များကို အရည်းကြီးဟု ခေါ်သည်။

အရည်းကြီးဟူသော ဝေါဟာရသည် အရိယဟူသော ပါဠိမှလာသည်ဟု ယူဆကြသည်။ အချို့က အရညတောဟူသော စကားမှ လာသည်ဟု ယူဆကြသည်။ အရည်းတို့သည် အရညဝါသီများမဟုတ်ကြပဲ မြို့ရွာ ဆင်ခြေဖုံးကျောင်းများတွင် နေကြ၏။ သို့ရာတွင် အချို့ပညာရှင်တို့က ပုဂံရာဇဝင်ဟောင်းနှင့် ရာဇဝံသဒီပကာဠ်အရဲဟူ၍ လာ

ရှိသဖြင့်အထက်ပါအယူအဆများသည် ယုတ္တိမတန်ဟု ဆိုကြသည်။

ပုဏ္ဏောဝါဒသုတ်အရ ရှင်ပုဏ္ဏကအစပြု၍ သရေခေတ္တရာ၊ ယုန်လွတ်ကျွန်း၊ ပုဂံရာမ၊ အရိမဒ္ဒနာ၊ သီရိပစ္စယာ၊ တမ္ပဒီပမြို့တိုင် ထီးနန်းအဆက်ဆက် ဆင်းသက် စဉ်လာလိုက်နာခဲ့သော သာသနာတော်ထမ်း ရဟန်းသံဃာတော်တို့သည် တာရှည်ကာလ လိုက်နာရပုံ ကျင့်ဝတ် အရပ်ရပ်ကြပ်တည်းသိမ်မွေ့သည်ကို မလိုက်နာနိုင်ကြ၊ တစ တစ ချွတ်ယွင်းသဖြင့် အကျင့်ယုတ်၍ ဟုတ်မှန်သည်ကို မလိုက်နာနိုင်ပဲ ကွဲလွဲ ပျက်စီးကြသောကြောင့် တမ္ပဒီပမြို့ကို တည်ထောင်သော သစ်တိုင်မင်း လက်ထက်မှစ၍ ရဟန်းကောင်း ရဟန်းမြတ်တို့ အကျင့်ကွယ်ပျောက် ပြီးလျှင် ရှင်ယောင်အရည်းတို့၏ အယူအကျင့် ပွင့်လင်း စည်ကားတိုးပွားလာလေသည်။

ပုပ္ပါးတောင် ပုဂံမြို့ကြီးအနီး အရှေ့တောင်ယွန်းရှိသမထီးအရပ်သည် အရည်းကြီးတို့၏ ဗဟိုအချက်အချာဒေသဖြစ်သည်။ သမသီးအရပ်ကို အချို့ ကျောက်စာ များ၌ သစ်မတည်ဟု ရေးသည်။ အချို့ကမူ အရည်းကြီးသုံးကျိပ်တို့နေရာဖြစ်၍ သမတိဟူသောသဒ္ဒါမှ သမတီး၊ ထိုမှ သမထီးဟူသော အမည်ဖြစ်လာသည်ဟုပင် ယူဆကြသည်။ အရည်းကြီးတို့ဝါဒသည် သမထီး အရပ်မှ တဖြည်းဖြည်း လွှမ်းမိုးလာကာ သက္ကရာဇ် ၂၉၃ ခုနှစ်တွင် နန်းတက်သော စောရဟန်းဘွဲ့ခံ တောင်သူကြီးမင်းလက်ထက်တွင်အရည်းကြီးများအား ဘုရင်နှင့်တကွ တပြည်လုံး ကိုးကွယ်သည် အထိ တန်ခိုးကြီးလာကြသည်။ တောင်သူကြီး မင်းသည် ဘုရားတည်ရာ၌ပင် အရည်းရှင်ယောင် တို့နှင့် ဆွေးနွေးမေးမြန်းလျက် ပုထိုးကြီး၊ ပုထိုးငယ်စသော ဘုရားငါးဆူကိုတည်ရာတွင် နတ်ရုပ်၊ ဘုရားရုပ်တခုမျှမထား၊ နံနက်ညဦးထမင်းဟင်း အရက်များဖြင့်ပူဇော်၏။

အရည်းကြီးတို့၏ ရုပ်ပုံများကို မင်းနန်သူခေါ် အနန္တသူရိယတည်သော ဘုရားလိုဏ်မုခ်များ၌ ရေးခြယ်၍ ထားလေသည်။ ဘုရားသုံးဆူ၊ နန္ဒမညာဘုရား နံရံများတွင် ရုပ်ပုံများ၊ ကျောက်စာမှတ်တမ်းများနှင့် ရာဇဝင်မှတ်တမ်းရေးဆရာဟု ကျော်ကြားသော တိဗက်ရဟန်း တာရနာထ၏ ပုဂံအကြောင်းမှတ်တမ်းကို ထောက်ခံ၍ ပုဂံပြည်တွင် တန္တရဗုဒ္ဓဘာသာရှိနေကြောင်း သိရ၏။

အရည်းကြီးတို့သည် ရဟန်းတို့ကဲ့သို့ သင်္ကန်းဝါ ဝတ်ရုံခြင်းမပြုပဲ အပြာ၊ အနက်၊ အမည်း၊ အညိုစသောသင်္ကန်းများကို ဝတ်ရုံသုံးစွဲကြသည်။ ဆံပင်များမှာလည်း ရဟန်းများကဲ့သို့ ဦးပြည်း ရိပ်သည်မဟုတ်၊ ဦးထုပ် ဆောင်း၍ကောင်းစေရန် ဆံပင်များကို လက်လေးသစ် လက်တဝါးထားကြသည်။ နှုတ်ခမ်းမွေး မုတ်ဆိတ်မွေးလည်း ထားကြသည်။ ဦးထုပ်များလည်း ဆောင်းကြသည်။ ထို့ကြောင့် စလေဦးပုညက "ရှေးအတီတော၊ ပုဂံပြည်တွင်၊ ဆံကေသာ လက်လေးသစ်၊ မုတ်ဆိတ်မွေးဗလပြစ်၊ မဲညစ်သည့် စီဝရံနှင့်၊ တာတေလံအကျင့်ဆိုးသော၊ ရှင်သိုးတကော့ ခေါင်ကြီး၊ ရှင်မထီး" ဟု အရည်းကြီးတို့အကြောင်း လင်္ကာစပ်ထားခြင်းဖြစ်သည်။

အပြုအမူအားဖြင့်လည်း အရည်းတို့သည် ရဟန်းခံခြင်း၊ သိမ်ဝင်ခြင်း၊ ကမ္မဝါဖတ်ခြင်းများကို ပယ်ရှား၍ စစ်သားများကဲ့သို့ ဆင်စီးသည်၊ မြင်းစီးသည်၊ ကိုယ်တိုင်လက်ပွေသတ်သည်၊ လက်ပွေသတ်ရန်ချိန်းချက်ပြီးနောက် ချိန်းသောနေ့ရက်တွင် ပျက်ကွက်သည်ကိုအစွဲပြု၍ မလုံးဖြစ်ဘုရား၊ မလာဖြစ်ဘုရားဟု တည်ခဲ့သည်ဖြစ်ရာ တမ္ပဒီပနယ်တွင် ထိုဘုရားများ ယခုတိုင် ထင်ရှားရှိသေးသည်။ အရည်းများသည် ဆေးလည်းကုကြသည်။ နွားမများများမွေးထား၍ နွားများကိုရောင်းစားသည်။ အခြားသူများနှင့် အရည်းများရန်ဖြစ်လျှင် အပေါင်းအသင်းဟုတ်သည်ဖြစ်စေ၊ မဟုတ်သည်ဖြစ်စေ အရည်းများဖက်က တဖက်သတ်ဝင်၍ ကူညီသည်။

အရည်းတို့အယူကား ဘုရားရှင် ဟောတော်မူသော တရားတော်ကိုပယ်၍ မိမိတို့အယူဖြင့် အသီးအသီးယူကြကုန်၏။ မိမိဆန္ဒနှင့်လျော်စွာကျမ်းဂန်ပြု၍ လူတို့အားလှည့်ပတ်ဖြားယောင်း၏။ ထိုသူတို့ဟောသောတရားကား သူ့အသက်ကို သတ်မိသောသူသည် ဤပရိတ်ကိုရွတ်သော် ကမ္မပထမှလွတ်၏။ မိဖကိုသတ်မိသောသူသည် မည်သည့်ပရိတ်ကိုရွတ်သော် ထိုအပြစ်မှကင်းငြိမ်းပျောက်လွင့်သည်။ မည်သည့်မကောင်းမှုကိုပြုသော်လည်း ပြုမိသမျှကိုပြန်ပြော၍ အရည်းတို့ထံတောင်းပန်ရသည်။ အရည်းတို့ကခွင့်ပြုလျှင် ငရဲမှလွတ်၍ နတ်ပြည်သို့ရောက်နိုင်သည်။ မင်းအစရှိသော အမှူး၊ အမတ်၊ ကလန်၊ သံပျင်၊ သဌေး၊ သူကြွယ်၊ ပြည်သူတို့ သားသမီးကိုထိမ်းမြားမင်္ဂလာ ပြုအံ့သောအခါ ဆရာသို့အား ပန်းဦးလွှတ်သည်ဟူ၍ ညဉ့်ဦးက ထိုသူတို့ထံပို့ရသည်။မိုးသောက်၍လွှတ်လိုက်မှ ထိမ်းမြားရသောဟူ၏။ ဆရာသို့ပန်းဦးမလွှတ်ပဲ ထိမ်းမြားမိချေသော် အစဉ်ကိုဖျက်သည်ဟု ကြီးစွာသောမင်းပြစ်ကို ခံရသောဟူ၏။

အရည်းကြီးတို့ဟောပြောပုံကိုလည်း စာပေများတွင် ရေးသားထားသည်။ ထိုစာများ၏အသွားအလာမှာ ပါဠိတော်များနှင့် ယိုးမှားဖွယ်ရေးသည်။ ဝေမေသုတ်ကစ၍ အစ စကားချီးများမှာပါသည်။ သို့ရာတွင် အတွင်းစာသားမှာ ဘုရားတရားနှင့်မညီပဲ ပါဠိစီ၍ ရေးသားထားကြသည်။ အင်းအိုင်၊ လက်ဖွဲ့၊ ခါးလှည့်၊ စက်သွင်း၊ မှော်၊ မန္တာန်၊ ဂါထာအတတ်သေ့လာ၍ သူတို့၏ ဣဒ္ဓိတန်ခိုးများကိုပြောကာ လူများကိုယုံကြည်စေသည်။

မင်းဆက် ၃၀ တိုင်တိုင် အခိုင်အမာထွန်းကားနေသော အရည်းကြီးဝါဒကို အနော်ရထာမင်းနန်းတက်သောအခါ အပြစ်များစွာမြင်၍ မနှစ်သက်သည့်အတွက် အရည်းတို့အား ဆက်ကပ်လှူဒါန်းမြဲအလှူအတန်းများကို မပြုလုပ်စေရန် တစတစဖျက်တော်မူသည်။ (အနော်ရထာမင်း — ရှု။) သထုံပြည်မှ ရှင်အရဟံ ပုဂံသို့ရောက်လာ၍ မင်းနှင့်တကွ တပြည်လုံး မှန်သောဘုရားဌ် တည်စေသောအခါ အရည်းကြီးတို့သည် တနေ့တခြား လာဘ်လာဘတန်ခိုး အမျိုးမျိုး တိမ်ကောသွားလေသည်။ (အရဟံချင်—ရှု။) ယင်းသို့ လာဘ်နည်း၍ တစတစ ကြပ်တည်းလာသောအခါ လူအများ ယုံကြည်၍ သူဘို့အား လေးစားလာစေရန် အရည်းတို့သည် ကျမ်းစာများရေး၍ သရေခေတ္တရာမြို့လယ် သခွတ်ပင်အတွင်း၌ ထွင်း၍ထည့်သွား၏။ သစ်ပင်အခွံ အသားစေ့စပ်လွယ်အောင် စိုစိုစွတ်စွတ်မြေမံသား၍ မတွေ့မခြောက်စေရန် လှုံ့လပြု၏။ သုံးနှစ်လည်၍ သစ်ပင်အခွံ အသားစေ့စပ်သောအခါ ပုဂံပြည်သို့လာ၍ သခွတ်ပင်ကြီး အတွင်း မှန်သောကျမ်းဂန်ရှိသည်ဟု အိပ်မက်အသင်အရှား ဖြစ်ကြောင်းများနှင့် အနော်ရထာမင်းထံ အရည်းကြီးတို့သည် ယုံလောက်အောင်လာရောက်ပြောကြားကြသည်။ မင်းကြီးလည်း သရေခေတ္တရာသို့ ဝမ်းမြောက်ဝမ်းသာလာ၍ သခွတ်ပင်ကြီးကိုထွင်းဖောက်စေရာ အရည်းများပြောသည့် အတိုင်း ကျမ်းစာကိုကားတွေ့ရသော်လည်း ရှင်အရည်းတို့၏ ရှေးသဘောသကန်ဝါဒအတိုင်းပင် ဖြစ်နေပြန်သဖြင့် လုပ်ကြံထည့်သွင်းထားသည့်အရာဖြစ်ကြောင်း ရိပ်မိသောကြောင့် ထိုစာများကို ထိုအရပ်၌ပင် မီးတိုက်စေသည်။ ထိုသို့ မီးတိုက်ရာအရပ်ကို ယနေ့တိုင်အောင် မီးတိုက်ကုန်းဟု အသင်အရှားတွင်လေသည်။ ထိုအခါမှစ၍ အရည်းတို့သည် အနော်ရထာမင်းနှင့် ရှင်အရဟံတို့အား ရန်ငြိုးထားကြ၏။ ထိုကြောင့် အနော်ရထာမင်းလည်း အစောင့်အရှောက်ကောင်းစွာထား၍ အရည်းကြီးနှင့် တပည့်တို့အား လူဝတ်လဲစေကာ အဲမောင်း၊ လှံကိုင်၊ ဆင်ချေးကျုံးထည့်လေသည်။ အရည်းအချို့လည်း မခံ၍ထွက်ပြေးကြသည်။ ပုဂံနှင့်မိုင် ၂၀ ခန့်ကွာ လက်ထုတ်နယ်၊ စလေနယ်များသို့ သွားရောက်နေထိုင်ကြသည်။ ထိုသို့ နေရာသို့ အနော်ရထာမင်းက လိုက်လံဖမ်းဆီးရာ အရည်းတို့က ခံလေသည်။ လက်ထုတ်နယ်၊ စလေနယ်များတွင် ယခုတိုင် အရည်းတို့၏ခံတပ်ရာ မြေကတုတ်၊ ကျုံးမြောင်းရာများ ရှိသည်။ လက်ဆုတ်နယ်တွင် အရည်းများတည်ထားခဲ့သော ဘုရားဆင်းတုရုပ်ပွားများလည်း ရှိတန်သမျှရှိသေးသည်။ ထိုနေရာများမှ အချို့အမိခံ၍ လူဝတ်လဲကြသည်။ အချို့ ရှမ်းပြည်သို့ထွက်သွားကြသည်ဟု ရာဇဝင်ကြတ်၊ ဆရာစဉ်ဆက်စာတမ်းများနှင့် မျက်မြင်လက်တွေ့များက ဆိုသည်။

သို့ရာတွင် အရည်းကြီးဝါဒသည် အလွယ်နှင့် လုံးဝပျောက်ပျက်သွားဟန်မတူချေ။ စင်ကြယ်စွာပျောက်ကွယ်သွားသည်ဟုလည်း မဆိုနိုင်ချေ။ သာသနာ့မှုကိုလျစ်လျူရှုသော အချို့ရှင်ဘုရင်များလက်ထက်တွင် တခါတခါပေါ်လာသည်ကို တွေ့ရလေသည်။ သက္ကရာဇ် ၅၆၀ အဆုံးနှင့် ၆၆၀ ခန့်ကသိုးသားသည့် ကျောက်စာတခုတွင် "ထမင်းအပြည့်နှင့်သပိတ်တထောင်ကို အရည်းကြီးရဟန်းတို့အား ကပ်လှူကြ၏။ ပူဇော်ရန် ငွေဆင်းဘုတဆူ ရွှေကိုလည်း အရည်းကြီးတို့အား ကပ်လှူ၏" ဟု ရေးဆိုးသားသည်ကို ထောက်၍ အရည်းကြီးတို့တွင် ထိုအချိန်လောက်အထိ ကိုးကွယ်သူများရှိသေးကြောင်း သိသာသည်။ ပင်းယ၊ အင်းဝနှင့်စစ်ကိုင်းခေတ်များတွင် အရည်းကြီးအနွယ်များကို ဘုရင်များကပင် ကြည့်ရှုချီးမြှောက်ကြသေးသည်ဟု အဆိုရှိသည်။ အင်းဝပဌမမင်းခေါင်လက်ထက်က အရည်းကြီးတို့သည် ဘုရင်၏အရေးပေးခြင်းခံရကာ တဖန်ထင်ပေါ်ကျော်စောလာသဖြင့် နေ့အခါ နန်းတော်တွင်းသို့ အချိန်မရွေး ဝင်ထွက်နိုင်ကြ၏။ ရံဖန်ရံခါလည်း နန်းတော်တွင်း၌ အရက်သောက်ကြူး၍ မထနိုင်ပဲ လဲနေသောကြောင့် ကျောင်းတိုက်သို့ ပြန်ပို့ရသည်ဟု အဆိုရှိသည်။ ပင်းယ၊ စစ်ကိုင်း၊ အင်းဝ၊ အမရပူရတိုင် စည်ဘီး၊ မီးနှက်၊ လက်ပွေ့သတ် စသော အမှုကိုပြုခြင်း၊ ထိုးကွင်း၊ လက်ဖွဲ့၊ ခါးလှည့်၊ အင်းအိုင်စသော အပြီးအစီးမှုကို ပြုခြင်းစသော ရဟန်းများလည်း ရှိသေးသည်။ သို့ရာတွင် အရည်းဟူ၍မခေါ်ပဲ ပွဲကျောင်းဟု အခေါ်ပြောင်းသွားလေသည်။ သက္ကရာဇ် ၁၀၆၀ နှင့် ၁၁၆၀ အကြားကာလဘွင် မြန်မာနှင့်မွန်တို့ စစ်ဖြစ်၍ မွန်တို့ချီတက်လာသည်ကို အင်းဝမှ အရည်းတဆောင်ဆင်း၍ မွန်တပ်ကိုပြေးစေသည်ဟု အဆိုရှိသည်ကို ထောက်၍ အရည်းတို့၏ အဆက်အနွယ်များ ထိုအချိန်တွင် ရှိသေးကြောင်း သိသာသည်။

**အရွယ်ရောက်ချိန်။** ။ကလေးများ လူပျိုဘော် အပျိုဘော်ဝင်လာသောအခါ ကလေးဘဝမှလူကြီးဘဝသို့ရောက်ရန် ခြေလှမ်းပြင်နေပြီဟု ဆိုအပ်လေသည်။ ဤအရွယ်ရောက်ချိန်ကို အပျိုဖြန်းလူပျိုဖြန်းနှင့် အပျိုလူပျိုလုံးဝဖြစ်သည့် အချိန်ဟူ၍ နှစ်မျိုးခွဲခြားနိုင်ရာ ပဌမအချိန်သည် ယောကျ်ားကလေးများအဖို့ ဆဲ့သုံးနှစ်မှ ဆဲ့သေးနှစ်အထိဖြစ်၍ မိန်းကလေးများအဖို့ ဆဲ့နှစ်နှစ်မှ ဆဲ့သုံးနှစ်အထိဖြစ်၏။ ဒုတိယအချိန်မှာ ယောကျ်ားကလေးများအတွက် ဆဲ့ရှစ်နှစ်မှ နှစ်ဆဲ့ငါးနှစ် အထိဖြစ်၍ မိန်းကလေးများအတွက် ဆဲ့ခြောက်နှစ်မှ နှစ်ဆဲ့တနှစ်အထိ ဖြစ်လေသည်။

ကလေးများသည် များသောအားဖြင့် လူပျိုဘော် အပျိုဘော်ဝင်စအချိန်၌ သူတို့၏ ကိုယ်သုံးကိုယ်ထည်အရပ်

အမောင်းတို့သည် တရှိန်တည်း တိုးတက်လာကြ၏။ အချို့မှာသာ မသိမသာထွားကြိုင်းလာတတ်သည်။ ယောကျ်ားကလေးများကား ဤအရွယ်တွင် ခွန်အားဗလသိသိသာသာ ကောင်းလာ၍ ပခုံးနှင့် ရင်အုပ်ကျယ်ပြန့်လာပြီးလျှင် မိန်းကလေးများမှာမူ မိခင်လောင်းတို့ ပြည့်စုံအပ်သော အင်္ဂါအစိတ်အပိုင်းများ ဖွံ့ဖြိုးလာ၍ ကိုယ်လုံးကိုယ်ထည် ထွက်လာပြီးလျှင် အလှကျက်သရေ တမျိုးတက်လာလေသည်။

အထူးသဖြင့် လူပျိုဘော် အပျိုဘော်ဝင်လာသော အခါလိင်နှင့်စပ်ဆိုင်သော အင်္ဂါအစိတ်အပိုင်းများပြောင်းလဲသွားလေသည်။ ယောကျ်ားကလေးများ၌ ပါးမုန်းမွေး၊ မုတ်ဆိတ်မွေး၊ဂျိုင်းမွေးစသည်တို့ပေါက်ရောက်လာ၍ ငယ်သံပျောက်ပြီးလျှင် ကြီးကောင်ဝင်သံပေါက်လာ၏။ လည်ပင်း၌ စလုတ်အနည်းငယ်ထွက်လာတတ်သည်။ ကိုယ်အင်္ဂါအစိတ်အပိုင်းများသည် တရှိန်တည်း ကြီးထွားလာသောကြောင့်ခြေလက်ကိုးယိုးကားယားနှင့်မနေတတ်မတိုင်တတ်ရှိနေတတ်၏။ ကလေးကဲ့သို့ နေချင်သလိုနေ၍ မဖြစ်နိုင်သောကြောင့် သူတို့စိတ်တွင် ယခင်ကလို လွတ်လွတ်လပ်လပ်မရှိတော့ပြီဟု ထင်မြင်လာတတ်သည်။ ကိုယ်ခန္ဓာပြောင်းလဲမှုများနှင့် လိုက်လျောညီစွာ နေတတ်ဖို့ များစွာလိုလာ၏။

အသက် ငယ်ရွယ်စဉ်က အလွန်ဆော့တတ်သော ယောကျ်ားကလေးများပင် ကိုယ်အင်္ဂါလှုပ်ရှားမှုကို အပြုမများတော့ချေ။ လူကြီးစိတ် ဝင်နေသောကြောင့် ခုန်ပေါက်ပြေးလွှားမှုတို့ကို စိတ်ပါဝင်စားခြင်း မရှိတော့ဲ တကိုယ်တည်း အေးအေးဆေးဆေး ဆိတ်ငြိမ်ရာ၌ နေလိုစိတ်ရှိလာတတ်ကြသည်။ သူတို့စိတ် အခြေအနေမှာလည်း ကလေးဘဝနှင့် လုံးဝမတူတော့ချေ။ သဘာဝ၏ အလှကို ကြည့်ရှုကာ သာယာနေထိုင်လိုစိတ်များ၊ အတွေးအမြင်နယ်ချဲ့လိုစိတ်များ၊ ကိလေသာစိတ်များ တက်ကြွနေတတ်ပြီးလျှင် သူတို့ကိုယ်ကိုဝတ်စားတန်ဆာတို့ဖြင့်လှပတင့်တယ်အောင် ဆင်ပြင်၍ ရုပ်ရည်ပြင်ကာ အဖိုအမတို့၏ ရာဂစိတ်ကို ဆွလိုဘတ်ကြ၏။ ယောကျ်ားကလေးများက မိန်းကလေးများကိုသာ စိတ်ဝင်စားသကဲ့သို့ မိန်းကလေးများကလည်း ယောကျ်ားကလေးများအပေါ်၌သာ အာရုံညွတ်နေတတ်လေသည်။

အပျိုဘော်ဝင်စ မိန်းကလေးများသည် ယောကျ်ားကလေးများထက်စော၍ အရပ်ထွက်ကာ ထွားကြိုင်းတတ်ကြသောကြောင့် အသက်ဆဲ့သုံးနှစ်လောက်ဆိုလျှင် ငယ်ရုပ်ပျောက်ကာ အနေအထိုင် လုပ်ပုံကိုင်ပုံ စိတ်နေသဘောသဘားတို့မှာ လူကြီးဆံ သွားလေတော့၏။ အပျိုဘော်ဝင်ပြီဆိုလျှင်ပင် အရှက်၊ အကြောက်ကို နားလည်လာပြီ ဖြစ်သောကြောင့် စကားကို ရဲရဲမပြောဝံ့တော့သည့်ပြင် ဖိုနှင့် ဆက်ဆံရမည့် အလုပ်များကိုလည်း ရဲရဲတင်းတင်း မလုပ်ဝံ့တော့ချေ။ သို့သော် ကိလေသာစိတ်များ သက်ဝင်စဖြစ်၍ ရှက်ရ၊ ကြောက်ရသည့်အထဲမှာပင် အဖိုကိုတွေ့လျှင် မျက်နှာချင်း မဆိုင်ဝံ့သော်လည်း ချောင်းမြောင်းကာ ကြည့်ရှုလိုစိတ်၊ အာရုံငါးပါးကျင်းပကာ သွေးဆောင်လိုစိတ်များ ပေါ်ပေါက်နေတတ်ပေသည်။ အထူးသဖြင့် မိန်းကလေးများမှာ အပျိုပေါက်ကလေးများဖြစ်လာပြီဆိုလျှင် အာဝေဏိကဒုက္ခငါးပါးတွင် တပါးအဝင်ဖြစ်သည့် ဥတုလာရခြင်းသည် ရှေးဦးစွာ အပျိုဘဝကိုရောက်ကြောင်း ထင်ရှားစေ၏။ ထိုဒုက္ခကို ကညာပျိုများ ကိုယ်တွေ့ခံစားရသောအခါ ကလေးစိတ်လုံးလုံးမရှိတော့ပဲ တကယ့်လူကြီးပမာ သွားလာနေထိုင်ပြောဆိုကြလေသည်။

လူပျိုဘော် အပျိုဘော် ဝင်စ ကလေးတိုင်းသည် ကဗျာလင်္ကာစသော စာနုစာယဉ် အချစ်နှင့်မကင်းသည့် အကြောင်းအရာကလေးများကို သိလို ဖတ်လိုကြသည်။ အတွေး မှာလည်း ယောကျ်ား ကလေး တိုင်းသည် ယောကျ်ားပီပီတွေးတတ်၍ မိန်းကလေးများကလည်း မိန်းကလေးပီပီ တွေးတတ်လာကြ၏။ အရွယ်ရောက်လာသော သူတို့၏ ဉာဏ်စွမ်းသည် အတွေးဖက်၌ တိုးတက်ထက်သန်လာသဖြင့်မည်သည်ကိုမဆို သိနားလည်လွယ်ပြီးလျှင် အကဲခတ်တတ်လာကြလေသည်။ ဗဟုသုတကို စံနစ်တကျ သုံးတတ်လာ၏။ သို့သော် အရှက်အကြောက် များသောကြောင့် တစုံတခုဖြစ်ခဲ့သော် မျိုသိပ်ထားလိုတတ်ကြ၏။ အပြစ်ပြုမိခဲ့လျှင်လည်း ဖုံးအုပ်ထားတတ်ကြသည်။ စိတ်အားတက်ကြွချိန်ဖြစ်သောကြောင့် ဆိုဆုံးမရ ခက်သည်။ နာခံတတ်သောစိတ်မရှိပဲ ခေါင်းမာတတ်၏။ သူတို့တွင် စဉ်စားဉာဏ်ကလေးများ ဝင်လာပြီဖြစ်၍ သူများပြောတိုင်း မယုံကြည်တတ်တော့ချေ။ ဂုဏ်၊ မာနတက်ကြွနေတတ်ပြီးလျှင် ဆွေဂုဏ်မျိုးဂုဏ်၊ ပညာဂုဏ်၊ အလှဂုဏ်စသော ဂုဏ်အမျိုးမျိုးဖြင့် အမွှမ်းတင်လိုစိတ် ရှိတတ်ကြ၏။ ဤအရွယ်တွင် ထုံသွားသော ဝါသနာများသည် ကောင်းသည်ဖြစ်စေ၊ မကောင်းသည်ဖြစ်စေ တသက်လုံးစွဲသွားတတ်ပြီးလျှင် နောင်ကိုပြန်၍ ပြုပြင်ရန် ခဲယဉ်းသွားတော့၏။ ထို့ကြောင့် ဝါသနာကောင်းများသာ ပါသွားစေရန် ဆရာမိဘတို့က အထူးပင် သွန်သင်ပဲ့ပြင်ပေးသင့်လေသည်။

**အရှေ့အိန္ဒိယကျွန်းစု။** ။အရှေ့အိန္ဒိယရှိ ကျွန်းစုသည် အာရှတိုက် အရှေ့တောင်ပိုင်းရှိ မလ္လာယုကျွန်းဆွယ်နှင့် ဩစတြေးလီးယားတိုက်အကြားတွင် မိုင်ပေါင်း ၄,၀၀၁ နီးပါး

မျှ ကျယ်ပြန့်လျက် သွယ်တန်းတည်ရှိနေပြီးလျှင် ကမ္ဘာပေါ်တွင် အကြီးမားဆုံးသော ကျွန်းစုဖြစ်သည်။ မိုလပ်ကပ်၊ နယူးဂင်းနီ၊ ဆူမတြား၊ ဗော်နီယို၊ ဖိလစ်ပိုင်၊ ဂျာဗား၊ စီလီဗီး၊ ဗာလီ၊ လွမ်ဗော့ စသော ကျွန်းကြီးများနှင့် တကွ ထောင်ပေါင်းများစွာသော ကျွန်းငယ်တို့ ပါဝင်လေသည်။

ထိုကျွန်းစုတွင် မီးသေတောင်၊ မီးရှင်တောင်တို့ များစွာရှိ၍ တောင်ထူထပ်ပေါမများပြီးလျှင် အပူပိုင်း သစ်တောကြီးများဖြင့် ဖုံးအုပ်လျက်ရှိ၏။ ကြီးစဉ်ငယ်လိုက်အားဖြင့် နယူးဂင်းနီကျွန်း၊ ဗော်နီယိုကျွန်း၊ ဆူမတြားကျွန်းနှင့် ဂျာဗားကျွန်းတို့ ဖြစ်လေသည်။ အီကွေတာသည် ဤကျွန်းစုများ၏ အလယ်ဗဟိုကို ဖြတ်သွား၍၊ ရာသီဥတုမှာ ပူပြင်းစွတ်စိုပြီးလျှင် မိုးများသော ဒေသများဖြစ်၏။ စိမ်းလန်းစိုပြေသောသစ်တောကြီးများ ဖုံးလွှမ်းလျက်ရှိသဖြင့် သစ်ပင်၊ ပန်းပင်၊ ကျေးငှက်၊ သားရဲစသော တောတိရစ္ဆာန်များအကြောင်း လေ့လာရန် သဘာဝပြင့် ကြွယ်ဝသော ကျွန်းများပင် ဖြစ်သည်။ အပူပိုင်းဖြစ်သည့်အတိုင်း ဟင်းခတ်အမွှေးအကြိုင်များ၊ သာဂူ၊ သကြား၊ ဆေးရွက်ကြီး၊ ကာဖီ၊ ရေနံနှင့် အုန်းသီး များစွာထွက်၏။

ထိုကျွန်းစုများမှ အဖိုးတန်ထွက်ကုန်များမှာ ကြက်ပေါင်စေး၊ သကြား၊ ဆေးရွက်ကြီး၊ သစ်စေးကော်၊ ကာဖီ၊ လက်ဖက်ခြောက်၊ ရေနံ၊ သံဖြူ၊ အုန်းသားခြောက်နှင့် ဟင်းခတ်အမွှေးအကြိုင်များ ဖြစ်ကြသည်။

ဗာလီကျွန်းမှ နက်ရှိုင်းသော ရေလက်ကြားကို ဖြတ်ကျော်၍ လွမ်ဗော့ကျွန်းသို့ရောက်လျှင် တောတောင်ရေမြေ ကျေးငှက်တိရစ္ဆာန်မှစ၍ အားလုံးပင် လုံးဝမတူပဲ ကွဲပြားလာ၏။ ဂျာဗားကျွန်း၏ အနောက်ပိုင်းတွင် အာရှတိုက်၏ သစ်ပင်ပန်းပင်၊ တောတိရစ္ဆာန်များကို တွေ့ရပြီးသော် လွမ်ဗော့ကျွန်းမှစ၍ အရှေ့ပိုင်း၌မူ ဩစတြေးလီးယားကျွန်း၏ တောတောင်ရေမြေ ကျေးငှက်တိရစ္ဆာန်မျိုးများကို တွေ့ရလေသည်။ ဤအကြောင်းကို သဘာဝတရားကို ရှာမှီးလေ့လာသူ အဲလဖရက် ရပ်ဆယ် ဝေါလေ့က ခွဲခြားသတ်မှတ်ခဲ့သဖြင့် ဂျာဗားကျွန်းနှင့် လွမ်ဗော့ကျွန်းစပ်ကြားတွင် ဝေါလေ့မျဉ်းကြောင်းဟူ၍ သဘာဝကွဲပြားပုံကို ခြားနားပြထားသော မျဉ်းအမှတ်အသား လမ်းကြောင်းရှိလေသည်။

ဤကျွန်းစုများမှ ထွက်သော အမွှေးအကြိုင်များကို ဥရောပတိုက်ရှိ အနောက်တိုင်းသားများ အထူးနှစ်သက်သောကြောင့် နာမည်ကျော်စောခဲ့သဖြင့် ပေါ်တူဂီ၊ အာရပ်နှင့် တရုပ်လူမျိုးများသည် ရှေးနှစ်ပေါင်းများစွာကပင် ရွက်သင်္ဘောများနှင့် စွန့်စားသွားလာလျက် ကူးသန်းရောင်းဝယ်ခဲ့ကြ၏။ သို့ဖြစ်၍ နောက်မကြာမီ ဥရောပတိုက်ရှိ အင်္ဂလန်၊ ပေါ်တူဂီနှင့် ဟော်လန်အစရှိသော တန်ခိုးကြီးနိုင်ငံများသည် ဤကျွန်းများကို အပိုင်အဆိုင်စိုးမိုးအုပ်ချုပ်ရန် စစ်ခင်းကြလေသည်။

ဥရောပရှိ နိုင်ငံအသီးအသီးတွင် ကုမ္ပဏီကြီးများဖွဲ့လျက် ဤကျွန်းစုများတွင် ကူးသန်းရောင်းဝယ်ရန် ကြိုးစားကြ၏။ ဤသို့ဖြင့် ဗြိတိသျှတို့က ၁၆၀၀ ပြည့်နှစ်တွင် အရှေ့အိန္ဒိယကုမ္ပဏီကိုဖွဲ့စည်းလျက်ရင်း၊ ဒပ်ချ်တို့က ဒပ်ချ်အရှေ့အိန္ဒိယကုမ္ပဏီကို ၁၆၀၂ ခုနှစ်တွင် ဖွဲ့စည်းလျက်ရင်း၊ ပြင်သစ်တို့ကလည်း ပြင်သစ်အရှေ့အိန္ဒိယကုမ္ပဏီကို ၁၆၆၄ ခုနှစ်တွင် ဖွဲ့စည်းလျက်ရင်း အသီးအသီး အပိုင်အဆိုင် ကြိုးပမ်းခဲ့ကြလေသည်။

နောင်အခါ ကျွန်းများစွာတို့ကို နယ်သာလန်နိုင်ငံ (ဟော်လန်)က ပိုင်ဆိုင်ခဲ့၍ ဗော်နီယိုကျွန်းမြောက်ပိုင်းနှင့် နယူးဂင်းနီကျွန်း၏ တစိတ်တဒေသကိုသာ ဗြိတိသျှတို့က ပိုင်ခဲ့လေသည်။ နယ်သာလန်နိုင်ငံက ပိုင်ဆိုင်ခဲ့သော ကျွန်းများကို နယ်သာလန်အရှေ့အိန္ဒိယကျွန်းစုဟု ခေါ်သည်။ (နယ်သာလန်အရှေ့အိန္ဒိယကျွန်းစု — လည်းရှု။) ပဋ္ဌမကမ္ဘာစစ်ကြီးမဖြစ်မီက နယူးဂင်းနီကျွန်းအရှေ့မြောက်ပိုင်းကို ဂျာမန်တို့ ပိုင်ခဲ့သော်လည်း စစ်ပြီးသောအခါ ဩစတြေးလီးယားလက်အောက်သို့လွှဲအပ်ခဲ့ရလေသည်။ (နယူးဂင်းနီကျွန်း။ ဗော်နီယိုကျွန်း။ ဂျာဗားကျွန်း။ ဗာလီကျွန်း — လည်းရှု။)

ဖိလစ်ပိုင် ကျွန်းစုမှာ ရှေးက စပိန်ပိုင်ခဲ့သော်လည်း စပိန်–အမေရိကန်စစ်ပွဲအပြီး ၁၈၉၈ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုနိုင်ငံသို့ ပေးအပ်လိုက်ရသဖြင့် အမေရိကန်ပိုင် ဖြစ်လာခဲ့၏။ (ဖိလစ်ပိုင်သမတနိုင်ငံ —လည်းရှု။) ၁၉၄၆ ခုနှစ်တွင် ဖိလစ်ပိုင်အား အချုပ်အခြာအာဏာပိုင်နိုင်ငံအဖြစ် လွတ်လပ်ရေးပေးခဲ့သဖြင့် အရှေ့အိန္ဒိယကျွန်းစုတွင် ဖိလစ်ပိုင်သည် ပဋ္ဌမဆုံး လွတ်လပ်သောနိုင်ငံ ဖြစ်လာလေသည်။ နယ်သာလန် အရှေ့အိန္ဒိယကျွန်းစုကား လွတ်လပ်ရေးကို ၁၉၅၀ ပြည့်နှစ်တွင် ရခဲ့၍ ယခုအခါ အင်ဒိုနီးရှားနိုင်ငံဟု ထူထောင်ထားပြီး ဖြစ်လေသည်။ (အင်ဒိုနီးရှားနိုင်ငံ — ရှု။)

**အလာစကာ ပြည်နယ်။** ။အလာစကာ ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု၏ ပြည်နယ်တနယ်ဖြစ်၍ မြောက်အမေရိကတိုက် အနောက်မြောက်အဖျားစွန်းတွင် တည်ရှိသည်။ ရှေးဦးမဆွက အလာစကာပြည်နယ်သည် ရုရှပိုင်ဖြစ်ခဲ့၏။ ခရစ် ၁၈၆၇ ခုနှစ်တွင် ရုရှအစိုးရထံမှ အမေရိကန်ပြည်ထောင်စုအစိုးရတို့က ပေါင်ပေါင်း ၁,၄၅၀,၀၀၀ နှင့် ထိုနယ်ကို ဝယ်ယူခဲ့လေသည်။ ထိုအချိန်မှစ၍ အလာစကာဟု ခေါ်တွင်ခဲ့၏။ အလာစကာဆိုသည်မှာ တိုင်းရင်း



**အလာစကာပြည်နယ် ပီတာစဗတ်မြို့ ဆိပ်ကမ်းမှ ငါးဖမ်းသင်္ဘောများ**

ဘာသာစကားဖြစ်၍ ကြီးကျယ်သောတိုင်းပြည်ဟု အမိပွါယ်ရ၏။ အလာစကာပြည်နယ်၌ ပါဝင်သောကျွန်းများမှာ ကိုဒိုက်ကျွန်း၊ ဗဲရင်းပင်လယ်ထဲရှိကျွန်းများ၊ အလူးရှင်းကျွန်းများနှင့် ကျဉ်းမြောင်းသော ကမ်းမြောင်ဒေသနှင့် ကပ်လျက်ရှိသော ကျွန်းစုများဖြစ်၏။ မြောက်ဖက်၌ အာတိတ်သမုဒ္ဒရာ၊ အနောက်ဖက်၌ ဗဲရင်းပင်လယ်နှင့် ရေလက်ကြား၊ တောင်ဖက်၌ ပစိဖိတ်သမုဒ္ဒရာ၊ အရှေ့ဖက်၌ ကနေဒါနိုင်ငံ၏ ယူးကွန်းနှင့် ဗြိတိသျှ ကိုလမ္ဗီးယားပြည်နယ်တို့က အလာစကာပြည်နယ်၏ နယ်နိမိတ်ကို သတ်မှတ်ထားလေသည်။ ပြည်နယ်၏ အကျယ်အဝန်းမှာ ၅၇၆,၄၁၂ စတုရန်းမိုင် ဖြစ်၍ ၁၉၇၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ခန့်မှန်းခြေ လူဦးရေမှာ ၃၀၂,၁၇၃ ဖြစ်လေသည်။

ပန်ဟန်ဒယ်တောင်တန်းမှ အလူးရှင်းကျွန်းစုများအထိ ဒေသများသည် တောတောင်ထူထပ်၍ မိုးများ၏။ ပင်လယ်ကမ်းခြေတလျှောက်တွင် မပူလွန်းမအေးလွန်း၊ မျှတသည့် ရာသီဥတုရှိ၍ တောင်ဆင်ခြေလျှောများတွင် သစ်တောများ ဖုံးအုပ်လျက်ရှိသည်။ အလာစကာပြည်နယ်အတွင်းပိုင်း၌ ယူးကွန်းမြစ်သည် အရှေ့ဖက်မှဖြတ်၍ ဗဲရင်းပင်လယ်ထဲသို့ စီးဝင်၏။ ဤအတွင်းပိုင်း၏ မြောက်နှင့်တောင် နယ်နိမိတ်တွင် တောင်တန်းကြီးများရှိ၍ အထူးသဖြင့် စိမ်းလန်းစိုပြေသော သစ်တောများဖြင့် ဖုံးအုပ်နေ၏။ ဗဲရင်းပင်လယ်ဖက်ရှိ ကျဉ်းမြောင်းသော ကမ်းမြောင်ဒေသနှင့် အာတိတ်ပင်လယ်ကမ်းခြေတလျှောက်ရှိ လွင်ပြင်အရပ်များ၌ကား မိုးမခပင်များမှအပ အခြားသစ်ပင်များ မပေါက်ရောက်ကြချေ။ မြောက်ပိုင်းတွင် ရှိသောတောင်တန်းများသည် တောင်ပိုင်းရှိ တောင်တန်းများလောက် မမြင့်ချေ။ အမြင့်ဆုံးတောင်မှာ မက်ကင်လေတောင်ဖြစ်၍ ပေပေါင်း ၂၀,၄၆၄ မြင့်လေသည်။ ဤဒေသရှိ ရေခဲပြင်ကြီးများသည် အချို့နေရာများ၌ အက်ကွဲနေသဖြင့် ခရီးသွားလမ်းကြောင်းများအဖြစ် အသုံးပြုရ၏။ အလာစကာပြည်နယ်၌ စိမ့်စမ်းချောင်းမြောင်းတို့ ပေါများ၍ ရေစီးသန်သောချောင်းများ၏ ကမ်းတဖက်တချက်တွင်

မြင့်မားသောထင်းရှူးပင်များကို တွေ့နိုင်၏။ ထင်းရှူးပင်ကြီးများမှာ မားမားမတ်မတ် အကိုင်းချင်း ယှက်ကာ ချောင်းများကို အုပ်မိုးလျက်ရှိကြ၏။ ဤထင်းရှူးတောများနှင့် ရေစီးသန်သောချောင်းများသည် အလာစကာပြည်နယ်ကို တနေ့သောအခါ အမေရိကန်နိုင်ငံအတွက် အလွန်အဖိုးတန်သော စက္ကူများထွက်ရာ ဒေသအဖြစ်သို့၎င်း၊ ရေအားဖြင့်ရရှိသော လျှပ်စစ်ဓာတ်အားပေးရုံကြီးများ တည်ရှိသည့်နေရာအဖြစ်သို့၎င်း ရောက်ရှိအောင် ပို့ဆောင်ကြပေလိမ့်မည်။ ချိုင့်ဝှမ်းများရှိရာ အရပ်၌ကား မြေသြဇာကောင်းမွန်သောကြောင့် အသီးအနှံတို့ များစွာ သန်စွမ်း၏။ အထူးသဖြင့် မုန်လာဥနီနှင့် ဂေါ်ဘီထုပ်ကြီးများသည် အံ့သြလောက်အောင် ကြီးမားထွားကြိုင်းကြသေသည်။

သစ်တောကြီးများရှိ တိရစ္ဆာန်များသည် သားမွေးကုန် ကူးသူများအတွက် များစွာအဖိုးတန်၍ အက်စကီမိုလူမျိုးများအဖို့သည်း အဝတ်တန်ဆာအသုံးငှါ များစွာ အသုံးဝင်လေသည်။ ဒရယ်ချိုပြားကြီးများ၊ သိုးရိုင်းဖြူများ၊ ဝက်ဝံညို၊ ဝက်ဝံမည်းများ၊ ပိုလာဒ်သားခေါ် ဝက်ဝံဖြူများ၊ ကဲရီဘူးခေါ် ရေခဲသမင်များ၊ တောဆိတ်ရိုင်းများ၊ ဝံပုလွေများ၊ မြောက်အမေရိကလွင်ပြင် ဝံပုလွေများနှင့် မြေခွေးအမျိုးမျိုး စသောတိရစ္ဆာန်များကား ပေါများလှ၏။ တနေရာမှတနေရာသို့ ပြောင်းရွှေ့နေထိုင်တတ်သောငှက်များသည် နွေဦးပေါက်အချိန်တွင် အလာစကာပြည်နယ်သို့ အစုလိုက်လာရောက်ကြပြီးလျှင် အသိုက်အအုံများ ဆောက်လုပ်ကာ နေထိုင်တတ်ကြ၏။ အချို့သောငှက်ကလေးများမှာ ဆီးနှင်းများ အလွန်ကျဆင်းသောအခါတွင် သူတို့၏မူလအရောင်များပျောက်၍ တကိုယ်လုံးဆွတ်ဆွတ်ဖြူနေတော့၏။ ၁၈၉၁ ခုနှစ်တွင် ဆိုက်ဗီးရီးယားပြည်မှ တန်ဒြာသမင်များကို အလာစကာပြည်နယ်သို့ ယူဆောင်လာ၍ မျိုးစပ်မွေးမြူခဲ့ကြရာ ယခုအခါ ကောင်ရေတသန်းနီးပါးခန့်ပင် ရှိနေပေပြီ။ ထိုအပြင် သားရေလုပ်ငန်း သားမွေးလုပ်ငန်းများအတွက် အထူးအသုံးဝင်မည့် သားကောင်များကိုလည်း ဂရုစိုက်ကာ မွေးမြူလာခဲ့ကြရာ ပြည်နယ်၏ စီးပွားရေးအခြေအနေမှာ အတော်ပင် တိုးတက်လာခဲ့လေသည်။

အလာစကာပြည်နယ်ကို ရုရှတို့လက်မှ ဝယ်စအခါက အမေရိကန်ပြည်ထောင်စုအစိုးရအား အချို့က အပြစ်တင်ကြ၏။ သို့ရာတွင် အမေရိကန်လက်အောက်သို့ ရောက်သွား၍ မကြာမြင့်မီပင် ထိုနယ်တွင် အဖိုးတန်သော တွင်းထွက်ရတနာများကို တွေ့ရှိကြလေရာ ပြည်နယ်၏တန်ဖိုးမှာ အဆမတန် တိုးတက်လာပေသည်။ ရွှေတခုတည်း၏ တန်ဖိုးသည်ပင် ထိုပြည်နယ်၏ ဝယ်ရင်းဈေးထက် အဆငါးဆယ်ကျော်နေလေပြီ။ မကြာသေးမီက ထွက်သမျှသော ကြေးနီ၏တန်ဖိုးမှာလည်း ရွှေ၏တန်ဖိုးကိုပင် ကျော်လွန်သွားခဲ့၏။ ရေနံ၊ ကျောက်မီးသွေးစသော မြေအောက်ရတနာများကိုလည်း နောက်ထပ် တူးဖော်တွေ့ရှိပြန်ရာ အလာစကာပြည်နယ်၏တန်ဖိုးမှာ အဆုံးအစမရှိ တိုးတက်လာခဲ့လေသည်။ ဓာတ်သတ္တုများထဲမှလည်း ငွေ၊ ခဲ၊ သံဖြူ၊ ကျောက်သလင်း၊ ခနောက်စိမ်း၊ ပလက်တီနမ် စသည်တို့ကို အများအပြားပင် တွေ့ရှိကြလေသည်။

အလာစကာပြည်နယ်၏ ကျောက်တောင်ထူထပ်သော နေရာများမှမူ စကျင်ကျောက်နှင့် ထုံးကျောက်များကို တူးဖော်ရရှိကြ၏။ တွေ့ရှိခဲ့သော ရတနာများအနက် ရွှေနှင့် ကြေးနီသည် အများဆုံးထွက်၏။ ထိုရတနာနှစ်ခုကြောင့်ပင် ယခင်တိမ်မြုပ်နေခဲ့သော ပြည်နယ်သည် ကျော်စောထင်ရှားလာလေသည်။ သို့ရာတွင် ယခုအခါ၌ အလာစကာပြည်နယ်သည် ဓာတ်သတ္တုတူးဖော်ရေး လုပ်ငန်းထက် တံငါလုပ်ငန်းကြောင့် ပိုမိုထင်ရှားကာ အရေးပါလာ၏။ ဆူဖြိုးသော ဆာမန်ငါး၊ အသားများသည့် ဟဲလဗတ်ငါး၊ ခရုအမျိုးမျိုးနှင့် သားမွေးရှိသည့် ပင်လယ်ဖျံကြီးများတို့သည် အလာစကာနယ်ရှိ ရေခဲမြစ်ကြီးများထဲ၌ လူးလာဆန်ခတ် သွားလာကျက်စားကြ၏။ ဆာမန်ငါးကြီးများကို ဥချရန်တက်အလာတွင် ပိုက်ကြီးများချကာ ဖမ်းယူကြ၏။ တံငါများ ဖမ်းမိသောငါးများတွင် ဆာမန်ငါးများသည် သုံးပုံလေးပုံခန့်ပါ၏။ ၁၇၇၈ ခုနှစ်တွင်ကား ငါးများကို စည်သွတ်ဆောင်းချသောလုပ်ငန်းကို စတင်တည်ထောင်ကြ၏။ ငါးကြီးဆီသုတ်၍ရသော ကော့ငါး၊ ဟဲလဗတ်ငါး၊ ဝေလငါးနှင့် ဟဲရင်းငါးတို့ကိုလည်း အမြောက်အမြားရရှိ၏။ ထိုသို့ အဖိုးတန်ငါးများ ပေါများကျက်စားသည့် ဒေသဖြစ်သဖြင့် တံငါလုပ်ငန်းမှာ တနေ့တခြား တိုးတက်ကြီးမားလာ၏။ ပရိဗီလော့ကျွန်း၌မူ ပင်လယ်ဖျံများဖမ်းခြင်းသည် အလွန်အရေးကြီးသော လုပ်ငန်းဖြစ်၍ တကမ္ဘာလုံးမှထွက်သောပင်လယ်ဖျံ သားမွေးများအနက် ၇၅ ရာခိုင်နှုန်းမှာ ဤကျွန်းမှဖြစ်လေသည်။

ရှေးအခါက ရေခဲပြင်များသာရှိသော အလာစကာပြည်နယ်သည် ယခုအခါ သစ်လုပ်ငန်း၊ သတ္တုတွင်းတူးဖော်ရေးလုပ်ငန်း၊ တံငါလုပ်ငန်း၊ သားမွေးလုပ်ငန်း စသော ဝင်ငွေကောင်းသည့် လုပ်ငန်းအဝဝနှင့် ပြည့်စုံကြွယ်ဝလျက်ရှိသောကြောင့် အတိုင်းတိုင်းအပြည်ပြည်မှ ကုန်သည်များသည် အလာစကာပြည်နယ်သို့ လာရောက်ကာ ကူးသန်းရောင်းဝယ်ကြ၏။ သဘာဝအလျောက် လှပစွာ ဖြစ်ထွန်းပေါ်ပေါက်နေသော တောတောင်မြစ်ချောင်း စိမ့်စမ်းအိုင်များနှင့် ရေခဲပြင်ကျယ်စသည့် ရှုခင်းတို့ကလည်း ခရီးသည်လူမျိုးစုံတို့အား တခါတခေါက် လာရောက်လည်ပတ်ချင်

အောင် ဖန်တီးနေပေသည်။ ပကတိအတိုင်း အရိုင်းသက်သက် ဆန်းပြားထူးထွေသည့် သယံဇာတပစ္စည်းများကလည်း သိပ္ပံပညာသည်များအား ညှို့ဓာတ်ဖြင့် ရစ်ပတ်ဆွဲဆောင်လျက် ရှိတော့သည်။ လူများသာမက သားငါး တိရစ္ဆာန် ကျေးငှက်များပင် နေချင့်စဖွယ် အလာစကာပြည်နယ်သည် ရေခဲမြစ်များ၊ တောင်စောင်းကြီးများ၊ တောင်ကမ်းပါးကြီးများအပြင် ပြာမှုန်မှုန်မင်းလွင်အောက်တွင် စိမ်းဖော့ဖျော့အသွေး ဆောင်နေကာ စည်ကားစိုပြေသော သစ်တောများဖြင့် ဖုံးလွှမ်းခြုံလျက် ရှိတော့၏။ ဗဲရင်းပင်လယ်တွင်ရှိ ပရီဗီလော့ကျွန်းစု အပါအဝင် ကျောက်ထူထပ်သော ကျွန်းငယ်ငါးခုသည်ကား ထောင်ပေါင်းများစွာသော ပင်လယ်ဖျံများ ကျက်စားရာ ဒေသဖြစ်သည်။ နွေဦးပေါက်ရာသီတွင် ထိုဖျံများသည် ကျောက်တုံးထူထပ်သော ဤကမ်းခြေသို့ လာရောက်ကာ သားပေါက်ကြလေသည်။

အလာစကာပြည်နယ်၏ ထွက်ကုန်များမှာ ငါးအမျိုးမျိုး၊ ရွှေ၊ ကြေးနီ၊ ငွေ၊ သားမွေး၊ သံ၊ သံမဏိ၊ စက်ကရိယာ တန်ဆာများ၊ ရေနံ၊ နွားနို့ထွက်ပစ္စည်းများ စသည်တို့ဖြစ်၏။ အလာစကာပြည်နယ်သည် ကမ္ဘာ့အရှေ့ပိုင်းနိုင်ငံများ၊ အမေရိကန်ပြည်ထောင်စု၊ ကနေဒါနိုင်ငံတို့နှင့် ကူးသန်းဆက်သွယ်ရာ လမ်းခရီးတွင် ကျရောက်နေသည်။ အလာစကာပြည်နယ်တွင် မီးရထားလမ်းများ ဖောက်လုပ်ရန်ခဲယဉ်းသောကြောင့် များသောအားဖြင့် လေကြောင်းဖြင့်သာ ခရီးသွားလာခြင်း ပြုကြ၏။ အလာစကာပြည်နယ်တွင် အမြဲတမ်း အခြေစိုက်နေသော လူများအပြင် သတ္တုတွင်းများ၊ မီးရထားလမ်းနှင့် စည်သွတ်လုပ်ငန်းများ၌ အလုပ်လုပ်ရန် ယာယီလာရောက်ကြသော လူပေါင်းလည်း ၂၀,၀၀၀ ခန့် ရှိလေသည်။

ထိုပြည်နယ်တွင် ထာဝရနေထိုင်သော လူဦးရေအနက် ထက်ဝက်မှာ လူဖြူမျိုးဖြစ်၏။ အက်စကီမိုးနှင့် အင်ဒီးယန်းလူမျိုးတို့မှာ စာရေးစာဖတ်မတတ်သော လူရိုင်းများဖြစ်ကြ၏။ ၁၉၆၉ ခုနှစ်တွင် လူဖြူတို့၏ ကျောင်းပေါင်း ၁၂၉ ကျောင်းရှိ၍၊ ကျောင်းသားပေါင်း ၆၁,၇၅၃ ခန့်ရှိ၏။ တိုင်းရင်းသားကျောင်းမှာ ၁၁၉ ကျောင်း ရှိလေသည်။ တပြည်လုံးရှိ မီးရထားလမ်းကို ဆန့်တန်းလိုက်သော် အရှည်မိုင် ၈၁၆ မိုင်မျှသာရှိသည်ကို တွေ့ရမည်ဖြစ်၏။ ဤအချက်ကို ထောက်ခြင်းအားဖြင့် အလာစကာပြည်နယ်၌ ကုန်းကြောင်းခရီးကို များစွာအသုံးမပြုကြောင်း ထင်ရှားလေသည်။

အလာစကာပြည်နယ်၏ မြို့တော်မှာ ဂျူးနိုးဖြစ်၍ လူဦးရေ ၁၃,၃၃၈ (၁၉၇၀) ခန့် ရှိသည်။ ယင်းပြည်နယ်တွင် ရွှေတွင်းများ တွေ့စကမူ လူဦးရေ ၇,၀၀၀ ခန့်ပင် ရှိလေသည်။ ပြည်နယ်တွင်းရှိ အကြီးဆုံးမြို့မှာ လူဦးရေ ၄၆,၁၃၇ (၁၉၇၀) နေထိုင်လျက်ရှိသော အင်ခါရိတ်မြို့ဖြစ်၏။ ဒုတိယအကြီးဆုံးမြို့မှာ ဖဲယားဗင့်ဖြစ်၍ လူဦးရေ ၁၄,၃၃၆ (၁၉၇၀) ရှိသည်။ ထိုမြို့တွင် စိုက်ပျိုးရေးသိပ္ပံတခုနှင့် သတ္တုတွင်းတူးဖော်ရေး အတတ်သင်ကျောင်း ရှိလေသည်။

**အလီ၊ ဦး** (မြန်မာ ၁၂၅၉–၁၃၁၅)။ ။မြန်မာ့ တူရိယာဂီတလောကတွင် သီချင်းကြီးအဆို၌ ထင်ရှားကျော်ကြားသော ဦးအလီကို သာဝတ္ထိမြို့၌ အဖ ကုန်သည် ဦးမောင်မောင်၊ အမိ ဒေါ်ချို့တို့မှ ခရစ် ၁၈၉၇ ခုနှစ်၊ မြန်မာသက္ကရာဇ် ၁၂၅၉ ခုနှစ် ဝါဆိုလဆန်း ၁၁ ရက်နေ့တွင် ဖွားမြင်သည်။ အရွယ်ရောက်သောအခါ ရန်ကုန်အနောက်ပိုင်းတွင် နေထိုင်ကြီးပြင်းလာခဲ့သည်။

ဦးအလီသည် ငယ်စဉ်ကပင် ပြွေမှုတ် ဘင်ဂျိုတီးတတ်သည်။ အဆိုအတီးတွင် ဝါသနာပါသော်လည်း အသက်မွေးဝမ်းကျောင်းအတွက် မော်တော်ယာဉ်မောင်းအဖြစ် လုပ်ကိုင်သည်။ ရန်ကုန်မြို့ လသာလမ်းနေ မီးခြစ်စက်သဌေး ဦးကြင်ကြက်၏ မော်တော်ယာဉ်မောင်းအဖြစ် လုပ်ကိုင်နေစဉ် ကားမောင်းယင်း ပါးစပ်မှ မပြတ်မလပ် သီချင်း တညည်းညည်း လုပ်နေတတ်သဖြင့် သဌေးဖြစ်သူက ဤမျှ သီချင်းအဆို ဝါသနာပါမူ ဆရာတဦးဦးထံ နည်းနာခံ သင်ယူရန် တိုက်တွန်းသဖြင့်၊ ရွှေတောင်တန်းနေ စောင်းဆရာ ဦးထွန်းဖေထံ တပည့်ခံသည်။ ထိုနောက် ဆရာဦးထွန်းအိုင်၊ ရုပ်သေးမင်းသမီးကြီး ဆရာမှန်းတို့ထံမှ ပညာယူခဲ့သည်။ ဆရာများ၏ ပညာကို မှီအောင် ခံယူနိုင်သောသူဖြစ်သည်။

၁၉၃၉–၄၀ ခုနှစ်တွင် ဗြိတိသျှအစိုးရလက်ထက် ပညာရေးဝန်ကြီးဌာနမှ ဖွင့်လှစ်သော ပန်းချီနှင့် တူရိယာပညာသင်ကျောင်း (အစိုးရအထက်တန်းကျောင်းဝင်းအတွင်း၌ ဖွင့်လှစ်သည်။) တွင် အဆိုလက်ထောက်ဆရာအဖြစ် အမှုထမ်းလေသည်။ ထိုအချိန်က အဆိုဆရာမှာ ဒေါ်စောမြအေးကြည် ဖြစ်ရာ၊ ဒေါ်စောမြအေးကြည်၏ ပညာများကိုလည်း ဦးအလီသည် ဆည်းပူးခွင့်ရလိုက်သည်။

ဒုတိယကမ္ဘာစစ် ဖြစ်သောအခါ ပန်းချီနှင့် တူရိယာအတတ်သင် ကျောင်းသည် စစ်ကိုင်းမြို့သို့ ရွှေ့သွားရာ ဦးအလီသည် စစ်ကိုင်းမြို့သို့ လိုက်ပါအမှုထမ်းသည်။ စစ်ပြီး၍ မြန်မာနိုင်ငံ လွတ်လပ်ရေးရသောအခါ ၁၉၅၂ ခုနှစ်တွင် ပန်တျာကျောင်း ဖွင့်လှစ်ဖွင့်ခြင်း ယောကျ်ား အဆိုဆရာအဖြစ် ခန့်အပ်ခြင်းခံရရာ၊ ၁၉၅၄ ခုနှစ် မတ်လ ၂၃ ရက်၊ သက္ကရာဇ် ၁၃၁၅ ခုနှစ် တပေါင်းလပြည့်ကျော် ၄ ရက်နေ့တွင်ကွယ်လွန်သည်အထိ လုပ်ကိုင်ဆောင်ရွက်သည်။ ဒုတိယကမ္ဘာစစ်အပြီးတွင် ဦးအလီတူရိယာအဖွဲ့ ဟူ၍ သိ



မြန်မာ့ဂီတလောကတွင် ထင်ရှားကျော်ကြားသော
အဆိုပညာရှင် ဦးအလီ

ချင်းကြီးအဖွဲ့ ထောင်ကာ မြန်မာနိုင်ငံ အသံလွှင့်ရုံမှ သီဆိုအသံလွှင့်သည်မှာလည်း ကွယ်လွန်သည်အထိ ဖြစ်သည်။

ဦးအလီသည် ကာလပေါ်သီချင်းအဆိုထက် သီချင်းကြီးအဆို ဝါသနာပါသည်။ ကာလပေါ်သီချင်း စာသားကို သီချင်းကြီးအသံနှင့် ဆိုလေ့ရှိ၍ ယင်းသို့ဆိုလျှင် ပို၍ကောင်းသည်။ သီချင်းကြီး ဆိုရာ၌ တီးသူနှင့် နားထောင်သူ ရှင်လာအောင် ဆိုနိုင်သူဖြစ်သည်။ သီချင်းဆိုရာ၌ အသက်ဝင်ရုံသာမက အလင်္ကာလည်းမြောက်သည်။ အဆိုလည်း သဘောပေါက်သည်။ ရေယမုန်ပတ်ပျိုးသည် အမျိုးသမီးများ ကလေးချော့ရာ၌ ဆိုရသော သီချင်းဖြစ်သော်လည်း ဦးအလီ ဆိုသောအခါ တကယ့်ကလေးချော့သီချင်းကဲ့သို့ ကြားရသူတို့ အရသာခံကြရသည်။ သီချင်းဆိုရာ၌ သဘာဝနှင့် သရုပ်ပေါ်အောင် ဆိုတတ်သည်။ အမျိုးသမီးဆို၊ အမျိုးသားဆို၊ အမျိုးသမီးအမျိုးသား နှစ်ယောက်စလုံးဆို ဟူ၍ ရှိရာ၌ မည်သည့်သီချင်းမျိုးဆိုဆို သရုပ်ပေါ်အောင် ဆိုတတ်သူ ဖြစ်သည်။ သို့ရာတွင် တယောက်ယောက်က မတောင်းပန်ပဲ မည်သည့်အမျိုးသမီးဆိုသီချင်းကိုမျှ ဆိုလေ့မရှိချေ။ တိုက်တွန်းသူရှိမှ အမျိုးသမီးဆို သီချင်းမျိုးကို ဆိုလေ့ရှိလေသည်။ ယောကျ်ားဆိုသည့်ဟန် ယောကျ်ားဆိုသည့်အာလည်း ပီသသည်။ ခပ်ဆတ်ဆတ်ဆိုရသော ပုလဲပေါက်သံဆန်း အဆိုကောင်းသလောက် ခတ်တွဲ့တွဲ့ဆိုရသော သံရိုးအောက်ပြန်ဆို၌လည်း မညံ့ချေ။

ဦးအလီသည် စစ်မဖြစ်မီက ကိုလမ္ဗီယာဓာတ်ပြားကုမ္ပဏီနှင့် သီချင်းကြီးသီချင်းခံ၊ ပတ်ပျိုး၊ ယိုးဒယား အပုဒ် ၃၀ ကျော် ဓာတ်ပြားသွင်းခဲ့သည်။ ဒဂုန်မောင်ကြီး ဟူသော အမည်ကို ယူ၍လည်း သီဆိုခဲ့ဘူးသည်။ သို့ရာတွင် ထိုအမည်နှင့် မထင်ရှားခဲ့ချေ။ ဦးအလီ သီဆိုသောသီချင်းများအနက် ထင်ရှားသော သီချင်းများမှာ —

(၁) ချစ်သမျှကို
(၂) ရေယမုန်
(၃) မဲဇာတောင်ခြေ
(၄) ဂန္ဓမာဗွေ
(၅) မင်္ဂလာဘွဲ့
(၆) ကျွန်းကျွန်းပိုင်သ
(၇) ဝေယံလိုပင်
(၈) ဘုံဆောင်မြင့်
(၉) ကျောင်းတော်ကြီး ကြိုး
(၁၀) ဆဋ္ဌသံဂါယနာတင်

စသည်တို့ ဖြစ်သည်။ ယင်းတို့အနက် ရေယမုန်ပတ်ပျိုးသည် နာမည်အကြီးဆုံး ဖြစ်သည်။ ဦးအလီ သီဆိုခဲ့သော ဓာတ်ပြားသီချင်းများကို အခြားသူအား ဆိုစေသော် ဦးအလီဟန်ရအောင် ဆိုနိုင်သူ ရှားလေသည်။

ဦးအလီတွင် ပဋ္ဌမဇနီး ဒေါ်အေးနှဲနှင့် သားသမီး ငါးယောက်ထွန်းကားခဲ့သည်။ ပဋ္ဌမဇနီး ကွယ်လွန်ပြီးနောက် ခုနစ်နှစ်အကြာ ဒေါ်မြနှင့် အိမ်ထောင်ကျ၍ ဂွတ်တလစ်ရပ်ကွက်၌ နေထိုင်စဉ် ထိုအိမ်၌ပင် ကွယ်လွန်သည်။

ဦးအလီတွင် တပည့်များစွာရှိရာ တူရိယာ ပန်တျာလောက၌ နာမည်ကြီးများဖြစ်ကြသော တရော ဦးဟန်ဝင်း၊ စန္ဒရား ဦးငယ်၊ ဂီတာ ဘစောကြည်၊ စောင်း ဦးစိန်ပေ တို့သည် သူ၏ တပည့်များ ဖြစ်ကြသည်။ ဦးအလီသည် ဘင်ဂျိုအတီးကောင်းသူ ဖြစ်ရာ တပည့်များကို သင်ကြားပေးရာ၌ပင် ဘင်ဂျိုနှင့် သင်ကြားပေးလေ့ရှိသည်။

ဦးအလီကား ပညာတွင် မာနမရှိ၊ သီချင်းရမည်ဆိုလျှင် အထက်လူ အောက်လူ မရွေး အောက်ကျခံ ပေါင်း၍ ပညာယူလေ့ရှိသည်။ ပညာပေးသည့်အခါ၌လည်း ထိုနည်းအတိုင်းဖြစ်၍ စေတနာ အလွန်ရှိသူဖြစ်သည်။ အခကြေးငွေကို ပဓာနမထားပဲ ပညာကို ပေးဝေတတ်သူ ဖြစ်သည်။ စစ်မဖြစ်မီခေတ်လောကက ဓာတ်ပြားသွင်းရခြင်းသည်အခကြေးငွေ အနည်းငယ်သာရသော်လည်း နောင်လာနောက်သားများ သူ့ခေတ်ကကဲ့သို့ ခက်ခက်ခဲခဲ သီချင်းမတက်ကြရစေရန်ရည်သန်၍ ရက်ရက်ရောရော ကိုယ်ကျိုးမငဲ့ပဲ ဆရာစားမချန် သီချင်းကြီးများကို ပညာဖြန့်ခဲ့သူဟုဆိုရပေမည်။

**အလူးရှင်းကျွန်းများ။** ။အလူးရှင်းကျွန်းများသည် အလာစကာကျွန်းဆွယ်ထိပ်မှ အနောက်ဖက်သို့ မိုင်ပေါင်း ၉၀၀ ကျော်မျှ ထိုးထွက်သွားသော မီးတောင်ကျွန်းတန်းများ ဖြစ်ကြသည်။ အလူးရှင်းကျွန်းများပေါ်ရှိ တောင်များသည် အလာစကာပြည်နယ်ရှိ တောင်တန်းများ၏ အဆက်များဖြစ်သည်။ အလူးရှင်းကျွန်းများသည် ဗဲရင်းပင်လယ်ကို ပစိဖိတ်သမုဒ္ဒရာမှ ပိုင်းခြားထား၍ အလာစကာပြည်နယ်၏ အစိတ်အပိုင်းဖြစ်သည်။ ယင်းကျွန်းများတွင် ကျွန်းကြီး ၁၄ ကျွန်း၊ ကျွန်းငယ် ၅၅ ကျွန်းမျှနှင့် ကျွန်းကလေးပေါင်း မြောက်မြားစွာ ပါဝင်သည်။ ကျွန်းများ၏ ဧရိယာ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၆,၄၀၀ ခန့်ရှိသည်။ အလူးရှင်းကျွန်းများသည် အာတိတ်စက်ဝိုင်း၏ တောင်ဖက် မိုင်ပေါင်း ၈၀၀ မှ ၁,၀၀၀ အတွင်းရှိကြပြီးလျှင် အင်္ဂလန်ပြည်၊ ဂျာမနီနိုင်ငံ မြောက်ပိုင်းတို့နှင့် လတ္တီတွဒ်ချင်းအတူတူမျဉ်းပြိုင် ၅၁° နှင့် ၅၅° အကြားတွင်ရှိကြသည်။

အလူးရှင်းကျွန်းများတွင် ရေပူစမ်းများ အမြောက်အမြား ရှိသည်နှင့်အမျှ ရေအေးစမ်းများလည်း အမြောက်အမြားရှိ၍ အချို့ကျွန်းများတွင် ရေစီးသန်သောချောင်းများရှိကြသည်။ မြုံငယ်၊ ပန်းပင်၊ မြက်ပင်နှင့် ရေညှိပင်စသည့် အပင်ငယ်အမျိုးပေါင်း မြောက်မြားစွာရှိသော်လည်း သစ်ပင်ကြီးများမရှိချေ။ ရာသီဥတုမှာအေး၍ မြူထူထပ်သည်။ ငါးဖမ်းသည့်လုပ်ငန်းသည် အဓိကလုပ်ငန်းကြီး ဖြစ်သည်။သိုးမွေးမြူသည့်ဌာနကြီးများအနည်းငယ်မျှရှိသည်။ ကျွန်းများ၏လူဦးရေသည် ၂,၀၀၀ မျှပင်မရှိချေ။

အလူးရှင်းကျွန်းများကို အရှေ့မှအနောက်သို့ အစုကြီးငါးစုအဖြစ် ပိုင်းခြားသတ်မှတ်ထားသည်။ ထိုအစုကြီးများမှာ မြေခွေးကျွန်းစု၊ တောင်လေးတောင်ကျွန်းစု၊ အန်ဒရီအာနေ့ဗ်ကျွန်းစု၊ ကြွက်ကျွန်းစုနှင့် အနီးကျွန်းစုများ ဖြစ်ကြသည်။ အရှေ့စွန်ဆုံးအပိုင်း၌ရှိသော ကျွန်းစုတွင် မြေခွေး အမြောက်အမြားတွေ့ရသောကြောင့် မြေခွေးကျွန်းစုဟုခေါ်သည်။ ယင်းကျွန်းစုတွင် အရှေ့အကျဆုံးနှင့် အကြီးဆုံးဖြစ်သော ယူနီမက်ကျွန်း၊အန်နာလာစကာကျွန်းနှင့် အုမ်းမနက်ကျွန်းများပါဝင်သည်။ တောင်လေးတောင်ကျွန်းစုဟု ခေါ်ရခြင်းမှာ တောင်လေးတောင် ရှိသောကြောင့် ဖြစ်သည်။ အန်ဒရီအာနေ့ဗ် ကျွန်းစုသည် အန်ဒရီယန် တော်စတစ်ဆိုသူ ရုရှလူမျိုး လှည့်လည်ရှာဖွေသူ၏ အမည်ကို အစွဲပြု၍ ခေါ်ထားခြင်း ဖြစ်သည်။ ကြွက်ကျွန်းစုဟု ခေါ်ရခြင်းမှာ ကိုက်ဖြတ်သတ္တဝါများတွင် ပါဝင်သော ကြွက်များ အစုလိုက်အပြုံလိုက် အမြောက်အမြား တွေ့ရသောကြောင့်ဖြစ်၍ အနီးကျွန်းစုသည် ရုရှနိုင်ငံနှင့် အနီးဆုံးသောကျွန်းများ ဖြစ်သောကြောင့် အနီးကျွန်းအစုဟု ခေါ်သည်။ ယူနီမက်ကျွန်းသည် အလူးရှင်းကျွန်းများတွင် အကြီးဆုံးဖြစ်၍ အမြင့်ဆုံးတောင်သည်လည်း ယင်းကျွန်းပေါ်တွင်ရှိသည်။ အန်နာလာစကာကျွန်းပေါ်ရှိ အန်နာလာစကာရွာသည် အလူးရှင်းလူမျိုးတို့၏ ကုန်သွယ်မှုဆိုင်ရာ ဗဟိုဌာနကြီးဖြစ်သည်။ အန်နာလာစကာကျွန်းသည် ကျွန်းများတွင် ဒုတိယအကြီးဆုံးဖြစ်၍ အမေရိကန်ပြည်ထောင်စု၏အခြေခံရေတပ်စခန်းဖြစ်သော ဒပ်ချ ဟားဗား မြို့သည် ထိုကျွန်းပေါ်တွင်ရှိသည်။

အလူးရှင်းကျွန်းများကို ခရစ် ၁၇၂၅ ခုနှစ်က ဒိန်းမတ်လူမျိုး ဗီတူး ဗဲရင်း ဆိုသူက ဦးစွာပဌမ ရှာဖွေတွေ့ရှိခဲ့ပြီးနောက် ၁၈၆၇ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု အစိုးရက ရုရှအစိုးရထံမှ အလာစကာပြည်နယ်နှင့်အတူ ဝယ်ယူလိုက်လေသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဂျပန်စစ်အာဏာပိုင်တို့သည် မြောက်အမေရိကတိုက်ကို ဝင်ရောက်တိုက်ခိုက်ရန် အလူးရှင်းကျွန်းများကို ခြေကုပ်အဖြစ် ၁၉၄၂ ခုနှစ် ဇွန်လက ပဌမသိမ်းပိုက်ခဲ့သည်။ သို့ရာတွင် ၁၉၄၃ ခုနှစ် မေလတွင် အမေရိကန်တို့က ပြန်လည်ဘိုက်ခိုက် သိမ်းပိုက်လိုက်သည်။ အလူးရှင်းကျွန်း များကို ရုရှ လက်တွင်းရှိစဉ်က ပင်လယ်ဖျံဖမ်းသည့် အခြေခံကျွန်းများ အဖြစ် အသုံးပြုခဲ့လေသည်။

**အလေးချိန်နှင့် အခြင်အတာ။** ။အလွန် ရှေးကျသောအခါက လူများသည် အရာဝတ္ထုတို့၏ အလေးချိန်များကို တိကျစွာမသိနိုင်ခဲ့ကြပဲ လက်ဖြင့်သာဆ၍ မည်သည့်ပစ္စည်းသည် မည်သည့်ပစ္စည်းထက်ပို၍ လေးမည်ကို ခန့်မှန်းရုံမျှသာ ခန့်မှန်းနိုင်ခဲ့ကြသည်။ နောက်များမကြာမီ တဖြည်းဖြည်းနှင့် ချိန်ခွင်မောင်းတံသဘောကို ကံအားလျော်စွာ တွေ့ရှိနားလည်လာပြီးလျှင် ရိုးရိုးချိန်ခွင်မျိုးသည် ပဌမဦးဆုံး အရာဝတ္ထုတို့အား ချိန်တွယ်သည့် ကရိယာ ဖြစ်ခဲ့လေသည်။ ပစ္စည်းတခုကို ချိန်တွယ်ရာ၌ ထိုပစ္စည်းနှင့် ချိန်စက်ရသည့် အလေးအဖြစ် ပဌမဆုံး ဂျုံစေ့များကို အသုံးပြုခဲ့ကြ၏။ ထိုဂျုံစေ့တို့ကို အသုံးပြုရာမှ ဂျုံစေ့အခိပ္ပါယ်ရှိသော ဂရိန်သည် ဂျုံစေ့တစေ့၏အလေးချိန်ဖြစ်ပြီးလျှင် ယခုတိုင်အင်္ဂလိပ်သုံးအလေးချိန် စံနစ်များတွင် ပါဝင်လျက်ရှိသေးသည်။ မြန်မာနိုင်ငံတွင်လည်း ရှေးကတည်းကစ၍ ယခုထက်တိုင် ရွှေးစေ့များကို အသုံးပြုကြ၏။ ရွှေးစေ့များကို စိန်ရွှေရတနာများ ချိန်တွယ်ရာတွင် အထူးအသုံးပြုကြပေသည်။

အတိုင်းအတာဖက်၌ ရှေးက ယခုကဲ့သို့ ပေ၊ မီတာ စသည့် စံကိုန်းများဖြစ်သော ပေတံ၊ ကိုက်တံများ မရှိခဲ့ကြစေကာမူ လူ၏ခန္ဓာအစိတ်အပိုင်းတို့နှင့် တိုင်းတာခဲ့ကြလေသည်။ လက်ညှိုးတဆစ်ကို လက်တဆစ်၊ တံတောင်ဆစ်မှ လက်ခလယ်ဖျားအထိကို တတောင်၊ လက်နှစ်ဖက်

ဆန့်တန်းပြီး လက်တဖက်၏ လက်ခလယ်အဖျားမှ အခြား လက်တဖက်၏ လက်ခလယ်အဖျားအထိကိုတလံ စသည်ဖြင့် ခေါ်ဝေါ်၍ ထိုအတိုင်းတို့နှင့် တိုင်းတာလာခဲ့ကြသည်။ ထို သို့ တိုင်းတာခြင်းမျိုးမှာ ကမ္ဘာပေါ်ရှိ လူအသီးအသီးတို့ သည် တဦးနှင့်တဦး ကိုယ်လုံးကိုယ်ထည် ထွားကြိုင်းပုံချင်း မတူညီကြသဖြင့် ညီညွတ်သောအတိုင်းအတာကို ရနိုင်မည် မဟုတ်ချေ။ ပုံစံအားဖြင့် အထည်ဝယ်ယူရာ၌ တန်ဖိုးချင်း အတူတူပင် ဖြစ်လင့်ကစား အရပ်မြင့်မြင့် လက်တံရှည်ရှည် နှင့်လူမှာ အခြားသူများထက် ပိုမိုရရှိမည်ဖြစ်၏။ သို့သော် ဤသို့သောမညီမျှမှုမျိုးမှာ ကြာရှည်စွာဖြစ်ပွားနေနိုင်မည် မဟုတ်သဖြင့် မကြာမြင့်မီပင် စံတင်ထားရန် အကြံရလာ ကြပေသည်။ ရောမတ့်ကောင်းစားစဉ်ခေတ်က ရောမ ဧကရာဇ်ဘုရင်တို့သည် အချိန်အတွယ် အတိုင်းအတာများကို တညီတညွတ်တည်း စံတင်ပြုလုပ်ထားရန် အမိန့်ထုတ်ပြန်ခဲ့ လေသည်။

အိန္ဒိယနှင့် မြန်မာနိုင်ငံတို့တွင် ကိုယ်ခန္ဓာအစိတ်အပိုင်း နှင့်ပြုလုပ်သည့် အတိုင်းအတာတို့ကိုမူတည်၍ ယူဇနာထိ အောင် ကျယ်ပြန့်သော အတိုင်းအတာစံနစ်ကို အသုံးပြု ခဲ့ကြသည်။

ရောမအင်ပါယာကြီး ပြိုကွဲသွားပြီးနောက် အလယ် ခေတ်တိုင်အောင် အတိုင်းအတာ အချိန်အတွယ်တို့သည် တနေရာနှင့်တနေရာမညီမညွတ်ရှိခဲ့ပြန်သည်။ သို့သော်လည်း တဖြည်းဖြည်းနှင့် စံနစ်တကျဖြစ်သည်ထက် ဖြစ်လာခဲ့ပေ သည်။ ပုံစံအားဖြင့် ထရွိုင်းမြို့ကြီးကဲ့သို့ အရောင်းအဝယ် ဗဟိုဌာနကြီးတခုမှ ဦးစီးခေါင်းဆောင် အသုံးပြုသော အချိန်အတွယ် စံနစ်တခုကို အခြားနေရာတို့တွင် လိုက်၍ အသုံးမပြုပဲ မနေနိုင်ခဲ့ကြပေ။ ထို့ကြောင့် ထရွိုင်းအလေး ချိန်စံနစ် ပေါ်ပေါက်လာရခြင်း ဖြစ်လေသည်။ ထိုစံနစ်ကို စိန်ရွှေရတနာ ချိန်စက်ရာ၌ အသုံးပြုကြသည်။

ယခုအသုံးပြုလျက်ရှိသော လက်မ၊ ပေ၊ ကိုက် အစရှိ သည့် အတိုင်းအတာတို့မှာ ၁၆ ရာစုခေတ်လောက်ကမှ စတင်ခဲ့သည်။ ထိုအတိုင်းအတာတို့သည် အမှန်အားဖြင့် ရှေးအခါက ကိုယ်အင်္ဂါအစိတ်အပိုင်းနှင့် တိုင်းတာခဲ့သော အတိုင်းအတာတို့ကို မူတည်ခဲ့ခြင်းဖြစ်သည်။ တလက်မမှာ လက်မအတိုင်းအတာနှင့် နီးစပ်သဖြင့် လက်မဟုခေါ်ခြင်း ဖြစ်သော်လည်း ဥရောပတိုက်၌ မုယောစပါးစေ့ သုံးစေ့ အလျားအတိုင်းအတာကို ခေါ်ဝေါ်သောအတိုင်းအတာ ဖြစ်သည်။ ပေမှာ အင်္ဂလိပ်ဘာသာဖြင့်"ဖွတ်"(ခြေဖဝါး) ဖြစ်၍ ခြေဖဝါး၏အလျား အတိုင်းအတာပင် ဖြစ်သည်။ ကိုက်မှာမူ အင်္ဂလိပ်ဘုရင်တပါးဖြစ်သော ပဋမဟင်နရီသည် သူ၏နှာခေါင်းဖျားမှ လက်မထိပ်ဖျားအထိကို ကိုက်ဟူ၍ ထွင်ပေးခဲ့သည့်အတိုင်းပင် ဖြစ်သည်။

ထို့ပြင် မိုင်ဆိုသည်မှာလည်း လက်တင်ဘာသာဖြင့် မီလီ ယာပက်ဆူအမ်ဟုခေါ်သော ငါးပေမျှရှိသည့် ခြေလှမ်းကြီး ၁,၀၀၀ ကိုဆိုလိုသည်။ ဖာလုံ၊ ရော့ စသည်တို့မှာလည်း သက် ဆိုင်ရာ နီးစပ်ရာစကားလုံးများမှ ဆင်းသက်လာသည့် အ တိုင်းများသာ ဖြစ်ကြပေသည်။

ထိုအတိုင်းအတာစံနစ်တို့ဖြင့် တိုင်းတာရာတွင် အတတ် ပညာအလိုက် အသီးအသီးနှစ်သက်သလို အသုံးပြုကြ၏။ အထည်ကုန်သည်များသည် ကိုက် လက်မတို့ကိုသာသုံးစွဲ၍ ပေကို အသုံးမပြုချေ။ လက်သမားများက ပေနှင့်လက်မကို သာသုံးစွဲ၍ ကိုက်ကိုအသုံးမပြုကြချေ။ အင်ဂျင်နီယာများ နှင့်မြေတိုင်းဌာနများတွင်မူ လက်မဟူ၍ အသုံးပြုလေ့မရှိ။ ပေကိုသာလျှင် ဒသမစိတ်ကာ အသုံးပြုကြလေသည်။ အ လျားအတိုင်းအတာမှတဆင့် ပွားလာသည့်အကျယ်အဝန်း အတိုင်းအတာတို့မှာ လက်မ၊ ပေတို့ကို စတုရန်းဖွဲ့၍ တွက် ယူသော အတိုင်းအတာ ဖြစ်ကြသည်။ ထိုအတိုင်းအတာ တို့တွင် ဧကဟူသောစကားပိုလာသည်။ တဧကမှာ ၄,၈၄၀ စတုရန်းကိုက်နှင့်ညီမျှ၍ ဧကပေါင်း ၆၄၀ သည် စတုရန်း တမိုင်ဖြစ်သည်။

အင်္ဂလိပ်လူမျိုးနှင့် အမေရိကန်လူမျိုးတို့ ယခုအသုံးပြု လျက်ရှိသော အလေးချိန်စံနစ်မှာ ထရွိုင်းအလေးချိန်စံနစ် ကဲ့သို့ပင် ပေါင်ကိုအဓိကမူတည်ထားသော စံနစ်ဖြစ်သည်။ ပေါင်မှာ ရောမစကား လိုင်ဗရာမှလာသည်။ အင်္ဂလိပ်ပေါင် မှာ ဂရိန်ပေါင်း ၇၆၈၀ ရှိ၍ ထရွိုင်းပေါင်မှာ ဂရိန်ပေါင်း ၅,၇၆၀ သာ ရှိလေသည်။

အလေးချိန်အတိုင်းအတာများအပြင် ထုထည်အတိုင်း အတာခြင်တွယ်ရာ၌လည်း အင်္ဂလိပ်စံနစ်တွင် ဗူဘဲရှဲကိုအဓိ ကမူတည်ထား၏။ "ဝင်ချက်စတာဗွတ်ရှဲ"မှာ ၂၁၅၀. ၄၂ ကုဗလက်မရှိ၍ မြောက်အမေရိကတိုက်တွင် အသုံးပြုကြ၏။ ၁၈၂၆ ခုနှစ်တွင် ဗြိတိန်နိုင်ငံ၌ ပြဋ္ဌာန်းလိုက်သော အင်ပီး ရီးယဲဗွတ်ရှဲမှာမူ ၂၂၁၈. ၁၉၂ ကုဗလက်မ ရှိလေသည်။

ဖော်ပြခဲ့သည့် အလေးချိန်နှင့် အခြင်အတာတို့မှာ အင်္ဂ လိပ်စံနစ်ဖြင့် တိုင်းတာချိန်တွယ်ခြင်းများသာ ဖြစ်၏။ အင်္ဂ လိပ်စံနစ်ဖြင့် တိုင်းတာချိန်တွယ်ပုံတွင် ကိန်းတခုနှင့်တခု ဆက်သွယ်သွားသည့် ဂဏန်းတို့မှာ ရှုပ်ထွေးများပြားသဖြင့် မေ့လျော့မှားယွင်းတတ်သည့်ပြင် အရပ်ဒေသအလိုက် အ လယ်ခေတ်ကကဲ့သို့ပင် တနေရာနှင့်တနေရာ တိုင်းတာပုံ ချင်း မတူညီကြပေ။ အင်္ဂလိပ်နှင့် အမေရိကန်တို့သည် ၅,၂၈၀ ပေ၊ သို့မဟုတ် ၁,၇၆၀ ကိုက်ကို တမိုင်ဟု ခေါ်ကြ သော်လည်း ရုရှမိုင်မှာ ၁,၁၅၅ ကိုက်၊ ဣတာလျံ မိုင်မှာ ၁,၆၁၄ ကိုက်၊ ဆွီဒစ်မိုင်မှာ ၁,၇၀၀ ကိုက်၊ စကော့မိုင်မှာ ၁,၉၈၄ ကိုက် စသည်ဖြင့် အမျိုးမျိုးကွဲပြားလျက် ရှိကြလေ သည်။ အလေးချိန်တွင်လည်း အင်္ဂလိပ်တန်မှာ ၂,၂၄၀



တိကျမှန်ကန်သော စံချိန်ခွင်များ

ပေါင်ရှိ၍ အမေရိကန်တန်မှာ နှစ်မျိုးရှိကာ တမျိုးမှာပေါင် ၂,၀၀၀ ရှိပြီးလျှင် ကျန်တမျိုးမှာ ပေါင် ၂,၂၄၀ ရှိသည်။

ထိုသို့သော မညီညွတ်မှုများအတွက် တွေ့ကြုံရသော အခက်အခဲတို့ကို လွန်မြောက်နိုင်ရန် လွန်ခဲ့သည့်နှစ်ပေါင်း ၁၅၀ လောက်က ပြင်သစ်နိုင်ငံမှဘုရင်တပါးသည် တညီတညွတ်တည်း အသုံးပြုနိုင်ကြမည့် စံနစ်တခုကို တီထွင်ရန် သိပ္ပံပညာရှင်ကြီးများအား ခေါ်ယူပြီးလျှင် အဖွဲ့ငယ်တခု ဖွဲ့စည်းကာ ခန့်အပ်ခဲ့လေသည်။ ထိုအဖွဲ့ငယ်တွင် တခြားနိုင်ငံတို့မှ သိပ္ပံပညာရှင်ကြီးများအား ဖိတ်ကြားခဲ့သော်လည်း ပြင်သစ်တော်လှန်ရေးကြီး ရုတ်တရက် ဖြစ်ပွားလာသည့်အတွက် ထိုသိပ္ပံပညာရှင်များ မသွားရောက်နိုင်ကြချေ။ ပြင်သစ်သိပ္ပံပညာရှင်ကြီးတို့ချည်းသာလျှင် တတ်နိုင်သမျှ ကြိုးစားကြံစည်ခဲ့ရာ နောက်ဆုံးတွင် အောင်မြင်ခြင်းပန်းတိုင်သို့ ရောက်လာခဲ့လေသည်။ သူတို့ ပြုလုပ်အောင်မြင်ခဲ့သည့် စံနစ်မှာ တွက်ချက်ရာ၌ လွန်စွာလွယ်ကူသက်သာသည့်အပြင် အတိုင်းအတာ အလေးချိန် ထုထည်စသည့် အားလုံးသော အတိုင်းအတာအချိန်အတွယ်တို့နှင့် သက်ဆိုင်နိုင်ပေသည်။

ထိုမျှကောင်းမွန်၍ စံနစ်ကျလှသော စံနစ်မျိုးဟူ၍ ယခုထက်တိုင် ထိုစံနစ်တခုသာလျှင် ရှိခဲ့သည်။ ထိုစံနစ်မှာ မက်ထရစ်စံနစ် ဖြစ်လေသည်။ (မက်ထရစ်စံနစ် — ရှု။)

ယခုအခါ ကမ္ဘာပေါ်၌ အဓိကအားဖြင့် ဗြိတိသျှစံနစ်နှင့် မက်ထရစ်စံနစ်ဟူ၍ စံနစ်ကြီးနှစ်မျိုးသာ သုံးစွဲလျက်ရှိကြ၏။ ဗြိတိသျှစံနစ်သုံး နိုင်ငံတို့မှာ ဗြိတိသျှအင်ပါယာနှင့် မြောက်အမေရိကတိုက်တို့ဖြစ်၍ အခြားသောနိုင်ငံတို့မှာ မက်ထရစ်စံနစ်ကိုသာ သုံးစွဲကြသည်။ မက်ထရစ်စံနစ်မှာ သိပ္ပံနည်းကျသော စံနစ်ဖြစ်သည့်အလျောက် မည်သည့်လူမျိုးမဆို သိပ္ပံပညာရှင်တိုင်းသည် မက်ထရစ်စံနစ်ကိုသာ အသုံးပြုသည်။

ထိုစံနစ်နှစ်ခုအပြင် အလုပ်အကိုင် နေရာဌာနအလိုက် သုံးစွဲသော သီးခြားအလေးချိန်နှင့် အခြင်အတာများရှိသေးသည်။ လေးလက်မနှင့်ညီမျှသော "လက်တဝါး" အတိုင်းအတာကို မြင်းအရပ် တိုင်းတာရာ၌ သုံးစွဲ၏။ ရေကြောင်းဖက်တွင် ရေအနက်ကို "ဖာသမ်" ခေါ် တလံနှင့်ညီမျှသော အတိုင်းအတာနှင့် တိုင်းတာကြသည်။ ရေယာဉ်တို့၏ အသွားနှုန်းတွက်ချက်ရာ၌ ရေမိုင်နှင့် တွက်ချက်ရ၍

ရေမိုင်တမိုင်သည် ရိုးရိုးကုန်းမိုင် ၁.၁၅ မိုင်နှင့် ညီမျှသည်။ တနာရီလျှင်သွားသော ရေမိုင်အသွားနှုန်းကို နော့ဟုခေါ်လေသည်။

အထက်တွင် ဖော်ပြခဲ့သည်တို့မှာ အနောက်နိုင်ငံများမှ စတင်တီထွင် သုံးစွဲလာသော အလေးချိန်နှင့် အခြင်အတာများသာ ဖြစ်၏။

ကျွန်ုပ်တို့ မြန်မာနိုင်ငံမှာလည်း ရှေးအခါကစ၍ ယဉ်ကျေးသည့် နိုင်ငံတနိုင်ငံ ဖြစ်ခဲ့သည့်အလျောက် ရှေးကပင် ကိုယ်ပိုင်အလေးချိန်နှင့် အခြင်အတာများ ရှိခဲ့၏။ မြန်မာ့ယဉ်ကျေးမှုသည် အိန္ဒိယမှဆင်းသက်လာခဲ့သည်ဖြစ်၍ အိန္ဒိယသုံးစံနစ်တို့နှင့် များသောအားဖြင့် တူကြသည်။ အလျား အကျယ်အဝန်း အတိုင်းအတာတို့မှအပ အခြား အလေးချိန်နှင့် အခြင်အတာတို့မှာ ယခုထက်တိုင် ရှေးအတိုင်းပင် အသုံးပြုလျက် ရှိကြပေသည်။ မြန်မာသုံး အလေးချိန်နှင့် အခြင်အတာ စံနစ်များကို ပူးတွဲပါဇယားတွင် ဖော်ပြထားသည်။ (စာမျက်နှာ ၂၆၂၊ ၂၆၃ — ရှု။)

ချိန်တွယ်သည့် ကရိယာများထဲတွင် ယနေ့တိုင် အသုံးပြုလျက်ရှိသေးသော ချိန်ခွင်မှာ ရှေးအကျဆုံး အရိုးဆုံးဖြစ်၏။ ချိန်ခွင်ကို နှစ်ပေါင်း ၄,၅၀၀ လောက်ကစ၍ အီဂျစ်လူမျိုးတို့က အသုံးပြုခဲ့ကြသည်။ အစကတည်းက ချိန်ခွင်ခွက်နှစ်ခုကို ချိန်ခွင်မောင်းတံ အစွန်းနှစ်ဖက်၌ ဆွဲထားပြီးလျှင် ထိုခွက်တို့အထဲတွင် တဖက်၌ စံတင်အလေးချိန်ကို ထည့်ပြီးလျှင် တဖက်၌ ချိန်တွယ်မည့်ပစ္စည်းကိုထည့်၍ ချိန်တွယ်ရသည်။ ထိုနောက် ရောမခေတ်သို့ ရောက်သောအခါ ချိန်ခွင်မောင်းတံနှစ်ဖက်သည် တဖက်ကတို၍ တဖက်ကရှည်ပြီးလျှင် တိုသောဖက်တွင် ချိန်တွယ်မည့်ပစ္စည်းကို ထည့်လျက် ရှည်သည့်ဖက်တွင် အလေးကို ချိတ်ဆွဲထားသည်။ နှစ်ဖက်မျှသည်အထိ မောင်းတံတလျှောက် အလေးကိုရွှေ့ပေးကာ နောက်ဆုံးမျှသောအခါ၌ မောင်းတံတလျှောက်၌ မှတ်သားထားသော အမှတ်စိတ်များတွင် အလေးရောက်နေသောအမှတ်ကိုကြည့်၍ အလေးချိန်ကို မှတ်သားသည်။ ထိုချိန်ခွင်မျိုးကို "စတီးယာ့"ဟုခေါ်သည်။ စတီးယာ့၏သဘောမှာ ယခုအသုံးပြုလျက်ရှိသော ကတ္တား၏ အခြေခံမူလသဘောပင် ဖြစ်သည်။

ကတ္တားမှာ ယခုအခါတွင် ကုန်ထုပ်များချိန်တွယ်ရာ၌ အထူးအသုံးပြု၍ မောင်းတံအစီအစဉ်ဖြင့်ချိန်တွယ်ရသည်။

ချိန်ခွင်များတွင် စိန်ရွှေရတနာချိန်သော ချိန်ခွင်များနှင့် သိပ္ပံပညာသုံး ချိန်ခွင်များမှာ အကောင်းဆုံးဖြစ်၏။ ထိုချိန်ခွင်မျိုးတွင် မောင်းတံ၏အလယ်ရှိ လည်ချက်တွင် အလွန်ထက်လှသည့် "ဓားသွား"ခေါ် အသွားဖြင့် ခံထားသဖြင့် ဆံခြည်မျှင်တမျှင်မျှ၏ အလေးချိန်ကို ချိန်တွယ်၍ ရနိုင်လောက်အောင်ပင် သိမ်မွေ့လှပေသည်။ ထိုချိန်ခွင်များထားသောနေရာတွင် ခြောက်သွေ့၍ တည်ငြိမ်သောလေ ရှိနေရပြီးလျှင် အပူချိန်မှာလည်း တသမတ်တည်းရှိနေရမည်ဖြစ်၏။ ထို့ကြောင့် ထိုချိန်ခွင်များကို မှန်သေတ္တာငယ်နှင့် ထည့်ထားလေ့ရှိကြသည်။

စပရိန်ချိန်ခွင်ခေါ် လက်ဆွဲပေါင်ချိန်မျိုးမှာ ချိတ်တွင် ပစ္စည်းကို စပရိန်နှင့်တွဲလွဲချလိုက်၍ စပရိန်ဆန့်လာသည်တွင် အောက်သို့ မည်မျှဆန့်လာသည်ကို ချိန်ခွင်နောက်ခံတိုင်၌ ရေးမှတ်ထားသော စကေးပေါ်တွင် စပရိန်၌ တပ်ဆင်ထားသော လက်တံငယ်ရွေ့ရှားပုံကို ကြည့်ရှုမှတ်ယူရသည်။ ထိုချိန်ခွင်မျိုးဖြင့် ချိန်တွယ်ရာ၌ ချိန်တွယ်သည့်ပစ္စည်းအပေါ်တွင် ကမ္ဘာမြေကြီး၏ ဆွဲအားကိုသာ ဖော်ပြသဖြင့် ကမ္ဘာမြေကြီး၏မျက်နှာပြင် တနေရာနှင့်တနေရာတွင်ချိန်တွယ်ရာ၌ပစ္စည်းတခုတည်းပင်ဖြစ်စေကာမူ အလေးချိန်ချင်း တူညီမည်မဟုတ်ပေ။ ထို့ကြောင့် ထိုချိန်ခွင်မျိုးသည်မှန်ကန်သည့်အလေးချိန်ကို ပေးစွမ်းနိုင်သည်ဟု မဆိုနိုင်ချေ။ အလေးချိန် တိကျစွာရရှိသည့်အကျိုးမှာ အရာဝတ္ထုများကို ရေတွက်ရာ၌လည်း အလွန်အသုံးဝင်၏။ ပုံစံအားဖြင့် ရွှေဒင်္ဂါးတပြားစီ၏ အလေးချိန်ကို သိရှိပြီးဖြစ်သည့်အလျောက် ဘဏ်တိုက်ကြီးများတွင် ရွှေဒင်္ဂါးများကို ရေတွက်မနေတော့ပဲ ချိန်တွယ်ခြင်းဖြင့် ရွှေဒင်္ဂါးအရေအတွက်ကို သိနိုင်ကြပေသည်။

ချိန်ခွင်များအပြင် အတိုင်းအတာဖက်၌လည်း တိုင်းတာခြင်းမျိုးစုံနှင့် လိုက်လျောစွာ တိုင်းတာသည့် ကရိယာအမျိုးမျိုး ရှိသေး၏။ မော်တော်ကားထဲတွင်ပင် ကားမောင်းသူရှေ့၌ ကရိယာအများအပြား ပါရှိနေသဖြင့် ထိုကရိယာမျိုးအားလုံးကို ရေးသားရလျှင် ဆုံးနိုင်မည်ပင် မဟုတ်တော့ချေ။

### ကမ္ဘာတဝှန်းလုံး၌ ထင်ရှား၍ အသုံးများသည့် အလေးချိန်နှင့် အခြင်အတာများ

#### အလျားအတိုင်းအတာ

| | | | | |
|---|---|---|---|---|
| ၁၂ | လက်မ | = | ၁ | ပေ |
| ၃ | ပေ | = | ၁ | ကိုက် |
| ၅½ | ကိုက် (၁၆½ ပေ) | = | ၁ | ရော့ |
| ၄၀ | ရော့ | = | ၁ | ဖာလုံ |
| ၈ | ဖာလုံ (၁၇၆၀ ကိုက်) | = | ၁ | မိုင် |
| ၃ | မိုင် | = | ၁ | လိ |

#### ကုန်သည်သုံး အက်ဗာဒူပွားအလေးချိန်

| | | | | |
|---|---|---|---|---|
| ၁၆ | ဒြမ် | = | ၁ | အောင်စ |
| ၁၆ | အောင်စ | = | ၁ | ပေါင် |
| ၁၄ | ပေါင် | = | ၁ | စတုန် |
| ၂ | စတုန် | = | ၁ | ကွာတ |
| ၄ | ကွာတ | = | ၁ | ဟန်ဒြိတ် |

| | | | | |
|---|---|---|---|---|
| ၂၀ | ဟန်ဒြိတ် (၂,၂၄၀ ပေါင်) | = | ၁ | တန် |

### အကျယ်အဝန်း

| | | | | |
|---|---|---|---|---|
| ၁၄၄ | စတုရန်းလက်မ | = | ၁ | စတုရန်းပေ |
| ၉ | စတုရန်းပေ | = | ၁ | စတုရန်းကိုက် |
| ၃၀ ၁/၄ | စတုရန်းကိုက် | = | ၁ | စတုရန်းရေ့ |
| ၅၀ | စတုရန်းရေ့ | = | ၁ | ရှု |
| ၄ | ရှု | = | ၁ | ဧက (၄,၈၄၀ စတုရန်းကိုက်) |
| ၆၄၀ | ဧက | = | ၁ | စတုရန်းမိုင် |

### ထရွိုင်းအလေးချိန်

| | | | | |
|---|---|---|---|---|
| ၄ | ဂရိန် | = | ၁ | ကာရက် |
| ၆ | ကာရက် | = | ၁ | ပဲနီဝိတ် |
| ၂၀ | ပဲနီဝိတ် | = | ၁ | အောင်စ |
| ၁၂ | အောင်စ | = | ၁ | ပေါင်(၄၈၀ ဂရိန်) |

### ထုထည်

| | | | | |
|---|---|---|---|---|
| ၁၇၂၈ | ကုဗလက်မ | = | ၁ | ကုဗပေ |
| ၂၇ | ကုဗပေ | = | ၁ | ကုဗကိုက် |
| ၂၇၇·၂၇ | ကုဗလက်မ | = | ၁ | ဗြိတိသျှအင်ပီးရီးယဲ ဂါလံ |

ရေ ၁ ကုဗပေသည် ၆၂.၅ ပေါင်မျှ လေး၏။

### (အာပေါ့သီကာရီ) ဆေးဖက်ဆိုင်ရာ အလေးချိန်

| | | | | |
|---|---|---|---|---|
| ၂၀ | ဂရိန် | = | ၁ | စကရူးပဲ |
| ၃ | စကရူးပဲ | = | ၁ | ဒရမ် |
| ၈ | ဒရမ် | = | ၁ | အောင်စ |
| ၁၂ | အောင်စ | = | ၁ | ပေါင် |

### ကုန်အခြောက် ခြင်တွယ်နည်း

| | | | | |
|---|---|---|---|---|
| ၄ | ဂျီ | = | ၁ | ပိုင့် |
| ၂ | ပိုင့် | = | ၁ | ကွပ် |
| ၄ | ကွပ် | = | ၁ | ဂါလံ |
| ၂ | ဂါလံ | = | ၁ | ပက် |
| ၄ | ပက် | = | ၁ | ဗွတ်ရှဲ |
| ၈ | ဗွတ်ရှဲ | = | ၁ | ကွာတ |
| ၃၆ | ဗွတ်ရှဲ | = | ၁ | ချော့လဒြန် |

### ရေကြောင်းဆိုင်ရာ အဘိုင်းအတာ

| | | | | |
|---|---|---|---|---|
| ၆ | ပေ | = | ၁ | ဖာသမ်(လံ) |
| ၁၂၀ | ဖာသမ်(လံ) | = | ၁ | ကေပဲလင့် |
| ၈.၄၄၄ | ကေဗဲလင့် | = | | ရေမိုင် ၁ မိုင် |
| ရေမိုင် ၃ မိုင် | | = | ၁ | မရင်းလိ |
| ၁.၁၅ | စတက်ကျူမိုင် | = | | ရေမိုင် ၁ မိုင် |

မှတ်ရန်။ ။ပထဝီသုံးမိုင်မှာ အီကွေတာဥဒြဖြစ်သော ကမ္ဘာမြေပြင်ပေါ်ရှိ အတိုင်းအတာဖြစ်၏။ "နော့"ဆိုသည်မှာ တနာရီလျှင် ရေမိုင်အသွားနှုန်းကို ဆိုလိုသည်။

### အရည်ခြင်တွယ်နည်း

| | | | | |
|---|---|---|---|---|
| ၆၀ | မင်နင် | = | ၁ | ဒရမ် |
| ၈ | ဒရမ် | = | ၁ | အောင်စ |
| ၂၀ | အောင်စ | = | ၁ | ပိုင့် |
| ၂ | ပိုင့် | = | ၁ | ကွပ် |
| ၄ | ကွပ် | = | ၁ | ဂါလံ |
| ၉ | ဂါလံ | = | ၁ | ဖာကင် |
| ၄ | ဖာကင် | = | ၁ | ဗယ်ရယ် |
| ၂ | ဗယ်ရယ် | = | ၁ | ပန်ချန် |

### ထောင့်အတိုင်းအတာ

| | | | | |
|---|---|---|---|---|
| ၆၀ | စက္ကန့် | = | ၁ | မိနစ် |
| ၆၀ | မိနစ် | = | ၁ | ဒီဂရီ(°အသ်ာ) |
| ၃၆၀ | ဒီဂရီ | = | ၁ | စက်ဝန်း |
| ၁ | ရေဒီယန် | = | | ၅၇.၂၉၆ |

### စက္ကူရေတွက်နည်း

| | | | | |
|---|---|---|---|---|
| ၂၄ | ရှက် | = | ၁ | ကွိုင်ယာ |
| ၅၁၆ | ရှက် | = | ၁ | ရင်း |
| ၂ | ရင်း | = | ၁ | ဗန်းဒဲ |
| ၅ | ဗန်းဒဲ | = | ၁ | ဗေး |

### အချိန်အတိုင်းအတာ

| | | | | |
|---|---|---|---|---|
| ၆၀ | စက္ကန့် | = | ၁ | မိနစ် |
| ၆၀ | မိနစ် | = | ၁ | နာရီ |
| ၂၄ | နာရီ | = | ၁ | တရက် |
| ၇ | ရက် | = | ၁ | ပတ် |
| ၄ | ပတ် | = | ၁ | လ (စန္ဒရမာသ) |
| ပက္ခဒိန် ၁၂ လ | | = | ၁ | နှစ် |
| ၃၆၅ | ရက် | = | | ရိုးရိုး ၁ နှစ် |
| ၃၆၆ | ရက် | = | | ရက်ထပ် ၁ နှစ် |

### မြေတိုင်းဌာန အတိုင်းအတာ

| | | | | |
|---|---|---|---|---|
| ၇.၉၂ | လက်မ | = | ၁ | လင့် |
| ၂၅ | လင့် | = | ၁ | ရော့ |
| ၄ | ရော့ | = | ၁ | သံကြိုး |
| ၁၀ | သံကြိုး | = | ၁ | ဖာလုံ |
| ၈ | ဖာလုံ | = | ၁ | မိုင် |

### ပေါင်မုံ့အချိန်အတွယ်

| | | |
|---|---|---|
| ဂျုံနှံ ၁ ကွာတန် | = | ၃ ၁/၂ ပေါင် |
| ၁ ကွာတန်လှီ | = | ၄ ပေါင် ၅ အောင်စ ၈ ၁/၂ ဒြမ် |
| ၁ ပက်လို | = | ၁၇ ပေါင် ၆ အောင်စ ၂ ဒြမ် |

### အိမ်တွင်းသုံး တိုလီမိုလီ အတိုင်းအတာများ

| | | |
|---|---|---|
| လက်ဖက်ရည်ဇွန်း ၃ ဇွန်း | = | စားပွဲဇွန်း ၁ ဇွန်း |
| စားပွဲဇွန်း ၁ ဇွန်း | = | ၁/၂ ရည်အောင်စ |
| စားပွဲ ၁၆ ဇွန်း | = | ၁ ခွက် |

## အလေးချိန်နှင့် အခြင်အတာ

၁ ခွက် = ၈ အရည်အောင်စ
သကြားအမှုန့် ၁ ခွက် = ၁/၂ ပေါင်
ဂျုံနု ၁ ခွက် = ၁/၄ ပေါင်
အသားစင်းကော ၁ ခွက် = ၁/၂ ပေါင်
ဝက်ဆီကျက် ၁ ခွက် = ၁/၂ ပေါင်
ဆန် ၁ ခွက် = ၁/၈ ပေါင်
ရေဇင်ခေါ် စပျစ်သီးခြောက်
၁ ခွက် = ၆ အောင်စ
ကာရန့်ခေါ် စပျစ်သီးခြောက်
၁ ခွက် = ၆ အောင်စ
ပေါင်မုန့်အကြေခြောက်
၁ ခွက် = ၂ အောင်စ

### အရေအတွက်

၁၂ ခု = ၁ ဒါဇင်
၁၃ ခု = ပေါင်မုန့်ဖုတ်ရုံသုံး ၁ ဒါဇင်
၁၂ ဒါဇင် = ၁ ဂရွတ်
၁၂ ဂရွတ် = ၁ ဂရွတ်ကြီး
၂၀ ခု = ၁ စကိုး

### အထွေထွေ စံကိန်းများ

၁ လေထုပိအား = ၁ စတုရန်း လက်မလျှင် ၁၄.၇ ပေါင်
၁ လေထု = ရေတိုင် ၃၄ ပေ
၁ လေထု = ပြဒါးတိုင် ၇၆၀ မီလီမီတာ
ပကတိ သုညမှတ် = −၂၇၃ ဒီဂရီ (စင်တီဂရိတ်)
= −၄၅၉.၄ ဒီဂရီ (ဖာရင်ဟိုက်)
၁ ဒီဂရီစင်တီဂရိတ် = ၅/၉ (ဖာရင်ဟိုက်ဒီဂရီ−၃၂)
၁ ဒီဂရီဖာရင်ဟိုက် = ၉/၅ (စင်တီဂရိတ်ဒီဂရီ)+၃၂
၁ မြင်းအား = ၅၅၀ ပေ ပေါင်စက္ကန့်
၁ မြင်းအား = ၇၄၆ ဝပ်
= ၀.၇၄၆ ကီလိုဝပ်
၁ ကီလိုဝပ် = ၁.၃၄ မြင်းအား

### ကမ္ဘာသုံး ကာရက်

၁ ကာရက် = ၂၀၀ မီလီဂရမ် (စိန်ရွှေရတနာ အလေးချိန်)
၁ ပွိုင့်(ခဲစာလုံးအရွယ်) = ၁/၇၂ လက်မ
= ၀.၀၁၃၈၉ လက်မ
အလင်းနှစ် ၁ နှစ် = ၅.၈၈ × $၁၀^{၁၂}$ မိုင်

၁ ထွာ = ၉ လက်မ (အထည်တိုင်း)
၁ အဲ = ၄၅ လက်မ
၁ လက်ဝါး = ၄ လက်မ (မြင်းတိုင်း)
၁ ဗိုပေ = ၁၄၄ ကုဗလက်မ

### မြန်မာနိုင်ငံ ရှေးနှင့်မျက်မှောက်ခေတ်သုံး အလေးချိန်နှင့် အခြင်အတာများ

### အလျားအတိုင်းအတာ (တောင်တာနိယမ)

| | | | | |
|---|---|---|---|---|
| ၁၀ | ဆံခြည် | = | ၁ | နှမ်း |
| ၆ | နှမ်း | = | ၁ | မုယော |
| ၄ | မုယော | = | ၁ | လက်သစ် |
| ၈ | လက်သစ် | = | ၁ | မိုက် |
| ၃ | မိုက် | = | ၁ | တောင် |
| ၂ | ထွာ | = | ၁ | တောင် |
| ၄ | တောင် | = | ၁ | လံ |
| ၇ | တောင် | = | ၁ | တာ |
| ၂၀ | တာ | = | ၁ | ဥသဘ |
| ၁၀၀၀ | တာ | = | ၁ | တိုင် |
| ၁၆၀၀ | တာ | = | ၁ | ဂါဝုတ် |
| ၂၀ | ဥသဘ | = | ၁ | ကောသ |
| ၄ | ကောသ | = | ၁ | ဂါဝုတ် |
| ၄ | ဂါဝုတ် | = | ၁ | ယူဇနာ |
| ၆၄၀၀ | တာ | = | ၁ | ယူဇနာ |

မှတ်ရန်။ ။၁ တိုင်သည် ၁ မိုင် ၇ ဖာလုံ ကိုက် ၂၀၀ နှင့် ညီမျှ၍ ၁ ယူဇနာမှာ ၁၁ မိုင် ၃ ဖာလုံ ၈၄၀ ကိုက်နှင့် ညီမျှသည်။

### အလေးချိန် (ကဟာပဏနိယမ)

| | | | | |
|---|---|---|---|---|
| ၃၆ | ပရမာနုမြူ | = | ၁ | အနုမြူ |
| ၃၆ | အနုမြူ | = | ၁ | ကညစ်ချေး |
| ၇ | ကညစ်ချေး | = | ၁ | သန်းဥကွောင်း |
| ၇ | သန်းဥကွောင်း | = | ၁ | မုန်ညင်း |
| ၃ | မုန်ညင်း | = | ၁ | နှမ်း |
| ၄ | နှမ်း | = | ၁ | ဆန်စေ့ |
| ၄ | ဆန်စေ့ | = | ၁ | ချင်ရွေး |
| ၂ | ချင်ရွေး | = | ၁ | ရွေးကြီး |
| ၄ | ရွေးကြီး | = | ၁ | ပဲ |
| ၂ | ပဲ | = | ၁ | မူး |
| ၅ | ပဲ | = | ၁ | မတ် |
| ၂ | မတ် | = | | ငါးမူး |
| ငါးမူး ၂ | | = | ၁ | ကျပ် |
| ကျပ် ၅ | | = | ၁ | ပိုလ် |
| ပိုလ် ၂၀ | | = | ၁ | ပိဿာ |

| | | | | |
|---|---|---|---|---|
| ၄ | ပိဿာ | = | ၁ | တုလာ |
| ၄ | တုလာ | = | | ၁ ပုံ |
| ၂ | မူး | = | ၁ | မတ်၊ |
| ၁၀ | မူး | = | ၁ | ကျပ် |
| ၅ | ကျပ် | = | ၁ | ပိုလ် |
| ၁၀၀ | ကျပ်(=၂၀ပိုလ်) | = | ၁ | ပိဿာ |
| ၁၀ | ပိဿာ | = | | ခွက်တဆယ် |
| ၄ | ပိဿာ | = | ၁ | တုလာ |
| ၄ | တုလာ | = | ၁ | ပုံ၊ သို့မဟုတ် ၁ စု |

ကုန်အခြောက်ခြင်တွယ်နည်း (တောင်းတင်းနိယမ)

| | | | | |
|---|---|---|---|---|
| အစေ့ ၂၀၀ | | = | ၁ | လက်ဆွန်း |
| ၂ | လက်ဆွန်း | = | ၁ | လက်ဆုပ် |
| ၃ | လက်ဆုပ် | = | ၁ | လက်ဖက် |
| ၂ | လက်ဖက် | = | ၁ | လက်ခုပ် |
| ၂ | လက်ခုပ် | = | ၁ | ကွမ်းစား |
| ၅ | ကွမ်းစား | = | ၁ | ပြည် |
| ၂ | လမူ | = | ၁ | လမြက် |
| ၂ | လမြက် | = | ၁ | လမယ် |
| ၂ | လမယ် | = | ၁ | စလယ် |
| ၂ | စလယ် | = | ၁ | ခွက် |
| ၂ | ခွက် | = | ၁ | ပြည် |
| ၂ | ပြည် | = | ၁ | စရွတ် |
| ၂ | စရွတ်(၄ ပြည်) | = | ၁ | စိတ် |
| ၂ | စိတ် | = | ၁ | ခွဲ |
| ၂ | ခွဲ | = | ၁ | တင်း |
| ၃ | တင်း | = | ၁ | အိတ် |
| ၄ | တင်း | = | ၁ | တို |
| ၂၀ | တို | = | ၁ | ပုံ(လှည်းနှစ်စီးတိုက်) |
| စပါး ၂၅ တင်း | | = | | လှည်းတစီးတိုက်( ၁ စီး) |

အချိန်အတိုင်းအတာ (သံဝစ္ဆနိယမ)

| | | | | |
|---|---|---|---|---|
| လက်ပစ် ၁၀ | | = | ၁ | လယ |
| ၄ | လယ | = | ၁ | ခဏ |
| ၁၂ | ခဏ | = | ၁ | ခရာ |
| ၁၀ | ခရာ | = | ၁ | ပြန် |
| ၆ | ပြန် | = | ၁ | ဗီဇနာ |
| ၁၅ | ဗီဇနာ | = | ၁ | ပါဒ် |
| ၄ | ပါဒ် | = | ၁ | နာရီ(မြန်မာနာရီ) |
| ၆၀ | နာရီ | = | ၁ | ရက်(တနေ့နှင့်တညဥ့်) |
| ၁၅ | ရက် | = | ၁ | ပက္ခ |
| ၂ | ပက္ခ | = | ၁ | လ |
| ၁၂ | လ | = | ၁ | နှစ် |
| ၁၃ | လ | = | | ဝါထပ် ၁ နှစ် |

**အလိုအလျောက်ကရိယာ။** ။"ပြာသာဒ် တန်တိုင်းခနုစ်ဆယ်အတွင်းဝယ် အသက်ရှင်သော လူယောကျ်ားများကဲ့သို့ သစ်သားဖြင့်ပြီးသည့် ယန္တရားစက်ရုပ်ဘို့ ရှိကြ၏။ ထိုယန္တရား စက်ရုပ်တို့သည် ကြောက်မက်ဖွယ်သောလက်နက်တို့ကိုစွဲကိုင်လျက် လူကဲ့သို့ပြေးလွှားကာ စောင့်ကြပ်နေကြ၏"ဟူ၍ အံ့ဩဖွယ်ရှေးယန္တရားစက်ရုပ်ဘို့၏အကြောင်းကို ရှေးစာပေများ၌သာ ဖတ်ဖူးကြသည်။ ယန္တရား စက်ရုပ်ကဲ့သို့သော ယခုခေတ် အလိုအလျောက် ကရိယာများသည် လူကဲ့သို့ လူ့အလုပ်များကို လုပ်ကိုင်လျက် ရှိသည်ကို ကျွန်ုပ်တို့ယခု မျက်ဝါးထင်ထင် တွေ့မြင်ကြရလေပြီ။ခေတ်သစ် စက်မှုအလုပ်ခုံတခုဖြစ်သော မှုံ့ဖိုတခုသို့ဝင်၍ ကြည့်သည်ဆိုပါစို့။ ထိုမှုံ့ဖိုတွင် မုံ့လုပ်ရန်ပစ္စည်းအမျိုးမျိုး ထည့်ထားသည့် အိုးများစည်များကို တွေ့ရပေမည်။ ခလုတ်ကိုနှိပ်လိုက်ရုံမျှဖြင့် အိုးများ၊ စည်များမှ အမယ်များကိုအလိုအလျောက် လူကဲ့သို့ တိကျစွာချိန်တွယ်၍ ဆော့စပ်ပြီးလျှင် အချယ်တော် ပြော်တောက်လျက် ဖိုထဲသို့ သွင်းလိုက်လေသည်။ ဖိုတွင်ကျက်အောင်ဖုတ်ပြီးလျှင် အပြင်သို့ ထုတ်၍ မမှားအောင် ရေတွက်ကာ စက္ကူဖြင့် သေသပ်စွာ ထုတ်လျက် လိုအပ်သောအရပ်သို့ပို့ရန် အရံသင့်စီထား၏။ဤလုပ်စဥ်များသည် အလိုအလျောက်ကရိယာဖြင့် တဆက်တည်း လုပ်ကိုင်သွား၍ လူတယောက်သာ စောင့်ကြည့်နေရသည်။ အလိုအလျောက် စက်များကြောင့် လက်လုပ်လက်စားသမားများ အမြောက်အမြား လျော့နည်းသွားသည့်ပြင် ထုတ်ကုန်များမှာလည်း ရှေးကကဲ့သို့မဟုတ်ပဲ တပုံစံသည်းထွက်လာသည့်အလျောက် ယင်းစက်များကို တနေ့ထက်တနေ့ တိုးတက်အသုံးပြုလာကြသည်။

လက်လုပ်သင်ဓုန်းဓားများသည် အချိုးအစား မကျသည့်ပြင် တလက်တလက် အပြီးသတ်လုပ်ကိုင်ရာမှာလည်း အချိန်အတော်ကြာခဲ့၏။ တလက်ထည်းမှထွက်သောသင်ဓုန်းဓားများပင် တခုနှင့်တခု မတူချေ။ ယခု အခါတွင် သတ္တုတချောင်းကို တခုသောအလိုအလျောက်စက်အစွန်မှ ထည့်ပေးလိုက်သောအခါ စက်၏အခြားတဖက်အစွန်မှ သင်ဓုန်းဓားဖြစ်ပြီးသား ဈေးတွင်တင်ရောင်းရန် အရံသင့်ထွက်လာ၏။ လူ့လက်နှင့်မထိပဲ ဓားများသည်ဖောက်ပြီးသား၊ သွေးပြီးသား၊ ဆေးပြီးသား၊ ထုပ်ပြီးသားအရံသင့်ဖြစ်နေလေသည်။

အတွေ့ရအများဆုံး အလိုအလျောက် ကရိယာများမှာ စက်သဘောစစ်စစ် မှုအရပေါ်တွင် ပြုလုပ်ထားသောစက်များဖြစ်သည်။ လူထက် သေချာစေ့စပ်သည့် စက်၏အချက်အချာနေရာများမှာ ဂီယာများ၊ မောင်းတံများနှင့် ရွှေပြောင်းဖုများ ဖြစ်ကြသည်။ မော်တော်ကား၊ အင်ဂျင်စက်ရှိ အဆို့ရှင်များ ပွင့်ခြင်း၊ ပိတ်ခြင်းတို့သည်

ရင်း၊ မီးပွင့်များပွင့်ခြင်းသည်ရင်း အလွန်အချိန်မှန်တိကျစွာဖြင့် ပေါ်လာသကဲ့သို့ စက်၏အစိတ်အပိုင်းများ တိကျမှန်ကန်စွာ လှုပ်ရှားစေရန် ထိုကိရိယာ၊ မောင်းတံနှင့် ရွှေ့ပြောင်းဖုများက မိမိတို့၏ဝတ်တရားများကို တိကျမှန်ကန်စွာ ဆောင်ရွက်ကြရပေသည်။ ပိုမိုရှုပ်ထွေး၍ သိမ်မွေ့သော အလိုအလျောက်ကရိယာများကိုမူ လျှပ်စစ်သံလိုက်၊ အလင်းလျှပ်စစ်အိမ်စသော အလွန်သေးငယ်သည့်လျှပ်စစ်ဓာတ်စီးကြောင်း၊ အသံနှင့် အလင်းတန်းများကိုပင် တုန့်ပြန်ကာ လှုပ်ရှားကြသည့် လျှပ်စစ်ကရိယာများဖြင့် ထိန်းသိမ်းလုပ်ကိုင်ကြလေသည်။

ကရိယာအမျိုးမျိုး ပေါ်ထွက်လာသည်နှင့်အမျှ အလိုအလျောက်စက်များသည်လည်း အလွန်အသုံးဝင်လာကြသည်။ ပုံစံအားဖြင့် စက်တခုသည် လိမ်မော်သီး အစိမ်းနှင့်အမှည့်ကို ရွေးချယ်၏။ ကွဲနေသော၊ သို့မဟုတ် ပုပ်နေသော လိမ်မော်သီးနှင့် တွေ့သည့်အခါ စက်သည် မရွေးချယ်တော့ပဲ အသံမြည်လာကာ အလိုအလျောက် ရပ်သွားတော့၏။ ထိုအခါ စောင့်ကြည့်နေသောသူက ထိုလိမ်မော်သီးအပုပ်ကို ထုတ်ယူလိုက်သောအခါမှ စက်လည်ပြန်သည်။ ရွေးချယ်ထားသော လိမ်မော်သီး အမှည့်များကို သစ်သားပြားများနှင့်တကွအခြားစက်တခုသို့ထည့်ပေးလိုက်ပြန်ရာ လိမ်မော်သီးများသည် သစ်သားသေတ္တာတွင် ထည့်ပြီးသား၊ တံဆိပ်ရိုက်ပြီးသား အနေဖြင့် ထွက်လာလေသည်။ လျှပ်စစ်ဓာတ်မီးလုံးများ ထုတ်လုပ်ရာ၌ တခုတည်းသောစက်ထဲသို့ ဖန်သီးများ၊ အဉ္စုရှင်များ၊ အတံများ၊ ပလက်တီနမ်နန်းသေးကြိုးများ၊ ဝိုင်ယာကြိုးများနှင့် ထုတ်သည့်ပစ္စည်းများကို ထည့်ပေးလိုက်ရာတွင် ဓာတ်မီးလုံးများကို လေထုတ်ပြီးသား၊ တံဆိပ်ရိုက်ပြီးသား၊စမ်းသပ်ပြီးသား၊ ထုတ်ပြီးသား၊ သင်္ဘောတင်ရန် အစစလုပ်ပြီးသား အရုံသင့်ထွက်လာလေသည်။

ဂျိုင်ရိုစကုပ်သည် သင်္ဘောကြီးများနှင့် လေယာဉ်များကိုထိန်းသိမ်းရာ၌ အလွန်အသုံးဝင်သော အလိုအလျောက်ကရိယာဖြစ်သည်။ မြို့ကြီးများရှိ လမ်းဆုံများတွင် တပ်ဆင်ထားသော လမ်းသွားလမ်းလာ အချက်ပြ မီးရောင်စုံများသည် ယဉ်အမျိုးမျိုးတို့၏ သွားရေး လာရေး မရှုပ်ထွေးရအောင် မည်မျှ ကူညီထိန်းသိမ်းသည်ကို ကျွန်ုပ်တို့မျက်မြင်ဖြစ်၏။ နောက်ဆုံးပေါ် ယာဉ်အသွား အလာ ထိန်းသိမ်းသည့် အလိုအလျောက် အချက်ပြ မီးများသည် အံ့ဩစရာပင်ဖြစ်သည်။ ရှေးက ရုံးများ၊ အလုပ်ရုံ စက်ရုံများတွင် စာရင်းအင်းပြုလုပ်ရာ၌ စာရေးများစွာ ထား၍ ဂဏန်းများကိုပေါင်းရ၏။ယခုအခါတွင် အလိုအလျောက် ကရိယာဖြစ်သည့် ဂဏန်းပေါင်းစက်များပေါ်လာရာ ထိုစက်များဖြင့် စာရင်းအင်းများကို အချိန်အနည်းငယ်အတွင်း လူအနည်းငယ်မျှဖြင့် ပြီးစီးသွားနိုင်သည်။ စာတိုက်ကြီးများတွင် ထောင်သောင်းများစွာသော စာများကို ရွေးခြင်း၊ ရက်စွဲရိုက်ခြင်းများကို ယခုအခါ အလိုအလျောက်ကရိယာများဖြင့် လုပ်ကိုင်နိုင်လျက်ရှိရာ အချိန်ကြန့်ကြာခြင်း၊ ပင်ပန်းခြင်းတို့မှ ကင်းရှင်းသွားလေသည်။ မြို့ကြီးများရှိ သန်ကောင်စာရင်းဌာနများတွင် သန်ကောင်စာရင်းဆိုင်ရာအချက်အလက်များကိုစုဆောင်းခြင်း၊ ရေးမှတ်ခြင်းစသည်တို့ပြုလုပ်ရာ၌ အလိုအလျောက်ကရိယာကို ယခုအခါအသုံးပြုကြသည်။ အိမ်များ၊ ဇာတ်ရုံများနှင့် အစိုးရရုံးများတွင် အပူအအေးမျှတအောင် အလိုအလျောက် ထိန်းသိမ်းထားရုံမက စိုထိုင်းမှုကိုလည်း အလိုအလျောက်ကရိယာဖြင့် ထိန်းသိမ်းထားသည်။ ယခုအခါ ခေတ်စား၍ အသုံးပြုလျက်ရှိသော အလိုအလျောက်စကားပြောကြေးနန်း (တယ်လီဖုန်း) များသည် မိမိအလိုရှိသော နံပတ်ကိုလှည့်ပေးရုံဖြင့် စကားပြောနိုင်သည်သာမက ပြောသည့်အချိန်ကိုပင် သိနိုင်လေသည်။ ထို့ပြင် လမ်းမကြီးများပေါ်တွင်ထားသည့် လူအများသုံး အလိုအလျောက်စကားပြောကြေးနန်းများ၌လည်း ၂၅ ပြားစေ့ထည့်ပေးလိုက်ရုံဖြင့် စကားပြောနိုင်သည်။ဤသို့စကားပြောနိုင်ခြင်းကား အလိုအလျောက်ကရိယာတို့၏ အစွမ်းကြောင့်ပေတည်း။

အလိုအလျောက်ကရိယာများသည် မတော်တဆဖြစ်မှုများ ကာကွယ်ရာ၌ ပို၍ပင်ထိရောက်သေးသည်။ မြေအောက် ဓာတ်ရထားမောင်းသမားသည် မောင်းနေရင်း မူးမေ့သွားရာ သူ၏လက်သည် "လူသေလက်ကိုင်"ဟု ခေါ်သောလက်ကိုင်မှ လွတ်ကျသွား၏။ လွတ်ကျသွားသည်နှင့် တပြိုင်နက် ဓာတ်အားပြတ်သွားကာ "ဗရိတ်" သို့ ရောက်သွားသဖြင့် ဓာတ်ရထားမှာ အလိုအလျောက်ရပ်သွားတော့၏။ သို့ဖြင့် ဓာတ်ရထားတိုက်မှုဘေးအန္တရာယ်မှ လွတ်မြောက်သွားသဖြင့် ရာပေါင်းများစွာသော ဓာတ်ရထားစီး ခရီးသည်တို့၏ အသက် ချမ်းသာရာရရှိသွားလေသည်။ မြေအောက်ဓာတ်ရထား အထူးသဖြင့် ဗြိတိသျှလျှပ်စစ်ဓာတ်ရထားနှင့် မြေအောက်ဓာတ်ရထားများတွင် အလိုအလျောက်အချက်ပြမှုများကို အမြောက်အမြား အသုံးပြုလာကြသည်။ မြန်မာနိုင်ငံမီးရထားဌာန၌လည်း အလိုအလျောက်အချက်ပြမီးများကို စတင်အသုံးပြုလျက်ရှိသည်။ ဤဓာတ်ရထား အလိုအလျောက် အချက်ပြသည် အချိန်နှင့်လုပ်အား ချွေတာနိုင်သည်သာမက ကုန်ကျစရိတ်သက်သာ၍ ခရီးသည်တို့၏ လုံခြုံရေးလည်း စိတ်ချရလေသည်။

အံ့ဩဖွယ်ကောင်းသည့်ကရိယာမှာ "အလင်းလျှပ်စစ်အိမ်" (ဖိုတိုအီလက်တြစ်ဆဲ)ဖြစ်သည်။ ယင်းကရိယာမျိုး

တွင် အလင်းတန်းတခုကို တဦးတယောက် ဖြတ်သွားမိလျှင် တံခါးသည် အလိုအလျောက်ပွင့်သွား၏။ လေပြင်းမုန်တိုင်းကျ၍ကောင်းကင်တွင် မိုးသားများတက်ပြီးမှောင်ကျသွားသည့်အခါ အလုပ်ရုံများရှိ လျှပ်စစ်မီးများသည် အလိုအလျောက်လင်းလာ၏။ မီးပြဗော်ယာနှင့်မီးပြတိုက် မီးအိမ်များသည် မှောင်လာသည့်အခါဖြစ်စေ၊ မှုံပိတ်နေသည့်အခါဖြစ်စေ အလိုအလျောက်မီးလင်းလာ၏။ သူခိုးလာလျှင် အသံမြည်သော အလိုအလျောက်ကရိယာများလည်းရှိသည်။ လျှပ်စစ်သံလိုက်နှင့် လျှပ်စစ်မိုတာများဖြင့် စီမံပြုလုပ်ထားသော လူစက်ရုပ်သည် လူအမိန့်ပေးသည့် အတိုင်းထနိုင်၊ထိုင်နိုင်၊လက်ဟန်၊ခြေဟန်ဖြင့်ပြုလုပ်ပြသည့် ပြင်စကားပင်ပြောနိုင်သည်။ (အလင်းလျှပ်စစ်အိမ်—ရှု။)

အလိုအလျောက် စက်ကရိယာအမြောက်အမြားပေါ်ထွက်လာ၍ အသုံးများလာမှုကြောင့် စက်မှုလက်မှု လုပ်ငန်းများတွင် လက်လုပ်လက်သားများ အတော် လျော့နည်းသွားသဖြင့် အလုပ်လက်မဲ့ပြဿနာ ပေါ်ပေါက်လာသည်။သို့ရာတွင် အလိုအလျောက် ကရိယာများပေါ်ထွက်လာသည်နှင့်အမျှ စက်မှု လုပ်ငန်းများလည်း အမြောက်အမြားထွက်ပေါ်လာရာ အလုပ်လက်မဲ့ပြဿနာကိုဖြေရှင်းသွားနိုင်မည် ဖြစ်ပေသည်။

**အလင်း။** ။အာရုံငါးပါးတွင် မြင်မှုအာရုံသည် အရေးအကြီးဆုံးဖြစ်သည်ဟု သိပ္ပံပညာရှင်များက ယူဆကြသည်။ ထိုမြင်မှုအာရုံသည်လည်း အလင်းရောင်ရှိမှ ဖြစ်နိုင်သည်။ အလင်းမရှိက ကျွန်ုပ်တို့သည် မည်သည့်ကိစ္စကိုမျှ ဆောင်ရွက်ခြင်းငှာ မတတ်နိုင်ပေ။ သို့ဖြစ်ရကား အလင်းသည် မည်မျှအရေးပါသည်ကို သိနိုင်ပေသည်။

အလင်းသည် တနေရာမှတနေရာသို့ အလွန်လျင်မြန်စွာ သွားရောက်တတ်သောသတ္တိရှိသဖြင့် အလင်း၏မြန်နှုန်းကို အချိန်မှတ်နာရီဖြင့်ပင် တိုင်းတာရန် မဖြစ်နိုင်ချေ။ အလင်းသည် အာကာသကိုဖြတ်သွားရာ၌ အချိန်ယူ၍သွားကြောင်းကို ပဌမဦးဆုံးထုတ်ဖော်ပြောဆိုသူမှာ ဒိန်းလူမျိုးနက္ခတ်ဆရာ အိုလီ ရူးမား(၁၆၄၄ – ၁၇၁၀)ဖြစ်သည်။ သူသည် ယင်းအကြောင်းကို ဂျူပီတာ (ကြာသပတေးဂြိုဟ်)၏ အရံဂြိုဟ်များ မှန်မှန်လှည့်ပတ်သွားလာရာ၌ အချိန်မညီညွတ်မှုများကို လေ့လာရာမှ တွေ့ရှိလာခြင်းဖြစ်သည်။ ဤအချိန်မညီညွတ်မှုများမှ အလင်းသည် အာကာသကိုဖြတ်၍ ကမ္ဘာမြေပေါ်သို့ လာလျက် ရှိကြောင်းကို တွေ့ရှိရလေသည်။

နက္ခတ်ဆရာ ရူးမား ထုတ်ဖော်ပြောဆိုပြီးသည့်နောက်တွင်လည်း အလင်း၏အသွားနှုန်းကို အမျိုးမျိုးခန့်မှန်းပြောဆိုခဲ့ကြသည်။ သို့သော် ၁၉ ရာစုနှစ် အလယ်ပိုင်းသို့ရောက်မှသာလျှင် မြေပြင်ပေါ်တွင် အလင်း၏အမြန်ကို တိကျစွာ တိုင်းတာနိုင်လာခဲ့ကြသည်။ ယင်းတို့အနက် ပြင်သစ်ပါမောက္ခ အာမန် ဖီးဇိုး (၁၈၁၉–၁၈၉၆) ဆိုသူသည် ပဌမဆုံးအောင်မြင်စွာ တိုင်းတာနိုင်ခဲ့သူဖြစ်သည်။ သူသည် မိမိ၏ မွေးဖွားရာဇာတိမြို့ ဖြစ်သော ပါရစ်မြို့၌ တနေရာနှင့်တနေရာ ငါးမိုင်ကျော်ဝေးသော မျှော်စင်မြင့်နှစ်ခုကိုရွေးချယ်ပြီးလျှင် ပဌမမျှော်စင်တွင် ဒုတိယမျှော်စင်ဖက်သို့ အလင်းရောင် ထိုးနေသော မှန်အိမ်တခုကိုထား၍ ဒုတိယ မျှော်စင်ပေါ်၌ကား ကြည့်မှန်တခုကို ထားသည်။ ကြည့်မှန်သည် မှန်အိမ်မှရသော အလင်းရောင်ကို ပဌမမျှော်စင်သို့ တိုက်ရိုက် ပြန်ထွက်သွားနိုင်စေသည်။ ခွေးသွားစိတ် ဘီးတခုကို မှန်အိမ်မှ ထွက်သော အလင်းတန်းလမ်းတွင် ထားရှိသည်။ ထားရှိပုံမှာ ဘီးကိုရပ်ထားသည့်အခါ အလင်းတန်းသည် ခွေးသွားစိတ်နှစ်ခုကြားမှ ထိုးထွက် သွား၍ ထိုခွေးသွားစိတ် နှစ်ခု ကြားသို့ပင် ကြည့်မှန်မှအလင်းရောင် ပြန်ဝင်လာအောင် ကျနစွာ စီမံပြုလုပ်ထားသည်။ ဘီးကို လျင်မြန်စွာ လှည့်ပေးလိုက်သည့်အခါ ဒုတိယမျှော်စင်ရှိကြည့်မှန်မှ ပြန်ထွက်လာသော အလင်းသည် ခွေးသွားစိတ် နှစ်ခုကြားသို့ ဝင်မလာပဲ ထိုကြားနေရာသို့ ခွေးသွားစိတ်တခုရွှေ့လာသည်ကို တွေ့ရသည်။ သို့ဖြင့် ကြည့်မှန်မှ ပြန်ထွက်လာသော အလင်းကို မတွေ့နိုင်တော့ပေ။

ပဌမမျှော်စင်နှင့် ဒုတိယမျှော်စင်အသွားအပြန်ခရီးကို အလင်းသွားသည့်အချိန်သည် ကြားနေရာသို့ ခွေးသွားစိတ်အသစ်တခု ရွှေ့လာသည့်အချိန်ပင် ဖြစ်သည်။ ဘီးကို နှစ်ဆလှည့်ပေးလိုက်သည့်အခါ ဖီးဇိုး သည် ဒုတိယမျှော်စင်ရှိကြည့်မှန်မှ ပြန်ထွက်လာသောအလင်းကို ကြားနေရာတွင် တဖန်မြင်နိုင်ပြန်သည်။ အဘယ်ကြောင့်ဆိုသော် ဒုတိယ ခွေးသွားစိတ်ကြားနေရာတခုသည် အလင်းမြင်နိုင်သော ပဌမကြားနေရာသို့ ရွှေ့လာသောကြောင့်ဖြစ်သည်။ စပီဒိုမီတာ ခေါ် အမြန်တိုင်းကရိယာကို ကြည့်ခြင်းအားဖြင့် ဘီးလည်သည့် အပတ်ပေါင်းကို သိနိုင်ပြီးလျှင် မျှော်စင်နှစ်ခုကြား အသွားအပြန်ခရီးကို အလင်းသွားသည့်အချိန်ကိုလည်း တွက်ချက်ယူနိုင်သည်။

ဤသို့တွက်ချက်ယူခြင်းအားဖြင့် အလင်းသည် အလွန်လျင်မြန်သောအဟုန်ဖြင့် တစက္ကန့်လျှင် မိုင်ပေါင်း ၁၈၆,၀၀၀ ခန့်သွားကြောင်း တွေ့ရှိရသည်။ စင်စစ်အလင်းသည် ကမ္ဘာတွင် အမြန်ဆုံးသွားသောပစ္စည်းတခု ဖြစ်သည်။ သို့ဖြစ်ငြားသော်လည်း ကောင်းကင် တန်ဆာများသည် တခုနှင့်တခု အလွန့်အလွန် ဝေးကွာကြသောကြောင့် အလင်းသည် ယင်းတို့အကြားတွင် နှစ်နှင့်ချီ၍ သွားရလေသည်။ နေမှအလင်းသည် မိုင်ပေါင်း ၉၃ သန်း

ဝေးသော ကမ္ဘာသို့ရောက်အောင် ရှစ်မိနစ်ခန့်လာရ၍ အနီးဆုံးတည်မြဲကြယ်မှဆိုလျှင် လေးနှစ်ကျော်ခန့်မျှ လာရသည်။ ကောင်းကင်တွင် ကျွန်ုပ်တို့ အလင်းရရှိနေသော ကြယ်ပေါင်းအမြောက်အမြားရှိကြ၏။ ထိုကြယ်များမှ အလင်းသည် ကမ္ဘာသို့ နှစ်ထောင်ပေါင်းများစွာ ကြာအောင် လာကြရပေမည်။ ထိုအတောအတွင်း ဘာမဆိုဖြစ်နိုင်သည်ဖြစ်ရာ အချို့ကြယ်များသည် ကျွန်ုပ်တို့ထံသို့ ယင်း၏ အလင်းရောက်ချိန်တွင် ရှိချင်မှ ရှိပေတော့မည်။ နက္ခတ်ဆရာများသည် ကြယ်များ၏ အလွန်ကြီးမားသည့် အကွာအဝေးကို အလင်းနှစ်ဖြင့် တိုင်းတာယူကြခြင်းဖြင့် နီးကပ်စွာခန့်မှန်းနိုင်ကြောင်း တွေ့ရလေသည်။

အလင်းသည် အလွန်လျှင်မြန်စွာသွားသည့်ပြင် ကြည့်မှန်များဖြင့်လည်းအလင်းပြန်စေနိုင်သေးသည်။စင်စစ်အရာဝတ္ထုအားလုံးတို့သည် အနည်းအကျဉ်း အလင်းပြန်စေနိုင်ကြလေသည်။ အဘယ်ကြောင့်ဆိုသော် အလင်းပြန်မှုကြောင့်ပင် ထိုအရာဝတ္ထုများ၏ အရွယ်ပမာဏ၊ ပုံပန်းသဏ္ဌာန်နှင့် အရောင်အဆင်းကို ကျွန်ုပ်တို့သိနိုင်ကြသည်။ အလင်းပြန်ပုံသည် ဘောလုံးတလုံး နံရံမှပြန်ကန်ထွက်လာပုံနှင့် အလွန်တူသည်။ သိပ္ပံနိယမအရ ရိုက်လင်းတန်းတခုသည် ပြင်ညီကြည့်မှန်တချပ်ပေါ်သို့ ကျရောက်သောအခါ ရိုက်လင်းတန်း၊ မှန်မျဉ်းနှင့်ပြန်လင်းတန်းတို့သည် တခုတည်းသောပြင်ညီတွင်တည်ရှိနေကြပြီးလျှင် ရိုက်ထောင့်နှင့် ပြန်ထောင့်တို့သည် ညီမျှကြသည်။ဆိုလိုသည်မှာ လင်းတန်းတခုသည် ပြောင်လက်သော မျက်နှာပြင်ညီသို့ဝင်ရာ၌ ဝင်သည့်ထောင့်အတိုင်း ပြန်ထွက်သွားသည်ဟူ၏။ အရောင်ရှိသောအရာဝတ္ထုတခုသည် ဆွတ်ဆွတ်ဖြူသောအရာဝတ္ထုကဲ့သို့ အလင်းအားလုံးကို အလင်းမပြန်နိုင်ပဲ အချို့အရောင်ကို စုတ်ယူသွားလိုက်သည်။ ပုံစံပြရလျှင် အဖြူအလင်းရောင်ထိုးထားသော အပြာရောင်အဝတ်စတစသည် စပက်ထရမ် (ရောင်စဉ်)၏ အစိမ်းနှင့်အနီပိုင်းကို စုတ်ယူထားလိုက်ပြီးလျှင် ကျန်သောအရောင်သာ ပြန်ထွက်လာသဖြင့် ကြည့်သူအတွက် အပြာရောင်သာ တွေ့ရသည်။

မှန်၊ သို့မဟုတ် ရေကဲ့သို့သော ဝတ္ထုပစ္စည်းများသည် လင်းတန်းများကို ဟန့်တားမှုမရှိစေပဲ တောက်လျှောက်ဖြတ်သန်းသွားစေသည်။ ဆိုလိုသည်မှာ လင်းတန်းများသည် မှန်၊ သို့မဟုတ် ရေကဲ့သို့သော ပစ္စည်းများတွင် တောက်လျှောက်ဖြတ်သန်းသွားနိုင်သည်။ ယင်းကဲ့သို့သော ပစ္စည်းများကို အလင်းပေါက်ပစ္စည်းဟုခေါ်သည်။အလင်းသည် ယင်းတို့တွင် အာကာသကိုဖြတ်သန်းသွားသကဲ့သို့ ဖြတ်သန်းသွားနိုင်သလောက် ရှိသည်။ စင်စစ်သော်ကား အလင်းသည် အလင်းပေါက်ပစ္စည်းများကို ဖြတ်သန်းသွားရာ၌ အာကာသကိုဖြတ်သန်းသွားသည်ထက် အနည်းငယ်နှေးသည်။ယင်းနှေးမှုကြောင့် လင်းတန်းများသည် အလင်းပေါက်ကြားခံပစ္စည်းများတွင် ယိုင်သွားတတ်လေသည်။ ဤကဲ့သို့ အလင်းကောက်သွားခြင်း၊ သို့မဟုတ် ယိုင်သွားခြင်းကို အလင်းယိုင်ခြင်းဟု ခေါ်သည်။

တုတ်ဖြောင့်ဖြောင့်တချောင်းကို ရေတွင်ထိုးသွင်းလိုက်သည့်အခါ တုတ်သည် ရေမျက်နှာပြင်တွင် ယိုင်သွားဘိသကဲ့သို့ ယင်ရ၏။ အဘယ်ကြောင့်ဆိုသော် တုတ်မှပြန်ထွက်လာသော အလင်းသည် ရေထဲမှ လေထဲသို့ ထွက်လာရာ၌ ယိုင်သွားသောကြောင့်ဖြစ်သည်။ မှန်သည်လည်း အလင်းကိုယိုင်စေသည်။ သို့သော်လည်း ပြတင်းပေါက်မှန်တွင် ထိုယိုင်မှုကို မတွေ့ရချေ။ အဘယ်ကြောင့်ဆိုသော် မှန်၏ အတွင်းအပြင် မျဉ်းပြိုင်မျက်နှာပြင်နှစ်ခုသည် အလင်းကို ဆန့်ကျင်ဖက်များသို့ ယိုင်သွားစေသောကြောင့်ဖြစ်သည်။ ဆိုလိုသည်မှာ ဒုတိယအလင်းယိုင်ခြင်းသည် ပဌမအလင်းယိုင်ခြင်းကို ဖျက်လိုက်ခြင်းပင်ဖြစ်သည်။ ပရစ်ဇမ် (သုံးမြောင့်တုံး) နှင့် မှန်ဘီလူးများ၏ မျက်နှာပြင်များသည် ကား မျဉ်းပြိုင်မဖြစ်သည့်ပြင် အစဉ်လည်းပြားနေသည် မဟုတ်သောကြောင့် အလင်းယိုင်မှုသည် ယင်းတို့တွင် အလွန်ထင်ရှား၏။ ထိုကြောင့် မိုက္ကရိုစကုပ် (အဏုကြည့်မှန်ပြောင်း)၊ တယ်လီစကုပ်(အဝေးကြည့်မှန်ပြောင်း)၊ မီးပြတိုက်မှန်အိမ်နှင့် ပရစ်ဇမ်စပက်ထရိုစကုပ်(ရောင်စဉ်ကြည့်ကရိယာ)များတွင် ယင်းတို့ကိုထည့်၍ အသုံးပြုကြသည်။

အလင်းပြန်ခြင်းနှင့် အလင်းယိုင်ခြင်းများကို တဖက်ရှိပုံတွင် လက်တွေ့ဖော်ပြထားသည်။ ရိုးရိုးလက်နှိပ်ဓာတ်မီးတခုကိုယူ၍ ပုံ(၁)တွင်ပြထားသည့်အတိုင်း အပေါက်သေးသေးဖောက်ထားသော ကတ်ထူစက္ကူပြွန်တခုကို ထိုလက်နှိပ်ဓာတ်မီးပေါ်တွင် ဖုံးလိုက်ပါ။ ထိုနောက် မှောင်ချထားသော အခန်းတခုသို့ ယူသွားပြီးလျှင် ကြည့်မှန်တခုပေါ်တွင် မီးထိုးလိုက်ပါ။ မီးထိုးမှုကြောင့် ပြန်ထွက်လာသော ပြန်လင်းတန်းကို လေဘွင် ဖုံမှုန့်ကလေးများလွင့်နေခြင်းဖြင့် တွေ့နိုင်သည်။ သို့သော် မီးခိုး အနည်းငယ်မှုတ်သွင်းလိုက်သည့်အခါ ပြန်လင်းတန်းကို ပို၍မြင်နိုင်သည်။ ကြည့်မှန်တွင် ရိုက်လင်းတန်းဆိုသည့်နေရာမှ မှန်မျဉ်းတခု (ပုံတွင်အစက်ကလေးများဖြင့် ပြထားသည်။) ဆောင်နေသည်ဟု စိတ်တွင်မှတ်ထားပါ။ ဤမျဉ်းသည် လင်းတန်းနှစ်ခု၏ အလယ်တည့်တည့်တွင် အစဉ်ရှိနေရကား ရိုက်လင်းတန်းမှ ဖြစ်ပေါ်လာသော ထောင့်သည် ပြန်လင်းတန်းမှဖြစ်ပေါ်လာသော ထောင့်နှင့် ညီမျှပြီးလျှင် ထိုသုံးခုစလုံးသည် ပြင်ညီတခုထဲတွင် တည်နေကြသည်။ ပုံ (၂)သည် ကြည့်မှန်ကိုစောင်းလိုက်သည့်အခါ မည်သို့ဖြစ်သွားကြောင်းကို ပြထားသည်။ ရိုက်ထောင့်နှင့်ပြန်ထောင့်တို့သည် ညီမျှလျက်ပင်ရှိကြသည်။ ပုံ (၃) သည် ကြည့်မှန်




အလင်းယိုင်ခြင်း နှင့် အလင်းပြန်ခြင်းတို့ကို လက်တွေ့ ဖော်ပြထားပုံ

တခုတွင် ပစ္စည်းတခု၏အလင်းပြန်ခြင်းကို မျက်စိဖြင့် မည်သို့မြင်ရပုံကို ပြထားသည်။ သော့မှလင်းတန်းများသည် ကြည့်မှန်တွင် ယိုင်သွားသောကြောင့် သော့သည် ကြည့်မှန်၏နောက်တွင် ရှိနေဘိသကဲ့သို့ ( အစက်မျဉ်းကြောင်းဖြင့် ပြထားသည်။) ထင်ရသည်။

အလင်းယိုင်ခြင်းကို အထက်ပါကရိယာများအပြင် ရေအသင့်အတင့်ထည့်ထားသော လေးထောင့်ရေကန်ကလေးတခုဖြင့်လည်း စမ်းသပ်လေ့လာနိုင်သည်။ လင်းတန်းများကို ပိုမိုထင်ရှားစွာမြင်နိုင်ရန် ရေထဲသို့ နွားနို့တစက်နှစ်စက်လောက်ထည့်ပေးပါ။ ကြည့်မှန်တချပ်ကို ရေကန်အောက်တွင်ထားပြီးလျှင် ပုံ (၄) မှာကဲ့သို့ လက်နှိပ်ဓာတ်မီးဖြင့်ထိုး၍ လင်းတန်းလမ်းကို သတိပြုကြည့်ပါ။ ရေထဲသို့ လင်းတန်းဝင်သည့်နေရာနှင့် ရေမှထွက်သည့်နေရာများတွင် မှန်မျဉ်းနှစ်ကြောင်းကို စိတ်ကူးဖြင့်ဆွဲကြည့်ပါ။ အလင်းသည် သိပ်သည်းမှုနည်းသော ကြားခံမှ သိပ်သည်းမှုများသော ကြားခံ (လေမှပန်တုံးကဲ့သို့) သို့ ဖြတ်သွားသော အခါ ယင်းသည် မှန်မျဉ်းဖက်သို့ ယိုင်လာသည်။ တဖန် သိပ်သည်းမှုများသော ကြားခံမှ သိပ်သည်းမှုနည်းသော ကြားခံသို့ ထွက်သွားသောအခါ (ဖန်တုံးမှလေထဲသို့)ယင်းသည် မှန်မျဉ်းမှ ဖယ်ခွာထွက်သွားသည်။ ဤကား အလင်းယိုင်နိယာမဖြစ်၍ ယင်း၏သဘောကို ပုံ (၅) တွင် ရှင်းပြထားသည်။ အလင်းသည် သိပ်သည်းမှုနည်းသော ကြားခံများမှာထက် သိပ်သည်းမှုများသော ကြားခံများထဲတွင် ပို၍နှေးနှေးသွားကြောင်းကို သတိပြုရမည်။ ထိုကြောင့် လင်းတန်းသည် ရေမျက်နှာပြင်ကို စောင်းစောင်းဖြတ်သွားသောအခါ ရေကိုပဌမဆုံးတွေ့ထိသည့် အပိုင်းသည် လေထဲတွင်ရှိသော အပိုင်းလောက် လျင်မြန်စွာ မသွားကြောင်း ထင်ရှားပေသည်။ လင်းတန်းသည် လေထဲသို့ ပြန်ထွက်သွားသောအခါ ပြောင်းပြန်ဖြစ်သွားပြန်သည်။

ရေအောက်တွင်ရှိသောကြည့်မှန်ကိုတဖြည်းဖြည်းစောင်းပေးလိုက်လျှင် တနေရာသို့ ရောက်သောအခါ လင်းတန်းသည် ရေထဲမှထွက်မလာနိုင်သည့် အခြေသို့ ရောက်ရှိသွား

သည်ကို တွေ့ရပေမည်။ (ပုံ ၆) မှန်မျဉ်းနှင့် ရေထဲရှိလင်းတန်းအကြားတွင် ရှိသော ထောင့်ကို အခြေပြောင်းထောင့်ဟု ခေါ်သည်။ ပုံ (၇) တွင် ပြထားသည့်အတိုင်း ကြည့်မှန်ကို ထပ်၍ စောင်းပေးလိုက်သည့်အခါ အခြေပြောင်းထောင့်သည် ပို၍ပင်ကြီးပြီးလျှင် လင်းတန်းသည် တဖန် အလင်းပြန်လာသည်။ ဤအလင်းပြန်လာခြင်းကို လုံးဝအတွင်းအလင်းပြန်ခြင်းဟု ခေါ်သည်။ ဤသည်ကို အကြောင်းပြု၍ ကြည့်မှန်အစား ပုံ (၈) တွင်ပြထားသည့် အတိုင်း ပရစ်ဇမ် (သုံးမြှောင့်ဖန်တုံး) ကို အသုံးပြုလေ့ရှိကြသည်။ ဖန်တွင် အခြေပြောင်းထောင့်သည် ၄၂ ဒီဂရီမျှရှိ၍ ပရစ်ဇမ်တွင် ရိုက်ထောင့်သည် ၄၅ ဒီဂရီရှိရာ လုံးဝအတွင်းအလင်းပြန်ခြင်း ကို ရရှိလေသည်။

ယင်းသို့ဖြစ်ရကား အလင်း၏ဂုဏ်သတ္တိ အမျိုးမျိုးကို မည်သို့မည်ပုံဖော်ပြရမည်နည်း။ နျူတန်က အလင်းတွင် အသွားနှုန်း အလွန်လျင်မြန်သောမှုန်မှုန်များ ပါရှိ၍ ထိုမှုန်မှုန်များသည် ယင်းတို့ဖြတ်သန်းသွားသည့် ကြားခံပစ္စည်းကိုလိုက်၍ လျင်မြန်စွာ၊ သို့မဟုတ် နှေးကွေးစွာသွားသည်ဟု ယူဆသည်။ သို့ရာတွင် ဤအလင်းမှုန် (မှုန်) သီအိုရီအရ အလင်းသည် မျက်နှာပြင်တခုတွင် အဘယ်ကြောင့် တခါတရံ အလင်းပြန်၍ တခါတရံ အလင်းယိုင်ရသည်ကို ကျေနပ်လောက်အောင် ဖြေရှင်းမပေးနိုင်ချေ။ နျူတန်နှင့်ဘချိန်တည်းလောက်နေခဲ့သော သင်္ချာနှင့်သိပ္ပံဆရာကြီး ခရစ်စတီယန် ဟိုင်ဂင် (၁၆၂၉–၉၅) ဆိုသူသည် အလင်း၏အမူအကျင့်ကို ဖြေရှင်းရာ၌ သီအိုရီတမျိုးကို ထုတ်ဖော်ခဲ့ရာ ယုတ္တိရှိသဖြင့် များစွာအောင်မြင်ခဲ့လေသည်။ ဟိုင်ဂင်သည် တူးမြောင်းတခုတွင် ဖြစ်ပေါ်နေသော လှိုင်းရစ်ကလေးများကို စိုက်ကြည့်နေရာမှ အလင်းသည်လည်း ထိုလှိုင်းရစ်ကလေးများနည်းတူ မူလနေရာမှ လှိုင်းရစ်များ အသွင်ဖြင့် ပြန့်၍ပြန့်၍ထွက်သွားပေလိမ့်မည်ဟု သံရှိလာလေသည်။ စင်စစ်အလင်းလှိုင်းသည် ရေလှိုင်းကဲ့သို့ အကောင်အထည်ပေါ်၍သွားခြင်း မဟုတ်ပေ။

အသံလှိုင်းနှင့် ရေလှိုင်း ကဲ့သို့သော လှိုင်းအားလုံးလောက်သည် ထောင့်များကို ကွေ့၍သွားနိုင်ကြသည်။ အကယ်၍သာ ထောင့်များကို ကွေ့၍မသွားနိုင်ပါကကျွန်ုပ်တို့သည် အသံကို အဆောက်အအုံတခု၏ အဖက်ဖက်မှ ကြားနိုင်မည်မဟုတ်ချေ။ သို့ရာတွင် အလင်းကား ထောင့်များကို လှည့်ပတ်ကွေ့၍မသွားပဲ တဖြောင့်တည်းသာသွားသည်။ အကြောင်းကား အလင်း၏လှိုင်း အလျားသည် အလွန်အမင်းတိုသောကြောင့် ဖြစ်သည်။ “ဆိုဒီယမ်အလင်းရောင်” ဟု ခေါ်သော အဝါရောင် အလင်း၏လှိုင်းအလျားသည် တစ်မီလီမီတာ၏ အပုံတသန်းတွင် ၅၇၉ ပုံမျှသာ ရှည်သည်။ ဤမျှတိုလွန်းသော လှိုင်းအလျားဖြင့် ထောင့်များကို လှည့်ပတ်ကွေ့မသွားနိုင်ချေ။ ကွေ့သွားနိုင်သည်ဆိုပါကသည်း အနည်းငယ်မျှသာ ကွေ့သွားနိုင်သည်။ ပိတ်ကားတခုပေါ်တွင် အလွန်သေးငယ်သော အလင်းရောင်တခုကို ထိုးထားပြီးလျှင် ထိုအလင်းရောင်ကို ကြားမှဖြတ်၍ အဒိုပ်စွန်းဖြောင့်ဖြောင့်တခု ထားလိုက်ပါက ပေါ်လာသောအရိပ်သည် ပြတ်သားထင်ရှားလိမ့်မည် မဟုတ်ပေ။ သို့သော် အစွန်းတွင် အမည်းနှင့် အဖြူစင်းကြောင်းများစွာဖြစ်ပေါ်လာသည်ကို တွေ့ရသည်။ ဤသို့ဖြစ်ပေါ်ခြင်းအကြောင်းကား အစွန်းတွင် အလင်းလှိုင်းများ ကွေ့သွားခြင်းကြောင့် ဖြစ်သည်။

အလင်းလှိုင်းများ၏ လှိုင်းအလျားကို တိုင်းနိုင်သည့် လှိုင်းထပ်မီဘာ ခေါ် လုပသော ကရိယာတခုကို တီထွင်ထားပြီးဖြစ်သည်။ ဤကရိယာတွင် လှိုင်းအလျားချင်းမတူသော လင်းတန်းနှစ်ခုကို မှောင်သွားအောင် တခုနှင့်တခု ပူးပေးလိုက်နိုင်သည်။ ဆိုလိုသည်မှာ တခုကိုတခု ချက်ပြယ်သွားစေနိုင်သည်။ ဤသို့ပြုလုပ်ခြင်းကို လှိုင်းထပ်ခြင်း ဟု ခေါ်သည်။ သို့ဖြင့် အလင်းလှိုင်းနှစ်ခုကို လှိုင်းထပ်မီတာဖြင့် ပူးပေးလိုက်လျှင် လှိုင်းတခု၏ထိပ်သည် အခြားလှိုင်းတခု၏ခွက်ထဲသို့ ဝင်သွားရကား၊ လှိုင်းတခုက အခြားလှိုင်းတခုကို နှောင့်ယှက်လိုက်သဖြင့် မှောင်သွားသောဟူ၏။ ဤကရိယာဖြင့် အလွန်တိုသော အလင်းလှိုင်းတခု၏ထိပ်နှင့် အခွက်ကြားရှိ အလျားကို တိကျစွာ တိုင်းတာနိုင်သည်။

အရောင်အသီးအသီးတွင် လှိုင်းအလျားအမျိုးမျိုးရှိကြ၏။ နျူတန်သည် ပရစ်ဇမ် (သုံးမြှောင့်ဖန်ဘုံး) တခုထဲသို့ အဖြူရောင်အလင်းကို ထိုးသွင်းလိုက်ရာဘွင် ရောင်စဉ်များကွဲထွက်လာလေသည်။ စင်စစ်နျူတန်သည်အလင်းကို လှိုင်းအလျားအမျိုးမျိုးရှိသော အရောင်အဖြစ်သို့ ခွဲထုတ်လိုက်ခြင်း ဖြစ်သည်။ အနီရောင်၏ လှိုင်းအလျားသည် အဝါရောင်လှိုင်းအလျားထက် သုံးပုံတပုံရှည်၍ခရမ်းရောင်လှိုင်းအလျားကား လေးပုံတပုံတို၏။ ယင်းသို့ အဖြူအလင်းရောင်မှ အပေါင်းပါ အရောင်များအဖြစ်သို့ ကွဲထွက်ခြင်းကို အရောင်ကွဲထွက်ခြင်း ဟု ခေါ်သည်။

မမြင်နိုင်သော အလင်းလှိုင်းတိုကလေးများကို အာလတြာဝိုင်အိုလက်ရောင်ခြည် (ခရမ်းဘေးရောင်ခြည်) ဟု ခေါ်၍ မမြင်နိုင်သော အလင်းလှိုင်းတို့ချားအနက် အတိုဆုံးရောင်ခြည်ကို အိပ်စရေးရောင်ခြည်ဟုခေါ်သည်။ ခရမ်းဘေးရောင်ခြည်များသည် ဗက်ဘီးရီးယားပိုးများကို ရှုတ်ခြည်းဖျက်ဆီးပစ်နိုင်သောကြောင့် ယင်းကို ရေသန့်ရှင်းရေးလုပ်ရာ၌ များစွာအသုံးပြုကြသည်။ မမြင်နိုင်သော အလင်းလှိုင်းရှည်များကို အင်ဖရာရက်ရောင်ခြည် (အနီအောက်ရောင်ခြည်) ဟု ခေါ်သည်။ ဤလှိုင်းအားလုံးသည် တူညီသောအလျင်ဖြင့် သွားကြသည်။ ဆိုလိုသည်

မှာ ယင်းတို့အားလုံးသည် တစက္ကန့်လျှင် မိုင် ၁၈၆,၀၀၀ ခန့်နှင့် သွားကြသည်။

ကျွန်ုပ်တို့သည် အလင်းကို မည်သို့မည်ပုံရကြသနည်း။ ဤလှိုင်းကလေးများသည် အိသာတွင် မည်သို့စတင်ဖြစ်ပေါ်လာကြသနည်း။ အလင်းစတင်ဖြစ်ပေါ်ရာ မူလဘူတသည် ပူသောအရာဝတ္ထုများ ဖြစ်ကြသည်။ နေသည် အကြီးဆုံးအလင်းစတင်ဖြစ်ပေါ်ရာအရာဝတ္ထုဖြစ်၍ ကမ္ဘာပေါ်တွင် ယင်းထက်ပူသော အရာဝတ္ထု မရှိချေ။ ဂြိုဟ်များမှအပ ကြယ်များသည်လည်း ပူသောနေများဖြစ်ကြသည်။ သို့ရာတွင် အလင်းပေးသောအရာဝတ္ထုတိုင်းသည် မပူချေ။ အချို့ဒေသတွင် ညချမ်းများ၌ ပိုးစုန်းကြူးများကို ထောင်နှင့်သောင်းနှင့်ချီ၍ စုရုံးလျက် ရှိသည်ကို တွေ့ရဘတ်သည်။ ယင်းတို့၏ကိုယ်မှ အလင်းရောင်အတော်များများထွက်သော်လည်း အပူဆို၍ မရှိသလောက်ပင်ဖြစ်သည်။ ကျောက်စုံး ကဲ့သို့သော အရာဝတ္ထုများသည် မှောင်ထဲတွင် အရောင်တောက်လျက် ရှိကြသော်လည်း ယင်းတို့တွင် အပူဟူ၍ မရှိသလောက်ပင်ဖြစ်သည်။

အလင်းသန့်ခြင်း ဟု ခေါ်သော စိတ်ဝင်စားဖွယ်ရာ အလင်း၏ဂုဏ်သတ္တိတခု ရှိသေး၏။ အလင်းတွင်လှိုင်းများသည် တဖက်ဘည်းသို့သာ သွားသော်လည်း ထိုလှိုင်းအသီးအသီးတို့၏ တုန်ခါခြင်းများကား အဖက်ဖက်သို့ လှိုင်းသွားရာဖက်နှင့် ၉၀ ထောင့်မတ်ကျဖြင့် တုန်ခါလျက်ရှိကြသည်။ ဆိုလိုသည်မှာ လင်းတန်းတခုတွင် အဖက်ဖက်သို့ တုန်ခါလျက်ရှိသော လှိုင်းအမြောက်အမြား ရှိသော်လည်း ထိုတုန်ခါခြင်းများသည် လင်းတန်းသွားရာဖက်နှင့် အစဉ်ထောင့်မတ်ကျလျက်ရှိကြသည်။ သို့သော် တခါတရံ ထိုအဖက်ဖက်သို့ တုန်ခါလျက်ရှိကြသောလှိုင်းများကို တဖက်တည်းသို့သာ တုန်ခါစေရန် လိုအပ်လာပေသည်။ ယင်းသို့အဖက်ဖက်သို့မဟုတ်ပဲ မျက်နှာပြင်တခုတည်းသို့ တုန်ခါအောင် ပြုလုပ်လိုက်ခြင်းကို အလင်းသန့်ခြင်း ဟု ခေါ်သည်။ အကြွပ်ကဲ့သို့သော အချို့အလင်းပေါက်ခရုစ္စတယ်မျိုးသည် အလင်း၏အချို့တုန်ခါခြင်းများကို ပိတ်ပင်လိုက်ပြီးလျှင် အလင်းသန့်သွားအောင် မျက်နှာပြင်တခုတည်းသို့သာ တုန်ခါစေလေသည်။ သို့ဖြင့် လင်းတန်းတခုသည် အကြွပ်ပါးပါးတချပ်ကို ဖြတ်သွားသောအခါ တုန်ခါခြင်းများသည် အဖက်ဖက်သို့မတုန်ခါတော့ပဲ တဖက်တည်းသာ တုန်ခါလေသည်။

လင်းသန့် များကို အချို့ပစ္စည်းများတွင် ဖြတ်သန်းသွားစေသောအခါ လကျာဖက်သို့ယိုင်သွားကြ၍ အချို့တွင်ကား လက်ဝဲဖက်သို့ ယိုင်သွားကြသည်။ သို့ဖြင့် အချို့သကြားရည်များတွင် လင်းသန့်သည် လကျာဖက်သို့လည်သွားရကား ယင်းကို လကျာရစ်လည်သကြား ဟု ခေါ်သည်။ အချို့သကြားရည်သည် လင်းသန့်ကို ဝဲဖက်သို့လည်စေသဖြင့် ယင်းကို ဝဲရစ်လည်သကြား ဟု ခေါ်သည်။ ဓာတ်ခွဲခြင်းများတွင် ဤကဲ့သို့သော ခွဲခြားမှုသည် အရေးကြီး၏။ အဘယ်ကြောင့်ဆိုသော် သကြားမေ့ဲလီကျူးများအတွင်းရှိ အက်တမ်များ၏အစီအစဉ်များသည် ပုံသေနည်းအတူတူရှိကြသော်လည်း ဂုဏ်သတ္တိခြင်း မတူကြောင်းကို ပြသောကြောင့်ဖြစ်သည်။ ဤအခြင်းအရာများကို သိပ္ပံအကြောင်းရင်းခံ လုပ်ငန်းများစွာတွင် အသုံးပြုကြသည်။ တွင်းထွက်ပါရဂူများသည် အလွန်ပါးသောကျောက်ဖြတ်ပိုင်းများကို စစ်ဆေးကြည့်ရှုရာ၌ ယင်းတို့ အသုံးပြုသော အဏုကြည့်မှန်ပြောင်း (မိုက္ကရိုစကုပ်) များတွင် လင်းသန့်ကိုသည့်၍အသုံးပြုကြသည်။ ဤသို့ အသုံးပြုခြင်းအားဖြင့် တွင်းထွက်ဖြတ်ပိုင်းအမျိုးမျိုးတို့၏ တည်ဆောက်ထားပုံများသည် ထင်ထင်ရှားရှားပေါ်ထွက်လာလေသည်။

**အလင်းဓာတုဗေဒ။** ။အလင်းရောင်ကြောင့် ဓာတ်ပြောင်းမှုများ ဖြစ်ပေါ်လာခြင်းကို အလင်း ဓာတုဗေဒ (ဖိုတိုကင်မစ္စတြီ) ဟု ခေါ်သည်။ ဆိုးဆေးနှင့် အခြားအရောင်များကို နေပူကျဲကျဲတွင်ထားကြည့်လျှင် အရောင်လွင့်သွားခြင်း၊ ခြည်ထည်နှင့် အခြား အလားတူအထည်များကို နေရောင်၌ အရောင်ချွတ်ခြင်းများသည် အလင်းဓာတုဗေဒ၏ သာဓကများပင်ဖြစ်သည်။

ဟိုက်ဒရိုဂျင်ဓာတ်ငွေ့နှင့် ကလိုရင်း ဓာတ်ငွေ့များကို ပုလင်းတလုံးတွင် ရောထည့်ပြီးလျှင် မှောင်ထဲတွင်ထားသော် ဓာတ်ပြောင်းမှု အလျဉ်းမရှိချေ။ သို့သော် ယင်းကို နေပူကျဲကျဲတွင် ထားလိုက်ပါက ဓာတ်ငွေ့နှစ်ခုပေါင်းစပ်သွားပြီးလျှင် ဟိုက်ဒရိုဂျင်ကလောရစ် အက်ဆစ်ဖြစ်လာတော့၏။ ဓာတ်ပြောင်းမှုဖြစ်စေရန် အလင်းရောင်၏ စွမ်းအင်ကို လိုအပ်ပေသည်။

အပင်များတွင်ရှိသော ကလိုရိုဖီ ခေါ် စိမ်းရောင်ဓာတ်သည် အလင်းကို စုတ်ယူပြီးလျှင် ထိုအလင်း၏ စွမ်းအင်ဖြင့် လေမှရသော ကာဗွန်ဒိုင်အောက်ဆိုက်နှင့် အမြစ်မှရသော ရေတို့ကို သကြားနှင့် ကစီများဖြစ်ကြသော ကာဗိုဟိုက်ဒရိုက် အဖြစ်သို့ ပြောင်းလဲ စေလေသည်။ အောက်ဆီဂျင်ဓာတ်ကား အပြင်သို့လွတ်ထွက်သွားသည်။ ကမ္ဘာပေါ်ရှိ သက်ရှိဟူသမျှသည် အသက်တည်တံ့ရေးအတွက် အပင်များကို တိုက်ရိုက်သော်၎င်း၊ သွယ်ဝိုက်၍သော်၎င်း မှီခိုနေကြရသည်။ ထိုအပင်များ ကြီးထွား ရှင်သန်ရေးအတွက် နေရောင်ခြည်သည် အလွန် အရေးပါ အရာရောက်သော စွမ်းအင်ဖြစ်ပေသည်။

အလင်းရောင်နှင့်စပ်လျဉ်း၍ ရိုပ်ဖမ်းကော်ပြား၊ သို့မဟုတ် ရိုပ်ဖမ်းမှန်ပေါ်တွင် ပုံရိပ် ဖြစ်ပေါ်လာခြင်းသည်

လည်း ဓာတ်ပြောင်းမှုတခုဖြစ်သည်။ ကင်မရာ (ဓာတ်ပုံရိုက်ကရိယာ) ထဲသို့ အလင်းရောင် ဖြတ်သန်းသွားစေသောအခါ ထိုအလင်းရောင်သည် အလင်းမိလွယ်သော ရိပ်ဖမ်းကော်ပြားပေါ်သို့ ကျရောက်၏။ ရိပ်ဖမ်းကော်ပြားပေါ်တွင်ကား ဂျယ်လတင်ကော်ဖြင့် ရောထားသော ဆီလဗာဗရိုမိုက် ဓာတ်ပစ္စည်းမှုန့်များ သုတ်လိမ်း စီမံထားသည်။ အလင်းရောင်ကျရောက်သော ဓာတ်ပစ္စည်းမှုန့်များတွင် ဓာတ်ပြောင်းမှုဖြစ်ပေါ်သည်။ ပုံဖော်ဆေးရည်တွင် စိမ်ပေးသောအခါ အမည်းရောင် ပုံရိပ်ပေါ်လာသည်။ တဖန် ယင်းရိပ်ဖမ်းကော်ပြားကို ပုံချုပ်ဆေးရည် စသော အခြားဆေးရည်များတွင် ထပ်မံစိမ်ပေးသောအခါ နောက်ထပ်အလင်းကြောင့် ဓာတ်ပြောင်းမှုမရှိတော့ပဲ ကျွန်ုပ်တို့ အလိုရှိသည့် ဓာတ်ပုံ နက်ဂတစ်ကို ရရှိလေသည်။

အဆောက်အအုံ ဆောက်လုပ်ရာ၌ မဆောက်လုပ်မီ ယင်းအဆောက်အအုံ၏ပုံစံကို စကေးနှင့်တကွ တိတိကျကျ ရေးဆွဲရ၏။ ထိုပုံစံမှ ပုံစံပြာများကို လိုသလောက်ထုတ်ယူကြသည်။ ယင်းပုံစံပြာများသည် သံဓာတ်ဆားနှင့်အလင်းရောင်တို့၏ ဓာတ်ပြောင်းမှုသာဓကပင် ဖြစ်သည်။

ဤစာအုပ်ကို ဖတ်နေစဉ်တွင်ပင် သင်၏မျက်စိတွင် ဓာတ်ပြောင်းမှုအစဉ်များ ဖြစ်ပေါ်လျက်ရှိ၏။ မျက်စိ၏ မြင်လွှာတွင် အနီရောင်ပစ္စည်းတခုရှိရာ ယင်းသည် အလင်းရောင်နှင့်တွေ့ထိသည့်အခါ အဝါရောင်သို့ ပြောင်းသွား၏။ ထိုဓာတ်ပြောင်းမှု၏သတ္တိကြောင့် ဦးနှောက်တွင် ပုံရိပ်အဖြစ်ဖြင့် ထင်လာလေသည်။ မျက်စိကို မှိတ်လိုက်သည့်အခါ အဝါရောင်မှတဖန် မူလအနီရောင်သို့ ပြန်ပြောင်းသွားလေသည်။

**အလင်းဖြင့် ဖွဲ့စည်းခြင်း။** ။သစ်ရွက်များတွင် အပင်စာဖြစ်သော ကစီချက်လုပ်ရန် ကလိုရိုဖီ၊ နေရောင်ခြည်၊ ကာဗွန်ဒိုင်အောက်ဆိုက်နှင့် ရေတို့ လိုအပ်၏။ အပင်များသည် ရေကို မြေဆီလွှာမှရ၍ ကာဗွန်ဒိုင်အောက်ဆိုက်ကို လေထဲမှရကြသည်။ အပင်စာပြုလုပ်ရန် ပစ္စည်းကြမ်းများဖြစ်သော ထိုရေနှင့် ကာဗွန်ဒိုင်အောက်ဆိုက်တို့ကို ကလိုရိုဖီနှင့် နေရောင်ခြည်တို့က သစ်ရွက်စိမ်းများတွင် အပင်စာ (သကြား) ဖြစ်လာအောင် ပြုလုပ်ပေးကြသည်။ ကစီချက်လုပ်သည်ဆိုရာ၌ ဦးစွာဖြစ်ပေါ်လာသော ပစ္စည်းမှာ သကြားဖြစ်၍ သကြားအားလုံးလိုပင် ကစီအဖြစ်သို့ ချက်ခြင်း ပြောင်းလဲသွားသည်။ ဤကဲ့သို့ သစ်ရွက်စိမ်းများ၌ နေရောင်ခြည်တွင် သကြားချက်လုပ်၍ ကစီအဖြစ် ချက်ခြင်းပြောင်းလဲသွားခြင်းကို အလင်းဖြင့် ဖွဲ့စည်းခြင်း (ဖိုတိုဆင်းသဆစ်)ဟုခေါ်သည်။

သကြားနှင့်ကစီတို့သည် ကာဗိုဟိုက်ဒရိတ်များ ဖြစ်ကြရာ ကာဗွန်၊ အောက်ဆီဂျင်နှင့် ဟိုက်ဒရိုဂျင်တို့ ပါဝင်သည်။ အလင်းဖြင့်ဖွဲ့စည်းစဉ်က ကာဗွန်ဒိုင်အောက်ဆိုက်သည် ကာဗွန်နှင့် အောက်ဆီဂျင်အဖြစ် ဓာတ်ကွဲသွားသည်။ ဓာတ်ကွဲလာသော ကာဗွန်သည် သစ်ရွက်တွင် ရေမှအောက်ဆီဂျင် ဟိုက်ဒရိုဂျင်တို့နှင့် ပေါင်းစပ်၍ သကြားဖြစ်လာသည်။ ဤဓာတ်ပြောင်းမှုတွင် လိုအပ်သော စွမ်းအင်ကို နေရောင်ခြည်မှရရှိသည်။ ကလိုရိုဖီသည် နေရောင်ခြည်၏ စွမ်းအင်ကို ယူနိုင်၍ သကြားဖြစ်မြောက်ရန် ဆောင်ရွက်ပေးနိုင်သည့် သတ္တိရှိသည်။ ကာဗွန်ဒိုင်အောက်ဆိုက်မှ ကာဗွန်သာလျှင် သကြားဖြစ်မြောက်ရာ၌ ပါဝင်၍ အောက်ဆီဂျင်ကား လေထဲသို့ပြန်ထွက်သွားသည်။ အလင်းဖြင့်ဖွဲ့စည်းချိန်တွင် ကာဗွန်ကို သာသုံးခြင်းကြောင့် ယင်းသို့ဖွဲ့စည်းခြင်းကို ကာဗွန်ဓာတ်စုဆောင်းခြင်း ဟု လည်း ခေါ်သည်။

အလင်းဖြင့်ဖွဲ့စည်းချိန်တွင် အောက်ဆီဂျင်ဓာတ်ကွဲ၍ ထွက်လာပုံကို အောက်ပါစမ်းသပ်မှုဖြင့် ပြသနိုင်သည်။ ဖန်စလုံတခုတွင် ရေပြည့်လုနီးပါးထည့်ပါ။ ထိုရေတွင်




စမ်းသပ်ဖန်ပြွန်တွင် သစ်ရွက်စိမ်းမှ အောက်စီဂျင် ထွက်လာပုံ

ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ် အလုံအလောက်ပျော်ဝင်လျက်ရှိစေရန် ဆိုဒီယမ်ဗိုင်ကာဗွန်နိတ်အပျော့ရည် အနည်းငယ်ရောထည့်ပေးပါ။ ထိုနောက် ရေထဲသို့ အလိုဒီယာခေါ် ရေတွင်ပေါက်သောအပင်မျိုး၊ သို့မဟုတ်အခြားရေတွင် ပေါက်သည့်အပင်မျိုး အနည်းငယ်ထည့်ပြီးလျှင် ပုံတွင်ပြထားသည့်အတိုင်း အပင်များပေါ်တွင် ဖန်ကတော့တခုမှောက်၍ အုပ်ပေးပါ။ ထိုနောက်ဖန်ကတော့တံပေါ်သို့ ရေအပြည့်ပါသော စမ်းသပ်ဖန်ပြွန်တခုကို မှောက်၍တင်ထားပါ။ ပြီးလျှင် ယင်းကရိယာတန်ဆာများကို နေရောင်ရသော နေရာတွင်ထားပါ မကြာမီရေထဲမှ ဓာတ်ငွေ့ပလုံစီများ စမ်းသပ်ဖန်ပြွန် အထက်သို့တက်လာမည်။ ဓာတ်ငွေ့အသင့်အတင့် စုဆောင်းမိသောအခါ ဖန်ပြွန်ဝကို လက်မဖြင့်ပိတ်၍ ယူပြီးလျှင် မီးရဲနေသောထင်းစကလေးတခုကို ဖန်ပြွန်ထဲသို့ထိုးသွင်းကြည့်ပါ။ ထင်းစကလေးမှ မီးထတောက်လာမည်ဖြစ်သောကြောင့် ဖန်ပြွန်အတွင်းရှိဓာတ်ငွေ့သည် အောက်ဆီဂျင်ဖြစ်ကြောင်း သိရသည်။ ကရိယာတန်ဆာကို အဝတ်မည်းနှင့်ဖုံးအုပ်၍ နေရောင်ခြည်မရအောင် ပိတ်ပင်လိုက်သော် ဓာတ်ငွေ့ပလုံစီများထွက်လာခြင်း နှေးကွေးသွားမည်ဖြစ်၏။ ဤကား အလင်းဖြင့်ဖွဲ့စည်းချိန်တွင် ကစီဓါတ်လုပ်ဆာ၌ အောက်ဆီဂျင်ဓာတ်လွတ်ထွက်သွားပုံ ဖြစ်သည်။

**အလင်း လျှပ်စစ်ကရိယာ။** ။အလင်း လျှပ်စစ်အိမ်ကို အကြောင်းပြု၍ အလင်းလျှပ်စစ် ကရိယာ အမျိုးမျိုး ပေါ်ပေါက်လာခဲ့ပေသည်။ (အလင်း လျှပ်စစ်အိမ် — ရှု။) အလင်းလျှပ်စစ်အိမ်ပေါ်သို့ အလင်း ကျရောက်သည့်အခါ ယင်း၏ ကက်သုတ်ခေါ် ဓာတ်မတိုင်မှ အီလက်ထရွန်များ တန်း၍ထွက်လာ၏။ ထိုအီလက်ထရွန်တန်းသည် အလင်းအိမ်နှင့် ဆက်သွယ်သည့် ဆာကစ် (ဓာတ်စီး ပတ်လမ်း) တွင် လျှပ်စီးကြောင်းကို ဖြစ်စေလေသည်။ သို့သော် ကက်သုတ်ပေါ်သို့ အလင်းအကျရပ်သွားသည်နှင့် လျှပ်စီးကြောင်းလည်း ပြတ်သွားတော့၏။ အခြား အလင်းလျှပ်စစ်အိမ်တမျိုးမှာ အလင်းလျှပ်စစ်အကျိုးဟု ခေါ်သော အလင်း အားကောင်းသလောက် လျှပ်စီးကြောင်း ဖြစ်ပေါ်စေသည်။ တတိယ အမျိုးကား ယင်း၏ ကက်သုတ်ပေါ်သို့ အလင်းကျရောက်သည့် အခါတွင် လျှပ်စစ်တားပြောင်းလဲမှုကို ဖြစ်စေလေသည်။ မည်သည့် အမျိုးကို သုံးသည်ဖြစ်စေ အတူတူပင် ဖြစ်သည်။

အလွယ်ဆုံးလျှပ်စစ်အိမ်သည် အလင်းနှင့်အမှောင်ကို ခွဲခြားရန်သာဖြစ်သည်။ ယင်းအပေါ်သို့ အလင်းကျရောက်သည့်အခါ လှုပ်ရှားလာ၏။ သို့တည်းမဟုတ် ယင်းကို အလင်းတန်းတခုတွင် တပ်ဆင်ထားပြီးလျှင် ထိုအလင်းတန်းကို အရာဝတ္ထုတခုခုနှင့် ကာဆီးပေးလိုက်သည့်အခါ အလင်းတန်းပြတ်သွားသဖြင့် အလင်းအိမ်သည် လှုပ်ရှားလာ၏။ ဤပဌမအမျိုးဖြစ်သည့် အလင်းလျှပ်စစ်အိမ်၏ ပုံစံမှာ လျှပ်စစ်ဖြင့်စီမံပြုလုပ်ထားသော မော်တော်ကားရုံဖြစ်သည်။ မော်တော်ကားထိပ်မီးများမှ မီးရောင်သည် မော်တော်ကားရုံတံခါးပေါ်သို့ ကျရောက်သည်နှင့် တံခါးသည် အလိုအလျောက်ပွင့်သွား၏။ ဒုတိယအမျိုး၏ ပုံစံတခုမှာ မျက်လှည့်သဖွယ် အလိုအလျောက်ပွင့်နိုင်သော တံခါးများဖြစ်သည်။ တံခါးမှ တကိုက်၊နှစ်ကိုက်မျှဝေးသော နေရာတွင်ရှိသည့် အလင်းတန်းကို တစုံတယောက်ကသွား၍ ကိုယ်ဖြင့်ကာဆီးပိတ်ပင်ပေးလိုက်လျှင် တံခါးသည် အလိုအလျောက်ပွင့်သွားတော့၏။ သူခိုးလုန့်ခေါင်းလောင်းများကိုလည်း ဤမှုအတိုင်းပြုလုပ်ထားနိုင်ရာ သူခိုးကပ်လာသည်နှင့် ခေါင်းလောင်းအလိုအလျောက် မြည်သဖြင့် အိမ်ရှင်နိုးလေသည်။

စက္ကူဖြတ်စက်၊ ကြိတ်စက်ကဲ့သို့ ဘေးအန္တရာယ်များသည့်စက်ကရိယာများကို လုပ်ကိုင်သူ၏လက်များ မဖြတ်မိ၊ မကြိတ်မိနိုင်အောင် အလင်းလျှပ်စစ်အိမ်တမျိုး စီမံတပ်ဆင်ထားသည်။ တပ်ဆင်ထားပုံမှာ လုပ်ကိုင်သူ၏လက်များသည် စက်အတွင်းရှိအလင်းတန်းကို ကာဆီးပိတ်ပင်ထားသမျှကာလပတ်လုံး ဓားသည်အပေါ်မှမကျလာတော့ပေ။ လက်များကို ဘေးကင်းသည့်ခပ်ဝေးဝေးနေရာသို့ ယူထုတ်လိုက်သောအခါမှ ဓားကျလာတော့၏။ အလိုအလျောက်ဓာတ်လှေကား (စက်လှေကားမတ်) တံခါးများကို ဤနည်းအတူ တပ်ဆင်ထားနိုင်သည်။ သို့ဖြင့် ဓာတ်လှေကားတံခါးများ ပိတ်စပြုနေသော်လည်း နောက်ဆုံး အလျင်စလိုဝင်လာသည့်လူက အလင်းတန်းကို ကာဆီးပိတ်ပင်လိုက်သဖြင့် တံခါးအပိတ်ရပ်သွားသည်သာမက ပြန်၍ပွင့်သွားသေးသည်။ အလင်းလျှပ်စစ်အိမ်ကို တမျိုးစီမံပြုလုပ်ထားခြင်းအားဖြင့် ယင်း၏ လျှပ်စစ် မျက်စိဟု ခေါ်သော ရေတွက်သည့်စက်သည် "လျော့"မှကျဆင်းလာသောပစ္စည်းများကိုရင်း၊ ပစ္စည်းသယ်ပတ်ကြိုးမှ ကျလာသော ပစ္စည်းများကိုရင်း၊ ဥမင်ကိုဖြတ်သွားသော မီးရထားစင်းရေများကိုရင်း လူသားတို့ထက် အလွန်လျင်မြန်စွာနှင့် တိကျမှန်ကန်စွာ ရေတွက်နိုင်သည်။

အချို့သောကိစ္စများမှာ အလင်းနှင့်အမှောင်ကိုသာမန်ခွဲခြားရုံမျှမက အလင်းပြင်းအားကိုလည်း တိုင်းတာရန်လိုအပ်ပေသည်။ ဤကဲ့သို့သောပြဿနာများဖြေရှင်းရန်မှာ အလင်းလျှပ်စစ်အိမ်သည် အသင့်တော်ဆုံးသော ကရိယာဖြစ်သည်။ လူသား၏မျက်လုံးသည် အလင်းရောင်ကိုကြည့်ရာ၌ မျက်စိသူငယ်အိမ်ကို ဖြည်းညင်းစွာ မှိတ်ချည်ဖွင့်ချည်ပြုလုပ်၍ ကြည့်ရသောကြောင့် အလင်း၏တောက်ပမှုကို

တိကျစွာ မခွဲခြားနိုင်ချေ။ လုံးလုံးမှောင်နေသောအခန်းတခုမှ မီးမှိန်မှိန်ထွန်းထားသောအခန်းတခုသို့ ရောက်လာသောလူတယောက်က ထိုအခန်းသည် အလွန်လင်းသည်ဟု ပြော၏။ ထိုမီးမှိန်မှိန်ထွန်းထားသောအခန်းထဲသို့ပင် အလွန်လင်းသောနေရာမှ ရောက်လာလျှင် ထိုအခန်းသည် သူ့အတွက် မှောင်နေသဖြင့် မသွားတတ်မလာတတ် ဖြစ်နေတတ်သည်။ အလင်းလျှပ်စစ်အိမ်ကား ထိုသို့မဟုတ်ပေ။ အလင်းပြင်းအားကို တိကျမှန်ကန်စွာ တိုင်းတာနိုင်သည်။ မီလီဗိုမီတာနှင့်ဘွဲ့ထားသော အလင်းလျှပ်စစ်အိမ်မျိုးသည် အလင်းပြင်းအားကို အလွန်တိကျမှန်ကန်စွာ တိုင်းတာနိုင်သောကြောင့် ဓာတ်ပုံရိုက်ကရိယာတွင်ထည့်၍ အသုံးပြုကြသည်။

လမ်းများ၊ စာသင်ခန်းများနှင့် ရုံးခန်းများရှိ မီးဖွင့်ခလုတ်များအတွက်လည်း အလင်းလျှပ်စစ်အိမ်ကို အသုံးပြုကြသည်။ အကြောင်းတခုခုကြောင့် ထင်ထင်ရှားရှား မမြင်နိုင်လောက်အောင် နေရောင် မှေးမှိန်သွားသည့်အခါ အလင်း လျှပ်စစ် အိမ်ကြောင့် မီးဖွင့်ခလုတ်များ အလိုအလျောက် ပွင့်လာကြသည်။ စက်မှု လုပ်ငန်း များတွင် အသုံးပြုသော ဂီယာဖြင့်ထိန်းထားသည့် အလိုအလျောက်ဂီယာအထိန်းများသည် အလင်းပြင်းအား အမျိုးမျိုးကို တိုင်းတာသည့်မူပေါ်တွင် အခြေခံထားသည်။ ထိုကရိယာများတွင် ဆေးဆိုးရန်အတွက် ဒလိမ့်များပေါ်တွင်လည်ပတ်လျက်ရှိသောပိတ်အရှည်တန်း၏ အနားကို စောင့်ကြည့်နေသည့် လျှပ်စစ် မျက်စိ ကရိယာလည်း တခုအပါအဝင်ဖြစ်သည်။ အကယ်၍ ပိတ်အုပ်အနားသည် သွားရိုးသွားစဉ်လမ်းမှန်မှ သွေဖီထွက်သွားပါက အလင်းလျှပ်စစ်အိမ်သို့ ကျရောက်သည့်အလင်းသည် မှိန်သော်လည်း မှိန်သွားလိမ့်မည်။ သို့မဟုတ် တိုးသော်လည်းတိုးလာလိမ့်မည်။ ထိုအခါ သွေဖီထွက်သွားသည့်ပိတ်အနားသည် ချက်ခြင်းနေရာမှန်သို့ ပြန်ရောက်အောင် အထိန်းက အလိုအလျောက် ထိန်းပေးလေသည်။ ဘီစကွတ်ထုပ်သည့် စက်များ သည်ပင် ထုပ်သည့်စက္ကူပေါ်တွင် မှတ်ပုံတင်အမှတ်များ၊ သို့မဟုတ် အစက်ကလေးများနေရာတကျ ရိုက်နှိပ်ထားမှုရှိမရှိကိုကြည့်ရန် လျှပ်စစ်မျက်စိကရိယာကို အသုံးပြုကြရသည်။ ဤသို့ အသုံးပြုခြင်းအားဖြင့် စက္ကူသည်ပုံနှိပ်စဉ်က မည်မျှ ရှည်ထွက်သာသည်ဖြစ်စေ၊ သို့မဟုတ် မည်မျှ တိုဝင်သွားသည် ဖြစ်စေ ပဓာနမဟုတ်ပဲ စက္ကူ၏အရွယ်အစား မှန်မှန်ရရှိအောင် စက္ကူလိပ်မှဖြတ်တောက်ပေးလေသည်။ ဤအလုပ်ကား လူတို့၏မျှ လျှင်မြန်တိကျအောင် ပြုလုပ်ပေးနိုင်သော အလုပ်မဟုတ်ပေ။

အလင်းလျှပ်စစ်အိမ်သည် ရုပ်ရှင်ရုံများ၌ ပြသသော အသံထွက်ရုပ်ရှင်ကားများ၏ အခြေခံဖြစ်သည်။ စကားပြောသံ၊ သီချင်းဆိုသံ၊ တူရိယာသံစသည်တို့ကို တလက်မ၏ ဆယ်ပုံတပုံခန့်မျှ အကျယ်ရှိသော အသံလမ်းကြောင်းဟု ခေါ်သည့် ဖလင်ပြား၏ အနားသေးသေးဖက်တွင် အသံသွင်းယူထားခြင်းဖြစ်သည်။ ဤအသံလမ်းကြောင်းသည် မူလစကားပြောသံမှ ထွက်ပေါ်လာသော တုန်ခါနှုန်းအတက်အကျ၊ အနည်းအများကိုလိုက်၍ အမည်းနှင့်အဖြူဖြင့် ဓာတ်ပုံရိုက်အသံသွင်းထားခြင်းဖြစ်သည်။ ဖလင်ပြားသည် ရုပ်ရှင်ပြစက်ထဲမှ ထွက်လာပြီးနောက် အသံထွက်အောင် လှုံ့ဆော်ပေးသည့် လျှပ်စစ်မီးလုံးဆီသို့ ရောက်လာ၏။ ထိုမီးလုံးမှအလင်းသည် အလွန် သေးငယ်သောအသံလမ်းကြောင်းပေါ်သို့ စုဆုံကျရောက်လာပြီးလျှင် ထိုမှတဖန် ဆက်လျက်ရှိသော အလင်းလျှပ်စစ်အိမ်ပေါ်သို့ ဖြာ၍ ကျလာပြန်လေသည်။ အလင်းလျှပ်စစ်အိမ်သည် ထိုအလင်းကို လျှပ်စီးကြောင်းအဖြစ်သို့ ပြောင်းပေးလိုက်လေသည်။ ဤလျှပ်စီးကြောင်းသည် အသံချဲ့စက်သို့ရောက်ရှိသွားရာမှ အသံဖြစ်ပေါ်လာကာ အသံထုတ်ကရိယာသို့ ရောက်သွားပြန်လေသည်။ ယင်းမှအသံအဖြစ်ဖြင့် လူအများကြားကြသည်။ သို့ဖြင့် ရုပ်ရှင်ကြည့်ပရိသတ်သည် ရုပ်ရှင်နှင့်အသံကို တချိန်တည်းလောက်မှာ မြင်ရကြားရလေသည်။

မည်သည့် အသံသွင်းယူခြင်းကိုမဆို ဤနည်းအတိုင်း ပြုလုပ်ယူနိုင်သည်။ ထပ်ကာထပ်ကာအသံသွင်းသည်ဖြစ်စေ၊ အသံဖွင့်သည်ဖြစ်စေ ဤနည်းသည် အကောင်းဆုံးနည်းဖြစ်ပေသည်။ ဓာတ်စက်ဓာတ်ပြားများမှာကဲ့သို့ အပ်ဖြင့် အသံဖွင့်ရသည်မဟုတ်သောကြောင့် စားခြင်း၊ ပွန်းခြင်း မရှိချေ။ မြို့ကြီးများရှိတယ်လီဖုန်း(စကားပြောကြေးနန်း) ရုံးများတွင် အလိုအလျောက် အချိန်ပြောသောနာရီများ တပ်ဆင်ထားကြသည်။ အိမ်တွင်တယ်လီဖုန်းရှိသူတဦးက အချိန်အတိအကျသိလိုက အချိန်ပြောနာရီရှိရာသို့ ဆက်လိုက်လျှင် ချက်ခြင်းပင် အချိန်အတိအကျကိုကြားရသည်။ ဤကရိယာတွင် အသံလမ်းကြောင်းအမျိုးမျိုးကို ဖန်အသံသွင်းချပ်ဝိုင်းများပေါ်၌ အသံသွင်းထားသည်။

သတင်းစာများတွင် ကြေးနန်းဖြင့်ဖြစ်စေ၊ ကြိုးမဲ့ကြေးနန်းဖြင့်ဖြစ်စေ ပို့သော အရေးကြီးသည့် သတင်းဓာတ်ပုံများကို မကြာခဏဘွေ့ကြရသည်။ ဓာတ်ပုံပို့သောစက်တွင် လည်နေသောစည်တခုရှိရာ၊ ယင်းပေါ်တွင် ပို့မည့် ဓာတ်ပုံကိုတပ်ထားသည်။ စည်လည်နေစဉ် အလင်းစက်ကလေးတခုသည် အလင်းလျှပ်စစ်အိမ်ပေါ်သို့ ပြန်ရိုက်လာရာမှအစ ဓာတ်ပုံပို့သည့်အစီအစဉ်သည် ဖြစ်ပေါ်လျက်ရှိလေသည်။ အလင်းလျှပ်စစ်ကရိယာများအကြောင်းနှင့် စပ်လျဉ်း၍ ကျယ်ဝန်းစွာဖော်ပြနိုင်သော်လည်း သိပ္ပံပညာသည် အစဉ်တိုးတက်လျက်ရှိရကား ပြည့်စုံပြီဟုမဆိုနိုင်သေးချေ။ နီရဲနေအောင် မီးပြင်းတိုက်ထားသော သံမဏိ

ပြား၏အပူချိန်ကိုတိုင်းတာသည့် အလင်းလျှပ်စစ်ပိုင်ရိုမီတာ (အပူပြင်းတိုင်း)၊ စာပုံနှိပ်စက်ပေါ်၌တင်ထားသော စက္ကူများထဲတွင် စက္ကူအစုတ်များပါမပါစစ်ဆေးသည့်ကရိယာ၊ မှိုင်လာအိုးမှ ထွက်နေသည့် မီးခိုးသည် အဖြူဖြစ်သည်၊ အမည်းဖြစ်သည်ကို စောင့်ကြည့်နေသည့် ကရိယာစသည်တို့သည် အလင်းလျှပ်စစ်ကရိယာများတွင် အပါအဝင် ဖြစ်ကြပေသည်။

**အလင်းလျှပ်စစ်အိမ်။** ။အလင်းရောင်ကြောင့် လျှပ်စစ် ဓာတ်စီးကြောင်း ဖြစ်ပေါ်လာအောင် ပြုလုပ်စီမံထားသော ကရိယာကို အလင်း လျှပ်စစ်အိမ် (ဖိုတိုအီလက်တြစ်ဆဲ) ဟု ခေါ်သည်။ အလင်းလျှပ်စစ်အိမ်သည် စင်စစ် ရေဒီယိုပြွန်နှင့်တူသော ပလာပြွန် ဖြစ်သည်။ ပြွန်တွင်း၌ အနုတ် ဟု ခေါ်သော လျှပ်စစ်ဓာတ်ဖိုတိုင်ဖြစ်သည့် နန်းကြိုးကွင်းတခု ရှိသည်။ ဖန်ပြွန်အတွင်း မျက်နှာပြင်ကို အလင်း အလွန်မိလွယ်သော ပိုတက်ဆီယမ်၊ ဆိုဒီယမ် စသော ဓာတ်ပစ္စည်း များဖြင့် သုတ်လိမ်းထားသည်။ ဤအပိုင်းကို ကက်သုတ်၊ သို့မဟုတ် လျှပ်စစ်ဓာတ်မတိုင်ဟု ခေါ်သည်။ ပြွန်ကို အလင်းတန်းထိုးလိုက်သည်နှင့် ကက်သုတ်တွင် သုတ်လိမ်း ထားသော ဓာတ်ပစ္စည်းသည် ဓာတ်ပြောင်းမှု ဖြစ်ပေါ်လာပြီးလျှင် ယင်းမှ အီလက်ထရွန် များ ထွက်လာ၏။ဤအီလက်ထရွန်များသည် ကက်သုတ်မှ အနုတ်သို့ စီးလာသည်နှင့် လျှပ်စစ်ဓာတ် ဖြစ်ပေါ်လာ၍ ဆက်သွယ်ထားသော ဆာကစ်ခေါ် ဓာတ်စီး ပတ်လမ်းတွင် စီးသွားလေသည်။ ဤသို့ အီလက်ထရွန် စီးသွားသည်ကို လျှပ်စစ် ဓာတ်စီးကြောင်း ဟု ခေါ်သည်။ ဖြစ်ပေါ်လာသော လျှပ်စစ် ဓာတ်အား အနည်း အများသည် အလင်းရောင်၏ အားပေါ်တွင် တည်သည်။ အလင်းရောင် အားကောင်းလျှင် လျှပ်စစ်ဓာတ်အား များလာ၍ အလင်းရောင် အားနည်းလျှင် လျှပ်စစ်ဓာတ်အား နည်းသွားသည်။ အလင်းရောင် ပြတ်သွားသည်နှင့်လျှပ်စစ်ဓာတ်အားလည်း ပြတ်သွားတော့၏။

အလင်းလျှပ်စစ်အိမ်သည် အလွန်အသုံးဝင်၍ တန်ဖိုးရှိသောကရိယာဖြစ်သည်။အလွန် အရေးပါသည့် အသုံးဝင်ပုံများအနက် ရုပ်ရှင်လုပ်ငန်းတွင် ယင်းကို အသုံးပြုခြင်းသည် တခုအပါအဝင် ဖြစ်သည်။ ရုပ်ရှင် အသံဖမ်းရုံ၌ အသံသွင်းသည့်အခါ အသံလှိုင်း အသီးအသီးတို့သည် အလင်းလှိုင်းသို့ ပြောင်းသွားလေသည်။ ဆိုလိုသည်မှာ ဖလင်ကော်ပြား ပေါ်တွင် အလင်းရောင် အနည်း အများကို လိုက်၍ အသံသွင်းခြင်း ဖြစ်သည်။ ရုပ်ရှင်ရုံတွင် ရုပ်ရှင်ပြသည့်အခါ ဖလင် အသံလမ်းကြောင်းပေါ်သို့ လွှတ်သော အလင်းသည် အလင်းလျှပ်စစ်အိမ်ကို ဖြတ်၍ လွှတ်သော အလင်းရောင်ဖြစ်သည်။ အလင်းလျှပ်စစ်အိမ်သည် အလင်းတန်းများကို လျှပ်စစ် ဓာတ်စီးကြောင်းအဖြစ်သို့ ပြောင်းလိုက်သည်။ ယင်းဓာတ်စီးကြောင်းသည် အသံချဲ့စက်ဆီသို့ ရောက်သွားပြီးနောက် အသံအဖြစ်သို့ ပြန်၍ ပြောင်းသွားလေသည်။ အလင်းလျှပ်စစ်အိမ်ကို တယ်လီဗီးရှင်း ခေါ် ရုပ်လှင့်ရုပ်ဖမ်းခြင်း၌လည်း အသုံးပြုသည်။ အခြားလုပ်ငန်းများတွင် အလင်းလျှပ်စစ်အိမ်ကို ပစ္စည်းများ ရေတွက်ရာ၌၎င်း၊ တံခါးများ ဖွင့်ရာ၌၎င်း၊ ကုန်များ စစ်ဆေးရာ၌၎င်း၊ အခြားအလိုအလျောက် ထိန်းသိမ်းသည့်စက်များ၌၎င်း အသုံးပြုကြသည်။ အလင်းလျှပ်စစ်အိမ်သည် အလင်းကို အလွန်မိလွယ်သောကြောင့် တခါတရံ ယင်းကို လျှပ်စစ် မျက်စိ ဟု ခေါ်ကြသည်။

အလင်းစွမ်းအင်ကြောင့် လျှပ်စစ် စွမ်းအင် အဖြစ်သို့ ပြောင်းလာသော အလင်းလျှပ်စစ်အခြင်းအရာကို ခရစ် ၁၈၇၃ ခုနှစ်က မေ အမည်ရှိသော လူတယောက်က အမှတ်မထင် တွေ့ရှိခဲ့သည်။ ထိုတွေ့ရှိခဲ့ခြင်းမှာ ဆီလီနီယမ် ဒြပ်စင်ကို ဗာဇီလီယပ်ဆိုသူ တွေ့ရှိခဲ့ပြီးသည့်နောက် နှစ်ပေါင်း ၅၆ နှစ် အကြာတွင် တွေ့ရှိခြင်း ဖြစ်သည်။ ဆီလ်နီယမ် သတ္တုဖြင့် ပြုလုပ်သော အချို့ ကရိယာများ၏ လျှပ်စစ်တား (ဝါ) လျှပ်စစ်ခုခံမှုသည် ယင်းတို့အပေါ်သို့ ကျသော အလင်းရောင်အား အနည်းအများကိုလိုက်၍ ပြောင်းလဲကြောင်း မေ တွေ့ရှိ၏။ ဟာက်ဇဆိုသူ တွေ့ရှိခဲ့သော လျှပ်စစ်အလင်းအိမ်၏ အခြေခံ အခြင်းအရာ မှန်ကန်ကြောင်းကို ဟောလဝက် ဆိုသူကလည်း ခရစ် ၁၈၈၈ ခုနှစ်၌ ထောက်ခံခဲ့၏။ထိုအခြင်းအရာမှာလျှပ်စစ်မဓာတ်သွင်းထားသောသွတ်ပြားသည် အာလတြာဝိုင်အိုလက် ရောင်ခြည် (ခရမ်းဘေးရောင်ခြည်) နှင့် တွေ့ထိသောအခါ လျှပ်စစ်ဓာတ် ထွက်ပေါ်လာခြင်း ဖြစ်သည်။ ထိုနောက်မကြာသေးမီအတွင်း ဆိုဒီယမ်၊ ပိုတက်ဆီယမ်၊ ဆီဇီယမ်စသော သတ္တုများမှလည်း အီလက်ထရွန်များ ထွက်ကြောင်း တွေ့လာသည်။ ဤသည်မှစ၍ အလင်း လျှပ်စစ်အိမ် စတင်ဖြစ်ပေါ်လာလေသည်။ အလင်းလျှပ်စစ်အိမ်၏ အစွမ်းဖြင့် သူခိုးလုနှ့် ခေါင်းလောင်း တီးနိုင်ခြင်း၊ လမ်းဓာတ်မီးများကို အလိုအလျောက် ပိတ်နိုင် ဖွင့်နိုင်ခြင်းစသည်များကို ပြုလုပ်နိုင်လေသည်။

**အလောင်းစည်သူမင်း** (မြန်မာ ၄၇၄–၅၂၉)။ ။ ပုဂံရာဇဝင်၌ ဘုန်းတန်ခိုးကြီးသော အလောင်းစည်သူမင်းသည် ကျန်စစ်သားမင်းကြီး၏သမီးတော် ရွှေအိမ်သည်နှင့် စောလူးမင်း၏သားတော် စောယွန်းတို့၏ သားတော်ဖြစ်သည်။ (ကျန်စစ်သားမင်း — လည်းရှု။)

အလောင်းစည်သူအားဖွားမြင်သောအခါ ဥက္ကင်သ

တံခါးလည်း သူမဖွင့်ပဲပွင့်သည်။ အိမ်ရှင်စည်ကြီးလည်း သူမတီးပဲအလိုလိုမြည်သည်။ မင်းသားလည်း ဖွားသည့်နေ့မှစ၍ ပြင်းပြစွာ မဆိတ်မညံငိုသည်။ထီးလှိုင်ရှင်မင်းကြီးလည်း မြေးတော်ငိုသောအကြောင်းကို ဟူးရားဖြူ ဟူးရားညိုတို့အား မေးတော်မူ၏။ ဟူးရားဖြူ ဟူးရားညိုတို့လည်း မြေးတော်သည် တိုင်းကားနိုင်ငံအပိုင်းအခြားကို သိလို၍ ငိုပါသည်ဟု နားတော်လျှောက်၏။ ထိုအခါ ထီးလှိုင်ရှင်ကျန်စစ်သားမင်းလည်း နိုင်ငံအပိုင်းအခြားကို ရွှေပေတွင် ရေးစေ၍ ဖတ်လျှောက်မှ ငိုသံဆိတ်သောဟူ၏။ ထိုသို့ အံ့ဖွယ်သရဲကို ဘိုးတော်မြင်လျှင် "ငါ့မြေးတော်နန်းကို ငါစောင့်ခြင်းသာဖြစ်ပါသည်" ဟူ၍ မိန့်တော်မူပြီးသော် မြေးတော်ကိုရင်ခွင်၌ပိုက်လျက် ရာဇပလ္လင်ထက်တင်၍ သီရိဇေယျသူရဟူသောအမည်နှင့် ဘိသိက်သွန်း၍ မင်းမြှောက်တော်မူသည်။

သက္ကရာဇ် ၄၇၄ ခုနှစ်တွင် ကျန်စစ်သားမင်း နတ်ရွာစံသော် မြေးတော်အလောင်းစည်သူနန်းတက်သည်။ နိုင်ငံတော်ကာကွယ်ရေးကို အနော်ရထာမင်းစောနှင့် ကျန်စစ်သားမင်းတို့က ဆောင်ရွက်ခဲ့သဖြင့် အင်အားတောင့်တင်းခဲ့ပြီဖြစ်၍ အလောင်းစည်သူမင်းကြီးသည် နိုင်ငံခြားဆက်သွယ်ရေးကို အထူးအရေးပေး ဆောင်ရွက်တော်မူရာ အိမ်နီးချင်းနိုင်ငံများနှင့်ဆက်ဆံရေး ပိုမိုရေးရောက်ခဲ့သည်။ မင်းကြီးသည် ပုသိမ်သင်္ဘောဆိပ်မှ မလ္လာယုကျွန်းဆွယ်သို့ ရင်း၊ ရခိုင်ကမ်းရိုးတန်းဂိုကျွန်းများသို့ရင်း၊ ထိုမှတဆင့် အိန္ဒိယနိုင်ငံ၏အရှေ့ဖက်ရှိ ကမ်းရိုးတန်းဒေသများသို့ရင်း ရေလမ်းခရီးဖြင့် သွားရောက်ခဲ့လေသည်။ ထိုနောက် ကုန်းလမ်းခရီးဖြင့် တရုပ်ပြည်သို့လည်း စွယ်တော်ပင့်ရန် ရောက်ကြောင်းနှင့် ဆိုသည်။ အိန္ဒိယနိုင်ငံ အရှေ့ကမ်းရိုးတန်းတလျှောက် သွားလာစဉ် ပဋိက္ကယားကုလားမင်းက သမီးတော်ဆက်၍ မဟာမိတ်ပြုတော်မူသည်။ ဗုဒ္ဓဂယာဒေသသို့လည်း သံအမတ်များစေလွှတ်၍ သာသနာတော်အဆောက်အအုံများကို မွမ်းမံစေခဲ့သည်။ မဟာဗောဓိရှိရာ မဇ္ဈိမဒေသကျောက်စာတွင် အလောင်းစည်သူကို ပျူတသိန်းမင်းဟု ရေးထိုးထားသည်ကို တွေ့ရ၏။

မင်းတရားကြီးသည် နိုင်ငံတွင်း နိုင်ငံပ လှည့်လည်နေဖန်များသောအခါ နိုင်ငံတွင်း၌ ထကြွလှုပ်ရှားမှုများ ပေါ်ပေါက်လာခဲ့ပြန်သည်။ မြန်မာနိုင်ငံ တောင်ဖက်အစွန်းဒေသဖြစ်သော တနင်္သာရီ၌ ထကြွသဖြင့် ကိုယ်တော်တိုင် ချီတက်နှိမ်နင်းရ၏။ ရခိုင်တောင်ပိုင်းမှ သက်တို့၏ဘုရင်ကတုံထကြွသည်ကိုလည်း နှိမ်နင်းရသည်။ ရခိုင်ပြည်တောင်ပိုင်း၌ မင်းရိုးဘီလူးကို သူပုန်အမတ်လုပ်ကြံ၍ ဆုံးသည်တွင် မင်းဘီလူးသား မင်းရဲဘာယ အကူအညီရလိုရငြားဟူ၍ ဘိုးတော် ကျန်စစ်သားမင်းကြီးလက်ထက်က လာရောက်ခစားသည်။ အခွင့်မရပေ။ မင်းရဲဘာယလွန်၍ သူ၏သား လက်ျာမင်းနန် အလောင်းစည်သူထံ ခစားရသည်။ ထိုတွင်မှ အလောင်းစည်သူရခိုင်ကိုတိုက်၍ လက်ျာမင်းနန်ကို နန်းတင်ရသည်။

အလောင်းစည်သူမင်းကြီးသည် နိုင်ငံတွင်း၌ စည်းလုံးမှုပိုမိုခိုင်မြဲစေရန် နိုင်ငံတော်အုပ်ချုပ်မှုနှင့် တရားစီရင်မှုတို့ တပြေးတည်းညီညွတ်အောင် ကိုယ်တော်တိုင် ကြိုးကြပ်ကြည့်ရှုသည့်ပြင် အများပြည်သူလိုက်နာကြရန် ဓမ္မသတ်ကိုလည်း စီရင်ခဲ့သည်ဟု အဆိုရှိသည်။ အလောင်းစည်သူ၏ တရားစီရင်ထုံးတို့ကို စုဆောင်း၍ အလောင်းစည်သူဖြတ်ထုံးဟု ပြုစုရေးသားထားလေသည်။ ဤနည်းဖြင့် အုပ်ချုပ်မှုရေးရာများ လွယ်ကူလာပေတော့သည်။ ထို့ပြင် မြန်မာနိုင်ငံအရပ်ရပ်သို့ ကြွတော်မူ၍ ကန်ချောင်းဆည်မြောင်းပြုပြီးသော် တောင်တာဝေ၍ လယ်ပယ်ဖွံ့ပြီးမှ သူရဲသူခက် ဆင်လုံးမြင်းရင်းတို့ အစာဖြစ်ကောင်းသောအရာကို အစာဖြစ်စေ၍ ထိုသို့အစုစုသောမြေတို့ကိုပေါင်း၍ ခရိုင်မြို့ပြုဖြစ်ကောင်းသောအရာတို့ကိုလည်း ခရိုင်မြို့ပြု ဖြစ်စေသည်။ ဤသို့စီရင်တော်မူပြီးမှ နိုင်ငံတော်အစပ်တို့တွင် ကင်းတိုက်ကင်းရှည်ထားတော်မူသည်။

အုပ်ချုပ်ရေး၌သာမဟုတ် ကူးသန်းရောင်းဝယ်ရေး၌လည်း နိုင်ငံတော်အလုံး၌ အသုံးအဆောင်တချက်တည်းဖြစ်စေလိုသောကြောင့် ချိန်၊ ကျပ်၊ ခွဲ၊ မတ်၊ မူး၊ ပဲတို့ကိုရင်း၊ တင်း၊ ခွဲ၊ စိတ်၊ စရွတ်၊ ပြည်၊ ခွက်၊ စလယ်တို့ကိုရင်း တညီတညွတ်တည်းကိုက်ညီစေရန် မင်းမိန့်ဖြင့် ပြဋ္ဌာန်းသတ်မှတ်တော်မူသည်။ ဤနည်းဖြင့် နိုင်ငံတွင်း စီးပွားရေးဖလှယ်မှုနှင့် ကူးသန်းရောင်းဝယ်မှုများကို လွယ်ကူစေလေသည်။ ထို့ပြင် နိုင်ငံသားအားလုံးတို့အား ညီညွတ်မှုဖြင့် စည်းလုံးရေးစိတ်ဓာတ်ကို ကောင်းစွာ သွတ်သွင်းပေးရာလည်း ရောက်လေသည်။

မင်းတရားကြီးသည် အုပ်ချုပ်ရေးနှင့် စီးပွားရေးကိုသာမဟုတ်၊ သာသနာရေးကိုလည်း လျစ်လျူမရှုခဲ့ပေ။ အိန္ဒိယနိုင်ငံဗုဒ္ဓဂယာ၌ သာသနာ့အဆောက်အအုံများကို ပြုစုတည်ဆောက်စေခဲ့ရုံမက နိုင်ငံတွင်းအနှံ့အပြား၌လည်း စေတီပုထိုးဂူကျောင်းစသည်တို့ကို တည်ခဲ့သည်။ မင်းတရားကြီး၏ ကောင်းမှုတော်တို့ကား ပုဂံတွင် သဗ္ဗညုဘုရား၊ အညာတွင် ကျော်လေးဆူအဝင် သီဟတော ဘုရားတို့ဖြစ်ကြသည်။ (သဗ္ဗညုဘုရား — ရှု။) မင်းဘူးစက်တော်ရာကို သွားရောက်ဖူးမြော်ပြီးသောအခါ ကျောင်းတော်ရာစေတီကိုလည်း ပြုစုတော်မူသည်။ ထိုမင်းလက်ထက် ရှင်အရဟံမထေရ်ပျံလွန်တော်မူ၍ ပံ့သုကူမဟာထေရ်က သာသနာဦးဆောင်အဖြစ် ဆက်ခံရသည်။

အလောင်းစည်သူမင်းကြီးသည် တိုင်းကားနိုင်ငံတော်

ကို အဖက်ဖက်မှ ပြုစုတော်မူပြီးနောက် စည်းစိမ်တော် အနှစ် ၇၀၊ သက်တော် ၈၅ နှစ်တွင် သားတော်အလတ် နရသူလုပ်ကြံ၍ နတ်ရွာစံတော်မူသည်။

မင်းကြီးတွင် ရာဇဘိသိက်ခံ မိဖုရားလေးပါးရှိသည်။ ရတနာပုံလည်းတပါး၊ တိလောကစန္ဒာဒေဝီလည်းတပါး၊ ရာဇကုမ္မာရီလည်း တပါး၊ တောင်ပြင်သည်လည်း တပါး ပေါင်းလေးပါးတည်း။ မိဖုရားရတနာပုံတွင်မြင်သည့် သားတော်မင်းရှင်စောကို မင်းကြီးမျက်၍ ပြည်မှ နှင်ထုတ်သောကြောင့် ပုဂံမှ အလုံးအရင်းနှင့်ထွက်သွား၍ ယခုမန္တလေး တည်ရာအရှေ့ဖက် ထွန်းတုံးပုတက်တွင် မြို့ပြတည်ထောင်နေကာ အောင်ပင်လယ်ကန်၊ တမူဆိုးကန်တို့ကို ဆည်ခဲ့သည်။ (အောင်ပင်လယ်ကန်—လည်းရှု။) မိဖုရားတိလောက စန္ဒာဒေဝီကို နောက် ဦးဆောက်ပန်းဟူသောအမည် သမုတ်သည်။ ထိုမိဖုရားမှ ထောက်လှေကားကို မြင်သည်။ ရာဇကုမ္မာရီမိဖုရားတွင် သားတော်သမီးတော်မရှိ၊ မိဖုရားတောင်ပြင်တွင် သမီးတော်နှစ်ပါးမြင်သည်။ အကြီးကို တောင်ဖျားဟူ၍ မှည့်တော်မူ၏။ အငယ်ကိုရွှေချဟု မှည့်သည်။ ထီးလှိုင်ရှင်ကျန်စစ်သားမင်းကြီး၏အမတ် ဓမ္မကျင် သမီးကိုလည်း ကိုယ်လုပ်တော်အဖြစ်ထားသည်။ ထိုကိုယ်လုပ်တော်မှ နရသူကိုမြင်သည်။

မင်းတရားကြီးကား အမည်ခုနစ်မျိုးဖြင့် ထင်ရှားခဲ့ကြောင်းဖြင့် မဟာရာဇဝင်ကြီး၌ ဆိုသည်။

(၁) ဖွားမြင်သည်နှင့် အိမ်ရှင်စည်ကြီးမြည်သည်ကို အကြောင်းပြု၍ အချို့သော ရာဇဝင်တွင် "လောင်းစည်သျှူ"ဟူ၍ ရေးမှတ်ကြသည်။

(၂) မင်းဖြစ်တော်မူ၍ ရှေးဦးစွာ ရွှေဂူဘုရားတည်တော်မူသည်ကို အကြောင်းပြု၍ "ရွှေဂူဒါယကာ"ဟူ၍လည်း ရေးမှတ်ကြသည်။

(၃) ဘိုးတော်ပေးသော "သီရိဇေယျသူရ" ဟူသော အမည်ဖြင့်လည်း ရေးမှတ်ကြသည်။

(၄) ငယ်ကငိုတော်မူရာတွင် ချက်တော် တမိုက်ခန့် ထွက်သည်ကို အကြောင်းပြု၍"ချက်တော်ရှည်" ဟူ၍လည်း ရေးမှတ်ကြသည်။

(၅) ဇမ္ဗူသပြေပင်ရင်း၌ သိကြားမင်း ပေးသော "သိရိ တြိ ဘာဝနာ တိတျာ ပဝရ ပဏ္ဍိတ သုဓမ္မရာဇာ မဟာဓိပတိစည်သူ" ဟူသော အမည်ဖြင့်လည်း ရေးမှတ်ကြကုန်သည်။

(၆) သိကြားပေးသော အမည်ရင်းတွင် အဖျားကိုယူ၍ "နရပတိစည်သူ" ဟူ၍လည်း ကလျာဏီကျောက်စာစသော သမိုင်းမော်ကွန်းတို့၌ ရေးမှတ်ကြကုန်သည်။

(၇) ရှင်ဖြူဘုရား ဗလဝါမုက္ခ၌ စဉ်ကျပေသောအခါ အလောင်းစည်သူငါကိုယူလော မိန့်တော်မူသည်ကို အကြောင်းပြု၍ အလောင်းစည်သူဟု ရေးမှတ်ကြသည်။

**အလောင်းတော်ကဿပ။** ။မြန်မာနိုင်ငံတွင် ထင်ရှားသော စေတီ၊ ပုထိုး၊ ဘုရားများစွာရှိသည့် ဌာနများ အနက် မုံရွာခရိုင်ရှိ အလောင်းတော် ကဿပသည် တဌာနဖြစ်သည်။

အလောင်းတော် ကဿပသည် မုံရွာမြို့ အနောက်မြောက်ဖက်မိုင် ၆၀ ခန့်အကွာ တောင်ကြီးတို့၏အကြား၌ တည်ရှိသည်။ တည်ရာအရပ်မှာလူနေနှင့် အလှန် ဝေးလံ၍ တောတောင် အလွန်ကြီးမားသော အရပ်ဖြစ်သည်။ အလောင်းတော်ကဿပသို့ သွားရာတွင် မုံရွာမြို့မှရင်း၊ ကနီမြို့မှရင်း တောင်ခြေစခန်းရွာသို့ ကားဖြင့် သွားနိုင်သည်။ မုံရွာမှ ချင်းတွင်းမြစ်တဖက်သို့ကူး၍ ယင်းမာပင်မြို့သွားလမ်းအတိုင်း ကားစီးသွားသော် မိုင် ၄၀ ဝေးသော တောင်ခြေစခန်းဖြစ်သည့် သလောက်ရွာသို့ ရောက်သည်။ သလောက်ရွာမှ အလောင်းတော်ကဿပအရောက် ခြေလျင်ခရီးဖြင့် တောင်တက်တောင်ဆင်း ၁၇ မိုင် သွားရသည်။ ကနီလမ်းမှသွားမူ တောင်ခြေစခန်း ဖြစ်သော ညောင်ပင်လယ်ရွာသို့ မိုင် ၂၀ သွားရသည်။ ညောင်ပင်လယ်ရွာမှလည်း သလောက်မှ တက်သကဲ့သို့ပင် တောင်ဆင်း တောင်တက် ၁၇ မိုင်သာသာသွားရသည်။ လူသူမနီးသော တောကြီး တောင်ကြီးလမ်းဖြစ်၍ အသွားအလာခက်ခဲသောကြောင့်ပင် ပိုမို ကျော်ကြားသည်ဟု ယူဆရပေသည်။

အလောင်းတော်သည် တောင်သုံးလုံးဆုံရာ အကြားအနိမ့်ကွက်လပ်တွင် တည်ရှိသည်။ အနောက် တောင်ဖက်တွင် မဟူတောင်၊ အနောက်ဖက်နှင့် အနောက် မြောက်ဖက်တို့တွင် ပုံတောင် ပုံညာတောင်၊ မြောက်ဖက် အလောင်းတော်နှင့် အကပ်ဆုံးတွင် ပုံတောင် ပုံညာတောင် အဆက် ခေါက်လောက်တောင်ရှိသည်။ အချို့က စိတ်ကူးနှင့် မဇ္ဈိမဒေသရှိ ရာဇဂြိုဟ်ပြည်ကို ဝိုင်းနေသော ဝေပုလ္လ၊ ဝေဘာရနှင့် ဂိဇ္ဈကုဋ္ဋတောင်ဟု ဆိုကြသည်။

အလောင်းတော်တည်ရာ ကွက်လပ် ထိပ်အပြင်သည် အလျားပေ ၁၀၀၊ အနံပေ ၆၀ ထက် ပိုမကျယ်ချေ။ အလောင်းတော် တန်ဆောင်းသည် နှစ်ဆောင်တွဲ ဖြစ်၍ အရှေ့မြောက်ဖက်အဆောင်တွင် အလောင်းတော်ရှိသည်။ အနောက်တောင်ဖက် အဆောင်သည် အာရုံခံဖြစ်သည်။ တန်ဆောင်း နှစ်ဆောင်တွဲသည် အလျားပေ ၃၀၊ အနံ ၄၂ ပေခန့်ရှိသည်။ အာရုံခံတန်ဆောင်းဖက်၌ ယခုအခါကြေးစည်ကြီးငယ် အလုံးပေါင်း ၈၀ ဆွဲချိတ်ထား၍တန်ဆောင်း

အနီးတွင် ခေါင်းလောင်းကြီးသုံးလုံးနှင့် စေတီငယ် တဆူ ရှိသည်။

တန်ဆောင်းအတွင်းရှိ ရုပ်ပွားတော်မှာ ဘုရားပုံတော် မဟုတ်၊ ရဟန္တာပုံဖြစ်၍ ရောင်တော်မပါချေ။ အုတ်ရိုး အင်္ဂတေပုံတော်ဖြစ်၍ ရွှေချထားသည်။ ပုံတော် သည် လက်ျာခန်တောင်းဖြင့်လျောင်း၍ လက်ျာလက်ကိုပက်လက် ဖြန့်ကာ ခေါင်းအုံးလျက် အနောက်မြောက်သို့ ဦးခေါင်း ပြုထားသည်။ လျောင်းစက်နေသည့် လျောင်းတော်မူ ပုံ တော်မဟုတ်ပဲ ပရိနိဗ္ဗာန်စံတော်မူသည့် ပုံတော်မျိုး ဖြစ် သည်။အလျား ၁၅ ပေ (ဆယ်တောင်) မျှရှိသည်။တန် ဆောင်းအတွင်း အလောင်းတော်၏ ခေါင်းရင်းဖက် ရွှေ နားတွင် မတ်ရုပ်တော်တဆူရှိ၏။ အလောင်းတော်၏ အ နောက်မြောက်ယွန်း အထက် စောင်းတန်း ကုန်းမြင့်ပေါ် တွင်မေတ္တာရေတွင်းရှိသည်။ စောက် ငါးတောင်ခန့် ရေ နေတတောင်ခန့်ရှိသည်။ ရေမပြတ်ထွက်နေသဖြင့် သောက် ချိုးမကုန်ဖြစ်၏။ အချို့က ဂိဇ္ဈကုဋ်တောင်ဟု ခေါ်သော မဟူတောင်တွင် လုံးပတ်အတောင် ၂၀ ခန့်ရှိသော ကျွန်း ပင်မောင်နှမရှိသည်။ အလောင်းတော်တည်ရာ ကုန်းပြင် အောက်သို့ တောင်ဖက်မှ ချောင်းမကြီးခေါ် တောင် ကြားချောင်းသည် စီးဝင်ငုပ်လျှိုးသွားပြီးလျှင် မြောက် ဖက်မှပြန်ထွက်၍ နောက်ဆုံး ချင်းတွင်းမြစ်သို့စီးဝင်သည်။ ထိုရေချောင်း ကုန်းပြင်အောက်ဝင်ရာ အဝ (တောင်ဖက် ပေါက်) ကို အထက်ရေစပြစ်ခေါ်၍ ထွက်ရာအဝ(မြောက် ဖက်ပေါက်)ကို အောက်ရေစပြစ်ဟု ခေါ်သည်။ ထိုအဝ နှစ်ခုအကြား ချောင်းငုပ်နေသောအကွာကား ပေ ၁၅၀ ကျော် ၂၀၀ နီးပါးရှိသည်။ ဘုရားပူးများသည် မိဋ္ဌာန် ၍ ဆွမ်းတော်ပွဲများကို အထက်ရေစပြစ်မှ မြောချလိုက် သောအခါ ဆွမ်းတော်ပွဲသည် ငုပ်သွားသော ချောင်းထဲ သို့ ရေစီးအလိုက်ပါသွားရာတွင် အောက်ရေစပြစ်မှ ထွက် လာသောအခါ ဆွမ်းများပါမလာတော့ပဲ ခွက်ချည့်ထွက် လာသည်ဟု ရှေးအခါက ဆိုကြသည်။ စင်စစ် ထိုချောင်း သည် တောင်ကျချောင်းဖြစ်၍ ရေစီးမြန်ပြီးလျှင် အကွေ့ အကောက်နှင့် တိုက်မိခိုက်မိစရာ အစွန်းများရှိသည်။ ဆွမ်း တော်ပွဲ၌ပါသမျှ တိုက်မိခိုက်မိ၍ တိမ်းစောင်းကာ ရေထဲ ကျကျန်ရစ်ပြီး ရေပေါ်၌ ပေါ်သောခွက်သာ ပြန်ထွက် လာခြင်းဖြစ်သည်ဟု ထင်မြင်ချက်ပေးကြသည်။ သို့ရာ တွင် ယခုအခါ ထိုချောင်းသည် ဆွမ်းတော်ပွဲ မြောချ လောက်အောင် ရေမများသည့်အပြင် ကျောက်လိုဏ်ဂူ အဝ၌ ကျွန်းသစ်တုံးများ ပိတ်ဆို့နေလေသည်။ ခရစ် ၁၉၂၀ ပြည့်နှစ်လောက်အထိမူ ထိုချောင်းထဲသို့ သစ်တော ဖက်မှ သစ်ငယ်တုံးငယ်များ မြောချကြောင်းဆိုကြသည်။ ၁၉၃၇ ခုနှစ်က ဘုရားဖူးရောက်သော ခရီးသည် တဦး၏ မှတ်တမ်း၌ ထိုချောင်းကို ဟိုဖက်သည်ဖက် ပေါက်သွားလို သူများအား ရှေးကိုးများကခေါ် ဆောင်ပို့ပေးကြကြောင်း၊ ချောင်း၏အကျဉ်းဆုံးနေရာသည် ဆယ်ပေခန့်ရှိ၍အချို့နေ ရာ၌ရေနက်သဖြင့်ကိုယ်ဖော့သွားရကြောင်းဖြင့်ဆိုသည်။

အထက်ရေစပြစ်အဝင်ဝ၏ အထက်အပေါ်တွင် ရှင်သူ ငယ်ပေါက်ခေါ် အပေါက်ငယ်တခုရှိသည်။အတောင် ၂၀ခန့် ဝင်မိလျှင် ကျောက်သား ပိတ်၍ တွင်းခေါင်း ဆုံးနေလေ သည်။ ထိုပိတ်နေသော ကျောက်ခေါင်းထဲတွင် ကဿပ အလောင်းတော်အစစ်ရှိသည်ဟု အယူရှိကြသည်။

ကဿပအလောင်းတော်ဟု ဆိုရာ၌ မည်သည့် ကဿပ ၏အလောင်းဖြစ်သည်ကိုအယူအဆအမျိုးမျိုးကွဲကြသည်။ ကဿပဘုရားသခင်မှစ၍ ဥရုဝေဠကဿပ၊ နဒီ ကဿပ၊ ဂယာကဿပ၊ ရှင်မဟာကဿပ၊ စိတ္တ ကထိက ကုမာရ ကဿပ၊ သာမညကုမာရကဿပ၊ သီဟိုဠ်ကဿပ၊ ကိဋ္ဌိပူရ ကဿပ၊ ပေါင်လောင်ရှင်ကဿပစသည်ဖြင့် ကဿပအမည် ဖြင့် ထင်ရှားသော ပုဂ္ဂိုလ်ထူး အများအပြားရှိသည့် အ နက် ရုပ်ပုံတော်သည် ရောင်တော်မပါသဖြင့် ဘုရားကဿပ လုံးဝမဖြစ်နိုင်၊ ရဟန်းသာ ဖြစ်ရာသည်ဟု ဆိုကြသည်။ ကျန်ကဿပများ အနက် ကဿပ အလောင်းတော်သည် ပဥ္စမသံဂါယနာတင် ရှင်မဟာကဿပကြီးဟူ၍ရင်း၊ ပေါင် လောင်ရှင်ကဿပဟူ၍ရင်း ထိုရဟန္တာကြီး နှစ်ပါးကို အ ငြင်း ပွားကြသည်။ သို့ရာတွင် ရှင်မဟာကဿပကြီးသည် ရာဇဂြိုဟ်ပြည်ကို ရံပတ်ထားသည့် တောင်ငါးလုံး အနက် တတောင်ဖြစ်သော ဝေဘာရတောင် စရည်းပင်ရောက်ခါ လိုဏ်ဝတွင် ပဥ္စမသံဂါယနာတင်သည်။ထိုဝေဘာရတောင် ၌ပင် ပရိနိဗ္ဗာန်ပြုသည်ဟု ကဿပသံယုတ် အဋ္ဌကထာတွင် ဆိုသည်။ ထိုကြောင့် ယခု အလောင်းတော်ကဿပ နေရာ သည် ရှင်မဟာကဿပကြီး ပရိနိဗ္ဗာန်စံရာနေရာ မဖြစ်နိုင် သည်မှာ ထင်ရှားသည်။ ရာဇဂြိုဟ်ပြည်ကြီးသည် အချင်း တယူဇနာနီးနီး ကျယ်သည်ဟု ကျမ်းဂန်၌ ဆိုသည်။ ယခု တောင်သုံးလုံးဝိုင်းရံနေသည့် ထိပ်ပြင်နေရာကား အိမ်ကြီး တဆောင်ဆောက်သာရုံသာရှိသဖြင့် မည်သည့်နည်းနှင့်မျှ ရှင်မဟာကဿပ ပရိနိဗ္ဗာန်စံရာ ရာဇဂြိုဟ်ပြည် မဖြစ်နိုင် ချေ။ သို့ဖြစ်ရကား သက္ကရာဇ် ၅၃၆ ခုနှစ်တွင် နန်းတက် သော ပုဂံပြည့်ရှင်နရပတိစည်သူမင်းလက်ထက်တွင် ကျော် စောသော ပေါင်လောင်ရှင်ကဿပ၏ အလောင်းတော်နေ ရာဟု အများကယူဆကြသည်။ (ဆရာတော်များ — ရှု။) ပေါင်လောင်ရှင်ကဿပသည်ထီးလင်းမြို့စီရင်စုပေါင်လောင် ရွာဇာတိဖြစ်၍ ပုဂံမြို့တောင်ဖက် ခရီးတတိုင်ကျော် ကွာ သော တောရကျောင်း၌ သီတင်းသုံးတော်မူသည်။ ဆရာ တော်သည် သီဟိုဠ်အန္တအပြား ဘုရားဖူး ကြွပြီးနောက် သီဟိုဠ်မှဓာတ်တော် ၃၇ ဆူနှင့် မေးရိုးတော်တဆူပင့်ခဲ့ပြီး

လျှင် အထက်မြန်မာနိုင်ငံတခွင် ဘုရားများ အနှံ့အပြား တည်သည်။ ထိုဘုရားတည်ရာ အရပ်တို့၌လည်း လှည့်လည် ၍ သီတင်းသုံးတော်မူသည်။ ယောနယ်ဖက်သို့လည်း သာ သနာပြုကြွတော်မူတတ်သည်။ တခါသော် မြင်းမူတော ကျောင်းမှ အမြင့် တောကျောင်း၊ တံတောကျောင်းမှ ဖြတ်၍ ယောနယ်ဖက်သို့ သာသနာပြုကြွအသွား ယခု ပုံတောင်ပုံညာနှင့် မဟူတောင်တို့ဆုံရာ အလောင်းတော် နေရာ၌ ပရိနိဗ္ဗာန် ပြုလေသည်။ အနီးအနားရွာသားများ ကိုးကွယ်သူဒါယကာများက ကောင်းစွာသင်္ဂြိုဟ်ကြပြီးလျှင် အထိမ်းအမှတ်သဘောနှင့် ကိုယ်စားပုံတော် အလောင်း တော်သင်္ချာန် တည်ထားကိုးကွယ်ရာမှ အလောင်းတော် ကဿပဟု ဝေးနီးအနှံ့ ကျော်စောလာသည်ဟုဆိုကြသည်။

သို့သော် မေဓာလင်္ကာရ ပရမသဒ္ဓမ္မ ရာဇာဓိရာဇဂုရု တံဆိပ်တော်ရ ပြည်ဆရာတော်ကြီးမိန့်ကြားချက်အရသော် ကား တောင်ကြားရွာသား ရှင်ကဿပဖြစ်သည်ဟု ဆို လေသည်။တောင်ကြားရွာသား ရှင်ကဿပ၏အကြောင်း မှာ သက္ကရာဇ် ၇၆၃ ခုနှစ်နန်းတက်သော ပဌမမင်းခေါင် လက်ထက်က တောင်ကြားရွာမှ ရဟန်းဖြစ်သောကဿပ အမည်ရှိသော ရဟန်းတော်တပါးသည် သီဟိုဠ် ကျွန်းသို့ သွား၍ စာပေကျမ်းဂန် သင်ယူ တတ်မြောက်သောအခါ ပြန်လာပြီးလျှင် မုံရွာမြို့တောင် ချင်းတွင်းမြစ်၏ အရှေ့ ဖက်ကမ်းတွင်ရှိသော အမြင့်မြို့၏အနီး ရွှေလှေအရပ်၌ တိုက်တာတည်လျက် တပည့်သံဃာ များစွာတို့ဖြင့် စာပေ ကျမ်းဂန်ပို့ချသင်ကြား၍ နေလေသည်။

ထိုအခါ ရှမ်းပြည်ရှမ်းရွာမှ သိန္နီစော်ဘွား၊ မင်္ဂလာ စော်ဘွား စသည်တို့ ဝင်လာမစဲ တသဲသဲ ဖူးမျှော်ဆည်း ကပ်ကြသဖြင့် ပရိသတ်အတွက် စက်ဆုပ်ငြီးငွေ့လှ၍ အနိမ့် အရပ်သို့ ပြောင်းရွှေ့သွားကြသည်။ အနိမ့်အရပ်၌ နေရာ တွင် ရှေးနည်းအတိုင်း ပရိသတ်များစွာ ဆည်းကပ်ဖူးမျှော် ရန်လာကြသောကြောင့် စက်ဆုပ်ငြီးငွေ့တော်မူပြန်သဖြင့် မုံရွာမြို့အနောက် ကျောက်မျက်အရပ်သို့ သွားရောက် နေ တော်မူသည်။ ကျောက်မျက်အရပ်၌ နေရာတွင် ဆေးအ ကြောင်း ကောင်းစွာ သိကျွမ်းတော်မူသည်ဟုကြော်ကြား ပြန်သဖြင့် ရှေးကထက် ပရိသတ်များစွာ လာကြသော ကြောင့် ကျောက်မျက်မှ ခရီးတသောင်းငါးတိုင်ခန့် ဝေး သော တောင်ခြေရင်းတည်ရှိသော သေလောက် ခေါင် ပြောင်အရပ်သို့ကြွ၍ သီတင်းသုံးတော်မူသည်။

သေလောက်ခေါင်ပြောင်အရပ်၌ နေရာတွင်လည်း လူ တို့သည်သတင်းနားထောင်၍ ကြားရာအရပ်သို့ လိုက်လျက် ဖူးမျှော်ဆည်းကပ်ကြပြန်သဖြင့် နေ့မစဲ၊ ညဉ့်မစဲ ပရိသတ် တသဲသဲ ဆူညံနေကြသောကြောင့် ငြီးငွေ့စက်ဆုပ်တော် မူပြန်သဖြင့် ၃၅ ခုသောတောင်များကို ကျော်လွန်၍သွား ရသော ယခုအလောင်းတော်ကဿပခေါ်သော တောင် ကမ်းပါးယံအနီး၌ ကေစာရ သီတင်းသုံးနေတော်မူသည်။ ထိုသို့ခဲယဉ်းသော တောတောင်ကြား၌ နေတော်မူငြား လည်း ရှေးဘုန်းရှေးကံ ဖြည့်ဆည်းခဲ့ဘူးသော ပါရမီထူး ဝိသေသကြောင့် လူအများသည် သတင်းနားထောင် လိုက်လံရှာဖွေကြသောကြောင့် လူအများ သိရှိသွားပြန် သဖြင့် ထူးခြားသောပုဂ္ဂိုလ်ဟု ကြည်ညိုသူများ သဒ္ဓါ ပွားလျက် ထက်သန်သော စေတနာဖြင့် ဆည်းကပ်ပူဇော် ဖူးမျှော်ရန်လာကြပြန်သည်။

ရှင်ကဿပသည် ထိုနေရာ၌ပင် အသက်ထက်ဆုံး သီ တင်းသုံးနေထိုင်၍ ပျံလွန်တော်မူသည် ဟူ၏။ ထိုပျံလွန် တော်မူသောနေရာ၌ ဥဒ္ဒိဿ အလောင်းတော် သင်္ချာန် အင်္ဂတေဖြင့်ပြုလုပ်ထားကြသည်ဟု ဆိုလေသည်။

**အလောင်းမင်းတရားကြီး(မြန်မာ ၁၀၇၆–၁၁၂၂)။ ။** မြန်မာနိုင်ငံကြီး ဒုတိယအကြိမ်မြောက် ပျက်စီးပြိုကွဲခဲ့ရ သည်ကို တတိယအကြိမ် ပြန်လည်စည်းရုံးထူထောင်ခဲ့သူမှာ အလောင်းမင်းတရားကြီးဖြစ်သည်။

ဖုဂံ ပြည့်ရှင် ပြူစောထီးမှသည် ၄၇ ယောက်သော မင်းတို့နောက် ဖောင်စကြာရှင် နရပတိစည်သူ၏ သမီး ကျောင်းတော်သည်နှင့် နရသိင်္ခမင်း၏သားတော် အနန္တ သူရိယတို့ စုံဖက်ရာတွင် ဖွားမြင်သည့်သား သိဒ္ဓိကာ၊ သား ဘဲကြီးရတနာ၊ သားဘဲငယ်ရတနာ၊ သားလံဘူးအနန္တရသူ၊ သားပေါက်မြိုင်မင်းဟုလဲ၊ သားမြေနဲစောသိင်္ခ၊ သားမိုး ညှင်းမင်းတရား ညီဝပါနော်ရထား၊ သား မြောက်ဖက်နော် ရထာ၊ သားသခ်ီယာ၊ သားမင်းနေဝန်း၊ သားမင်းရဲထွေး၊ သား မင်းကြီးရွှေ၊ သား တုရင်ကျော်သူခံမင်းဖိုးခင်၊ သား မင်းစစ်နိုင်၊ သား သီရိမဟာဓမ္မရာဇာ၊ သား အလောင်း မင်းတရားကို ဖွားသည်။ အလောင်းမင်းတရားကြီးကား သက္ကရာဇ် ၁၀၇၆ ခုနှစ် တော်သလင်းလပြည့်ကျော် တရက် သောကြာနေ့ ညဉ့်တချက်တီးကျော်တွင် မုဆိုးဘိုမြို့စား သီရိမဟာဓမ္မရာဇာဘွဲ့ခံ မင်းညိုစံနှင့် မဟာဒေဝီစောငြိမ်းဦး တို့၌မြင်သည့် ဒုတိယသားတော် ဖြစ်သည်။ ငယ်မည် ဦး အောင်ဇေယျတည်း။

၁၁၁၃ ခုနှစ်တွင် ဟံသာဝတီကတိုက်ခိုက်သိမ်းယူသဖြင့် အင်းဝမပျက်မီကပင် ဦးအောင်ဇေယျသည် မုဆိုးဘိုရွာ၌ သြဇာအာဏာရှိပြီး ဖြစ်သည်။ တန်ခိုးသတင်းထွက်ပြီး လည်းဖြစ်သည်။ အင်းဝပျက်လျှင် မုဆိုးဘိုကို ထန်းလုံးတပ် ပတ်ဝိုက်တည်၍ အခိုင်အလုံ နေသည်။ မြင်းရည်တက် ခြောက်ကျိပ်ရှစ်ယောက်ကိုလည်း ဖွဲ့စည်းခဲ့လေသည်။ ထို အခါ အင်းဝမှ မှန်စစ်သူကြီး ဒလပန်းက လူစေလွှတ်၍ သစ္စာပေးလာသည်။ ကွေ့ဂုဏ္ဏအိမ်ကလည်း သစ္စာပေးလာ

သည်။ မည်သည့်သစ္စာကိုမျှမခံချေ။ အမှုထမ်းတို့က အင်အားမရှိသေးသည့်အတွင်း ကွေတို့၏သစ္စာခံပြီးလျှင် မွန်လူမျိုးတို့ ပြန်သောအခါမှ ကြံကြိုက်ရကြမည်ဟုလျှောက်သည်ကိုလည်း ဤသို့ပြုလျှင် သားတော်မြေးတော်အစဉ်အဆက်သစ္စာမစောင့်သောအမျိုးဟု ပြောထုံးမကြေ ဖြစ်လေရာသည်ဟု မိန့်တော်မူလေသည်။

မွန်လူမျိုးတို့အပြန်တွင် ဟန်လင်းမြို့တောင်က ဆီး၍ တိုက်လိုက်ရာ မွန်အမြောက်အများသေလေသည်။ မုဆိုးဘိုတပ်ကို မွန်လူမျိုးတို့ အကြိမ်ကြိမ် ချီတက် တိုက်ခိုက်လာသည်ကိုလည်း နိုင်သည်ချည်း ဖြစ်သည်။ မင်းတရားကြီးသည် ၁၁၁၅ ခုနှစ်တွင် မုဆိုးဘိုကို ရွှေဘိုသမုတ်၍ မြို့နန်းတည်တော်မူသည်။

ထိုနှစ်တွင်ပင် ကွေလူမျိုးတို့ကို တိုက်ခိုက် အောင်နိုင်သည့်အပြင် အင်းဝကို သားတော်အလတ် သတိုးမင်းစော (နောင်ဆင်ဖြူရှင်မင်း) လုပ်ကြံ၍ အလွယ်တကူရသည်။ ဗန်းမော်၊ မိုးမိတ်၊ မိုးကောင်း၊ မိုးညှင်းတို့ကိုလည်း တိုက်၍ ရသည်။

၁၁၁၆ ခုနှစ်တွင်မွန်မင်းညီတော် ဥပရာဇာ၊ စစ်သူကြီး ဒလပန်းတို့ကွပ်ကဲ၍ ကြည်းရေနှစ်ဖက် စစ်ကြီးချီလာကာ တရုပ်မြို့တွင် မင်းတရားကြီး၏ သားတော်နှစ်ပါး တပ်ကို တိုက်၏။ (ဒလပန်း — လည်းရှု။) တပ်တော်တို့အပျက်နာ၍ ဆုတ်ရ၏။ ထိုနောက် မွန်တို့ အင်းဝကို ဝန်းရံလုပ်ကြံသည်။ ဒလပန်းသည် လှေတပ်ကိုကွပ်ကဲ၍ ကျောက်မြောင်းအရောက်ချီတက်သည်။ ကျောက်မြောင်းတွင် မင်းတရားကြီးနှင့် မင်းတရားကြီး၏ညီတော်တို့ ဒလပန်း၏လှေတပ်ကို စွန့်စွန့်စားစား တိုက်ခိုက်ကြရာ၊ ဒလပန်း၏လှေတပ်ပျက်၍ အပြင်းအထန်စုန်ပြေးရသည်။ ဟံသာဝတီဥပရာဇာလည်း အင်းဝကိုရံထားရာမှ အောက်သို့စုန်ဆင်းပြီးလျှင် ပြည်မြို့၌ ဒလပန်းကို အစောင့်အနေထားခဲ့သည်။

မွန်တို့ပျက်လျှင် ပုဂံ၊ ပုပ္ပါး၊ ငသရောက်စသော တောင်ဖက်တခွင်မြို့များတွင် ခေါင်းအကြီးပြုသူတို့ သစ္စာတော်ခံကြသည်။ အောက်ပြည်တလွှားတွင်လည်း အင်းဝဘုရင်ပေါင်း (ဟံသာဝတီရောက်မင်းတရား) ကို မွန်တို့ရေ၌ ဖျောက်ရုံသာမက မြန်မာတို့ကို မွန်တို့သတ်ဖြတ် ညှဉ်းဆဲလွန်းသဖြင့် မြန်မာတို့စုရုံး၍ မြေလတ်တလျှောက် မြို့ရွာများရှိမွန်လူမျိုးအကြီးအကဲတို့ကိုသတ်ဖြတ်ပြီးလျှင်ပြည်မြို့တွင် အခိုင်အလုံနေကြသည်။ အလောင်းမင်းတရားကြီးသို့လည်း စစ်ကူတောင်းကြရာ မင်းတရားကြီး ကြည်းတပ်ရေတပ်ချီလာ၍တိုက်လျှင် မွန်တို့ပျက်သဖြင့်ဟံသာဝတီတိုင်ဆုတ်ရသည်။ (ဟံသာဝတီရောက်မင်းတရားကြီး — ရှု။)

ပြည်မြို့တွင် မွန်ရေတပ်ကို အလောင်းမင်းတရားကြီး အောင်တော်မူပြီးနောက် ဂူထွက်မည်သော လွန်ဆေးမြို့ကို သိမ်းသည်။ လွန်ဆေးမြို့၌ ခေတ္တစံနေစဉ် ကနောင်၊ ဟင်္သာတ၊ ဓနုဖြူ၊ ပုသိမ်၊ မြောင်းမြ၊ ဉက္ကံ၊ သုံးဆယ်၊ လှိုင်၊ သာယာဝတီစသော ရေဝတီအရှေ့ဖက် အနောက်ဖက် မြို့ကြီးပြကြီး အကြီးအကဲတို့ ကျွန်တော်ခံလာကြသည်။ မွန်တို့ရန်ကို အလျှင်အမြန်အောင်သည်ကိုစွဲ၍ လွန်ဆေးမြို့အား မြန်အောင်မြို့ဟု သမုတ်တော်မူသည်။ မြန်အောင်တွင်ရှိစဉ် ဟိုင်းကြီးကျွန်းရှိ အင်္ဂလိပ်တို့ကိုလည်း အမိန့်တော်နှင့်စေခေါ်တော်မူရာ အင်္ဂလိပ်တို့ အဖူးအမြော်ရောက်ကြသည်။ အင်္ဂလိပ်တို့က ဟိုင်းကြီးကျွန်းတွင်ဖွင့်လှစ်ထားသော မိမိတို့ကုန်တိုက်ကို အသိအမှတ်ပြုရန် တောင်းသည်ကိုလည်း မင်းတရားကြီးသည် အင်္ဂလိပ်တို့ထံမှ အမြောက်ယမ်း ကျည်ဆံကိုအလိုရှိသဖြင့် အင်္ဂလိပ်တို့လိုအင်ကို လိုက်လျောဖြည့်စွမ်းလိုက်လေသည်။ သို့ရာတွင် နောင်အခါ အင်္ဂလိပ်တို့သည် မြန်မာတို့နှင့်တိုက်ခိုက်နေသော မွန်တို့အား သေနတ်လက်နက်များ ရောင်းချကြကြောင်းကို သိသောအခါ ဟိုင်းကြီးကျွန်းရှိ အင်္ဂလိပ်တို့၏စခန်းကို ပုသိမ်မြို့ဝန်အား လုံးလုံးလျားလျား သုတ်သင်ရန် ခိုင်းသဖြင့်၊ ထိုအရပ်ရှိ အင်္ဂလိပ်အများပင် အသက်ဆုံးကြရလေသည်။

မြန်အောင်မြို့မှ ဆက်လက်စုန်ပြန်ရာ ၁၁၁၇ ခုနှစ်တွင် အလောင်းမင်းတရားကြီးသည် ဒဂုန်ကိုရ၍ မြို့သစ်တည်ပြီးလျှင်၊ ရန်ကုန်ဟုသမုတ်တော်မူသည်။ ရန်ကုန်တွင် ဆူးလေစေတီတော်၏ အရှေ့တောင်အရပ်ဖြစ်သော မြို့ဟောင်းရာ၌ တောရှင်းကျင်းဖို၍ သစ်တပ်မြို့တည်သည်။ မိုးကျလျှင် ရန်ကုန်တွင် အစောင့်အနေထားခဲ့၍ ရွှေဘိုသို့ပြန်တော်မူသည်။ ထိုနောက် ရှမ်းပြည်တလွှားသို့ စေလွှတ်ခန့်ထား၍ သစ္စာတော်ပေးပြီးလျှင်၊ မိုးစဲသည်နှင့် ရန်ကုန်တွင် မွန်တို့ ထနေသည်ကို ဆင်း၍နှိမ်နင်းရာ မွန်တို့ဆုတ်ခွာရပြန်သည်။ မွန်တို့ဖက်မှ အင်္ဂလိပ်နှင့် ပြင်သစ်တို့ ဝင်ကူကြသည်။ အလောင်းမင်းတရားကြီးသည် ရန်ကုန်မြို့တွင် သင်္ဘောများကိုရင်း၊ တိုက်လှေများကိုရင်း တည်သည်။ စစ်သည်တို့ကိုလည်း ဖြည့်တင်းသည်။ ထိုနောက် ၁၁၁၈ခုနှစ်တွင် မင်းတရားကြီးသည်သံလျင်မြို့ကို ဝန်းရံလုပ်ကြံတော်မူစေသည်။ ကိုယ်တော်တိုင်လည်း သံလျက်စွန်းသို့ သင်္ဘောဖြင့်ထွက်၍ သံလျင်တိုက်ပွဲကို အဝေးကြည့်မှန်ပြောင်းဖြင့် ကြည့်လျက် စစ်ရေးကို မိမိကိုယ်တိုင်စီရင်လေသည်။ မွန်တို့ဖက်မှ ပြင်သစ်တို့ကူညီတိုက်ခိုက်သဖြင့် ခြောက်လတိုင်တိုင် အဖိ‌ဘ်အစင်များစွာနှင့် ခဲယဉ်းစွာ လုပ်ကြံရသည်။ နောက်ဆုံး အသေခံသူရဲကောင်း ၉၃ ယောက်ရွေးချယ်၍ တညဉ့်သော် မြို့ကို အတင်းဝင်စီးရာ သံလျင်မြို့ကိုရ၍ လက်နက်များကို သိမ်းယူသည်။ အမြောက်ကြီး ၁၀ ကျော်၊ အမြောက်ငယ် တရာကျော်၊ သေနတ်တထောင်ကျော် ရလိုက်သည်။ မွန်တို့အားစစ်ကူလာသော ပြင်သစ်တိုက်သင်္ဘော နှစ်စင်းကို

လည်း သိမ်းယူ၍ ပြင်သစ်ကိုယ်စားလှယ် ဗူရနိုနှင့်တကွ ပြင်သစ်အကြီးအကဲတို့ကို ကွပ်မျက်တော်မူသည်။ ထိုသူတို့၏အဆွေအမျိုးများနှင့် သံလျင်တွင်ဖမ်းမိသော ပေါ်တူဂီလူမျိုးတို့ကို ရွှေဘိုနယ် ဗရင်ဂျီရွာများသို့ပို့၍ နေထိုင်စေသည်။ မိမိတို့အယူဝါဒအတိုင်း ကိုးကွယ်နေထိုင်ရန်လည်း ခွင့်ပြုတော်မူသည်။ ဗရင်ဂျီ အမြောက်အမြား ကိုလည်း အမြောက်တပ်သားအဖြစ် အမှုထမ်းစေသည်။

၁၁၁၈ ခုနှစ်တွင် ဟံသာဝတီမြို့ကို မင်းတရားကြီးလုပ်ကြံသည်။ ၁၁၁၉ ခုနှစ်တွင် ဟံသာဝတီတမြို့လုံးကို မင်းနှင့်တကွ ရတော်မူရာ မြို့ကိုဖျက်စေ၍ ရာမညတိုင်းအလုံးနှင့် အရှေ့တလွှားမြို့စားများကို သစ္စာပေးပြီးနောက် ပဲခူးဘုရင်ကိုဆောင်ယူကာ ရွှေဘိုသို့ပြန်တော်မူသည်။

၁၁၂၀ ပြည့်နှစ်တွင် မဏိပူရကသည်းပြည်ကို တိုက်ခိုက်သိမ်းယူ၍ ကသည်းအမတ် စန္ဒရော်မော်နီကို အအုပ်အချုပ်ခန့်ခဲ့သည်။ ထိုနောက် တမူးနှင့်သောင်သွပ်တွင် မြန်မာတပ်များ အစောင့်အနေထား၍ ပြန်တော်မူသည်။ မဏိပူရကို အောင်နိုင်ခြင်းအားဖြင့် မြန်မာနိုင်ငံသည် မဏိပူရမှ အနုပညာ၊ လက်မှုပညာ၊ အသိပညာရပ်များကို ရရှိလေသည်။ အထက်တန်းကျလှသော ရက်ကန်းပညာ၊ ပန်းထိမ်ပညာ၊ နက္ခတ်ပညာစသော အတတ်ပညာများကိုပါ ရရှိလိုက်သည်။

၁၁၂၁ ခုနှစ်တွင် ယိုးဒယားကျေးကျွန်တို့ ထားဝယ်မြို့ ကျေးစွန်ရွာလက်ကို ထိပါးကြောင်း ကြားတော်မူ၍ မင်းတရားကြီးကိုယ်တော်တိုင် ထားဝယ်ကြောင်း ချီတော်မူသည်။ ချီတော်မူစဉ် မြိတ်မြို့၊ တနင်္သာရီမြို့များကို အလျင်သိမ်းယူသည်။ အယုဒ္ဓယမြို့သို့ရောက်လျှင် ဝန်းရံလုပ်ကြံသည်။လုပ်ကြံစဉ် ကိုယ်တော်မကျန်းမာသည်နှင့် ပြန်လာရာ ၁၁၂၂ ခုနှစ် ကဆုန်လပြည့်ကျော် ၃ ရက် ကြာသပတေးနေ့တွင် မုတ္တမကျေး ကင်းရွာ၌ သက်တော် ၄၅ နှစ် စည်းစိမ်တော်ရစ်နှစ်တွင် မင်းတရားကြီးနတ်ရွာစံတော်မူသည်။ မင်းတရားကြီး၏ သင်္ချိုင်းပြာသာဒ်ကို ယခု ရွှေဘိုခရိုင်ဝန်ရုံးအနီးတွင် တွေ့နိုင်သည်။

မင်းတရားကြီးကား ရဲရင့်တည်ကြည်၍ အမြော်အမြင်ရှိသည်။ သူရသတ္တိနှင့် လုပ်ရည်ကြံရည်လည်း ရှိသည်။မွန်တို့ကိုတိုက်မည်ဟု တိုင်ပင်ရာတွင် "ယောကျ်ားတို့မည်သည် လုံ့လဝီရိယအကြံအစည်ကို လျော့မြဲမဟုတ်၊ လက်ရုံးနှလုံး၊ လုပ်ရည်၊ ကြံရည်မှာသာ အကြောင်းဖြစ်သည်" ဟု မင်းတရားကြီးက မိန့်တော်မူသည်။ စစ်ရေးစစ်မှုတို့၌ အကြပ်အတည်းစည်းကမ်းထားတော်မူပြီးလျှင် ရန်သူတော်တို့ကို အပြင်းအထန် နှိမ်နင်းသုတ်သင်တတ်ရုံမက တိုင်းပြည်အုပ်ချုပ်ခန့်ခွဲဝေဖန်ရာ၌လည်း လိမ်မာတော်မူသည်။ လူတို့အကျင့်စာရိတ္တကို ပျက်ပြားစေသည့် သေရည်သေရက်မှ စ၍ မူးယစ်စေသော အသောက်အစားအရှုတို့ကို ပြင်းထန်စွာ တားမြစ်ပိတ်ပင်တော်မူသည်။ လယ်ယာကိုင်းကျွန်း စပါးပြောင်းဝါများကို လုပ်ဆောင်ရိပ်သိမ်းသည့်ကာလ ကြက်သေတင်ဝက်သေတင်၍ ရိတ်သိမ်းရိုးဖြစ်သော မိစ္ဆာဒိဋ္ဌိအယူများကိုလည်း လုံးလုံးပယ်စေကာ မြစ်တားတော်မူသည်။ လွှဲဆန်၍ပြုကျင့်သည် ကြားတော်မူလျှင်လည်း အပြစ်အလျောက် ကွပ်မျက်တော်မူသည်။ ခိုးဝှက်လုယက်ခြင်းကိုလည်း အလားတူ တားမြစ်တော်မူလေသည်။ ဤသို့တားမြစ်ရာ၌ အလောင်းဘုရား၏ အပြစ်ပေးပုံမှာ အတုယူဖွယ်ဖြစ်သည်။ မြို့ရွာတွင် သူခိုးသူဝှက်တို့ကြောင့် ဥစ္စာပစ္စည်းပျောက်ခဲ့သော် ထိုမြို့ရွာကို အုပ်ချုပ်သော အကြီးအကဲတို့က ဥစ္စာပျောက်သူကို လျော်ရသည်။ ရွာနှစ်ရွာစပ်ကြားတွင်ခေါးမြတိုက်ပါမူ နီးသောရွာမှရွာသူကြီးက လျော်ရလေသည်။ ဤသို့ပြုလုပ်ပေးခြင်းအားဖြင့် အစိုးရ အမှုထမ်းတို့သည် မိမိတို့တာဝန်ကို ပိုမိုရှုစိုက်ဆောင်ရွက်လာစေရန်ဖြစ်သည်။

မိုးရွာပါးသော ရွှေဘိုနယ်တဝိုက်တွင် ပြည်သူပြည်သားတို့ စိုက်ပျိုး လုပ်ကိုင်နိုင်ရန် မင်းတရားကြီးသည် အမြော်အမြင်ရှိစွာနှင့် မူးမြစ်ကိုဆည်တော်မူသည်။ ရွှေဘိုမြို့ကို ရေပေးနိုင်ရန်လည်း မဟာနန္ဒာကန်တော်ကြီးကို တူးဖော်စေသည်။

မင်းတရားကြီး၌ ဆွေတော်မျိုးတော်စသော အမှုထမ်းကောင်း ပေါများသည်။ မင်းဆွေမင်းမျိုး အင်းဝမှူးဟောင်း မတ်ဟောင်းများကပါ မင်းတရားကြီး၏ ဘုန်းလက်ရုံး လုပ်ရည်ကြံရည်တို့ကို ယုံကြည်သဖြင့် အကွဲအပြားမရှိ တညီတညွတ်တည်း အမှုထမ်းကြခြင်းဖြစ်သည်။ နှုတ်ရေး၌၎င်း၊ လက်ရေး၌၎င်း လူရည်သွားကို သိတော်မူတတ်သည်။ မှူးတော်မတ်တော် သူရဲသူခက်တို့ကို အလိုက်အထိုက်ဝေဖန်နိုင်းချိန် ချီးမြှောက်မစ ပြုစုပေးကမ်းလေ့ရှိသည်။ ထိုကြောင့် ကြံတော်မူသမျှအောင်မြင်၍ အပြီးသို့ရောက်သည်ချည်းဖြစ်သည်။

အလောင်းမင်းတရားကြီးအား ဖူးမြင်ရသော ကက်ပတိန်ဗေကာ၏မှတ်တမ်းအရ မင်းတရားကြီး၏ အရပ်တော်သည် ငါးပေ ၁၁ လက်မခန့်ရှိ၍ ကျန်းမာသော ရုပ်လက္ခဏာရှိကြောင်း၊ သန်မာ၍ တင့်တယ်ညီညွတ်သော လုံးရပ်သဏ္ဌာန်ရှိကြောင်း၊ အသားညိုရှ၍ မျက်နှာသွယ်ပြီးလျှင် ကျောက်ပေါက်မာသက်သက် ရှိကြောင်း၊ မျက်နှာထားတည်ကြည်မာဘင်းကြောင်း၊ ရာဇဣန္ဒြေနှင့် ပြည့်စုံတော်မူကြောင်းတို့ဖြင့် ရေးသားထားလေသည်။

မင်းတရားကြီးသည် ရတနာသုံးပါးကိုလည်း ကြည်ညိုတော်မူသည်။ ရွှေဘိုမြို့တွင် မော်ခေမြင်သာခေါ် ရွှေစေတီကြီး၊ ရွှေချက်သိုစေတီ၊ ရွှေဂူကြီးစသော စေတီပုထိုး

များ၊ တကောင်းမြို့အရပ်၌ ဇိနအောင်ချာရွှေဘုံသာစေတီတော်၊ တိဂုံဆံတော်ရှင်၌ စောင်းတန်းတော်၊ စရပ်တော်များ၊ ဟံသာဝတီ၊ ပြည်၊ အင်းဝ၊ စစ်ကိုင်းမြို့များနှင့် အကြေအညာမြစ်စဉ်တလျှောက် ဘုရားပုထိုး ဟောင်းနွမ်းပြိုပျက်သည်များကို ကံကျေးလက်ခပေး၍ ပြင်ဆင်စေတော်မူသည်ကား များလှ၏။ ထိုပြင် မဟာဒဏ်ဝန်ခန့်၍ ဝိနည်းကျမ်းဂန်နှင့်အညီ မကျင့်သော ရဟန်းတို့ကို မပြတ်သုတ်သင် ရှင်းလင်းစစ်ကြောစေသည်။

သာသနာရေးဖက်၌သာမက စာပေဖက်၌လည်း မင်းတရားကြီးသည် ချီးမြှောက်တော်မူသည်။ တရားဌာနအုပ်ချုပ်မှုအတွက် အစဉ်အလာအားဖြင့် ဓမ္မသတ်ဖြတ်ထုံးကျမ်း များစွာရှိခဲ့သော်လည်း ပါဠိဘာသာနှင့်သာများ၍ မြန်မာဘာသာနှင့်ပြန်ဆိုရေးသားပါလည်း ပါဠိစကားလုံးများစွာညှပ်ထားသဖြင့် လွယ်ကူစွာဖတ်ရှုနိုင်ရန် မိမိ၏စစ်သူကြီး အမတ်တဦးဖြစ်သော မဟာသီရိဥတ္တမဇေယျအား မနုကျယ်ဓမ္မသတ်ကို စီရင်စေသည်။ တရားသူကြီးလက်ဝဲဘိနန္ဒသူက ဓမ္မဝိနိစ္ဆယမြေသတ်ကျမ်းကို စီရင်သည်။ မင်းတရားကြီးလက်ထက် ထင်ရှားသော အခြားစာဆိုတို့ကား မင်းတရားကြီး ဟံသာဝတီသို့ စုန်တော်မူစဉ် ကမ်းပြို၍ ဖောင်တော်ပေါ်သို့ ထန်းပင်လဲကျသည်ကို ရတ်ခြည်းစပ်ဆို၍ "သစ်သစ်မင်္ဂလာ၊ နစ်နစ်နာလေ့" ချီသည့် နိမိတ်ဖတ်လင်္ကာကို ရွတ်ဆိုလျှောက်တင်သည်တွင် ထင်ရှားလာသောရန်အောင်ဗလအမတ်၊ ကဝိလက္ခဏာသတ်ပုံ၊ ရတနာသိဿကန်တော်ဘွဲ့မင်္ဂလာရတုချောင်း၊ လင်္ကာ စသည်တို့ကို ရေးသားသည့်စိတ္တကျော်သူဘွဲ့ခံ ဦးသြ၊ အာဒါသမုခပျို့သစ်၊ သာဓိန ပျို့စသည်တို့ကို ရေးသားခဲ့သော လက်ဝဲသုန္ဒရဘွဲ့ခံ ဦးမြတ်စံတို့ဖြစ်သည်။ (သြ၊ ဦး၊ စိတ္တကျော်သူ။လက်ဝဲသုန္ဒရ — လည်းရှု။)

မင်းတရားကြီး၏ မိဖုရားခေါင်ကြီးကား ဦးရီးတော်စည်ပုတ္တရာရွှေကာ ၁၀၀၀ မှူး၊ မင်းသီရိရန္တဇသမီးတော် ၁၀၇၅ ခုဖွား ငယ်မည် မယ်ယွန်းစံဖြစ်သည်။ ၁၁၁၅ ခုနှစ်တွင် မဟာ မင်္ဂလာ ရတနာဓိပတိ သီရိရာဇာဒေဝီအမည်ခံရသည်။ ရတနာသိဿမြို့ အောင်မြေဘုံသာကျောင်းတော်ကြီး၊ ရတနာပူရမြို့ ဘုံသာတုလွတ်ကျောင်းတော်ကြီးများ ဒါယိကာမတည်း။ မိဖုရားခေါင်ကြီးတွင် သားတော်ခုနစ်ပါး သမီးတော်သုံးပါး ပေါင်း ၁၀ ပါးမြင်သည်။ သားတော်များမှာ သီရိသုဓမ္မာရာဇာဘွဲ့ခံ နောင်တော်ကြီးမင်း၊ သီရိဝမ္မရာဇာဘွဲ့ခံ ဆင်ဖြူရှင်မင်း၊ သုဓမ္မရာဇာဘွဲ့ခံ အမြင့်မြို့စား၊ သတိုးမင်းလှရွှေတောင်ဘွဲ့ခံ ဗဒုံမြို့စား ဘိုးတော်မင်းတရား၊သတိုးမင်းလှမင်းရဲကျော်စွာဘွဲ့ခံ ပုခန်းကြီးမြို့တလုပ်မြို့စား၊ သတိုးမင်းလှမင်းရဲကျော်ထင်ဘွဲ့ခံ ပင်းတလဲ မြင်းစိုင်းမြို့စား၊ ငယ်ကလွန်သောမင်းသားတပါးတို့ဖြစ်သည်။ သမီးတော်များမှာ သီရိမဟာမင်္ဂလာဒေဝီဘွဲ့ခံ ကန္နီမြို့စား မယ်သာ၊ သီရိမဟာရတနာဒေဝီဘွဲ့ခံ မင်းခင်းမြို့၊ ပန်းတောင်းမြို့စား မယ်မြတ်လှ၊ သီရိရတနာမင်္ဂလာဒေဝီဘွဲ့ခံ စကုမြို့စား မယ်အိပ်တို့ ဖြစ်ကြသည်။ ကိုယ်လုပ်တော်ခြောက်ပါးမှ သားတော်သုံးပါး သမီးတော်သုံးပါး ပေါင်းခြောက်ပါးမြင်ရာ သားတော်သမီးတော် စုစုပေါင်း ၁၆ ပါးဖြစ်လေသည်။

**အလောင်းမင်းတရားကြီး အရေးတော်ပုံ။ ။** မြန်မာသမိုင်း အမှတ် အသားတို့တွင် ထင်ရှားလှသော အရေးတော်ပုံကျမ်းများအနက် အလောင်းမင်းတရားကြီး အရေးတော်ပုံသည် တခုအပါအဝင် ဖြစ်သည်။ (ဧည့်ဝတီ အရေးတော်ပုံ။ ရာဇာဓိရာဇ် အရေးတော်ပုံ။ ဆင်ဖြူရှင် အရေးတော်ပုံ။ ညောင်ရမ်းမင်းတရား အရေးတော်ပုံ— လည်းရှု။ ) ယင်းသည့် အရေးတော်ပုံ ကျမ်း များအနက် နောက်ဆုံးပေါ်သောကျမ်းဖြစ်သဖြင့်လည်းအခြားကျမ်းများထက် စုံစုံလင်လင်ရှိသည်။

အလောင်းမင်းတရားကြီး အရေးတော်ပုံကျမ်းကို ပိဋကတ် သမိုင်းစာတမ်း ပုဒ်ရေ ၂၀၇၅ ၌ အလောင်းမင်းတရားကြီးလက်ထက် သံတော်ဆင့် လက်ဝဲနော်ရထာ စီရင်သည်ဟုပါ၍ ပုဒ်ရေ ၂၀၃၆ ၌ အလုံမြို့ အထက်တိုက်မောင်းထောင်ရွာဇာတိ တွင်းသင်းတိုက်ဝန်မင်း မဟာစည်သူ စီရင်ကြောင်းဖြင့် ဆိုသည်။ (ထွန်းညို၊ ဦး။တွင်းသင်းတိုက်ဝန်မဟာစည်သူ—ရှု။)ယင်းကိုထောက်၍အလောင်းမင်းတရားကြီး အရေးတော်ပုံကျမ်း နှစ်စောင်ရှိကြောင်းထင်ရှား၏။ ၁၉၂၃ ခုနှစ် သုဓမ္မဝတီတိုက်ထုတ် အရေးတော်ပုံငါးစောင်တွဲကျမ်း၌၎င်း၊ ၁၉၄၃ ခုနှစ် ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်ထုတ် အလောင်းမင်းတရားကြီး အရေးတော်ပုံ၌၎င်း တွင်းသင်းတိုက်ဝန် မဟာစည်သူ ရေးသားသည်ဟု ဖော်ပြလေသည်။ သို့သော် ဦးကျော်ထွန်းပြုစုသော မြန်မာစာညွှန်ပေါင်းကျမ်း တတိယတွဲ၌မူကား သံတော်ဆင့် လက်ဝဲနော်ရထာ ပြုစုသည်ဟုသာ ဆိုသည်။ အချို့ဆရာတို့ကမူ အလောင်းမင်းတရားကြီး အရေးတော်ပုံနှင့် ယိုးဒယားနိုင် မော်ကွန်းတို့ကိုရေးသားသော လက်ဝဲနော်ရထာဟူသည်မှာ လက်ဝဲသုန္ဒရဘွဲ့ကို ရပြီးမှ လက်ဝဲနော်ရထာဘွဲ့ကို ထပ်မံရပြန်သည်။ လက်ဝဲနော်ရထာဘွဲ့ခံ အခြားသူမရှိဟု မှတ်ယူပြောဆိုကြသည်။ လက်ဝဲ နော်ရထာ လျှောက်ထုံးကျမ်း၏ နိဂုံး၌"ခမည်းတော် အလောင်းမင်းတရားကြီးလက်ထက် လက်ဝဲနော်ရထာဟူသော ဘွဲ့ကိုရ၍ သားတော်ကြီး ကန်တွင်းစည်းခုံစေတီတော် ဒါယကာမင်းတရားလက်ထက် စည်သူကျော်ထင်ဘွဲ့ကိုရသော ပညာရှိ အမတ်သည် ..........."စသည်ဖြင့် ဖော်ပြထားသည်ကို

ထောက်၍ အလောင်းမင်းတရားကြီး လက်ထက်တွင် လက်ဝဲ နော်ရထာဘွဲ့ရ၍၊ သားတော်ကြီးလက်ထက် စည်သူကျော်ထင်ဘွဲ့ကိုရသော အမတ်တဦးရှိကြောင်း ထင်ရှားသိသာသည်။ ထိုနိဂုံး၌ လက်ဝဲသုန္ဒရဘွဲ့ကို ရသည်ဟုကား မဖော်ပြချေ။ သို့ရာတွင် ကုန်းဘောင်ဆက် မြန်မာရာဇဝင်၌ "သက္ကရာဇ် ၁၁၁၉ ခု ကဆုန်လပြည့်ကျော် ၁၀ ရက်နေ့တွင် အလောင်းဘုရား ဟံသာဝတီတမြို့လုံးကို သိမ်းယူတော်မူပြီးနောက် ဝါဆိုလဆန်း ၁၄ ရက်နေ့တွင် မှူးမတ်တော်တို့ကို ဘွဲ့အမည်အရည် သနားတော် မူသောအခါ လက်ဝဲသုန္ဒရကို လက်ဝဲ နော်ရထာဘွဲ့၊ ဝေလုရာဇာကို လက်ျာနော်ရထာဘွဲ့ပေးကြောင်း" ဖော်ပြထားသဖြင့် ထိုအမတ်သည် လက်ဝဲသုန္ဒရဘွဲ့ရပြီး အမတ်ဟု ယူကြသည်။ သို့ရာတွင် ထိုလက်ဝဲသုန္ဒရသည် မန်ကျည်းတုံ ဦးမြတ်စံ မဟုတ်ပဲ ကျောက်စာ၊ ခေါင်းလောင်းစာ၊ မော်ကွန်းစာများအရ မုံရွေး လက်ပဲသုန္ဒရသာ ဖြစ်လေသည်။ (လက်ဝဲနော်ရထာ — ရှု။)

စင်စစ် သေချာစွာသုတေသနပြုသောအခါ အစအဆုံး အရေးအသားနှင့်ဖော်ပြပုံခြင်း လုံးဝမတူသော အလောင်းမင်းတရားကြီး အရေးတော်ပုံကျမ်း စာမူ နှစ်စောင်ရှိသည်ကို တွေ့ရရာ၊ ပိဋကတ်သမိုင်း စာတမ်း၌ ဆိုထားသည့်အတိုင်း ပုဂ္ဂိုလ်နှစ်ဦး သီးခြားစီ ပြုစုထားသော ကျမ်းနှစ်စောင်ရှိသည်မှာ အမှန်ဖြစ်ကြောင်း ထင်ရှားလေသည်။ ကျမ်းတစောင်က "ရတနာပူရ အဝမင်းတို့၏ အစဉ်ကိုပြဆိုပြီး"ဟူ၍ အစချီပြီးလျှင် ကျန်တစောင်ကမူ "အောင်သူတကာတို့၏အထွတ်" ဟူ၍ အစချီလေသည်။ အတွင်းစာသား ဖော်ပြပုံတို့၌လည်း ကွာခြားသည်။ ကျမ်းတစောင်တွင်ပါသော တပ်အမည်သည် ကျန်တစောင်၌ မပါပဲရှိသည်ကို တွေ့ရသည်။ ရဲမက်တို့အမည်လည်း တစောင်၌ပါ၍ တစောင်၌မပါချေ။ ပုံစံအားဖြင့် ဆိုရသော် ရေး၊ မားဝယ်၊ မြိတ်၊တနင်္သာရီမြို့များ မကျိုးမနွံရှိသည်ကို နှိမ်နင်းရန်ချီတက်သည့်အခါ အင်းဝ၌ထားခဲ့သည့် တပ်များအမည်၌ ကျမ်းတစောင်တွင် "သမိန်ဇိပ်ဖြိုတတပ်၊ ပိုက်သီဟတတပ်၊အဲနရဲတတပ်၊ တလပန်းနှင့်လည်း ဆယ့်နှစ်တပ်သည် တပ်ပေါင်းဆယ့်ငါးတပ်တွင် စစ်သည် လေးသောင်းငါးတောင် ဆင်လုံးမြင်းရင်းနှင့်တကွ တလပန်းကို ဗိုလ်ချုပ်ခန့်ခဲ့ပြီးလျှင် အင်းဝမြို့တွင်ထားခဲ့၍" ဟုပါရှိပြီးလျှင် ကျမ်းတစောင်၌မူ "အဲကံကောင်းတပ်၊ ဇိပ်ဖြိုတပ်၊ ပိုက်သီဟတပ်၊ အဲနရဲတပ်နှင့် တပ်ပေါင်း ဆယ့်ငါးတပ်၊ စစ်သည်သူရဲ လေးသောင်းငါးထောင်ကို တလပန်း အုပ်ချုပ်၍ မုဆိုးဖိုမှစ၍ ရန်ဆူးရန်ညှောင့် ရန်ငုတ်တို့ကို သုတ်သင်ရမည်"ဟု ပါရှိလေသည်။

တစောင်နှင့်တစောင် ဖေါ်ပြပုံကွဲလွဲရုံသာမက ရေးဟန်လည်းကွဲပြားသည်။ "အောင်သူတကာတို့၏အထွတ်" အစချီသောကျမ်းသည် "ရတနာပူရ အဝမင်းတို့၏ အစဉ်ကို ပြဆိုပြီး" အစချီသောကျမ်းထက် ပိုမိုပြည့်စုံ၍ ဘုရင့်ဘုန်းစက်ကိုရှိသေညွှတ်တွား၍ ရေးလေဘိသကဲ့သို့ အခေါ်အဝေါ်တို့၌ ရိုသေမှုကို ပြသထားသည်။ မြေဒူးမင်းကိုပင် မြေဒူးမင်းသခင်၊ အလောင်းဘုရားကိုပင်ဘဝရှင်အလောင်းမင်းတရားကြီးဘုရား စသည်ဖြင့် ရေးသားထားလေသည်။

မည်သည့်စာမူကို ထိုပုဂ္ဂိုလ် နှစ်ဦးအနက် မည်သူရေးသည်ဟုကား အတိအကျ အဆုံးအဖြတ်မပေးနိုင်ကြချေ။ လက်ဝဲနော်ရထာ (မြန်မာ ၁၀၇၅–၁၁၅၃)နှင့် တွင်းသင်းတိုက်ဝန်နှစ်ဦးလုံးသည် အရေးတော်ပုံကျမ်းမျိုးကို ရေးသားနိုင်သော မော်ကွန်းဆရာများဖြစ်၍ လက်ာ စကားပြေ နှစ်ထွေကျွမ်းကျင်သူချည်းဖြစ်သည်။အချိန်ကာလအားဖြင့် ခေတ်ပြိုင်ဟု ဆိုရသော်လည်း လက်ဝဲနော်ရထာက ခေတ်ဦးကျ၍ တွင်းသင်း တိုက်ဝန်မဟာစည်သူ (မြန်မာ ၁၀၈၈ ဖွား)သည် ဘိုးတော်ဘုရား အထွတ်အမြတ်သို့ ရောက်မှ မြောက်စားခြင်း ခံရလေသည်။ လက်ဝဲနော်ရထာသည် အလောင်းဘုရား၏ တပ်များနှင့်အတူ ကိုယ်တိုင်ချီတက်အောင်ပွဲယူခဲ့သူဖြစ်သည်။ ထို့ကြောင့် လက်ဝဲနော်ရတာသည် အရေးတော်ပုံတွင်ကိုယ်တိုင်ပါခဲ့သည့်အတိုင်း အတွေ့အကြုံမှာ လက်ငင်းနီးစပ်ကြွယ်ဝနိုင်ဖွယ် ရှိသည့်အပြင် စကားအသုံးအနှုန်းအားဖြင့် လက်ထက်တော်တွင်း ဖြစ်သဖြင့် ကျွန်တော်ရင်းပီသသော ရိုသေမှု အသုံးအနှုန်းများကိုသာ သုံးနှုန်းမည်ဖြစ်သောကြောင့် အရေးတော်ပုံနှစ်စောင်ကိုလေ့လာလျှင် "အောင်သူတကာတို့၏အထွတ်" ချီကျမ်းကို လက်ဝဲနော်ရထာ၏လက်ရာဖြစ်သည်ဟုဆုံးဖြတ်နိုင်ကြောင်း အချို့ ပညာရှိတို့ ယူဆကြသည်။ အဘယ်ကြောင့်ဆိုသော် ယင်း၏ကျမ်းတွင် အကြောင်းအရာ အသေးစိတ် ပိုမိုပြည့်စုံ ကျယ်ဝန်းသည့်ပြင် "မြေဒူးမင်းသခင်၊ အလောင်းမင်းတရားကြီး ဘုရားစသော လက်ထက်တော်သုံး အရေးအသားအခေါ်အဝေါ်များ ပါရှိခြင်းကြောင့်ဖြစ်သည်"ဟု ဆိုလေသည်။ မည်သို့ပင် ဖြစ်စေ အလောင်းမင်းတရားကြီးအရေးတော်ပုံသည် အဖြစ်အပျက် တရပ်တည်းကို တချိန်တခေတ်တည်းတွင် သိမှီသူနှစ်ဦးက တနည်းတဖုံ ရေးသားခဲ့ကြောင်းကိုကား တိကျစွာသိရှိရလေသည်။

အလောင်းမင်းတရားကြီး အရေးတော်ပုံ ကျမ်းသည် အလောင်းမင်းတရားကြီး၏ စစ်မက်ရေးရာများကိုသာ ဖွဲ့ဆိုသည်မဟုတ်ပဲ၊ ဖတ်ရှုသူအပေါင်းတို့တွင် ရဲစိတ်ရဲမာန် တဖွားဖွားတက်ကြွရန် မြန်မာများ၏ ဘုန်းတန်ခိုးလက်ရုံးရည်များကိုလည်း ထည့်၍ဖွဲ့ဆိုသဖြင့် ချောင်းကဲ့သို့ပင် ဖတ်ရှုသူတို့စိတ်၌ ဇာတိမာန်တက်ကြွစေသည်။ ချောင်းစာ

ကို စကားပြေဖြင့် ပြန်၍ရေးထားသကဲ့သို့ပင် ဖြစ်သည်။ဤကျမ်းပြုစုရေးသားထားပုံမှာ ခမ်းနားပြေပြစ်၍ ပေါရာဏ စကားများ ကွယ်ဝှက်သော အနက်ရှိသည့် စကားများသည် ရာဇာဓိရာဇ်အရေးတော်ပုံကျမ်းမှာလောက် မပေါများချေ။ ဇာတ်သွေး ဇာတိမာန်ကို ရာဇာဓိရာဇ် အရေးတော်ပုံ၌ထက် ပိုမိုထိခိုက်လှုံ့ကြွစေသည်။တပ်ဆင်တပ်ဖွဲ့ပုံ စစ်ဆင်စစ်တက်ပုံများကိုလည်း ကွက်ကွက်ကွင်းကွင်း ရှင်းလင်းပြတ်သားစွာ ဖော်ပြထားလေသည်။

သက္ကရာဇ် ၁၁၁၃ ခုနှစ် တန်ခူးလတွင် အလောင်းမင်းတရားကြီးအလောင်း ဦးအောင်ဇေယျသည် မုဆိုးဘိုရွာမှ မွန်တို့၏အန္တရာယ်ကို စတင်တွန်းလှန်ကာ ထီးနန်းသိမ်းယူသည်မှစ၍ အန္တရာယ်တို့ကို ရဲရည်တပ် သူရဲကောင်းများနှင့် မည်သို့ခုခံတိုက်ခိုက်ကြရပုံများကို စုံလင်စွာဖော်ပြလျက် အင်းဝ၊ ပြည်၊ ပဲခူး၊ ဒဂုန်၊ သံလျင် မြို့များကို တဆင့်ပြီးတဆင့်သိမ်းယူပုံများပါ ဖော်ပြထားသည်။

အလောင်းမင်းတရားကြီးသည် ဒဂုန်မြို့ကို ရန်ကုန် ဟု အမည်သမိုက်၍ မြို့သစ် တည်ပြီးနောက် တာမွေတပ်ကြီးကိုရင်း၊ ဘောင်နင်မလစ်တပ်ကြီးကိုရင်း တိုက်ခိုက်ပုံများနှင့် နောက်တကြိမ် ရွှေဘိုမှချီတက်လာကာ မွန်ဒေသများကို တိုက်ခိုက်သိမ်းပိုက်ကြောင်းများကိုလည်း ဖော်ပြထားသည်။ ဤကျမ်းတွင် မြန်မာ သူရဲကောင်းနှင့် မွန်သူရဲကောင်းတို့ တိုက်ခိုက်ပုံများကို ကွက်ကွက်ကွင်းကွင်း သရုပ်ဖော်ထားသည်။

ဟံသာဝတီတွင် အလောင်းမင်းတရားသည် မွန်ဘုရင်၏သမီးတော်ကို လက်ခံသိမ်းပိုက်သည့် အခမ်းအနားများ၊ မှူးမတ် ချေရဲတို့အား အထိုက် အလျောက် အဆောင်အယောင်အသီးအသီး ချီးမြှင့်ပုံများ၊ မဏိပူရကသည်းမင်း ခေးဝယ်မင်း ညောင်ရွှေစော်ဘွားတို့ ခိုဝင် အညံ့ခံပုံများ၊ အလောင်းမင်းတရား ယိုးဒယားသို့ ချီတက် တိုက်ခိုက်ကြောင်းနှင့် နတ်ရွာစံသည်အထိ အကြောင်းအရာများကို ဖော်ပြထားသည်။

အချုပ်အားဖြင့် အလောင်းမင်းတရား လက်ထက်တော်အချိန်ကာလ တလျှောက်လုံး ဖြစ်ပျက်ပုံ များတွင် စစ်မှုစစ်ရေးတိုက်ခိုက်ပုံများကို အဓိကထား၍ သက္ကရာဇ် ၁၁၁၃ ခုမှ ၁၁၂၂ ခုအထိ နှစ်ပေါင်း ကိုးနှစ်အတွင်း အရေးတော်ပုံကို ဖော်ပြထားသော အသေးစိတ်သမိုင်း ဖြစ်ပေသည်။

**အလုပ်ရုံ။** ။အလုပ်ရုံ ဟူရာ၌ ကုန်စည်တို့ကို ပြုပြင်ထုတ်လုပ်သည့် အဆောက်အအုံကို ရည်ညွှန်းခြင်း ဖြစ်လေသည်။ ရှေးကျသော အလုပ်ရုံတို့မှာ များသောအားဖြင့် ညစ်ပေမည်းမှောင် ကျပ်ခိုးရောင်ထနေသော အမြင်ဆိုးလှသည့် အဆောက်အအုံများသာ ဖြစ်လေသည်။ သို့ရာတွင် ခေတ်ကာလအားလျော်စွာ တိုးတက်လာကြသည့် အလျောက် ယခုခေတ် တည်ဆောက်ကြသော အလုပ်ရုံများမှာ အလင်းရောင် တိုးတက်ရရှိရန်နှင့် လေသန့်လေကောင်းရရန် ပို၍အရေးပေး စီမံထားလေသည်။ ထိုမျှသာမကသေး၊ ယခုခေတ် အဆောက်အအုံတို့၏ ပုံပန်းသဏ္ဌာန်များမှာလည်း ဗိသုကာပညာရပ်၏ အမြင်၌ပင်လျှင် ကြည့်ချင်စဖွယ် တင့်တယ်ကြသည်က များပေသည်။

စက်အားသုံးစံနစ်သည် ခရစ်နှစ် ၁၇၀၀ ခန့်တွင် စတင်ပေါ်ပေါက်လာသည် ဟုဆိုရသော်လည်း ထင်ရှားစွာ တိုးတက်လာသည်မှာ စက်ကရိယာများကို တီထွင်အသုံးပြုလာကြသည့် အချိန်သို့ရောက်မှသာ ဖြစ်ပေသည်။ ထိုစံနစ်မှာ စက်မှုလက်မှုတော်လှန်ရေး ပေါ်ပေါက်လာပြီးနောက် လုပ်ငန်းအသီးအသီးတို့ကို အထူးသဖြင့် ရက်ကန်းလုပ်ငန်းကို အုပ်ချုပ်လုပ်ကိုင်ရာတွင် အသုံးပြုသည့် စံနစ်ဖြစ်သည် ဟု ဆိုနိုင်ပေသည်။ (စက်မှုလက်မှုအရေးပုံ — လည်းရှု။) ခြည်ငင်ခြင်းနှင့် ယက်ကန်းရက်ခြင်း အကြောင်းတို့၌၎င်း၊ စက်မှုလက်မှုတော်လှန်ရေးအကြောင်း၌၎င်း၊ တီထွင်သူ ပါရဂူများဖြစ်သော ဂျိမ်း ဟားဂရိ၊ ရစ်ချတ်အတ်ကရိုက်၊ ဆယ်မျူယယ် ကရွမ်တန်၊ ဂျိမ်း ဝပ်၊ အက်ဒမန် ကတ္တရိုက် စသည့်ပုဂ္ဂိုလ်ကြီးများ၏ အတ္ထုပ္ပတ္တိတို့၌၎င်း ထိုထူးကဲသောတော်လှန်ရေး၏ ရွေ့ပြောင်းအရိပ်အရောင်တို့ကို ဖတ်ရှုတွေ့မြင်နိုင်လေသည်။ (ကရွမ်တန်,အက်(စ)။ ကတ္တရိုက်, အီ။ ဟားဂရိ,ဂျိမ်း။ ဝပ်,ဂျိမ်း — လည်းရှု။)

စက်အားသုံးစံနစ် မတိုင်မီက အလုပ်လုပ်သူတို့သည် များသောအားဖြင့် မိမိတို့၏ပစ္စည်း၊ မိမိတို့၏ လက်နက်ကရိယာများကို အသုံးပြုကာ အိမ်မက္ခာအိုးမက္ခာ နှစ်သက်ရာအချိန်တွင် လုပ်ကိုင်လေ့ရှိကြ၍ ပြီးစီးသောအခါမှသာ ကုန်ပစ္စည်းတို့ကို လုပ်ငန်းရှင်အား အပ်ကြလေသည်။ ထိုစံနစ်ကို အိမ်ထောင်စုစံနစ်ဟူ၍၎င်း၊ အိမ်တွင်းလက်မှုလုပ်ငန်းစံနစ်ဟူ၍၎င်း ခေါ်ကြ၏။

အိမ်ထောင်စုစံနစ်အရ လုပ်ငန်းများကို ပုတ်ပြတ်နှုန်းဖြင့်သာ အခပေးထားသည့် အလျောက် မည်ရွေ့မည်မျှ အလုပ်ပြီးစီးသည် ဟူသောအချက်ကို လုပ်ငန်းရှင်ထက် လုပ်သားက ပို၍ ဂရုစိုက်ရချေသည်။ ထိုအခြင်းအရာနှင့် ဆန့်ကျင်ဖက် အခြင်းအရာကား စက်အားသုံးစံနစ်နှင့် ဒွန်တွဲ၍ ပါလာလေသည်။

အလုပ်ရုံများကို အသုံးပြုလာသောအခါ အလုပ်ရုံများထားရှိနိုင်လောက်အောင်နှင့် ထားရှိကျိုးနပ်အောင် လုပ်ငန်းပြီးစီးရပေမည် ဖြစ်ရာ မည်မျှ ကြာကြာလုပ်ကိုင်သည်၊ မည်မျှ ဂရုတစိုက် လုပ်ကိုင်သည်၊ မည်မျှ လုပ်ငန်းပြီးစီးသည် ဟူသော စီးပွားရေးအချက်အလက်များကို လုပ်ငန်း



ယခုခေတ် အလုပ်ရုံများတွင် ဤသို့သော ခေတ်မီ စက်ကရိယာများကို အသုံးပြုသည်။

ရှင်သည် ဂရုစိုက်လာရလေသည်။ သို့အားဖြင့် အလုပ်ရုံများ ပေါ်ထွန်းစအချိန်ကာလတွင် အလုပ်သမားလူတန်းစားတို့သည် အထူးပင် နစ်နာခဲ့ကြရလေသည်။

လုပ်ငန်းရှင်တို့သည် အလုပ်သမားများအား လုပ်ချိန်ပို၍ ပေးကြသည်သာမက၊ လူကြီးလူငယ်မရွေး အပူတပြင်း စေခိုင်းကြ၏။ အလုပ်သမားများသည် တနေ့လျှင် လုပ်ချိန် ၁၈ နာရီမျှ အလုပ်လုပ်ကြရလေသည်။ မိန်းမများပင်လျှင် တနေ့လျှင် ၁၂ နာရီမှ ၁၆ နာရီအထိ အလုပ်လုပ်ကြရ၏။ ထိုသက်ဆိုးရှားသည်ကား ငါးနှစ်ခြောက်နှစ်ရွယ် လူမမယ်ကလေးများအား တနေ့လျှင် ၁၁ နာရီမှ ၁၅ နာရီအထိ အလုပ်လုပ်စေရန် ခိုင်းစေခြင်းပင် ဖြစ်သည်။ စက်များမှာ လူကဲ့သို့ မဟုတ်ကြ။ မောပန်းကြသည် မရှိ။ တွင်တွင်ကျယ်ကျယ် လုပ်ကိုင်သွားကြသည့်အလျောက် များစွာသော အလုပ်သမားများအတွက် လုပ်ကွက်နည်းပါးလာလေတော့၏။

စက်ချုံများ ပေါ်ပေါက်လာသဖြင့် လုပ်ငန်းအသီးအသီးတို့တွင် အလုပ်သမားများကို ရှေးကကဲ့သို့ အမြောက်အမြား မလိုကြတော့ချေ။ ထိုမှတပါးမိန်းမများ ကလေးများသည် ယောကျ်ားများကဲ့သို့ပင် စက်များကို နိုင်နင်းစွာ လုပ်ကိုင်နိုင်ကြသည် ဖြစ်ရာ လုပ်ငန်းရှင်တို့သည် လုပ်ခပေးရနည်းသော မိန်းမများနှင့်ကလေးများကိုသာ ပို၍ ငှါးရမ်းလိုကြပြန်သည်။ ထိုအကြောင်းများကြောင့်ပင် အင်္ဂလန်ပြည်၌ ထောင်ပေါင်း များစွာသော ယောကျ်ားလုပ်သားတို့သည် စက်အားသုံးစံနစ်အောက်တွင် အလုပ်လက်မဲ့ဘဝသို့ လျှောကျ သက်ဆင်းကြခဲ့ရလေသည်။

အလုပ်လက်မဲ့ဘဝသည် စက်ဆုပ်ဖွယ်ဖြစ်သော်လည်း အလုပ်လက်ရှိများ၏ အခြေအနေမှာလည်း အားကျဖွယ်မရှိလှချေ။ လုပ်သားဦးရေ လိုသည်ထက်ပို၍ များနေသဖြင့် လုပ်ခနှုန်းများမှာ စိတ်ပျက်ဖွယ် ကောင်းလောက်အောင်ပင် ကျဆင်းသွားလေသည်။ မလောက်မင ဖြစ်သော အခကြေးငွေ၊ ထုံထိုင်းငြီးငွေ့ဖွယ်ဖြစ်သော အလုပ်ရုံလုပ်ငန်းများ၊ ကျန်းမာခြင်းနှင့် ဆန့်ကျင်သော အလုပ်ရုံအခြေအနေစသော အချက်တို့သည် စုပေါင်းကာ အလုပ်သမားတို့၏ အနေကျပ် အစားကျပ်ဘဝကို ဖန်တီးခဲ့ကြလေသည်။ အလုပ်သမားများသည် မမာမကျန်းဖြစ်၍ တုန်ရီချည့်နဲ့သော အဖြစ်ဆိုး၌ ရောက်ရှိခံစားနေကြရသည်ကများသောကြောင့် ယင်းတို့တွင် စိတ်ငြိုငြင်မှုများ၊ ရန်လို

စိတ်များ ဝင်လာကြလေသည်။ မိန်းမအလုပ်သမားများ၏ ဒုက္ခဆင်းရဲသည် သူတို့၌သာ မရပ်နားပဲ၊ သူတို့၏ရင်သွေး လူမမယ်ကလေးများကိုပါ လိုက်၍ ထိခိုက်ကြလေသည်။ အလုပ်သမားတို့တွင် အကျုံးဝင်သော အရွယ်မရောက်သေးသည့် ယောကျ်ားကလေး၊ မိန်းမကလေးများမှာလည်း မဆံ့မနိုင်သော အလုပ်များကို ပင်ပန်းနွမ်းနယ်စွာနှင့်သာ လုပ်ကိုင်ကြရသည်က များသောကြောင့် လူစဉ်မမှီသော ဘဝသို့ ရောက်ကြရလေသည်။ ထိုသို့ လူဖြစ်ကျိုးနည်းသော လူများသည် တိုင်းပြည်နှင့် လူမျိုးတို့၏ ကြီးပွားရေး တိုးတက်ရေးခရီးလမ်းတွင် ဆူးငြောင့်ခလုတ်များသဖွယ် အဆင်မပြေ ရှိနေကြချေတော့သည်။

ထိုမျှဆိုးရွားသော အခြေအနေတို့ကား ကြာရှည်လေးမြင့်စွာ တည်တံ့နေနိုင်ကြသည် မဟုတ်ပေ။ ထိုအခြေဆိုး အဖြစ်ဆိုးတို့ကို သက်သာပပျောက်စေရန် ဗြိတိသျှပါလီမန်၌ အက်ဥပဒေများ ပြဋ္ဌာန်းအတည်ပြုကာ ဆောင်ရွက်လာကြလေသည်။ ထိုဥပဒေတို့သည် အလုပ်ခွင်၏ အခြေအနေ၊ လုပ်ချိန်နာရီ၊ လုပ်သားများ၏ ထိခိုက်မှု လုံခြုံရေး၊ အလုပ်ရုံများ၏ သန့်ရှင်းစင်ကြယ်ရေး စသည်တို့နှင့် စပ်လျဉ်း၍ တိုးတက်ကောင်းမွန်လာစေရန် အားထုတ်စွမ်းဆောင်ခဲ့ကြလေသည်။

ထိုအစီအမံများနှင့် သက်ဆိုင်သော ပဌမဦးဆုံးဥပဒေမှာ ၁၈၀၂ ခုနှစ်တွင် ထုတ်ပြန်လိုက်သည့် အလုပ်သင်ကျန်းမာရေးနှင့် စာရိတ္တဆိုင်ရာ အက်ဥပဒေပင်ဖြစ်သည်။ ၁၈၁၉ ခုနှစ်တွင် တဖန် ဝါဂွမ်းစက်ဥပဒေ ပေါ်လာပြန်သည်။ ထိုအက်ဥပဒေအရ အသက်ကိုးနှစ်အောက်ငယ်သော ကလေးများကို အလုပ်ရုံများ၌ အလုပ်မခိုင်းရသည့်ပြင် အသက် ၁၆ နှစ်အောက် လူရွယ်အလုပ်သမားများအား ရက်သတ္တတပတ်လျှင် ၇၂ နာရီမျှသာ ခိုင်းစေရချေသည်။ ၁၈၄၅ ခုနှစ်တွင် မိန်းမအလုပ်သမားများ ညဉ့်အလုပ်လုပ်ခြင်းကို တားမြစ်ပိတ်ပင်လိုက်သော အက်ရှလီအက်ဥပဒေကို ထုတ်ပြန်ခဲ့လေသည်။ ၁၈၄၇ ခုနှစ်တွင် တဖန်အလုပ်ချိန် ၁၀ နာရီ ကန့်သတ်လိုက်သော ဥပဒေတရပ်ဖြစ်မြောက်ရန် အက်ရှလီပင် ကြိုးပမ်းခဲ့ပြန်သည်။

ထိုကဲ့သို့သော ဥပဒေများကို ၁၉ ရာစုနှစ်အတွင်း၌သာမက ၂၀ ရာစုနှစ် အတွင်း၌လည်း ပြုလုပ် ပြဋ္ဌာန်းခဲ့ကြသေး၏။ ထိုသို့ ဥပဒေများဖြင့် အုပ်ထိန်းလုပ်ကိုင်လာသော အခါ အားလုံးသော အလုပ်ရုံတို့သည် ပြည်ထဲရေးဌာနမှ ခန့်အပ် ထားရှိသော အလုပ်ရုံ အရာရှိများ၏ စနစ်တကျ စစ်ဆေးကြည့်ရှုမှုကို ခံယူကြရသည့် အလျောက် အလုပ်သမားတို့၏ အခြေအနေသည် ယခင်ကလောက် မဆိုးရွားလှတော့ပဲ အတော်အတန် တိုးတက် ကောင်းမွန်လာခဲ့လေသည်။



၁၉ ရာစုနှစ်တွင် ကလေးများပင် ဤသို့ အလုပ်လုပ်ကြရသည်။

စက်အားသုံးစနစ်သည် စက်ကရိယာများ တီထွင်အသုံးပြုသော အင်္ဂလန်ပြည်တွင် ၁၈ ရာစုနှစ်၌ ကြီးပွားထွန်းကားသော်လည်း ပြင်သစ်၊ ဂျာမနီစသော အခြားဥရောပတိုက် နိုင်ငံများ၌ကား ၁၉ ရာစုနှစ်ရှေ့ဦးပိုင်းရောက်မှသာလျှင် တိုးတက်ခဲ့ပေသည်။ အကြောင်းကိုရှာသော် တီထွင်လိုက်သည့် စက်ကရိယာများနှင့် စပ်လျဉ်း၍ အင်္ဂလိပ်ကုန်သည်ကြီးများသည် အခြားလူမျိုးများ အတုယူကာ လုပ်ကိုင်လာကြမည်ကို စိုးရိမ်ပူပန်ကြသည့်အတွက် မိမိတို့တိုင်းပြည်မှ တွေ့ရှိသောနည်းများကို ဖုံးဖိသိုသိပ် ထားကြခြင်းကြောင့်ပင် ဖြစ်သည်ကို တွေ့ရပေမည်။

အင်္ဂလန်ပြည်မှ အခြား နိုင်ငံ များသို့ စက်ကရိယာများကို မဆိုထားဘိ၊ ထိုစက်ကရိယာတို့နှင့် သက်ဆိုင်သည့် စံနစ်ပုံများကိုပင်လျှင် တင်ပို့ခွင့် မပြုကြပေ။ ထို့အတွက် စက်အားသုံးစနစ်သည် အခြားသောနိုင်ငံများတွင် အတန်နှောင်းမှ ခေတ်စားလာကြ လေသည်။ စက်အားသုံးစနစ်သည် ယင်း၏ ဆိုးရွားချက်များနှင့်တကွ အင်္ဂလန်ပြည်တွင် ဦးစွာအလျှင် ပေါ်ပေါက်ခဲ့သည့်နည်းတူ ထိုအဆိုးတို့၏ အဖြေကိုလည်း အင်္ဂလန်နိုင်ငံ၌ပင်လျှင် စ၍ တွေ့ရှိခဲ့ချေသည်။ အလုပ်ရုံ ဥပဒေအမျိုးမျိုးတို့သည် အင်္ဂလန်ပြည်တွင် စတင်ပေါ်ပေါက်လာကြရာမှ အခြားနိုင်ငံအသီးသီးတို့သို့ ပျံ့နှံ့ကာ ယခုအခါတွင် ရှိရှိသမျှသော အလုပ်ရုံအားလုံးလောက်တို့၌ အလုပ်ခွင်အခြေအနေကို များစွာတိုးတက် ကောင်းမွန်စေရန် ပြုပြင်ပန်တီးပေးခဲ့ကြပြီဖြစ်၏။ သို့ရာတွင် အင်္ဂလန်ပြည်၌ လွန်ခဲ့သော

အနှစ် ၁၀၀ ခန့်က တွေ့ကြုံခဲ့ရသော အခြေဆိုးအနေဆိုး မျိုးကို နှောင်းကာလမှ စက်အားသုံးစံနစ် တိုးတက်သုံးစွဲလာကြသည့် ဂျပန်နိုင်ငံနှင့် အခြားသော အရှေ့ဖျားနိုင်ငံတို့၌ ယခု တွေ့ကြုံနေကြရချေသေးသည်။

ခေတ်သစ်ကုန်ထုတ်လုပ်ခြင်းမှာ ရှေးခေတ် အိမ်တွင်း လက်မှုလုပ်ငန်းစံနစ်အရ မဟုတ်တော့ပဲ စက်ကြီးများကို သုံး၍ လုပ်ကိုင် လာကြချေသည်။ ထိုစက်ကြီးများကား ခမ်းနားကြီးကျယ်သည်နှင့်အမျှ ရှုပ်ထွေးခက်ခဲလေသည်။ စက်ကြီးတို့ကို ထုထယ်ကြီးမားသော အလုပ်ရုံကြီးများ အတွင်း၌ ထားရှိပြီးလျှင် ရေအား၊ ရေနွေးငွေ့အား၊ လျှပ်စစ်အား စသည်တို့ဖြင့် မောင်းနှင်ကြလေသည်။ ထိုအလုပ်ရုံကြီးများနှင့် ပစ္စည်းတန်ဆာပလာတို့မှာ ငွေပင်ငွေရင်း မြုပ်နှံကာ စွန့်စားလုပ်ကိုင်ကြသော လုပ်ငန်းပိုင်ရှင် တဦးတယောက်ဖြစ်စေ၊ လုပ်ငန်းပိုင်ရှင် တစုက ဖြစ်စေ ပိုင်ဆိုင်သောပစ္စည်းများသာ ဖြစ်သည်။ ထိုလုပ်ငန်းတို့၏ အကျိုးဖြစ်ထွန်းမှုအတွက်ကား လုပ်ငန်းဗဟုသုတရှိသူ၊ လုပ်ငန်းကျွမ်းကျင်သူ တာဝန်ခံပုဂ္ဂိုလ်တို့ကသာ ဦးစီး ဦးဆောင်ပြုကာ ဆောင်ရွက် လုပ်ကိုင်ကြရလေသည်။ အလုပ်သမားများမှာမူ လုပ်ခလောက်ကိုသာ မှီခိုအားထား၍ အလုပ်လုပ်ကိုင်ကြရပေသည်။ ပစ္စည်းတခုကို အလုပ်သမား တဦးတည်းက အစမှ အဆုံးအထိ ပြုလုပ်ရမည့်အစား၊ လုပ်ငန်းကို အဆင့်ဆင့် ခွဲဝေလုပ်ကိုင်စေလေသည်။

စက်များကို တီထွင်ကာ အသုံးပြုလိုက်သည့်အတွက် လူတို့၏ ကုန်ထုတ်လုပ်အားသည် အဆမတန် တိုးတက်သွားသည် ဟု စီးပွားရေးပါရဂူများက ခန့်မှန်းခဲ့ကြ၏။မည်မျှ တိုးတက်သွားသည်ကို အောက်ပါနှိုင်းရှည့်ချက်ဖြင့် သိသာနိုင်လေသည်။ လူတသန်းသည် အနှစ် ၂၀၀ ခန့်က အသုံးပြုခဲ့ကြသည့် ယက်ကန်းကရိယာ တန်ဆာပလာများကိုသုံးလျက် နေ့စဉ်ရက်ဆက် နေထွက်မှနေဝင်အထိ တနှစ်တိတိ ရက်လုပ်၍ ရနိုင်မည်ဖြစ်သော အထည်ပစ္စည်းတို့သည် ယခု ကမ္ဘာ့အရပ်ရပ်ရှိ ယက်ကန်းစက်တို့တွင် ရက်သတ္တတပတ်အတွင်း ထုတ်လုပ်နိုင်သည့် အထည်ပစ္စည်းလောက်များမည်မဟုတ်ချေ။

စက်အားသုံးစံနစ် ပေါ်ပေါက်လာသည့်အတွက် ရရှိခံစားရသော အကျိုးတခုကား စက်လုပ်ကုန်ချောထည်များ၏ ဈေးနှုန်းသည် ကျဆင်းသွားပြီးလျှင် လူတို့၏ နေထိုင်စားသောက်မှု အခြေအနေသည် များသောအားဖြင့် တိုးတက် ကောင်းမွန်လာခြင်းပင် ဖြစ်ပေသည်။ အရပ်ရပ်အခြေအနေ တိုးတက်ကောင်းမွန်လာသဖြင့် အလုပ်သမားတို့၏ ဝတ်စားနေထိုင်ရေးတို့မှာလည်း ယခင်ကထက် ပို၍ သာယာလာပြီးလျှင် အရည်အခြင်း တိုးတက်ရန် အခွင့်အလမ်းလည်း များလာလေသည်။

**အလုပ်သမား ဆက်သွယ်ရေးရုံး။** ။အလုပ်သမားလိုနေသော အလုပ်ရှင်များနှင့် အလုပ်လိုနေသော အလုပ်သမားများအား ဆက်သွယ်ပေးရန် ရည်ရွယ်ချက်ဖြင့် ဖွင့်လှစ်ထားသောရုံးကို အလုပ်သမား ဆက်သွယ်ရေးရုံး ဟု ခေါ်သည်။ အလုပ်သမား ဆက်သွယ်ရေးရုံးများကို မြို့ကြီးများနှင့် အလုပ်ရုံ၊ စက်ရုံများရှိသောမြို့များတွင် ဖွင့်လှစ်ထားတတ်ကြသည်။ မြို့ကြီးများတွင် အလုပ်လိုနေသော အလုပ်သမားတယောက်သည် မည်သည့်ဌာနတွင် မိမိနှင့်သင့်လျော်သော အလုပ်လစ်လပ်နေသည်ကို အလွယ်တကူနှင့် မသိရှိနိုင်ချေ။ အလုပ်သမားဆက်သွယ်ရေးရုံးကို အားကိုးအားထားပြု၍ ယင်းမှတဆင့် အလုပ်ရှာသောအခါ လွယ်ကူစွာ အလုပ်ရရှိနိုင်သဖြင့် အလုပ်သမား အလုပ်ရှင်နှစ်ဦးနှစ်ဖက် အကျိုးရှိရကား ထိုရုံးများ ဖွင့်လှစ်ထားခြင်းသည် အလွန်မှ အရေးပါ အရာရောက်လှပေသည်။

အလုပ်သမား ဆက်သွယ်ရေးရုံးများကို အစိုးရက ဖွင့်လှစ်ပေးခဲ့သည့်အားလျော်စွာ အလုပ်ရှင်လုပ်ငန်း အဖွဲ့များသည် အလုပ်အကိုင် ပေါ်ပေါက်လစ်လပ်ပါက သက်ဆိုင်ရာ အလုပ်သမား ဆက်သွယ်ရေးရုံးများသို့ အကြောင်း



အလုပ်ရှင်နှင့် အလုပ်သမား ဆက်သွယ်ပေးရာဖြစ်သော ဗဟိုအလုပ်အကိုင်နှင့် အလုပ်သမားရှာဖွေရေးရုံး

ကြားရသည်။ ထိုနည်းတူ အလုပ်လိုနေသော အလုပ်လက်မဲ့အလုပ်သမားများကလည်း မိမိတို့၏ပညာနှင့် အခြားအရည်အချင်းများကို ဖော်ပြ၍ အလုပ်သမား ဆက်သွယ်ရေးရုံးသို့ ကြိုတင်အမည်တင်သွင်းကာ မှတ်ပုံတင်ထားရပေသည်။ ထိုရုံးများမှ အလုပ်ရှင်၏လုပ်ငန်းနှင့် အသင့်တော်ဆုံးနှင့် အရည်အချင်းအပြည့်အဝဆုံးဖြစ်သော အမည်တင်သွင်းထားပြီးသည့်အလုပ်သမားများကို ဦးစားပေး၍ ရွေးချယ်ခြင်း၊ အလုပ်လက်မဲ့ဖြစ်သူကို ဦးစားပေး၍ ရွေးချယ်ခြင်း၊ ပညာနှင့် အခြားအရည်အချင်းများ တူညီနေပါက အချိန်စော၍ အမည်တင်သွင်းထားသော အလုပ်သမားများအား ဦးစားပေး၍ ရွေးချယ်ခြင်း စသည်တို့ကို ပြုလုပ်၍ အလုပ်ဆက်သွယ်ပေးလေသည်။

မြန်မာနိုင်ငံတွင် ၁၉၄၆ ခုနှစ်မတိုင်မီက အလုပ်သမားဆက်သွယ်ရေးရုံး တရုံးကိုသာ ရန်ကုန်မြို့တွင် အစိုးရက ဖွင့်လှစ်ပေးခဲ့သည်။ ၁၉၄၆ ခုနှစ်နှင့် ၁၉၄၇ ခုနှစ်များတွင် အလုပ်သမားဆက်သွယ်ရေးရုံး နှစ်ရုံးကို ရန်ကုန်နှင့် မန္တလေးမြို့များတွင် အစိုးရက ဖွင့်လှစ်ပေးခဲ့သည်။ ၁၉၅၉ ခုနှစ် အလုပ်ခန့်ထားမှု ကန့်သတ်ရေး အက်ဥပဒေအရ လုပ်ငန်းများ ထိရောက်အောင်မြင်နိုင်ရန်အတွက် ၁၉၆၀ ပြည့်နှစ်မှစ၍ အလုပ်သမား ဆက်သွယ်ရေးရုံး ၁၁ ရုံးကို တိုးချဲ့ဖွင့်လှစ်ခဲ့သည်။

အလုပ်လိုနေသော အလုပ်လက်မဲ့ အလုပ်သမားများအား မိမိတို့ အရည်အခြင်းအလျောက် သင့်တော်သော အလုပ်အကိုင်နှင့် လိုအပ်နေသော လုပ်ငန်းဌာနအဖွဲ့များသို့ ထိရောက်စွာ ဆက်သွယ်ပေးနိုင်ရန်အတွက် ၁၉၆၃ ခုနှစ် အောက်တိုဘာလ ၁၀ ရက်နေ့တွင် မြန်မာနိုင်ငံ တော်လှန်ရေးအစိုးရ အလုပ်သမားရေးရာ ညွှန်ကြားရေးဝန်ချုပ်ရုံးမှ အလုပ်အကိုင်နှင့် အလုပ်သမား ရှာဖွေမှုကြီးကြပ်ရေးကော်မတီတခုကို ဖွဲ့စည်းပေးခဲ့သည်။ ယင်း ကော်မတီသည် အလုပ်သမားဆက်သွယ်ရေး ရုံးများ၏ လုပ်ငန်းစဉ်များ အောင်မြင်ထိရောက်စွာ ဆောင်ရွက်နိုင်ရေးအတွက် ကူညီကြပ်မတ်ပေးလျက်ရှိသည်။ ကော်မတီသည် စာရေးစာချီ၊ စက်မှုလက်မှု ကျွမ်းကျင်သူနှင့် တစိတ်တဒေသ ကျွမ်းကျင်သူများကို ရွေးချယ်ရာ၌ လိုအပ်သည့်အခါတိုင်း ရေးဖြေ၊ နှုတ်ဖြေစာမေးပွဲများကို ကျင်းပပေးလျက် အောင်မြင်သူများထဲမှ သင့်တော်သူများကို ရွေးချယ်ပေးပို့လျက်ရှိသည်။ ဤသို့ ပေးပို့ပြီး၍ ကျန်ရှိနေသေးသော စာမေးပွဲအောင်မြင်သူများကိုလည်း နောက်ထပ် ပေါ်ပေါက်လာသော အလုပ်များအတွက် လိုအပ်သော အရည်အချင်းနှင့် ကိုက်ညီပါက ဦးစားပေး၍ ထပ်မံရွေးချယ်ပေးပို့ ဆက်သွယ်ခဲ့လေသည်။

အလုပ်သမား ဆက်သွယ်ရေး ရုံးများတွင် မှတ်ပုံတင်ထားကြသော အလုပ်သမားများသည် ယင်းတို့နှင့် သင့်တော်သော အလုပ်အကိုင်များ ပေါ်ပေါက်လာသောအခါ အခက်အခဲမရှိပဲ အရွေးခံနိုင်ရန်အတွက် အလုပ်သမားဆက်သွယ်ရေးရုံး စာရင်းတွင် ပါဝင်နိုင်အောင် မှတ်ပုံတင်လက်မှတ်များကို တလတကြိမ် သွားရောက်လဲလှယ်ခြင်း၊ မကြာခဏ ရုံးသို့သွားရောက် စုံစမ်းခြင်းများကို ပြုလုပ်ပေးရန် လိုအပ်သည်။ အရည်အချင်းတူညီက အချိန်စော၍ မှတ်ပုံတင်ထားသူများကိုရင်း၊ အလုပ်ရှင်လိုအပ်သော အရည်အချင်းနှင့် သင့်တော်ပြည့်စုံသူများကိုရင်း ဆက်သွယ်ပေးပို့လျက်ရှိရာ အလုပ်တခုအတွက် အရည်အခြင်း ပြည့်စုံသော်လည်း မှတ်ပုံတင်နောက်ကျနေသော အလုပ်သမားများသည် မိမိတို့အရည်အချင်းနှင့် ပိုမိုသင့်တော်သော အခြားအလုပ်အကိုင်များ ပေါ်ပေါက်လာသည်အထိ စောင့်ဆိုင်းနေရပေသည်။

အလုပ်အကိုင် ဆက်သွယ်ပေးရေးတွင် တစုံတခုချွတ်ယွင်းချက်တွေ့ရှိပါက မည်သည့်မှတ်ပုံတင် အလုပ်သမားမဆို သက်ဆိုင်ရာ အလုပ်သမား ဆက်သွယ်ရေးရုံးသို့ လူကိုယ်တိုင် သွားရောက်မေးမြန်း စုံစမ်းနိုင်ပေသည်။

**အလုပ်သမားဝန်ကြီးဌာန။** ။မြန်မာနိုင်ငံသည် ရှေးအခါက လယ်ယာစိုက်ပျိုးရေးကိုသာ အဓိကထား၍ လုပ်ကိုင်လာခဲ့ကြသည်အလျောက် ယခုခေတ် ခေါ်ဝေါ်နေကြသည့် အလုပ်သမားလူတန်းစားဟူ၍ အတိအကျမရှိသေးပဲ များသောအားဖြင့် လယ်သမားများသာ ရှိခဲ့ကြသည်။ သို့ရာတွင် ဗြိတိသျှများ မြန်မာနိုင်ငံကို သိမ်းပိုက်အုပ်စိုးလာခဲ့သည့်နောက်တွင် လယ်ယာစိုက်ပျိုးရေးသာမက၊ နိုင်ငံခြားသားများ တည်ထောင်သော စက်မှုလက်မှုလုပ်ငန်းများလည်း ပေါ်ပေါက်လာခဲ့ပေသည်။ ထိုအချိန်မှစ၍ လယ်ယာစိုက်ပျိုးရေးကိုသာမက စက်မှုလက်မှုလုပ်ငန်းများကိုလည်း တိုးတက်လုပ်ကိုင်လာခဲ့ကြသည်။ သို့ဖြစ်ရကား လယ်ယာစိုက်ပျိုးရေးကို အဓိကလုပ်ကိုင်လျက် ရှိကြသောသူများကို "တောင်သူလယ်သမား"များဟူ၍ရင်း၊ စက်မှုလက်မှုဆိုင်ရာ လုပ်ငန်းများကို လုပ်ကိုင်နေကြသူများကို "အလုပ်သမား"များဟူ၍ရင်း သီးခြား ခေါ်ဆိုလာကြလေသည်။

မြန်မာနိုင်ငံ၏ စနအင်အားသည် လယ်သမားများနည်းတူ အလုပ်သမားထု အင်အားပေါ်တွင်လည်း အခြေတည်သည်ဖြစ်ရကား အလုပ်သမားလူတန်းစားတို့၏ စီးပွားရေး၊ ပညာရေး၊ ဖူလုံရေးများကို နိုင်ငံအစိုးရက တာဝန်ခံဆောင်ရွက်သင့်သော်လည်း ထိုစဉ်က နိုင်ငံခြားမနရှင်အစိုးရအနေဖြင့် ထိရောက်စွာ မဆောင်ရွက်ခဲ့ပေ။ အလုပ်သမားများအတွက် အကျိုးပြုနိုင်သော "၁၉၁၁ ခုနှစ် အိန္ဒိ

ယစက်ရုံဥပဒေ” တခုကိုသာ ထိုစဉ်အခါက ပြဋ္ဌာန်းခဲ့လေသည်။ ထိုအက်ဥပဒေအရ မြန်မာနိုင်ငံစက်ရုံများရှိ အလုပ်သမားများ၏ အကျိုးအတွက် စစ်ဆေးရေးအရာရှိတဦးကို ၁၉၁၂ ခုနှစ်လောက်တွင် ခန့်ထား၍ အကောင်အထည်စတင်ဖော်ခဲ့လေသည်။ နယ်ရှိ ခရိုင်ရာဇဝတ်တရားသူကြီးအသီးအသီးတို့သည် ရာထူးအလိုက် ယင်းတို့၏ ခရိုင်များအတွက် စစ်ဆေးရေးအရာရှိအဖြစ် တာဝန်ယူဆောင်ရွက်ရသည်။ ထိုနောက် နှစ်အနည်းငယ်အတွင်းတွင် ထိုဥပဒေပိုမိုအကျိုးသက်ရောက်စေရန်အတွက် ရန်ကုန်မြို့တွင် စစ်ဆေးရေးအရာရှိချုပ်တဦးကို ထပ်မံခန့်ထားကာ နယ်မြို့ကြီးများအချို့တွင်လည်း စစ်ဆေးရေးအရာရှိများကို ခန့်ထားဆောင်ရွက်စေခဲ့သည်။ ထိုအက်ဥပဒေ၏ အဓိကရည်ရွယ်ချက်မှာ စက်ရုံများရှိ အလုပ်သမားများ၏ ကျန်းမာရေးကို အထူးဂရုစိုက် ကာကွယ် ဆောင်ရွက်ပေးရေးပင်ဖြစ်သည်။

၁၉၁၁ ခုနှစ် အိန္ဒိယစက်ရုံဥပဒေသည် အလုပ်သမားများအတွက် ထိရောက်မှုမရှိသောကြောင့် ၁၉၂၀ ပြည့်နှစ်နောက်ပိုင်းတွင် ရေနံမြေအလုပ်သမားအင်အားစု ဟူ၍ စတင်ပေါ်ပေါက်ခဲ့သည်။ ထိုအလုပ်သမား အင်အားစု၏ စတင်လှုပ်ရှားမှုကြောင့် နိုင်ငံအစိုးရအနေနှင့် အလုပ်သမားအရေးကို လျစ်လျူရှုမထားနိုင်သည့်အတွက် ၁၉၂၅ ခုနှစ်တွင် အလုပ်သမားစာရင်းစစ်တမ်း ဌာနခွဲတခု ဖွင့်လှစ်ခဲ့၍ စုံစမ်းစစ်ဆေးရေး အရာရှိတဦးအား ခန့်ထားကာ စစ်တမ်းဌာနခွဲကို ကြီးကြပ်အုပ်ချုပ် ဆောင်ရွက်စေခဲ့သည်။ သို့သော် လုပ်ငန်းများ တဖြည်းဖြည်း များပြားလာသောကြောင့် စုံစမ်းစစ်ဆေးရေးအရာရှိအစား စာရင်းစစ်တမ်းညွှန်ကြားရေးဝန်နှင့် အလုပ်သမားမင်းကြီးတဦးကို ခန့်ထားဆောင်ရွက်စေခဲ့သည့် အလျောက် စာရင်းစစ်တမ်းညွှန်ကြားရေးဝန်နှင့် အလုပ်သမားမင်းကြီးရုံးဟူ၍ ပေါ်ပေါက်လာသည်။ ထိုရုံး၏လုပ်ငန်းနှင့် တာဝန်ဝတ်တရားများမှာ အရေးကြီးသော လူသုံးကုန်ပစ္စည်းဈေးနှုန်းများကောက်ယူခြင်း၊ အလုပ်သမားလုပ်တန်းစားတို့၏ စားဝတ်နေရေးအသုံးစရိတ်၊ ဆန္ဒနီးစာရင်းပြုလုပ်၍ အပတ်စဉ်ကျေညာခြင်း၊ ၁၉၂၃ ခုနှစ် အလုပ်သမားလျော်ကြေးအက်ဥပဒေ၊ ၁၉၂၆ ခုနှစ် ဝါဏိဇ္ဇသမဂ္ဂအက်ဥပဒေ၊ ၁၉၂၉ ခုနှစ် ဝါဏိဇ္ဇပဋိပက္ခအက်ဥပဒေများအရ စီမံအုပ်ချုပ်ရသည်။ ယင်းညွှန်ကြားရေးဝန်နှင့် အလုပ်သမားမင်းကြီးရုံးသည် ၁၉၃၁ ခုနှစ်တွင် ပြည်ထဲရေးဌာန လက်အောက်ခံဖြစ်ခဲ့၍ ဒုတိယကမ္ဘာစစ်ဖြစ်ပေါ်စတွင် ကူးသန်းရောင်းဝယ်ရေးနှင့် စက်မှုလက်မှုဌာန လက်အောက်ခံဖြစ်ခဲ့သည်။

ယင်းသို့ ထိုနှစ်ဌာန လက်အောက်ခံအဖြစ်ဖြင့် အလုပ်သမားများအတွက် ဆောင်ရွက်ပေးခဲ့သော်လည်းများစွာသော အလုပ်သမားတို့၏ အကျိုးအတွက် ထိရောက်မှု မရှိခဲ့ချေ။ ထို့ကြောင့် အလုပ်သမားများ ထပ်မံစည်းလုံး၍ ခေါင်းဆောင်များ၏ အင်အားကို တွန်းလှန်ခဲ့ရင်း ၁၉၄၁ ခုနှစ်၌ မြန်မာနိုင်ငံလုံးဆိုင်ရာ အလုပ်သမားများ အစည်းအရုံးကြီးကို တည်ထောင်နိုင်ခဲ့လေသည်။ အစည်းအရုံးဝင်များသည် အလုပ်သမားရေးရာများ ကောင်းမွန်လာအောင် ဆောင်ရွက်ကြသည့်ပြင် မြန်မာ့လွတ်လပ်ရေး ကြိုးပမ်းမှုတွင်လည်း အဓိကနေရာမှ ပါဝင်ဆောင်ရွက်ခဲ့လေသည်။ ဒုတိယကမ္ဘာစစ်အတွင်း မြန်မာနိုင်ငံကို ဂျပန်တို့ သိမ်းပိုက်ထားချိန်၌ အလုပ်သမားရေးရာကိစ္စရပ်များကို ကူးသန်းရောင်းဝယ်ရေး၊ အလုပ်သမားနှင့် စက်မှုလက်မှုဝန်ကြီးဌာနမှ တာဝန်ယူဆောင်ရွက်ခဲ့သည်။ ထိုနောက် ပူးပေါင်းဆောင်ရွက်ရေးနှင့် အထွေထွေဝန်ကြီးဌာနမှ တဖန်တာဝန်ယူဆောင်ရွက်ခဲ့ပြန်သည်။ ဝန်ကြီးဌာနအနေဖြင့် အလုပ်သမားရေးရာ ကိစ္စအရပ်ရပ်နှင့် ရန်သူပိုင်ပစ္စည်းများ ထိန်းသိမ်းကြီးကြပ်ခြင်း၊ ဂျပန်များနှင့် မြန်မာများ လက်တွဲပူးပေါင်းဆောင်ရွက်ရေးတို့အပြင် ယိုးဒယား–ဗမာ မီးရထားလမ်းဖောက်လုပ်ရေးအတွက် လိုအင်သောဝန်ထမ်းအဖွဲ့အင်အား ရရှိစေရန်တို့အတွက် မှူချမှတ်ပေးရလေသည်။

ဒုတိယကမ္ဘာစစ်ပြီးဆုံး၍ မြန်မာ့လွတ်လပ်ရေးကို ရရှိအောင် မနားမနေ ကြိုးပမ်းနေချိန်တွင် အလုပ်သမား လူတန်းစားများသည်လည်း တပ်ဦးမှနေ၍ ပါဝင်ဆောင်ရွက်ခဲ့ကြသည်။ ထို့ကြောင့် ၁၉၄၇ ခုနှစ် ဇွန်လ ၆ ရက်နေ့က ရန်ကုန်မြို့ ပြည်လမ်း ဆိုရန်တိုဗီလာ အဆောက်အအုံ (ယခု စာပေဗိမာန်)၌ ဗိုလ်ချုပ်အောင်ဆန်းကိုယ်တိုင် ကြီးမှူးကျင်းပသည့် စီးပွားတိုးတက်ရေးနှစ်နှစ်စီမံကိန်းတွင် အလုပ်သမားရေးရာများနှင့်တကွ အလုပ်လက်မဲ့ ပပျောက်ရေးပြဿနာစသည်များကို ထည့်သွင်းဆွေးနွေး အတည်ပြုခဲ့ကြသည်။ ထို့ပြင် ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ၌လည်း အလုပ်သမားရေးရာများကို ကာကွယ်စောင့်ရှောက် သတ်မှတ်ထားသည်။

လွတ်လပ်ရေးရပြီးနောက် အလုပ်သမားရေးရာကိစ္စရပ်များကို လမ်းပန်းဆက်သွယ်ရေးနှင့် ပြည်သူ့လုပ်ငန်းဌာနမှ ဆက်လက်ဆောင်ရွက်ခဲ့သည်။ ၁၉၄၈ ခုနှစ်ဩဂုတ်လ ၁၀ ရက်နေ့တွင် လမ်းပန်းဆက်သွယ်ရေးနှင့် ပြည်သူ့လုပ်ငန်းဝန်ကြီးဌာနကို “ပြည်သူ့လုပ်ငန်းနှင့် အလုပ်သမားဝန်ကြီးဌာန” နှင့် “သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန” ဟူ၍ ဝန်ကြီးဌာန နှစ်ခုအဖြစ် ဖွဲ့စည်းခဲ့သည်တွင် အလုပ်သမားရေးရာ ကိစ္စရပ်များကို ပြည်သူ့လုပ်ငန်းနှင့် အလုပ်သမားဝန်ကြီးဌာနက တာဝန်ယူ ဆောင်ရွက်ခဲ့လေသည်။ ၁၉၅၀ ပြည့်နှစ် ဇန်နဝါရီလ ၂ ရက်နေ့မှစ၍ အလုပ်သမားရေးရာ ကိစ္စရပ်များကို လုပ်ငန်းရပ်ချင်း နီး

စပ်သည့် ဝန်ကြီးဌာနအမျိုးမျိုးနှင့် ပူးပေါင်း၍ ဆောင်ရွက်လာခဲ့ရာ ၁၉၅၁ ခုနှစ် ဇူလိုင် ၁ ရက်နေ့တွင်မှ အလုပ်သမားဝန်ကြီးဌာနဟူ၍ ဖြစ်ပေါ်လာလေသည်။ ယင်းသို့ဖြစ်ပေါ်လာသော်လည်း သီးခြားဝန်ကြီးနှင့် အတွင်းဝန်တို့မရှိပဲ ကုန်သွယ်မှုတိုးတက်ရေးဝန်ကြီးနှင့် ထိုဌာနအတွင်းဝန်တို့၏ ကြီးကြပ်မှုအောက်တွင် တည်ရှိခဲ့ရလေသည်။ ၁၉၅၆ ခုနှစ် ဇွန်လ ၁၂ ရက်နေ့မှစ၍ သီးခြားအလုပ်သမားဝန်ကြီးတဦးနှင့် အတွင်းဝန်တို့အား ခန့်ထားခဲ့လေသည်။ ထိုနောက် အလုပ်သမားဝန်ကြီးတဦးအနေဖြင့် အလုပ်သမားရေးရာကိစ္စအရပ်ရပ်တို့ကို လုပ်ကိုင်ဆောင်ရွက်ခဲ့ရာ ဖိုလ်ချုပ်ကြီးနေဝင်းဦးဆောင်သည့် အိမ်စောင့်အစိုးရလက်ထက် ၁၉၅၇ ခုနှစ်တွင် ဝန်ကြီးဦးရေကို လျှော့ချခန့်ထား တာဝန်ယူစေသည့်အတွက် လုပ်ငန်းရပ်ချင်း နီးစပ်သည့် ဝန်ကြီးဌာနများကို ပူးပေါင်းရာ၌ အလုပ်သမားဝန်ကြီးဌာနကို အခြားဝန်ကြီးဌာနများနှင့် ပူးတွဲလုပ်ကိုင် ဆောင်ရွက်စေခဲ့ပြန်သည်။ ပထစအစိုးရ တက်လာသောအချိန် ၁၉၆၀ ပြည့်နှစ်၌လည်း အလုပ်သမားဝန်ကြီးဌာနကို သတ္တုတွင်းနှင့် စက်မှုလက်မှုဝန်ကြီးဌာနများနှင့် ပေါင်း၍ လုပ်ကိုင်ဆောင်ရွက်ခဲ့သည်။ တော်လှန်ရေးအစိုးရလက်ထက်တွင် လက်ဦး၌ အလုပ်သမားဝန်ကြီးဌာနကို နိုင်ငံခြားရေးဌာန၊ ပြည်သူ့လုပ်ငန်းဌာန၊ အိမ်ယာဆောက်လုပ်ရေးဌာန၊ သတ္တုတွင်းဌာနနှင့် ပြန်လည်ထူထောင်ရေးဌာနတို့နှင့် ပူးပေါင်းကာ နိုင်ငံခြားရေးဌာနတာဝန်ခံက တာဝန်ယူ လုပ်ကိုင်ဆောင်ရွက်ခဲ့သော်လည်း နောင်အခါ အလုပ်သမားဌာနကို ဌာနတာဝန်ခံတဦးက သီးခြား အုပ်ချုပ်ခဲ့သည်။ ယခုအခါ အလုပ်သမားဝန်ကြီးဌာနဟု သီးခြားထားရှိကာ အလုပ်သမားဝန်ကြီးက လုပ်သားရေးရာကိစ္စရပ်များကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိသည်။

အလုပ်သမားဝန်ကြီးဌာနလက်အောက်ရှိဌာနများမှာ-

၁။ အလုပ်သမားညွှန်ကြားရေးဝန်ရုံး (၁၉၄၆ ခုနှစ်)
၂။ အလုပ်ရုံနှင့်အလုပ်သမား ဥပဒေစစ်ဆေးရေးဌာန (၁၉၅၁ ခုနှစ်)
၃။ ပြည်သောင်စုအာမခံစံနစ်အဖွဲ့ (၁၉၅၁ ခုနှစ်)
၄။ ဆိပ်ကမ်းအလုပ်သမားဘုတ်အဖွဲ့ (၁၉၅၂ ခုနှစ်)
၅။ ပင်လယ်ကူးသင်္ဘော ကုန်တင်ကုန်ချအဖွဲ့ (၁၉၅၅ ခုနှစ်)
၆။ လူမှုဖူလုံရေးအဖွဲ့ (၁၉၅၅ ခုနှစ်)
၇။ ရေနံချောင်း ရေနံမြေ ပြန်လည်ထူထောင်ရေးအဖွဲ့ (၁၉၅၅ ခုနှစ်)
၈။ သင်္ဘောသားများ၏ အလုပ်အကိုင် ကြီးကြပ်အုပ်ချုပ်ရေးအဖွဲ့ (၁၉၅၆ ခုနှစ်)တို့ ဖြစ်ကြသည်။ ထိုဌာနများအပြင် ဌာနခွဲများလည်းရှိသေးရာ ထိုဌာနခွဲများ၏ များစွာသော လုပ်ငန်းရပ်များအနက် အချို့သောလုပ်ငန်းများမှာ –

၁။ အလုပ်သမားရေးရာနှင့် သက်ဆိုင်သည့် အက်ဥပဒေများ ပြဋ္ဌာန်းခြင်း၊
၂။ အပြည်ပြည်ဆိုင်ရာ အလုပ်သမားရေးရာအဖွဲ့ချုပ်ကြီးနှင့် သက်ဆိုင်သည့် ကိစ္စရပ်များ၊
၃။ ကိုလံဘိုစီမံကိန်းနှင့် ကုလသမဂ္ဂကျွမ်းကျင်မှု အကူအညီပေးရေး အစီအစဉ်များအရ နိုင်ငံခြားတိုင်းနိုင်ငံများသို့ အလုပ်သမားရေးရာများကို လေ့လာဆည်းပူးရန် ပညာတော်သင်များ စေလွှတ်ခြင်းကိစ္စရပ်များ၊
၄။ ၁၉၄၉ ခုနှစ် အနည်းဆုံး အခကြေးငွေ အက်ဥပဒေနှင့် သက်ဆိုင်သည့်ကိစ္စရပ်များ၊
၅။ အလုပ်သမား ဆက်သွယ်ရေးဌာနများနှင့် သက်ဆိုင်သည့်ကိစ္စရပ်များ၊
၆။ အလုပ်သမားစောင့်ရှောက်ရေး ဌာနများနှင့် သက်ဆိုင်သည့် ကိစ္စရပ်များ စသည်တို့ဖြစ်ကြသည်။

အလုပ်သမားဝန်ကြီးဌာန လက်အောက်ရှိ အလုပ်သမား ညွှန်ကြားရေးဝန်ရုံး၊ စက်ရုံအလုပ်ရုံနှင့် အလုပ်သမားဥပဒေ စစ်ဆေးရေးမင်းကြီးရုံး၊ လူမှုဖူလုံရေးအဖွဲ့၊ ပင်လယ်ကူးသင်္ဘောကြီး ကုန်တင်ကုန်ချအဖွဲ့၊ ဆိပ်ကမ်းအလုပ်သမားဘုတ်အဖွဲ့ စသည်တို့မှာ လုပ်ငန်းရပ်ချင်း ဆက်စပ်လျက် ရှိကြသော်လည်း ပူးပေါင်းဆောင်ရွက်မှု ရှိသင့်သလောက် မရှိခဲ့သဖြင့် လုပ်ငန်းတွင်ကျယ်မှု အောင်မြင်မှု မရရှိခဲ့ကြရုံမက အချို့ကိစ္စများတွင် တရုံးနှင့်တရုံး လုပ်ငန်းအရ သဘောကွဲလွဲမှုများ ရှိခဲ့ကြသည်။ ထိုသို့ သဘောကွဲလွဲမှုများ ပပျောက်၍ လုပ်ငန်းတွင်ကျယ်စွာ ဆောင်ရွက်နိုင်စေခြင်း အလို့ငှါ "အလုပ်သမားရေးရာ ညွှန်ကြားရေးဝန်ချုပ်ရုံး" ဟူ၍ ဖွင့်လှစ်ခဲ့ပြီးလျှင် "အလုပ်သမားရေးရာ ညွှန်ကြားရေးဝန်ချုပ်" တဦးကိုလည်း ခန့်ထားခဲ့လေသည်။ သို့ဖြင့်အလုပ်သမားများအတွက် အကျိုးတင်းပြည့်ကျပ်ပြည့် ခံစားနိုင်အောင် အလုပ်သမားရေးရာကိစ္စအဝဝတို့ကို တိကျပြတ်သားစွာ လုပ်ကိုင်ဆောင်ရွက်လျက် ရှိလေသည်။

**အလုပ်သမားသမဂ္ဂ**။ ။စက်မှုလက်မှုထွန်းကားလျက်ရှိသော နိုင်ငံတိုင်းလိုလို၌ပင် အလုပ်သမားသမဂ္ဂ အဖွဲ့အစည်းများ ရှိကြသည်။ ထိုအဖွဲ့အစည်း များသည် ၁၉ ရာစုနှင့် ၂၀ ရာစုနှစ်တို့တွင် အထူးခေတ်စားလာကြသည်။ လုပ်ငန်းတရပ်ရပ်တွင် လုပ်ကိုင်နေကြသော အလုပ်သမားများသည် မိမိတို့ ဘဝတူချင်း စည်းရုံးကာ အကျိုးတူခံစားခွင့်များကို လှုံ့ဆော် အားပေးရန်နှင့် ကာကွယ်စောင့်ရှောက်ရန် ဟူသော ရည်ရွယ်ချက်များဖြင့် ဖွဲ့စည်း

ထားကြသည့်အလျောက် ထိုအဖွဲ့အစည်း သမဂ္ဂများသည် အလယ်ခေတ်တလျောက် ထွန်းကားခဲ့ကြသော "လုပ်ငန်းဘုံအသင်းများ"မှ ဆင်းသက် ပေါက်ဖွား လာကြသည်ဟု အချို့က ယူဆလိုကြသည်။ သို့ရာတွင် အလုပ်သမားသမဂ္ဂ ဖွဲ့စည်းခြင်းစံနစ်မှာ ခေတ်သစ် စက်မှုလက်မှု လုပ်ငန်းရပ်များ၏ အခြေအနေတို့ကြောင့် ပေါ်ပေါက် လာရခြင်း ဖြစ်ပြီးလျှင် အရင်းရှင်စံနစ်က ထိုသမဂ္ဂများ ပေါ်ပေါက် လာရေးကို ဖန်တီးပေးခဲ့သည်ဟု ဆိုနိုင်ပေသည်။

ထိုသမဂ္ဂများသည်စီးပွားရေးလုပ်ငန်းတွင်အလုပ်သမားများ၏ အခွင့်အရေးရရှိမှုနှင့် အလုပ်သမားများ၏ အဆင့်အတန်း မြင့်တက်မှုတို့ကို အဓိကထားကာ ဆောင်ရွက်နေကြသည့်အားလျော်စွာ တဖြည်းဖြည်း အင်အားကြီးမားသော အဖွဲ့အစည်းများ ဖြစ်လာကြသည်။ လုပ်ခတွင် ဖြစ်စေ၊ လုပ်ခင်းကိုင်ခင်းအခြေအနေများတွင်ဖြစ်စေ စုပေါင်းစည်းလုံးကာ အရေးဆိုကြခြင်း၊ သပိတ်မှောက်ကြခြင်း စသော သမဂ္ဂတို့၏ လက်နက်များသည် တခါတရံ အလုပ်ရှင်တို့အား အထူးပင် ထိရောက် စူးရှတာစ်သည်ကို တွေ့ရှိရပေသည်။

၁၉၂၆ ခုနှစ်တွင် အလုပ်သမား သမဂ္ဂများ၏ လွှတ်တော်ဖြစ်သော အလုပ်သမားသမဂ္ဂကွန်ဂရက်အဖွဲ့ချုပ်ကြီး (တီ၊ယူ၊စီ)က ကျေညာ၍ မှောက်လိုက်သော အထွေထွေ သပိတ်ကြီးသည် အင်္ဂလန်ပြည်တဝှန်းလုံးရှိ လုပ်ငန်းအသီးအသီး တို့နှင့်တကွ ကူးသန်းရောင်းဝယ်မှု အစုစုဘို့ကို ဆယ်ရက်မျှ ရပ်သေးကြိုးပြတ်ဖြစ်ကာ ရပ်စဲသွားစေအောင် စွမ်းဆောင် ခဲ့လေသည်။ ၁၉၄၆ ခုနှစ်၌လည်း အမေရိကန်နိုင်ငံရှိ မော်တော်ကားလုပ်ငန်း၊ ကျောက်မီးသွေးတွင်းလုပ်ငန်း၊ သံမဏိလုပ်ငန်းစသော လုပ်ငန်းကြီး အသီးအသီးတို့တွင် သပိတ်မှောက်မှုများ ပေါ်ပေါက်ခဲ့သည့်အတွက် လုပ်ရက်ပေါင်း ၁,၀၀၀,၀၀၀,၀၀၀ ကျော်မျှနစ်နာဆုံးပါးခဲ့ရသည်ဟု ဆိုလေသည်။

၁၈၂၄ ခုနှစ်တွင် ဖွဲ့စည်းရေး အက်ဥပဒေ များကို ဖျက်သိမ်းလိုက်သည့်မှစ၍ အလုပ်သမားသမဂ္ဂလုပ်ငန်းများ သည် အထူးတိုးတက်လာခဲ့ကြသည်။ အထူးသဖြင့် ပုံနှိပ်လုပ်ငန်း၊ ရက်ကန်းလုပ်ငန်း၊ သံမဏိလုပ်ငန်း၊ ကျောက်မီးသွေးတွင်းလုပ်ငန်းနှင့်အဆောက်အအုံဆိုင်ရာလုပ်ငန်းတို့တွင်သမဂ္ဂများ၏ အင်အားမှာ အကောင်းဆုံး ဖြစ်ခဲ့ကြသည်။ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းနှင့် အခြား လုပ်ငန်းသစ်တို့ဖက်တွင်မူ များစွာ မဖွံ့ဖြိုးခဲ့ကြချေ။

သမဂ္ဂလုပ်ငန်းများဖွံ့ဖြိုးတိုးတက်လာစေရန် နည်းလမ်းနှစ်ရပ်ကို အသုံးပြုခဲ့ကြသည်။ ယင်းတို့မှာ စက်မှုလက်မှု လုပ်ငန်းဖက်ဆိုင်ရာ ဆောင်ရွက်ပုံစံနစ်နှင့် လုပ်ခင်းကိုင်ခင်း အခြေအနေဆိုင်ရာ အုပ်ချုပ်မှုတို့တွင် စည်းရုံး ပြီးသော အလုပ်သမားအင်အားစုများသည် အခွင့်အရေး ပိုမို ရရှိရမည်ဟူသော အချက်နှင့် အဓိကဖြစ်သော လုပ်ငန်းများကို ပြည်သူပိုင်ပြုလုပ်ရမည်ဟူသော အချက်တို့ပင် ဖြစ်ကြလေသည်။

ယခုအခါ သမဂ္ဂများ၏ တောင်းဆိုချက်တရပ်ဖြစ်သည့် အုပ်ချုပ်မှုဖက်တွင် အခွင့်အရေး ပိုပေးရမည် ဟူသည့် အချက်နှင့် စပ်လျဉ်း၍ အခွင့်အလမ်းပေးမှုကို ရရှိပြီဖြစ်သော်လည်း လုပ်ငန်းများကို ပြည်သူပိုင် ပြုလုပ်ရေးမှာမူ နိုင်ငံရေးသက်သက်နှင့်ဆိုင်သော ပြဿနာတရပ်အဖြစ်နှင့်သာ ရှိနေချေသေးသည်။ သို့အားလျော်စွာ အလုပ်သမားသမဂ္ဂများသည် ယင်းတို့ မျိုးစေ့ချကာ တည်ဆောက်ခဲ့သော လေဘာပါတီ အလုပ်သမား အဖွဲ့ကြီးနှင့် ပူးပေါင်းလျက် ထိုပြဿနာကို နိုင်ငံရေး နည်းလမ်းများဖြင့်ပင် ဖြေရှင်းရန် ကြိုးပမ်း၍ နေကြလေသည်။

အလုပ်သမားသမဂ္ဂများသည် အထက်ပါလုပ်ငန်းများအပြင် အခြားသော လုပ်ငန်းများကိုလည်း ဆောင်ရွက်ကြရသေး၏။ အလုပ်အကိုင်မရှိသော သမဂ္ဂဝင်များအား အလုပ်လက်မဲ့ ထောက်ပံ့ကြေးများပေးခြင်း၊ သပိတ်လက်နက်စွဲကိုင်ကြသော သပိတ်သမားများအား စောင့်ရှောက်ကျွေးမွေးရခြင်းစသော လုပ်ငန်းတာဝန်များမှာ လုပ်ငန်းဆိုင်ရာ သမဂ္ဂများ၏ အခြား ဆောင်ရွက်ဖွယ်များပင် ဖြစ်ကြပေသည်။

**အလုပ်သမားသက်သာချောင်ချိရေး။** ။တဆဲ့ကိုးရာစုနှစ်အစပိုင်းလောက်တွင် လူတို့သည် စက်ကရိယာများကို ကုန်စည်ပစ္စည်းများ ပြုလုပ်ရာ၌ အသုံးပြုလာသည့်မှစပြီး၍ အလုပ်ရုံများသည် ရုတ်ခြည်းလိုလို မှိုပေါက်သကဲ့သို့ ပေါ်ပေါက်လာကြသည်။ထိုအခါ နယ်မှ အလုပ်သမားများသည် အလုပ်ရုံများရှိရာ မြို့ပြများသို့ သူထက်ငါ အလျင်ဦးအောင် သွားရောက်လုပ်ကိုင်ကြသဖြင့် ရှိသမျှ အိမ်များမှာ နေထိုင်သူများဖြင့် ပြွတ်သိပ် ကျပ်ခဲလာသည့်အတိုင်း နေထိုင်မှုမှာ ကျန်းမာရေးနှင့် မညီညွတ်အောင် ဖြစ်ခဲ့လေသည်။ အလုပ်ရုံများဆောက်လုပ်ရာ၌လည်း အလုပ်သမားတို့၏ ကျန်းမာရေးနှင့် ဘေးကင်းရေးတို့ကို ဂရုမမူပဲ အလျင်စလိုပင် ဆောက်လုပ်ခဲ့ကြသည်။ပြတင်းပေါက်များမှာ သေးငယ်၍ မီးတင်းကိစ္စအတွက်လည်း ကြိုတင် ကာကွယ်မှုများ မရှိခဲ့ပေ။ ထိုအတွက် အလုပ်သမားအများပင် ဆင်းရဲပင်ပန်းမှုဒဏ်ကြောင့် ဖျားနာသူ ဖျားနာနှင့် သေသူသေ ဖြစ်ခဲ့ရလေသည်။ (အလုပ်ရုံ — ၅။)

ထို့မှတပါးလည်း အလုပ်ရှင်များက ယောကျ်ားအလုပ်သမားများထက် မိန်းမနှင့် ကလေးများကို ခိုင်းရခြင်းက ပို၍ စရိတ်စက သက်သာသဖြင့် ငါးနှစ်အရွယ် ကလေး

များကိုပင် အလုပ်ကြမ်းများအတွက် ငှားရမ်းစေခိုင်းခဲ့ကြလေသည်။ မိန်းမအလုပ်သမားများမှာ သတ္တုတွင်းများ၌ လေးလံ ပင်ပန်းစွာ လုပ်ကိုင်ခဲ့ကြရ၏။ ထိုစဉ်က အလုပ်ချိန်ကို ကန့်သတ် ပေးသည့် ဥပဒေများ မရှိသေးချေ။ အလုပ်ရှင်များက အလုပ်သမား သက်သာ ချောင်ချိရေးအတွက် လုံးဝမစဉ်းစားကြပဲ မိမိတို့ငွေကြေးရမှုလောက်ကိုသာ အဓိကထားသဖြင့်လည်း အလုပ်သမားတို့မှာ တနေ့လျှင် ၁၄ နာရီ ၁၅ နာရီအထိ အလုပ်လုပ်ခဲ့ကြရပေသည်။

အလုပ်သမားတို့၏ အသက်မွေး ဝမ်းကျောင်း မှုမှာ ထိုမျှလောက် ခက်ခဲ ပင်ပန်းသော်လည်း အလုပ်ရှင်နှင့် အလုပ်သမားမှာ အရှင်နှင့် ကျွန်ကဲ့သို့ ဆက်ဆံနေရသဖြင့် မိမိတို့၏ အခွင့်အရေးများအတွက် ပြောဝံ့တောင်းဝံ့သူမရှိခဲ့ချေ။ အလုပ်ရှင်တို့ ထားသလိုနေ၊ ခိုင်းသလို လုပ်ကာ၊ ပေးသမျှနှင့်ပင် ကျေနပ် တင်းတိမ်ပြီး နေခဲ့ရပေသည်။ သို့ရာတွင် ထိုမျှ ဆိုးရွားသော အခြေအနေကိုမရှုဆိတ်နိုင်၍ အလုပ်သမားတို့၏ အဆင့်အတန်း တိုးမြင့် ကောင်းမွန်ရေးကို လိုလားကြိုးစားသူတဦး ပေါ်လာသည်။ထိုပုဂ္ဂိုလ်မှာ စကော့တလန်ပြည် နယူးလန်းနတ်မြို့ရှိ အလုပ်ရုံများကို အုပ်ချုပ်စီမံသူနှင့် အစုစပ်ပိုင်ရှင်တဦးဖြစ်သူ ရောဗတ်အိုဝင် ဖြစ်၍ ထိုသူသည် အလုပ်သမားများ နေထိုင်ရန်အတွက် ယခင်ကထက် ပိုမိုကောင်းမွန်သော အိမ်များကို ဆောက်လုပ်ပေးခဲ့သည်။ ကုန်စုံဆိုင်တခုကို ဖွင့်လှစ်ပေး၍ ဝယ်ရင်းဈေးနှင့် စရိတ်စက ကာမိရုံ တန်ဖိုးနှင့် ကုန်များကို ရောင်းချခဲ့သည်။ အလုပ်သမားတို့၏ သားငယ် သမီးငယ်များအတွက် ကျောင်းများကိုလည်း ဖွင့်လှစ်ပေးခဲ့သည်။ သူနှင့်တကွ ကုမ္ပဏီတွင် အစုစပ်ပါဝင်သူများသည် အမြတ်ကြီးစားခြင်းကို မလိုလားကြသည့်အတိုင်း အလုပ်သမားများကို တိရစ္ဆာန် များကဲ့သို့ မခိုင်းစေခဲ့ကြချေ။ နယူးလန်းနတ်အလုပ်ရုံများ၏ အခြေအနေမှာ ထိုစဉ်က အလွန်ကောင်းမွန်၍ သတင်းမွှေးလှသဖြင့် အလုပ်သမားတို့၏ အဆင့်အတန်း တိုးမြင့်ရေးကို အားပေး ပြုပြင်လိုသူ အများပင် မကြာခဏ လာရောက်၍ အကဲခတ် လေ့လာကြပေသည်။

မည်သည့် စက်မှုလက်မှု လုပ်ငန်းတွင်မဆို ကုန်အထွက်များရန်နှင့် ချောမောပြေပြစ်စွာ အလုပ်လုပ်ကိုင်နိုင်ရန်မှာ အရေးအကြီးဆုံးဖြစ်၏။ ကုန်စည်ပစ္စည်းများ ထုတ်လုပ်ရာတွင် (၁) ကုန် ကြမ်း၊ (၂) စက် က ရိ ယာ နှင့် (၃) အလုပ်သမားဟူ၍ ပစ္စည်း သုံးမျိုး ရှိရမည် ဖြစ်ရာ အလုပ်လုပ်ရာ၌ ပြေပြစ်မှု ရှိစေရန်အတွက် အလုပ်သမားများ၏ လုပ်ခ၊ ကျန်းမာရေး၊ အလုပ်ချိန်၊ ပညာရေး၊ နှင့်ရက်၊ လျော်ကြေး၊ ဆုငွေ စသည့် အလုပ်သမားအခွင့်အရေးများနှင့် အလုပ်သမားတို့၏ နေထိုင် စားသောက်မှု အဆင့်အတန်း မြင့်ရေးကို စောင့်ရှောက်ရန် အထူးပင်လိုလားအပ်ပေသည်။

ပဌမတွင် အလုပ်ရှင်များသည် ဤသို့ စောင့်ရှောက်ရမည့် ဝတ္တရားကို မသိ နားမလည်ခဲ့ကြပေ။ ရောဗတ်အိုဝင်ကဲ့သို့ အလုပ်သမားများ အပေါ်၌ ထောက်ထား ညှာတာ၍ စိတ်ကောင်း စေတနာ ထားသူ ပုဂ္ဂိုလ်မျိုး ပေါ်ပေါက်လာပြီးမှ အလုပ်သမားများအား စောင့်ရှောက်ရမှန်း တဖြည်းဖြည်း သိနားလည်လာကြလေသည်။ ထိုသို့သိလာကြသည့်အတိုင်း ၁၉၁၈ ခုနှစ်သို့ ရောက်သောအခါ အင်္ဂလန်ပြည်၌ အလုပ်သမား သက်သာချောင်ချိရေးအသင်းတသင်း ပေါ်ပေါက်လာသည်။ ထိုအသင်းတွင် အလုပ်ရှင်နှင့် အလုပ်သမား နှစ်ဖက်စလုံးမှ ကိုယ်စားလှယ်များ ပါဝင်၍ ထိုအသင်းသည် အထူးသဖြင့် အသက်ငယ်ရွယ်သူ အလုပ်သမားကလေးများ အတွက် အခြေအနေ အကောင်းဆုံး ရရှိစေရန် လုပ်ဆောင် ကြိုးစား ခဲ့လေသည်။ အသက်ပါ သက်သာချောင်ချိရေး အသင်းအပြင် အလုပ်သမားစိတ်ခေတ် စုံစမ်းရေးအဖွဲ့ တဖွဲ့လည်း ပေါ်ပေါက်လာပြန်၍ ထိုအဖွဲ့က အလုပ်ရုံ စက်ရုံများသို့ အချိန်မှန် လှည့်လည်စစ်ဆေးကာ ပြုပြင်ရန်လိုသည့် အချက်များကို အစီရင်ခံ အကြံပေးခဲ့လေသည်။ ဤသို့ဖြင့် အဆိုပါ အသင်းအပင်းမျိုးနှင့် အခြားအလုပ်သမားအဖွဲ့များ တစ တစ ပေါ်ပေါက် လာသောအခါ အလုပ်သမားများသည် ရှေးကကဲ့သို့ တိရစ္ဆာန်များပမာ ပင်ပန်းတကြီး လုပ်ကိုင်ကြရခြင်းမှ တဖြည်းဖြည်း ကင်းဝေးလာပြီးလျှင် အလုပ်သမားများ အသုံးပြုသော ကရိယာ တန်ဆာပလာများမှာလည်း တိုးတက်ကောင်းမွန်လာသဖြင့် ထွက်ကုန် ဖြစ်သော ကုန်ချောများမှာ ပို၍ များပြားလာပြီးလျှင် ပို၍လည်း ကောင်းမွန်လာသည်ကို တွေ့ရသေသည်။

၁၉၃၇ ခုနှစ်သို့ ရောက်သောအခါ အင်္ဂလန်ပြည်တွင် အလုပ်ရုံများ အက်ဥပဒေတခုကို အစိုးရက ချမှတ်ပြဋ္ဌာန်းလာခဲ့၍ ထိုဥပဒေအရ ရက်သတ္တတပတ်လျှင် လူကြီးအလုပ်သမားများအတွက် အလုပ်ချိန်ကို ၄၈ နာရီ၊ ၁၆နှစ်အောက် အလုပ်သမားကလေးများအတွက် အလုပ်ချိန်ကို ၄၄ နာရီသာ ကန့်သတ်ထားလေသည်။ ငယ်ရွယ်သူ အလုပ်သမားများ သက်တမ်းစေ့ ကျန်းမာ ချမ်းသာစွာ လုပ်ကိုင်သွားနိုင်စေရန် အရေးကြီးကြောင်းကို သိလာကြသော အလုပ်ရုံ စက်ရုံများတွင်လည်း လိုအပ်သည့် သက်သာချောင်ချိရေး အမျိုးမျိုးကို တဖြည်းဖြည်း ဖန်တီးပေးလာခဲ့ကြသည်။ ပဌမကမ္ဘာစစ်ကြီးဖြစ်လာသောအခါ ကလေးအလုပ်သမားများသည် အလွန်အရေးပါသည့်နေရာမှ ပါဝင်ထမ်းဆောင်ကြရသဖြင့် ကလေးအလုပ်သမားများ သက်သာချောင်ချိရေးကိစ္စမှာ အလွန် လျင်မြန်စွာ တိုးတက်ခဲ့လေသည်။

အလုပ်သမား သက်သာချောင်ချိရေး အသင်းများ၏ ကြိုးပမ်းချက်များကြောင့် ယခုအခါ အလုပ်သမားများ အဘွက် ဆရာဝန်နှင့် ဆေးရုံများ ထားပေးခြင်း၊ အလုပ်ခွင်၌ သင့်တော်သည့် အစားအသောက်များကို ကျွေးမွေးခြင်း၊ ကစားခုန်စားပွဲများ ကျင်းပပေးခြင်း၊ ကျောင်းသင်တန်းများ ဖွင့်လှစ်ပေးခြင်း၊ ရက်အားများ၌ ပျော်ပွဲစား ထွက်စေခြင်း၊ လုပ်ခနှင့် ဆုငွေများ တိုးပေးခြင်း စသည်တို့ကြောင့် အလုပ်သမားရော အလုပ်ရှင်ပါ နှစ်ဦးနှစ်ဝ အကျိုးရှိ အဆင်ပြေလာကြလေသည်။

အမေရိကန်ပြည်ထောင်စုတွင်လည်း အင်္ဂလန်ပြည်ထက် အနည်းငယ်နောက်ကျ၍ အထက်ဖော်ပြပါ အလုပ်သမား သက်သာချောင်ချိရေးအသင်းမျိုး ပေါ်ပေါက်ခဲ့ပေသည်။ ပဌမတွင် အလုပ်ချိုကြီးများကို အလုပ်သမားများ သက်သာစွာ လုပ်ကိုင်နိုင်ရန်အတွက် ကျယ်ဝန်း၍ ကျန်းမာရေးနှင့် ညီညွတ်အောင် ဆောက်လုပ်ခဲ့ကြပြီးလျှင် အလုပ်သမားတို့၏ ကျန်းမာရေးကိုလည်း ဂရုစိုက်ခဲ့ ပေသည်။ ထိုနောက် အားလပ်ချိန်တွင် နားရန်အခန်းများ၊ စာဖတ်ခန်းများနှင့် စိတ်လက် ပျော်ရွှင်စွာ လှုပ်ရှား ကစားနိုင်သည့် အခန်းများကိုပါ ထားပေးလာသည်။ ဆရာဝန်၊ ဆေးခန်း၊ ဆေးရုံများကိုလည်း ထားပေး၍ စက်ကြီးများမှ အထိအခိုက် ဘေးအန္တရာယ်များ မကျရောက်နိုင်အောင်လည်း နည်းလမ်းရှိသမျှ ကာကွယ် ပေးထားလေသည်။ ထိုနောက်တဖန် ညကျောင်းများ ဖွင့်လှစ်ပေးကာ အနာဂတ် တိုးတက်ရေးအတွက် ဖန်တီးပေးရုံမက အလုပ်သမားတို့၏ ဇနီးနှင့် သားသမီးများ ကျန်းမာ ပျော်ရွှင်စွာ နေထိုင်နိုင်ရေးကိုပါ ပြုပြင်စီစဉ်ပေးလာကြပြန်သည်။ အလုပ်သမားတဦး၏ ဇနီးနှင့် ကလေး တယောက်ယောက် မမာမကျန်းဖြစ်သောအခါ လိုအပ်သော အကူအညီများကို ပေးသည်။ မိခင်များအား ကလေးသူငယ် စောင့်ရှောက်ရေးနည်းများကို လက်တွေ့ သင်ပေးနိုင်ရန်အတွက် ဆရာမများ ထားရှိ၍ ထိုဆရာမများက အိမ်တိုင်းစေ့ လှည့်လည် ကြည့်ရှုကြရ၏။ နောက် အလုပ်ရှင်နှင့် အလုပ်သမားများ၏ ထည့်ဝင်ငွေဖြင့် ရန်ပုံငွေ စုဆောင်းနည်းများကို တီထွင်လာပြီးလျှင် အသက် အရွယ် ကြီးရင့်သူ အလုပ်သမားများအား ထိုရန်ပုံငွေများမှ အေးချမ်းစွာ စားသောက် နေထိုင်နိုင်ရန် ဆောက်ပံ့ကြလေသည်။

အလုပ်သမား သက်သာ ချောင်ချိရေး ကိစ္စများကို ပဌမ၌ စိတ်စေတနာကောင်း ထားရှိသော အလုပ်ရှင်များက မိမိတို့ဖာသာ စတင်၍ဆောင်ရွက်ခဲ့ကြသည်။ နောက်မှ အလုပ်သမား သက်သာ ချောင်ချိရေး အသင်း အဖွဲ့များ၊ အလုပ်သမား အသင်းများ တဖြည်းဖြည်း ပေါ်ပေါက်လာကာ ပြည်ပိုင် အစိုးရများကိုယ်တိုင်က အလုပ်သမားများ သက်သာချောင်ချိရေး အဆင့်အတန်း မြင့်ရေးတို့အတွက် ဥပဒေများ ပြဋ္ဌာန်းလာကြ ပေသည်။ ယခုအခါ ကမ္ဘာ့ အရပ်ရပ်ရှိ အလုပ်သမားတို့၏ အခြေအနေမှာ စိတ်တိုင်းကျ ကျေနပ်လောက်အောင် ကောင်းမွန် ပြည့်စုံပြီဟု မဆိုနိုင်သော်လည်း ရှေးကနှင့် စာလျှင်ကား အဆပေါင်း များစွာ တိုးတက်လာပြီဟု ဆိုနိုင်ပေသည်။

**အလံ။** ။အလံဟူသည်မှာ ရည်ရွယ်ချက်တခုခု၊ သို့မဟုတ် အကြောင်းရင်းတခုခု၊ သို့မဟုတ် အကြောင်းကိစ္စတခုခု အတွက် အမှတ်အသား၊ သို့မဟုတ် အထိမ်းအမှတ်အဖြစ် အသုံးပြုကြသော ရောင်စုံခြယ် ပိတ်စမျိုးဖြစ်သည်။ အလံဟူသော စကားမှာ လေထဲ၌ လှုပ်ရှားနေသည့် အရာ ဟူ၍ အဓိပ္ပါယ်ရ၏။ အမျိုးသားအလံ (ဝါ) နိုင်ငံတော်အလံမှာ နိုင်ငံတနိုင်ငံအတွက် အမှတ်အသားကြီး တခုဖြစ်၏။ ဘုရင်အတွက် အမှတ်အသား၊ တက္ကသိုလ်ကျောင်း၏ အမှတ်အသား၊ စစ်တပ်၏ အမှတ်အသား၊ အယူဝါဒဆိုင်ရာ အဖွဲ့အစည်းများအတွက် အမှတ်အသား၊ အသင်းအဖွဲ့တို့အတွက် အမှတ်အသား၊ အချက်ပြရန် အမှတ်အသား စသည်ဖြင့် အကြောင်းခံအမျိုးမျိုးကိုပြရန် ပြုလုပ်ထားသော အခြားအလံပေါင်းများစွာလည်း ရှိသည်။ ယခုခေတ် နိုင်ငံတိုင်း၌ရှိသော အမျိုးသားအလံ (ဝါ) နိုင်ငံတော်အလံ အသီးအသီးသည် မိမိတို့လူမျိုး၏ ဇာတိသွေး ဇာတိမာန် ပြင်းထန်တက်ကြွစေရန်အလို့ငှာ မိမိတို့တိုင်းပြည်နှင့် သက်ဆိုင်ဆီလျော်စွာ သတ်မှတ်ပြဋ္ဌာန်းထားသည့် အလံများဖြစ်၏။ နိုင်ငံတော်အလံသည် သက်ဆိုင်ရာနိုင်ငံ၊ နိုင်ငံသူနိုင်ငံသား၊ နိုင်ငံအစိုးရနှင့် ထိုအစိုးရ၏ ရည်မှန်းချက်များကို ကိုယ်စားပြုသည်။ လူအများပင် မိမိတို့နှင့် သက်ဆိုင်ရာ နိုင်ငံတော်အလံ၏ အသရေမညှိုးရလေအောင် ကာကွယ်စောင့်ရှောက်ယင်း အသက်စွန့်ခဲ့ကြပြီးဖြစ်သည်။ မိမိနိုင်ငံ၏ အလံကို ဂုဏ်ပြုရန်မှာ နိုင်ငံသားတိုင်း၏ အရေးကြီးသော တာဝန်တရပ် ဖြစ်လေသည်။

ဗြိတိသျှအလံမှာ ဂရိတ်ဗြိတိန်၏ အမျိုးသားအလံ (နိုင်ငံတော်အလံ) ဖြစ်၏။ တခါတရံ ယူနီယံဂျက်အလံ ဟုလည်း ခေါ်ကြသည်။ ဗြိတိသျှအလံမှာ အပြာရောင် နောက်ခံ ဖြစ်၏။ ယင်းကို အဖြူကြောင်းများဖြင့် အနားလိုက်ထားသော အနီစင်းဖြင့် လေးပိုင်း ပိုင်းထား၏။ တဖန် ထိုလေးကွက်ကို အဖြူကြောင်းအနားလိုက်ထားသည့်အနီစင်းဖြင့် ဒေါင့်ဖြတ်ကာ ရှစ်ပိုင်း ပိုင်းထားပြန်၏။

ထိုဗြိတိသျှ ယူနီယံဂျက်အလံ၌ နောက်ကြောင်းသမိုင်း ရှိခဲ့၏။ ၁၆၀၃ ခုနှစ်မတိုင်မီက အင်္ဂလန်ပြည်၊ စကော့တလန်ပြည်နှင့် အိုင်ယာလန်ပြည်တို့မှာ ကိုယ့်အမျိုးသားအလံနှင့် ကိုယ် သီးခြားရှိကြ၏။ အင်္ဂလန်ပြည်၏အလံ၌ နောက်ခံ

အဖြူပေါ်တွင် စိန်ဂျော့၏ကြက်ခြေနီ ပါ၏။ စကော့တလန်ပြည်အလံ၌ အပြာရောင်နောက်ခံပေါ်တွင် စိန်အန်ဒြူး၏ ဒေါင်လိုက်ကြက်ခြေဖြူ ပါ၏။ အိုင်ယာလန်ပြည် အလံ၌လည်း အဖြူရောင် အောက်ခံပေါ်တွင် စိန်ပက်ထရစ်၏ ဒေါင်လိုက်ကြက်ခြေနီ ပါ၏။ ၁၇၀၇ ခုနှစ်တွင် အင်္ဂလိပ်ပါလီမန်နှင့် စကော့ပါလီမန်တို့ကို ပူးပေါင်းလိုက်သောအခါ နှစ်ပြည်ထောင်ပေါင်း၍ ဖြစ်ပေါ်လာသော နိုင်ငံအတွက် အလံတော်ကို စိန်ဂျော့၏ ကြက်ခြေနီနှင့် စိန်အန်ဒြူးတို့၏ ကြက်ခြေဖြူတို့ကို ထပ်လိုက်ခြင်းအားဖြင့် ရရှိခဲ့သည်။ ယင်းနောက် ၁၈၀၁ ခုနှစ်သို့ ရောက်သောအခါ အိုင်ယာလန်ပါလီမန်ကိုလည်း ပူးပေါင်းလိုက်ပြန်သောအခါ စိန်ပက်ထရစ် ကြက်ခြေနီကို ထပ်လိုက်ပြန်ခြင်းဖြင့် ယခု ယူနီယံဂျက်အလံ ဖြစ်ပေါ်လာ၏။

အမေရိကန်ပြည်ထောင်စုနိုင်ငံ၏ ကြယ်နှင့်အစင်းများပါသောအလံ စတင်ပေါ်ပေါက်လာပုံမှာ အမေရိကန်ပြည်ထောင်စု၏ ရှေးလွန်ခဲ့သော သမိုင်းကြောင်းနှင့် ဆက်စပ်နေ၏။ ဦးစွာ၌ အမေရိကန်လူမျိုးတို့သည် အင်္ဂလိပ်အလံကို အသုံးပြုကြ၏။ သို့ရာတွင် ၁၇၇၇ ခုနှစ်၌ ကွန်ဂရက်လွှတ်တော်က ပြည်ထောင်စုဝင်နယ် ၁၃ နယ်၏အလံသည် အဖြူနှင့်အနီတလှည့်စီဖြစ်သော အစင်း ၁၃ စင်း၊ လက်ဝဲဖက်အထက်ထောင့်၌ အပြာရောင်အခန်းတွင် ကြယ်ဖြူ ၁၃ ပွင့်ဖြစ်စေရမည်ဟု ဆုံးဖြတ်လိုက်သဖြင့် ကြယ်နှင့်အစင်းများပါသောအလံ ပေါ်လာသည်။ နောင်သော် အစင်း ၁၃ စင်းမှာ မူရင်း ၁၃ နယ်ကို ပြညွှန်းသည့်သဘောဖြစ်လာ၍ ပြည်ထောင်စုတွင် ပြည်နယ်တနယ် တိုးလာတိုင်း တိုးလာတိုင်း နိုင်ငံတော်၏ အလံတွင် ကြယ်တပွင့်တပွင့် ထပ်၍ထပ်၍ ထည့်သွင်းကြလေသည်။

ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော်အလံမှာ ထောင့်မှန် စတုဂံပုံဖြစ်သည်။ အနီရောင်ခံ၊ လက်ဝဲဖက် အထက်ထောင့်၌ အပြာရင့် အခန်းဖွင့်ထား၍ အခန်းအလယ်၌ အရွယ်တူကြယ်ဖြူ ၁၄ လုံးဖြင့် ဝန်းရံထားသော အလုပ်သမား၊ တောင်သူလယ်သမားအမှတ်အသားဖြစ်သည့် ပင်နီယံစက်သွားနှင့် စပါးနှံကို ထားရှိပေသည်။

အလံတော် အတိုင်းအတာမှာ အလျားကိုးပေ၊ အနံငါးပေ၊ လက်ဝဲအထက်ထောင့် အပြာရင့်အခန်း အလျားလေးပေ၊ အနံ နှစ်ပေခွဲ ဖြစ်သည်။ ပင်နီယံ၏ဗဟိုချက်မှာ အပြာရင့်ခန်း၏ ဗဟိုချက်ဖြစ်ပြီး၊ ပင်နီယံ၏ အတွင်းခွေအနားကို အချင်းဝက် လေးလက်မဖြင့်လည်းကောင်း၊ အလယ်ခွေအနားကိုအချင်းဝက် ခြောက်လက်မခွဲဖြင့်လည်းကောင်း၊ အပြင်ခွေအနားကို အချင်းဝက် ရှစ်လက်မဖြင့်လည်းကောင်းအသီးအသီးဆွဲထားသောစက်ဝန်းဖြစ်သည်။ ပင်နီယံတွင် တူညီသောစက်သွားစိပ်ပေါင်း ၁၄ စိပ်ရှိသည်။ စက်သွားစိပ်တစိပ်၏ အောက်ခြေအကျယ်မှာ ၁.၈ လက်မဖြစ်၏။ စက်သွားစိပ်တစိပ်နှင့်တစိပ်၏ အောက်ခြေအကွာအဝေးသည် ၁.၂ လက်မရှိ၏။ စက်သွားစိပ်တစိပ်၏ ထိပ်မျက်နှာပြင်အကျယ်သည် ၁.၅ လက်မဖြစ်၏။ စက်သွားစိပ်တစိပ်စီ၏အမြင့်မှာ ၁.၄ လက်မဖြစ်သည်။

ပင်နီယံအတွင်း၌ စပါးနှံနှစ်ခက်ရှိသည်။ ယင်းစပါးနှံများတွင် စပါးစေ့ပေါင်း ၃၄ စေ့ရှိ၏။ စပါးနှံများသည် အောက်ဖက်တည့်တည့်သို့မျက်နှာမူနေသည့် စက်သွားစိပ်မှ အထက်သို့ထောင်တက်သွား၍ တူရူကြည့်သူ၏ လက်ဝဲဖက်စပါးနှံ၏ အဖျားပိုင်းသည် အထက်ဖက်တည့်တည့်တွင်ရှိသော စက်သွားစိပ်နှင့် ယင်း၏ လက်ဝဲဖက်တွင်ရှိသော စက်သွားစိပ်တို့၏အကြားသို့ ကိုင်းညွတ်၍ ဝင်နေသည်။ လက်ျာဖက်မှ စပါးနှံ၏အဖျားသည် အထက်တည့်တည့်ရှိ စက်သွားစိပ်နှင့် ယင်း၏ လက်ျာဖက်ရှိ စက်သွားစိပ်တို့၏အကြား ပင်နီယံပြက်၏ အလယ်ခန့်တွင် လက်ဝဲဖက်သို့ အနည်းငယ်ကိုင်းညွတ်လျက်ရှိပေသည်။ စပါးနှံများ၏တဖက်တချက်စီတွင် စပါးရွက်နှစ်ရွက်စီရှိသည်။ လက်ဝဲဖက်အထက်စပါးရွက်သည် စပါးနှံများအခြေခံရာ စက်သွားစိပ်မှ လက်ဝဲဖက်သို့ရေတွက်သော် တတိယနှင့်စတုတ္ထစက်သွားစိပ်အကြားနှင့် တည့်တည့်ရှိသော စပါးစေ့မှကပ်လျက် လက်ဝဲဖက်သို့ အနည်းငယ်စောင်းကာ တက်သွားသည်။ ထိုစပါးရွက်သည် ထိပ်တည့်တည့်ရှိ စက်သွားစိပ်မှ လက်ဝဲဖက်သို့ရေတွက်သော် ပဌမနှင့် ဒုတိယ စက်သွားစိပ်တို့အကြား ပင်နီယံပြက်၏အလယ်တွင် စပါးရွက်သည် အောက်ဖက်သို့ကိုင်းညွတ်ကျဆင်းသွားပြီးလျှင် ယင်းစပါးရွက်ထိပ်အဖျားသည် လက်ဝဲဖက် တတိယစက်သွားစိပ်၏ အောက်ခြေတွင်ကျရောက်လျက်ရှိသည်။ လက်ဝဲဖက်အောက်စပါးရွက်သည် စပါးနှံအခြေခံရာ စက်သွားစိပ်မှနေ၍ အထက်သို့တက်သွားသည်။ ထိုစပါးရွက်သည် ပင်နီယံအတွင်းခွေ၏ လက်ဝဲဖက်ခြမ်းအလယ်ခန့်မှနေ၍ အောက်သို့ကိုင်းညွတ်ကျဆင်းသွားပြီးလျှင် ယင်းစပါးရွက်၏ ထိပ်အဖျားသည် စပါးနှံများအခြေခံရာ စက်သွားစိပ်မှ လက်ဝဲဖက်သို့ရေတွက်သော် တတိယစက်သွားစိပ်အောက်ခြေနှင့်တည့်တည့်ရှိသော စပါးစေ့မှကပ်လျက် လက်ျာဖက်သို့ အနည်းငယ်စောင်းကာ တက်သွားသည်။ ထိုစပါးရွက်သည် ထိပ်တည့်တည့်ရှိ စက်သွားစိပ်မှ လက်ျာဖက်သို့ရေတွက်သော် ဒုတိယစက်သွားစိပ်၏ အောက်ခြေပင်နီယံပြက်၏အလယ်ခန့်မှ အောက်ဖက်သို့ကိုင်းညွတ်ကျဆင်းသွားပြီး ယင်းစပါးရွက်၏ထိပ်ဖျားသည် လက်ျာဖက်ရှိတတိယနှင့်စတုတ္ထစက်သွားစိပ်တို့အကြားတွင် ကျရောက်လျက်ရှိသည်။ လက်ျာဖက်အောက်စပါးရွက်သည် စပါးနှံအခြေခံရာ စက်သွားစိပ်မှနေ၍ အထက်တက်သွားသည်။ ထိုစပါးရွက်သည် ပင်နီယံအတွင်းခွေ၏လက်ျာဖက်



## ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် အလံ

**နိုင်ငံတော်အလံ၏ အောက်ခံအရောင်မှာ အနီရောင်ဖြစ်ပြီး လက်ဝဲဖက်အထက်ထောင့်တွင် အပြာရင့်ရောင် လေးထောင့်ခန်းအောက်ခံ၌ အရွယ်တူ ကြယ်ဖြူ ၁၄ လုံး ဝန်းရံထားသော ပင်နီယံစက်သွားနှင့် စပါးနှံရှိသည်။**

**အလံတော်ရှိ အဖြူနှင့် အနီရောင်နှစ်မျိုးတွင် အဖြူရောင်သည် သန့်ရှင်းခြင်း၊ စင်ကြယ်ခြင်း၊ အနီရောင်သည် ရဲရင့်ခြင်း၊ ပြတ်သားခြင်း ဟူသော အဓိပ္ပါယ်ကို ဖော်ဆောင်သည်။**

**အလံ၏ လက်ဝဲဖက် အထက်ထောင့်ခန်းတွင် ပါရှိသော အပြာရောင်သည် ငြိမ်းချမ်းခြင်း၊ တည်ကြည်ခြင်းဟူသော အဓိပ္ပါယ်ကို ဖော်ဆောင်သည်။**

**စပါးနှံနှင့် ပင်နီယံစက်သွားသည် တောင်သူလယ်သမားနှင့် အလုပ်သမားများကိုရင်း၊ အရွယ်တူကြယ်ဖြူ ၁၄ လုံးသည် ပြည်နယ်နှင့် တိုင်း ၁၄ ခုတို့၏ တန်းတူညီတူရှိမှုနှင့် စည်းလုံးညီညွတ်မှုကိုရင်း ဖော်ဆောင်သည်။**

ခြမ်းအလယ်ခန့်မှနေ၍ အောက်သို့ကိုင်းညွတ်ကျဆင်းသွားပြီး ယင်းစပါးရွက်၏ထိပ်အဖျားသည် စပါးနှံများအခြေခံရာ စက်သွားစိပ်မှ လက်ျာဖက်သို့ရေတွက်သော် ဒုတိယစက်သွားစိပ်၏ အောက်ခြေအပေါ် ပိုင်းခန့်တွင် ကျရောက်လျက်ရှိသည်။

ကြယ်များသည် စက်သွားစိပ်တခုစီ၏ ထိပ်တည့်တည့်တွင်ရှိသည်။ ကြယ်များ၏ ဗဟိုချက်တို့သည် ပင်နီယံ၊ သို့မဟုတ် အပြာရင့်ခန်းဗဟိုချက်၏ ၁၀.၄ လက်မအကွာတွင်ရှိသည်။ ကြယ်တလုံးစီ၏ အချင်းမှာ ၃.၇ လက်မဖြစ်သည်။ ကြယ်တလုံးတွင် ငါးထောင့်ရှိပြီး ကြယ်တလုံးစီ၏ ထိပ်ချွန်တခုစီသည် နိုင်ငံတော်အလံ၏ အထက်သို့မှုသေမတ်မတ်ထောင်ကာ ရှိနေသည်။

အလံ၏အရွယ်မှာ ကြီးငယ်မဟူ ထိုအချိုးအစားနှင့် ကိုက်ညီနိုင်သမျှ ကိုက်ညီရလေသည်။ အလံတော်၏ လက်ဝဲဖက်အထက်ထောင့်ခန်းတွင်ပါရှိသော အပြာရင့်ရောင်သည် ငြိမ်းချမ်းခြင်း၊ တည်ကြည်ခြင်းဟူသော အဓိပ္ပါယ်ကို ဖော်ဆောင်ပေသည်။ စပါးနှံနှင့်ပင်နီယံစက်သွားသည် ဆိုရှယ်လစ်စံနစ်တည်ဆောက်ရေး၏ အခြေခံ လူတန်းစားများဖြစ်သော တောင်သူလယ်သမားနှင့် အလုပ်သမားများကိုရင်း၊ အရွယ်တူကြယ်ဖြူ ၁၄ လုံးသည် ပြည်နယ်နှင့်တိုင်း ၁၄ ခုတို့၏ တန်းတူညီတူရှိမှုနှင့် စည်းလုံးညီညွတ်မှုကိုရင်း ဖော်ဆောင်ထားပေသည်။

အလံတော်ရှိ အဖြူနှင့်အနီရောင်နှစ်မျိုးတွင် အဖြူသည် သန့်ရှင်းခြင်း၊ စင်ကြယ်ခြင်း၊ အနီရောင်သည် ရဲရင့်ခြင်း၊ ပြတ်သားခြင်းဟူသော အဓိပ္ပါယ်ကို ဖော်ဆောင်ပေသည်။

## အလျူမိနီယမ်။

။ယခုခေတ် စပိုဆောင် တိုင်း၌ အလျူမိနီယမ်ဖြင့်ပြုလုပ်သော ပန်းကန်ပြားများ၊ ရေနွေး

ကရားများ၊ အိုးခွက်များကို အများအပြားသုံးစွဲလေ့ရှိကြသည်။ ဤသို့အလျူမီနီယမ်ကို များစွာသုံးစွဲကြခြင်းမှာ ဤသတ္တုသည် ငွေရောင်ကဲ့သို့ ပြောင်လက်လျက်ရှိခြင်း၊ အလွန်ပေါ့ပါး၍ ခိုင်မာခြင်း၊ အပူလိုက်လွယ်ခြင်း၊ ကြေးညှော်ကင်းစင်ခြင်း နှင့် အလွယ်တကူ တိုက်ချွတ်ဆေးကြောပစ်နိုင်ခြင်းတို့ကြောင့် ဖြစ်သည်။ ပေါ့ပေါ့ပါးပါးခိုင်မာ၍ ချေးညှော်ကင်းစင်ခြင်းကြောင့်လည်း မော်တော်ကားစက်ကရိယာများ၊ အလှပြအထည်များ၊ အဝေးကြည့်မှန်ပြောင်း၏ ပြွန်ချောင်းများ၊ အလင်းပြန်ခွက်များပြုရာတွင် အသုံးပြုသည်။ ထိုပြင် အလျူမီနီယမ်တွင် လျှပ်စစ်ဓာတ်လိုက်နိုင်သောသတ္တိရှိသည့်ပြင် ကြေးနီကဲ့သို့ နန်းဆွဲယူနိုင်သောကြောင့် ရေအောက်နန်းကြိုးများနှင့် လျှပ်စစ်ကရိယာများပြုလုပ်ရာ၌လည်း အသုံးပြုသည်။ ဤသတ္တုအမှုန့်ကို ဆီဖြင့်ရောပေးသောအခါငွေရောင်ကဲ့သို့ တောက်ပသော အလျူမီနီယမ်သုတ်ဆေးကို ရသည်။ အရည်ပျော်နေသော သံမဏိတွင် အလျူမီနီယမ်အနည်းငယ်ကို ထည့်ပေးသောအခါ လေခိုပေါက်များ ကင်းစင်သည့် သတ္တုတုံးများကို ရရှိလေသည်။

အလျူမီနီယမ်သတ္တုသည် ကမ္ဘာပေါ်တွင် အတွေ့အကြုံရအများဆုံး သတ္တုများတွင် အပါအဝင်ဖြစ်သော်လည်း ထိုသတ္တုသန့်သန့်ကို သယံဇာတအဖြစ်ဖြင့် မတွေ့ရချေ။ ရွှံ့သည် အလျူမီနီယမ်ဒြပ်ပေါင်းဖြစ်၍မြေတကေတွင်ရှိသောရွှံ့မြေတွင်အလျူမီနီယမ်သတ္တုတန်နှင့်ချီ၍ပါသည်။ များသောအားဖြင့် ဤသတ္တုကို အောက်ဆီဂျင်၊ ဟိုက်ဒြိုဂျင်၊ ဆီဒီယမ်၊ ကလိုရင်း၊ ဆီလီကွန်တို့ဖြင့် ပေါင်းစပ်၍ တွေ့ရှိရ၏။ ရှေးအခါက အလျူမီနီယမ်ကို ထုတ်ယူရန်စရိတ်မှာ အလွန်ကြီးသောကြောင့် ငွေထက်ပင် အဖိုးတန်ခဲ့လေသည်။ ၁၈၈၆ ခုနှစ်တွင် အမေရိကန်နိုင်ငံသား ချားမာတင်ဟောဆိုသူ၏ကြိုးပမ်းချက်ကြောင့် အလျူမီနီယမ်သတ္တုကို လျှပ်စစ်ဓာတ်ဖြင့် ထုတ်ယူနိုင်ခဲ့သည်။ ထိုအချိန်မှစ၍ အလျူမီယမ်၏ တန်ဖိုးမှာ လူတိုင်းသုံးစွဲနိုင်လောက်အောင် ကျဆင်းလာခဲ့လေသည်။

လျှပ်စစ်ဓာတ်ဖြင့် ထုတ်ယူနည်းတွင် ပြင်သစ်နိုင်ငံ လေဗော့ အရပ်မှရရှိသော ဗောက်ဆိုက်နှင့် ဂရင်းလန်နိုင်ငံမှ ရရှိသော ကရိုင်အိုလိုက်ကို သုံးသည်။ ဗောက်ဆိုက်ခေါ် သတ္တုရိုင်းမှာ အလျူမီနီယမ်အောက်ဆိုက်ဖြစ်၍ ယင်းကို အိုင်ယာလန်ပြည်နှင့်အမေရိကန်နိုင်ငံတို့မှလည်း အမြောက်အမြား ရရှိသည်။ ကရိုင်အိုလိုက် သတ္တုရိုင်းသည် ဆိုဒီယမ်၊ အလျူမီနီယမ်ဖလိုရိုက်ဖြစ်၍ ယင်းကို ထည့်သွင်းအသုံးပြုရခြင်းမှာ ဗောက်ဆိုက်ကို အရည်ပျော်လွယ်စေရန်ဖြစ်သည်။ ဤသတ္တုရိုင်းနှစ်မျိုးကို အတွင်းပိုင်းအောက်ဖက်၌ သံပြားများခံထားသော ကာဗွန်လုံများတွင်ထည့်၍ လုံပေါ်တွင် ကာဗွန်ချောင်းများကို စုစည်းပြီးလျှင် ဆွဲထားသည်။ လုံထဲ၌ရှိသည့် သံပြားကို လျှပ်စစ်ဂျင်နရေတာမှ ကက်သုတ်ခေါ် ဓာတ်မတိုင်နှင့် ဆက်ပေး၍ ကာဗွန်ကို အနုတ်ခေါ် ဓာတ်ဖိုတိုင်နှင့် ဆက်ပေးပြီးလျှင် လျှပ်စစ်ဓာတ် လွှတ်ပေးသောအခါ သတ္တုရိုင်းသည် အရည်ပျော်သွား၍ အလျူမီနီယမ်နှင့် အောက်ဆီဂျင်အဖြစ်သို့ ပြောင်းသွားသည်။ အလျူမီနီယမ်အရည်သည် လုံအောက်ပိုင်းသို့ ထိုင်သွား၍ အောက်ဆီဂျင်မှာ ကာဗွန်နှင့်ပေါင်းစပ်ပြီးလျှင် ကာဗွန်ဒိုင်အောက်ဆိုက် အဖြစ်ဖြင့် လေထဲသို့ ထွက်သွားလေသည်။

အလျူမီနီယမ်ကို မက်ဂနီဇီယမ်နှင့် ရောပေးသောအခါ စက်မှုလုပ်ငန်းများတွင် အလွန်အသုံးဝင်သည့် မက်ဂနေလီယမ်သတ္တုရောကိုရသည်။ ကြေးနီ၊ မန်ဂနိ၊ မက်ဂနီဇီယမ်တို့နှင့် ပေါင်းစပ်ယူသောအခါ ဒျူရေလူမင်သတ္တုရောကိုရသည်။ ဒျူရေလူမင်သည် သံမဏိကဲ့သို့ ခိုင်မာပြီးလျှင် သံမဏိထက်ဝက်မျှသာ လေးသဖြင့် လေသင်္ဘောများတွင် ယက်မများပြုလုပ်ရန် အသုံးပြုကြသည်။ ဒျူရေလူမင်ဖြင့် ပြုလုပ်ထားသော ယက်မတချောင်းသည် ပေ ၃၀ ပင်ရှည်သော်လည်း လက်ချောင်းငယ်တချောင်းတည်းဖြင့် ဆောင်ထားနိုင်လောက်အောင် ပေါ့သည်။ ထိုယက်မ၏ အစွန်းတဖက်တချက်ကို ထောက်များဖြင့် ထောက်ထားသောအခါ အလယ်၌ လူသုံးယောက်တက်ထိုင်သော်လည်း ခံနိုင်ရည်ရှိကြောင်းကို တွေ့ရသည်။ အလျူမီနီယမ်၏ ထူးခြားသော ဂုဏ်တရပ်မှာ အောက်ဆီဂျင်နှင့် ပေါင်းစပ်ရာ၌ အပူမြောက်မြားစွာကိုဖြစ်စေနိုင်သည့်အချက်ပင်ဖြစ်သည်။ ဤသို့ပေါင်းစပ်ရာ၌ ပေါင်းစပ်မှုသည် အလွန်လျင်မြန်ရကား စွန့်ထုတ်သောအပူချိန်မှာ ၃၀၀၀ C ခန့်ပင်ရှိသည်။ဤပေါင်းစပ်မှုကို ဓာတ်ရထားသံလမ်းများ ဆက်ရာ၌အသုံးပြုသည်။ သံလမ်းများကို ဆက်လိုက်သောအခါ ပဌမဆက်လိုသည့်နေရာ၏ ဘေးတဖက်တချက်၌ လိုသောအဆက်၏ ပုံကို မီးခံရွှံ့ဖြင့် ပြုလုပ်ပေးသည်။ ထိုနောက် ပန်းအိုးပုံရှိသည့်လုံကို အဆက်အထက်၌ ဆွဲပြီးလျှင် အလျူမီနီယမ်အမှုန့်နှင့် အိုင်းယန်းအောက်ဆိုက်အမှုန့်ရောဖြင့် ဖြည့်ပေးသည်။ ထိုအရောကို စနက်တံဖြင့် မီးတိုက်လိုက်သောအခါ အိုင်းယန်းအောက်ဆိုက်တွင်ပါရှိသည့် အောက်ဆီဂျင်သည် အလျူမီနီယမ်ဖြင့် အလွန်ပြင်းထန်စွာ ပေါင်းစပ်၍ အိုင်းယန်း(သံ)သည် အရည်ပျော်သွားသည်။ထိုသို့အရည်ပျော်သွားသောသံကို ခလုတ်ဖြင့် အုပ်ထိန်းသော အပေါက်မှ ရွှံ့ပုံထဲသို့သွင်းယူသည်။ သံရည်သည် အဆက်ကြားရှိ နေရာများတွင် ပြည့်အောင်ဝင်ပြီးလျှင် သံလမ်း၏ အစွန်းများကိုပါ အရည်ပျော်စေသောကြောင့် အဆက်မှာ တသားတည်း ဖြစ်သွားလေသည်။

**အလွဲစွဲစိတ်။** ။အလွဲစွဲစိတ်ဆိုသောစကားလုံးကို ယုတ္တိညွှန်း၍ မကောင်းသောသဘော သက်ဝင်သည့် အဓိပ္ပါယ်နှင့် အသုံးပြုလေ့ရှိကြ၏။ သို့ရာတွင် အလွဲစွဲစိတ် ဟူသမျှသည် မှားယွင်းသော ယုံကြည်မှုများသာဖြစ်သည်ဟူ၍ကား မဆိုနိုင်ပေ။ အဘယ်ကြောင့်ဆိုသော် အယူဝါဒ၊ မှော်ပညာ၊ အလွဲစွဲစိတ် ဤသုံးခုသည် တခုနှင့်တခု ရောထွေးဆက်စပ်၍နေသည်။ အလွဲစွဲစိတ်တခုသည် ကျွန်ုပ်တို့က မှန်သည်ဟု ယုံကြည်ကျင့်သုံးနေကြသော အယူဝါဒမှလည်း ဖြစ်ပေါ်တတ်၍ မှော်ပညာနှင့်လည်း သက်ဆိုင်ကောင်း သက်ဆိုင်နေတတ်၏။ များသောအားဖြင့်ကား အလွဲစွဲစိတ်တို့သည် ဆင်ခြင်တုံဘရားနှင့်မယှဉ်သောအယူဝါဒဆိုင်ရာ အယူအဆများ၊ အခြေအမြစ်မရှိသော ယုံကြည်ကြောက်ရွံ့မှုများသာဖြစ်သည်။ သို့ရာတွင် တခါတရံ ခေတ်မီပညာရှိကြီးအချို့တို့တွင်ပင် ထိုကဲ့သို့ အလွဲစွဲစိတ်များ ကိန်းအောင်း နေတတ်သည်ကို တွေ့ရှိရ၏။ ဤအချက်ကိုထောက်၍ အလွဲစွဲစိတ်ရှိတိုင်း မကောင်းဟုဆိုရန် ခဲယဉ်းလေသည်။

လူတယောက်ကို အယူသန်သည်ဟူ၍ရင်း၊ အလွဲစွဲစိတ်ရှိသည်ဟူ၍ရင်း ပြောဆိုရာ၌ ထိုသူ၏ အသိဉာဏ် ဗဟုသုတ အဆင့်အတန်းသည် ခေတ်မမီသေးဟုဆိုရာရောက်လေသည်။သို့ဖြစ်၍ အလွဲစွဲစိတ်ဟူသော စကားလုံး၏အဓိပ္ပါယ်ကို မှန်ကန်နိုင်သမျှမှန်ကန်အောင် ပြန်ဆိုရမည် ဆိုလျှင် သက်ဆိုင်ရာလူတန်းစား၏ တိုးတက်သော အသိဉာဏ်၊ ဗဟုသုတအဆင့်အတန်းနှင့် မဆီလျော်သည့် အခြေအမြစ်ကင်းမဲ့သော အယူဝါဒဟူ၍ ပြန်ဆိုသင့်ပေသည်။

ကမ္ဘာပေါ်ရှိ လူမျိုးတိုင်းမှာလိုပင် အနည်းနှင့်အများ အလွဲစွဲစိတ်ရှိကြ၏။ အယူဝါဒသည်ရင်း၊ တိုးတက် ခေတ်မီသော သိပ္ပံပညာရပ်များသည်ရင်း ထိုအလွဲစွဲ စိတ်များကို ပပျောက်အောင် မစွမ်းဆောင်နိုင်ခဲ့ပေ။ ကျွန်ုပ်တို့မြန်မာလူမျိုးသည်လည်းကမ္ဘာပေါ်၌ အလွဲစွဲစိတ်များ ရှိသည့်လူမျိုးများတွင် တဦးအပါအဝင်ဖြစ်၏။ ခေတ်ပညာတတ် လူလတ်တန်းစားများထဲတွင် ထိုကဲ့သို့ ဆင်ခြင်တုံဘရားနှင့် မယှဉ်သော ဥပါဒါန်အစွဲအလမ်းများသည် တဖြည်းဖြည်း လျော့ပါးသွားပြီ ဖြစ်သော်လည်း တောင်သူလယ်သမား ဆင်းရဲသား တောနေလူများနှင့် ရှေးဆံသော လူကြီးပိုင်းတွင်မူကား အလွဲစွဲစိတ်များ ယခုတိုင် ရှိနေသေးသည်။

ကြိုးတန်းကြိမ်တန်းနှင့် သေ့ဘားအောက်များသို့ ငုံ့လျှိုးသွားလျှင် ဘုန်းကံ နိမ့်တတ်သည်ဟု အယူရှိကြ၏။ လက်သည်းခြေသည်းများ အိမ်အောက်သို့ကျလျှင် လာဘ်တိတ်တတ်သည်ဟု ယူဆကြ၏။ အိမ်မြှောင် စုတ်သိုးသံကြားလျှင် လာဘ်ကောင်းသည်ဟု ယုံကြည် ကြ၏။ အိမ်ခေါင်မိုးမှ ကျီးသာလျှင် ဧည့်သည် ရောက်တတ်သည်ဟု ပြောကြ၏။ ထို့ပြင် ဆေးပညာ ကျန်းမာရေး စသည်တို့နှင့်စပ်လျဉ်း၍လည်း အယူစွဲများ မရေမတွက်နိုင်အောင်ရှိသေးသည်။ ပုံစံအားဖြင့် လူတစုံတယောက် နာတာရှည်ရောဂါကပ်ငြိလျှင်ခေတ်မီဆေးပညာအရရောဂါ၏သဘောကို အမှန်အကန်ရအောင် ဆေးဆရာဝန်များကို ခေါ်ယူကုသစေခြင်းမပြုကြပဲ စုန်းဖမ်းစားသည်၊ နတ်ဖမ်းစားသည်ဟု အယူရှိကာ ရိုးရာနတ်ကို ငှက်ပျောပွဲ အုန်းပွဲ စသည်တို့နှင့် ပူဇော်ပသ၍တောင်းပန်တတ်ကြသည်။ တခါတရံလူနာသည် မသေပဲ နေတတ်ရာ ထိုအခါ နတ်ကို ပသတောင်းပန်သောကြောင့် အသက် ချမ်းသာရာရသည်ဟု အယူရှိကြ၏။ နတ်ကိုပသတင်မြှောက်ပါလျက်နှင့်သေသွားလျှင်လည်း သေနေ့စေ့၍သေရသည်ဟူ၍ရင်း၊နတ်ကိုအချိန်မှီ မပူဇော်မတင်မြှောက်သောကြောင့် သေရသည်ဟူ၍ရင်း ပြောဆိုလေ့ရှိကြသည်။

ထိုနည်းအတူ ကလေးသူငယ်များ အငိုမတိတ်နိုင်လျှင် နတ်သူငယ်မနဲမိကလေးကို မုန့်လုံးရေပေါ် စသည်တို့နှင့်ပသ တင်မြှောက်ကာ ပါးစပ်ကလည်း နတ်သူငယ်ရှင်မကလေး ဘုရား၊ စားတော်ပွဲများနဲ့ ပူဇော်ပသပါတယ်၊ ညီမလေး မောင်လေးများကို အငိုမပေးပါနဲ့၊ အရယ်မပေးပါနဲ့ စသည်ဖြင့် ပြောဆိုလျက် နတ်ကိုဘောင်းပန်တတ်ကြ၏။မိုးခေါင်လျှင် လွန်ဆွဲခြင်းကို မြန်မာနိုင်ငံ ခြောက်သွေ့သောဒေသများတွင် ပြုလုပ်လေ့ရှိကြသည်။

**အလှဆီ။** ။ဂလစ်ဆရင်း — ရှု။

**အလေး။** ။အလေးဆိုသည်မှာ နို့တိုက် သတ္တဝါနှင့် ကြက်ငှက်များပေါ်တွင် နေပြီးလျှင် ယင်းတို့၏ သွေးကို စုတ်ယူ စားသောက်ကာ အသက်ရှင်လျက် ရှိကြသော အလွန်သေးငယ်သည့် အတောင်မဲ့ အင်းဆက်ပိုးများဖြစ်သည်။ ယင်းတို့ တွယ်ကပ်၍နေသော သတ္တဝါကို လိုက်၍ အမည်အမျိုးမျိုး ရရှိကြသည်။ ပုံစံ အားဖြင့် ခွေး၏ ကိုယ်ပေါ်၌ တွေ့ရသော အလေးကို ခွေးလေး၊ သို့မဟုတ် ခွေးသန်းဟူ၍ရင်း၊ ကြောင်၏ ကိုယ်ပေါ်၌ တွေ့ရသော အလေးကို ကြောင်လေး၊ သို့မဟုတ် ကြောင်သန်းဟူ၍ရင်း၊ ကြွက်၏ကိုယ်ပေါ်၌ တွေ့ရသော အလေးကို ကြွက်လေး၊ သို့မဟုတ် ကြွက်သန်းဟူ၍ရင်း ခေါ်ဝေါ်ကြသည်။

အလေးများသည် သေးငယ်သော အင်းဆက်ပိုးများဖြစ်ရကား အကြီးဆုံး အလေးသည် တလက်မ၏ လေးပုံတပုံမျှသာရှိသည်။ အခြား အင်းဆက်ပိုးများကဲ့သို့ အတောင်များမရှိသော်လည်း အလွန်သန်မာသော နောက်ခြေနှစ်ချောင်းရှိသောကြောင့် တနေရာမှ အခြားဝေးလံသော တနေရာသို့ ကျင်လျင်စွာ ခုန်၍ သွားနိုင်သည်။ အချို့အလေးများသည် ယင်းတို့၏ ကိုယ်အသျှားထက်

အဆပေါင်း ၁၀၀ မျှဝေးသော နေရာသို့ ခုန်၍သွားနိုင်သဖြင့် အခုန်အသန်ဆုံးသတ္တဝါဟု အသိအမှတ်ပြုကြသည်။ အလေးများသည် ယင်းတို့တွယ်ကပ်ထားသော သတ္တဝါကို လိုက်၍ တမျိုးစီ သီးခြားရှိကြသည်။ အလေး၏ ကိုယ်ခန္ဓာသည် ငါးကဲ့သို့ ပါး၍ပြားသည်။ တွယ်ကပ်ထားသည့် တိရစ္ဆာန်တို့၏ အမွေးအမှင် ကြားထဲ၌ အလွယ်တကူ သွားလာနေနိုင်ကြသည်။ များသောအားဖြင့် သွေးစုတ်ကောင်များဖြစ်သည့်အားလျော်စွာ ယင်းတို့၏ဦးခေါင်း၌ ရှည်လျားချွန်ထက်သော နှုတ်သီးများ ရှိကြသည်။ ထိုနှုတ်သီးဖြင့် တိရစ္ဆာန်၏ အရေပြင်ကို ထိုးဖောက်ပြီးလျှင် သွေးစုတ်ယူကြသည်။

အရွယ်ရောက်သော အလေးမသည် မိမိ တွယ်ကပ်ထားရာ တိရစ္ဆာန်၏ အမွေးများ အကြား၌ ဖြစ်စေ၊ ကော်ဇောစသော အခင်း၏အမွေးများ အကြား၌ဖြစ်စေ ဥများကို အုတတ်သည်။ ဥမှပေါက်ခါစ အလေးကောင်ကလေးများသည် အမွေးထူသည့် ပိုးကောင်ကလေးများနှင့်တူသည်။ ယင်းတို့၌ ပါးစပ်နှင့်ခြေထောက် အစုံအလင် ပါရှိ၏။ အလေးတို့သည် အညစ်အကြေးများ ရှိရာတွင် ကျက်စားနေထိုင်လေ့ရှိကြသည်။ အလေးသည် ပလိပ်ရောဂါပိုးများကို ကြွက်မှလူသို့ ယူဆောင် သွားနိုင်သဖြင့် လူတို့အား အန္တရာယ် အပေးနိုင်ဆုံး ပိုးမွှား များတွင် အပါအဝင်ဖြစ်လေသည်။

ရှာဖွေသိရှိရသော အလေးမျိုးပေါင်းမှ ၁,၀၀၀ နီးပါးမျှရှိ၍ ယင်းတို့အားလုံးသည် သွေးစုတ်ကောင်များ ဖြစ်ကြသည်။

**အဝီစိတွင်း**။ ။သဲကျောက်၊ ကျောက်စရစ်ကဲ့သို့သော မြေအောက်ရှိ ကျောက်ပွ အထပ်ထပ်ကို လွန် သွား ဖြင့် နက်စွာ ဖောက်ထွင်းတူးရာမှ ဖိအားဖြင့် မြေပေါ်သို့ ရေများပန်း၍ တက်လာသည့် တွင်းကို အဝီစိတွင်းဟု ခေါ်သည်။ မြေအောက်ရှိရေသည် ရေစိမ့်ဝင်နိုင်သောကျောက်ပွလွှာတွင်ရှိရာ ထိုကျောက်ပွလွှာသည် မာ၍ ကျစ်လစ်ပြီးလျှင် ရေစိမ့်မဝင်နိုင်သော အထက် အောက် ကျောက်ထပ်လွှာနှစ်ခု၏ အကြားတွင် ညပ်လျက်ရှိနေသည်။ အထက်မှ မာ၍ကျစ်လစ်သော ကျောက်ထပ်က ဖုံးအုပ်ထားသဖြင့် အပေါ်သို့ ရေများ ထိုးထွက်မသွားနိုင်ပေ။ အောက်မှလည်း အလားတူ မာ၍ကျစ်လစ်သော ကျောက်လွှာက ခံထားသောကြောင့် အောက်သို့ နောက်ထပ် ရေစိမ့်၍ ထွက်မသွားနိုင်ချေ။

ကျောက်ပွလွှာအကြောသည် တဖက်တွင် အတော်အတန် မြင့်သော မြေမျက်နှာပြင်ပေါ်၌ တည်ရှိနေ၍ ထိုနေရာမှ မြေအောက်သို့ တဖြည်းဖြည်း နိမ့်ဆင်းသွားလေသည်။ မိုးရွာသည့်အခါတွင်ဖြစ်စေ၊ ဆီးနှင်းများ ပျော်သည့်အခါတွင်ဖြစ်စေ ရေသည် ထိုကျောက်ပွလွှာ ထိပ်မှ အကြောအတိုင်း တစိမ့်စိမ့် အောက်သို့ စိမ့်ဝင်သွားပြီးလျှင် နိမ့်သောနေရာ တနေရာသို့ စီးသွားကာ သာမန် စမ်းရေပေါက်အဖြစ်ဖြင့် ထွက်တတ်လေသည်။ ထိုသို့ထွက်ပေါက်မရှိပဲ ကျောက်လွှာထပ်နှစ်ခုကြားတွင် ပိတ်မိလျက်ရှိသော ထိုရေမျိုးရှိသည့် နေရာတွင် အဝီစိတွင်းတူးဖောက်လိုက်သည့်အခါ အထက်မှဖိအားကြောင့် ရေသည် မြေမျက်နှာပြင်ပေါ်သို့ ပန်း၍ တက်လာလေသည်။ အချို့ အဝီစိတွင်းများသည် အလွန်နက်သည်။ အဝီစိတွင်းမှရေသည် မြေမျက်နှာပြင်ပေါ်သို့ ပန်း၍တက်လာလေ့ရှိသော်လည်း အချို့တွင်းများတွင် ရေသည် အပေါ်သို့ ပန်း၍ တက်မလာသဖြင့် စက်ဖြင့် စုတ်ယူကြရသည်။

ခြောက်သွေ့သော သဲကန္တာရ မြေများတွင် တခါတရံ တမိုင်နီးပါးမျှ နက်စွာ ဖောက်ထွင်းတူးရာမှ မြေအောက်စမ်းရေကို တွေ့ရှိသဖြင့် ရေများ ပန်းတက်လာရာ ထိုတဝိုက်တွင် ဥယျာဉ်များ၊ လယ်ယာများ၊ နွားစားကျက်များ ဖြစ်လာကြသည်။ ဆဟာရား သဲကန္တာရတွင် လှည့်လည် နေထိုင်ကြသူများသည် ဤကဲ့သို့သော အဝီစိတွင်းမျိုး တဝိုက်တွင်သာ လုပ်ကိုင်နေထိုင်ကြသည်။ သြစတြေးလီးယားတိုက်ရှိ ကျွဲနွား မွေးမြူရာ ဌာနကြီးများသည် အဝီစိတွင်းမှ ရေ၏ကျေးဇူးကြောင့် တည်တံ့လျက်ရှိကြသည်။ ရှေးအခါက ဤအဝီစိ တွင်းမျိုးကို အီဂျစ်နိုင်ငံ၊ တရုပ်နိုင်ငံနှင့် အရှေ့တိုင်း နိုင်ငံများတွင် တူးခဲ့ကြဘူးသည်။ ပြင်သစ်နိုင်ငံ ပက်ဆီမြို့အနီးရှိ ကျော်စောထင်ရှားသော အဝီစိတွင်းတတွင်းသည် တနေ့လျှင် ရေဂါလံပေါင်း ငါးသန်း ခြောက်သိန်းထွက်၍ မြေပေါ်သို့ ၅၄ ပေ ပန်းထွက်သည်။ ဂျာမနီနိုင်ငံ၊ လိုက်ပဇစ်မြို့အနီးရှိ အနက်ဆုံး အဝီစိတွင်းသည် တမိုင်ကျော် နက်သည်။

ရေအမြောက်အမြားသုံးသော အလုပ်ရုံ စက်ရုံနှင့် အဆောက်အအုံကြီးများစွာတို့သည် အဝီစိတွင်းမှ ရေကို လိုသလောက် ရကြသဖြင့် ငွေကုန်သက်သာသည့်ပြင် မြေအောက် အလွန်နက်သော နေရာမှ ရရှိသည့်ရေဖြစ်သဖြင့် ညစ်ညူးခြင်းမရှိပေ။ ထို့ကြောင့် မြစ်ရေ၊ ကန်ရေများသည် မသန့်ရှင်းသဖြင့် သန့်ရှင်းအောင် စစ်ယူရသကဲ့သို့ အဝီစိတွင်းမှရသောရေကို အထပ်ထပ်စစ်ရန် မလိုချေ။

မြန်မာနိုင်ငံ အနှံ့အပြား၌ အထူးသဖြင့် ရေရှားပါးသော ဒေသများတွင် ရေအလုံအလောက် ရရှိရေးအတွက် ကျေးလက်သန့်ရှင်းရေးနှင့် ရေရရေးအဖွဲ့များက အဝီစိတွင်းများကို လိုက်လံတူးဖော်ပေးလျက်ရှိရာ များစွာ အောင်မြင်လျက်ရှိသည်။

အဝီစိတွင်းများ တူးရာတွင် လက်နက် ကရိယာ

အမျိုးမျိုးကို အသုံးပြုကြ၏။ တခါတရံ မြေသွင်းတိုင်များကို တိုင်ဆောင့်စက်ဖြင့် ရိုက်သွင်း သကဲ့သို့ မြေအောက်သို့ရိုက်သွင်းတူးဖော်ကြသည်။ သို့ရာတွင် မာသော ကျောက်နှင့် တွေ့သည့်အခါ၌ကား ပတ်လည်လွန်သွားကို သုံးရသည်။ တခါတရံ အလွန်မာသောကျောက်ကို ထိုးဖောက်တူးရသည့်အခါ လွန်သွားထိပ်၌ အလွန် မာကျော၍ အဖိုးတန်သော စိန်များကို တပ်ဆင်ထားသည့် ပတ်လည်လွန်သွားမျိုးဖြင့် တူးယူကြရလေသည်။

**အဝေးကြည့်မှန်ပြောင်း။** ။ရှေးအခါက လူတို့သည် နက္ခတ်တာရာများကို သာမန် မျက်စိများဖြင့်သာလျှင် ကြည့်ကြရသဖြင့် မြင်ရသော နက္ခတ်တာရာအရေအတွက်မှာ အလွန်ပင်နည်းလေသည်။ ထိုမြင်ရသမျှ နက္ခတ်တာရာတို့၏ သဘာဝကိုလည်း ကွဲကွဲပြားပြားမသိရပေ။ အဝေးကြည့်မှန်ပြောင်း (တယ်လီစကုပ်) များ ပေါ်လာသောအခါမှ နက္ခတ်ဆရာတို့သည် နက္ခတ်တာရာ အမြောက်အမြားကို တိုး၍မြင်လာကြပြီးလျှင် ထိုနက္ခတ်တာရာများ၏အကြောင်းကို နှိုက်နှိုက်ချွတ်ချွတ် လေ့လာနိုင်လာကြသည်။ အဝေးကြည့်မှန်ပြောင်းများသာ ပေါ်ပေါက်လာခြင်းမရှိပါက ကောင်းကင်လောကအကြောင်းကို လွန်ခဲ့သောအနှစ် ၃၀၀ လောက်က လူများ သိရှိသမျှထက်ပို၍ ကျွန်ုပ်တို့လည်း ယခုအခါ သိရှိကြဦးမည်မဟုတ်ချေ။

အဝေးကြည့်မှန်ပြောင်းကို ပြုလုပ်ထားပုံမှာ အရင်းခံအားဖြင့် အကြောင်းနှစ်ရပ်ရှိ၏။ ထိုအကြောင်းနှစ်ရပ်မှာ ကြည့်လိုသောအရာဝတ္ထုမှ အလင်းတို့ကို ဆုံချက်တွင် ကျရောက်စေ၍ ပုံရိပ်ထင်စေရန်နှင့် ထိုပုံရိပ်ကို အကြီးချဲ့၍ မျက်စိဖြင့် မြင်နိုင်စေရန်တို့ဖြစ်သည်။ ထိုအတွက် အလင်းလုံသောပြောင်းရှည်၏ ထိပ်တဖက်တွင်ပုံဖမ်းမှန်ဘီလူးခေါ် မှန်ဘီလူးခုံး၊ သို့မဟုတ် အလင်းပြန် မှန်ဘီလူးခေါ် မှန်ဘီလူးခွက် တခုခုကို တပ်ထား၍၊ ကြည့်လိုသော အရာဝတ္ထုမှ အလင်းတန်းတို့ကို ဆုံချက်၌ကျရောက်စေကာ ထင်ရှားသောပုံရိပ်ကို ထင်စေ၏။ မှန်ဘီလူးခုံးကို အသုံးပြုသော အဝေးကြည့်မှန်ပြောင်းဖြစ်လျှင် အလင်းယိုင် (အဝေးကြည့်)မှန်ပြောင်း ဟုခေါ်၍ အလင်းပြန်မှန်ခွက်ကို အသုံးပြုသော အဝေးကြည့်မှန်ပြောင်းကိုမူ အလင်းပြန် (အဝေးကြည့်) မှန်ပြောင်းဟုခေါ်၏။ ထိုနောက် ထင်လာသော ပုံရိပ်ကို အကြီးချဲ့ပြီး မျက်စိဖြင့်မြင်နိုင်စေရန်အတွက် မှန်ပြောင်း၏ ကျန်ထိပ်တဖက်တွင် မှန်ဘီလူးတခု တပ်ထားပြန်သည်။ ထိုမှန်ဘီလူးကို ကြည့်မှန်ဘီလူး ဟု ခေါ်၏။ အဝေးကြည့်မှန်ပြောင်း နှစ်မျိုးအနက် အလင်းယိုင်မှန်ပြောင်းက အလျင်ပေါ်ခဲ့လေသည်။

ယခုခေတ်တွင် အဝေးကြည့်မှန်ပြောင်းကို အသုံးပြုနိုင်ကြသည့်အတွက် ဂယ်လီလေအိုနှင့် နျူတန်တို့အား အထူးကျေးဇူးတင်ထိုက်ပေသည်။ (ဂယ်လီလေအို။ နျူတန်၊ အိုင်ဇက် — လည်းရှု။) ဂယ်လီလေအိုသည် အလင်းယိုင်မှန်ပြောင်းကို တီထွင်သူဖြစ်၍၊ နျူတန်မှာ အလင်းပြန်မှန်ပြောင်းကို တီထွင်သူဖြစ်သည်။ အမှန်စင်စစ် အဝေးကြည့်မှန်ပြောင်းကို စတင်တီထွင်သူမှာ ဒတ်ချလူမျိုး မျက်မှန်ဆရာ ဟန်းဇ လစ်ပါရှီဆိုသူဖြစ်၍၊ ခရစ် ၁၆၀၈ ခုနှစ်လောက်တွင် အဝေးကြည့်မှန်ပြောင်းတခုကို စတင်ပြုလုပ်ခဲ့သည်။ သို့ရာတွင် လက်တွေ့အသုံးချနိုင်သော အဝေးကြည့်မှန်ပြောင်းကို ပြုပြင်တီထွင်ခဲ့သူမှာ ဂယ်လီလေအို ဖြစ်သည်။ ထိုကြောင့် အလင်းယိုင်မှန်ပြောင်းကို အချို့က ဂယ်လီလီယန်တယ်လီစကုပ် ဟူ၍ပင် ပြောစမှတ်ပြုခဲ့ကြလေသည်။

ဂယ်လီလေအိုသည် မိမိတီထွင်လိုက်သော အဝေးကြည့်မှန်ပြောင်းဖြင့် အာကာသ လောကကို ကြည့်ရာ လ၌တောင်များ၊ ချိုင့်ဝှမ်းများရှိကြောင်း၊ ဂျူပီတာဂြိုဟ်၌ အရံဂြိုဟ်များ ရှိကြောင်း၊ ဆက်တန်ဂြိုဟ်၌ ကွင်းများရှိကြောင်းတို့ကို မြင်ရသည်။ သူသည် အထူးသဖြင့် နေ၌ရှိသောအကွက်များတွင် စိတ်ဝင်စား၍ ထိုနေကွက်များကို သေချာစွာကြည့်ရှုရာမှ နေသည် ဝင်ရိုးပေါ်၌ တလလျှင် တပတ်ကျ လည်နေသည့်အချက်ကို သိရှိခဲ့လေသည်။

ဂယ်လီလီယန် တယ်လီစကုပ် ဟု ခေါ်စမှတ်ပြုသော အလင်းယိုင် မှန်ပြောင်းတွင် ကြည့်ရန် ချိန်၍ထားသော အရာဝတ္ထုမှ အလင်းတန်းတို့သည် မှန်ပြောင်းအတွင်းသို့ ပုံဖမ်းမှန်ဘီလူးကိုဖြတ်၍ ဝင်ကြသည်။ မှန်ဘီလူးခုံး၏ အလင်းတန်း ဆုံချက်နေရာတွင် ထိုအရာဝတ္ထု၏ ပုံရိပ်သည် ထင်လာ၏။ ထိုမှတဖန် ပုံရိပ်ကို ကြည့်မှန်ဘီလူးဖြင့်အကြီးချဲ့၍ ကြည့်ရသည်။ မှတ်သားထားရန် အချက်မှာ ပုံဖမ်းမှန်ဘီလူးခုံးမှ ဖြတ်ဝင်လာသော အလင်းတန်းများသည် ကြည့်မှန်ဘီလူးမှ ထွက်သွားသောအခါ ပြက်အားဖြင့်ကျုံ့သွားသည်။ ထိုကြောင့် မျက်စိထဲသို့ ဝင်ရောက်သော အလင်းတန်းများသည် သာမန်မျက်စိဖြင့်ကြည့်စဉ်ကထက် အဝေးကြည့်မှန်ပြောင်းဖြင့် ကြည့်ချိန်တွင် ပိုမိုများပြားစွာ ဝင်ရောက်သဖြင့် အရာဝတ္ထု၏ တောက်ပခြင်းကို ပို၍ ထင်းလင်းစွာ မြင်ရ၏။ ဤအကြောင်းကြောင့် ပင်လျှင် ကျွန်ုပ်တို့သည် ကောင်းကင်မှကြယ်ကို အဝေးကြည့်မှန်ပြောင်းဖြင့် ကြည့်သောအခါ၌ ကြယ်ရောင်ပို၍ တောက်ပကြည်လင်သည်ကို တွေ့ရခြင်းဖြစ်သည်။

ရှေးခေတ် အလင်းယိုင်မှန်ပြောင်းများတွင် ပုံရိပ်သည် ပြတ်သားစွာ မထင်ပဲ ဝိုးတိုး ဝါးတား ဖြစ်နေခဲ့သည်။ ယင်းသို့ဖြစ်ရသည်မှာ ချွတ်ယွင်းချက် နှစ်ရပ်ကြောင့်ဖြစ်၏။ ချွတ်ယွင်းချက်တရပ်မှာ မှန်ဘီလူး၏အနားစွန်းနှင့်



အဝေးကြည့်မှန်ပြောင်း

အလယ်ပိုင်းမှ ဖြာဝင်သော အလင်းတန်းများသည် ဆုံချက်တနေရာတည်းတွင် မကျရောက်ခြင်းဖြစ်၍၊ ဒုတိယ ချွတ်ယွင်းချက်မှာ အလင်းရောင်တွင် ပါဝင်သော ခရမ်းခြည်အပြာနှင့် ရောင်ခြည်အနီတို့ ဆုံချက် ကွဲလွဲခြင်းပင် ဖြစ်လေသည်။

ထိုချွတ်ယွင်းချက်များရှိခြင်းကြောင့် အလင်းယိုင်တယ်လီစကုပ်ကို လက်ဦးတွင် အသုံးနည်းခဲ့ပေသည်။ သို့သော် နောင်နှစ်ပေါင်း ၁၅၀ ခန့် ကြာသောအခါ ပုံဖမ်းမှန်ဘီလူး နေရာတွင် မှန်ဘီလူးတခုတည်းကို မသုံးပဲ၊ ကရောင်းဖန်နှင့် ပြုလုပ်ထားသော မှန်ဘီလူးခုံးကို အပြင်ဖက်က ထား၍ ဖလင့်ဖန်နှင့် ပြုလုပ်ထားသော မှန်ဘီလူးခွက်ကို အတွင်းဖက်က ထားကာ မှန်ဘီလူးနှစ်ခုပူးကို အသုံးပြုခြင်းဖြင့် အထက်ပါ ချွတ်ယွင်းချက်များ ပပျောက်နိုင်ကြောင်းကို အင်္ဂလိပ်လူမျိုး မျက်မှန်ဆရာတဦးက တွေ့ရှိလာလေသည်။ အလင်းယိုင်မှန်ပြောင်းတွင် အလင်းပြန် မှန်ပြောင်းထက်သာသော အချက်တရပ်ရှိရာ၊ ထိုအချက်မှာ အနေအထား ကျအောင် တကြိမ်တခါ ပြင်ဆင်ထားလျှင် နောက်ထပ် ပြုပြင်ပေးရန် မလိုတော့ပဲ စိတ်ချစွာ သုံးစွဲ သွားနိုင်သော အချက် ဖြစ်လေသည်။

နျူတန်သည် အလင်းပြန်မှန်ပြောင်းကို ခရစ်နှစ် ၁၆၆၆ မှ ၁၆၆၉ ခုနှစ်အတွင်းက တီထွင်ခဲ့သည်။ နျူတန်စတင် တီထွင်သဖြင့် တခါတရံ အလင်းပြန်မှန်ပြောင်းကိုလည်း နျူတိုနီယန် တယ်လီစကုပ် ဟု ခေါ်စမှတ်ပြုကြ၏။ ထို အဝေးကြည့် မှန်ပြောင်းတွင် အလင်းတန်း များသည် ပြောင်းထဲသို့ အလျားလိုက်ဝင်ပြီးနောက် အလင်းပြန်မှန် ခွက်ပေါ်သို့ ကျရောက်သည်။ ထိုမှန်ခွက်မှတဖန် အလင်းတန်းတို့ကို ကတော့ပုံသဏ္ဌာန်ဖြစ်စေ၍ ပရစ်ဇမ်ခေါ် သုံးမြှောင့်ဖန်တုံးဆီသို့ ပြန်ဟပ်စေသည်။ ပရစ်ဇမ်က တဖန် လာဟပ်သော အလင်းတန်းတို့ကို ပြောင်းဘေး၌ တပ်ဆင်ထားသော ကြည့်မှန်ဘီလူးဆီသို့ ထောင့်မှန်ကျ အတိုင်း လမ်းပြောင်းပေးလိုက်ပြန်သည်။ အလင်းပြန် မှန်ပြောင်းတွင် ပဉ္စမပေါ်ခါစ အလင်းယိုင်မှန်ပြောင်း၌ တွေ့ကြုံခဲ့ရသော အလင်းတန်းတို့ ဆုံချက်ကွဲလွဲသည့် ချွတ်ယွင်းချက်မှ ကင်းလွတ်၏။ သို့ရာတွင် ကြည့်မှန်ဘီလူးကို ပြောင်းဘေး၌ တပ်ဆင်ထားခြင်းကြောင့် ကြည့်ရှုသူအား အနေရခက်စေလေသည်။ နျူတိုနီယန် အလင်းပြန်မှန်ပြောင်းအပြင် ကက်ဆီဂရေးနီးယန်း တယ်လီစကုပ် ဟု ခေါ်သော အလင်းပြန်မှန်ပြောင်းတမျိုးရှိသေး၏။ ထိုအဝေးကြည့်မှန်ပြောင်းတွင်

အလင်းပြန်မှန်ခွက်မှ ကတော့ပုံသဏ္ဍာန် အရောင်ဟပ်လိုက်သော အလင်းတန်းတို့ကို အခြားအစွန်းအနီး၌ တပ်ဆင်ထားသော အခြားကြည့်မှန်ခွက်က ခံယူပြီးနောက် ပဌမအလင်းပြန်မှန်ခွက် ဗဟိုချက်ရှိ အပေါက်မှနေ၍ ကြည့်မှန်ဘီလူးဆီသို့ ပြန်ဟပ်သွားစေလေသည်။

နက္ခတ်မျှော်စင်များတွင် အလင်းယိုင်နှင့် အလင်းပြန်မှန်ပြောင်း နှစ်မျိုးလုံးကိုပင် တပ်ဆင် အသုံးပြုကြသည်။ သို့ရာတွင် ကမ္ဘာပေါ်ရှိ အကြီးဆုံးသော တာရာကြည့် အဝေးကြည့် မှန်ပြောင်းများမှာ အလင်းပြန် မှန်ပြောင်းများသာ များပေသည်။ အလင်းပြန် မှန်ပြောင်း၌ရှိသော ချွတ်ယွင်းချက် တခုမှာ အလင်းပြန်မှန်ခွက်သည် ကြာလျှင် အရောင်မှိန်သွားလေ့ရှိသည့်အတွက် အစဉ်သဖြင့် အရောင်တောက်ပြောင်၍ နေစေရန် ပြုပြင်ပေးနေရခြင်းပင်ဖြစ်၏။ အလင်းပြန်မှန်ခွက်သည် သတ္တုနှင့် ပြုလုပ်ထားသော ခွက်ဖြစ်လျှင် အရောင်တင်ပေးရ၍၊ ဖန်ဖြစ်ခဲ့လျှင် ပြဒါးပြန်လည်သုတ်ပေးရလေသည်။

အဝေးကြည့်မှန်ပြောင်းကို ယခုအခါ သူနေရာနှင့်သူ ဆီလျော်အောင် ပြုပြင်၍ နေရာအနှံ့အပြား၌ အသုံးပြုလျက်ရှိသည်။ ခေတ်မီအမြောက်နှင့် သေနတ်များမှာပင် မြင်ကွင်းချိန် ကရိယာအနေနှင့် အသုံးပြုထားသည်ကို တွေ့ရသည်။ သို့သော်လည်း တာရာကြည့် အဝေးကြည့်မှန်ပြောင်းနှင့် သာမန်အဝေးကြည့်မှန်ပြောင်းနှစ်မျိုး၏ ခြားနားချက်မှာတာရာကြည့် အဝေးကြည့်မှန်ပြောင်းတွင်အရာဝတ္ထု၏ ပုံရိပ်သည် ပြောင်းပြန်ထင်၍ သာမန်အဝေးကြည့်မှန်ပြောင်းများတွင်မူ ပြောင်းပြန်ထင်သော ပုံရိပ်ကိုတဖန်ပြန်၍ မူလဝတ္ထုပုံအတိုင်း အနေမှန်မြင်ရအောင် မှန်ပြောင်းအတွင်း၌ မှန်ဘီလူးအပိုများ တပ်ဆင်ပေးထားလေသည်။ မြင်းပြိုင်ပွဲများ၌ အသုံးပြုလေ့ရှိသော မြေပြင်ကြည့်မှန်ပြောင်း ခေါ် နှစ်လုံးပူးမှန်ပြောင်းမှာ ကြည့်မှန်ဘီလူးများနေရာ၌ မှန်ဘီလူးခွက်များ တပ်ဆင်ထားသော သာမန်အဝေးကြည့်မှန်ပြောင်း ငယ်ငယ်နှစ်ခုတွဲ ဖြစ်၏။ အဝေးကြည့် မှန်ပြောင်းအငယ်စားများအနက် ခေတ်အစားဆုံးနှင့် စွမ်းရည်အရှိဆုံးမှာ ပရစ်ဇမ် မြေပြင်ကြည့် မှန်ပြောင်းပင်ဖြစ်သည်။ ထိုမှန်ပြောင်းတွင် ပြောင်းနှစ်ခုစလုံး၌ အလင်းပြန် ပရစ်ဇမ်တခုစီ တပ်ဆင်ထားခြင်းကြောင့် မြင်ကွင်းကို သာမန်မြေပြင်ကြည့် မှန်ပြောင်းများထက် သုံးဆကျော်မျှ ပို၍မြင်နိုင်သည်။ စစ်မြေပြင်တွင်ဆိုလျှင် ဤပရစ်ဇမ်မြေပြင်ကြည့်မှန်ပြောင်းကို အထူးအသုံးများကြသည်။

ကမ္ဘာတွင် အကျော်ကြားဆုံးသော အဝေးကြည့်မှန်ပြောင်းများမှာ တာရာကြည့် အဝေးကြည့်မှန်ပြောင်းများပင် ဖြစ်လေသည်။ ကမ္ဘာ၌ အကြီးဆုံး အလင်းယိုင်မှန်ပြောင်းမှာ အမေရိကန်ပြည်ထောင်စု ရှီကားဂိုးတက္ကသိုလ်မှ ယာကစ်နက္ခတ်မျှော်စင်တွင်ရှိ၍ ထိုအဝေးကြည့်မှန်ပြောင်းရှိ ပုံဖမ်းမှန်ဘီလူးမှာ အချင်းလက်မ ၄၀ ရှိလေသည်။

တခါက ကမ္ဘာတွင် အကြီးဆုံးဖြစ်ခဲ့သော အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားနယ်ရှိ မောင့်ဝီလဆန် နက္ခတ်မျှော်စင်မှ တာရာကြည့် အဝေးကြည့် မှန်ပြောင်းကြီးမှာ အလင်းပြန် မှန်ပြောင်းဖြစ်၏။ ထိုအဝေးကြည့်မှန်ပြောင်းမှ အလင်းပြန်မှန်ခွက်ကြီးမှာ လေးတန်ခွဲခန့်လေး၍ အချင်းလက်မ ၁၀၀ ရှိသည်။ သို့ရာတွင် ယခုအခါ ကာလီဖိုးနီးယားနယ်မှာပင် ၁၉၄၇ ခုနှစ်က ဆောက်လုပ်ပြီးစီးသွားသော မောင့်ပါလိုမာ နက္ခတ်တာရာ မျှော်စင်ရှိ အဝေးကြည့်မှန်ပြောင်းကြီးက မောင့်ဝီလဆန်အဝေးကြည့်မှန်ပြောင်းထက် ကြီးမားပြီးလျှင် ကမ္ဘာ၌ အကြီးဆုံးဘွဲ့ကို ယူသွားပေပြီ။ ထိုအဝေးကြည့်မှန်ပြောင်း၌ တန်ချိန် ၂၀ ခန့်လေး၍၊ အချင်းလက်မ ၂၀၀ ရှိသော အလင်းပြန်မှန်ခွက်ကြီးကိုတပ်ဆင်ထား၍ မောင့်ဝီလဆန် အဝေးကြည့်မှန်ပြောင်းထက် အလင်းရောင်စုသည့်အား လေးဆမျှ ပိုသည်ဟုဆို၏။ အောက်ခံခုံနှင့် တကွ အဝေးကြည့်မှန်ပြောင်းကြီးတခုလုံး၏ အလေးချိန်မှာ တန်ချိန် ၄၅၀ ကျော်၍ အဝေးကြည့်မှန်ပြောင်းကြီးအတွက် ဒေါ်လာငွေ ၆,၅၅၀,၀၀၀ အကုန်အကျ ခံကာ အနှစ် ၂၀ မျှ စီစဉ်ဆောက်လုပ်ခဲ့ရလေသည်။ ထိုအဝေးကြည့်မှန်ပြောင်းကြီးများမှ အလင်းပြန်မှန်ခွက်ကြီးများကို အရောင်တင်ရာ၌ အလုပ်သမားများသည် အထူးပင်ပန်းစွာ ဆောင်ရွက်ကြရ၏။ အရောင်တင်ရာ၌ မှန်ကိုပြဒါးသုတ်၍ အချိန်ကြာမြင့်သည်ထက် ပြဒါးသုတ်ပြီးမှန်ကို အအေးခံခြင်း၊ ညီမညီစမ်းသပ်ကြည့်ခြင်း စသည့်အလုပ်တို့က အချိန်ပို၍ ကြာမြင့်ပေသေးသည်။ ထိုအဝေးကြည့်မှန်ပြောင်းကြီးများကို အနှေးအမြန်လိုသလို လှုပ်ရှားရန်အတွက် အထူးစီမံထားသော လျှပ်စစ် ခလုတ်များကိုလည်း တပ်ဆင် ထားလေသည်။

ထိုနက္ခတ်မျှော်စင်များကို တောင်များပေါ်၌ တည်ဆောက်ထားလေ့ရှိခြင်းမှာ နက္ခတ်တာရာများကို ပို၍ထင်ရှားကြည်လင်စွာ မြင်နိုင်ရန်အတွက်ဖြစ်၏။ မြေပြင်ထက်မြင့်သော နေရာတွင် လေသည် ဖုန်နှင့်မီးခိုးတို့မှ ကင်းစင်သည်။ ထို့ပြင် အလင်းရောင်ခြည်များအဖို့ လေထုအထပ်ထပ်ကို လျော့၍ဖြတ်သန်းလာရခြင်း၊ နိမ့်စွာရွေ့ရှားနေသော မိုးရိပ်များမှ ကင်းလွတ်ခြင်းတို့ကြောင့် နက္ခတ်တာရာများကို ပို၍ ကြည်လင်ပြတ်သားစွာ စူးစမ်းလေ့လာနိုင်လေသည်။

**အဝတ်အစား။** ။လူတို့သည် မိမိတို့ဓလေ့ထုံးစံအတိုင်း အဝတ်အစားများကို ဝတ်ဆင်လာခဲ့ကြသော်လည်း မည်သို့သော အကြောင်းများကြောင့် ဝတ်ဆင်ကြသည်ကိုမူ လူ

တိုင်း သဏ်ါပြုမိလို့မှ ပြုမိကြပေမည်။ အဝတ်အစား ဝတ်ဆင်ရာ၌ အကြောင်းပေါင်း များစွာ ရှိနိုင်သော်လည်း အဓိကအကြောင်းများမှာ မိမိကိုယ်ကို တန်ဆာဆင်လို့မှုနှင့် အပူအအေး လုံစေလိုမှုပင် ဖြစ်တန်ရာသည်။ လူတို့သည် မိမိတို့ကိုယ်ကို မည်မျှ တန်ဆာဆင်လိုကြသနည်းဟူမူ အဝတ်အစားများ မဆင်မြန်း တတ်ကြမီ အချိန်ကပင် ဘီး၊ ဆံညှပ်နှင့်တကွ အခြားအသေးအဖွဲ တန်ဆာများကို သမိုင်းမတင်မီခေတ် ဂူနေလူများ ဆင်မြန်း အသုံးပြုခဲ့ကြောင်း တွေ့ရလေသည်။ စုန်းကဝေပြုစားခြင်းကို အချို့သော အဝတ်အစားမျိုးနှင့် ကာကွယ်နိုင်သည် ဟူသော ယုံကြည်ချက်ဖြင့် ဝတ်ဆင် ခဲ့ကြသည်လည်း ရှိပေသည်။ အရှက်အကြောက်ကို ဖုံးကွယ် လိုမှုမှာလည်း အကြောင်းတရပ်ဖြစ်၏။ သို့ရာတွင် ပလာကျင်း၍ နေထိုင်တတ်သော လူမျိုး၊ မလုံ့တလုံ ဝတ်ဆင်တတ်သော လူမျိုးများ ရှိနေခြင်းကို ထောက်လျှင် ဤအချက်မှာ ကမ္ဘာပေါ်ရှိ လူမျိုးအားလုံးအတွက် မှန်သည်ဟု မဆိုသာချေ။

မိမိတို့၏ထုံးတမ်းဓလေ့ကိုလိုက်၍ လူမျိုးအသီးအသီး၌ သီးခြား အဝတ်အစားများ ရှိကြပေသည်။ တဖန် လူတမျိုးမှာပင် အချိန်၊ ရာသီ၊ အခမ်းအနားအလိုက် အဝတ်အစားများကို ခွဲခြား ထားတတ် ပြန်သည်။ သို့ရာတွင် အဝတ်အစားအတွက် လူတို့ အသုံးပြုသော အထည်ပစ္စည်းနှင့် ပုံစံတို့မှာ သားစဉ် မြေးဆက် တသမတ်တည်း မူသေမတည်မြဲပဲ ယဉ်ကျေးမှုနှင့်တကွ စက်မှုလက်မှု တိုးတက်ပြောင်းလဲမှု အခြေအနေကို အမှီပြု၍ တခေတ်မှ တခေတ်သို့ ပြောင်းလဲတတ်ပေသည်။ ပုံစံအားဖြင့် ပြရလျှင် ရှေးခေတ် လူတို့သည် သားမွေး၊ သားရေ၊ သစ်ခေါက်၊ မြက်ပင် စသည်တို့မှ အဝတ်အစားဖြစ်အောင် ပြုပြင် ချုပ်လုပ်ပြီး ဝတ်ဆင်ခဲ့ကြရ၏။ ထိုနောက်မှ သိုးမွေး၊ ခြည်၊ ပိုးဖဲ ကတ္တီပါစသော ခေတ်ပေါ် အထည်များကို အသုံးပြုလာနိုင်ခဲ့ကြလေသည်။

အဝတ်အစားများချုပ်ရာတွင် လက်ချုပ်နှင့် စက်ချုပ်နည်းနှစ်မျိုးတို့ဖြင့် မိမိတို့ဟာသာ အိမ်တွင် ချုပ်ယူသူများရှိသကဲ့သို့ ဆိုင်တွင်အပ်ပြီး ချုပ်စေသူများလည်း ရှိသည်။ ထို့ပြင် စက်ကရိယာများ တနေ့ထက် တနေ့ တိုးတက်ဆန်းပြား လာခဲ့သည့် အလျောက် အသင့် ချုပ်ပြီးသား အဝတ်အစားများ ရောင်းချသည့် ဆိုင်များမှာ တနေ့တခြား ပေါများလာလေသည်။ သို့ရာတွင် အဝတ်အစားနှင့် စပ်လျဉ်းသည့် ပုံစံ(ဖက်ရှင်) များသည် အမျိုးမျိုး ပြောင်းလဲလျက်ရှိရကား တခါတရံ ထိုသို့ ဖက်ရှင် ပြောင်းလဲမှုကြောင့် အဝတ်အစားများကို အသင့်ချုပ်ပြီး ရောင်းချလေ့ရှိသူများ၌ အကြီးအကျယ် ထိခိုက် နစ်နာရတတ်သည်ကို တွေ့ရတတ်လေသည်။

အသလိဿနက္ခတ်။ ။နက္ခတ် ၂၇ လုံး — ရှု။

**အသိဉာဏ်စစ်ဆေးခြင်း။** ။ပညာသင်ကြားရေးတွင် စိတ်ပညာသည် အကျိုးဝင်နေခဲ့ရာ စိတ်ပညာ ပါရဂူများသည် ကျောင်းများ၌ ပညာသင်ကြားနေသော ကလေးများ၏ စိတ်ဓာတ်ကို အထူးသဖြင့် ဝေဖန် စစ်ဆေး စုံစမ်းလျက် ရှိ၏။ အတန်း တတန်းရှိ ကျောင်းသားများထဲ၌ အချို့ကျောင်းသားများသည် အတူတူ စာသင်ကြားနေရသော်လည်း စာမလိုက်နိုင်ပဲ ရှိနေလေသည်။ ထိုကျောင်းသားများသည် အဘယ်ကြောင့် ထိုကဲ့သို့ စာမလိုက်နိုင်သည်ကို စိတ်ပညာ ပါရဂူများက စူးစမ်း ရှာဖွေသောအခါ ကျောင်းသားတို့၏ စိတ်သက် နှစ်သည် အဆင့်အတန်းမမှီသောကြောင့် ဖြစ်သည်ကို တွေ့ကြရ၏။ထိုအခါမှစ၍ ကလေးများ၏စိတ်သက်နှစ် အဆင့်အတန်းကို စစ်ဆေးရန် အသိဉာဏ် စစ်ဆေးနည်းများကို စတင်ခဲ့ကြလေသည်။ ယင်းတို့မှာ ကလေး၏ ဉာဏ်အရည်အခြင်း မည်မျှလောက်ရှိသည်ကို စစ်ဆေးခြင်းပင် ဖြစ်၏။ကျောင်းများ၌ စစ်ဆေးသော ရိုးရိုး စာမေးပွဲများနှင့် ဤ(ဉာဏ်စမ်း ဉာဏ်စ စစ်ဆေးနည်း၊ သို့မဟုတ်) အသိဉာဏ် စစ်ဆေးပွဲများမှာ အလွန် ကွာခြားလေသည်။ အသိဉာဏ်ကို စစ်ဆေးသော စာမေးပွဲများ အတွက် မေးခွန်း လွှာကို ပြင်ဆင်ရသည်မှာ ရိုးရိုးစာမေးပွဲအတွက် မေးခွန်းလွှာကို ပြင်ဆင်ရသကဲ့သို့ မလွယ်ကူလှချေ။

**အသိဉာဏ်စစ်ဆေးနည်းများ။** ။အသိဉာဏ် စစ်ဆေးရန်ဖြစ်သော စာမေးပွဲ မေးခွန်းလွှာအတွက် စိစဉ်ပုံကို ပုံစံပြရသော်၊ သုံးနှစ်အရွယ်ကလေးတွင် ရှိသင့်ရှိထိုက်သော အသိဉာဏ်ကို စမ်းသပ် စုံစမ်းရန် အသက် သုံးနှစ်အရွယ်ကလေးများကို စုရုံးကာ သုံးနှစ်နှင့် ထိုက်တန်သော မေးခွန်း အမျိုးမျိုးကို စစ်ဆေးရာတွင် ထိုသုံးနှစ်အရွယ်ကလေးများ ဖြေနိုင်ခဲ့သော် ထိုမေးခွန်းများကို စိတ်သက်နှစ် သုံးနှစ်အတွက် ဉာဏ်စမ်းမေးခွန်းများအဖြစ် အတည်ပြုလေသည်။ ယင်းတို့မှာ သင့်မျက်လုံးကို ညွှန်ပြပါ၊ သင့်နှာခေါင်းကို လက်ဖြင့် ထိုးပြပါ၊ သင့် ပါးစပ်၊ နားရွက်၊ ပါး စသော နေရာများကို လက်ညှိုးနှင့် ထောက်ပြပါဟု လွယ်ကူသော မေးခွန်းကလေးများ ဖြစ်သည်။ နောက်မေးခွန်းပုံစံတခုမှာ ဂဏန်းနှစ်လုံးကို ကလေးအား လိုက်၍ဆိုခိုင်းခြင်းဖြစ်၏။ဥဒါဟရဏ်ဆောင်ရသော် စစ်ဆေးသူက သုံးဆဲ့ခြောက် (၃၆)ဟု ဂဏန်းနှစ်လုံးကို ဆိုပြပြီးသည်နှင့် တပြိုင်နက် ကလေးသည် သုံးဆဲ့ခြောက်ဟု စာစစ်သူ ဆိုသည့်ဂဏန်းအတိုင်း လိုက်ဆိုရသည်။ ဂဏန်းနှစ်လုံးကို လိုက်ဆိုနိုင်ပြီးသော် တဆင့်တက်၍ ဂဏန်းသုံးလုံးဖြစ်သော နှစ်ရာတဆဲ့ငါး(၂၁၅)ကို စစ်ဆေးသူက ဆိုပြပြီး၊



အသိဉာဏ်စစ်ဆေးနေပုံ

နောက် ကလေးအား ယခင်နည်းအတိုင်း လိုက်ဆိုစေသည်။ နောက်မေးခွန်း တမျိုးမှာ အရုပ်ကား တခုကိုပြ၍ ထိုကားထဲ၌ မည်သည့်အရာများပါသည်ကို ကလေးအား ပြောခိုင်းခြင်း ဖြစ်၏။ ထိုမှတပါး ကလေး၏ ဖခင်အမည်၊ မိခင်အမည်နှင့် မောင်နှမ ဘယ်နှစ်ယောက်စသော မိသားစုနှင့် သက်ဆိုင်သည့် မေးခွန်းများကိုလည်း မေးကြ၏။ ထို့ပြင် စကားလုံး ခြောက်လုံးလောက်ပါသော ဝါကျတခုကို ကလေးအား လိုက်ပြောခိုင်း၏။ ထိုကဲ့သို့ သုံးနှစ်ကလေးတိုင်း ဖြေဆိုနိုင်သည့်မေးခွန်းများ၊ လေးနှစ်အရွယ်ကလေးတိုင်း ဖြေဆိုနိုင်သည့် မေးခွန်းများ၊ ငါးနှစ်ကလေးအတွက် မေးခွန်းများ စသည်ဖြင့် အသက်အရွယ်အမျိုးမျိုးအတွက် မေးခွန်းပုံစံများ တီထွင် ထားလေသည်။ အကယ်၍ သုံးနှစ်အရွယ်ကလေးအတွက် မေးခွန်းများကို သုံးနှစ်သားအား ဖြေကြားခိုင်းရာတွင် ကောင်းစွာ ဖြေဆိုနိုင်ခဲ့သော် ထိုကလေးဉာဏ်မှာ သုံးနှစ်သားနှင့် ညီမျှသည်ဟု ဆိုရပေမည်။ တနည်းကား ထိုကလေး၏ စိတ်သက်နှစ်မှာ သုံးနှစ်ဖြစ်သည်ဟု ဆိုရပေမည်။ ထိုကလေးသည် သုံးနှစ်သားအရွယ်၌ ရှိရမည့် ဉာဏ်ရည်ကို မှီသည်ဟု ဆိုလိုခြင်း ဖြစ်၏။ အကယ်၍ လေးနှစ်သား၊ ငါးနှစ်သား အရွယ်ကလေး များသည် လေးနှစ်၊ ငါးနှစ်သားအတွက် ထွင်ထားသော မေးခွန်းများကို မဖြေနိုင်ပဲ သုံးနှစ်သားအတွက်ဖြစ်သည့် မေးခွန်းများကိုသာ ဖြေကြားနိုင်လျှင် ထိုကလေး၏ အသက်သည် စင်စစ် ငါးနှစ်ရှိသော်လည်း သူ၏စိတ်သက်နှစ်မှာ သုံးနှစ်မျှသာရှိသည်ဟု ဆိုရပေမည်။ အသိဉာဏ်စစ်ဆေးပွဲများမှာ စာအုပ်ထဲမှ ကျက်မှတ်ထားသော ဗဟုသုတများကို ပြန်အံချရလျှင် ပြီးနိုင်သည့် ရိုးရိုးစာမေးပွဲမျိုးမဟုတ်ပဲ မွေးကတည်းက ပါလာသော နကိုဗီဇစွမ်းရည်ကို အမှန်အကန် သိရအောင် စစ်ဆေးနည်းမျိုးဖြစ်၍ ပညာသင်ကြားရေးဖက်တွင် အထူးအသုံးဝင် အကျိုးဖြစ်ထွန်းစေခဲ့လေသည်။

**အမေရိကန် အသိဉာဏ်စစ်ဆေးနည်းများ။** ။ယခုအခါ အမေရိကန် ပြည်ထောင်စုနိုင်ငံ၌ ဤအသိဉာဏ် စစ်ဆေးပွဲများကို ပညာသင်ကြားရေးတွင်သာမက စစ်ဖက်၌လည်း အထူးအသုံးပြုလျက် ရှိလေသည်။ ပဌမ ကမ္ဘာစစ်ကြီး ဖြစ်ပွားခဲ့စဉ်က စစ်ထဲသို့ ဝင်ရောက် အမှုထမ်းမည့်လူများစွာလိုခဲ့၏။ ထိုသို့ စစ်ထဲဝင်မည့် လူများကို ပဌမဦးဆုံး အသိဉာဏ်ကို စစ်ဆေးကြည့်၏။ စစ်ဆေးပြီးမှ သင့်တော်သည့်တပ်များသို့ပို့၍ စစ်မှုထမ်းစေသည်။ အမေ

ရိုကန် စစ်သားများအတွက် စတင်ခဲ့သော စစ်တပ်စာမေးပွဲများမှာ ဗီဇစွမ်းရည်၊ ကျက်မှတ်တတ်သည့်စွမ်းရည်၊ လျင်မြန်စွာ တွေးဆတတ်သည့်စွမ်းရည်၊ တိကျသေချာ စေ့စပ်စွာ လုပ်ကိုင်နိုင်သည့် စွမ်းရည်များကို စစ်ဆေးရန်အတွက် ဖြစ်လေသည်။

မေးခွန်းများမှာလည်း စာတတ်သူများနှင့် စာမတတ်သူများအဖို့ ခွဲခြား ထွင်ထား၏။ စာမတတ်သူများအဖို့ မေးခွန်းများမှာ အရုပ်ကားများ၊ ဓာတ်ပုံများ၊ သရုပ်ဖော်ပုံများ၊ လက်ဖြင့် ရေးဆွဲသောပုံများ စသည်တို့ကိုကြည့်၍ နှုတ်ဖြင့် ဖြေဆိုရလေသည်။ စာတတ်သူများကား စစ်နှင့်ဆိုင်သော စစ်ရေးစစ်ရာ စစ်ဆင်ပုံနည်းများ၊ တပ်ပေါင်းစုကို အုပ်ချုပ်ပုံနည်းများစသည်တို့ကို ရေးဖြေရလေသည်။ ဖျတ်လတ်မှု၊တိကျသေချာမှုတို့ကိုစစ်ဆေးသောမေးခွန်းပုံစံများကိုပြရသော် မေးခွန်းတခုမှာ စာရွက်တရွက်ပေါ်တွင် စက်ဝိုင်း ငါးခုကို စီ၍ဆွဲထားပြီးလျှင် ပဌမစက်ဝိုင်းတွင်း၌ ကြက်ခြေခတ်တခုနှင့် ပဥ္စမစက်ဝိုင်းအတွင်း၌ ဂဏန်း (၁) ကို ရေးခိုင်းခြင်း ဖြစ်လေသည်။ စစ်ဆေးသူက နှုတ်နှင့်ပြော၍ ငါးစက္ကန့်အတွင်း၌ သူပြောသည့်အတိုင်း သေချာမှန်ကန်စွာ ရေးခြစ်ရလေသည်။ အခြား မေးခွန်းတခုမှာ ၃၈၊ ၇၉၊ ၈၇၊ ၆၈၊ ၅၆၊ ၂၁၊ ၈၂၊ ၄၇၊ ၂၇၊ ၃၁၊ ၆၄၊ ၉၃၊ ၇၁၊ ၄၁၊ ၅၂၊ ၉၉ စသော ဂဏန်း တဆဲ့ခြောက်လုံးခန့်ကို စီရေးသား၍ ခြောက်ဆယ်ထက်ပို၍ ခုနစ်ဆယ်အောက် လျော့သော ဂဏန်းများကို ခဲတံဖြင့် ခြစ်ပစ်ရန် ခိုင်း၏။ ထိုမေးခွန်းမှာ ၁၅ စက္ကန့်အတွင်းပြီးအောင် ဖြေရမည်ဖြစ်၍ ဤနေရာ၌ မျက်စိ လျင်ပြီးလျှင် လျင်မြန်ဖျတ်လတ်စွာ မှန်မှန်ကန်ကန်နှင့် ပေးထားသော အချိန်အတွင်း ပြီးအောင် လုပ်ရန်မှာ မလွယ်ကူလှပေ။ ဤသို့မေးခွန်းများကို တခုပြီးတခု အဆင့်ဆင့် အနည်းငယ်စီ အဆင့်အတန်းမြင့်ကာ လွယ်ရာမှ တဖြည်းဖြည်း ခက်သွားအောင် စီစဉ်ထား၏။ ဤမေးခွန်းမျိုးကို ထုတ်ဖို့ရန်မှာ ကြီးလေးသော တာဝန်တခု ဖြစ်နေ၏။ ရိုးရိုး စာမေးပွဲများမှာ မေးခွန်း ထုတ်သည့်အခါ များစွာ မပင်ပန်းပဲ အဖြေစာရွက်ကို ခြစ်သည့်အခါ၌သာ ပင်ပန်းသေသည်။ သို့သော် အမှတ်ပေးရာတွင် မတိကျလှချေ။ စာသားနှင့် စာစီစာကုံးသဘော ဖြေဆိုထားရာ ခြစ်ရသူအဖို့ စာရွက်ပေါင်းများစွာ ဖတ်ရပြီးလျှင် ထိုစာသားအပေါ်၌ မိမိသဘောအတိုင်း အမှတ်ပေးရလေသည်။ အသိဉာဏ် စစ်ဆေးပွဲများမှာကား ဤကဲ့သို့ မဟုတ်ချေ။ မေးခွန်း ထုတ်သည့်အခါ၌ များစွာ စဉ်းစားရပြီးလျှင် တနာရီအတွင်း မေးခွန်းပေါင်း တရာမျှ စစ်မေးနိုင်၍ အဖြေကို ခြစ်သည့်အခါ၌ ဘာမျှ စဉ်းစား ချင့်ချိန်နေစရာ မလိုဘဲ မှန်လျှင် အမှတ်ပြည့်ပေး၍ မှားလျှင်လည်း အမှတ် အလျှင်းမပေးရုံသာ ရှိလေသည်။ မေးထားသော မေးခွန်းများမှာလည်း အဖြေမှန် တခုတည်းသာ ထားရှိ သောကြောင့် ထိုအဖြေကို ရလျှင် အမှတ်ပေးလိုက်ရုံပင် ဖြစ်၏။ ဤသို့ အရည်အချင်းအစစ်ကိုစစ်ဆေး၍ တယောက်စီတယောက်စီ၌ ရှိသော ထူးချွန်မည့် ဗီဇစွမ်းရည်ကလေးကို သင့်တော်မည့် ဖက်၌ အသုံးချခြင်းဖြင့် ပညာ သင်ကြားရေး ဖက်၌ရင်း၊ စစ်ဖက်၌ရင်း အထူးအကျိုးရှိစေလေသည်။ လက်မှုပညာ ကျွမ်းကျင်သူ၊ စိတ်ကူးကောင်းသူ၊ ဖြတ်ထိုးဉာဏ်ရှိသူ၊ စဉ်းစားဆင်ခြင်တတ်သူစသော လူအမျိုးမျိုးတို့ကို သူတို့နှင့် သင့်မည့် ပညာရပ်များကို သင်ကြားပေးခြင်းဖြင့် လူရည်ချွန် ပုဂ္ဂိုလ်ထူးများ ပေါ်ပေါက် လာနိုင်လေသည်။

ကျောင်းသားများအတွက် အသိဉာဏ် စစ်ဆေးခြင်းသည် အကောင်းဆုံးနှင့် ခေတ်အမှီဆုံးဖြစ်၏။ ပညာသင်ကြားရေး၌ ထိထိရောက်ရောက် သင်ကြားနိုင်ရန် လူတော်လူညံ့ ခွဲခြားသိဖို့ ဤနည်းသည် အကောင်းဆုံး ဖြစ်၏။ ကျောင်းသားတယောက်၏ ပင်ကိုယ် အသိဉာဏ် စွမ်းရည်အစစ်ကို စစ်ဆေးနိုင်၍ အတန်းတတန်း၌ အသိဉာဏ်စွမ်းရည် ညံ့သူကိုတစု၊ တော်သူကိုတစု ခွဲ၍ ထားလျှင် ကျောင်းသားများ အစုလိုက် တညီတည်း စာတတ်နိုင်မည်ဖြစ်လေသည်။ ဆရာနှင့်တကွ ကျောင်း သား များပါ အလုပ်ဘွင်၍ လုပ်ငန်း၌လည်း အချိန်မကုန်စေဘဲ တော်သူကလည်း ညံ့သူကို မစောင့်ရ၊ ညံ့သူကလည်း စာမလိုက်နိုင် မရှိသဖြင့် အကျိုးနှစ်ပါး ပြီးစေသော နည်းပင်ဖြစ်လေသည်။

**အသိတိသာဝက။** ။အသီတိ သာဝက ဆိုသည်မှာ မဟာသာဝက ရှစ်ကျိပ်ကို ခေါ်သည်။ လက်ျာ တော်ရံ လေးကျိပ်၊ လက်ဝဲတော်ရံလေးကျိပ် ဟူ၍ မဟာသာဝက ရှစ်ကျိပ် ရှိသည်။

လက်ျာတော်ရံ မဟာသာဝကလေးကျိပ်ကား

(၁) ရှင်သာရိပုတ္တရာ (ပညာကြီးသောအရာ၌ ဧတဒဂ်ရ)၊ (၂) ရှင်ကောဏ္ဍည(တရားဦးရ၍ရတ္တညူအရာ၌ဧတဒဂ်ရ)၊ (၃) ရှင်ဘဒ္ဒိယ၊ (၄) ရှင်ဝပ္ပ၊ (၅) ရှင်မဟာနာမ်၊ (၆) ရှင်အဿဇိ၊ (၇) ရှင်နာဠက၊ (၈) ရှင်ယသ၊ (၉) ရှင်ဝိမလ၊ (၁၀) ရှင်သုဗာဟု၊ (၁၁) ရှင်ဂဝမ္ပတိ၊ (၁၂)ရှင်ပုဏ္ဏဇိ၊ (၁၃) ရှင်ဥရုဝေဠကဿပ၊ (အခြံအရံ ပရိသတ်များသော အရာ၌ ဧတဒဂ်ရ)၊ (၁၄) ရှင်နဒီကဿပ၊ (၁၅) ရှင်ဂယာကဿပ၊ (၁၆) ရှင်မဟာကဿပ၊ (ဓုတင်ကို ကျင့်ဆောင်ဟောပြောသော အရာ၌ဧတဒဂ်ရ)၊(၁၇) ရှင်ကစ္စည်း (ရှင်မဟာကစ္စာယန) (အကျဉ်းပါဠိတော်ကို အကျယ် ဝေဖန် ဟောပြောသော အရာ၌ ဧတဒဂ်ရ)၊

(၁၈) ရှင်မဟာကောဋ္ဌိက (ပဋိသမ္ဘိဒါပတ္တအရာ၌ တေဒဂ်ရ)၊ (၁၉) ရှင်မဟာကပ္ပိန္န (ရဟန်းတို့ကို ဆုံးမသောအရာ၌ တေဒဂ်ရ)၊ (၂၀) ရှင်မဟာစုန္ဒ၊ (၂၁) ရှင်ဥပါလိ (ဝိနည်းကိုဆောင်သော အရာ၌ တေဒဂ်ရ)၊ (၂၂) ရှင်အနုရုဒ္ဓါ (ဒိဗ္ဗစက္ခု အဘိညာဉ် အရာ၌ တေဒဂ်ရ)၊ (၂၃) ရှင်ကင်္ခါရေဝတ (ဈာန်ကိုများစွာ ဝင်စားသောအရာ၌ တေဒဂ်ရ)၊ (၂၄) ရှင်အာနန္ဒာ (ဗဟုသုတ၊ သတိမန္တ၊ ဂတိမန္တ၊ ဓိတိမန္တ၊ ဥပဋ္ဌာက (ငါး) ဌာန၌ တေဒဂ်ရ)၊ (၂၅) ရှင်နန္ဒက (ဘိက္ခုနီမတို့ကို ဆုံးမသောအရာ၌ တေဒဂ်ရ)၊ (၂၆) ရှင်ဘဂု (၂၇) ရှင်နန္ဒိယ၊ (၂၈) ရှင်ဘဒ္ဒိယ (အမျိုးမြတ်သော အရာ၌ တေဒဂ်ရ)၊ (၂၉) ရှင်ကိမိလ၊ (၃၀) ရှင်ရာဟုလာ (သိက္ခာကာမအရာ၌ တေဒဂ်ရ)၊ (၃၁) ရှင်သီဝလိ (လာဘ်များသောအရာ၌ တေဒဂ်ရ)၊. (၃၂) ရှင်ဒဗ္ဗ (သံဃာတို့အားနေရာခင်းသော အရာ၌ တေဒဂ်ရ)၊ (၃၃) ရှင်ဥပသေန (ပရိသတ်နှင့်တကွ အလုံးစုံကြည်ညိုဘွယ် ရှိသောအရာ၌ တေဒဂ်ရ)၊ (၃၄) ရှင်ခဒိယရေဝတ (အရညကင် မူတင်ဆောင်သောအရာ၌ တေဒဂ်ရ)၊ (၃၅) ရှင်မန္တာနီပုတ္တပုဏ္ဏ၊ (၃၆) ရှင်သုနာပရန္တပုဏ္ဏ၊ (၃၇) ရှင်ကဋိကဏ္ဏသောဏ (ရှင်သောဏ ကောဋိကဏ္ဏ) (ကောင်းသောစကားရှိရာ၌ တေဒဂ်ရ)၊ (၃၈) ရှင်ကောဋိဝိသသောဏ (ရှင်သောဏကောဋိဝေသ) (အာရဒ္ဓဝိရိယအရာ၌ တေဒဂ်ရ၊ (၃၉) ရှင်ရာဒ (ဘုရားဒေသနာ ဉာဏ်တော်အဆင့်ဆင့် ဖြစ်ကြောင်းဖြစ်သောအရာ၌ တေဒဂ်ရ)၊ (၄၀) ရှင်သုဘူတိ (ကိလေသာကင်း၍နေသော အရဏဝိဟာရအရာ၊ အလှူခံထိုက်သောအရာတို့၌ တေဒဂ်ရ)ဟူ၍ ဖြစ်သည်။

လက်ဝဲတော်ရံ မဟာသာဝက လေးကျိပ်ဟူသော်ကား (၁) ရှင်မဟာမောဂ္ဂလာန် (တန်ခိုးကြီးသောအရာ၌ တေဒဂ်ရ)၊ (၂) ရှင်အင်္ဂုလိမာလ၊ (၃) ရှင်ဝက္ကလိ (သဒ္ဓါလွန်ကဲသောအရာ၌ တေဒဂ်ရ)၊ (၄) ရှင်ကာဠုဒါယီ (ဆွေတော်မျိုးတော်တို့ကို ကြည်ညိုစေသောအရာ၌ တေဒဂ်ရ)၊ (၅) ရှင်မဟာဥဒါယီ၊ (၆) ရှင်ပိလိန္ဒဝစ္ဆ (နတ်တို့ကို ချစ်ခင်သောအရာ၌ တေဒဂ်ရ)၊ (၇) ရှင်သောဘိတ (ပုဗ္ဗေနိဝါသအဘိညာဉ်အရာ၌ တေဒဂ်ရ)၊ (၈) ရှင်ကုမာရကဿပ (ဆန်းကြယ်စွာ တရားစကားဟောတတ်တော်မူသောအရာ၌ တေဒဂ်ရ)၊ (၉) ရှင်ရဋ္ဌပါလ (သဒ္ဓါပဗ္ဗဇိတအရာ၌ တေဒဂ်ရ)၊ (၁၀) ရှင်ဝင်္ဂီသ (ဘုရားဂုဏ်စသည်ကို ရုပ်ခြည်းခြိုးမွမ်းဘွဲ့ဆိုနိုင်သော ဉာဏ်ပဋိဘာန်ရှိသောအရာ၌ တေဒဂ်ရ)၊ (၁၁) ရှင်သဘိယ၊ (၁၂) ရှင်သေလ၊ (၁၃) ရှင်ဥပဝါသ၊ (၁၄) ရှင်မေဃရိယ၊ (၁၅) ရှင်သာဂတ(တေဇောဓာတ်ဝင်စားသောအရာ၌တေဒဂ်ရ)၊ (၁၆) ရှင်နာဂိတ၊ (၁၇) ရှင်လကုဏ္ဍကဘဒ္ဒိယ (အသံသာယာသောအရာ၌ တေဒဂ်ရ)၊ (၁၈) ရှင်ပိဏ္ဍောလဘာရဒွါဇ (ရဲတင်းသောစကားကိုဆိုတတ်သော သီဟနာဒအရာ၌ တေဒဂ်ရ)၊ (၁၉) ရှင်မဟာပန္ထက (အရူပဈာန်မှထ၍ မဂ်ကိုရသော ပညာဝိဝဋ္ဋအရာ၌ တေဒဂ်ရ)၊ (၂၀) ရှင်စူဠပန္ထက (မနောမယ အဘိညာဉ်ဖန်ဆင်းနိုင်သော စေတောဝိဝဋ္ဋအရာတို့၌ တေဒဂ်ရ)၊ (၂၁) ရှင်ဗာကုလ (အနာကင်းသောအရာ၌ တေဒဂ်ရ)၊ (၂၂) ရှင်ကောဏ္ဍဓာန (စာရေးတံဦးယူသောအရာ၌ တေဒဂ်ရ)၊ (၂၃) ရှင်ဒါရုစိရိယ (ခိပ္ပာဘိညအရာ၌ တေဒဂ်ရ)၊ (၂၄) ရှင်ယသောဇ၊ (၂၅) ရှင်အဇိတ၊ (၂၆) ရှင်တိဿ၊ (၂၇) ရှင်မေတ္တေယျ၊ (၂၈) ရှင်ပုဏ္ဏက (ဓမ္မကထိကအရာ၌ တေဒဂ်ရ)၊ (၂၉) ရှင်မေတ္တဂူ၊ (၃၀) ရှင်ဇောဘိက၊ (၃၁) ရှင်ဥပသီဝ၊ (၃၂) ရှင်နန္ဒ (ဣန္ဒြေကိုစောင့်သောအရာ၌ တေဒဂ်ရ)၊ (၃၃) ရှင်ဟေမက၊ (၃၄) ရှင်တောဒေယျ၊ (၃၅) ရှင်ကပ္ပ၊ (၃၆) ရှင်စဘုကဏ္ဏိ၊ (၃၇) ရှင်ဘဒြာဝုဓ၊ (၃၈) ရှင်ပေါသလ္လ၊ (၃၉) ရှင်ပိင်္ဂိယ၊ (၄၀) ရှင်မောဃရာဇ (ခေါင်းပါးသောသင်္ကန်းကို ဆောင်သောအရာ၌ တေဒဂ်ရ)ဟူ၍ ဖြစ်လေသည်။

**အသီးနား။** ။ဂရိနတ်များ — ရှု။

**အသုရာ။** ။အသုရာသဒ္ဒါကား မြန်မာလို နတ်တို့၏ဆန့်ကျင်ဖက် နတ်တိုကဲ့သို့ မမူးတူးတတ်သူ ဆိုလိုသည်။ "အသုရာများ၊ မျိုးအပြား၊ သုံးပါးကျမ်းဂန်လာ"ဟူသောစကားရပ်အရ အသုရာသုံးမျိုးရှိ၏။ (၁) ဝေပစိတ္တိအသုရာ–တာဝတိံသာ နတ်တို့နှင့် သက်တမ်းစည်းစိမ် တန်ခိုးညီမျှ၍ မြင့်မိုရ်ဘောင်အောက်၌ နေကြသော အသုရာမျိုး။ (ယင်းတို့ကို အသုရာဟုခေါ်ရာ၌ အ သဒ္ဒါသည် ဆန့်ကျင်ဖက်(ပဋိပက္ခ) အနက်ကိုဟော၏။ တာဝတိံသာ နတ်တို့၏ ဆန့်ကျင်ဖက်များ ဟူလို။) (၂) ဝိနိပါတိက အသုရာ–ယင်းတို့သည်လည်း နတ်အသုရာမျိုးပင် ဖြစ်၏။ သို့သော်လည်း စာတုမဟာရာဇ်၊ တာဝတိံသာ နတ်တို့လောက်တန်ခိုးမကြီးချေ။ ရှားပါးသော အဝတ်တန်ဆာအစားအစာရှိကုန်၏။ အချို့ကား တိဟိတ်ပဋိသန္ဓေ နေကုန်သည်ဖြစ်၍ မဂ်ဖိုလ်နိဗ္ဗာန်တိုင်ရကြကုန်၏။ (၃) ကာလကဉ္စိကအသုရာ–ယင်းတို့သည်ကား ပြိတ္တာ အသုရာမျိုးသာတည်း။ ထိုကြောင့် ကာလဉ္စိကအသုရာမျိုးကို အသုရကာယ်ဘုံ၌သွင်း၍ ရေတွက်အပ်ကုန်၏။

ထိုပြင် တခါတခါနတ်ကဲ့သို့ စည်းစိမ်ခံစား၍ တခါတခါ ပြိတ္တာကဲ့သို့ ဒုက္ခခံနေရသော ဝေမာနိကပြိတ္တာ များကိုလည်း အသုရာဟုခေါ်ဝေါ်သေး၏။ ဤ၌ အ သဒ္ဒါသည်

အတူဟူသောအနက်ကိုဟော၏။ စည်းစိမ်ခံစားခိုက် နတ်နှင့်တူသည်ဟု ဆိုလိုသည်။

ထိုမှတပါး စကြဝဠာကမ္ဘာကြီး သုံးခု စပ်မိလျှင် လင်ပန်းသုံးချပ် စပ်သကဲ့သို့ အကြားအရပ်ဖြစ်၏။ ထိုအကြားကို လောကန္တရိက်ငရဲဟုခေါ် ၏။နေရောင်လရောင်စသော အရောင်အလင်းမရပဲ အမြဲ မှောင်ကျနေသည်။ ထိုငရဲသတ္တဝါတို့သည်စကြဝဠာတံတိုင်းကို(လင်းနို့များလို) လက်သည်းဖြင့်ကုတ်တက်၍ နေကြရ၏။အစားအသောက်မရ ဆာလောင်လှသဖြင့် တကောင်နှင့်တကောင် နီးကပ်စွာတွေ့ကြသည့်အခါ လှမ်း၍ အဟပ်လိုက်တွင် အလွန်အေးစက်လှသော မြေကိုခံသော ရေထည်းသို့ ကျသဖြင့် ကြေမွကြရကုန်သည်။ ထိုလောကန္တရိက် ငရဲသားများကိုလည်း ဗုဒ္ဓဝင် အဋ္ဌကထာ၌ အသုရာဟု သုံးနှုန်းထားလေသည်။

ကာလကိဉ္စကအသုရာတို့သည် သမုဒ္ဒရာ ဂင်္ဂါမြစ်ကမ်းစသည်တို့၌နေတတ်ကြ၏။ အလွန်မွတ်သိပ် ဆာလောင်ကြလေသည်။ တချို့အသုရာတို့သည် ဘုရားနှစ်ဆူသုံးဆူ ပွင့်သော်လည်း တကြိမ်မျှမစားမသောက်ကြရလေကုန်။

ဝိနိပါတိကအသုရာတို့သည် ဘုမ္မဇိုး နတ်ကြီးများကိုမှီခိုကပ်ယပ်လျက်နေထိုင်ရသော ဧလဒ္ဓိပါဒ်နဲ့နဲ့လှသော နတ်ကလေးများဖြစ်၏။ ယင်းတို့ကို အသုရာဟု ခေါ်ရာ၌ အသဒ္ဒါသည် အငယ်အနက်ကိုဟော၏။နတ်ငယ်ကလေးများဟူလို။

ဝေပစိတ္တိအသုရာတို့သည် တာဝတိံသာ၌သာ စာရင်းဝင်၏။ လွန်လေပြီးသောအခါ မဂခရာဇ်တိုင်း၊ ရာဇဂြိုဟ်ပြည်၊မဂခရာဇ်မင်းလက်ထက် မစလရွာ၌ ဘုရားအလောင်းမာဃလုလင်ဖြစ်၍ သီတင်းသီလဆောက်တည်ခြင်း၊ ရေတွင်း ရေကန်၊ တန်တား၊ စရပ် ကုသိုလ်ကောင်းမှုပြုသည့်အကြောင်းကြောင့် ထိုရွာမှ စုတေခဲ့သော် အသုရာမင်းနေသော တာဝတိံသာနတ်ပြည်တွင် သိကြား ဖြစ်သည်။ အသုရာမင်းကို သေသောက်၍ ယစ်မူးခိုက် မြင့်မိုရ်တောင်ခြေ မဟာသမုဒ္ဒရာရေအပြင်၌ သိကြားကချသည်တွင် မြင့်မိုရ်တောင်အောက် ခုံလောက်သုံးလုံးအကြား ယူဇနာတသောင်းခန့်သော အသုရာပြည်ဖြစ်ရာ အရပ်ရှိသည်။ထိုအရပ်သို့ အသုရာတို့ရောက်သည်တွင်မှ အသုရာပြည် ဖြစ်သည်။ ထိုပြည်ကား တာဝတိံသာနတ်ပြည်နှင့်အတူကြီးကျယ်၏။ ဥယျာဉ်ရေကန်ဖြင့် တင့်တယ်၏။ နတ်၏မြို့ရွာဇနပုဒ်နှင့် ပြည့်စုံ၏။ တာဝတိံသာမှာ ကသစ်၊ အသုရာပြည်မှာ သခွတ် ဤသို့ပြည်၏အသရေ သစ်ပင်ချင်း မတူ။ တာဝတိံသာ နတ်ပြည်မှာ သုဓမ္မာစရပ်နှင့် ဝေဇယန္တာပြာသာဒ်ရှိသည်။အသုရာပြည်မှာမရှိ။ဤမျှသာ ထူးသည်။ ထိုမှတပါး အသက် စည်းစိမ် ချမ်းသာအထူးမရှိ ဟူ၍ လောကပညတ္တိကျမ်း ဆဂတိဒီပနီကျမ်းများ၌ဆိုသည်။

အသုရာတို့လည်း အထက်က တာဝတိံသာမှာ နေစဉ်ကသစ်ပန်းပွင့်ရာသဘင်ခံမြဲအချိန်တွင်သခွတ်ပန်းပွင့်သည်ကိုမြင်၍ ငါတို့နေရင်းပြည်မဟုတ်တကား၊ ငါတို့ကိုသိကြားပစ်ချလိုက်၍ ငါတို့နတ်ပြည်ကိုယူဘိသည်ဟု အမျက်ထွက်သဖြင့် စစ်ပြိုင်၍နတ်ပြည်ကိုယူအံ့သောငှာ တိုင်ကို ခြပုန်းတက်သကဲ့သို့ မြင့်မိုရ်တောင်ကို မဟာသမုဒ္ဒရာရေအပြင်မှ တရွေ့ရွေ့စစ်အင်္ဂါလေးပါးနှင့်တကွ တက်ကြကုန်သည် ဟု ကုလာဝကဇာတ်အဋ္ဌကထာတွင်ဆိုသည်။

မဟာဥပရာဇာချေင်းတွင် "သခွတ်ပွင့်ခါ၊ အသုရာလျှင်၊ ငါ့ရွာနဘ်ပြည်၊ ဤသည် မဟုတ်၊ စိတ်ခလုတ်ဖြင့်၊ မျက်ကြုတ်ရံပါ၊ မြင့်မိုရ်ချာသို့၊ လာ၍တဖန်၊ စစ်ထိုးပြန်လည်း၊ ဖုံးဝှန်ထွတ်ထား၊ သိကြားရန်စင်၊ သူဇာ့လင်ကား၊ မာတင်နာဂ၊ သုမိတ္တနှင့်၊ တိုက်ချပိုက်ပိုက်၊ နှင်လိုက်သောဟန်"ဟူ၍ စပ်ဆိုသားသည့်အတိုင်း ထိုသို့ အသုရာနတ်တို့ မပြတ်တိုက်ခိုက်သော်လည်း မအောင်နိုင် ရှိရလေသည်။

**အသောကမင်း** (ဘီစီ ၂၇၃–၂၃၂)။ ။ကမ္ဘာ့သမိုင်း၌ ဘုန်းလက်ရုံးနှင့် ပြည့်စုံကြ၍ ကျယ်ဝန်းသောနိုင်ငံတော်ကြီးများကို တည်ထောင်ခဲ့ကြသော ဧကရာဇ်မင်းများအနက် အသောကမင်း တရားကြီး၏အမည်သည် အခြားသော ဧကရာဇ်မင်းများ၏ ကျော်ကြားထင်ရှားနည်းမျိုးဖြင့်မဟုတ်ပဲ ကမ္ဘာတလွှား၌ ထင်ပေါ်ကျော်ကြားခဲ့ပေသည်။ ယင်းသို့ တမူထူးခြား၍ ထင်ရှားကျော်ကြားရခြင်းမှာ အသောကမင်းတရားသည် မေတ္တာ၊ ကရုဏာ၊ စေတနာတရားတို့ကို အရင်းခံသား၍ လူသတ္တဝါအများ၏ လောကီလောကုတ္တရာ နှစ်ဖြာချမ်းသာရေးကို ရှေးရှုလျက် မိမိ၏နိုင်ငံတော်ကို အခြားအခြားသော ဧကရာဇ်တို့ကဲ့သို့ အာဏာစက်ဖြင့် မအုပ်စိုးမူ၍ ဓမ္မစက်ဖြင့်သာ အုပ်စိုးခဲ့သောကြောင့်ဖြစ်သည်။ ထိုကြောင့် အသောကမင်းတရား၏ ဘွဲ့နာမံသည် ဥရောပအနောက်စွန်းမှသည် အာရှတိုက်အရှေ့စွန်းသို့တိုင်အောင် ယခုခေတ်အထိ မမေ့ပျောက်ပဲ အလေးအမြတ်ပြုခြင်းကို ခံယူရလျက်ပင် ရှိပေသည်။

ဘီစီသုံးရာစုနှစ်ခန့်က ဂရိဧကရာဇ် အယ်လက်ဇန္ဒာ-သ-ဂရိတ်၏ ဂရိဘဲများသည် အိန္ဒိယအနောက်မြောက်ပိုင်းမှ ဝင်ရောက်တိုက်ခိုက်လာ၍ အိန္ဒုမြစ်ဝှမ်းတခွင်၌ လွှမ်းမိုးကြီးစိုးလာကြသောအခါ ယင်းတို့အား ဂင်္ဂါမြစ်ဝှမ်းသို့ မရောက်စေရန် တွန်းလှန်တိုက်ခိုက်ခဲ့၍ နောင်အခါ ကျယ်ဝန်းကြီးမားသော မောရိယနိုင်ငံတော်ကြီးကို တည်ထောင်ခဲ့သူ စန္ဒဂုတ္တမင်းတရားကြီး၏ မြေးတော်ဖြစ်သော သီရိဓမ္မာသောကမင်းဟုလည်း ခေါ်တွင်သော အသောကမင်းသည် ဗိန္ဒုသာရမင်းနှင့် ဓမ္မာမိဖုရားတို့၏ သားတော်တပါး

ဖြစ်ပေသည်။ ဘီစီ ၃၀၄ ခုနှစ်ခန့်တွင် ဖွားမြင်သည်ဟု ခန့်မှန်းကြသည်။

အသောကမင်း အရွယ်ရောက်လျှင် အဝန္တီတိုင်း၊ ဥဇ္ဇေနီပြည်ကြီးကို စားရသည်။ ဥဇ္ဇေနီပြည်စား မင်းသားဘဝ၌ပင် သာကီဝင်သဋ္ဌေးသမီးဖြစ်သော ဝေဒိသဒေဝီကိုယူခဲ့၍ နောင်အခါ ဗုဒ္ဓသာသနာပြု မဆောင်ရွက်တော့ပါးဖြစ်လာသော ရှင်မဟိန္ဒထေရ်လောင်းနှင့် သင်္ဃမိတ္တာထေရီလောင်း၊ သားတော်နှင့် သမီးတော်တို့ကို ရခဲ့သည်။

အခါတပါး ဗိန္ဒုသာရမင်းကြီး နာမကျန်းဖြစ်တော်မူသည်ဟု ကြားသိရလျှင် အသောကမင်းသားသည် ဝေဒိသဒေဝီနှင့် သားတော်သမီးတော်တို့ကို ဥဇ္ဇေနီပြည်၌ပင်ထားခဲ့၍ ခမည်းတော်ရှိရာ ပါဋလိပုတ္တနေပြည်တော်သို့ အလျင်အမြန်လာခဲ့၍ ခမည်းတော်အား လုပ်ကျွေး ပြုစုသည်။ ခမည်းတော်ခန္ဓာငြိမ်းလျှင် နိုင်ငံအလုံးကို သိမ်းပိုက်လိုက်လေသည်။ ထိုအခါ တက္ကသိုလ်ပြည်၌ သူပုန်သူကန်ရန်ကို နှိမ်နင်းနေသည့် နောင်တော်သုမနမင်းသား ခေါင်းဆောင်သော အသောကမင်းသားနှင့် တမိတည်းမဟုတ်သည့် ကိုးကျိပ်ကိုးယောက်သော ညီနောင်မင်းသားတို့သည် သမုဒ္ဒရာလှိုင်းသသကဲ့သို့ စစ်ကြီးချီလာ၍ ပါဋလိပုတ္တနေပြည်တော်ကို ဝန်းရံလုပ်ကြံကြသော်လည်း အရေးမလှကြပဲ သေကြေပျက်စီးကြရလေသည်။

အသောကမင်းသည် ထီးနန်းကို သိမ်းပိုက်ပြီး၍ လေးနှစ်ကြာမှသာလျှင် (ဘီစီ ၂၇၀ ပြည့်ဟု ခန့်မှန်းကြသည်။) ရာဇာဘိသေကကို ခံယူတော်မူသည်။ စာပေအထောက်အထားများအရ ရာဇာဘိသေကမခံယူမီ တက္ကသိုလ်ပြည်၏ သူပုန်သူကန်ရန်ကို နှိမ်နင်းခြင်းစသော နိုင်ငံတော် ငြိမ်ဝပ်ပိပြားရေးကို ဆောင်ရွက်လျက် ရှိနေကြောင်း ယူဆရသည်။ ဘိုးတော်နှင့် ခမည်းတော်တို့နည်းတူ နိုင်ငံတော်ကို ချဲ့ထွင်ခဲ့ကြောင်းလည်း သိရသည်။ ရာဇာဘိသေကခံယူသောအခါ ဒေဝါနံပိယဟူသောဘွဲ့ကိုရင်း၊ပိယဒဿီဟူသောဘွဲ့ကိုရင်း ခံယူသည်။ တမိတည်းဖွား ညီတော်ဖြစ်သော တိဿကုမာရအား အိမ်ရှေ့အရာအပ်နှင်းသည်။ အဂ္ဂမဟေသီမိဖုရားကြီးကား အသန္ဓိမိတ္တာတည်း။ ဝေဒိသဒေဝီသည် သားတော်မဟိန္ဒ၊ သမီးတော် သင်္ဃမိတ္တာတို့ကို ပါဋလိပုတ္တနေပြည်တော်သို့ ပို့စေ၍ မိမိမူ ဝေဒိသာဂိရိမြို့၌ပင် နေလေသည်။

မင်းတရားကြီးသည် နိုင်ငံတော်အုပ်ချုပ်ရေးကို စည်းစံနစ်ကျနစွာဖြင့် ဆောင်ရွက်သည်။ နိုင်ငံတော်အတွင်း၌ နယ်ပယ်အသီးအသီးသို့ မင်းညီမင်းသားများနှင့် ယုံကြည်စိတ်ချရသော အမတ်ကြီးများကို စေလွှတ်ကာ အုပ်ချုပ်စေသည်။ ပြည်နယ်ကြီးများကို အုပ်ချုပ်ရသူများကို ရာဇုကဟုခေါ်၍ ခရိုင်ဝန်အဆင့်အတန်းရှိသူများကို ပြာဒေသိကဟုခေါ်သည်။ နိုင်ငံတော်တခုလုံးကို ဌာနအသီးအသီးခွဲ၍ အုပ်ချုပ်စေရာ၊ ဌာနတာဝန်ခံကို မဟာဟုလည်းခေါ်၍ မဟာမတ္တဟုလည်း ခေါ်သည်။ အုပ်ချုပ်ရေးအတွက် ခွဲခြားထားသော ဌာနများတွင် စက်မှုလက်မှုလုပ်ငန်းဌာန၊ အခွန်တော်စည်းကြပ်ရေးဌာနနှင့် စစ်တမ်းကောက်ယူရေးဌာန၊ နိုင်ငံတွင်းနိုင်ငံပ ကုန်သန်းရောင်းဝယ်ရေးဌာန၊ တိုင်းရင်းထွက်ကုန်ပစ္စည်းများ စီမံခန့်ခွဲရေးဌာန၊ အမြတ်တော်ကြေးဌာနတို့လည်း ပါဝင်သည်။

စစ်ဖက်၌လည်း ယင်းသို့ပင် ဌာနများခွဲ၍ အုပ်ချုပ်ရာ ရေကြောင်း၊ စားနပ်ရိက္ခာ၊ ခြေလျင်တပ်၊ မြင်းတပ်၊ရထားတပ်၊ ဆင်တပ်စသည့် ဌာနတို့ဖြစ်သည်။ အခြားနိုင်ငံများနှင့်လည်း သံတမန်လဲလှယ်ဆက်သွယ်ကာ ချစ်ကြည်စွာ ဆက်ဆံခဲ့ရာ၊ ဂရိနိုင်ငံသည်လည်း အသောကမင်းကြီး၏ မောရိယနိုင်ငံတော်နှင့် အဆက်အသွယ်ရှိခဲ့သည်။ အုပ်ချုပ်ရေးကို ဆောင်ရွက်ရာ၌ မင်းတရားကြီးသည် အချိန်မရွေး နေရာမရွေး ဆောင်ရွက်သည်။ နိုင်ငံငြိမ်းချမ်း သာယာမှုကို မင်းတရားကြီးသည် ကိုယ်ရေးထက်မကပင် အလေးပြုပေသည်။ အသောကမင်းတရားကြီး ရေးထိုးခဲ့သော ကျောက်စာတချပ်၌ —

> "တလောကလုံး၏ ကောင်းကျိုးချမ်းသာ အတွက် ဆောင်ရွက်ရန်တာဝန်ထက် ကြီးလေးသော တာဝန်ဟူသည် မရှိ။ ငါကြိုးပမ်းအားထုတ် လုပ်ကိုင်ဆောင်ရွက်သမျှတို့သည်လည်း ဝေနေယျသတ္တဝါတို့အား ဤပစ္စုပ္ပန်ဘဝ၌ ချမ်းသာသုခ ဖြစ်စေရုံသာမက နောင်တမလွန်ဘဝပါ ကောင်းရာသုဂတိသို့ ရောက်ကြစေခြင်းငှါ ငါ၌ ဆောင်ရွက်အပ်သည့် တာဝန်တည်းဟူသော ကြွေးမြီမှ လွတ်ကင်းစေရန် ဖြစ်သည်" ဟူ၍ ပါရှိလေသည်။

ဆိုခဲ့သည့်အတိုင်း မင်းတရားကြီးသည် ကျယ်ပြန့်သော နိုင်ငံတော်ကြီးကို တည်ဆောက်နိုင်သည်သာမက နိုင်ငံတော်ကြီးကို စံနစ်တကျ စီမံခန့်ခွဲအုပ်ချုပ်နိုင်ခဲ့လေရာ မင်းတရားကြီး၏ အမိန့်ရာဇသံကို ပါဋလိပုတ္တနေပြည်တော်မှ အိန္ဒိယမြစ်ဝှမ်းသို့တိုင်ရင်း၊ အာရေဗျပင်လယ်သို့တိုင်ရင်း မပျက်မကွက်ဦးထိပ်ရွက်ဆင်၍ နာခံကြရလေသည်။

အသောကမင်းတရားသည် ဖွားတော်မူသည်မှစ၍ မင်းအဖြစ်သို့ ရောက်သည်ကိုင်အောင် မျိုးရိုးစဉ်လာအတိုင်း ဗြဟ္မဏအယူဝါဒီတဦး ဖြစ်သည်။ ဘိုးတော်၊ ခမည်းတော်တို့ ပြုသကဲ့သို့ပင် အာဇီဝကတို့အား ကိုးကွယ်၍ နေ့စဉ် အာဇီဝက ခြောက်သောင်းတို့အား နန်းတော်၌ ဆွမ်းဝတ်ပြုသည်။ သို့သော် ဘိသိက်ခံ၍ လေးနှစ်မြောက်ပြီးနောက်တွင် နိဂြောဓသာမဏေယ်ကို အကြောင်းပြု၍ ဗုဒ္ဓအယူဝါဒ၌ သက်ဝင်ယုံကြည်သော ဥပါသကာတဦး ဖြစ်လာပြီး

လျှင် သာမဏေငယ်၏ဆရာတော်ဖြစ်သော အရှင်မောဂ္ဂလိပုတ္တတိဿမထေရ်မြတ်နှင့်တကွ များစွာသောရဟန္တာအရှင်မြတ်တို့ကို ရိုသေစွာ ဆည်းကပ်ကိုးကွယ်သည်။ ရဟန်းသံဃာတို့ နေစိမ့်သောငှါ ပါဋလိပုတ္တနေပြည်တော်၏အရှေ့တောင်ဖက်၌ အသောကာရာမ ကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်းခဲ့ရာ အသောကမင်းတရားကြီး၏ပဌမဆုံးသောကုသိုလ်တော်အဆောက်အအုံကြီးဖြစ်ပေသည်။

ရာဇာဘိသေက ခံယူပြီးနောက် ရှစ်နှစ်အကြာ (ဘီစီ ၂၆၂ ခုနှစ်)တွင် အသောကမင်းကြီးသည် အရှေ့ဖက် ပင်လယ်ကမ်းခြေ၊ မဟာနဒီနှင့်ဂိုဒါဝရီမြစ်တို့စပ်ကြားရှိ ကလိင်္ဂ (ဩရိဿ)တိုင်းကို သိမ်းသွင်းရန် ရေတပ် ကြည်းတပ် အလုံးအရင်းနှင့် ချီတက်လုပ်ကြံရာ အလိုတော်ပြည့်သည်။ ထိုအချိန်တွင် အသောကမင်းကြီး၏ နိုင်ငံတော်သည် တောင်ဖက်စွန်း ပြည်နယ်ငယ်အချို့မှအပ အိန္ဒိယကျွန်းဆွယ်တခုလုံး ပါဝင်ခဲ့လေသည်။

ကလိင်္ဂစစ်ပွဲသည် အသောကမင်းကြီး၏ ရာဇဝင်ကြောင်းကို လမ်းပြောင်းလိုက်သော စစ်ပွဲကြီးဟု ဆိုရပေမည်။ မင်းတရားကြီးသည် ကလိင်္ဂကို အောင်နိုင်ရသော်လည်း ရွှင်လန်းအားရခြင်း မဖြစ်နိုင်တော့ချေ။ သွေးချောင်းစီးအောင် အပြင်းအထန် တိုက်ခဲ့ကြသဖြင့် ကလိင်္ဂတိုင်းရင်းသား သိန်းသောင်းမက သေကြေပျက်စီးကြရသည်။ ထောင်သောင်းချီ၍ အိုးအိမ်မဲ့ ဖြစ်ကြရသည်။ ထောင်သောင်းမက ဒဏ်ရာအနာတရ ဖြစ်ကြရသည်။ ယင်းတို့ကို ကိုယ်တော်တိုင် မျက်ဝါးထင်ထင် တွေ့မြင်ရသောအခါ လက်နက်အားကိုးဖြင့် သူတပါးအား နှိပ်စက်သတ်ဖြတ်မိခြင်းကို ယူကြုံးမရဖြစ်မိသည်။ ရန်သူများကိုလည်း သနားစာနာမိသည်။ လူအချင်းချင်းအပေါ် ဝယ် မေတ္တာတရား၊ကိုယ်ချင်းစာတရားတို့ကိုသာ ပွားများမိလေသဖြင့် စစ်အတိုက်အခိုက်၌ များစွာငြီးငွေ့ စက်ဆုတ်သွားသည်။ နိုင်ငံသူနိုင်ငံသားတို့အား စိတ်ဝမ်းချမ်းမြေ့စွာဖြင့် နေထိုင်စေလိုသော စိတ်များ ဖြစ်ပေါ်လာသည်။ ထိုကြောင့် မိမိထက်အင်အားငယ်သော နိုင်ငံများကို လက်နက်အင်အား လူအင်အားဖြင့် ဖိနှိပ်တိုက်ခိုက် အနိုင်ယူသည်ထက် မေတ္တာတရားဖြင့်သာ အနိုင်ယူတော့မည်ဟု ဆုံးဖြတ်လိုက်လေသည်။

ကလိင်္ဂမှ နေပြည်တော်သို့ ပြန်ရောက်သောအခါ မေတ္တာတရားနှင့် ကရုဏာတရားတို့ကို အရင်းခံထား၍ သူတပါးအား ညှင်းပန်းနှိပ်စက်မှုကို မလိုလား၊ အားမပေးသော ဗုဒ္ဓအယူဝါဒကို ပို၍ကြည်ညိုလေးစားကာ ထက်ထက်သန်သန် ဆည်းကပ်ကိုးကွယ်ခြင်းကို ပြုပြီးလျှင် သာသနာတော်ကို များစွာချီးမြှောက်တော်မူလေသည်။တရားတော်နှင့်လျော်ညီစွာ နေထိုင်ကျင့်ကြံနိုင်ရန် ကိုယ်တော်တိုင်လည်း ကိုယ်စိတ်နှစ်ပါးကို အထူးပြုပြင်တော်မူသည်။ မိမိသာမက မိမိ၏မိဖုရား၊ သားတော်သမီးတော်၊ ခြွေရံသင်းပင်း အသိုက်အဝန်းနှင့်တကွ မိမိ၏နိုင်ငံသားအားလုံးတို့၏ ပစ္စုပ္ပန်နှင့် တမလွန်အကျိုးစီးပွား ဖြစ်ထွန်းရေး၊ လူသားအချင်းချင်း၊ ပြည်ထောင်အချင်းချင်း ချစ်ကြည်ငြိမ်းချမ်းရေးအတွက် ကောင်းမြတ်သော တရားဓမ္မဖြင့်သာ အောင်မြင်ရာသည်ဟူသော ဓမ္မဝိဇယဝါဒကို လိုက်နာကျင့်သုံးစေလေသည်။

နိုင်ငံတော်အတွင်း၌ ဗုဒ္ဓအယူဝါဒကို ကြည်ညိုလေးစားလာသူများ ပေါ်များလာအောင် အားထုတ်သည်။ နိုင်ငံတော်အတွင်း၌ ရာထမ်းမှုထမ်းများကို သက်ဆိုင်ရာပြည်နယ်များ၌ ငါးနှစ်တကြိမ်လှည့်လည်၍ တရားဓမ္မများကို လူအများအား ဟောကြားပြသရန် ညွှန်ကြားသည်။ ဘုရားပွင့်တော်မူရာ ဗုဒ္ဓဂယာအစရှိသော ဘုရားရှင်နှင့်စပ်လျဉ်း၍ အထွတ်အမြတ်ထားသော အရပ်များသို့ အဖူးအမြော် သွားရောက်ပြီးလျှင် ထိုနေရာအရပ်များ၌ အထိမ်းအမှတ် အဆောက်အအုံများ စိုက်ထူတည်ဆောက်ခဲ့သည်။ မိမိဆောင်ရွက်သမျှ အကြောင်းအရာများနှင့် တရားဓမ္မအဆုံးအမတို့ကို ကြာရှည်စွာ မပျောက်မပျက် တည်တံ့စိမ့်သောငှါ နိုင်ငံတော်အတွင်းရှိ နယ်ပယ်အသီးအသီးတို့၌ ကျောက်တိုင်များ၊ ကျောက်ပြားများ၊ ကျောက်ဂူလိုဏ်နံရံများတွင် ကမ္ပည်းကျောက်စာထွင်း၍ အနှံ့အပြား မော်ကွန်းထိုးထားခဲ့သည်။ နိုင်ငံတော်အတွင်းနေရာအနှံ့အပြား၌ မော်ကွန်းကျောက်စာများဖြင့် မှတ်တမ်းတင်ထားခဲ့ရာ မိဂဒါဝုန်၊ လုမ္ဗိနီစသော ဗုဒ္ဓအယူဝါဒဆိုင်ရာ အထွတ်အမြတ်နေရာများ၌၎င်း၊ ပါဋလိပုတ္တနေပြည်တော်မှ မိုင်ပေါင်း ၁,၀၀၀ ကျော်ဝေးသော အိန္ဒိယအနောက်မြောက်ဒေသ ပက်သျှဝါခရိုင်၌၎င်း၊ ဘုံဘိုင်ပြည်နယ်အတွင်း၌၎င်း၊ ဩရိဿ(ကလိင်္ဂတိုင်း) ပြည်နယ်အတွင်း၌၎င်း စသဖြင့် အိန္ဒိယကျွန်းဆွယ်တခုလုံးနေရာအနှံ့အပြား၌ တွေ့ရရာ စုစုပေါင်း ကျောက်တိုင် ၃၀ ကျော်ခန့် စိုက်ထူခဲ့သည်ဟု ခန့်မှန်းကြသည်။ ကျောက်စာရေးထိုးရာ၌ အက္ခရာနှစ်မျိုး အသုံးပြုကြောင်း တွေ့ရသည်။ တမျိုးမှာ လက်ျာမှလက်ဝဲဖက်သို့ရေးရသော ခရောသျှဋ္ဌိအက္ခရာမျိုးဖြစ်၍ တမျိုးမှာ ဗြာဟ္မီအက္ခရာမျိုးဖြစ်ရာ၊ဒေဝနာဂရီနှင့်ယခုအိန္ဒိယအက္ခရာများ၏ မူလအခြေခံအက္ခရာများ ဖြစ်ကြသည်။ ၂၂

မင်းတရားကြီးသည် အယူဝါဒရေးဆိုင်ရာ၊ လူမှုရေးဆိုင်ရာ အဆောက်အအုံများစွာတို့ကိုလည်း ဆောက်လုပ်ကုသိုလ်ပြုခဲ့သည်။ လူမျိုးမရွေး၊ ဇာတ်မရွေး၊ မရှိဆင်းရဲသားတို့အား နေ့စဉ်ပေးကမ်းစွန့်ကြဲသည်။ မြတ်စွာဘုရား၏ ဓာတ်တော်မွေတော်များကို ရှာဖွေစုဆောင်းပြီးလျှင် ဗုဒ္ဓဝါဒီအပေါင်းတို့ ဆည်းကပ်ကိုးကွယ်နိုင်စေရန် ထုပါရုံ



ဆန်ချီအရပ်ရှိ အသောကမင်း၏ ကောင်းမှုဖြစ်သော ပုထိုးကြီး

စေတီတော်များ တည်ဆောက်ခဲ့သည်။ ယင်းတို့အနက် ဗိုပေါပြည်နယ်၊ ဆန်ချီအရပ်ရှိ သဉ္စိစေတီတော်ကြီးသည် အဓိကရထူးပါရုံကြီးတဆူ ဖြစ်ပေသည်။ ဘုရားရှင် ဟောကြားတော်မူခဲ့သော ဓမ္မက္ခန္ဓာ ၈၄,၀၀၀ ကိုအထိမ်းအမှတ်ပြုသောအားဖြင့် ဇမ္ဗူဒိပ်ကျွန်းအလုံး နေရာအနှံ့အပြား၌ စေတီတော်ပေါင်း ၈၄,၀၀၀၊ ရေတွင်း ရေကန်ပေါင်း ၈၄,၀၀၀ ကို လှူဒါန်းခဲ့သည်။ သာသနာ့အမွေကို ခံနိုင်ရန် သားတော်မဟိန္ဒနှင့် သမီးတော်သဃမိတ္တာတို့ကိုပင် သာသနာ့ဘောင်သို့ သွတ်သွင်းချီးမြှင့်ခဲ့သည်။ အသောကရာမ ကျောင်းမှအပ အခြားသောအရပ်များ၌လည်း သံဃာများအတွက် ကျောင်းများ ဆောက်လုပ် လှူဒါန်းခဲ့၍ ပစ္စည်းလေးပါး အထောက်အပံ့လည်း ပေးခဲ့ပေသည်။

အသောကမင်းတရားကြီးသည် လူအပေါင်းအား ကိုယ်စိတ်နှစ်ပါးဆင်းရဲအောင် နှိပ်စက်ညှဉ်းပန်းခြင်း မပြုပေ။ မင်းတရားကြီးသည် မိမိ၏ နိုင်ငံသားတို့အတွက်သာမဟုတ် ကျေးသားရင်သား မခွဲခြားပဲ ကမ္ဘာတလောကလုံးရှိ လူသတ္တဝါတို့၏ ကောင်းကျိုးချမ်းသာအတွက် လိုလားတော်မူသော စိတ်ထားရှိကြောင်းကို ကလိင်္ဂတိုင်းတွင် စိုက်ထူခဲ့သော ကျောက်စာတခု၌ –

"ငါသည် ငါ၏ သားတော် သမီးတော်တို့အတွက် ဤမျက်မှောက်ဘဝ၌သာမက နောင်တမလွန်ဘဝ၏ ကောင်းကျိုးကိုပါ လိုလားတော်မူသကဲ့သို့ လူခပ်သိမ်းတို့အတွက်လည်း လိုလားတော်မူသည်။ လက်အောက်ခံ လူမျိုးတို့၏စိတ်၌ မင်းတရားကြီးသည် ငါတို့၏ဖခင်သဖွယ် ဖြစ်ပါပေသည်။ ငါတို့ကို သူကိုယ်အားသူချစ်သကဲ့သို့ ချစ်ပါပေသည်။ ငါတို့ကား မင်းတရားကြီး၏ သားသမီးသဖွယ် ဖြစ်ပါပေသည်ဟူ၍ အောက်မေ့သဘောထားလာရန် ဆောင်ရွက်ရမည်" ဟု အရာထမ်းအမှုထမ်းများ လိုက်နာဆောင်ရွက်ရန် ညွှန်ကြားထားချက်အရ သိရလေသည်။

လူသားတို့ အတွက်သာမက တိရစ္ဆာန်များအပေါ်၌လည်း ကြင်နာသနား ထောက်ထားညှာတာသည်။ ဗုဒ္ဓဝါဒီအဖြစ် ကူးပြောင်းလာပြီးနောက်တွင် သားသတ်ရုံများ၌ အသတ်အဖြတ် လျော့နည်းနိုင်သမျှ လျော့နည်းစေသည်။ တိရစ္ဆာန်များအတွက် ရေတွင်းရေကန်များ တူး

ပေ်ပေးသည့်အပြင် တိရစ္ဆာန်များအတွက် ဆေးရုံများလည်း ဆောက်လုပ်ပေးလေသည်။

မင်းတရားကြီးသည် နိုင်ငံသာယာမှု၊ ဝပြောစည်ပင်မှု၊ တိုးတက်မှုအရပ်ရပ်တို့ကိုလည်း ဆောင်ရွက်တော်မူသည်။ မောရိယနိုင်ငံတော်အတွင်း ခရီးအသွားအလာ လွယ်ကူစေခြင်းငှါ ဖြောင့်ဖြူးသော လမ်းကြီးလမ်းငယ် အသွယ်သွယ်တို့ကို ဖောက်လုပ်သည်။ လမ်းဘေးတဖက်တချက်စီတွင် ခရီးသွားများ အရိပ်ရစေရန် သစ်ပင်များကို စိုက်စေသည်။ ခရီးသည်များတစခန်းမှတစခန်းသို့ ခရီးအဆင့်ဆင့် သွားကြရာ၌ အပန်းဖြေနားနေရန် စရပ်အဆောင်ဆောင်တို့ကို ဆောက်စေသည်။ လူနှင့်တိရစ္ဆာန်တို့အတွက် ဆေးဝါးလုံလုံလောက်လောက် ရရှိစေရန် နိုင်ငံတော်အနှံ့အပြား၌ ဆေးဝါးပင်များကိုလည်း စိုက်စေသည်။ နိုင်ငံတော်အဘွင်း ကောက်ပဲသီးနှံအထွက်ကောင်းစေရန် ဆည်မြောင်းများ ဖို့ပေးသည်။ ပြုပြင်သင့်သည်တို့ကို ပြုပြင်တူးဖောက်ပေးသည်။ သစ်သီးခြံကြီးများကို ပြုစုပျိုးဆောင်ပေးသည်။

အသောကမင်းတရားသည် ဗုဒ္ဓသာသနာတော်ကို လွန်စွာခြီးမြှင့်လင့်ကစား အခြားသော ဘာသာအယူဝါဒများအား အပြစ်ဆိုခြင်း၊ ရှုတ်ချခြင်း မပြုချေ။ ကိုယ်တော်တိုင်သာမက နိုင်ငံတော်အဘွင်းရှိ လူခပ်သိမ်းတို့အား တဦး၏အယူဝါဒကို တဦးက ရှုတ်ချခြင်း ပြစ်တင်ခြင်းမပြုရန်လည်း အမိန့်ထုတ်ထားခဲ့သည်။ ဗုဒ္ဓသာသနာအတွက် စေတီပုထိုး ကျောင်းကန်စရပ်တို့ကို ဆောက်လုပ်လှူဒါန်းသည့်နည်းတူ အာဇီဝကများအတွက်ငှင်း၊ ဗြဟ္မဏဝါဒီများအတွက်ငှင်း၊ ဂျိန်းဝါဒီများအတွက်ငှင်း အယူဝါဒရေးရာအဆောက်အအုံများကို ထိုက်သင့်သလို ဆောက်လုပ်လှူဒါန်းလေသည်။



အသောက အထိမ်းအမှတ် ကျောက်တိုင်

သို့သော် မင်းတရားကြီးသည် ဗုဒ္ဓသာသနာကို လွန်စွာခြီးမြှင့်သဖြင့် သာသနာတော်တွင် အလွန်ပြန့်ပြောသော လာဘသက္ကာရဖြစ်သည်။ ထိုအခါ လာဘ်လာဘကို မျှော်ကိုး၍ တိတ္ထိတက္ကတွန်းတို့သည် ရဟန်းခွင်သို့ခိုဝင်လာကြရာ သာသနာတော်တွင် အညစ်အကြေး တင်လာသည်။ ထိုကြောင့် မင်းတရားကြီးသည် အရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်၏ အဆုံးအမကိုယူ၍ သာသနာအတွင်းမှ ရဟန်းတု ရဟန်းယောင်များကို ဖယ်ရှားရှင်းလင်းပစ်ပြီးနောက် သာသနာတော် သန့်ရှင်းသွားစေရန် သာသနာသက္ကရာဇ် ၂၃၅ ခုနှစ်တွင် အရှင်မောဂ္ဂလိပုတ္တတိဿထေရ်ကိုပင်အမှူးထား၍ တတိယသင်္ဂါယနာ တင်တော်မူလေသည်။ (သင်္ဂါယနာ — ရှု။)

သာသနာတော် သန့်စင်သွားပြီးနောက်တွင် သာသနာတော်ကို အမွန်ရှည်ကြာစွာ တည်တံ့ခိုင်မြဲစေလိုသောဆန္ဒသည် မင်းကြီး၌ ပြင်းပြလှသည်။ ထိုကြောင့် အရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်မြတ်အား သာသနာ တော်သည် နောင်အခါ အဘယ်အရပ်၌ တည်လတ္တံ့နည်းဟု မေးလျှောက်လျှင် အရှင် မထေရ် မြတ်က ပစ္စန္တရာဇ် တိုင်း၌ တည်လတ္တံ့ဟု ဖြေကြားချက်အရ ပစ္စန္တရာဇ် ကိုးဌာန (ကိုးတိုင်းကိုးဌာန) သို့ သာသနာပြု ရဟန္တာအရှင်မြတ်တို့အား စေလွှတ်၍ ဗုဒ္ဓသာသနာ ပျံ့နှံ့ရေးကို ဆောင်ရွက်တော်မူလေသည်။ (ဗုဒ္ဓသာသနာဝင် — လည်းရှု။)

ထိုမျှသာမကသေး အသောကမင်းကြီး၏ နိုင်ငံတော်သည် ဂရိစသော အနောက်နိုင်ငံများနှင့်လည်း အဆက်အသွယ်ရှိသဖြင့် ဆီးရီးယား၊ အီဂျစ်၊ ဂရိစသော နိုင်ငံတို့သို့လည်း ဗုဒ္ဓသာသနာတော်၏ အရှိန်အဝါ ပျံ့နှံ့ကျရောက်ခဲ့လေသည်။

အသောက မင်းတရားကြီးသည် နိုင်ငံတော် စည်ပင်ဝပြောသာယာရေး၊ ခပ်သိမ်းသောသတ္တဝါတို့၏ သောကီလောကုတ္တရာ ကောင်းကျိုးချမ်းသာရေးအတွက် အသက်

ထက်ဆုံး ကိုးပမ်းဆောင်ရွက်တော်မူခဲ့ပြီးလျှင် ဘီစီ ၂၃၂ ခုနှစ်ခန့်တွင် လွန်တော်မူသည်။

အသောကမင်းတရားကြီး၏ အကြောင်းနှင့် စပ်လျဉ်း၍ ကမ္ဘာကျော် အင်္ဂလိပ်စာရေးဆရာကြီး အိပ်၊ ဂျီ၊ ဝဲက "ကမ္ဘာ့ရာဇဝင် အစောင်စောင်တို့တွင် ထင်ရှားကျော်ကြားကြကုန်သော မင်းကေရာဇ်များစွာအနက် အသောကမင်းတရားကြီး တပါးတည်းသာလျှင် ကြယ်တာရာ အလား ထွန်းလင်းတောက်ပခြင်းရှိ၍ ယင်း၏ ဘွဲ့တော်နာမံသည် (ရုရှ)ဗော်လဂါမြစ်မှသည် ဂျပန်နိုင်ငံတိုင်အောင် ကမ္ဘာတလွှား၌ ပြန့်မွှေးကျော်ကြားလျက် အလေးအမြတ်ပြုခြင်းကို ခံရလေသည်"ဟု ကမ္ဘာ့သမိုင်းအကျဉ်းချုပ် စာအုပ်ကြီး၌ ဖော်ပြချီးကျူးရေးသားထားလေသည်။

**အသက်တမ်း။** ။ကမ္ဘာပေါ်တွင် တိရစ္ဆာန်နှင့် အပင်အမျိုးမျိုးရှိသဖြင့် အသက်တမ်းတူညီသော အမျိုးအနည်းငယ်မျှသာ ရှိခြင်းသည် အံ့ဩဖွယ်ရာမဟုတ်ချေ။ အရွယ်ရောက်ပြီး မေဖလိုင်းယင်သည် ယင်းစားသည့် အစာကို ကြေအောင် မချေနိုင်သဖြင့် နာရီအနည်းငယ်မျှသာ သက်တမ်းရှိလေသည်။ အမေရိကန်ပြည်ထောင်စု၊ ပစိဖိတ်ကမ်းခြေတလျှောက်တွင် ပေါက်ရောက်သော ဆီကွိုင်ယာခေါ် သစ်ပင်ကြီးသည် နှစ်ပေါင်းလေးထောင်၊ သို့မဟုတ် ထိုထက်မကပင် အသက်ရှည်လေသည်။

အပင်၊ သို့မဟုတ် တိရစ္ဆာန်အမျိုးမျိုး၏ အသက်ရှည်မှုသည် ထိုအပင်၊ သို့မဟုတ် ထိုတိရစ္ဆာန်၏ မျိုးရိုးဇာတိပေါ်တွင် အတော်ပင် အခြေတည်လေသည်။ ပတ်ဝန်းကျင်အခြေအနေသာ မပြောင်းလဲလျှင် အပင်တမျိုးမျိုး၊ သို့မဟုတ် တိရစ္ဆာန်တမျိုးမျိုးသည် ယင်း၏ မိဖ အသက်ရှည်သည်ထက် ပို၍ အသက်ရှည်ခဲလေသည်။ အနာရောဂါနှင့် သဘာဝရန်သူများက အသက်တမ်းကို တိုစေသည်။ ပတ်ဝန်းကျင် အခြေအနေကို တိုးတက်ကောင်းမွန်စေခြင်းသည် အသက်တမ်းကို ရှည်စေနိုင်သည့် ကောင်းမွန်သော နည်းလမ်းတခု ဖြစ်သည်။

အသက်တမ်း ရှည်မှု၊ သို့မဟုတ် အသက်တမ်းတိုမှုကို သက်ရှိတမျိုးမျိုးသည် မည်မျှ လျင်မြန်စွာ ကြီးထွားသည်၊ သို့မဟုတ် မည်မျှလှုပ်ရှားထကြွသည် ဆိုသည့်အချက်တို့က ပြုပြင်ပေးလေသည်။ လျင်မြန်စွာ အရွယ်ရောက်လာသော သက်ရှိများသည် များသောအားဖြင့် လျင်မြန်စွာ သေကြသည်သာဖြစ်လေသည်။

အချို့သိပ္ပံပညာရှင်များက အချို့သစ်ပင်များသည် ရောဂါဝေဒနာနှင့် ထိခိုက်နာကျင်မှုများသာ မရှိလျှင် မည်သည့်အခါမျှပင် မသေဟု ယုံကြည်ကြသည်။ ထိုသစ်ပင်များ အသက်ကြီးရင့်သည်ထက် ကြီးရင့်၍ ကြီးထွားသည်ထက်ကြီးထွားလာသောအခါတွင် မြေဆီလွှာမှ အာဟာရဓာတ်ကို ရယူပြီးလျှင် ပင်စည်များမှတဆင့် ထိုအာဟာရဓာတ်ကို ဖြန့်ဖြူးပေးရန် ခဲယဉ်းလာကြလေသည်။ ထို့ကြောင့် သစ်ပင်များသည် အားနည်းလာပြီးလျှင် အသက်တိုလာကြလေသည်။

ပင်လယ်လိပ်ကြီးများ၊ သို့မဟုတ် ကုန်းလိပ်ကြီးများသည် ကမ္ဘာပေါ်တွင် အသက်အရှည်ဆုံး တိရစ္ဆာန်ဖြစ်သည်ဟု ဆိုသည်။ ပင်လယ်လိပ်ကြီးတကောင်သည် မှတ်တမ်းတင်ထားချက်အရ အသက် ၁၅၂ နှစ်အထိ နေရုံမျှမက နှစ်ပေါင်း ၂၀၀ အထိပင် နေကောင်း နေသွားပေလိမ့်မည်။ အချို့သိပ္ပံပညာရှင်များက ဆူးတောင်ရှိ ဝေလငါးသည် နှစ် ရာပေါင်းများစွာ အသက်ရှည်သည်ဟု ယုံကြည်ကြသော်လည်း အထောက်အထားကား မသေချာချေ။ ချစ်စနိုး တိရစ္ဆာန်များကဲ့သို့ ထိန်းသိမ်းစောင့်ရှောက်ထားသော တိရစ္ဆာန်အမြောက်အမြားသည် ယင်းတို့အရိုင်းဘဝတွင် အသက်ရှည်သည်ထက် ပို၍ အသက်ရှည်ကြလေသည်။

ပိုးကောင်များသည် များသောအားဖြင့် သက်တမ်းတိုကြလေသည်။ အခြေအနေ ကောင်းမွန်လျှင် သစ်သီး၊ သို့မဟုတ် ဗနီဂါယင်တမျိုး၏ ပျမ်းမျှအသက်တမ်းသည် တဆဲ့တနှစ်ရှိသည်။ သို့သော် ပိုးကောင်အမြောက်အမြား၏ ဥနှင့် ပိုးတုံးလုံးကောင်များသည် ကြာမြင့်စွာ အသက်ရှည်ကြလေသည်။သာဓကအဖြစ် ဖော်ပြရလျှင် ကျိုင်းကောင်သည် မြေကြီးအောက်၌ပင် တဆဲ့ခုနစ်နှစ် ကြာအောင် နေထိုင်နိုင်လေသည်။

ဆင်၏ ပျမ်းမျှသက်တမ်းမှာ အနှစ် ၆၀ ဖြစ်၍၊ မြင်း၏ ပျမ်းမျှသက်တမ်းမှာ အနှစ် ၂၀ ဖြစ်သည်။ ကျွဲ၏ ပျမ်းမျှသက်တမ်းမှာ အနှစ် ၂၀ ဖြစ်၍ နွားမ၏ ပျမ်းမျှသက်တမ်းမှာလည်း အနှစ် ၂၀ ဖြစ်သည်။ နွားထီး၏ ပျမ်းမျှသက်တမ်းမှာ ၁၃ နှစ်ဖြစ်၍၊ ခွေး၏ ပျမ်းမျှသက်တမ်းမှာ ၁၀ နှစ်ဖြစ်သည်။ ကြောင်၏ ပျမ်းမျှသက်တမ်းမှာ ၁၅ နှစ်ဖြစ်၍၊ သိုး၏ ပျမ်းမျှသက်တမ်းမှာ ၁၃ နှစ်ဖြစ်သည်။ ပင်လယ်လိပ်ကြီး၏ ပျမ်းမျှသက်တမ်းမှာ အနှစ် ၁၀၀ ဖြစ်၍၊ ပင်လယ်လိပ်၏ ပျမ်းမျှသက်တမ်းမှာ ၄၂ နှစ်ဖြစ်သည်။ အိမ်မွေးငန်း၏ ပျမ်းမျှသက်တမ်းမှာ ၆၅ နှစ်ဖြစ်၍ ကြက်တူရွေး၏ ပျမ်းမျှသက်တမ်းမှာ ၅၄ နှစ်ဖြစ်သည်။ ကျီးကန်း၏ ပျမ်းမျှသက်တမ်းမှာ အနှစ် ၃၀ ဖြစ်သည်။

ယခုအခါတွင် ဆေးပညာနှင့် ကျန်းမာရေးဆောင်ရွက်ပေးချက်များသည် တိုးတက်ကောင်းမွန်လာပြီ ဖြစ်သဖြင့် လူ၏ ပျမ်းမျှသက်တမ်းသည် တဖြည်းဖြည်း တိုးတက်လာလေသည်။ လူများသည် များသောအားဖြင့် အသက် ၇၀၊ သို့မဟုတ် ၈၀ အထိ အသက်ရှည်ကြရာ၊ မိန်းမများက ယောကျ်ားများထက်ခြောက်နှစ်ခန့်ပိုသက်တမ်းရှည်သည်။

၁၉၀၀ ပြည့်နှစ်မှစ၍ လူတို့၏အသက်တမ်းသည် နှစ်ပေါင်း ၂၀ မကအထိ တိုးတက်လာခဲ့လေသည်။ ရှေးက ၄၇.၃ နှစ်သာ နေနိုင်ခဲ့ကြရာမှ ယခုအခါ ၆၈.၅ နှစ်အထိ အသက်ပို၍ရှည်လာကြသည်ကို တွေ့ရသည်။

**အသက်ရှူပုံအမျိုးမျိုး။** ။ရက်စပီရေးရှင်း — ရှု။

**အသည်း။** ။ကိုယ်ခန္ဓာ၏ အရည်အိတ်ခေါ် ဂလင်းအပေါင်းတို့တွင် အသည်းသည် အကြီးဆုံးဖြစ်၍ လူ၏ကိုယ်ခန္ဓာတွင် အလေးချိန်အားဖြင့် အောင်စ၀ါးဆယ်၊ သို့မဟုတ် ရှစ်ဆဲ့ကိုးကျပ်သား ကျော်ကျော်ခန့်မျှ ရှိသည်။ ရင်နှင့်ဝမ်းကိုခြားသောဒိုင်ယာဖရမ်(အမြှေး)အောက်တွင် ကပ်လျက် ဝမ်းခေါင်း၏လက်ျာဖက်၌ တည်ရှိလေသည်။

အသည်းသည် အပ်ထိပ်ခန့်မျှ ရှိသော အမြှေးအိမ်ကလေးများနှင့် ထိုအမြှေးအိမ်တို့ အကြားတွင်ရှိသော ဆံခြည်မျှင် သွေးကြောငယ်တို့ဖြင့် ပြွမ်းလျက် တည်ရှိ၏။ အသည်းတွင် သွားလာလျက်နေသော အကြောကြီး သုံးကြောရှိလေသည်။ ထိုအကြောတို့မှာ (၁) အသည်းတွင်ရှိသော ဆဲများကို ထောက်ပံ့ရန် နှလုံးမှသွေးသန့်ကို ယူဆောင်လာသော သွေးလွှတ်ကြော (၂) အစာအိမ်၊ အူသိမ်၊ သရက်ရွက်နှင့် ပန်ကရိတို့မှလာသော သွေးပြန်ကြောမ (ပေါ်တယ်သွေးပြန်ကြော) (၃) အသည်းမှ အစာချေရာ၌ အထောက်အပံ့ဖြစ်စေရန် ထုတ်ပေးသည့် အရည်ကို ဆောင်ယူသွားသောအကြောတို့ ဖြစ်၏။ ထိုအကြောကြီးသုံးခုတို့သည် အသည်းသို့ ရောက်သောအခါ အကြောငယ်ပေါင်း မြောက်မြားစွာအဖြစ်သို့ အစိတ်စိတ်အမြွှာမြွှာကွဲသွား၍ အသည်း၏အစိတ်အပိုင်း အရပ်ရပ်တွင် ပျံ့နှံ့လျက် တည်ရှိကြ၏။

အသည်းသည် ဂလင်းတို့တွင် အကြီးဆုံးဖြစ်ရခြင်းမှာ အကြောင်းမဲ့မဟုတ်ချေ။ အသည်း၌ အလွန်အရေးကြီးသော လုပ်ငန်းလေးရပ် ရှိ၏။

ထိုလုပ်ငန်းတို့မှာ –

(၁) အစာချေရာ၌ အသုံးဝင်သော သည်းခြေရည် (ဗိုင်းအရည်)ကို ထုတ်ပေးရခြင်း၊

(၂) အစာအိမ်၊ အူသိမ်၊ အူမကြီးတို့မှ စုတ်ယူလာသော သကြားကို ဂလိုင်ကိုဂျင် (တိရစ္ဆာန်ကစီ) အဖြစ်ဖြင့် ဆဲများတွင် သိမ်းဆည်းထား၍ ကြွက်သားမှ လိုသောအခါ ထုတ်ပေးရခြင်း၊

(၃) အစာကြောင်းနှင့် အသည်း ဆက်နေသည့်သွေးပြန်ကြောမဖြင့် ရောက်ရှိလာသော အာဟာရဓာတ်များကို အညစ်အကြေးတခြား အာဟာရဖြစ်စေသော ဓာတ်တခြား ခွဲခြားချက်လုပ်ပြီးနောက် အညစ်အကြေးရည်ကို ဆီးအဖြစ်ဖြင့် စွန့်ထုတ်ပေးရခြင်း၊

(၄) အဆီကို အောက်ဆီဒေးရှင်းခေါ် အောက်ဆီဂျင်နှင့် ပေါင်းစပ်နိုင်အောင် ပြုပြင်ပေးရခြင်း ဟူသော လုပ်ငန်းများ ဖြစ်သည်။

အသည်းကို ကြောရိုးရှိသတ္တဝါမှန်သမျှနှင့် ကြောရိုးမဲ့သတ္တဝါအချို့တွင် တွေ့ရသည်။




အသည်းကို ကန့်လန့်ဖြတ်၍မြင်ရပုံ

**အသံ။** ။အသံသည် အလင်းနှင့် အပူတို့ကဲ့သို့ လှိုင်းလှုပ်ရှားမှုပင် ဖြစ်သည်။ ရေထဲသို့ ခဲတလုံးကို ပစ်ချလိုက်သောအခါ ခဲကျရာနေရာမှ လှိုင်းဂယက်များ ပြန့်ထွက်လာသည်ကို လူတိုင်း တွေ့ဘူးကြပေမည်။ ထိုအတူ အသံသည်လည်း များသောအားဖြင့် လေထဲတွင် အသံဖြစ်ပေါ်ရာနေရာမှ လှိုင်းသဘောဖြင့် လှုပ်ရှားပြန့်ထွက်ပြီးလျှင် ကျွန်ုပ်တို့၏ နားရှိရာသို့ ရောက်လာသည်။ လေထဲ၌ဖြစ်ပေါ်၍သာ ကျွန်ုပ်တို့သည်အသံလှိုင်းများကိုမမြင်ရခြင်း ဖြစ်လေသည်။

အသံနှင့်အလင်းတို့မှာ လှိုင်းသဘောဖြင့် သွားလာပုံခြင်းတူသော်လည်း ထိုလှိုင်းတို့၏ အသွားနှုန်းမှာ တခုနှင့်တခု မတူပေ။ အလင်းလှိုင်းနှင့်စာလျှင် အသံလှိုင်းမှာ ယုန်နှင့်လိပ် အပြေးပြိုင်သည်ထက်မက ကွာခြားနှေးကွေးသည်ဟု ဆိုရပေမည်။ မိုးခြိမ်းစဉ် ဝင်းကနဲ လက်ကနဲ လျှပ်ပြက်သည့် အလင်းရောင်ကို မြင်လိုက်ရပြီးနောက် ခဏကြာမှ မိုးခြိမ်းသံကြားရခြင်းကို စဉ်းစားလျှင် ဤအချက်သည် ပေါ်လွင်နိုင်ပေသည်။ သိပ္ပံဆရာကြီးများ၏ တိုင်းတာတွက်ချက်ထားချက်အရ အလင်းသည် တစက္ကန့်တွင် မိုင်ပေါင်း ၁၈၆,၀၀၀ ခန့်သွား၍ အသံမှာမူ တစက္ကန့်တွင် ပေ ၁,၁၀၀ မျှသာ သွားနိုင်သည်။ သို့သော် အပူချိန် ဒီဂရီမြင့်လာတိုင်း အသံ၏အသွားနှုန်းသည် တပေကျော်ခန့် တိုးလာသည်။

ဤအသွားနှုန်းနှစ်ခုကို မှတ်ထားလျှင် မိုးခြိမ်းသည့်အခါ မည်မျှ ကွာဝေးသောနေရာ၌ ခြိမ်းသည်ကို အလွယ်တကူ တွက်ချက် ခန့်မှန်းနိုင်သည်။ ပုံပမာ – လျှပ်ပြက်သည်နှင့်တပြိုင်နက် တစ်၊ နှစ်၊ သုံး၊ လေးဟူ၍ တစက္ကန့်ခြားစီလောက် ခပ်လေးလေးနှင့် ခပ်မှန်မှန် ရေတွက်နေစဉ် ငါးဟု ဆိုချိန်တွင် မိုးခြိမ်းသံကို ကြားရသည်ဆိုပါစို့။ ထိုအခါ အသံလာရသည့်အချိန်မှာ ငါးစက္ကန့်ခန့် ကြာသည်ဟု ယူဆရမည်ဖြစ်သဖြင့် ထိုအသံထွက်ပေါ်ရာဖြစ်သော မိုးခြိမ်းသည့်နေရာမှာ ပေ ၁,၁၀၀ ငါးလီနှင့်ညီမျှသော ပေ ၅,၅၀၀ အကွာအဝေး၌ ဖြစ်သည်ဟု ခန့်မှန်းသိနိုင်ပေသည်။ (ဤနေရာ၌ အလင်း၏ အသွားနှုန်းမှာ မြန်လွန်းသည့်အတွက် အလင်းလာရသည့်အချိန်ကို ထည့်မတွက်ပေ။)

စကားပြောသံ၊ တီးမှုတ်သံ၊ အရာဝတ္ထုချင်း တခုနှင့်တခု ပွတ်တိုက် ထိခိုက်မိသည့်အသံ၊ ပေါက်ကွဲသံ စသည်တို့မှာ အားလုံးအသံချည်းပင် ဖြစ်သည်။ သို့သော် မည်သည့်အသံပင်ဖြစ်စေ ထိုအသံဖြစ်ပေါ်ရန်အတွက် အရာဝတ္ထုတခုခု၏ တုန်ခါလှုပ်ရှားမှု ရှိရလေသည်။ စကားပြောစဉ် မိမိလည်ချောင်းကို လက်နှင့် ထိစမ်းကြည့်ပါ။ အသံဖြစ်ပေါ်ရာ ခေမျို(လည်မျို)နားတွင် တုန်ခါနေသည်ကို တွေ့ရပေမည်။ စောင်းကြိုးကို တီးခတ်သည့်အခါ၊ မောင်းကို ထုသည့်အခါများတွင်လည်း အသံထွက်ပေါ်ချိန်တွင် အဆိုပါ စောင်းကြိုးနှင့် မောင်းတို့ တုန်ခါနေသည်ကို တွေ့ရမည်ပင် ဖြစ်သည်။ ထို့ကြောင့် အသံကို ဖြစ်ပေါ်စေသည့်အကြောင်းရင်းမှာ အရာဝတ္ထုတို့၏ တုန်ခါမှုဟု သိရသည်။ သို့သော် အရာဝတ္ထုတို့ တုန်ခါတိုင်း အသံမှာ ထွက်ပေါ်လာခြင်း မရှိပေ။ ဖြစ်ပေါ်လာသောအသံတခုကို သယ်ပို့ပေးမည့် ကြားခံပစ္စည်းရှိရန် လိုသည့်အပြင်၊ အသံကိုလက်ခံသော နားတွင် မိမိသံဆောက်လာသော အသံလှိုင်းကို လက်ခံနိုင်မည့် အရည်အချင်းလည်း ရှိရန်လိုပေသည်။

အသံကို တနေရာမှ တနေရာသို့ သယ်ပို့ပေးသောအရာမှာ များသောအားဖြင့် ကျွန်ုပ်တို့ ပတ်ဝန်းကျင်ရှိ လေပင်ဖြစ်သည်။ သို့သော် လေ သာမဟုတ်၊ လေ ကဲ့သို့ပင် ကျုံ့နိုင်ကန်နိုင်သော သတ္တိရှိသည့် အငွေ့အရည် အစိုင်အခဲမှန်သမျှသည် အသံကို သယ်ပို့ပေးနိုင်လေသည်။ (စက်ဘီးလေထိုးဘံကို လက်နှင့်ပိတ်ပြီး ထိုးကြည့်လျှင် လေ၌ ကျုံ့နိုင်ကန်နိုင်သည့်သတ္တိ ရှိခြင်းကို သိနိုင်သည်။)

လေထဲ၌ အသံလှိုင်းများ ပျံ့လွင့်ပုံမှာ ဤသို့ဖြစ်သည်။ ရှေးဦးစွာ လူတယောက်က မိမိလက်ဝါးနှစ်ဖက်ကို တီးကာ လက်ခုပ်သံကို ဖြစ်ပေါ်စေသည် ဆိုကြပါစို့။ လက်ဝါးနှစ်ဖက်ကြားတွင် အဖိအညှစ်ခံရသောလေသည် လေ၏ ကျုံ့နိုင်ကန်နိုင်သောသတ္တိကြောင့် တုန်ခါ၍ သွားသည်။ ထိုလေက မိမိအနီးရှိ လေကို တဖန် ဖိညှစ်ပေးကာ တုန်ခါသွားစေပြန်သည်။ ဤသို့ဖြင့် လေထဲတွင် အသံလှိုင်းများဖြစ်ပေါ်ပျံ့ထွက်လာ၍ နောက်ဆုံးတွင် အသံလှိုင်းများကို လက်ခံရာဖြစ်သော ကျွန်ုပ်တို့၏ နားသို့ ရောက်လာသောအခါ လက်ခုပ်သံကို ကြားရလေသည်။

ဤသို့ဖြစ်လျှင် လေမရှိသော ပလာနယ်(ဗက်ကျူအမ်)တွင် အသံဖြစ်ပေါ်နိုင်စရာ အကြောင်းမရှိဟု ထင်ရန်ရှိသည်။ ထင်သည့်အတိုင်းပင် ဟုတ်မှန်ကြောင်းကို အောက်ပါ လက်တွေ့စမ်းသပ်မှုမျိုးဖြင့် သိရလေသည်။ ရှေးဦးစွာ သက္ကလဘ်၊ ဖော့ စသော အသံကို လွယ်ကူစွာ သယ်ပို့နိုင်စွမ်းမရှိသည့် ပစ္စည်းတခုခုပေါ်တွင် နာရီသံပတ်ဖြင့် မြည်သော ခေါင်းလောင်းကလေးတလုံးကို တင်ထားသည်။ ထိုနောက် ခေါင်းလောင်းကို လေလုံသော ဖန်အုပ်ဘခုဖြင့် ဖုံးအုပ်ပြီးလျှင် ခေါင်းလောင်းကို မြည်စေသောအခါ ထိုခေါင်းလောင်းသံကို ဖန်အုပ်အပြင်ဖက်မှ ကောင်းစွာကြားရသေသည်။ သို့သော် ထိုသို့အသံမြည်နေစဉ် ဖန်အုပ်အတွင်းရှိလေကို လေစုတ်စက်ဖြင့် တဖြည်းဖြည်း စုပ်လိုက်သောအခါ လေပါးသွားသည်နှင့်အမျှ ခေါင်းလောင်းသံလည်း တဖြည်းဖြည်း တိမ်လိုက်သာကာ နောက်ဆုံးတွင် အလျှင်းပင် မကြားရတော့ချေ။ ထို့ကြောင့် လေထုမရှိဟု ယုံကြည်ရသော လပေါ်၌ အက်တမ်ဗုံးထက်မက ပြင်းထန်သော ပေါက်ကွဲမှုကြီးမျိုး ဖြစ်ပွားသည့်တိုင်အောင် ထိုပေါက်ကွဲသံကို ကြားနိုင်ဖွယ်ရာမရှိဟု ယူဆရလေသည်။

မြေကြီးတွင်ဖြစ်စေ၊ ကြမ်းပြင်တွင်ဖြစ်စေ နားကိုကပ်ပြီး နားထောင်လျှင် အဝေးမှ လမ်းလျှောက်သံကို လေထဲမှ လာသောအသံထက် ပို၍ ကျယ်လောင်စွာ ကြားနိုင်သည်။ တုတ်ရှည်ရှည်ဘချောင်း၏ အဖျားကို နားတွင်ကပ်ထား၍ ကျန်အဖျားဖက်မှ အခြားတယောက်က အသာကလေး ခြစ်ပေးလျှင်လည်း ဤအတိုင်းပင် ကျယ်လောင်စွာကြားနိုင်သည်။ အပ်ချည်ကြိုးတပင်တွင် အဖျားနှစ်ဖက်၌ မီးခြစ်ဘူးခွံတပ်ကာ ကြေးနန်းစကားပြောသကဲ့သို့ ကလေးများ ကစားနိုင်ခြင်းမှာလည်း အသံသည် တင်းတင်းဆွဲထားသော ကြိုးတလျှောက်ကို သွားနိုင်ခြင်းကြောင့် ဖြစ်လေသည်။ အသံကို သယ်ပို့ရာတွင် လေထက်သာသောပစ္စည်းများ စာရင်းတွင် ရေလည်း ပါဝင်သည်။ ရေထဲ၌ အသံသည် လေထဲမှာထက် လေးဆမျှ မြန်အောင်သွားနိုင်သည်။ ထို့ကြောင့် အစိုင်အခဲနှင့် အရည်တို့သည် ဓာတ်ငွေ့တို့ထက် ပိုပြီး အသံကို သယ်ပို့နိုင်သည်ဟု သိရသည်။ သို့သော် အဆိုပါ အစိုင်အခဲနှင့် အရည်တို့သည် ကျုံ့နိုင်ကန်နိုင်သည့် သတ္တိရှိသောပစ္စည်းများဖြစ်ရပေမည်။

အသံကိုကြားသည်ဟု ဆိုရာတွင် နား၌ အသံလှိုင်းများကို လက်ခံနိုင်သည့် အရည်အချင်းရှိရမည်ဟု အထက်တွင် ရေးခဲ့ပြီ။ နားပင်းနေလျှင်ကား မည်သည့်အသံကိုမျှ ကြား

နိုင်မည် မဟုတ်ချေ။ သို့ရာတွင် နားမပင်းသည့်တိုင်အောင် နားသည် အရာဝတ္ထုတခုခု တုန်ခါတိုင်း အသံကို မကြားနိုင်ပေ။ နားသည် တစက္ကန့်တွင် တုန်ခါသည့်အကြိမ်ပေါင်း ၁၆ ကြိမ်မှ အကြိမ်ပေါင်း ၄၀,၀၀၀ အတွင်းရှိ တုန်ခါမှုများမှ ထွက်ပေါ်လာသည့် အသံများကိုသာ ကြားနိုင်လေသည်။ အသံသည် တုန်ကြိမ်နည်းလျှင် နိမ့်၍တိုး၍ တုန်ကြိမ်များလျှင် မြင့်သည်စူးသည်ဖြစ်ရာ နားသည် နိမ့်လွန်းသောအသံ၊ မြင့်လွန်းသောအသံကို ကြားနိုင်မည် မဟုတ်ချေ။ နားထဲတွင် နားအခင်ဟု ခေါ်သော အမြှေးပါးတခုရှိသည်။ ထိုအမြှေးပါးပေါ်သို့ အသံလှိုင်းများ ကျရောက်ရိုက်ခတ်သောအခါ အမြှေးပါးသည်လည်း အသံလှိုင်းများနှင့် ထပ်တူ တုန်ခါပြီးနောက် မူလအသံအတိုင်း မြည်လာသည်။ သို့သော် နားအခင်သည် နိမ့်လွန်းသော အသံနှင့် မြင့်လွန်းသောအသံများအတိုင်း လိုက်ပြီး တုန်ခါနိုင်စွမ်းမရှိသောကြောင့် ထိုနိမ့်လွန်း၊ မြင့်လွန်းသော အသံများကို ကျွန်ုပ်တို့ ကြားနိုင်တော့မည် မဟုတ်ချေ။

အသံသည် လှိုင်းများမှ ဖြစ်ပေါ်လာသဖြင့် အလင်းနည်းတူပင် အသံကိုတနေရာတည်းသို့ စုစေနိုင်သည်။ ယိုင်စေနိုင်သည်။ ပြန်၍လည်း ဟပ်စေနိုင်သည်။ ပဲ့တင်သံမှာ အတားအဆီးတခုခုနှင့် တွေ့ပြီးသည့်နောက် ပြန်ဟပ်လာသောအသံဖြစ်သည်။ အတားအဆီး နှစ်ဖက်နှစ်ချက်ရှိသော နေရာမျိုးတွင် ပဲ့တင်သံမှာ ထပ်တလဲလဲ ဖြစ်ပေါ်တတ်သည်။ ကပွဲ၊ တရားပွဲခန်းမကြီးများတွင် ဤသို့ ထပ်တလဲလဲ ပဲ့တင်သံမျိုး မဖြစ်ပေါ်စေရအောင် နံရံ၌ ကန့်လန့်ကာ၊ သို့မဟုတ် အခြားအသံကို ထိန်းနိုင်သည့် ပစ္စည်းမျိုးကို တပ်ဆင်ပေးရလေသည်။

**အသံလွှင့်ခြင်း။** ။အသံလွှင့်ပေးခြင်းဖြင့် ရေဒီယိုအသံဖမ်းစက် ရှိသူများအား အသံများကို လိုအပ်သလို ဖမ်းယူ၍ နားထောင်နိုင်စေလေသည်။ ရေဒီယိုသည် ပဋ္ဌမစစ်ကြီး အပြီးလောက်မှ စတင် ပေါ်ပေါက်လာခဲ့လေသည်။

ကမ္ဘာပေါ်တွင် အကြမ်းအားဖြင့် အသံလွှင့်သူနှင့် အသံလွှင့်သည်ကို နားထောင်သည့် ပရိသတ် ဟူ၍ နှစ်မျိုး ပိုင်းခြားနိုင်၏။ အသံလွှင့်သူများက မိမိတို့ကို နားထောင်သည့် ပရိသတ်ရှိသည် ဆိုသည်ကို သိရ၍ ဝမ်းမြောက်ကြသကဲ့သို့ နားသောတဆင်ကြသော ပရိသတ်တို့ကလည်း သူတို့နားထောင်လိုသည်ကို နားထောင်နိုင်ကြသဖြင့် ဝမ်းမြောက်ကြလေသည်။

ကမ္ဘာ့စတူဒီယိုများနှင့် အသံလွှင့်သူ စကားပြောသည့် စတူဒီယိုကိုသာ ဆက်ထားမည်ဆိုလျှင် အခန်းကျဉ်းကလေးထဲရှိ မိုက္ကရိုဖုန်းတခုရှေ့တွင် လူတယောက်က ထိုင်၍ မိုက္ကရိုဖုန်းသို့ ခပ်တိုးတိုးစကားပြောပေးခြင်းဖြင့် တကမ္ဘာလုံးသို့ သူပြောသမျှသည် ပျံ့နှံ့၍ သွားနိုင်ပေလိမ့်မည်။

စတူဒီယိုတခုအတွင်း၌ မိုက္ကရိုဖုန်း တခုတည်းဖြစ်စေ၊ နှစ်ခုဖြစ်စေ၊ တဒါဇင်ပင်ဖြစ်စေ ရှိနိုင်ပေသည်။ များသောအားဖြင့် အဆိုနှင့်အတီးအမှုတ်များကို အသံလွှင့်ပေးလိုလျှင် ဆိုသူ၊ တီးမှုတ်သူများနှင့် တီးမှုတ်သည့် ကရိယာတန်ဆာပလာများသည် စတူဒီယိုတခုအတွင်း၌သာ ရှိကြရလေသည်။ မိုက္ကရိုဖုန်း ဆိုသည်မှာ အလွန်ပါးသည့် နားနှင့်တူသည်ဟု ဆိုနိုင်သော ကရိယာတမျိုး ဖြစ်ပြီးလျှင်၊ ထိုကရိယာသည် တဖက်တည်းသို့သာ ရှေးရှုလျက်ရှိသည်။ ထိုကရိယာကို အလွန်အားကောင်းသော အလင်းရောင်ခြည်နှင့် တူသည်ဟုလည်းဆိုနိုင်ပေသည်။ ထိုအလင်းရောင်ခြည် ကျသည့်နေရာရှိ ပစ္စည်းတခုခုကို ထင်ရှားစွာ မြင်နိုင်မည်ဖြစ်သော်လည်း အလင်းရောင်ခြည် မကျသောနေရာရှိ လူ၊ သို့မဟုတ် အရာဝတ္ထုကိုမူ မြင်စေနိုင်မည် မဟုတ်ချေ။ ထိုအတူ ပတ်မကြီးပေါ်တွင်အလင်းရောင်ခြည်ကျရောက်၍ နှဲပေါ်တွင်အလင်းရောင်ခြည်မကျရောက်လျှင် ပတ်မကြီးကိုသာ မြင်ရမည်ဖြစ်ပြီးလျှင် နှဲကိုမူ မြင်ရမည် မဟုတ်ချေ။ ထိုသဘောအတိုင်းပင် ပတ်မကြီး၏ အသံကြားရာဖက်တွင် မိုက္ကရိုဖုန်းကို ထား၍ နှဲသံလာရာဖက်တွင် မိုက္ကရိုဖုန်းကို မထားလျှင် ပတ်မကြီး၏အသံကိုသာ ကြားရမည် ဖြစ်ပြီးလျှင် နှဲသံကိုမူ ကြားရမည် မဟုတ်ချေ။ ထို့ကြောင့် ပတ်မကြီး၏အသံနှင့် နှဲသံများကို မှန်မှန်ကြားနိုင်စေရန် ပတ်မကြီးနှင့်နှဲတို့ကို မိုက္ကရိုဖုန်းနှင့် သင့်တော်မည့်နေရာများသို့ ရွှေ့ပေးရပေလိမ့်မည်။

ထိုသို့ တီးမှုတ်သည့်ကရိယာ တန်ဆာပလာများ၊ သို့မဟုတ် သီဆိုကြသူများ၏ အသံများကို မျှမျှတတ ကြားနိုင်စေရန် ကရိယာ တန်ဆာပလာများကိုဖြစ်စေ၊ သီဆိုသူများကိုဖြစ်စေ မိုက္ကရိုဖုန်းနှင့် အဆင်ပြေအောင် ရွှေ့ထားခြင်း၊ သို့မဟုတ် နေစေခြင်းကို မိုက္ကရိုဖုန်းနှင့် မျှတအောင် ဖြစ်စေခြင်းဟု ခေါ်သည်။ ထိုသို့ တီးမှုတ်သည့် ကရိယာ တန်ဆာပလာများနှင့် သီဆိုသူများ၏ နေရာများသည် မိုက္ကရိုဖုန်းထားသည့်နေရာနှင့် မျှမျှတတ ရှိမှသာလျှင် အသံကို မျှမျှတတ ကောင်းမွန်စွာ ကြားနိုင်ပေလိမ့်မည်။

အသံလွှင့်ရာတွင် စတူဒီယိုသည်လည်း လွန်စွာအရေးကြီးလေသည်။ ရှေးအခါက စတူဒီယိုအဖြစ် သာမန်အခန်းတခန်းကို အသုံးပြုခဲ့ကြရာ ရေဒီယိုနားထောင်သူများသည် မနှစ်မြို့ဖွယ်သော အသံအမျိုးမျိုးကို ရော၍ ကြားကြရလေသည်။ ထို့ကြောင့် စတူဒီယိုကို တမျိုးတဖုံ ပြုပြင်ပေးကြရလေသည်။ စတူဒီယို၏ အတွင်းပတ်ပတ်လည်ရှိ နံရံများကို ပဲ့တင်သံမရိုက်ခတ်နိုင်စေရန် အဝတ်အထည်ထူထူကိုဖြစ်စေ၊ ဝါဂွမ်းထူထူကိုဖြစ်စေ ကပ်ထားရလေသည်။ အုတ်နံရံသာဖြစ်လျှင် ပဲ့တင်သံရိုက်ခတ်မည် ဖြစ်သဖြင့် သီ



အသံလွှင့်ရာတွင် စတူဒီယိုသည် အရေးကြီးသည်။ စကားပြောသူနှင့် မိုက္ကရိုဖုန်းကို အဆင်ပြေအောင်ထားရသည်။

ချင်းသံနှင့် တီးမှုတ်သံများသည် ပြတ်ပြတ်သားသား ဖြစ်ပေါ်လာနိုင်ကြမည် မဟုတ်ပဲ ပွဲတင်ရိုက်ခတ်သံများ ပါဝင်ရောနှော၍ နေမည်ဖြစ်သဖြင့် နားထောင်၍ ကောင်းမည်မဟုတ်ချေ။ ပြင်ပမှ မော်တော်ကားသံ၊ မီးရထားသံစသည့် မည်ကဲ့သို့သော အသံဖလံမျိုးမှ စတူဒီယိုအတွင်းသို့ မဝင်နိုင်စေရန်လည်း ဖန်တီးထားရလေသည်။

ကောင်းမွန်သည့် စတူဒီယိုများတွင် ပြတင်းပေါက်များကိုဖြစ်စေ၊ တံခါးများကိုဖြစ်စေ ထားလေ့မရှိကြချေ။ ထိုသို့ ပြတင်းပေါက်များနှင့် တံခါးများမရှိသည်တိုင်အောင် စတူဒီယိုအတွင်းသို့ အပြင်မှဝင်နိုင်မည့် အပေါက်များကား အမှန်ပင်ရှိရပေမည်။ သို့မှသာ သီဆိုမည့်၊ သို့မဟုတ် တီးမှုတ်မည့်သူများ စတူဒီယိုအတွင်းသို့ ဝင်နိုင်ထွက်နိုင်ကြပေလိမ့်မည်။ ထို့ကြောင့် စတူဒီယိုကောင်းများတွင် တံခါးများကို နှစ်ထပ်ထားလေ့ရှိကြသည်။ တံခါးနှစ်ထပ်ရှိသဖြင့် တထပ်ကို ဖွင့်ထားသည့်တိုင်အောင် ကျန်တံခါးတထပ်ကို အလုံပိတ်ထားနိုင်လေသည်။ ထိုသို့ တံခါးတထပ်ကို အလုံပိတ်ထားသဖြင့် သီချင်းသံနှင့် တီးမှုတ်သံတို့မှလွဲ၍ အခြားမည်သည့်အသံမျိုးကိုမျှ အသံလွှင့်ရာတွင် ပါဝင်စေလိမ့်မည်မဟုတ်ချေ။

ထိုသို့ ကောင်းမွန်သော စတူဒီယိုတခုရှိခြင်းဖြင့် အသံလွှင့်ခြင်းသည် မလုံလောက်သေးချေ။ အသိခက်သော အသံထိန်းခန်းခေါ် အခန်းတခန်းလည်း ရှိရန်လိုသေးသည်။ ထိုအခန်းတွင်းရှိ လိုအပ်သော ခလုတ်များကို လှည့်ပေးခြင်းဖြင့် အသံများကို မျှတ၍ ပါအောင် ပြုပြင်ပေးနိုင်လေသည်။ ထိုအသံထိန်းခန်းအတွင်းတွင် အသံကို ထုတ်လုပ်ပေးသူနှင့် အသံအင်ဂျင်နီယာတယောက် ရှိလေ့ရှိသည်။ အသံထုတ်လုပ်သူသည် အသံလွှင့်သည့်အချိန်မှစ၍ အသံလွှင့်ခြင်း ပြီးဆုံးသည်အထိ ဆိုင်ရာဆိုင်ရာ ပညာသည်များကို နေထားတကျ ပါဝင်အမှုထမ်းရန် တာဝန်ယူရသည်။ အသံအင်ဂျင်နီယာက အသံမျှမျှတတ ပါဝင်အောင် တာဝန်ယူ၍ ဆောင်ရွက်ပေးရသည်။ အဆိုပါ အသံထိန်းအခန်းအတွင်း၌ ဝိုင်ယာကြိုးကလေးများ ရှုပ်ရှက်ခတ် တည်ရှိနေကြသည်။ ထိုဝိုင်ယာကြိုးများ၏အစွန်းတွင် ခလုတ်များ တပ်ဆင်ထားရာ ထိုခလုတ်များကို လိုသလို လှည့်ပေးခြင်းဖြင့် အသံများကို မျှတအောင် ရောပေးနိုင်လေသည်။

ထိုအသံထိန်းအခန်း၏အရွယ်သည်စတူဒီယို၏အရွယ်နှင့်စာက အရေးမကြီးလှချေ။ အချို့အသံထိန်းခန်းများသည် လူခြောက်ယောက်မျှ ထိုင်နိုင်လောက်အောင် ကျယ်ဝန်းလေသည်။ အသံအင်ဂျင်နီယာ၏ လက်နှစ်ဖက်လုံးသည် ခလုတ်များပေါ်တွင် ရှိနေပြီးလျှင် အသံမျှမျှတတ ဖြစ်ပေါ်လာစေရန် ခလုတ်များကို ညှိပေးလျက် ရှိလေသည်။

အသံမှုမှုတတ ဖြစ်ပေါ်၊ မဖြစ်ပေါ်ဆိုသည်ကို လောက်စပီကာဖြင့် သိနိုင်လေသည်။ ထိုလောက်စပီကာက စတူဒီယို အတွင်း၌ ဖြစ်ပျက်နေသမျှသော အသံဟူသရွေ့ကို ဖြစ်ပေါ်စေသည်။ အသံထုတ်လုပ်ပေးသူနှင့် အသံအင်ဂျင်နီယာတို့သည် မှန်ချပ်ကြီးမှတဆင့် စတူဒီယိုအတွင်းရှိ ပညာသည်များကို မြင်နိုင်လေသည်။ မှန်ချပ်ကြီးကိုမူ အသံလုံစေရန်အတွက် နှစ်ထပ်၊ သို့မဟုတ် သုံးထပ်ပင် ပြုလုပ်ထားလေ့ရှိကြသည်။ လောက်စပီကာမှ ထိုပုဂ္ဂိုလ်နှစ်ဦး ကြားရသမျှသည် စတူဒီယိုအတွင်းရှိ မိုက္ကရိုဖုန်းမှတဆင့် ရောက်ရှိလာသောအသံများဖြစ်သဖြင့် ရေဒီယိုပရိသတ်ကြားရမည့် အသံများပင် ဖြစ်လေသည်။

အသံအင်ဂျင်နီယာနှင့် အသံထုတ်လုပ်သူ နှစ်ဦးလုံးကပင် အတီးဖက်က များလွန်းနေသည်၊ သို့မဟုတ် အဆိုဖက်က များလွန်းနေသည် ဆိုသည်ကို ကောင်းစွာ သိနိုင်ကြပေသည်။ တခါတရံတွင် အတီးအမှုတ်ဖက်နှင့် သီဆိုသူဖက် နှစ်ဖက်စလုံး မျှတနေသည်ကိုလည်း တွေ့ရတတ်သည်။ ထိုသို့သောအခါမျိုးတွင် ပြုပြင်ပြောင်းလဲမှုများကို ပြုလုပ်စေခြင်းဖြင့် မျှတသောအသံကို ဖြစ်စေနိုင်သည်။ ထိုသို့ ပြုပြင်ပေးရာတွင် တခါတရံ၌ မိုက္ကရိုဖုန်းကို အနည်းငယ် လိုသည့်ဖက်သို့ လှည့်၍ပေးစေခြင်း၊ တခါတရံတွင် တီးမှုတ်သူများ၊ သို့မဟုတ် တီးမှုတ်သူများအနက် တဦးဦးကို ပြုပြင် တီးမှုတ်စေခြင်းဖြင့် ပြုပြင်ပေးနိုင်သည်။ ထိုသို့ပြုပြင်ရန် လိုသောအခါများတွင် အသံထိန်းအခန်းနှင့် စတူဒီယိုအခန်းများကို လေလုံသည့်မှန်ချပ်ကြီးများဖြင့် ခွဲခြားထားသဖြင့် ကိုယ်လက်၏ အမူအရာဖြင့်ပင် ပြုပြင်ပြောင်းလဲပေးစေနိုင်လေသည်။

**အအေးဓာတ်ပေးခြင်း။** ။အအေးဓာတ် ပေးသည့်အတတ်မှ လူတို့ရရှိသည့် အကြီးမားဆုံးသော အကျိုးကျေးဇူးသည်ကား အစားအစာများကို အေးအောင်ပြုလုပ်ထားနိုင်ခြင်းနှင့် ထိုသို့ ပြုလုပ်နိုင်ခြင်းကြောင့် အစားအစာများကို မပုပ်မသိုးအောင်ဖန်တီးထားနိုင်ခြင်းပင် ဖြစ်လေသည်။ အအေးဓာတ်ပေးခြင်းသည် အစားအစာများ ထားရှိသည့် လုံခြုံသောနေရာရှိ လေကို ပတ်ဝန်းကျင်ထက် ပို၍ အေးအောင် ဖန်တီးထားခြင်း ဖြစ်လေသည်။

ထိုသို့ အအေးဓာတ်ပေးနိုင်သဖြင့် အစားအစာများ မသိုးမပုပ်၍ လူတို့သည် အစာအမျိုးမျိုးကို တနှစ်ပတ်လုံး စားသောက်နိုင်ကြလေသည်။ ၁၈၇၀ ပြည့်နှစ် မတိုင်မီက လူများသည် အအေးဓာတ်ပေးသည့်အတတ်ကို မတတ်ကြသေးချေ။ ကန်များ၊ အိုင်များ၊ သို့မဟုတ် မြစ်များအတွင်း၌ ဆောင်းရာသီအခါ ခဲနေသည့် ရေခဲများကို ခွဲဖြတ်ကြပြီးလျှင် ထိုရေခဲတုံးများဖြင့် အစားအစာများကို အအေးဓာတ် ပေးခဲ့ကြသည်။ ထိုပြင် နွေရာသီ၌ အသုံးပြုနိုင်ရန် ရေခဲများကို ရတတ်ရက် အရည်ပျော်မသွားစေရန် လွှစာမှုန့်၊ ဖွဲ စသည့်ပစ္စည်းများနှင့် ဖုံးအုပ်ပြီးလျှင် ထားလေ့ရှိကြသည်။ ကမ္ဘာ့အပူပိုင်းဒေသများသို့ ရေခဲများကို လှေ၊ သင်္ဘော၊ မီးရထား၊ မော်တော်ကား စသည်တို့ဖြင့် ပို့ပေးကြရလေသည်။ ခရီးဝေးကွာသော နေရာများသို့ ပို့ပေးကြရသောအခါတွင် စရိတ်များလွန်းသဖြင့် ရေခဲကို လူတိုင်း မသုံးနိုင်ခဲ့ကြချေ။ ရှေးခေတ်နှင့် အလယ်ပိုင်းခေတ်များအတွင်းက ရေခဲများကို တောင်ထိပ်များမှ ခြေမြန်တော်များ၊ သို့မဟုတ် မြင်းများဖြင့် သယ်ဆောင်စေကာ ကြေးရတတ်များကသာ သုံးဆောင်နိုင်ခဲ့ကြလေသည်။

ရေခဲသည် အစဉ်သဖြင့် ဖာရင်ဟိုက် ၃၂ ဒီဂရီ အပူချိန်တွင် အရည်ပျော်သဖြင့် ယင်းသည် အအေးဓာတ်ပေးရာ၌ အသုံးဝင်လေသည်။ ရေခဲသည် အပူကို လွန်စွာ စုတ်ယူနိုင်စွမ်းရှိလေသည်။ ရေခဲတပေါင် အရည်ပျော်တိုင်း အပူကယ်လိုရီ (အပူကေမူ)ပေါင်း ၃၆,၂၀၀ ကို စုတ်ယူနိုင်လေသည်။ ထိုအချက်ကြောင့် အစားအစာများကို မပုပ်မသိုးအောင် ဖန်တီးကြရာတွင် ရေခဲကို အသုံးပြုကြခြင်း ဖြစ်သည်။ အအေးဓာတ်ပေးသည့် ကရိယာတွင် အအေးဓာတ်ကို ကာကွယ်ထားသည့်နေရာတခု၊ သို့မဟုတ် သေတ္တာတခု ရှိသည်။ ထိုသေတ္တာတွင် ပျက်စီးလွယ်သော အစားအစာများကို ထည့်ထားရသည်။ ရေခဲက သေတ္တာနှင့် သေတ္တာတွင်းရှိ ပစ္စည်းများကို အစားအစာများအား ပျက်စီးစေသည့် ဗက်တီးရီးယားများ ဖြစ်ပေါ်မှုကို တားဆီးနိုင်လောက်အောင် အေးစေသည်။ ရေခဲသည် သေတ္တာတွင်းရှိ တနေရာတွင် ရှိသည်။ ရေခဲ အရည်ပျော်သော အခါတွင် အပူကို စုတ်ယူ၏။ ထိုနည်းဖြင့် ရေခဲက အပူချိန်ကို အေးနေစေသည်။ အအေးကို ကာကွယ်ထားသည့် နံရံများမှတဆင့် အပူသည် အအေးဓာတ်ပေးထားရာသို့ စိမ့်ဝင်သွားနိုင်သည်။ ထိုပြင် အပူသည် ကရိယာ၏တံခါးကို ဖွင့်လိုက်တိုင်းတွင်လည်း လေ၊ သို့မဟုတ် အစာနှင့် အတူ ပါဝင်သွားလေ့ရှိသည်။

ရေခဲမှုံလုပ်ရာတွင်လည်း ရေခဲကိုပင် အသုံးပြုလေ့ရှိကြသည်။ ရေခဲမှုံ ဖြစ်စေမည့် ပစ္စည်းများကို ရောစပ်ပြီးလျှင် သံဖြူခွက်ရှည်ရှည်တခုတွင် ထည့်ထားရသည်။ ထိုခွက်၏ ပတ်ဝန်းကျင်တွင် ရေခဲတုံးများကို ကြေအောင်ချေပြီးလျှင် သိပ်၍ထည့်ပေးရသည်။ ထိုရေခဲကြေများနှင့်ရော၍ ရိုးရိုး အိမ်သုံးဆားကို ထည့်ပေးရသည်။ ထိုသို့ ဆားနှင့်ရောထားသည့် ရေခဲသည် ဖာရင်ဟိုက် သုညဒီဂရီတွင် အရည်ပျော်နိုင်လေသည်။ ထိုသို့ အရည်ပျော်ရာတွင်ရှိသော အပူချိန်သည် ရေခဲမုံလုပ်ရန် ရောထားသည့် အရောထဲမှ အပူကို ထုတ်ပယ်ကာ ရေခဲမုံအစိုင်အခဲ ဖြစ်သွားစေလေသည်။



ပျက်စီးလွယ်သောအစားအစာများကို မပုပ်မသိုးရလေအောင် ရေခဲသေတ္တာတွင်း ထည့်ထားရသည်။

အအေးခံတတ်ပေးရာတွင် ရေခဲကိုသာ အသုံးပြုကြသည် မဟုတ်သေး၊ ကာဗွန်ဒိုင်အောက်ဆိုက် ခတ်ငွေ့ကို အခဲဖြစ်အောင် ဖန်တီးထားသည့် ရေခဲခြောက်ခေါ် ပစ္စည်းကိုလည်း အသုံးပြုလေ့ ရှိကြသေးသည်။ သာမန် လေထုဖိအားရှိချိန်၌ ကာဗွန်ဒိုင်အောက်ဆိုက်သည် အခဲ၊ သို့မဟုတ် ခတ်ငွေ့အဖြစ်နှင့်သာ တည်ရှိနိုင်သည်။ ရေခဲခြောက်သည် အပူချိန်ဖာရင်ဟိုက် ၁၁၀ ဒီဂရီတွင် အခဲအဖြစ်မှ ခတ်ငွေ့အဖြစ်သို့ တိုက်ရိုက်ပြောင်းလဲသွားသည်။ ထိုသို့ပြောင်းလဲသွားသောအခါ အရည်အဖြစ်နှင့် မည်သည်မျှ မကျန်ခဲ့ပေ။ ထို့မှတပါး ရေခဲခြောက်မှ ရရှိနိုင်သော အလွန်နိမ့်သည့် အပူချိန်သည် ရေခဲမုန့်နှင့် အလားတူ ပစ္စည်းများကို သယ်ယူပို့ဆောင်ရေးအတွက် များစွာအသုံးကျပေသည်။ ကျွန်ုပ်တို့ ရှူရှိုက်နေကြသော လေတွင် ကာဗွန်ဒိုင်အောက်ဆိုက် ခတ်ငွေ့သည်လည်းပါရှိသဖြင့် ထိုခတ်ငွေ့၌ အဆိပ်ခတ်မရှိကြောင်းမှာ ထင်ရှားလေသည်။ သို့သော် ထိုရေခဲခြောက်များကို ကိုင်တွယ်ရာတွင် လက်အိတ်များကို အသုံးပြုကြရလေသည်။ သို့မဟုတ်လျှင် လက်များပေါက်ပြဲကုန်ပေလိမ့်မည်။ ထိုရေခဲခြောက်ကို မစားနိုင်ချေ။ အာကာယ၍ ရေခဲခြောက်ကို မျိုမိလျှင် လွန်စွာနာကျင်ပေလိမ့်မည်။ များသောအားဖြင့် သေတတ်လေသည်။

အရည်တခု ဆူပွက်ခြင်းသည် ထိုအရည်ပေါ်ရှိ ဖိအားပေါ်တွင် အခြေတည်လေသည်။ သာဓကအဖြစ် ဖော်ပြရသော် သာမန်သေဆုအားဖြစ်သော စတုရန်းတလက်မပေါ်၌ ဖိအားပေါင်ချိန် ၁၄.၇ ရှိချိန်တွင် ရေသည် ဖာရင်ဟိုက် ၂၁၂ ဒီဂရီ၌ ဆူပွက်လေသည်။ ရေပေါ်ရှိ ဖိအားကိုသာ လေထုတ်ပြွန်တခုဖြင့် စတုရန်းတလက်မပေါ်တွင် ပေါင်ချိန် ၀.၁၂၂ အထိ လျှော့ချ ပေးနိုင်ခဲ့လျှင် ထိုရေသည် ဖာရင်ဟိုက် ၄၀ ဒီဂရီ၌ ဆူပွက်လာပေလိမ့်မည်။ ထို့ကြောင့် ပစ္စည်းတခုခုကို ဖာရင်ဟိုက် ၄၀ ဒီဂရီထက် အေးအောင် ပြုလုပ်ပေးရန်မလိုလျှင် ရေကို အအေးခံတတ် ပေးသည့် ပစ္စည်းအဖြစ်နှင့် အသုံးပြုနိုင်လေသည်။

အအေးခံတတ်ပေးသော ကရိယာများအတွင်းရှိ ကွန်ပရက်ဆာများက ဖိအားကိုသာ ထိန်းသိမ်းထားနိုင်လျှင် သင့်တော်သည့် အပူချိန်နည်းနည်း၌ ဆူပွက်သည့် အရည်များကို အအေးခံတတ်ပေးသည့် ပစ္စည်းများအဖြစ်နှင့် အသုံးပြုနိုင်ပေသည်။ အမ်မိုနီယာသည် လူသုံးများသည့် အအေးခံတတ်ပေးသော ပစ္စည်းတမျိုးဖြစ်သော်လည်း ယခုအခါတွင် ထိုပစ္စည်းထက်ပို၍ နှစ်သက်ဖွယ် ကောင်းပြီးလျှင် အဆိပ်ခတ်လည်း ပို၍နည်းပါးသော အအေးခံတတ်ပေးသည့် ပစ္စည်းများကို ပိုမို၍ သုံးစွဲလာကြလေသည်။ ထိုကဲ့သို့သောပစ္စည်းမျိုးများအနက် ဖရီယွန် ၁၂ သည် တမျိုးဖြစ်၏။ ထိုဖရီယွန် ၁၂ ၏ ဓာတုဗေဒအမည်မှာ ဒိုင်ကလိုရိုဒိုင်ဖလူအိုရို မက်သိန်းဖြစ်သည်။ လေထဲ၌ ထိုပစ္စည်း ၂၀ ရာခိုင်နှုန်း ပါရှိနေစေကာမူ အဆိပ်မဖြစ်ချေ။ အခြားအသုံးများကြသော အအေးခံတတ်ပေး ပစ္စည်းများတွင် ဆာလဖာဒိုင်အောက်ဆိုက်နှင့် ဖရီယွန်၁၁၄ ခေါ် ဒိုင်ကလိုရိုတက်ထရာ ဖလူအိုရို အက်သိန်း ခတ်ပစ္စည်းတို့လည်း ပါဝင်သည်။

ပစ္စည်းတခုခုသည် ရုပ်အခြေအနေ ပြောင်းလဲသောအခါတွင် အပူကိုစုတ်ယူခြင်းသော်၎င်း၊ ထုတ်လွှတ်ခြင်းသော်၎င်း ပြုလုပ်သည်။ ပုံပမာ– အရည်အဖြစ်မှ ခတ်ငွေ့အဖြစ်သို့ ပြောင်းလဲသွားခြင်းနှင့် ခတ်ငွေ့အဖြစ်မှ အရည်အဖြစ်သို့ ပြန်လည်ပြောင်းလဲသည့်အခါမျိုး၌ ဖြစ်သည်။ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ရေခဲမှရေအဖြစ်သို့ ပြောင်းလဲသွားသောအခါ အပူကို စုတ်ယူသွား၍၊ ရေအဖြစ်မှ ရေနွေးငွေ့အဖြစ်သို့ ပြောင်းလဲရာတွင်လည်း အပူကို စုတ်ယူသွားလေသည်။ ထိုသို့ ရုပ်အခြေအနေ ပြောင်းလဲခြင်းသည် ထိုပစ္စည်းပေါ်ရှိ လေထုဖိအားပေါ်တွင်လည်း အခြေတည်လေသည်။ အရည်တခုသည် ခတ်ငွေ့အဖြစ်သို့ ပြောင်းလဲသော အပူချိန်သည် ထိုအရည်ပေါ်ရှိ လေထုဖိ



အအေးဓာတ်ပေးနိုင်သဖြင့် အစားအစာများမပုပ်မသိုး၍ လူတို့သည် ကြာရှည်စွာစားသောက်နိုင်ကြသည်။

အားကို မြင့်ပေးသောအခါ မြင့်လာသည်။ လေထုဖိအားကို နိမ့်လိုက်သောအခါ အပူချိန်သည် နိမ့်သွားသည်။

ဖိအားကိုသာ နိမ့်ထားနိုင်လျှင် အရည်၏အပူချိန်သည် နိမ့်နေ၍ ထိုအခါ အရည်၏ပတ်ဝန်းကျင်ရှိ နေရာသည်လည်း အအေးဓာတ်ပေးပြီးသား ဖြစ်သွားလေသည်။

ယိုစိမ့်မှုသာ မဖြစ်ပွားလျှင် ထိုအအေးဓာတ်ပေးသည့် ပစ္စည်းကို နှစ်ပေါင်းအတော်ကြာသည်အထိ ဆက်၍ သုံးစွဲနိုင်ပေသည်။

ဖိအားနည်းနည်းသာ ရှိသော အခိုးအငွေ့ကို ဖိအားများသော အခိုးအငွေ့အဖြစ်သို့ ကွန်ပရက်ဆာက ပြောင်းလဲပေးနိုင်သည်။ ထိုသို့ ဖြစ်နိုင်ရန် ကွန်ပရက်ဆာကို မိုတာ တခုခုကဖြစ်စေ၊ အင်ဂျင်(စက်) တခုခုကဖြစ်စေ ခုတ်မောင်းပေးရသည်။ များသောအားဖြင့် ပြုလုပ်လေ့ရှိသည်မှာ လျှပ်စစ်အားဖြင့်လည်စေ၍ မိုတာမှတဆင့် အအေးဓာတ်ကို ထုတ်လုပ်ယူလေသည်။

အစားအစာများကို အချိန်အနည်းငယ်မျှသာ ကြာအောင် ထားလိုလျှင် ဖာရင်ဟိုက် ၄၅ ဒီဂရီထက် မပိုသော အပူချိန်သည် လုံလောက်သည်ဟု ယူဆကြသည်။ သို့သော် နွားနို့နှင့် မချက်ရသေးသောအသား (အသားစိမ်း)များကို ထိုအပူချိန်နှင့်ထားလျှင် ယင်းတို့သည် တရက်နှစ်ရက်ထက် ပို၍ခံမည်မဟုတ်ချေ။ ထို့ကြောင့် အစားအစာများကို များသောအားဖြင့် အချိန်အကန့်အသတ်နှင့် ရေခဲဖြင့် အအေးဓာတ်ပေးခြင်းကို ပြုလုပ်လေ့ရှိကြသည်။ ထိုသို့ ပြုလုပ်ရန် အအေးဓာတ်ပေးစက်အဖို့ မခဲယဉ်းချေ။ ထိုစက်ဖြင့် လိုသည့်အခန်းများကိုသာ လိုသလို အအေးဓာတ်ကို ပေးသွားနိုင်လေသည်။

လျှပ်စစ်ဓာတ်ဖြင့် အအေးဓာတ်ပေးသော စက်မျိုးရှိသည်။ ထိုစက်တွင် အငွေ့ပျံစေသည့် ကရိယာအတွင်းရှိ ဖိအားကို ကွန်ပရက်ဆာဖြင့် လျှော့ချလိုက်သောအခါ အအေးဓာတ်ကိုဖြစ်စေသည့် ပစ္စည်း၏ အပူချိန်သည် လျှော့ကျသွားလေသည်။ အစားအစာထားသော အခန်းတွင်းရှိ အပူပိုသည် အငွေ့ပျံသည့်ပစ္စည်း ထားရှိရာအခန်း၏ နံရံများမှ စီးသွားသည်။ ထိုအခါတွင် အတွင်းရှိအအေးဓာတ်ကို ဖြစ်စေသော အရည်သည် အငွေ့သော်လည်း ပျံသွားသည်။ သို့မဟုတ် အငွေ့အဖြစ်သို့ ဆူပွက်သွားလေသည်။ ထိုအငွေ့တွင် အပူချိန်နိမ့်နိမ့်နှင့်ပင်လျှင် အအေးဓာတ်ပေးသည့် စက်အတွင်းရှိ အပူပိုများများကို စုတ်ယူပြီးဖြစ်လျက်ရှိသည်။

ထိုအပူပို ပါရှိပြီး အငွေ့ကို အငွေ့ပျံစေသည့် ကရိယာမှ ကွန်ဒင်ဆာသို့ ဆက်သွယ်ထားသည့် ပြွန်ငယ်များဖြင့် ဆွဲယူသည်။ ကွန်ဒင်ဆာကို အစာထားရှိသော အခန်း၏ အပြင်ဖက်တွင် ထားရှိသည်။ ထိုကွန်ဒင်ဆာ အတွင်း၌

အငွေ့သည် အရည်အဖြစ်သို့ တဖန်ပြန်၍ ပြောင်းလဲသွားလေသည်။

ကွန်ပရက်ဆာ၏တဖက်ရှိ အငွေ့ကို စုတ်ယူသော ပြွန်ငယ်ဖြင့် လိုအပ်သည့်အငွေ့များကို စုတ်ယူခြင်းဖြင့် အငွေ့ပျံစေသော ကရိယာအတွင်းရှိ ဖိအားကို လျော့သွားစေသည်။ ထိုအငွေ့ကို ဖိသိပ်ပြီးလျှင် အရည်ဖြစ်စေသည့် ပြွန်ခွေအတွင်းသို့ သွင်းပေးသည်။ ထိုသို့ သွင်းပေးလိုက်သဖြင့် ဖိအားက အရည်ဖြစ်စေသည့် အပူချိန်ကို မြှင့်တင်ပေးလိုက်သည်။ အငွေ့အတွင်းရှိ အပူပိုသည် ကွန်ဒင်ဆာ၏ နံရံများမှတဆင့် အခန်းတွင်းရှိ ပို၍အေးသော လေထဲသို့ ရောက်ရှိသွားလေသည်။ ပျံနှံ့သွားသော အရည်သည် ကွန်ဒင်ဆာ၏ အောက်ဖက်ရှိ ရေကန်အတွင်းသို့ စီးဝင်သွားလေသည်။ ထိုအရည်ကို လိုသောအခါ တဖန်ပြန်၍ အသုံးပြုနိုင်လေသည်။

အိမ်တွင် အသုံးပြုလေ့ရှိသော အအေးခတ်ပေးစက်တွင်မူ ခတ်ငွေ့ကို အရည်ဖြစ်သည်အထိ ချုံ့ထားပြီးလျှင် ထိုအရည်ကို အစားအစာထားသည့် အခန်း၏ အောက်ဖက်တွင် ပြွန်ခွေအတွင်း၌ ရှိနေစေသည်။ ထိုအရည်ဖြစ်နေသော ခတ်ငွေ့ကို အစာထားသည့် နေရာဆီသို့ လိုအပ်သမျှသာ ရောက်ရှိစေရန် အဆို့ရှင်ဖြင့် ဖန်တီးပေးသည်။ အရည်အဖြစ်မှ ခတ်ငွေ့အဖြစ်သို့ ပျံထွက်သောအခါ ပြွန်ခွေများသည် ပတ်ဝန်းကျင်ရှိ လေမှအပူများကို စုတ်ယူခြင်းဖြင့် လွန်စွာအေးလာလေသည်။ ထိုနောက်မှ ခတ်ငွေ့ကို စုတ်ယူသည့် ပြွန်မှတဆင့် ကွန်ပရက်ဆာအတွင်းသို့ စုတ်ယူပြီးလျှင် အရည်ပြန်၍ဖြစ်စေကာ အေး၍ နေစေသည်။ ပြီးလျှင် ပြွန်ခွေတွင် နောက်တဖန် အသုံးပြုရန်အတွက် သိုလှောင်ထားသည်။ လျှပ်စစ်ခတ်ကို အသုံးမပြုသော အအေးခတ်ပေးစက်မျိုးတွင် ပါရှိသော သဘောမှာ အထက်ဖော်ပြပါ စက်မျိုးနှင့် အတူတူပင် ဖြစ်သော်လည်း အအေးခတ် လည်ပတ်စေခြင်းကို လျှပ်စစ်ခတ်ဖြင့် ခုတ်မောင်းသော အရည်စုတ်စက်ဖြင့် မပြုလုပ်ပဲ ခတ်ငွေ့မီးတောက်ကလေးဖြင့်သာ သယ်ဆောင်ခြင်းနှင့် ပျံ့ကားခြင်းတို့ကို ဖြစ်စေလေသည်။

အပူပိုင်းနှင့် သမပိုင်းဇုန်ရှိ ပြဇာတ်ရုံ၊ ရုပ်ရှင်ရုံ စသည့် လူအများ သွားရောက်လေ့ရှိကြသော အဆောက်အအုံများတွင် နွေရာသီ၌ အတွင်းဖက်တွင် အေးနေစေရန် ပန်ကာခေါ် လေရဟတ်ကို အသုံးမပြုကြပဲ အအေးခတ်ပေးစက်များကို အသုံးပြုလေ့ ရှိကြသည်။

မြန်မာနိုင်ငံတွင် ရန်ကုန်မြို့ရှိ အချို့သောရုပ်ရှင်ရုံ၊ စက်ရုံ၊ နေအိမ်များနှင့်တကွ မင်္ဂလာဒုံလေဆိပ် အဆောက်အအုံကြီးတို့တွင်လည်းထိုကဲ့သို့စက်မျိုး တပ်ဆင်ထားသည်ကို တွေ့ရလေသည်။

**အာကာသစူးစမ်းရှာဖွေခြင်း။** ။ အာ ကာ သ အတွင်း ခရီးသွားလာရေးသည် လူတို့၏ အကြီးဆုံးသော စွန့်စားမှုတရပ် ဖြစ်၍ ထိုသို့ ကမ္ဘာ့အပြင်ဖက်ရှိ အာကာသအတွင်းသို့ သွားရောက် စူးစမ်းနိုင်ခြင်းမှာ ကြီးမားသော တိုးပျံတို့၏ တွန်းကန်အားအ၏ ကျေးဇူးကြောင့်ပင် ဖြစ်လေသည်။ (တိုးပျံ — လည်းရှု။)

အာကာသအတွင်း ခရီးသွားလာရေးကို လူတို့သည် လွန်ခဲ့သော နှစ်ပေါင်း ၃၀၀ ကျော်လောက်ကပင် စတင်၍ လေ့လာ ကြံစည်ခဲ့ကြသည်။ ခရစ် ၁၆၀၁ ခု၊ ၁၆၀၂ ခု နှစ်လောက်က ဂျာမန်လူမျိုး သိပ္ပံပညာရှင် တဦးဖြစ်သူ ယောဟန် ကက်ပလာသည် အာကာသအတွင်း၌ ဂြိုဟ်များ သွားလာနေကြသော လမ်းများကို သတ်မှတ်သည့် စည်းများကို ကြံစည်ရုံမျှမက အာကာသယာဉ်များ ပျံသန်းနိုင်မည့် နည်းလမ်းများကိုပင် ကြံစည်ခဲ့လေသည်။

၁၆၈၇ ခုနှစ်တွင် ဆာ အိုင်ဇပ် နျူတန်က ရွေ့ရှားမှုစည်းများကို ထုတ်ပြန်ခဲ့သည်။ ထိုစည်းများသည် လည်း ကက်ပလာ၏ စည်းများကဲ့သို့ပင် အာကာသအတွင်းသို့ ပျံသန်းသွားလာနိုင်ရေးအတွက် အခြေခံအချက်များ ဖြစ်လာခဲ့လေသည်။ ထင်ရှားစေရန် ပုံစံပြရလျှင် နျူတန်၏ ရွေ့ရှားမှု စည်းများအနက် တတိယ စည်းက "လှုပ်ရှားမှု မှန်သရွေ့တွင် တူညီပြီးလျှင် ဆန့်ကျင်သော တုံ့ပြန်ချက် ရှိသည်" ဟုဆိုထားရာ ထိုစည်းက တုံးပျံတခု အဘယ်ကြောင့် ပျံတက်နိုင်ကြောင်းကို ဖော်ပြလျက် ရှိပေသည်။ (ကက်ပလာ၊ဂျေ။နျူတန်၊အိုင်ဇပ် — ရှု)။

၁၉၀၃ ခုနှစ်တွင် ရုရှ သိပ္ပံပညာရှင် တဦးဖြစ်သော ကွန်စတန်တင်း အီး ဆီယိုကော့ဗစကီး (၁၈၅၇–၁၉၃၅)က အာကာသ ယာဉ်များ ပျံသန်းနိုင်ရေး အတွက် တုံးပျံများ အသုံးပြုနိုင်ပုံကို ဖော်ပြ ထားသော စာချုပ်စာတမ်းကို ထုတ်ဝေခဲ့လေသည်။

အမေရိကန် ပြည်ထောင်စုမှ ရောဗတ် အိပ်၊ဂေါ့ဒပ်နှင့် ဂျာမနီနိုင်ငံမှ ဟာမန်း အိုဗတ်တို့ကလည်း တုံးပျံများနှင့် အာကာသအတွင်း သွားလာနိုင်ရေးများဆတွက် သီးခြားစီ ကြိုးပမ်းခဲ့ကြလေသည်။

၁၉၁၉ ခုနှစ်တွင် ဂေါ့ဒပ်က တုံးပျံအတွင်း၌ အသုံးပြုနိုင်မည့် လောင်စာရည်ကို ပဌမ စတင်၍ တီထွင်နိုင်ခဲ့ပြီးလျှင် လသို့ တုံးပျံလွှတ်နိုင်မည့်အကြောင်းနှင့် အမြင့်သို့ ပျံသန်းသည့် တုံးပျံများအကြောင်း ဆွေးနွေးထားသော အခြေခံစည်းများကို ထုတ်ပြန်ခဲ့လေသည်။

၁၉၅၇ ခုနှစ် အောက်တိုဘာလ ၄ ရက်နေ့သည်ကား "အာကာသ ခေတ်" စတင်သော နေ့ပင် ဖြစ်၍ ထိုနေ့မှ နောက်ပိုင်းတွင် အာကာသအတွင်း စူးစမ်းရှာဖွေရေးသည် တဟုန်ထိုး တိုးတက်ခဲ့လေသည်။ ထိုနေ့တွင်



အာကာသအတွင်း စတင်၍ လွှတ်တင်နိုင်ခဲ့သည့် စပွတ်နစ် ၁ ခေါ် ပဌမအာကာသယာဉ် ဂြိုဟ်တု၏ပုံစံ။

ရုရှသိပ္ပံပညာရှင်များက စပွတ်နစ်–၁ ခေါ် ပဌမ အာကာသယာဉ်ဖြစ်သည့် ဂြိုဟ်တုတလုံးကို စတင်၍ လွှတ်တင်နိုင်ခဲ့ကြလေသည်။ ထိုဂြိုဟ်တုသည် ကမ္ဘာ့မျက်နှာပြင်မှ အထက် မိုင်ပေါင်း ၅၅၈ မိုင်အမြင့်မှနေ၍ ရေဒီယို အချက်ပြခရုက်များဖြင့် သတင်းပေးပို့နိုင်ခဲ့ပေသည်။ ထို့နောက်တွင် ဂြိုဟ်တုအတွင်း၌ သိပ္ပံကရိယာများ အပြင် တိရစ္ဆာန်နှင့် အပင်များကို ထည့်၍ အာကာသအတွင်းသို့ လွှတ်တင်ကြပြန်သည်။ ဂြိုဟ်တုတလုံးအတွင်း၌ လိုက်ကာအမည်ရှိ ခွေးတကောင်နှင့် အပင်များကို ထည့်၍ အာကာသအတွင်းသို့လွှတ်ကြည့်ရာတပ်ဆင်ပေးလိုက်သော ကရိယာများက လိုက်ကာ၏ သွေးတိုးမှု၊ အသက်ရှူမှုနှင့် သွေးဖိအားများကို တိုင်းတာ၍ ရေဒီယိုဖြင့် သတင်းပို့ပေးခဲ့ကြလေသည်။

အမေရိကန်သိပ္ပံပညာရှင်များကလည်း ကြွက်ဝမ်းဖြူများ၏ ခန္ဓာကိုယ် ပြုမူဆောင်ရွက်ချက် များကို သိရှိနားလည်ထားပြီး ဖြစ်ကြသည့်အလျောက် ကြွက်ဝမ်းဖြူတကောင်ကို သေချာကျနစွာ ချိန်တွယ်ပြီးလျှင် ဂြိုဟ်တုအတွင်း၌ ထည့်၍ လွှတ်တင်ခဲ့ကြသည်။

စပွတ်နစ် ၁ ကို လွှတ်ကြည့်ပြီး၍ လေးနှစ်မျှမကြာမီပင် လူတို့၏ စူးစမ်းရှာဖွေမှုသမိုင်း၌ အကြီးဆုံးသော အောင်မြင်မှု မှတ်တိုင်တခုကို စိုက်ထူနိုင်ခဲ့ပေသည်။ ထိုအောင်မြင်မှုကား အာကာသအတွင်းသို့လူသားတယောက်က ပဌမအကြိမ် ခရီးသွားနိုင်ခဲ့ခြင်း ပင်တည်း။ ၁၉၆၁ ခုနှစ် ဧပြီလ ၁၂ ရက်နေ့တွင် ရုရှလေတပ်ဗိုလ်ကလေးတဦးဖြစ်သူ ယူရီ အလက်စီယီဗစ် ဂါဂါရင်သည် ဂြိုဟ်တု တခုဖြင့် လိုက်ပါကာ ကမ္ဘာကို အမြင့်မိုင်ပေါင်း ၁၁၀ နှင့် ၂၀၃ မိုင် အကြားမှ နေ၍ ၁၀၈ မိနစ်ဖြင့် တပတ် ပတ်ခဲ့လေသည်။ ထိုနောက် တလမျှ မကြာမီ အတွင်း၌ ဒုတိယ အာကာသ သူရဲတယောက်က အာကာသ အတွင်းသို့ ထိုးဖောက် ပျံတက်ခဲ့ပြန်သည်။ ၁၉၆၁ ခု နှစ်မေလ ၅ ရက်နေ့တွင် အမေရိကန်ရေတပ်မှ လေသူရဲဖြစ်သူ အလန် ဗီ၊ ရှက်ပတ် (အငယ်)သည် အာကာသယာဉ်တခု အတွင်းမှနေ၍ ကမ္ဘာ့မျက်နှာပြင်မှ အထက် မိုင်ပေါင်း ၁၁၇ မိုင် အမြင့်သို့ ပျံတက်ခဲ့လေသည်။ ထိုသို့ပျံတက်စဉ် အာကာသယာဉ်၏ အနေအထားကို ပြောင်းလဲ ပေးသည့် ခလုတ်များကို ထိန်းသိမ်းသွားသဖြင့် ရှက်ပတ်သည် အာကာသယာဉ်ဖြင့် ပျံသန်းနေစဉ်အတွင်း ထိုယာဉ်ကို ပဌမဦးစွာ ထိန်းသိမ်းနိုင်သူ ဖြစ်ခဲ့လေသည်။ ထိုနှစ် ဇူလိုင်လ ၂၁ ရက်နေ့တွင် အမေရိကန် လေတပ်မှ ဗာဂျီ ဂရစ်ဆမ်က တဖန် ရှက်ပတ်နည်းတူ ထပ်မံ၍ ပြုလုပ်ခဲ့ပြန်သည်။ ထို

နောက် ထိုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် ရုရှ လေသူရဲတဦးဖြစ်သူ ဂါမန် အက်(စ) တီးတော့သည် တုံးပျံ၏ပို့ဆောင်ချက်ဖြင့် ကမ္ဘာ့ပတ် လမ်းကြောင်း အတွင်းသို့ရောက်ရှိသွားကာ ကမ္ဘာကို ၁၇ ပတ် ပတ်ခဲ့ရာ၊ ၂၅ နာရီကြာခဲ့လေသည်။

၁၉၆၁ ခုနှစ်တွင် အာကာသအတွင်း ခရီးသွားနိုင်ခြင်းကို အောင်မြင်စွာပြုပြီးသည့် နောက်ပိုင်းကာလတွင် အာကာသစူးစမ်းရှာဖွေရေးသည် တဟုန်ထိုးထူးကဲစွာ တိုးတက်အောင်မြင်ခဲ့သည်။ အာကာသ အတွင်း အကြာရှည်ဆုံး နေနိုင်ရုံမျှမက အာကာသယာဉ် အများအပြားပစ်လွှတ်ကာ တစင်းနှင့်တစင်းချိတ်ဆက်မိလျက် တစင်းမှတစင်းသို့ ဆက်သွယ်ကူးသန်း သွားလာမှု ပြုနိုင်ခဲ့သည်။ ထို့ပြင် အာကာသအတွင်းသို့ ထွက်၍လမ်းလျှောက်နိုင်ခဲ့သည့်အပြင် ကမ္ဘာကို အမြဲတမ်း လှည့်ပတ် သွားလာနေမည့် အာကာသစခန်းကိုလည်းစမ်းသပ်အောင်မြင်ခဲ့သည်။ ၁၉၆၉ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့တွင်မူကား လူသားတို့အဖို့ အာကာသစူးစမ်းရှာဖွေရေးတွင် အထူးခြား ဆုံးအောင်မြင်မှုကို ရရှိခဲ့သည်။ ထိုနေ့တွင် လမျက်နှာပြင်ပေါ်သို့ လူသားတို့ အောင်မြင်စွာ ပဌမဆုံး ခြေချနိုင်ခဲ့လေသည်။

အာကာသ အတွင်း ခရီး သွားလာရေးဖြင့် ရရှိမည့်အရေးကြီးသောအကျိုးကျေးဇူးအားလုံးကို မည်သူမျှကြိုတင်၍ မမြင်နိုင်ချေ။ သို့ရာတွင် သိပ္ပံပညာရှင်နှင့် အင်ဂျင်နီယာများတွင်မူဂြိုဟ်တုများကို အသုံးပြုခြင်းအားဖြင့်ကမ္ဘာ့ဆက်သွယ်ရေး မိုးလေဝသခန့်မှန်းရေးနှင့် ကူးသန်း သွားလာရေးများကို ပိုမိုတိုးတက် ကောင်းမွန်စေမည့် အကြံအစည်းများ ရှိပေသည်။ လူအများအဖို့ အာကာသကိုအောင်နိုင်မှုကြောင့် ရရှိမည့် ကြီးစွာသော မိမိတို့ အမျိုးသား ဂုဏ်တက်မှုအတွက် အာကာသအတွင်း ခရီးသွားလာရေးသည် အရေးကြီးသည်။ စစ်ဖက်မှ ပုဂ္ဂိုလ်များအဖို့ဆိုလျှင် အာကာသကိုအောင်နိုင်ခြင်းသည် လက်နက်သစ်များနှင့် ကာကွယ်ရေး စနစ်သစ်များအတွက် နည်းလမ်းသစ်များ ရရှိခြင်းပင် ဖြစ်သည်။ သို့ရာတွင် အရေးအကြီးဆုံးအချက်ကား အာကာသ စူးစမ်းရှာဖွေခြင်းမှ ရရှိမည့် နေစကြဝဠာနှင့် အာကာသအကြောင်းဆိုင်ရာအသိသစ်ပင် ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ အသိသစ်သည် ယခုအခါ ကျွန်ုပ်တို့က မျှော်မှန်းနိုင်လောက်သောအကျိုးကျေးဇူးများကို ပေးစွမ်းကောင်း ပေးစွမ်းနိုင်ပေလိမ့်မည်။



**အာကာသ ပဌမ ခရီးသည် ယူရီ၊ အေ၊ ဂါဂါရင်**

## အာကာသဆိုသည်မှာ

အာကာသ ဆိုသည်မှာ အရပ်မျက်နှာ အဖက်ဖက်သို့ အကန့်အသတ်မရှိကျယ်ပြန့်လျက်ရှိသောဟင်းလင်းပြင်ကြီးကိုခေါ်သည်။ သို့ရာတွင် အာကာသ၏ အဓိပ္ပါယ် ဖော်ပြချက်နှင့်စပ်လျဉ်း၍၎င်း၊ အာကာသဆိုင်ရာ အသုံး အနှုန်းဝေါဟာရများနှင့်စပ်လျဉ်း၍၎င်း သိပ္ပံပညာရှင်များအချင်းချင်းပင် တခါတရံသဘောကွဲလွဲလျက်ရှိပေသည်။

ကမ္ဘာကို လေထု ဖုံးလွှမ်းလျက်ရှိကာ ကမ္ဘာ့ မျက်နှာပြင်မှဝေးလေလေ လေထုသည် ပါးလေလေ ဖြစ်သည်။ ဝတ္ထုပစ္စည်းများ လေထုအတွင်း၌ ဖြတ်သန်း သွားသောအခါ မည်သို့မျှ အဟန့်အတား မရှိသောနေရာမှစ၍ အာကာသစတင်သည်ဟု ယူဆကြသည်။ ၉၉ ရာခိုင်နှုန်း မျှသော လေထုလည်း ကမ္ဘာ့မျက်နှာ ပြင်မှ မိုင် ၂၀ အမြင့်အောက်တွင်သာရှိသည်။ သို့သော် ကမ္ဘာ့ မျက်နှာပြင်အထက် ၇၅ မိုင်မြင့်သောဒေသ၌ပင် လေထု၏ ပွတ်တိုက်မှုကြောင့် ကြယ်များသည် မီးလောင်နိုင်ကြ ပေသေးသည်။ ကမ္ဘာ့မျက်နှာပြင်အထက် မိုင် ၁၀၀ မြင့်သောဒေသ၌ပင်လည်း လေသည် လုံလောက်စွာ ရှိနေသေးသဖြင့် ကမ္ဘာနှင့် ထိုမျှနီးကပ်ရာသို့ရောက်လာသော ဂြိုဟ်တု တခုသည် ယင်း၏လမ်းအတွင်း၌ ကြာရှည်စွာ မနေနိုင်ချေ။ အဘယ်ကြောင့် ဆိုသော် ဂြိုဟ်တုသည် လေ၏ ပွတ်တိုက်မှုကြောင့် အသွားနှေးသွားပြီးလျှင် ပို၍ သိပ်သည်းသော အောက်ဖက်ရှိ လေထုအတွင်းသို့ ကျရောက်ကာ မီးလောင်သွားနိုင်ပေသည်။ မည်သို့ပင်ဖြစ်စေ လက်တွေ့ ကိစ္စများအတွက်ကား အာကာသသည် ကမ္ဘာ့မျက်နှာပြင်မှမိုင်၁၀၀ အထက်မြင့်သောနေရာမှအစပြုသည်ဟု ဆိုနိုင်ပေသည်။

ကမ္ဘာ့အာကာသဟု အချို့က ခေါ်ဝေါ်ကြသော ရပ်ဝန်းသည် ကမ္ဘာ့မျက်နှာပြင်မှစ၍ မိုင်ပေါင်း ၄,၀၀၀ ခန့်အထိကျယ်ပြန့်သည်။ ထိုရပ်ဝန်းအတွင်း၌ ကမ္ဘာ၏သံလိုက်နှင့် လျှပ်စစ်တန်ခိုးအာနိသင်များသည် အကြီးမားဆုံးဖြစ်သည်။ ကမ္ဘာ၏လေထု အပြင်ဖက်တွင်မူ အာကာသသည် ဘာမျှမရှိသော ပလာနယ်နိမိတ်ပါးလောက်ပင် ဖြစ်သည်။ ထိုဘာမျှမရှိသလောက် ဖြစ်နေသောဒေသတွင် ကစဥ့်ကရဲဖြစ်နေကြသည့်ကြယ်ပုံများ၊ ဖြာထွက်မှုရှိသည့် မှုန်မှုန်များနှင့် ပလာစမာ၊ သို့မဟုတ် အိုင်ယွန် ဖြစ်နေသောဓာတ်ငွေ့များ သာရှိကြသည်။ ထိုဓာတ်ငွေ့များသည် များသောအားဖြင့် ဟိုင်ဒရိုဂျင် ဖြစ်ပြီးလျှင်၊ ယင်းသည်နေတွင်ရှိသော ဓာတ်ငွေ့ထု၏အပြင်ဖက် အစိတ်အပိုင်းဖြစ်ကောင်း ဖြစ်မည်ဟု သိပ္ပံပညာရှင်များက ယုံကြည်ကြသည်။

လနှင့် ကမ္ဘာအကြားရှိ အာကာသ အစိတ်အပိုင်းကို တခါတရံ စစ္စ လူနာစပေ့ဟု ခေါ်ကြသည်။ စစ္စ ဆိုသည်မှာ၊ ဤမှာဖက်၊ လူနာဆိုသည်မှာ လ၏ဟု အဓိပ္ပါယ်ရသည်။ ထို့ကြောင့် လ၏ ဤမှာဖက်ရှိအာကာသ၊တနည်းလနှင့်ကမ္ဘာအကြားရှိ အာကာသဟုအဓိပ္ပါယ်ရသည်။ ထိုအစိတ်အပိုင်းအတွင်း၌ လဖက်ကို ချဉ်းကပ်သွားလေလေ ကမ္ဘာ့ဆွဲအားသည် တဖြည်းဖြည်း လျော့ပါးသွားပြီးလျှင် လ၏ဆွဲအားက ပို၍ အားကောင်းလေလေဖြစ်သည်။

လသည် ကမ္ဘာနှင့်အနီးဆုံး နေရာသို့ရောက်သောအခါ မိုင်ပေါင်း ၂၂၀,၀၀၀ ကျော်မျှဝေးသဖြင့် လသို့သွားသော တုံးပျံသည် ထိုခရီးကို သွားရပေလိမ့်မည်။

ကမ္ဘာနှင့် လ နှစ်ခုပေါင်းတို့၏ ဆွဲအားသည် ကမ္ဘာမှ မိုင်ပေါင်း တသန်းခန့် ဝေးကွာသော ဒေသအတွင်း၌သာ သက်ရောက်သည်။ ထို့ကြောင့် ကမ္ဘာ၏ အရံဂြိုဟ် တခုသည် ထိုထက် ဝေးကွာသောနေရာ၌ မတည်ရှိ နိုင်ချေ။ အဘယ်ကြောင့်ဆိုသော် ကမ္ဘာနှင့် လနှစ်ခုပေါင်းတို့၏ ဆွဲအားက ယင်းကို ယင်း၏လမ်းအတွင်း၌တည်ရှိ နေစေရန်ဆွဲထားနိုင်မည်မဟုတ်သောကြောင့် ဖြစ်ပေသည်။ ဂြိုဟ်များပျံ့နှံ့တည်ရှိရာ အာကာသအတွင်း၌ နေ၏ ဆွဲအားက လွှမ်းမိုးလျက်ရှိသည်။ထိုဒေသသည် နေ၏ဆွဲအားကကမ္ဘာ၏ဆွဲအားထက် ပို၍ အားကောင်းသောနေရာမှ အစပြုသည်။ထိုဂြိုဟ်များ ပျံ့နှံ့တည်ရှိရာ အာကာသအတွင်း၌ ဂြိုဟ်နှင့်လတို့၏ ကိုယ်ပိုင် ဆွဲအား နယ်များ ရှိကြသည်။

ဂြိုဟ်များပျံ့နှံ့တည်ရှိရာ အာကာသအတွင်း၌ ရွေ့ရှားသွားလာလျက်ရှိကြသော ဂြိုဟ်များသည် တခုနှင့်တခု လွန်စွာဝေးကွာကြသည်။ကမ္ဘာမှ မိုင်ပေါင်း ၈၃,၀၀၀,၀၀၀ ခန့်ဝေးကွာသည်။ ကမ္ဘာနှင့်အနီးဆုံး ဂြိုဟ်ဖြစ်သော သောကြာဂြိုဟ်သည် ကမ္ဘာနှင့်အနီးဆုံး နေရာသို့ ရောက်ရှိချိန်၌ မိုင်ပေါင်း ၂၅,၀၀၀,၀၀၀ ခန့်ဝေးကွာသည်။ဂြိုဟ်များပျံ့နှံ့တည်ရှိရာ အာကာသသည် အလွန်ဝေးကွာသော ပလူတိုဂြိုဟ်၏ လမ်းထက်ပင် များစွာ လွန်မြောက်၍ သွားသည်။ နေ၏ဆွဲအား ကုန်ဆုံးသော နေရာဘွင်မှ ထိုအာကာသ၏နယ် ကုန်ဆုံးရာ၊ ထိုနေရာသည် ကမ္ဘာမှမိုင်ပေါင်း ၅၀,၀၀၀,၀၀၀,၀၀၀ မျှဝေးကောင်းဝေးပေလိမ့်မည်။ ထိုနေရာ၌ ကြယ်များပျံ့နှံ့တည်ရှိရာ အာကာသ၊ တနည်းဆိုသော် ကြယ်များအကြားရှိ အာကာသ အစပြုလေသည်။ ကျွန်ုပ်တို့၏ နဂါးငွေ့ သို့မဟုတ် ကြယ်စကြဝဠာသည် ကမ္ဘာမှ မတွေ့တောနိုင်လောက်အောင် ဝေးကွာသော နေရာ၌ အဆုံးသတ်သည်။ ထိုနေရာ၌ နဂါးငွေ့များ ပျံ့နှံ့တည်ရှိရာ အာကာသ၊ သို့မဟုတ် နဂါးငွေ့များအကြားရှိ အာကာသ အစပြုပြီးလျှင် ထိုအာကာသသည် မည်သည့်အခါမျှ အဆုံးမသတ်တော့ချေ။

## ဂြိုဟ်တုများ

လသည် ရူပဗေဒဆိုင်ရာ စည်းများအရ ကမ္ဘာပတ်လမ်းအတွင်း သွားလာသကဲ့သို့ အရံဂြိုဟ်တု တခုသည်လည်း ထိုစည်းများအတိုင်းပင် ရွေ့လျားသည်။ ဂြိုဟ်ဘုတို့သည် ပေါင်ချိန်အနည်းငယ်မှ တန်ချိန်အနည်းငယ်အထိ လေး၍ ယင်းတို့၌ ပုံသဏ္ဍာန် အမျိုးမျိုး ရှိနိုင်လေသည်။ ဗင်ဂတ် ၁ ခေါ် အမေရိကန်တို့၏ ဂြိုဟ်တု၊ စပွတ်နစ် ၁ ခေါ် ရုရှားတို့၏ဂြိုဟ်ဘုတို့သည်အလုံးပုံများဖြစ်ကြသည်။ အမေရိကန်တို့၏ အိပ်စပလိုရာခေါ် ဂြိုဟ်ဘုအများနှင့် ရုရှတို့၏စပွတ်နစ် ၂ ဂြိုဟ်ဘုတို့သည် ဆလင်ဒါပုံများ ဖြစ်ကြသည်။ အမေရိကန်တို့၏ အိပ်စလိုရာ ၇ ဂြိုဟ်ဘုမှာ ကျင် (ဂျင်) ပုံဖြစ်လေသည်။

ဂြိုဟ်တုတို့သည် ကာအာကာသကို စူးစမ်းရန်အဘွက် အရေးကြီးသော ကရိယာများဖြစ်ကြသည်။ ယင်းတို့သည် အလင်းရေဒီယိုလှိုင်းများ၊ ဂမ္မာရောင်ခြည်များနှင့် အိပ်စရေးရောင်ခြည်များနှင့်ဘကွ အာကာသအတွင်းရှိ လျှပ်စစ်သံလိုက်၏ စွမ်းအင်ကို မှတ်သားနိုင်သည်။ ထိုစွမ်းအင်များတွင် ကော့စမစ်ရောင်ခြည်များနှင့် လွန်စွာသေးငယ်သော ဥက္ကာခဲကလေးများနှင့်တကွ အာကာသအဘွင်းရှိ မှုန်မှုန်များ၏ အရေအတွက်ကို ဖော်ပြနိုင်သည်။ သံလိုက်နှင့် ဆွဲအားနယ်များကိုလည်း တိုင်းတာသည်။

ဂြိုဟ်ဘုများသည် ဤကမ္ဘာကိုပင်လျှင် စူးစမ်းစစ်ဆေး၍ တိုင်းတာနိုင်ပေသည်။အမေရိကန်တို့၏ တိုင်းရော့ ၁ ကဲ့သို့သောအထူး"ရာသီဥတုတိုင်းတာရေးဂြိုဟ်ဘုများ"သည် ကမ္ဘာ၏ဘိမ်အနေအထားကို လေ့လာပြီးလျှင် ရာသီဥတုကို ကြိုတင်ခန့်မှန်းရေးတွင် အကူအညီ ပေးနိုင်ကြသည်။ ဂျီအိုဒက်တစ် ဂြိုဟ်တုများကို အသုံးပြုခြင်းဖြင့် ကမ္ဘာမြေကြီး၏ပိုမိုတိကျမှန်ကန်သောမြေပုံများကိုဆွဲနိုင်သည်။ဂြိုဟ်တုများသည် ဆက်သွယ်ရေး လုပ်ငန်းများတွင် လည်း



အမေရိကန်တို့၏ မရီးနားတုံးပျံများကို အထက်ပါအတိုင်း ပုံစံအမျိုးမျိုးပြောင်းလဲ တည်ဆောက်ခဲ့သည်။ မရီးနား ၂ သည် သောကြာဂြိုဟ်ကိုလည်းကောင်း၊ မရီးနား ၄ သည် အင်္ဂါဂြိုဟ်ကိုလည်းကောင်း ဖြတ်သန်းပျံသန်းခဲ့ကြသည်။ (အပေါ် - ဝဲနှင့်ယာ)

အထောက်အကူပေးနိုင်သည်။ တယ်လီဗစ်ရှင်းခေါ် ရုပ်မြင်သံကြားစက်များနှင့် ရေဒီယိုများသည် ခရီးနီးသို့သာ အရုပ်နှင့် အသံကို လွှင့်နိုင်ကြသည်။ ထိုသို့ဖြစ်ရသည်မှာ ယင်းတို့၏ လှိုင်းများသည် ကမ္ဘာကိုခကွေကောက်လှည့်ပတ်၍မသွားနိုင်ခြင်းကြောင့်ဖြစ်သည်။ ထိုကဲ့သို့သောလှိုင်းများကို ဂြိုဟ်ဘုတခုဆီသို့ရောက်စေနိုင်ကြပြီးလျှင် ထိုမှတဆင့် ကမ္ဘာသို့ ကျယ်ပြန့်စွာ တဖန်ပြန်၍ ပို့ပေးနိုင်လေသည်။

ဂြိုဟ်တုကို တုံးပျံဖြင့်ပစ်လွှတ်ရသည်။ ထိုတုံးပျံ၌ အဆင့်နှစ်ဆင့်မှ ငါးဆင့်အထိ ရှိနိုင်သည်။ တုံးပျံသည် ဂြိုဟ်ဘုကို သင့်လျော်သည့်အမြင့်သို့ ရောက်စေပြီးလျှင် မှန်ကန်သည့် ထောင့်ကို ချိန်ရွယ်ချက် သင့်လျော်သည့် အမြန်သို့ရောက်အောင်အရှိန်ပေးရသည်။ ဂြိုဟ်ဘုကို တုံးပျံ၏နောက်ဆုံးအဆင့်၌ တပ်ဆင်ထားနိုင်သည်။ သို့မဟုတ်လျှင်လည်း ဂြိုဟ်တုနှင့် တုံးပျံကို ကမ္ဘာပတ်လမ်းအတွင်းသို့ ရောက်သွားသောအခါကျမှ ခွဲထွက်သွားစေနိုင်သည်။ တုံးပျံ၏ နောက်ဆုံးအဆင့်နှင့် ဂြိုဟ်ဘုတို့ ခွဲထွက်သွားသောအခါ တုံးပျံ၏ နောက်ဆုံးအဆင့်သည်လည်း ကမ္ဘာကိုပတ်၍ သွားနေလေသည်။

တုံးပျံကိုစ၍ ပစ်လွှတ်စဉ် တည့်တည့်မတ်မတ်နီးပါး တက်သွားသည်။ အဆင့်ဆင့်ပေါက်ကွဲပြီးသော အခါတွင် တုံးပျံ၏ထိပ်သည် ဂြိုဟ်တုနှင့် တုံးပျံ၏နောက်ဆုံးအဆင့်တို့ ကမ္ဘာမြေကြီး၏ မျက်နှာပြင်နှင့် မျဉ်းပြိုင်နီးပါးမျှ ဖြစ်လာသည်အထိ အောက်ဖက်သို့ နိမ့်ကျလာသည်။ ထိုအခါတွင် တုံးပျံ၏ နောက်ဆုံးအဆင့်က ဂြိုဟ်ဘုကို သင့်လျော်သည့် အလျင်သို့ရောက်အောင် တွန်းထုတ်လိုက်လေသည်။

တုံးပျံတခုသည်ရင်း၊ ဂြိုဟ်တုတခုသည်ရင်း လွတ်ထွက်အလျင်သို့ မရောက်ရှိပဲနှင့် ကမ္ဘာပတ်လမ်း တခုအတွင်းမှနေ၍ ကမ္ဘာကို လှည့်ပတ်၍ နေနိုင်လေသည်။ ထိုသို့လမ်းအတွင်း၌ ရှိနေစေရန် လေထု အပါးလွှာဆုံး အပိုင်းမှ လွဲ၍ လေထုတခုလုံးကို ရှောင်ရှားရပေမည်။ လေထုကို မရှောင်ရှားပါက လေ၏ ခုခံမှုကြောင့် တုံးပျံ၊ သို့မဟုတ် ဂြိုဟ်ဘု၏ ရွေ့ရှားမှုကို နှေးကွေးစေပြီးလျှင် အောက်သို့ နိမ့်ကျသွားစေလိမ့်မည်။ နောက်ဆုံးတွင် ကမ္ဘာမြေကြီးနှင့် နီးရာရှိ လေထု၏ ပွတ်တိုက်မှုကြောင့် ထိုတုံးပျံ၊ သို့မဟုတ် ဂြိုဟ်တုသည် မီးလောင်သွားပေလိမ့်မည်။ တုံးပျံ၊ သို့မဟုတ် ဂြိုဟ်တုများသည် ကမ္ဘာပတ်လမ်းအတွင်း၌ လှည့်ပတ်

သွားနေနိုင်ရန်အတွက် ယင်းတို့၌ လည့်ပတ်အလျင်လည်း ရှိဖို့ လိုပေသည်။ ထိုလည့်ပတ်အလျင်က ကမ္ဘာ၏ ဆွဲအား ကို မျှတစေသည့် ဗဟိုခွာအားကို ဖြစ်ပေါ် စေလေသည်။

ဂြိုဟ်ဘုတခုသည် ကမ္ဘာကိုလှည့်ပတ်ရာ၌ ပို၍မြင့်လေလေ ယင်း၏ လှည့်ပတ်အလျင်မှာလည်း ပို၍ နည်းရလေလေ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ကမ္ဘာမှ ဝေးလေလေ ကမ္ဘာ၏ဆွဲအားမှာလည်း နည်းလေလေဖြစ်ခြင်းကြောင့် ဖြစ်သည်။ ကမ္ဘာနှင့် နီးကပ်ရာရှိ ဂြိုဟ်တု တခု၏ အမြန်မှာ အနည်းဆုံး တနာရီလျှင် မိုင် ၁၇,၀၀၀ ရှိရပေမည်။ သို့ရာတွင် လသည် ကမ္ဘာမှ ဝေးကွာမှုကြောင့် တနာရီလျှင် မိုင် ၂,၀၀၀ သာသာနှုန်းဖြင့်သာ ရွေ့ရှားလျက် ရှိပေသည်။

ကမ္ဘာပတ်လမ်းအတွင်း၌ လှည့်ပတ်လျက်ရှိသော ဂြိုဟ်တုတခု၏ အလျင်သည် ပြောင်းလဲလျက် ရှိသည်။ ကမ္ဘာနှင့် နီးကပ်ရာသို့ ရွေ့ရှားလာရာတွင် ကမ္ဘာ၏ ဆွဲအားကြောင့် ဂြိုဟ်တု၏ အမြန်သည် အမြင့်ဆုံးအခြေသို့ရောက်ရှိလာလေသည်။ ကမ္ဘာနှင့် အဝေးကွာဆုံး နေရာသို့ ရွေ့ရှားသွားသောအခါ ကမ္ဘာ့ဆွဲအားက ယင်းကို နှေးသွားစေသည်။

ဂြိုဟ်တုများတွင် ကရိယာများသာ တပ်ဆင်ထားသော ဂြိုဟ်တုနှင့် လူနှင့် တိရစ္ဆာန်များကို ဂြိုဟ်သွားလမ်းအတွင်းသို့ သယ်ဆောင်သွားမည့် ဂြိုဟ်တုဟူ၍ အခြေခံအားဖြင့် ဂြိုဟ်တု နှစ်မျိုးရှိသည်။

ကရိယာများ တပ်ဆင်ထားသော ဂြိုဟ်တုများတွင် အစဉ်သဖြင့် ကမ္ဘာသို့ သတင်းပို့ပေးမည့် ရေဒီယို အသံလွှင့်စက်များ ပါရှိသည်။ အချို့တွင် ကမ္ဘာမှ ပို့လိုက်သော အချက်ပြများကို ဖမ်းယူပြီးလျှင် အထူးကရိယာများကို ဖွင့်ပေးနိုင်သည့် ကရိယာများ ပါရှိသည်။ ထို့ပြင် ကော့စမစ် ရောင်ခြည်၊ သို့မဟုတ် အခြား ဖြာထွက်မှုများကို ရေတွက်သော ကရိယာများ၊ ဂြိုဟ်တုနှင့် တိုက်မိသော ကြယ်ပျံများ၊ သို့မဟုတ် လွန်စွာသေးငယ်သော ဥက္ကာခဲကလေးများကို မှတ်သားရေတွက်သည့် ကရိယာများနှင့် တတွ အပူချိန်များ၊ ဆွဲအား၊ သို့မဟုတ် သံလိုက်နယ်များ၊ နေမှ ဖြာထွက်မှုများ၊ သို့မဟုတ် ကြယ်များမှ ရေဒီယိုလှိုင်းများ စသည်တို့ကို တိုင်းတာသည့် ကရိယာများလည်း ပါရှိမြဲ ဖြစ်သည်။

တိရစ္ဆာန်၊ သို့မဟုတ် လူများကို အာကာသအတွင်းသို့ သယ်ဆောင်သွားရန် တည်ဆောက် ထားသော ဂြိုဟ်တုများသည် များသောအားဖြင့် ကရိယာများသာ တပ်ဆင်ထားသည့် ဂြိုဟ်တုများထက် ပို၍ ကြီးကြပြီးလျှင် ပို၍လည်း ရှုပ်ထွေးကြသည်။ ယင်းတို့တွင် အောက်ဆီဂျင် ထုတ်ပေးသည့် ကရိယာများနှင့် အပူချိန်များကို ထိန်းသိမ်းပေးသည့် ကရိယာများ ပါရှိစေရသည်။ အကယ်၍ ဂြိုဟ်တုအတွင်း၌ တိရစ္ဆာန် တကောင်ကောင်ကို သယ်ဆောင်သွားပါက ဂြိုဟ်တုအတွင်းပါရှိသော ကရိယာများက ထိုတိရစ္ဆာန်၏ နှလုံးခုန်မှု၊ အရေပြားအပူချိန်၊ အသက်ရှူနှုန်း၊ ရေငွေ့နှင့် သိပ္ပံပညာရှင်များအဖို့ စိတ်ဝင်စားဖွယ် ဖြစ်သော အခြားအချက်များကို မှတ်သားပေးကြသည်။

လူကို သယ်ဆောင်သော ဂြိုဟ်ဘုများတွင် အထက်ပါ တိုင်းတာသော ကရိယာမျိုး များလည်း ပါရှိရသည်။ အာကာသသူရဲကို အသက်ရှင်လျက် ကမ္ဘာသို့ ပြန်ရောက်စေမည့် နည်းလမ်းများလည်း ရှိရန်လိုပေသည်။ ထိုအတွက် အာကာသသူရဲ စီးနင်းလိုက်ပါသော တုံးပျံထိပ်ဖူး၌ ဂြိုဟ်တု သွားရာလမ်းနှင့် ဆန့်ကျင်ဖက် အရပ်သို့ သွားစေမည့် နောက်ပြန်ကန် တုံးများ ပါရှိရပေသည်။ နောက်ပြန်ကန် တုံးများသည် ဂြိုဟ်တုကို အသွား နှေးစေသဖြင့် ဂြိုဟ်တုသည် ကမ္ဘာပေါ်သို့ ပြန်ကျလာသည်။ ထို့ပြင် လူပါသော ထိပ်ဖူးကို ကမ္ဘာမြေကြီးပေါ်သို့ တဖြည်းဖြည်း သက်ဆင်းစေမည့် လေထီးများလည်း ပါရှိရန် လိုပေသည်။

## စူးစမ်းရေးတုံးပျံများ

စူးစမ်းရေးတုံးပျံများသည် လူမပါပဲ ကရိယာများသာ ပါရှိပြီးလျှင် အာကာသအတွင်းသို့ နက်ရှိုင်းစွာ ထိုးဖောက်သွားရောက်၍ စူးစမ်းလေ့လာသော တုံးပျံများဖြစ်သည်။ ယင်းတို့သည် အာကာသအတွင်း ခရီးသွားလာရေးအတွက် ရှေ့ပြေးများပင် ဖြစ်တော့သည်။ လူနစ် ၂၊ သို့မဟုတ် ကော့စမော့ တုံးပျံ ၂ ခေါ် ရုရှတို့၏ စူးစမ်းရေး တုံးပျံသည် ကမ္ဘာမှ လသို့ ပဌမဦးစွာရောက်သွားသော တုံးပျံဖြစ်သည်။ ထိုတုံးပျံသည် ၁၉၅၉ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့တွင် လပေါ်သို့ ရောက်ရှိသွားသည်။ အခြား စူးစမ်းရေးတုံးပျံများဖြစ်သော အမေရိကန်တို့၏ ပိုင်အိုနီယာ ၄ နှင့် ရုရှတို့၏ ယူနစ် ၁ တို့သည် လကိုလွန်၍သွားပြီးနောက် နေ၏ ဂြိုဟ်ဘုများဖြစ်သွားကြလေသည်။လူတို့ ပြုလုပ်သည့် စူးစမ်းရေး တုံးပျံများသည် မား (အင်္ဂါဂြိုဟ်)၊ ဗီးနပ် (သောကြာဂြိုဟ်)နှင့် အခြား ဂြိုဟ်များသို့လည်း ရောက်ရှိသွားကြပေပြီ။ ရုရှတို့၏ဗီးနပ် ၄ နှင့် အမေရိကန်တို့၏ မရီးနား ၅ တုံးပျံတို့သည် ဗီးနပ် (သောကြာဂြိုဟ်)ပေါ်သို့ ၁၉၆၆ ခုနှစ်တွင် အသီးအသီး ရောက်ရှိသွားခဲ့ကြသည်။အမေရိကန်တို့၏မရီးနား ၉ တုံးပျံသည် ကမ္ဘာမှ ၂၄၇,၀၀၀,၀၀၀ မိုင်ခန့် ငါးလခွဲကျော် ခရီးသွားပြီးနောက် ၁၉၇၁ ခုနှစ် နိုဝင်ဘာလ ၁၃ ရက်နေ့တွင် မား (အင်္ဂါဂြိုဟ်) ကို ပဌမဆုံးအကြိမ် ပတ်ခဲ့သည်။ အခုံဂြိုဟ်များအနက် အကြီးဆုံးနှင့်အလှဆုံးဖြစ်သော ဂျူပီတာ (ကြာသပတေးဂြိုဟ်)ဆီသို့ အမေရိကန်တို့က ပိုင်အိုနီယာ



**အာကာသအတွင်းသို့ နက်ရှိုင်းစွာ ထိုးဖောက် စူးစမ်း လေ့လာရန် စူးစမ်းရေးတုံးပျံကို ပစ်လွှတ်စဉ်**

၁၀ တုံးယာဉ်ကို ၁၉၇၂ ခုနှစ် မတ်လ ၂ ရက်တွင် ပစ်လွှတ်ခဲ့သည်။

စူးစမ်းရေးတုံးပျံများတွင် ပါရှိသွားကြသော ကရိယာများက ကမ္ဘာသို့ အဖိုးတန်သည့် သိပ္ပံပညာဆိုင်ရာ အချက်အလက်များကို ရေဒီယိုဖြင့် ပေးပို့ကြသည်။ သာဓကပြရလျှင် ပိုင်အိုနီယာ ၄ သည် ဗန် အယ်လင် ဖြာထွက်မှုရပ်ဝန်းများကို ထိုးဖောက်ပြီးလျှင် သိပ္ပံပညာရှင်များအား ထိုဖြာထွက်မှု အလွှာများ၏ ထုထည်နှင့် စပ်လျဉ်း၍ မှန်ကန်သော တိုင်းတာချက်များကို ပဌမဦးစွာတိုင်းတာပေးလေသည်။

စူးစမ်းရေးတုံးပျံသည် လသို့ရင်း၊ဂြိုဟ်တလုံးလုံးသို့ရင်း ရောက်ရှိသွားခြင်းထက် လ၊ သို့မဟုတ် ထိုဂြိုဟ်အနီးသို့ ရောက်သွားခြင်းက ပိုမိုအကျိုးရှိ၍၊လ၊သို့မဟုတ် ထိုဂြိုဟ်ကို ပတ်၍ သွားခြင်းက သာ၍အကျိုးများပေသည်။သာဓကပြရလျှင် ရုရှတို့၏ လူနစ် ၃ သည် လနှင့် နီးကပ်စွာ ရောက်သွားပြီးနောက် ကျွန်ုပ်တို့ မမြင်ရသော လ၏ အခြားတဖက်ကို ဓာတ်ပုံများ ရိုက်ယူနိုင်ခဲ့လေသည်။ အမေရိကန်တို့၏ မရီးနား ၄ ကလည်း ဤကမ္ဘာမှ မိုင် ၁၃၄ သန်း ဝေးကွာသော အင်္ဂါဂြိုဟ်အနီးမှ ဖြတ်သန်းကာ အင်္ဂါဂြိုဟ်၏အနီးကပ် ဓာတ်ပုံများကို ရိုက်ယူပြီးလျှင် ရေဒီယိုဖြင့် ဤကမ္ဘာသို့ ပေးပို့ခဲ့လေသည်။

## အာကာသစခန်းများ

အာကာသစခန်းများသည် ကမ္ဘာကို အမြဲတမ်း လှည့်ပတ်သွားနေစေရန် လူတို့ ဖန်တီးပြုလုပ်ထားသော ဂြိုဟ်တုများ ဖြစ်ကြပေမည်။ စခန်းများတွင် လူတို့ နေထိုင်၍ အလုပ် လုပ်နေနိုင်ကြမည်ဖြစ်ရာ ထိုစခန်းများသည် လက်တွေ့စမ်းခန်းများ အဖြစ်သော်၎င်း၊ နက္ခတ်မျှော်စင်များ အဖြစ်သော်၎င်း၊ ရပ်နားရန် စခန်းများ အဖြစ်သော်၎င်း၊ သို့မဟုတ် အာကာသပျံသန်းရေးအတွက် တုံးပျံများ ပစ်လွှတ်ရန် စခန်းများ အဖြစ်သော်၎င်း ဆောင်ရွက်ကြပေလိမ့်မည်။

သိပ္ပံပညာရှင်များက ထိုစခန်းအတွက် ပုံစံ အမျိုးမျိုးကို အကြံပေးခဲ့ကြသည်။ တုံးပျံ သိပ္ပံပညာရှင်တဦးဖြစ်သူ ဂျာမန်-အမေရိကန်လူမျိုး ဖြစ်သည့် ဗါနာ ဖွန် ဗရောင်းဆိုသူက ကြီးမားသော ဘီးပုံသဏ္ဌာန် ရှိသည့် ပုံစံတခုကို ရေးဆွဲပြခဲ့သည်။ ထိုဘီးကြီး၏ ဘီးထောက်များနှင့် ဘီးနှုတ်ခမ်း၏ အတွင်း၌ လူများ နေထိုင်ရန်နှင့် အလုပ်လုပ်ရန် အခန်းများ ပါရှိကြမည်။ ဘီးကြီးတွင် ဆွဲအားရှိသည့်သဘော ဖြစ်စေရန်အတွက် ဗဟိုဆွဲအား ရှိစေရန် ဘီးကြီးကို အမြဲတစေ လည်နေစေရန် ဖန်တီးထားမည်။ ထိုအာကာသစခန်းကိုသာ ကမ္ဘာမှ မိုင် ၁,၀၇၅ အကွာ၌ တနာရီလျှင် မိုင်ပေါင်း ၁၅,၈၀၀ ခန့်ရှိသော အလျင်ဖြင့် ကမ္ဘာကို လှည့်ပတ်နေစေမည် ဆိုပါက စခန်းသည် ကမ္ဘာကို နှစ်နာရီလျှင် တကြိမ်ကျ ပတ်၍ နေပေလိမ့်မည်။

၁၉၆၆ ခုနှစ် မေလ ၁၆-၁၇ ရက်နေ့တွင် နေး အမ့စထရောင်းနှင့် ဒေးဗစ် စကော့(အမေရိကန်)တို့သည် ဂျင်မီနီ ၈ အာကာသယာဉ်ဖြင့် အာကာသအတွင်း လှည့်ပတ်နေသော အဂျီးနားတုံးပျံနှင့် အောင်မြင်စွာ ချိတ်ဆက်မိသည်။ ထိုအောင်မြင်မှုမှစ၍ အာကာသသိပ္ပံပညာရှင်တို့သည် အာကာသစခန်းတည်ဆောက်ရေးကို တိုးတက်ကြိုးပမ်းလာခဲ့ကြရာ ၁၉၇၃ ခုနှစ်၊ မေလ ၁၄ ရက်နေ့တွင် အာကာသအတွင်း အာကာသစခန်းကို ပဌမဆုံး ပစ်လွှတ်နိုင်ခဲ့သည်။ ထိုနေ့တွင် ချားလ် ကွန်ရဒ်၊ ဂျိုးဇက် ကာဝင်နှင့် ပေါ ဝိတ် (အမေရိကန်)တို့သည် စကိုင်းလက် ၁ အာကာသစခန်းယာဉ်ဖြင့် ကမ္ဘာကို ၃၉၅ ပတ် ပတ်ကာ ၂၈ ရက်ကျော် အာကာသတွင် ပတ်လျက်နေပြီး ယာဉ်၏အပြင်ဖက် အာကာသအတွင်းသို့ထွက်၍ အာကာသစခန်းယာဉ်၏ချွတ်ယွင်းမှုများကို ပြင်ဆင်ခြင်းပြုခဲ့ကြသည်။



ဂျင်မီနီ ၁၂ အာကာသယာဉ်(ဝဲ)နှင့် အဂျီးနား တုံးပျံကို အာကာသအတွင်း ချိတ်ဆက်ပြီးနောက် အတူလှည့်ပတ်နေစဉ်

### လသို့သွားလာရေး

ယခုအခါ အာကာသ သိပ္ပံပညာရှင်များသည် လသို့ လူသားများ သွားရောက်အခြေစိုက်နိုင်မည့် အကြံအစည်ကို အပြိုင်အဆိုင် ကြိုးစားလျက်ရှိရာ မည်သည့်နိုင်ငံက လဏ်ဦး အောင်မြင်မည်ကို ကျွန်ုပ်တို့ စောင့်ကြည့်ရန်ရှိပေသည်။ လသို့ သွားရောက်သည့်ကိစ္စ အောင်မြင်ပြီးသောအခါ သိပ္ပံပညာရှင်များသည် အင်္ဂါဂြိုဟ်သို့၎င်း၊ သောကြာဂြိုဟ်သို့၎င်း၊ ထိုနောက် အခြားသော ဂြိုဟ်များသို့၎င်း သွားရောက် အခြေစိုက်နိုင်ရန် ဆင့်ကဲဆင့်ကဲ ကြိုးစားကြပေဦးမည်။

ကမ္ဘာမှ လသို့ သွားရောက်ရန်အတွက် အလွန် ကြီးမား၍ အားကောင်းသော တုံးပျံ ရှိဖို့ လိုပေသည်။ ထိုတုံးပျံ၏ ပုံသဏ္ဌာန်မှာ လက်ရှိ ဂြိုဟ်တုများကို ပစ်လွှတ်ရာတွင် အသုံးပြုလျက်ရှိသော တုံးပျံများကဲ့သို့ပင် ရှိပေမည်။ သို့သော် အကယ်၍ အာကာသစခန်းတခုမှ တဆင့် သွားရောက်မည် ဆိုပါက ထိုတုံးပျံ၏ ပုံသဏ္ဌာန်သည် လုံးဝ ကွဲပြားစရာ အကြောင်းရှိပေသည်။ လေထု၏ အပြင်ဖက်ရှိ နေရာမှ စတင် ထွက်ခွာ ပျံသန်းရမည် ဖြစ်ခြင်းကြောင့် တုံးပျံ၏ ကိုယ်ထည်သည် စင်းလုံးချော ဖြစ်ရန် မလိုပေ။ စတင် ထွက်ခွာပျံသန်းချိန်၌ အလွန် မြင့်မားသော မြန်ရှိန်၏ ဒဏ်ကို ခံစရာ မလိုသည့်အတွက် တုံးပျံကို အလွန် ခိုင်ခံ့စွာ တည်ဆောက်ထားရန်လည်း မလိုပေ။ သို့ရာတွင် လသို့ ပဌမဆုံးအကြိမ် သွားရောက်ရာ၌ ကမ္ဘာမှပင် တိုက်ရိုက် ထွက်ခွာစရာ အကြောင်းရှိပေသည်။ ထိုတုံးပျံသည် လပေါ်သို့ကား ဆင်းသက်မည် မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် လပေါ်သို့ ဆင်းသက်ရန် ထိုတုံးပျံမှ တဆင့် အာကာသယာဉ်ကို အသုံးပြုမည်ဖြစ်ပေသည်။ လပေါ်သို့ ဆင်းသက်မည့် အာကာသယာဉ်သည် လ၏ မျက်နှာပြင်ပေါ်သို့ ညင်သာစွာ ဆင်းသက်နိုင်ရပေမည်။ ထိုနောက် လမှ နေ၍ ကမ္ဘာသို့ ပြန်လည် ပျံသန်းနိုင်မည့် အစီအမံများလည်း ရှိရန် လိုပေသည်။

အာကာသ သိပ္ပံပညာရှင်တို့သည် အာကာသစူးစမ်းလေ့လာမှုအဆင့်ဆင့်မှ ရရှိအပ်သော အချက်အလက် အတွေ့အကြုံတို့အပေါ် အခြေပြုလျက် လသို့သွားရောက်ရေးကို ကြိုးပမ်းဆောင်ရွက်လာခဲ့ရာ ၁၉၆၉ ခုနှစ်တွင် အောင်မြင်မှုကြီးကို ရရှိခဲ့လေသည်။ ၁၉၆၉ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့တွင် လမျက်နှာပြင်ပေါ်သို့ လူသားတို့ အောင်မြင်စွာ ပဌမဆုံး ခြေချနိုင်ခဲ့သည်။ အာကာသသူရဲကောင်း



အက်ဒွင် အောလဒရင်သည် ဂျင်မီနီ ၁၂ အာကာသယာဉ်မှထွက်၍ အာကာသအတွင်း ဤသို့လမ်းလျှောက်ခဲ့သည်။

နေး အမ္ဗစထရောင်းနှင့် အက်ဒွင် အောလဒရင် (အမေရိကန်)တို့သည် အပိုလို ၁၁ အာကာသယာဉ်ဖြင့် လမျက်နှာပြင်ပေါ်သို့ ဆင်းသက်ခြေချရုံမက သိပ္ပံသုတေသနများကိုပါ ဆောင်ရွက်ခဲ့ကြလေသည်။

### အာကာသအတွင်း လူသားများပျံသန်းခဲ့သမျှ

ယနေ့အထိ အာကာသအတွင်း၌ လူသားများအောင်မြင်စွာ ပျံသန်းခဲ့သည်မှာ အောက်ပါအတိုင်းဖြစ်ပေသည်။

၁၉၆၁ခု၊ ဧပြီလ ၁၂ရက်။ ။ယူရီ ဂါဂါရင် (ရုရှ)သည် ဗော့စတော့ ၁ ခေါ် ကမ္ဘာပတ်ဂြိုဟ်တုဖြင့် ပဌမဆုံး အာကာသအတွင်း ပျံသန်းမှုကိုပြုလုပ်၍ ကမ္ဘာကို တပတ်ပတ်ခဲ့ရာ တနာရီ ၄၈ မိနစ်ကြာခဲ့သည်။

၁၉၆၁ခု၊မေလ ၅ ရက်။ ။အလန် ရှက်ပတ် (အမေရိကန်)သည် ဖရီးဒမ်း ၇ ခေါ် အာကာသထိပ်ဖူးဖြင့်ကမ္ဘာပတ်လမ်းကြောင်းအောက်မှ အာကာသအတွင်း ပျံသန်းမှုကို ပြုလုပ်ခဲ့ရာ ၁၅ မိနစ်ကြာခဲ့သည်။

၁၉၆၁ခု ဇူလိုင်လ ၂၁ ရက်။ ။ဗါဂျီး ဂရစ်ဆမ်(အမေရိကန်)သည် လစ်ဗါတီ ဗဲ ၇ ခေါ်အာကာသ ထိပ်ဖူးဖြင့် ကမ္ဘာပတ်သမ်းကြောင်းအောက်မှ အာကာသ အတွင်း ပျံသန်းမှုကို ထပ်မံပြုလုပ်ခဲ့သည်။

၁၉၆၁ခု၊ဩဂုတ်လ ၆ ရက်။ ။ဂါမန် တီတော့(ရုရှ)သည် ဗော့စတော့ ၂ ခေါ်အာကာသယာဉ်(ကမ္ဘာပတ်ဂြိုဟ်တု) ဖြင့် အာကာသအတွင်း ၂၅ နာရီ ၁၈ မိနစ်နေခဲ့၍ကမ္ဘာကို ၁၇ ပတ်ပတ်ခဲ့သည်။

၁၉၆၂ခု၊ ဖေဖွာရီလ ၂၀ ရက်။ ။ဂျွန် ဂလင်း (အမေရိကန်)သည် ဖရင်းရှစ် ၇ ခေါ် အာကာသယာဉ်ဖြင့် ကမ္ဘာကို သုံးပတ်ပတ်ခဲ့ရာ လေးနာရီ ၅၅ မိနစ်ကြာခဲ့သည်။

၁၉၆၂ခု၊ မေလ ၂၄ ရက်။ ။စကော့ကာပင်တာ(အမေရိကန်)သည် ဩရိုရာ ၇ ခေါ် အာကာသ ယာဉ်ဖြင့် ကမ္ဘာကို သုံးပတ်ပတ်ခဲ့ရာလေးနာရီ၅၆ မိနစ် ကြာခဲ့သည်။

၁၉၆၂ခု၊ ဩဂုတ်လ ၁၁–၁၄ ရက်။ ။အက်ဒရီယန် နီကိုလာယက်နှင့် ပေဗယ် ပိုပိုဗစ် (ရုရှ)တို့သည် ဗော့စတော့ ၃ နှင့် ဗော့စတော့ ၄ ခေါ်သီးခြားအာကာသယာဉ်တစင်းစီဖြင့် ပဌမအကြိမ် အာကာသအတွင်း အစုလိုက် ပျံသန်းမှုကို ပြုလုပ်ခဲ့ရာ နီကိုလာယက်က ၉၄ နာရီ ၂၂ မိနစ်ဖြင့် ကမ္ဘာကို ၆၄ ပတ်၊ ပိုပို ဗစ်က ၇၀ နာရီ ၅၇ မိနစ်ဖြင့် ၄၈ ပတ် အသီးအသီးပတ်ခဲ့ကြသည်။

၁၉၆၂ခု၊ အောက်တိုဘာလ ၃ ရက်။ ။ဝေါလတာ ရှီးရား (အမေရိကန်)သည် ဆစ်ဂမာ ၇ အာကာသယာဉ်

ဖြင့် ကမ္ဘာကို ခြောက်ပတ် ပတ်ခဲ့ရာ ကိုးနာရီ ၁၃ မိနစ် ကြာခဲ့သည်။

၁၉၆၃ ခု၊ မေလ ၁၅–၁၆ ရက်။ ။လီရွိုင်း ဂေါ်ဒွန် ကူးပါး (အမေရိကန်)သည် ဖေ့ (သ) ၇ အာကာသယာဉ်ဖြင့် ကမ္ဘာကို၂၂ ပတ်ပတ်ခဲ့ရာ ၃၄ နာရီ ၂၃ မိနစ်(တရက် ၁၀ နာရီ ၂၃ မိနစ်)ကြာခဲ့သည်။

၁၉၆၃ ခု၊ ဇွန်လ ၁၄–၁၉ ရက်။ ။ဗယ်လာရီယန် ဗိုင်ကော့စကီ(ရုရှ) သည် ဗေါ့စတော့ ၅ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၈၂ ပတ် ပတ်ခဲ့ရာ ၁၁၉ နာရီ ခြောက် မိနစ် (၄ရက် ၂၃ နာရီ ခြောက်မိနစ်)ကြာခဲ့သည်။

၁၉၆၃ ခုဇွန်လ၁၆–၁၉ ရက်။ ။ဗိုင်ကော့စကီ အာကာသအတွင်း ပျံသန်းလျက်ရှိစဉ် ဗလင်တီနာ တရက်ရှကိုဗာ (ရုရှ)သည် ဗေါ့စတော့ ၆ အာကာသယာဉ်ဖြင့် လိုက်ပါကာ ပဌမဆုံး အမျိုးသမီးအာကာသသူရဲအနေဖြင့် ကမ္ဘာကို ၄၈ ပတ် ပတ်ခဲ့ရာ ၇၀ နာရီ ၅၀မိနစ်(နှစ်ရက် ၂၂ နာရီ ၅၀ မိနစ်)ကြာခဲ့သည်။

၁၉၆၄ ခု၊ အောက်တိုဘာလ ၁၂ ရက်။ ။ဗလာဒီမာ ကိုမာရော့၊ ကွန်စတန်တင်း ဖီယော့တစ်စတော့နှင့် ဗိုးရစ် ယီဂိုရော့ (ရုရှ)တို့ သုံးဦးသည် ဗေါ့စခေါ့ ၁ အာကာသယာဉ်ဖြင့် အတူလိုက်ပါကာ ကမ္ဘာကို ၁၆ ပတ် ပတ်ခဲ့ရာ၊ ၂၄ နာရီ ၁၇ မိနစ်ကြာခဲ့သည်။

၁၉၆၅ ခု၊ မတ်လ ၁၈ ရက်။ ။အလက်ဆီ လီယိုနော့နှင့် ပေဗယ် ဗယ်လျာယက် (ရုရှ) တို့သည် ဗော့စခေါ့ ၂ အာကာသယာဉ်ဖြင့် ကမ္ဘာကို ပတ်လျက်ရှိစဉ် လီယိုနော့သည် ပဌမဆုံးအနေဖြင့် အာကာသအတွင်းသို့ ထွက်၍ လမ်းလျှောက်ခဲ့သည်။ လီယိုနော့သည်အာကာသအတွင်း၌ မိနစ် ၂၀ နေခဲ့၍ လုံးဝအမှီသဟဲမပြုပဲဆယ်မိနစ် ပျံဝဲခဲ့သည်။ သူတို့သည်ကမ္ဘာကို ၁၈ ပတ်ပတ်ခဲ့ရာ၊ ၂၆ နာရီ နှစ်မိနစ်ကြာခဲ့သည်။

၁၉၆၅ ခု၊ မတ်လ ၂၃ ရက်။ ။ဗါဂျီး ဂရစ်ဆမ်နှင့် ဂျွန် ယန်း (အမေရိကန်)တို့သည် ဂျင်မီနီ ၃ အာကာသယာဉ်ဖြင့် ကမ္ဘာကိုပတ်လျက်ရှိစဉ် ပဌမဆုံးအနေဖြင့်ကမ္ဘာပတ်လမ်းကြောင်းကို ပြောင်းလဲ၍ ပျံသန်းခဲ့သည်။သူတို့သည် ကမ္ဘာကို သုံးပတ်ပတ်ခဲ့ရာလေးနာရီ ၅၄ မိနစ်ကြာခဲ့သည်။

၁၉၆၅ ခု၊ ဇွန်လ ၃–၇ ရက်။ ။ဂျိမ်း မက်ဒီဗစ်နှင့် အက်ဒွပ် ဝှိုက် (အမေရိကန်)တို့သည် ဂျင်မီနီ ၄ အာကာသယာဉ်ဖြင့် ကမ္ဘာကို ပတ်လျက်ရှိစဉ် ဝှိုက်သည်အာကာသအတွင်းသို့ထွက်၍ မိနစ် ၂၀ ကြာလမ်းလျှောက်ခဲ့သည်။ သူတို့သည် ကမ္ဘာကို ၆၂ ပတ် ပတ်ခဲ့ရာ၊ ၉၇ နာရီ ၅၉ မိနစ် ကြာခဲ့သည်။

၁၉၆၅ ခု၊ ဩဂုတ်လ ၂၁–၂၉ ရက်။ ။ဂေါ်ဒွန် ကူးပါးနှင့် ချားကွန်ရက် (အမေရိကန်) တို့သည် ဂျင်မီနီ ၅ အာကာသယာဉ်ဖြင့် ကမ္ဘာကို အပတ်ပေါင်း ၁၂၀ ပတ်ခဲ့ရာ၊ ၁၉၀ နာရီ ၅၆ မိနစ်(ခုနစ်ရက် ၂၂ နာရီ ၅၆မိနစ်) ကြာခဲ့သည်။

၁၉၆၅ ခု၊ ဒီဇင်ဘာလ ၄–၁၈ ရက်။ ။ဖရန့် ဗိုမင်နှင့် ဂျိမ်း လိုဗယ် (အမေရိကန်)တို့သည် ဂျင်မီနီ၇ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၂၀၆ ပတ် ပတ်ခဲ့ရာ ၃၃၀ နာရီ ၃၅ မိနစ်ကြာခဲ့၍ ပဌမအကြိမ် အကြာဆုံးစံချိန် တင်ခဲ့သည်။

၁၉၆၅ ခု၊ ဒီဇင်ဘာလ ၁၅–၁၆ ရက်။ ။ဝေါလတာ ရှီးရားနှင့်တောမတ် စတက်ဖို့(အမေရိကန်)တို့သည် ဂျင်မီနီ ၆ အာကာသယာဉ်ဖြင့် အာကာသအတွင်း ဂျင်မီနီ၇ နှင့် ပေါင်းဆုံမိရန် ကမ္ဘာကို ၁၆ ပတ် ပတ်ခဲ့ရာ ၂၅ နာရီ ၅၂ မိနစ် ကြာခဲ့သည်။

၁၉၆၆ ခု၊ မတ်လ ၁၆–၁၇ ရက်။ ။နေး အမ့်စထရောင်းနှင့် ဒေးဗစ် စကော့ (အမေရိကန်) တို့သည် ဂျင်မီနီ ၈ အာကာသယာဉ်ဖြင့် ကမ္ဘာကိုခြောက်ပတ်ခဲ့ပတ်ကာ ဆယ်နာရီ ၄၂ မိနစ်ကြာခဲ့ပြီး အာကာသအတွင်း လှည့်ပတ်နေသော အဂျီးနား တုံးပျံနှင့် ပေါင်းဆုံချိတ်ဆက်မိသည်။



ပဌမဆုံး အမျိုးသမီးအာကာသယာဉ်မှူး ဗလင်တီနာ

၁၉၆၆ ခု၊ ဇွန်လ ၃–၆ ရက်။ ။တောမတ် စတက်ဖို့နှင့် ယူဂျင်း ဆာနန်(အမေရိကန်)တို့သည်ဂျင်မီနီ ၉ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၄၄ ပတ် ပတ်ခဲ့ရာ ၇၂ နာရီ ၂၁ မိနစ် ကြာခဲ့သည်။

၁၉၆၆ ခု၊ ဇူလိုင် ၁၈–၂၁ ရက်။ ။ ဂျွန် ယန်းနှင့် မိုက်ကယ် ကောလင်း(အမေရိကန်)တို့သည် ဂျင်မီနီ ၁၀ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၄၃ ပတ် ပတ်ခဲ့ရာ ၇၀ နာရီ ၄၇ မိနစ်ကြာခဲ့သည်။

၁၉၆၆ ခု၊ စက်တင်ဘာလ ၁၂–၁၅ ရက်။ ။ချားလ် ကွန်ရဒ်နှင့်ရစ်ချတ် ဂေါ်ဒွန်(အမေရိကန်)တို့သည် ဂျင်မီနီ ၁၁ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၄၄ ပတ် ပတ်ခဲ့ရာ ၇၁ နာရီ ၁၇ မိနစ် ကြာခဲ့သည်။

၁၉၆၆ ခု၊ နိုဝင်ဘာလ ၁၁–၁၅ ရက်။ ။ဂျိမ်း လိုဗယ်နှင့် အက်ဒွင် အောလဒရင် (အမေရိကန်) တို့သည် ဂျင်မီနီ ၁၂ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၅၉ ပတ် ပတ်ခဲ့ရာ ၉၄ နာရီ ၃၃ မိနစ် ကြာခဲ့သည်။

၁၉၆၆ ခု၊ ဇူလိုင်လ ၁၈ ရက်မှ နိုဝင်ဘာလ ၁၅ ရက်အထိ ကမ္ဘာကို ပတ်ခဲ့သော ဂျင်မီနီ ၁၀–၁၁ နှင့် ၁၂ အာကာသယာဉ် တို့သည် အာကာသ အတွင်း လှည့်ပတ်နေသော အဂျီးနား တုံးပျံနှင့် ချိတ်ဆက်မိပြီးနောက် ကမ္ဘာသို့ အသီးအသီး ပြန်လည်ရောက်ရှိခဲ့ကြသည်။

၁၉၆၇ ခု၊ ဧပြီလ ၂၃ ရက်။ ။ဗလာဒီမာ ကိုမာရော့ (ရုရှ) သည် ဆိုယု ၁ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၁၇ ကြိမ် ပတ်ခဲ့ရာ ၂၄ နာရီ ၃၀ မိနစ်ကြာခဲ့သည်။ ထိုအာကာသယာဉ်သည် အာကာသစခန်းအဖြစ် ပဌမဆုံးအကြိမ် အာကာသအတွင်း စမ်းသပ်ပစ်လွှတ်ခြင်းဖြစ်သည်။ အာကာသယာဉ်မှူး ကိုမာရော့သည် ကမ္ဘာသို့ပြန်လာရာတွင် ယာဉ်ထိခိုက်ပျက်စီး၍ သေဆုံးသွားခဲ့သည်။

၁၉၆၈ ခု၊ အောက်တိုဘာ ၁၁–၂၂ ရက်။ ။ဝေါလတာ ရှီးရား၊ ဒွန် အက်ဆယ်နှင့်ဝေါလတာ ကန်နင်းဟမ်း (အမေရိကန်) တို့သည် အပိုလို ၇ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၁၆၃ ကြိမ် ပတ်ခဲ့ရာ ၂၆၀ နာရီ ကိုးမိနစ်ကြာခဲ့ပြီး ကမ္ဘာပတ်လမ်းကြောင်းမှ ရုပ်မြင်သံကြား သတင်းကို ပဌမဆုံးအကြိမ် ရိုက်ကူး သတင်းပို့ခဲ့သည်။

၁၉၆၈ ခု၊ အောက်တိုဘာ ၂၆–၃၀ ရက်။ ။ဂျော်ဂျီ ဗယ်ရီဂိုဗွိုင် (ရုရှ) သည် ဆိုယု ၃ အာကာသ ယာဉ်ဖြင့် ကမ္ဘာကို ၆၄ ကြိမ်ပတ်ခဲ့ရာ ၉၅ နာရီကြာခဲ့သည်။

၁၉၆၈ ခု၊ဒီဇင်ဘာလ ၂၁–၂၇ရက်။ ။ဖရန့် ဗိုမင်၊ ဂျိမ်း လိုဗယ်နှင့် ဝီလျံ အန်းဒါး (အမေရိကန်)တို့သည် အပိုလို ၈ အာကာသစခန်းယာဉ်ဖြင့် လကိုဆယ်ပတ် ပတ်ခဲ့ရာ ၁၄၇ နာရီ ကြာခဲ့သည်။

၁၉၆၉ ခု၊ ဇန္နဝါရီလ ၁၄–၁၇ ရက်။ ။ဗလာဒီမာ ရှက်တာလော့ (ရုရှ) သည် ဆိုယု ၄ အာကာသ စခန်းယာဉ်ဖြင့် ကမ္ဘာကို ၄၈ပတ် ပတ်ခဲ့ရာ ၇၁ နာရီ ၁၄မိနစ် ကြာခဲ့သည်။

၁၉၆၉ ခု၊ ဇန္နဝါရီလ ၁၅–၁၈ ရက်။ ။ဗောရစ် ဗော်လီနော့၊ အယ်လက်ဆေအီ ရက်လီဆီယက်နှင့် ယက်ဗဂျေနီ ခရူနော့ (ရုရှ) တို့သည် ဆိုယု ၅ အာကာသ စခန်းယာဉ်ဖြင့် ကမ္ဘာကို ၄၉ ပတ်ပတ်ခဲ့ရာ ၇၂ နာရီ ၄၆ မိနစ်ကြာခဲ့သည်။

၁၉၆၉ ခု၊ ဇန္နဝါရီလ ၁၄–၁၈ ရက်အတွင်း အာကာသအတွင်း ပစ်လွှတ်ခဲ့သော အာကာသစခန်းယာဉ် ဆိုယု ၄ နှင့် ၅ တို့သည် လှည့်လည်ပေါင်းဆုံကြပြီးနောက် ချိတ်ဆက်မိကြသည်။

၁၉၆၉ ခုမတ်လ ၃–၁၃ ရက်။ ။ဂျိမ်း မက်ဒီဗစ်၊ ဒေးဗစ် စကော့နှင့်ရပ်ဆဲ ရှဝိတ်ကာ့်(အမေရိကန်)တို့သည် အပိုလို ၉ အာကာသယာဉ်ဖြင့် ကမ္ဘာကို ၁၅၁ ပတ် ပတ်ခဲ့ရာ ၂၄၁ နာရီ တမိနစ် ကြာခဲ့သည်။ ထိုအပိုလို ၉ အာကာသယာဉ်သည် ပဌမဆုံး ပစ်လွှတ်သောလဆင်းယာဉ်ဖြစ်သည်။

၁၉၆၉ ခု၊ မေလ ၁၈–၂၆။ ။တောမတ် စတက်ဖို့၊ ယူဂျင်း ဆာနန်နှင့် ဂျွန် ယန်း (အမေရိကန်)တို့သည် အပိုလို ၁၀ အာကာသယာဉ်ဖြင့် လမျက်နှာပြင်အနီး ကိုးမိုင်အထိ ဆင်းသက်ခဲ့ရာ ၁၉၂ နာရီ သုံးမိနစ် ကြာခဲ့သည်။

၁၉၆၉ ခု၊ ဇူလိုင်လ ၁၆–၂၄ ရက်။ ။နေး အမ်စထရောင်း၊ အက်ဒွင် အောလဒရင်နှင့် မိုက်ကယ် ကောလင်း (အမေရိကန်)တို့သည် အပိုလို ၁၁ အာကာသယာဉ်ဖြင့် လမျက်နှာပြင်ပေါ်သို့ ပဌမဆုံးအကြိမ် အောင်မြင်စွာ ဆင်းသက်ခြေချခဲ့ရုံမက သိပ္ပံသုတေသနများကိုပါ ဆောင်ရွက်ခဲ့ကြရာ ၁၉၅ နာရီ ၁၉ မိနစ် ကြာခဲ့သည်။

၁၉၇၃ ခု၊ မေလ ၁၄–ဇွန်လ ၂၂ ရက်။ ။ချားလ် ကွန်ရဒ်၊ ဂျိုဇက် ကာဝင်နှင့် ပေါလ်ဝိတ်ဇ(အမေရိကန်)တို့သည် စကိုင်းလက် ၁ အာကာသစခန်းယာဉ်ဖြင့် ကမ္ဘာကို ၃၉၅ ပတ် ပတ်ခဲ့ရာ ၂၈ ရက် ၄၀ မိနစ် ကြာခဲ့သည်။ စကိုင်းလက် ၁ သည် အမေရိကန်တို့က အာကာသအတွင်းပစ်လွှတ်သော ပဌမဆုံးအောင်မြင်သော အာကာသစခန်းယာဉ်ဖြစ်သည်။

အာကာသဇိုး။ ။ဘုမ္မဇိုး — ရှု။

အာကေးဒီးယားနယ်။ ။အာကေးဒီးယားနယ်သည် ဂရိနိုင်ငံ ဘောင်ပိုင်းဖြစ်သော ပယ်လိုပွန်နီးဆပ်ကျွန်းဆွယ် အလယ်ပိုင်းတွင် တည်ရှိသည်။ ကုန်းမြင့်ဒေသဖြစ်၍ လေးဖက်လေးတန်တွင် တောင်တန်းများ ဝိုင်းရံလျက် ရှိသဖြင့် ရှေးအခါက ထိုနယ်၌ နေထိုင်သူတို့သည် ပြင်ပနှင့်အဆက်အဆံမရှိပဲ အထီးတည်းရှိနေခဲ့ကြသည်။ ထို့ကြောင့် နယ်သူနယ်သားတို့သည် မိမိတို့၏ ထုံးစံဓလေ့၊ အလုပ်အကိုင်၊ ပြောဆိုသောဘာသာစကား စသည်တို့ကို ရှေးရိုးအတိုင်း ပင် နှစ်ပေါင်း ရာပေါင်းများစွာ ထိန်းသိမ်းထားနိုင်ခဲ့ကြသည်။

အာကေးဒီးယားနယ်သားတို့သည် သိုး၊ ဆိတ် ထိန်းကျောင်းသည့် လုပ်ငန်းဖြင့်သာ အေးချမ်းစွာ အသက်မွေးနေထိုင်ကြ၍ ဂီတကို မြတ်နိုးကြသည်ဟု ရှေးရိုးအဆိုရှိလေသည်။ ထိုအတွက်ကြောင့် အာကေးဒီးယားဟူသောအမည်

ကိုအေးချမ်းသာယာမှုနှင့်၎င်း၊ပျော်ရွှင်စွာနေထိုင်မှုနှင့်၎င်း စပ်လျဉ်း၍ ကဗျာလင်္ကာများ၌ တင်စားဖွဲ့ဆိုခဲ့ကြသည်။ သိုးဆိတ်ထိန်းကျောင်းသူတို့ကို စောင့်ရှောက်သော ပန်နတ်သားကို ကြည်ညိုကိုးကွယ်မှုသည်လည်း အာကေးဒီယားနယ်တွင် အစပြုခဲ့သည်။ (ဂရိနတ်များ—လည်းရှု။)

မူလက အာကေးဒီးယားနယ်ကို ဘုရင်များ အုပ်စိုးခဲ့ကြသည်။ ဘီစီခြောက်ရာစုနှစ်တွင် ပယ်လိုပွန်နီးရှင်း အဖွဲ့နှင့်၎င်း၊ ဘီစီ လေးရာစုနှစ်တွင် သီးဗီး၊ မက်ဆီဒိုးနီးယားနိုင်ငံများနှင့်၎င်း၊ ဘီစီသုံးရာစုနှစ်တွင် အစီယန်အဖွဲ့နှင့်၎င်း မဟာမိတ်ဖွဲ့ခဲ့သည်။ ဘီစီ ၁၄၆ ခုနှစ်တွင် ဂရိနိုင်ငံသည် ရောမတို့လက်အောက်သို့ ကျရောက်ခဲ့ပြီးနောက် အာကေးဒီးယားနယ်သားတို့သည် ရောမတပ်များ၌ ဝင်ရောက်၍ စစ်မှုထမ်းခဲ့ကြသည်။

ယခုအခါ အာကေးဒီးယားနယ်နိမိတ်သည် နေ့ပလီယာပင်လယ်ကွေ့ ကမ်းခြေအထိ ကျယ်ပြန့်လာပြီဖြစ်၍ နယ်၏ကမ်းရိုးတန်းမှာ မိုင် ၄၀ ခန့် ရှည်လျားသည်။ တောထူထပ်၍ မြေသြဇာမကောင်းသဖြင့် လူနေကျဲသည်။ အကျယ်အဝန်းအားဖြင့် ၂,၀၂၀ စတုရန်းမိုင်ရှိ၍၊ လူဦးရေ ၁၃၅,၇၄၂ ယောက် (၁၉၆၁) နေထိုင်သည်။

**အာကင်ဆောပြည်နယ်။** ။အုံ့ဖွယ်ပြည်နယ်တခုအဖြစ် လူသိများသော အာကင်ဆောပြည်နယ်သည်အမေရိကန်ပြည်ထောင်စု၏ တောင်အလယ်ပိုင်း ပြည်နယ် ဖြစ်သည်။ ထိုပြည်နယ်၏မြောက်ဖက်၌ မိဇူးရီပြည်နယ်၊ အရှေ့ဖက်၌ မစ်စစ်စပီမြစ်၊တောင်ဖက်၌ လူဝီဇီယာနားပြည်နယ်နှင့် အနောက်ဖက်၌ တက်ဆက်ပြည်နယ်နှင့် အိုကလဟိုးမားပြည်နယ်တို့ အသီးအသီးတည်ရှိကြသည်။

အာကင်ဆောပြည်နယ်၏ အကျယ်အဝန်းသည် ၅၃,၁၀၂ စတုရန်းမိုင်ရှိ၍ အမေရိကန်ပြည်ထောင်စု၏ ပြည်နယ်များတွင် ၂၆ ခုမြောက်နေရာ၌ ရှိသည်။ ပြည်နယ်သုံးပုံနှစ်ပုံသည် သစ်တောများဖြင့် ဖုံးလွှမ်းလျက်ရှိသည်။

အာကင်ဆောပြည်နယ်ကို အနောက်မြောက်တောင်ကုန်းဒေသနှင့် အရှေ့တောင် မြေနိမ့်ဒေသဟူ၍ နှစ်ပိုင်းပိုင်းခြားနိုင်၏။ မစ်စစ်စပီမြစ်သည် ပြည်နယ်၏ အရှေ့ဖက်နယ်နိမိတ်အဖြစ် တည်ရှိ၍ ထိုမြစ်၏ အကြီးဆုံးသောလက်တက်ဖြစ်သည့် အာကင်ဆောမြစ်သည် အာကင်ဆောပြည်နယ်၏ အလယ်ဗဟိုကိုဖြတ်လျက် အနောက်မှအရှေ့သို့စီးဆင်းလေသည်။ ထို့ပြင် ရက်မြစ် (မြစ်နီ)၊ ဝှိုက်မြစ် (မြစ်ဖြူ)၊ စိန့်ဖရန်းစစ်မြစ်နှင့် ရေအိုင်ကြီးများလည်းရှိပေသေးသည်။

အာကင်ဆောပြည်နယ်၏ ရာသီဥတုမှာ အပူအအေးမျှတ၍ ကျန်းမာရေးနှင့်ညီညွတ်၏။ အရှေ့ပိုင်း ရွှံ့ညွန်ထူထပ်သည့်ဒေသတဝိုက်တွင်သာ ငှက်ဖျားရောဂါအနည်းငယ်ရှိလေသည်။ နှစ်စဉ်ရွာသွန်းသော မိုးရေချိန်သည် ၄၅ လက်မမှ ၅၅ လက်မအထိ ရှိသော်လည်း လယ်ယာစိုက်ပျိုးရေးလုပ်ငန်းအတွက် မလုံလောက်သဖြင့် ဆည်မြောင်းတာတမံများ တူးဖောက်ကာ ရေသွင်းစိုက်ပျိုးကြရ လေသည်။ အများဆုံးထွက်ကုန်မှာ ဝါဂွမ်းဖြစ်၏။ သို့ရာတွင် ဆည်မြောင်းများ ဖောက်လုပ်ပြီးသည့်အချိန်ကစ၍ ဆန်စပါးစိုက်ပျိုးရေး လုပ်ငန်းသည်လည်း များစွာအရေးပါအရာရောက်သော လုပ်ငန်းကြီးတခု ဖြစ်လာလေသည်။ အခြားစိုက်ပျိုးသီးနှံများမှာ ပြောင်းဆန်၊ မြင်းစားဂျုံနှင့် သစ်သီးဝလံများ ဖြစ်ကြ၏။

အာကင်ဆောပြည်နယ်မှ နှစ်စဉ် ကျောက်မီးသွေးတန်ချိန် တသန်းထက်မနည်း ထွက်၍ ရေနံစည်ကြီးပေါင်း ၂၅,၀၀၀,၀၀၀ ကျော် ထွက်လေသည်။ သစ်ထုတ်လုပ်ခြင်းသည် ထိုပြည်နယ်၏ အကြီးဆုံးသော လုပ်ငန်းတခုဖြစ်၍ နှစ်စဉ် သစ်တန်ချိန် မြောက်မြားစွာထွက်သည်။ အာကင်ဆောပြည်နယ်တွင် သစ်တောသည် ကေပေါင်း တသန်းကျော်မျှရှိလေသည်။

လမ်းပန်းဆက်သွယ်ရေးတွင်ကား တောတောင်ထူထပ်သောမြောက်ပိုင်းနှင့် အနောက်ပိုင်းကလွဲ၍ ကျန်အပိုင်းများတွင် အဆင့်အတန်းမြင့်လှသော မီးရထားလမ်းများရှိသည်။

အာကင်ဆောပြည်နယ်ကို "အုံ့ဖွယ်ပြည်နယ်" ခေါ်ကြခြင်းမှာ ထိုနယ်ရှိ ရေပူစမ်းများကြောင့် ဖြစ်တန်ရာသည်။ ထိုရေပူစမ်းများမှရေကို သောက်ချိုးသုံးဆောင်ရပါက ထုံနာကျင်နာနှင့် အလားတူရောဂါများ ပျောက်ကင်းချမ်းသာသည်ဟု ဆိုလေသည်။ ၁၉၂၁ ခုနှစ်တွင် "ရေပူစမ်း အမျိုးသားပန်းခြံ" ဟု စတင်ဖွင့်လှစ်ခဲ့သည်။ ထိုအမျိုးသားပန်းခြံ၏ အကျယ်အဝန်းမှာ ၁½ စတုရန်းမိုင် ၇လေသည်။

အာကင်ဆောပြည်နယ်ကို ၁၅၄၁ ခုနှစ်တွင် ဟာနင်ဒိုဒီ ဆိုတိုအမည်ရှိ စပိန်လူမျိုးတဦးက ဦးစွာ ရှာဖွေတွေ့ရှိခဲ့၏။ ထိုနောက် ပြင်သစ်လူမျိုးများ လာရောက်နေထိုင်ကြရာမှ နောင်အခါ ပြင်သစ်ပိုင်ဖြစ်သွားလေသည်။ ၁၈၀၃ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုအစိုးရက ပြင်သစ်တို့လက်ထဲမှ ဝယ်လိုက်ပြီးနောက် ၁၈၃၆ ခုနှစ်တွင် ပြည်ထောင်စုအတွင်းသို့ သွတ်သွင်းလိုက်သည်။

အာကင်ဆောပြည်နယ်တွင် ၁၉၇၀ ပြည့်နှစ် သန်းကောင်စာရင်းအရ လူဦးရေ ၁,၁၈၆,၂၁၀ ရှိ၏။ လူဦးရေအားလုံး၏ သုံးပုံတပုံသည် နီးဂရိုး (ကပ္ပလီ) များဖြစ်ကြသည်။ အာကင်ဆောပြည်နယ်၏ မြို့တော်သည် လစ်တဲရော့မြို့ဖြစ်၍ လူဦးရေ ၁၂၈,၈၈၀ ရှိလေသည်။

**အာကာစုနသတ္တိ။** ။လွန်ခဲ့သည့် နှစ်ပေါင်း ၃၀၀ ကျော် ကျော်က အသက် ၂၃ နှစ်အရွယ် လူငယ်တဦးသည် တနေ့ တွင် အင်္ဂလန်ပြည်ရှိ တခုသော ဥယျာဉ်အတွင်း၌ တကိုယ် တည်း ထိုင်လျက်ရှိစဉ် အနီးအနားရှိ ပန်းသီးပင်ပေါ်မှ ပန်းသီးတလုံး ကျလာသည်ကို သတိ ထားမိလိုက်လေ သည်။ ထိုသို့ သတိထားမိလိုက်သည့် အခိုက်အတန့်တွင် သူ့ စိတ်ထဲ၌ ထိုပန်းသီးသည် အခြား တပါးသို့ လွင့်စဉ် မသွားပဲ အဘယ်ကြောင့် မြေကြီးပေါ်သို့ ကြွေကျရသ နည်း။ မြေကြီး၌ ထိုပန်းသီးကိုဆွဲငင်သည့် သတ္တိထူး တခုခု ရှိလေသလော၊ ထိုသို့ဖြစ်က လသည် အဘယ် ကြောင့် ကမ္ဘာမြေပေါ်သို့ ကြွေကျခြင်းမရှိပဲ နေရသ နည်း။ လသည် ကမ္ဘာကိုလမ်းကြောင်းမှန်မှန်ဖြင့် အစဉ် တစိုက် လှည့်ပတ်နေခြင်းနှင့် ဤပန်းသီး မြေကြီးပေါ်သို့ ကြွေကျခြင်းတို့သည် တနည်းတလမ်း အဆက်အသွယ် ရှိသလော၊ အာကာသလောကရှိ နေ၊ လ၊ ကြယ်၊ ဂြိုဟ်အားလုံးတို့၏ သွားလာမှုတို့နှင့်လည်း အဘယ်ပုံသက် ဆိုင်သနည်း စသည်ဖြင့် မေးခွန်းပေါင်းများစွာ တသီတ တန်း ထွက်ပေါ်လာလေသည်။ ထိုအချိန်မှစ၍ သူသည် အဖြေမှန်ကိုမရမခြင်း ကြံဆတွေးတောလာခဲ့ရာ၊ နောင် သော် ကမ္ဘာက ယနေ့ထက်တိုင် ချီးကျူးလက်ခံရသော ဂရက်ဗစ်တီခေါ် အာကာစုနသတ္တိအကြောင်းကို သဘာဝ စည်းနှင့်တကွ ဖော်ထုတ်နိုင်ခဲ့ပေသည်။ ထိုသူကား ကမ္ဘာ့ ရှေ့တန်း သိပ္ပံပညာရှင်တဦးဖြစ်သူ ဆာ အိုင်ဇက် နျူတန် ပင်တည်း။ (နျူတန်, ဆာ အိုင်ဇက် — ရှု။)

ဤ "ပန်းသီး" ပုံကလေးကို ယခုအခါ အများကပင် ယုံတမ်းပုံပြင်အဖြစ် မှတ်ယူလိုက်ကြပေပြီ။ သို့သော် ဂရက် ဗစ်တီဆွဲအား အကြောင်းကို တွက်ချက်တိုင်းတာနည်း နှင့်တကွ ဆာ အိုင်ဇက် နျူတန်က အသေအချာ ထုတ်ဖော် ခဲ့သည်မှာ အမှန်ပင်ဖြစ်လေသည်။

နျူတန်သည် လက်တွေ့စမ်းသပ်မှု အမြောက်အမြားကို ပြုလုပ်ပြီးနောက် မိမိ၏အယူအဆများကို ထုတ်ဖော်ကျေ ညာလေသည်။ အာကာသအတွင်း ရှိရှိသမျှသောဒြပ်ဝတ္ထု အားလုံး၌ အချင်းချင်း ဆွဲငင်သည့်အား အသီးအသီးရှိ ကြသည်။ နေသည် ကမ္ဘာကိုဆွဲငင်၏။ ကမ္ဘာကလည်း နေကိုဆွဲငင်၏။ လက ကမ္ဘာကိုဆွဲငင်၏။ ကမ္ဘာကလည်း လကိုဆွဲငင်၏။ သို့ရာတွင် ထိုသို့ဆွဲငင်သည့် အားချင်းမှာ တခုနှင့်တခု မတူကြချေ။ ပုံပမာ—ပန်းသီးနှင့် ကမ္ဘာ မြေကြီးတို့သည် တခုနှင့်တခုဆွဲငင်ကြသော်လည်း ကမ္ဘာ သည် ပန်းသီးရှိရာသို့ လိုက်ပါခြင်းမရှိပဲ၊ ပန်းသီး ကသာ ကမ္ဘာမြေကြီးပေါ်သို့ ကြွေကျရခြင်းမှာ ပန်းသီး တွင် ပါဝင်သော ဒြပ်ပမာဏက ကမ္ဘာမြေကြီးတွင် ပါဝင်သော ဒြပ်ပမာဏအောက် မနှိုင်းယှဉ်လောက် အောင် နည်းပါးသောကြောင့် ဖြစ်သည်။ တဖန် အရာ ဝတ္ထုအချင်းချင်း ဆွဲငင်ကြရာတွင် အရာဝတ္ထုတို့၏စပ်ကြား ရှိ အကွာအဝေးသည်လည်း အရေးကြီးသည့် အချက် ဖြစ် သည်။ အဓိပ္ပါယ်မှာ အရာဝတ္ထုတို့သည် နီးကပ်လျှင် ဆွဲ အားကြီးမား၍ ဝေးလျှင် ဆွဲအားနည်းပါးသွားလေသည်။

ဤဆွဲအားကို "ဂရက်ဗစ်တီ ဆွဲအား" ဟု ခေါ်၍ နျူတန်က ထိုဆွဲအားနှင့် သက်ဆိုင်သည့် သဘာဝစည်းကို "ဂရက်ဗစ်တီ ဆွဲအား စည်း" ဟူ၍ ပြဋ္ဌာန်းခဲ့လေသည်။ အရာဝတ္ထုနှစ်ခုတွင် တခုကိုတခု ဆွဲငင်နေသည့် ဆွဲအား၏ ပမာဏကို ရှာလိုသောအခါ၊ အရာဝတ္ထုတို့၏ ဒြပ်ထုချင်း မြှောက်၍ မြှောက်ရကိန်းကို အရာဝတ္ထုတို့၏ စပ်ကြားရှိ အကွာအဝေး၏ နှစ်ထပ်ကိန်းနှင့် စားရသည်။ ရလဒ် သည် အရာဝတ္ထုနှစ်ခု အချင်းချင်း ဆွဲငင်သောအား၏ ပမာဏဖြစ်သည်။

အထက်ပါ နျူတန်၏ ဂရက်ဗစ်တီ ဆွဲအားစည်း သည် စကြဝဠာ တခုလုံးနှင့် သက်ဆိုင်လေသည်။ နေ၊လ၊ ကမ္ဘာ၊ ကြယ်၊ ဂြိုဟ်အားလုံးသည် ထိုစည်းအရ ဆက် သွယ်ရွေ့ရှားလျက် ရှိကြသည်။ ဒြပ်ဝတ္ထုအားလုံးနှင့်သက် ဆိုင်သော ဆွဲအားကို ယေဘုယျအားဖြင့် ဂရက်ဗစ်တီ ဆွဲအား ဟု ခေါ်၍ ကျွန်ုပ်တို့ ကမ္ဘာမြေတခုတည်းနှင့်သာ သက်ဆိုင်သော ဆွဲအားကိုမူ "(ကမ္ဘာ) မြေဆွဲအား" ဟု ခေါ်လေ့ရှိသည်။

အမှန်မှာ ဂရက်ဗစ်တီဆွဲအားအကြောင်းကို နျူတန် မပေါ်မီ ရှေးနှစ်ပေါင်းများစွာကပင် ပညာရှင်ကြီး အသီး အသီးက တွေးတောမှန်းဆခဲ့ကြလေသည်။ သို့သော် ထိုဆွဲ အားနှင့်သက်ဆိုင်သည့် သေချာကျနသော အယူအဆမှာ နျူတန် လက်ထက်သို့ ရောက်မှ ထွက်ပေါ်လာလေသည်။

ရှေးဂရိသိပ္ပံပညာရှင်ကြီးအယ်ရစ္စတိုတယ်ကလေးသော အရာဝတ္ထုတို့သည် ပေါ့သောအရာဝတ္ထုတို့ထက် အောက်သို့ အကျမြန်သည်ဟု ပြောခဲ့သည်။ ဤအယူအဆမှာ အယ် ရစ္စတိုတယ်၏ မှန်းဆ ထင်မြင်ချက်မျှသာ ဖြစ်လေသည်။ သို့သော် ရှေးကလူများသည် အထူးသဖြင့် အယ်ရစ္စတို တယ်၏ ဟောပြောချက် ဟုဆိုလျှင် မည်သူမျှ စောဒက မတက်တော့သည့်အတိုင်း နှစ်ပေါင်း နှစ်ထောင်တိုင်တိုင် အထက်ပါအယူအဆကို ကေန်အမှန်ဟူ၍ လက်ခံယုံကြည် လာခဲ့ကြရာ၊ ဂယ်လီလေအိုလက်ထက်ကျခါမှပင် တက်တက် စင် မှားနေကြောင်းကို သိရလေတော့သည်။ (အယ်ရစ္စတို တယ်။ ဂယ်လီလေအို — လည်းရှု။)

ဂယ်လီလေအိုသည် ပီစာမြို့ရှိ ယိုင်နေသောမျှော်စင် ကြီးပေါ်သို့ တက်ပြီးနောက် မျှော်စင်အထက်ထပ်မှနေ၍ အလေးချိန်ချင်းမတူသော ပစ္စည်းနှစ်ခုကို အများပရိသတ် ရှေ့တွင် ပြိုင်တူချပြသည်။ ထိုအခါ ထိုပစ္စည်းနှစ်ခုစလုံး မြေ



ဂယ်လီလေအိုသည် ပီစာမြို့ရှိ ယိုင်နေသောမျှော်စင်ပေါ်မှနေ၍ အလေးချိန်ချင်းမတူသောပစ္စည်းနှစ်ခုကို ပြိုင်တူချပြစဉ်

ကြီးပေါ်သို့ ပြိုင်တူကျရောက်သည့် အခြင်းအရာကို ကိုယ်တွေ့ဒိဋ္ဌ တွေ့မြင်ကြရလေသည်။ ဂယ်လီလေအိုသည် ထိုမှ တဆင့်တက်၍ လက်တွေ့စမ်းသပ်မှု အမြောက်အမြားကို ပြုလုပ်သာတွင် အထက်မှအောက်သို့ကျနေသော အရာဝတ္ထု၏ အသွားနှုန်းသည် တချိန်ထက်တချိန် ပိုမိုလျင်မြန်လာသည်ကို တွေ့ရလေသည်။ ပုံပမာ – အရာဝတ္ထုတခုသည် ကျလျက်ရှိစဉ်တွင် ပဌမစက္ကန့်၌ ၁၆ ပေ၊ ဒုတိယစက္ကန့်၌ ၄၈ ပေ၊ တတိယစက္ကန့်၌ ပေ ၈၀ စသည်ဖြင့် အကျနှုန်းသည် တစက္ကန့်ထက် တစက္ကန့် ၃၂ ပေကျ တိုးတက်လျင်မြန်လာသည်ကို တွေ့ရသည်။ ဤအကျနှုန်းတို့ကို ကမ္ဘာမြေဆွဲအားကြောင့် ဖြစ်သော အကျနှုန်းတိုး ဟုခေါ်၍ ဤဂယ်လီလေအို၏ သဘာဝစည်းကို ကျနေသော ပစ္စည်းများစည်း ဟု ခေါ်လေသည်။

ဤစည်းအရပင်လျှင်ကျွန်ုပ်တို့သည်ကုလားထိုင်စသော နိမ့်သည့်နေရာများမှ လိမ့်ကျခြင်းထက် အိမ်ခေါင်မိုး ပြတင်းပေါက်စသောအမြင့်က လိမ့်ကျခြင်းက ပိုမို၍ထိခိုက်နာကျင်ခြင်း ဖြစ်စေသည်။ အသားတူပင် အမြင့်မှ ကျလာသောကျောက်ခဲသည် အနိမ့်မှကျလာသောကျောက်ခဲထက် လူကိုထိခိုက်သောအခါ ပိုမိုနာကျင် စေသည်။

အရာဝတ္ထုတိုင်း၌ အလေးထုနှင့်အလေးချိန် ဟူ၍ သီးခြားရှိသည့်အချက်ကို ပဌမပြဆိုသူမှာ နျူတန်ပင် ဖြစ်သည်။ အလေးထုဆိုသည်မှာ အရာဝတ္ထုတွင်ရှိသော ဒြဗ်ပမာဏဖြစ်၍၊ အလေးချိန် ဆိုသည်မှာမူ ထိုအရာဝတ္ထု၌ သက်ရောက်သည့်ကမ္ဘာမြေ၏ဆွဲအားပမာဏပင်ဖြစ်သည်။

အရာဝတ္ထုတခု၏ ဒြဗ်ထုသည် မည်သည့်နေရာတွင်ပင် နေနေ အမြဲတမ်း ထိုအတိုင်းပင် ဖြစ်သည်။ သို့သော် အလေးချိန်မှာမူ နေရာကိုလိုက်၍ ပြောင်းလဲတတ်လေသည်။ ကမ္ဘာမြေကြီးမှာ လုံးသည်ဟု ဆိုရသော်လည်း ပကတိအလုံးမဟုတ်၊ ဝင်ရိုးစွန်းနေရာများ၌ အနည်းငယ်ပြားလျက်ရှိသည့်အတွက် ဝင်ရိုးစွန်းဒေသသည် အခြားနေရာနှင့်စာလျှင် ကမ္ဘာလုံး၏ဗဟိုချက်နှင့် ပို၍နီးသည်။ ထို့ကြောင့် အရာဝတ္ထုတခုကို စပရင်ချိန်ခွင်နှင့် ဝင်ရိုးစွန်းဒေသ၌ ချိန်တွယ်ရရှိသည့် အလေးချိန်သည် အီကွေတာ၌ ချိန်တွယ်ရရှိသည့် အလေးချိန်ထက် ပိုသည်ကို တွေ့ရလေသည်။ တဖန် ကမ္ဘာမြေမှ ဝေးကွာသွားသောအခါ ကမ္ဘာမြေကြီး၏ဆွဲအားသည် လျော့သွားပြန်သည့်အတိုင်းကမ္ဘာမြေမှ ဝေးကွာသွားသည်နှင့်အမျှ အရာဝတ္ထုတို့၏ အလေးချိန်သည်လည်း နည်းသွားရလေသည်။ လက်တွေ့စမ်းသပ်မှုများအရ အလေးချိန်တခုသည် မြေပြင်မှ အထက်သို့ နှစ်မိုင်မြင့်သွားတိုင်း မူလအလေးချိန်၏ ၂,၀၀၀ ပုံ တပုံခန့် လျော့သွားသည်ကို တွေ့ရလေသည်။

ထို့ပြင် နေ လ ကြယ် ဂြိုဟ်တို့သည် တခုနှင့်တခု အရွယ်

လည်းမတူ၊ ပါဝင်သည့် ဒြပ်ပမာဏချင်းလည်း မညီမျှသည့်အတွက် ထို နေ လ ကြယ် ဂြိုဟ် အသီးအသီးတွင်ရှိသော ဂရက်ဗစ်တီဆွဲအားချင်းမှာ တခုနှင့်တခု မတူညီကြပေ။ ထို့ကြောင့် ကမ္ဘာမြေကြီးပေါ်၌ ပေါင် ၁၀၀ လေးသောသူသည် လပေါ်၌ ၁၆ ပေါင်သာလေး၍၊ အင်္ဂါဂြိုဟ်ပေါ်၌ ၃၅ ပေါင် မှ ၅၀ အတွင်းလေးမည်။ နေပေါ်၌ဆိုလျှင် ပေါင် ၂,၆၀၀ မှ ၂,၈၀၀ အထိပင် လေးမည်ဟု ခန့်မှန်းရလေသည်။ တဖန်ကမ္ဘာမြေကြီးပေါ်၌လေးပေခန့်သာ အမြင့်ခုန်နိုင်သူတဦးသည် အင်္ဂါဂြိုဟ်ပေါ်၌ ရှစ်ပေခန့် ခုန်နိုင်၍ လပေါ်၌ဆိုပါက ၂၄ ပေ အမြင့်ကိုပင် ခုန်နိုင်မည်။ အကယ်၍ ပြင်းထန်လှသော အပူကိုလျစ်လျူပြု၍ နေပေါ်သို့သာ ရောက်သွားနိုင်မည်ဆိုလျှင်ကား ကျွန်ုပ်တို့သည် နေ၏ဆွဲအားကြောင့် ခြေထောက်ကို ကြွဖို့ရန်ပင် အတော်ခဲယဉ်းပေလိမ့်မည်။

အရာဝတ္ထုအသီးအသီးသည် မိမိတို့တွင် ပါဝင်သောဒြပ်ပမာဏ အနည်းအများကိုလိုက်၍ တခုနှင့်တခု သိပ်သည်းပုံချင်း မတူကြပေ။ ပုံပမာ – လေထက် ရေက ပိုမိုသိပ်သည်း၍၊ ရေထက်ဆိုလျှင် သစ်သား သံ စသည်တို့က တဆင့်ထက်တဆင့် ပိုပြီးသိပ်သည်းကြသည်။ ထို့ကြောင့် သိပ္ပံပညာတွင် အရာဝတ္ထုတို့၏ သိပ်သည်းဆ ကိုသိမှတ်ရန် အရေးကြီးပေသည်။ အရာဝတ္ထု တခု၏ သိပ်သည်းဆကို ရှာလိုသော် အရာဝတ္ထု၏ အလေးချိန်ကို ထိုအရာဝတ္ထုနှင့် အရွယ်ထုချင်းတူညီသော ရေ၏အလေးချိန်နှင့် စားရလေသည်။ သိပ်သည်းဆ တွက်ချက် နည်းကို ပဌမဦးစွာ ဂရိပညာရှိကြီးအာခီမီးဒီးက စတင်တွေ့ရှိပြသခဲ့လေသည်။ အာခီမီးဒီး၏ သဘာဝစည်းအရအရာဝတ္ထုတခုသည် ရေထဲသို့ နစ်မြုပ်၍ လျော့သွားသောအလေးချိန်သည် ထိုအရာဝတ္ထုနှင့် အရွယ်ထုချင်းတူညီသော ရေထု၏ အလေးချိန်နှင့် ညီမျှသည်။ ထို့ကြောင့် အရာဝတ္ထုတခုကို လေထဲ၌ ချိန်တွယ်ရရှိသော အလေးချိန်ကို ရေထဲ၌ ချိန်တွယ်၍ တွေ့ရသော အလေးချိန်အလျော့နှင့် စားလျှင် ရလဒ်သည် ထိုအရာဝတ္ထု၏ သိပ်သည်းဆပင် ဖြစ်သည်။ ဤသဘောကိုမူတည်၍အာခီမီးဒီးသည် ဘုရင့်သရဖူမှ ရွှေခိုးမှုပြဿနာကို ဖြေရှင်းပေးခဲ့သည်။ (အာခီမီးဒီး — ရှု။)

ဂရက်ဗစ်တီ ဆွဲအားနှင့် သက်ဆိုင်သည့်ကိစ္စတွင် အစိုင်အခဲဘို့၏ ဟန်ချက်သည်လည်း အရေးကြီးပေသည်။ ဟန်ချက်ဆိုသည်မှာ အရာဝတ္ထုတခု၏ အလေးထု၊ သို့မဟုတ် အလေးချိန်၏ ဗဟိုချက်ဖြစ်သည်။ အရာဝတ္ထု တခုသည် အောက်ခြေမြဲပြီး ယိုင်လဲခြင်းမရှိပဲ နေရန်မှာ ထိုအရာဝတ္ထု၏ ဟန်ချက်သည် အောက်ခံအခြေ၏ နယ်နိမိတ်အတွင်း အထက်ဖက်၌ တည်ရှိရန် လိုပေသည်။ ဟန်ချက်သည် အကယ်၍ အောက်ခံအခြေ၏ အပြင်ဖက်သို့ ရောက်သွားလျှင် အရာဝတ္ထုသည် ယိုင်လဲသွားသည်။ တနေရာရာ၌ ချိတ်ဆွဲထားသောအရာဝတ္ထုတို့တွင် ဟန်ချက်သည် ထိုချိတ်ဆွဲထားရာအမှတ်၏ အောက်တည့်တည့်၌ ရှိသည်။ ဟန်ချက်သည် မယိုင်လဲပဲ တည်နေရမည့်ပစ္စည်း မှန်သမျှတွင် အတော်ပင် အရေးကြီးပေသည်။ ပီစာမြို့ရှိ မျှော်စင်ယိုင်ကြီးသည် ယိုင်ပင်ယိုင်လျက်ရှိသော်လည်း၊ ဟန်ချက်သည် အောက်ခြေ၏ အပေါ် အတွင်းဖက်၌ရှိသောကြောင့်သာ လဲကျမသွားပဲ ခြေမြဲနေခြင်းဖြစ်သည်။ အကယ်၍သာ ထိုမျှော်စင်ယိုင်ကြီးကို ယခုထက် တိုးမြှင့် ဆောက်လုပ်လိုက်မည်ဆိုပါက ဟန်ချက်သည် အောက်ခြေ၏ နယ်အတွင်းမှ လွတ်သွားသည်နှင့်တပြိုင်နက် အဆောက်အအုံကြီးလည်း ပြိုကျသွားမည်မှာ သေချာပေသည်။ မည်သည့်ပစ္စည်းမဆို အောက်ခံအခြေနယ်ကျဉ်းက၊ ယိုင်လဲမသွားအောင် ထိန်းထားရန်မှာ ခဲယဉ်းမြဲဖြစ်သည်။

ဂရက်ဗစ်တီ ဆွဲအားသည် ကျွန်ုပ်တို့အား အဆိုး အကောင်း နှစ်မျိုးစလုံးသောအကျိုးကို ပေးလေသည်။ အမြင့်သို့တက်ရာ၌ မောပန်းရခြင်း၊ လေးလံသည့် အရာဝတ္ထုတို့ကို မရာ၌ မောပန်းရခြင်းတို့မှာ အမှန်စစ်စစ် ကမ္ဘာမြေကြီး၏ ဆွဲအားကို ကျော်လွှန်ရန် လုံးပန်းရသောကြောင့် ဖြစ်သည်။ ကျွန်ုပ်တို့သည် အကယ်၍ စက်ဘီးစီးနေစဉ် စက်ဘီးပေါ်မှာ ဟန်မထားနိုင်ပဲ လဲကျသွားလျှင် ကမ္ဘာမြေကြီး၏ဆွဲအားကိုသာ အပြစ်ဆိုကြရပေလိမ့်မည်။

သို့ရာတွင် ရေအားဖြင့်လည်သော ဒိုင်နမိုမှ လျှပ်စစ်ဓာတ်ရရှိပုံကို စဉ်းစားသောအခါ ထိုရေသည် ကမ္ဘာမြေဆွဲအားကြောင့် မြင့်ရာမှ နိမ့်ရာသို့ စီးရသည့်အချက်ကို သတိရက ကမ္ဘာမြေဆွဲအားကို ကျေးဇူးတင်ရပေလိမ့်မည်။ အမေရိကန်နိုင်ငံတွင် အသပ်ငါးဆယ်၊ ခြောက်ဆယ်အမြင့်မှ စာအိတ်ကလေးကို ထိုအထပ်ရှိ အပေါက်ကလေးထဲသို့ ထည့်လိုက်ရုံမျှနှင့် ထိုစာအိတ်သည် အောက်ဆုံးထပ်ရှိ စာအိတ်ပုံးထဲသို့ ချောမောစွာ ရောက်သွားနိုင်ခြင်းမှာလည်း ကမ္ဘာမြေဆွဲအား၏ ကျေးဇူးကြောင့်ပင်ဖြစ်သည်။ တိုင်ကပ်နာရီရှိ ချိန်သီး အချိန်မှန်မှန် လွဲနေခြင်းမှာလည်း ကမ္ဘာမြေဆွဲအား၏ ကျေးဇူးကြောင့်ပင် ဖြစ်သေသည်။

သို့ရာတွင် ဂရက်ဗစ်တီဆွဲအားအကြောင်းနှင့် စပ်လျဉ်း၍ ကျွန်ုပ်တို့သိရသော အချက်များမှာ လုံးဝပြည့်စုံပြီဟု မဆိုနိုင်သေးချေ။ အာကာသလောကအတွင်းရှိ နေ၊ လ၊ ကြယ်၊ ဂြိုဟ် တို့သည် တခုကိုတခု မည်သို့ဆွဲနိုင်ကြသနည်း၊ နေသည် မိုင်သန်းပေါင်းများစွာ ကျယ်သော လဟာပြင်ကြီးကို ကျော်ဖြတ်ကာ မိမိ၏ဆွဲအားကို ကျွန်ုပ်တို့ ကမ္ဘာပေါ်သို့ အဘယ်ပုံ သက်ရောက်စေနိုင်သနည်း ဟူသော မေးခွန်းများမှာ နျူတန်ကိုယ်တိုင် အဖြေမပေးနိုင်ခဲ့သော မေးခွန်းများဖြစ်လေသည်။

အထက်ပါ မေးခွန်းတို့အတွက် ကျေနပ်လောက်သော အဖြေကို ၁၉၁၃ ခုနှစ်သို့ ရောက်ခါမှ ကမ္ဘာကျော် သိပ္ပံနှင့် သင်္ချာပညာရှင်ကြီးဖြစ်သူ အိုင်စတိုင်းက ''သီအိုရီ အော့ ရေ လေးတစ်ဗစ်တီး'' ခေါ် ''အမှီသဟဲပုဂ္ဂဝါဒ''ဖြင့်ဖြေရှင်းပြနိုင် လေသည်။ (အိုင်စတိုင်း, အဲလဗတ် — လည်းရှု။) သို့ရာတွင် အိုင်စတိုင်း၏ ဝါဒမှာ နျူတန်၏ ဂရက်ဗစ်တီ ဆွဲအားစည်း ကို လုံးဝငြင်းပယ်ခြင်းမရှိပေ။ ဂရက်ဗစ်တီ ဆွဲအား၏အခြေ မှန်နှင့်စပ်လျဉ်း၍ အသစ်ဖြစ်သော သဘောအချက်အလက် အချို့တို့ကို ထပ်မံထုတ်ဖော်ပေးခြင်းသာ ဖြစ်လေသည်။

**အာဂရာမြို့။** ။အာဂရာမြို့သည် ဒေလီမြို့ကဲ့သို့ပင် အိန္ဒိယနိုင်ငံ၏ ရှေးဟောင်း သမိုင်းဝင် ထင်ရှားခဲ့သော မြို့ဖြစ်၍ ကမ္ဘာပေါ်တွင် အလှပဆုံး အဆောက်အအုံတခု ဖြစ်သည့် တက်ဂျမဟာ သင်းချိုင်းဂူကြီး တည်ရှိရာ မြို့လည်း ဖြစ်၏။ ရှားဂျဟန်းဘုရင်ကြီးသည် သူ၏ချစ်မြတ် နိုးလှသော မိဖုရားကြီးအား အစဉ်သတိရလျက် ကမ္ဘာ ပျက်သည့်တိုင် အထိမ်းအမှတ် ဖြစ်စေခြင်းငှါ ဤတက် ဂျမဟာကို ဖြူဖွေးနုထွတ်လှသော ကျောက်ဖြူသားဖြင့် အံ့ဩဖွယ် ခမ်းနားကြီးကျယ်စွာ ဆောက်လုပ်ထားခဲ့လေ သည်။ (တက်ဂျမဟာ သင်းချိုင်းဂူ — လည်းရှု။)

အာဂရာမြို့သည် အိန္ဒိယနိုင်ငံ ဥတ္တရ ဒေသပြည်နယ် တွင် တည်ရှိ၍ ထိုပြည်နယ်၏ တဘိယအကြီးဆုံးမြို့ ဖြစ် သည်။ အိန္ဒိယ ကျွန်းဆွယ်တွင် ရှေးအကျဆုံးမြို့တမြို့လည်း ဖြစ်၏။ ကောက်သီး ကောက်နှံ၊ သကြား၊ ဆေးရွက်နှင့် ဝါဂွမ်းတို့ကို ရောင်းဝယ် ဖောက်ကားရာ အချက်အခြာ ဌာနတခုလည်း ဖြစ်သည်။

အာဂရာမြို့၏ လူဦးရေမှာ ၆၁၇,၇၈၅ ယောက်ဖြစ်၏။ ၁၆ ရာစုနှစ်အတွင်းက အိန္ဒိယနိုင်ငံသို့ ဝင်ရောက်တိုက်ခိုက် ခဲ့သော မွတ်စလင်များသည် မဂိုနိုင်ငံတော်ကြီးကို စတင် ထူထောင်ပြီးနောက် အာဂရာမြို့ကို ထီးနန်းစိုက်ထူရာ မြို့ကြီးအဖြစ် ထားခဲ့၏။ အက္ကဗာဘုရင် တည်ဆောက် ခဲ့သော မြို့ရိုးကြီး၏ ပတ်လည်အလျားသည် တမိုင်ခွဲခန့် ရှည်၍ ပေ ၇၀ ခန့်မြင့်၏။ အက္ကဗာ ဘုရင်ကြီးသည်ပင် အိန္ဒိယနိုင်ငံတွင် အထူးခြားဆုံး အဆောက်အအုံကြီးတခု ဖြစ်သည့်နန်းတော်ကြီးကိုလည်း တည်ဆောက်ခဲ့၏။ အမှန် အားဖြင့်သော် အာဂရာမြို့နှင့်တကွ မြို့ကို ဝိုင်းရံလျက် ရှိသည့် မြို့ရိုးကြီးကိုပါ အက္ကဗာဘုရင်ကြီး တည်ဆောက် ခဲ့၍ သူ၏ အနွယ်တော်ဖြစ်သော ရှားဂျဟန်းဘုရင် နန်း တက်သောအခါ တက်ဂျမဟာ သင်းချိုင်း ဂူကြီးကိုရင်း၊ ခမ်းနားလှသော ပုလဲပလီကြီးကိုရင်း တည်ဆောက်ခဲ့ လေသည်။ ထိုအဆောက်အအုံကြီးများမှာ ယနေ့တိုင် အာဂရာမြို့၏ ကျက်သရေဆောင်များ ဖြစ်နေ ပေသေး သည်။ ကျောက်ဖြူအတိ ပြီးသော ထိုအဆောက်အအုံ ကြီး နှစ်ခုသည် ရှေးလူများ၏ ဆန်းကြယ်သောစိတ်ကူး နှင့် ဗိသုကာအတတ်ကို ဖော်ပြလျက်ရှိလေသည်။

အာဂရာမြို့သည် ဗြိတိသျှတို့လက်သို့ ၁၈ဝ၃ ခုနှစ် တွင် ရောက်ရှိခဲ့ပြီးနောက် အိန္ဒိယစစ်သားများ တော်လှန် ပုန်ကန်ရာတွင် ဝိုင်းဝန်းတိုက်ခိုက်ခြင်း ခံခဲ့ရ၏။ သို့သော် နောက်ဆုံးတွင် ဗြိတိသျှတို့က အောင်မြင်ပြီးလျှင် အစိုးရ အိမ်တော်၊ ဆေးကျောင်းနှင့် အခြား ကောလိပ်ကျောင်း များ အပါအဝင် လက်ရာမြောက်သော ခေတ်မှီအဆောက် အအုံ အချို့ကို ဆောက်လုပ်ခဲ့လေသည်။

အာဂရာမြို့သည် ယမုနာမြစ်ကြောင်းအားဖြင့်၎င်း၊ အာဂရာဘူမြောင်းအားဖြင့်၎င်း လွယ်ကူစွာ ကူးသန်း သွားလာနိုင်၍ စက်မှုလက်မှုများ ထွန်းကားရာ ဒေသပင် ဖြစ်လေသည်။ အာဂရာမြို့မှ ခြည်ထည်၊ ဇာ၊ ဖိနပ်နှင့် ကော်ဇောများ ထွက်လေသည်။

**အာဂျင်တီးနားနိုင်ငံ။** ။တောင်အမေရိကတိုက်တွင် အာဂျင်တီးနားနိုင်ငံသည် ဒုတိယအကြီးဆုံး သမတနိုင်ငံ ဖြစ်သည်။ စတုရန်းမိုင်ပေါင်း ၁,ဝ၈၄,၃၅ဝ ကျယ်ဝန်း သည်။ ကမ္ဘာ့နိုင်ငံကြီးများတွင် သတ္တမ လိုက်သည်။ တောင်အမေရိကတိုက် တောင်ဖက်ပိုင်း တခုလုံးသည် အာဂျင်တီးနားနိုင်ငံတွင် ပါဝင်သည်။ အန်းဒီးတောင်တန်း ၏ အရှေ့ဖက်တွင် တည်ရှိသော အာဂျင်တီးနား နိုင်ငံ သည် မြောက်မှတောင်သို့ မိုင်ပေါင်း ၂,၃ဝဝ ခန့်ရှည်၍ အရှေ့နှင့်အနောက် အကျယ်ဆုံးနေရာတွင် မိုင်ပေါင်း ၈၇ဝ ရှိသည်။

အာဂျင်တီးနားနိုင်ငံ၏ မြောက်ဖက်တွင် ဗိုလစ်ဗီးယား သမတနိုင်ငံနှင့် ပါးရဂွေးသမတနိုင်ငံများ တည်ရှိ၍ အရှေ့ ဖက်တွင် ဗရာဇီးနှင့် အူရုဂွေး သမတနိုင်ငံများ တည်ရှိ သည်။ ချီလီနိုင်ငံနှင့် အာဂျင်တီးနားနိုင်ငံတို့ကို အန်းဒီး တောင်တန်း၏ တောင်စဉ်များက ပိုင်းခြားထားသည်။

အာဂျင်တီးနားနိုင်ငံကို ပထဝီဝင်သဘောအရ ယေဘု ယျအားဖြင့် လေးပိုင်းပိုင်းခြားနိုင်သည်။ မြောက်ဖက်ပိုင်း နယ်များတွင် ရာသီဥတုအခြေအနေမှာ သမမိုင်းရာသီဥတုမှ အပူပိုင်းရာသီဥတုအထိ ရှိကြ၍ ထိုနယ်များတွင် ဆန်စပါး၊ ကြံ၊ ဝါနှင့် အခြားအပူပိုင်းဒေသနှင့် အပူလျော့ပိုင်းဒေသ များတွင် ပေါက်ရောက်နိုင်သောအပင်များကို စိုက်ပျိုးကြ သည်။ ပမ်းပခေါ် အရှေ့အလယ်ပိုင်း လွင်ပြင်သည် မြေဩဇာ ကောင်းမွန်၍ ရေကောင်းစွာ ရရှိသောဒေသ ဖြစ်သဖြင့် ကျွဲနွားများ မွေးမြူကြသည်။ ထိုရပ်ဝန်းတွင် သစ်ပင်ကြီးများ မရှိချေ။ ကောက်သီးကောက်နှံ စိုက်ပျိုး ဖြစ်ထွန်းသည့် ရပ်ဝန်းလည်းဖြစ်၏။ အနောက်ဖက် အန်းဒီး




အာဂျင်တီးနားနိုင်ငံ တည်နေရာပြမြေပုံ

တောင်တန်းအနီးတွင် မိုးခေါင်သောလွင်ပြင်များ၊ တသီးတခြားတည်ရှိသော တောင်များနှင့် ချိုင့်ဝှမ်းများရှိရာ၊ ထိုဒေသတွင် တူးမြောင်းများ ဖောက်လုပ်စိုက်ပျိုးရာ သီးပင်များ ဖြစ်ထွန်းလေသည်။ တောင်ဖက်ပိုင်းရှိ ပက်တဂိုးနီးယားနယ်သည် သွေ့ခြောက်၍ အေးသည်။ ထိုနေရာတွင် ထောင်ပေါင်းများစွာသော သိုးများအတွက် စားကျက်ရှိသည်။ တောင်ဖက်ဆုံး အစွန်းတွင် မဂျဲလန်ရေလက်ကြားဖြင့် ပိုင်းခြားလျက်ရှိသော တျာရာဒယ်ဖွေးဂိုးကျွန်းစုရှိရာ ထိုနယ်မြေဒေသသည် အေး၍ စိုစွတ်သည်။ ထိုဒေသတွင် အာဂျင်တီးနားနိုင်ငံ၏ တိုင်းရင်းသားအင်ဒီးယန်းလူမျိုး အကြွင်းအကျန်များ နေထိုင်ကြသည်။

အာဂျင်တီးနား နိုင်ငံကျယ်ကြီးအတွင်း၌ အပင်နှင့်တိရစ္ဆာန် အမျိုးမျိုးရှိရာ မြောက်ဖက်ပိုင်းရှိ အပူပိုင်းဒေသအပင်အမျိုးမျိုးမှ သမကန္တာရအပင်များနှင့် အန္တာတိတ်ဒေသအပင်များအထိ ပါဝင်လေသည်။ တိရစ္ဆာန်များတွင်လည်း တောနေတောင်နေ တိရစ္ဆာန်များ၊ ပမ်းပလွင်ပြင်နေ တိရစ္ဆာန်များနှင့် တောင်ဖက်ပိုင်းရှိ အေး၍ သစ်ပင်မြက်ပင်များ မပေါက်ရောက်သောဒေသနေ တိရစ္ဆာန်များ ဟူ၍ အမျိုးမျိုး ရှိလေသည်။

အာဂျင်တီးနားနိုင်ငံတွင် မြစ်စဉ်စု ငါးခုရှိ၏။ ယင်းတို့သည် တောင်ဖက်သို့ရင်း၊ အရှေ့ဖက်သို့ရင်း၊ အတ္တလန္တိတ်သမုဒ္ဒရာအတွင်း စီးဝင်ကြသည်။ အကြီးဆုံးမှာ ရီအို ဒီလာပလာတာ မြစ်စဉ်စုဖြစ်၍ ယင်း၏မြစ်ဝကျယ်ကြီးတွင် အကောင်းဆုံးသော သဘာဝဆိပ်ကမ်းတခု ဖြစ်ပေါ်နေသည်။ ထိုမြစ်စဉ်စုတွင် ပါဝင်သော ပါးရနာ၊ ပါးရဂွေးနှင့် အူရုဂွေးမြစ်များသည် ကူးသန်း သွားလာရေးအတွက် အလွန်အသုံးဝင်လေသည်။

အာဂျင်တီးနားနိုင်ငံ ဖြစ်ထွန်းတိုးတက် လာသည်မှာ ၁၈၈၀ ပြည့်နှစ်မှစ၍ ဖြစ်သည်။ ထိုအချိန်မတိုင်မီက အာဂျင်တီးနား နိုင်ငံမှ ထွက်သောကောက်ပဲသီးနှံများသည် နိုင်ငံအတွက်ပင် မဖူလုံခဲ့ချေ။ အသားများကိုလည်း ဗရာဇီးနှင့် ကျူးဗားနိုင်ငံများသို့သာ တင်ပို့နိုင်ခဲ့လေသည်။ ယခုအခါတွင် စံနစ်တကျမွေးမြူ၊ စိုက်ပျိုးလုပ်ကိုင်နိုင်လာခဲ့သောကြောင့် မွေးမြူရေးနှင့် စိုက်ပျိုးရေးဖက်တွင် တိုးတက်ထွန်းကားလျက်ရှိသည်။ ၁၉၆၇ ခုနှစ်က နိုင်ငံအတွင်း၌ ကျွဲနွား ၅၄.၉ သန်းနှင့် သိုး ၄၆ သန်းရှိခဲ့သည်။ ကမ္ဘာပေါ်တွင် ပြောင်းနှင့်ပိုက်ဆံစေ့များ တင်ပို့ရောင်းချနိုင်သောနိုင်ငံများတွင် အာဂျင်တီးနားနိုင်ငံသည် ပဌမစွဲသည်။ အာဂျင်တီးနားနိုင်ငံ၌ ဂျုံအမြောက်အမြား ထွက်သည့်အပြင် အများအပြားကိုလည်း တင်ပို့ရောင်းချသည်။ ရေခဲစိမ် အမဲသားများ၊ စည်သွတ်အမဲသားများ၊ ကျွဲရေနွားရေများ၊ သိုးမွေးအမြောက်အမြားကိုလည်း နှစ်စဉ်ဂရိတ်ဗြိတိန်နိုင်ငံနှင့် အခြားနိုင်ငံများသို့ တင်ပို့ရောင်းချလေသည်။

တောင်အမေရိကတိုက်ရှိ နိုင်ငံများအနက် အာဂျင်တီးနား သမတနိုင်ငံသည် မီးရထားလမ်းဖောက်လုပ်ရေးတွင် အတိုးတက်ဆုံးဖြစ်သည်။ မီးရထားလမ်း မိုင်ပေါင်း ၂၆,၀၀၀ ကျော်ရှိသည်။ ထိုမီးရထားလမ်းများသည် ဗွေနိုဆိုင်းရက်မြို့တော်မှ ဂျုံနှင့် ကျွဲနွားများထွက်ရာဒေသများသို့ရင်း၊ ချီလီသမတနိုင်ငံသို့ရင်း ဖြာထွက်လျက်ရှိသည်။ ပြည်တွင်း ရေကြောင်း သယ်ယူပို့ဆောင်ရေးသည်လည်း အူရုဂွေး၊ ပါးရနာနှင့် ပါးရဂွေးမြစ်များကို အကြောင်းပြု၍ လွယ်ကူသည်။ နေရာအနှံ့အပြားသို့ ပေါက်ရောက်သည်။ အာဂျင်တီးနားနိုင်ငံအတွင်း၌ အသံလွှင့်ရုံပေါင်း ၅၅ ရုံရှိ၍ ဥရောပတိုက်၊ အမေရိကန်ပြည်ထောင်စု၊ ချီလီနိုင်ငံများနှင့် ကြိုးမဲ့ကြေးနန်း အဆက်အသွယ်ရှိသည်။ လေကြောင်း အဆက်အသွယ်များမှာ ဥရောပတိုက်နှင့် အမေရိကန် ပြည်ထောင်စုတို့အပြင် တောင်အမေရိကတိုက်ရှိ အခြားနိုင်ငံများနှင့်လည်း ရှိသည်။

လက်တင်အမေရိကတိုက်တွင် ထိပ်တန်းအကျဆုံးဖြစ်၍ အာဂျင်တီးနားနိုင်ငံ၏ ခန့်ညားသော မြို့တော်ဖြစ်သည့် ဗွေနိုဆိုင်းရက်မြို့တွင် နိုင်ငံအတွင်းရှိ လူဦးရေ၏ ငါးပုံတပုံ

ခန့် နေထိုင်သည်။ ယင်း၏ တံခါးပေါက်သဖွယ်ဖြစ်သော လာပလာတာမြစ်ဝကျယ် အတွင်းသို့ ကမ္ဘာ့အရပ်ရပ်မှ ပင်လယ်ကူးသင်္ဘောကြီးများသည် အဆက်မပြတ် ဝင်ထွက်သွားလာလျက် ရှိကြသည်။ ငြိမ်းချမ်းနေသောအခါများ၌ ထိုသင်္ဘောကြီးများတွင် အာဂျင်တီးနားနိုင်ငံသို့ လာရောက်နေထိုင်ကြမည့် လူအမြောက်အမြားနှင့် သွင်းကုန်ပစ္စည်းများ ပါလာလေ့ရှိပြီးလျှင်၊ အထွက်တွင် ဂျုံနှင့်အမဲသား အမြောက်အမြားကို တင်ဆောင်သွားကြလေသည်။

အာဂျင်တီးနားနိုင်ငံတွင် ရွှေ၊ ငွေ၊ ကြေးနီနှင့် အခြားသတ္တုသိုက်များ ရှိသော်လည်း အန်ဒီးဘောင်တန်းများအတွင်း၌ သယ်ယူပို့ဆောင်ရေး ခက်ခဲသည့်ကတကြောင်း၊ သတ္တုတွင်းများ တူးရန်ခက်ခဲသည်ကတကြောင်းတို့ကြောင့် သတ္တုတူးဖော်ခြင်း လုပ်ငန်းသည် တိုးတက်ကြီးပွားခြင်း မရှိလှပေ။ ထို့ပြင် စူးစမ်းရှာဖွေ သိရှိရသမျှဆိုသော်၊ ကျောက်မီးသွေးနှင့် သံအထွက် နည်းသဖြင့် စက်မှုလုပ်ငန်းဗဟိုဌာနကြီး ဖြစ်လာနိုင်ရန်လည်း ခဲယဉ်းသည်။ သို့သော် ရေနံတူးဖော်ရေးလုပ်ငန်းကို အကောင်အထည် ဖော်လျက်ရှိလေသည်။

အာဂျင်တီးနားနိုင်ငံ၏ လူဦးရေမှာ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေအရ ၂၃,၉၂၀,၀၀၀ ဖြစ်သည်။ လက်တင်အမေရိကန်တိုင်းပြည်များရှိသည့်အနက် အာဂျင်တီးနားနိုင်ငံသည် လူဖြူအများဆုံး နေထိုင်ရာ နိုင်ငံဖြစ်သည်။ တိုင်းရင်းသား အင်ဒီးယန်းလူမျိုး ဦးရေ ၂၀,၀၀၀ ခန့်သာရှိ၍ ကပြားဦးရေမှာ ၁၁၀,၀၀၀ ထက်ပင်မပိုချေ။ လူဖြူများသည် များသောအားဖြင့် ဣတာလျံနှင့် စပိန်လူမျိုးအဆက်အနွယ်များဖြစ်သည်။ ကျန်လူဖြူများမှာ အဓိကအားဖြင့် ရုရှ၊ ဂျာမန်၊ ဗြိတိသျှ၊ ပြင်သစ်၊ တူရကီနှင့် အရှေ့ဥရောပလူမျိုးတို့မှ ဆင်းသက် ပေါက်ဖွားလာကြသူများဖြစ်၏။ သုံးစွဲသည့် ဘာသာစကားနှင့် ထုံးစံဓလေ့များမှာ အားလုံးလိုလို စပိန်လူမျိုးတို့၏ ဘာသာစကားနှင့် ထုံးစံဓလေ့များ ဖြစ်သည်။

လာပလာတာမြစ် တည်ရှိရာဒေသသို့ ဦးစွာရောက်ရှိလာကြသော ဥရောပတိုက်သားများတွင် ကက်ပတိန်ဟွန် သေ ဆိုးလစ်နှင့် ဆီဗက်စချန် ကဲဗေါ့တို့လည်း ပါဝင်သည်။ ယခုအခါ၌ အာဂျင်တီးနားနိုင်ငံ၏ မြို့တော်တည်ရှိသောနေရာတွင် ဒွန် ပီဒရို ဒီ မင်ဒိုဇာသည် ၁၅၃၅ ခုနှစ်က စခန်းတခု ဖွင့်လှစ်ခဲ့သော်လည်း မကြာမီအတွင်း၌ အင်ဒီးယန်းတို့၏ တိုက်ခိုက်ဖျက်ဆီးခြင်းကို ခံရလေသည်။ ထိုအချိန်က မြင်းထီးခုနစ်ကောင်နှင့် မြင်းမငါးကောင်တို့သည် ကွင်းပြင်သို့ လွတ်ထွက်သွားကြရာမှ မရေမတွက်နိုင်သော တောမြင်းအုပ်များ ပေါက်ပွားလာခဲ့ကြလေသည်။ ၁၅၈၀ ပြည့်နှစ်တွင် ဗွေနိုဆိုင်းရက် နေရာကို ပြန်လည်ထူထောင်ကာ၊ စပိန်လူမျိုးတို့ လာရောက်နေထိုင်ကြရာမှ တဖြည်းဖြည်း အတွင်းဖက်သို့ ပျံ့နှံ့သွားကြလေသည်။

၁၇၁၀ ပြည့်နှစ်ကတည်းကပင် အာဂျင်တီးနားပြည်သည် တောင်အမေရိကတိုက်အတွင်း၌ စပိန်လူမျိုးတို့၏ အုပ်ချုပ်မှုကို တက်ကြွစွာ တော်လှန်ရေးအတွက် ဌာနချုပ်သဖွယ် ဖြစ်လာခဲ့သည်။ တိုက်ပွဲများ ခြောက်နှစ်တိုင်တိုင် ကြိုးကြားဖြစ်ပွားခဲ့ရာ ၁၈၁၆ ခုနှစ်တွင် တော်လှန်ရေးကွန်ဂရက်တခု ဖွဲ့စည်းကျင်းပခဲ့ပြီးလျှင် အာဂျင်တီးနားပြည်၏ လွတ်လပ်ရေးကို ကျေညာခဲ့လေသည်။ အမေရိကန်ပြည်ထောင်စုနှင့် အင်္ဂလန်နိုင်ငံတို့သည် သမတနိုင်ငံသစ်ကို ပဌမဆုံး အသိအမှတ်ပြုခဲ့ကြသည်။ ထိုနောက် များမကြာမီ ဗိုလ်မှူးချုပ် ဟိုဇေး သေ ဆန်မာတင် ကွပ်ကဲသည့် မျိုးချစ်တပ်မတော်သည် စစ်သမိုင်းတလျှောက်တွင် အသူးခြားဆုံး စွမ်းဆောင်မှုကြီးတရပ်အဖြစ် အန်ဒီးတောင်များကို ဖြတ်ကျော်ပြီးလျှင် ချီလီနှင့် ပီရူးပြည်တို့ကို စပိန်လူမျိုးတို့၏ အောက်မှ လွတ်မြောက်ရေးအတွက် ကူညီခဲ့လေသည်။ ဆန်မာတင်သည် ထိုကဲ့သို့ အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့သော်လည်း၊ မည်သည့်မြို့ပြဆိုင်ရာ ရာထူးကိုမျှ လက်မခံပဲ ဥရောပတိုက်သို့ ပြန်သွားလေသည်။

နောင်အခါ အာဂျင်တီးနားနိုင်ငံအတွင်း၌ ပြည်တွင်းစစ်ဖြစ်ပွားခဲ့ရာ ၁၈၅၂ ခုနှစ်တွင် အာဏာရှင်ဗိုလ်မှူးချုပ် ဟွန် မနွယ် သေ ရိုဆပ် ရာထူးအကျတွင်မှ ငြိမ်းဆုံးသွားလေသည်။ ၁၈၅၃ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၏ အခြေခံဥပဒေကို အနီးစပ်ဆုံး စံပြုကာ ရေးဆွဲထားသော အခြေခံဥပဒေမျိုးဖြင့် သမတနိုင်ငံ ထူထောင်ခဲ့သည်။ ၁၈၆၅ နှစ်မှ ၁၈၇၀ ပြည့်နှစ်တိုင်အောင် ပါးရာဂွေးနိုင်ငံနှင့် ပြင်းထန်စွာ စစ်မက်ဖြစ်ပွားခဲ့သည်။ ထိုစစ်ပွဲတွင် အာဂျင်တီးနားနိုင်ငံသည် ဥရုဂွေးနှင့်ဗရာဇီးနိုင်ငံများနှင့် မဟာမိတ်ဖွဲ့ခဲ့သည်။ ၁၉၀၂ ခုနှစ်တွင် နယ်စပ်အရေးနှင့်စပ်လျဉ်း၍ ချီလီနိုင်ငံနှင့် အငြင်းပွားမှုကို အပြီးသတ်နိုင်ခဲ့ကြသည်။ ထိုအတွက် အထိမ်းအမှတ်ဖြစ်စေရန် ချီလီနိုင်ငံသူနိုင်ငံသားများနှင့်အာဂျင်တီးနားနိုင်ငံသူနိုင်ငံသားများက "အန်းဒီးတောင်ကြားလမ်းရှိ ခရစ်တော်"ခေါ် ကြေးညိုရုပ်ကြီးတရုပ်ကို တည်ဆောက်ခဲ့ကြသည်။ ထိုကြေးရုပ်ကြီးကို တနိုင်ငံမှတနိုင်ငံသို့ သွားရာ အဓိကတောင်ကြားလမ်းကြီးပေါ်တွင် တည်ထားခဲ့လေသည်။ ၁၉၃၉ ခုနှစ်မှ ၁၉၄၅ ခုနှစ်အထိ ဖြစ်ပွားခဲ့သော ဒုတိယကမ္ဘာစစ်ကြီးအတွင်းက အာဂျင်တီးနားနိုင်ငံသည် ဦးစွာ၌ ကြားနေနိုင်ငံအဖြစ် ရပ်တည်ခဲ့သေးသော်လည်း၊ ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင်မူ ဂျာမနီနှင့် ဂျပန်နိုင်ငံတို့ကို စစ်ကြေညာခဲ့လေသည်။ ထို့ပြင် အာဂျင်တီးနားနိုင်ငံသည် ကုလသမဂ္ဂ၏ မူလအဖွဲ့ဝင်(ငါးဆဲ့တစ်)လည်း ဖြစ်လာခဲ့သည်။ ထိုစဉ်က

အာဂျင်တီးနားနိုင်ငံ၏သမတမှာ ဗိုလ်ချုပ် အီဒယ်လမီရို ဖာရယ် ဖြစ်သည်။ ဖာရယ်၏ အစိုးရအဖွဲ့တွင် "အာဏာရှင်မှာ" ဒုတိယသမတရာထူး၊ စစ်ဝန်ကြီးရာထူးနှင့် အလုပ်သမားနှင့် လူမှုဝန်ထမ်းဆိုင်ရာ အတွင်းဝန်ရာထူးများကို လက်ကိုင်ပြုထားသူ ဟွန် ဒိုမင်ဂို ပီရွန်ဖြစ်၏။ ၁၉၄၅ ခုနှစ်တွင် ပီရွန် သမတဖြစ်လာ၍ အာဏာရှင်အဖြစ် ဆက်လက်အုပ်ချုပ်ကာ ပုဂ္ဂလိကအခွင့်အရေးများကို ဖိနှိပ်ချုပ်ချယ်ခဲ့သည်။ သူ၏ ဇနီးသည် အီဗာပီရွန်သည် ၁၉၅၂ ခုနှစ်တွင် ကွယ်လွန်သည်အထိသူ၏အကြံပေးပုဂ္ဂိုလ်ကြီးဖြစ်ခဲ့သည်။

ပီရွန်သည် ပြည်သူ့အခွင့်အရေးများကို ဖိနှိပ်ချုပ်ချယ်မှုကြောင့် အမေရိကတိုက်များရှိ ဒီမိုကရေစီနိုင်ငံများ၊ အထူးသဖြင့် အမေရိကန်ပြည်ထောင်စုနှင့် ဆက်ဆံမှုတင်းမာခြင်းဖြစ်ခဲ့ရ၏။ ပီရွန်သည် ၁၉၅၂ ခုနှစ်တွင် သမတအဖြစ် ထပ်မံအရွေးခံရပြန်သဖြင့် စိုက်ပျိုးရေးကို အဓိကထားလျက် အာဂျင်တီးနားနိုင်ငံ၏ စိုက်ပျိုးရေးနှင့်စက်မှုလုပ်ငန်းတို့ တိုးတက်ရေးအတွက် ငါးနှစ်စီမံကိန်း ချမှတ်ဆောင်ရွက်လေသည်။ ထိုနှစ်မှာပင် အာဂျင်တီးနားနိုင်ငံတွင်း၌ အမေရိကန်ပြည်ထောင်စုက ငွေပင်ငွေရင်းမြှုပ်နှံလုပ်ကိုင်ရေးအတွက် အားပေးခဲ့၏။

၁၉၅၄ ခုနှစ်တွင် ပီရွန်သည် အာဂျင်တီးနားနိုင်ငံတွင်း၌ ကက်သလစ်ဂိုဏ်း၏ တန်ခိုးအာဏာကို ချိုးနှိမ်ရန်အတွက် စတင်ဆောင်ရွက်ခဲ့ရာ ၁၉၅၅ ခုနှစ်တွင် သပိတ်မှောက်ခြင်းခံရသည်။ ယင်းသည်ပင် သူတန်ခိုးအာဏာ ကျဆုံးရခြင်း၏ အကြောင်းရင်းတရပ် ဖြစ်ခဲ့ရလေသည်။ ကက်သလစ်ဂိုဏ်းအကြီးအကဲများ၊ ဆက်နက်ကိုင်တပ်ဖွဲ့များ၊ နိုင်ငံရေးအတိုက်အခံဂိုဏ်းသားများနှင့် မျိုးချစ် ပုဂ္ဂိုလ်များသည် ပီရွန် အာဏာရှင်အဖြစ် အုပ်စိုးလာသည်ကို သည်းမခံနိုင်တော့ပဲ ၁၉၅၅ ခုနှစ်တွင် တော်လှန်ပုန်ကန်ခဲ့ကြရာ၊ ပီရွန်သည် ထိုနှစ်စက်တင်ဘာလတွင် သမတရာထူးကိုစွန့်၍ တိုင်းတပါးသို့ ရှောင်သွားရလေသည်။ ထိုနောက်တွင် ဗိုလ်ချုပ်ကြီး ပီဒရို ယူဂျင်နီယို အာရမ်ဗူရူသည် သမတဖြစ်လာလေသည်။

၁၉၅၈ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် လွန်ခဲ့သောတဆဲ့နှစ်နှစ်အတွင်း ပဌမဆုံးအကြိမ် ရွေးကောက်ပွဲများကျင်းပခဲ့ရာတွင် ဒေါက်တာ အာတူရို ဖရွန်ဒီဇီ သမတအဖြစ် အရွေးခံရသည်။ သို့သော် စစ်ခေါင်းဆောင်များ၊ ဒီမိုကရက်တစ်ပါတီများနှင့် ဒေါက်တာဖရွန်ဒီဇီကိုထောက်ခံသည့် ပီရွန်ဂိုဏ်းသားတို့ မသင့်မတင့်ဖြစ်ခဲ့ရာမှ ၁၉၆၂ ခုနှစ်



အာဂျင်တီးနားနိုင်ငံတွင် တိုင်းရင်းသားအင်ဒီယန်းလူမျိုးထက် လူဖြူဦးရေပိုများသည်။ လူဖြူများသည် များသောအားဖြင့် ဣတာလျံနှင့် စပိန်လူမျိုးအဆက်အနွယ်များဖြစ်၍ ဘာသာစကားနှင့် ထုံးစံဓလေ့များမှာ စပိန်လူမျိုးအတိုင်း ဖြစ်သည်။

မတ်လ ၂၉ ရက်နေ့တွင် စစ်ဖက်မှ သွေးမြေမကျပဲ အာဏာသိမ်းခဲ့ပြန်၏။ ထိုနောက်တွင် ရွေးကောက်ပွဲများ ကျင်းပခဲ့ရာ ၁၉၆၃ ခုနှစ်တွင် ဒေါက်တာ အာတျူရို အီလီယာ သမတအဖြစ် အရွေးခံခဲ့ရသည်။

၁၉၆၆ ခုနှစ် ဇွန်လတွင် အဖွဲ့ဝင်သုံးဦးပါ စစ်အာဏာပိုင်အဖွဲ့က ဒေါက်တာ အီလီယာကို ဖြုတ်ချပြီးနောက် အငြိမ်းစားယူထားသော ဗိုလ်ချုပ်ကြီး ကာလို့ အွန်ဂါနီယာကို သမတတင်ခဲ့၏။ စစ်အာဏာပိုင်အဖွဲ့သည် ကွန်ဂရက်လွှတ်တော်ကို ဖျက်သိမ်းခဲ့၍ လက်ဝဲအင်အားစုများကို ချိုးနှိမ်ရန်အတွက် နိုင်ငံရေးပါတီအားလုံးကိုလည်း ဖျက်သိမ်းခဲ့၏။ ၁၉၆၉ ခုနှစ်တွင် အလုပ်သမားများက ကော်ဒိုဘါနှင့်အခြားမြို့ကြီးများတွင် ရဲအဖွဲ့ဝင်များနှင့် စစ်တပ်များကို ပြန်လည်တိုက်ခိုက်ခဲ့သည်။

၁၉၇၀ ပြည့်နှစ်တွင် စစ်ခေါင်းဆောင်များသည် သမတ အွန်ဂါနီယာကို ဖြုတ်ချခဲ့ပြန်၍ ဗိုလ်ချုပ်ကြီး ရော်ဗတ်တို အမ်လက်ဗင်စတန်သည် သမတအဖြစ် ဆက်ခံခဲ့သည်။ ၁၉၇၁ ခုနှစ် မတ်လတွင် ဗိုလ်ချုပ်ကြီး အယ်လက်ဂျန်ဒရိုလာနူစေ က သမတအဖြစ် လွှဲပြောင်းဆက်ခံခဲ့ပြီးနောက်၊ အရပ်သား အုပ်ချုပ်ရေးစနစ်ဖြင့် ပြန်လည် အုပ်ချုပ်ရန် အမိန့်ပေးခဲ့၏။

၁၉၇၃ ခုနှစ် ရွေးကောက်ပွဲများတွင် ပီရွန်ဂိုဏ်းဝင်တဦးဖြစ်သူ ဟက်တာ ကျေ ကမ်ပိုရာ သမတအဖြစ် အရွေးခံခဲ့ရသည်။ သူသည် ထိုနှစ်မေလတွင် သမတရာထူး၌ စတင်ထမ်းရွက်ပြီးနောက်၊ တိုင်းတပါးသို့ ၁၈ နှစ်ကြာမျှ သွားရောက်ရှောင်တိမ်းနေထိုင်ခဲ့ရသော အသက် ၇၇ နှစ်အရွယ်ရှိ ပီရွန်သည် ထိုနှစ်ဇွန်လ ၂၀ ရက်နေ့တွင် အာဂျင်တီးနားနိုင်ငံသို့ ပြန်လာနေထိုင်ခဲ့သည်။

သို့သော် သမတ ကမ်ပိုရာသည် တိုင်းပြည်ငြိမ်ဝပ်အောင် မအုပ်ချုပ်နိုင်ရကား အလုပ်သမား သမဂ္ဂများနှင့် ပီရွန်ဂိုဏ်းဝင် စစ်ခေါင်းဆောင် များ၏ အကြပ်ကိုင်မှုကြောင့် ထိုနှစ် ဇူလိုင်လ ၁၈ ရက်နေ့တွင် နုတ်ထွက် လိုက်ရသည်။ စက်တင်ဘာလ ၁၈ ရက်နေ့တွင် သမတ ရွေးကောက်ပွဲကျင်းပခဲ့ရာ၌ ပီရွန်သည် သမတအဖြစ် ပြန်လည်အရွေးခံခဲ့ရသည်။ သို့သော် ၁၉၇၄ ခုနှစ် ဇူလိုင်လတွင် သမတ ပီရွန် နာမကျန်းဖြစ်၍ ကွယ်လွန်သွားရာ သူနှင့် အတူ ဒုတိယ သမတအဖြစ် အရွေးခံခဲ့ရသော မစ္စက်အင်ဇာဗဲလိတာပီရွန်က သမတ အဖြစ် ဆက်ခံခဲ့လေသည်။

အာဂျင်တီးနားနိုင်ငံသည် ပြည်ထောင်စုသမတနိုင်ငံဖြစ်ပြီးလျှင် သမတကို လေးနှစ်တကြိမ် ရွေးကောက်တင်မြှောက်ကြရသည်။ ကွန်ဂရက်တွင် ဆီးနိတ်လွှတ်တော်နှင့် ပြည်သူ့လွှတ်တော်များ ပါဝင်လေသည်။ ပြည်နယ်များတွင် သီးခြား ဒေသန္တရ အစိုးရအဖွဲ့များ ရှိကြပြီးလျှင်၊ ယင်းတို့၌ ပြည်တွင်းရေးရာ ကိစ္စများ အတွက် အာဏာ အပြည့်အဝ ရှိကြသည်။

အာဂျင်တီးနားနိုင်ငံ၏ ပညာရေးစနစ်မှာ အခမဲ့ပညာရေးစနစ် ဖြစ်ပြီးလျှင်၊ ခြောက်နှစ်မှ ၁၄ နှစ်ရွယ် ကလေးများအဖို့ ပညာမသင်လို၍ မနေရချေ။ အမျိုးသားတက္ကသိုလ်ကျောင်းစုစုပေါင်း ရှစ်ကျောင်း ရှိသည့်အနက် ဗွေနိုဆိုင်းရက်မြို့ရှိ တက္ကသိုလ်မှာ အဓိကဖြစ်လေသည်။

**အာစနစ်။** ။စိန်သဘ္ဘ — ရှ။

**အာဆွန်စီယွန်မြို့။** ။အာဆွန်စီယွန်မြို့သည် တောင်အမေရိကတိုက် ပါးရဂွေးနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ပါးရဂွေးမြစ်ကမ်းပေါ်တွင် တည်ရှိ၍ ပင်လယ်ကူးသင်္ဘောများ မြို့သို့အရောက် ဆန်တက်နိုင်သဖြင့် ပါးရဂွေး နိုင်ငံ၌ အကြီးဆုံး ဆိပ်ကမ်းမြို့လည်းဖြစ်သည်။ အာဆွန်ဆီယွန်မြို့သည် အာဂျင်တီးနားနိုင်ငံ၏ မြို့တော်ဖြစ်သော ဗွေနိုဆိုင်းရက်မြို့နှင့် မြစ်ကြောင်းခရီးဖြင့်၎င်း၊ မီးရထားလမ်းဖြင့်၎င်း ဆက်သွယ်လျက် ရှိသည့်အပြင် နိုင်ငံတွင်းရှိ အခြားမြို့များနှင့်လည်း လမ်းပန်းအဆက်အသွယ်ရှိသည်။ ထို့ကြောင့် ပါးရဂွေးနိုင်ငံ၏ ကုန်သွယ်ရေးအတွက် အချက်အခြာမြို့ကြီးဖြစ်သည်။

အာဆွန်စီယွန်မြို့ကို ၁၅၃၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် တည်ခဲ့ရာ အမေရိကတိုက်၌ ရှေးကျသော မြို့ဟောင်းတမြို့ဖြစ်သည်။ ၁၅၃၇ ခုနှစ်မှ ၁၆၁၇ ခုနှစ်အထိ တောင်အမေရိကတိုက် အရှေ့တောင်ပိုင်းရှိ စပိန်ပိုင်နယ်များကို အုပ်ချုပ်ရာဗဟိုဌာန ဖြစ်ခဲ့သည်။ မူလအစက မြို့တွင်းရှိ လမ်းများသည် ကျဉ်း၍ ကောက်ကွေ့နေသော်လည်း နောင်တွင် မြို့ကွက်ကို အသစ်ပြုပြင်ခဲ့ကြသဖြင့် ယခုအခါ လမ်းမကျယ်များနှင့် ခေတ်မီတိုက်တာ အဆောက်အအုံ များဖြင့် ကြီးကျယ်ခမ်းနားလျက် ရှိလေသည်။ မြို့တွင်းရှိထင်ရှားသော အဆောက်အအုံများမှာ ကသီဒရယ်ဘုရားရှိခိုးကျောင်းများ၊ အမျိုးသားကောလိပ်ကျောင်း၊ ပြည်သူ့စာကြည့်တိုက်၊ အစိုးရအဆောက်အအုံများစသည်တို့ ဖြစ်ကြသည်။ အဓိက ထွက်ကုန်များမှာ ပါးရဂွေး လက်ဖက်ခြောက်၊ ဆေး၊ သစ်သီး၊ သားရေ၊ သကြား၊သစ်တို့ဖြစ်သည်။

လူဦးရေ ၄၇၇,၁၃၆ ယောက် (၁၉၇၀) ရှိသည်။

**အာဇာနည်နေ့။** ။မြန်မာနိုင်ငံတွင် ဇူလိုင်လ ၁၉ ရက်နေ့သည် အာဇာနည်နေ့ဖြစ်သည်။ အထူးသဖြင့် ၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့သည် မြန်မာ့သမိုင်းတွင် မိုးမှောင်ကျခဲ့သော နေ့ဖြစ်သည်။ ထိုနေ့တွင် မြန်မာ့လွှတ်

လပ်ရေးအတွက် အထိရောက်ဆုံး လုပ်ငန်းများကို ဆောင်ရွက်ခဲ့၍ မြန်မာတမျိုးလုံး၏ ယုံကြည်ကိုးစား အားထားခြင်းခံရသူ အာဇာနည်ခေါင်းဆောင်ကြီးများ ဖြစ်ကြသော ဗိုလ်ချုပ်အောင်ဆန်း၊ သခင်မြ၊ ဒီးဒုတ် ဦးဘချို၊ ဦးရာဇတ်၊ ဦးဘဝင်း၊ မန်းဘခိုင်၊ မိုင်းပွန်စော်ဘွားကြီးတို့သည် တိုင်းပြည်၏တာဝန်ကို ထမ်းဆောင်လျက်ရှိနေစဉ် နယ်ချဲ့သမား၏ ပယောဂကြောင့် ဖြစ်ပေါ်လာရသော လူသတ်ဝါဒ၏ ချေမှုန်းခြင်းကို ခံခဲ့ရလေသည်။ ထိုအာဇာနည် ပုဂ္ဂိုလ်ကြီးတို့နှင့်အတူ တိုင်းပြည်၏ တာဝန်ဝတ္တရားနှင့် အမှုကိစ္စတို့ကို သစ္စာရှိစွာ ထမ်းရွက်နေသော အတွင်းဝန် ဦးအုန်းမောင်နှင့် ကိုယ်ရံတော် မောင်ထွေးတို့လည်း ကျဆုံးခဲ့ရလေသည်။

မြန်မာတို့ ကျွန်ဘဝရောက်ခဲ့ကြရသည့် အချိန်မှစ၍ လွတ်လပ်ချိန်အထိ မြန်မာနိုင်ငံရေး သမိုင်းတွင် ဗိုလ်ချုပ်အောင်ဆန်းသည် တိုင်းပြည်ကို အချစ်ဆုံးနှင့် တိုင်းပြည်က ချစ်ကြည်လေးစားမှုကို အခံရဆုံး ခေါင်းဆောင်ကြီး ဖြစ်သည်ဟုဆိုနိုင်ပေသည်။ (အောင်ဆန်း၊ဗိုလ်ချုပ်–ရှု။) ထိုမျှသာမက ဗိုလ်ချုပ်၏ဇွဲလုံ့လဖြင့် ဖွဲ့စည်းအပ်သော အစိုးရအဖွဲ့ဝင် ဝန်ကြီးများသည် မြန်မာ့လွတ်လပ်ရေး သမိုင်းစဉ်တလျှောက် မကြုံဘူးအောင် ထူးကဲစွာ သစ္စာရှိကြသော လူ့ခွန်လူ့ချွန်များသာ ဖြစ်ကြ၍ ဗိုလ်ချုပ်




အာဇာနည်များအား ဦးတိုက်အလေးပြုစဉ် ၂

အောင်ဆန်းနှင့်တကွ အစိုးရတဖွဲ့လုံး၏ ဆောင်ရွက်ချက်များသည် ခေတ်လက်နက်စိုးသည့် တန်ခိုးရှင်တို့ ထိတ်လန့်ဖွယ် အောင်မြင်ခဲ့ပေသည်။ မြန်မာနိုင်ငံသည် နှစ်ပေါင်းတရာ့အစိတ် နီးပါးမျှ သူတပါးလက်အောက်ခံဘဝ၌ နယ်ချဲ့သမားတို့၏ စိုးမိုးအုပ်ချုပ်ချယ်လှယ်ခြင်းကို ခံခဲ့ရ၏။ လက်အောက်ခံဘဝမှ လွတ်မြောက်လေအောင် အမျိုးသားများသည် သူ့ခေတ်နှင့်သူ ကြိုးပမ်းခဲ့ကြသည် မှန်ပေသည်။ သို့သော် ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုသော ခေါင်းဆောင်အပေါင်းတို့၏ ခေတ်ကာလသို့ ရောက်မှပင်လျှင် တမျိုးသားလုံး၏ ညီညွတ်သော စည်းရုံးရေးဖြင့် နယ်ချဲ့သမားတို့ကို အပြီးအပိုင် တော်လှန်နိုင်ခဲ့သည်။ မြန်မာလူထုကြီးတရပ်လုံးမှာလည်း ထိုကဲ့သို့သော ခေါင်းဆောင်ကြီးများကို ရရှိနေသဖြင့် ဂုဏ်ယူ၍မဆုံးနိုင်အောင်ရှိကြပြီးလျှင် ကမ္ဘာ့နိုင်ငံကြီးများနှင့် ပခုံးချင်း ယှဉ်နိုင်ခဲ့ကြ၏။

ထိုသို့ရှိစဉ် အဆိုပါ ခေါင်းဆောင်ကြီးများ၏ အောင်မြင်မှုကို မနာလိုဝန်တိုဖြစ်လျက်ရှိကြသော နိုင်ငံရေး လူမသမာတစုသည် ၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၉ ရက် စနေနေ့ နံနက် ၁၀ နာရီခွဲအချိန်ခန့်တွင် အမှတ် ၁၂ တပ် ခြင်္သေ့ တံဆိပ်ပါသော စစ်ဝတ်စစ်စားများနှင့် လက်နက်အပြည့်အစုံစွဲသော လူသတ်သမားများအား စေလွှတ်၍ အတွင်းဝန်များရုံး ဗိုလ်ချုပ်အောင်ဆန်း၏ ရုံးခန်းအတွင်း အကာအကွယ်မရှိပဲ စည်းဝေးဆွေးနွေးလျက်ရှိကြသော ခေါင်းဆောင်ကြီးများကို အမွှဝင်ရောက် လုပ်ကြံစေလေသည်။

လူထုကြီးတရပ်လုံး၏ ချစ်ကြည်လေးစားမှုကို ယုံကြည်စိတ်ချလျက် အကာအကွယ် မစီမံပဲ လွတ်လပ်စွာ စည်းဝေးလျက်ရှိကြသော ဝန်ကြီးများသည် ရုတ်တရက် တိမ်းရှောင်ခုခံရန် တစုံတရာမတတ်နိုင်မီ လူသတ်တို့ ဒလစပ် ပစ်ခတ်သော စက်သေနတ်ကျည်သင့်၍ အတုံးအရုံး ကျဆုံးရ ရှာလေသည်။ ဤသို့လျှင် မြန်မာ့ လွတ်လပ်ရေးအတွက် မျှော်လင့်ချက်အပေါင်းတို့၏တည်ရာ သစ္စာရှိလှသော ခေါင်းဆောင်ကြီးများ ရေတိမ်တွင်နစ်၍ သေဆုံးကြရသောအခါ မြန်မာတမျိုးသားလုံး ကြိမ်မီးအုံး ဖြစ်ကြရလေတော့သည်။ ထိုကဲ့သို့ ဝမ်းနည်းကြေကွဲဖွယ် အဖြစ်အပျက်မျိုးကား မြန်မာနိုင်ငံ သမိုင်းတွင်သာမက ကမ္ဘာ့သမိုင်းတွင်ပင် မကြုံဘူးအောင် ထူးခြားလှပေသည်။

ခေါင်းဆောင်ကြီးများသည် လွတ်လပ်ရေးခုလပ်၌ ကျဆုံးကြရသော်လည်း ယင်းတို့ချမှတ်ခဲ့သောလမ်းစဉ်မှာ လွတ်လပ်ရေးပန်းတိုင်အထိ ဖြောင့်ဖြူးလျက်ရှိပြီဖြစ်ရကား ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာနိုင်ငံအလုံးအချုပ်အချယ်မှ လွတ်မြောက်ခဲ့ရလေသည်။ ဤသို့လျှင် နိုင်ငံ၏အကျိုးကို အသက်စွန့်၍ သည်ပိုးသွားကြသော

ကျေးဇူးရှင် ခေါင်းဆောင်ကြီးများကို လူထုကြီးတရပ်လုံးက ဝမ်းနည်းကြေကွဲစွာ ခြီးကျူးဂုဏ်ပြုရန်နှင့် ယင်းတို့ ချမှတ်ခဲ့သော လမ်းစဉ်အတိုင်း မမေ့မလျော့မဖောက်မပြန် ဆောင်ရွက်ကြရန် အဓိဋ္ဌာန်ပြုသည့် အထိမ်းအမှတ်များကို နှစ်စဉ် ဇူလိုင်လ ၁၉ ရက်နေ့တွင် မြန်မာနိုင်ငံအမြို့မြို့အရွာရွာ၌ ကျင်းပပြုလုပ်ကြ၏။ ထိုနေ့တွင် အစိုးရရုံးများ၊ ဈေးဆိုင်ကနားများကို ပိတ်၍ နိုင်ငံတော်အလံကို တိုင်တဝက်၌ လွှင့်ထူထားကြလေသည်။

**အာတီချုပ်ပင်။** ။အာတီချုပ်ပင် သုံးမျိုးရှိသည်။ တမျိုးမှာ ဂလုပ် အာတီချုပ်ပင်ဖြစ်၍ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် ဆင်နရာ စကောလီမပ် ဟုခေါ်သည်။ ထိုအာတီချုပ်ပင်မျိုးသည် သန်၍ကြီးထွားပြီးလျှင်အစိမ်းပုပ်ရောင်ဖြစ်သည်။ နှစ်ပေမှ သုံးပေအထိမြင့်သည်။ ပြင်သစ်နိုင်ငံတောင်ပိုင်းတွင် အလေ့ကျ ပေါက်ရောက်သဖြင့် ယင်းကို ပြင်သစ် အာတီချုပ်ဟူ၍လည်းခေါ်ကြလေသည်။ ထိုအာတီချုပ်ပင်မျိုးတွင် စားသုံးနိုင်သောအစိတ်အပိုင်းမှာ မပွင့်သေးသည့် ပန်းငုံဖြစ်သည်။ ထိုအာတီချုပ်ပင်မျိုး စ၍ပေါက်ရောက်သော ဒေသမှာမူ အာဖရိကတိုက်ဖြစ်လေသည်။

အခြားအာတီချုပ်ပင်တမျိုးမှာ ဂျရုဆလမ်း အာတီချုပ်ပင်ဖြစ်သည်။ ယင်းကို ရုက္ခဗေဒအလိုအားဖြင့် ဟီလီယန်သူတျူဗရိုဆပ်ဟု ခေါ်သည်။ ထိုအာတီချုပ် မျိုးသည် ရာသီဥတုဒဏ်ကို ခံနိုင်ရည်ရှိပြီးလျှင် ငါးပေမှ ဆဲနှစ်ပေအထိမြင့်သည်။ သစ်ရွက်များကြေသည့် ဆောင်းရာသီတွင် အဝါရောင်ရှိသည့်ပန်းများပွင့်သည်။ ထိုအာတီချုပ်ပင်မျိုးကို ဥရောပနှင့် အမေရိကတိုက်တို့တွင် စိုက်ပျိုးကြသည်။ အဆိုပါအာတီချုပ်ပင်မျိုး၏ တျူဗာအတက်များသည် မြေအောက်တွင် အာလူးများကဲ့သို့ အပြွတ်လိုက်ရှိနေကြသည်။ ထိုအတက်များသည် လူနှင့်ကျွဲနွားများအတွက် စားသုံးရန် လွန်စွာကောင်းမွန်သည်။ ထိုအပင်မျိုး၌ လီဗျူလို့ ခေါ်သကြားတမျိုးရှိရာ ထိုသကြားမျိုးသည် ဆီးချိုရောဂါရှိသူများအဖို့ သင့်မြတ်သောအချိုဓာတ်ဖြစ်သည်။ ထိုဂလုပ်နှင့် ဂျရုဆလမ်း အာတီချုပ်ပင်နှစ်မျိုးစလုံးပင် ကွန်ပိုစီတီမျိုးရင်းဝင်များဖြစ်ကြသည်။

ဂျပန်နိုင်ငံတွင် စတင်၍ပေါ်ပေါက်ခဲ့သော တရပ်အာတီချုပ်ပင်တမျိုးလည်းရှိသေးသည်။ ထိုအာတီချုပ်ပင်ကို ရုက္ခဗေဒအလိုအားဖြင့် စတက်ချိတျူဗဲဖဲရား ဟု ခေါ်၍ လေဗီယာတီးမျိုးရင်းပင် ဖြစ်သည်။ ထိုအပင်သည် တပေထက်ပို၍မမြင့်ချေ။ ထိုအာတီချုပ် အပင်မျိုးမှ စားသုံးမိဝဲနိုင်သောအတက်ကလေးများတွင် ဝက်အူရစ်ပုံသဏ္ဍာန်ရှိကြသည်။

**အာတိတ်ဒေသ။** ။နိုင်ငံအသီးအသီးမှ အာဇာနည်ပုဂ္ဂိုလ်ကြီးများသည် ကမ္ဘာမြေကြီး၏ ထိပ်စွန်းဖြစ်သော ရေခဲကန္တာရ ဒေသများသို့ စွန့်စားသွားရောက် ကြရာ ကောင်းထစွာမြောက်အောင်မြင်၍ ဝင်ရိုးစွန်းသို့ ရောက်သူများလည်း ရှိကြ၏။ လိုရာမရောက်ပဲ လမ်းခရီးတွင် ခန္ဓာပျက်ပြုန်း အသက်ဆုံးကြရသည်လည်း ရှိကြ၏။

ဤသို့ မဆုတ်မနစ်သော ဇွဲသတ္တိများဖြင့် စွန့်စားသွားရောက်ကြခြင်း၏ အကျိုး အာနိသင်ကား အသို့နည်း။ ဤသို့ သွားရောက်ကြခြင်းဖြင့် ကမ္ဘာသူ ကမ္ဘာသားများအား မည်ကဲ့သို့သော အကျိုးကျေးဇူးများ ဖြစ်ထွန်းစေမည်နည်း။ ထိုအမေးများကို ဖြေရှင်းရန်အတွက် ကျွန်ုပ်တို့သည် အာတိတ်ဒေသ၏ အကြောင်းကို အနည်းငယ်လေ့လာလျှင် လိုရာအချက်အလက်များကို ကောင်းစွာသိရှိနိုင်ပေလိမ့်မည်။

ပထဝီဝင်ကျမ်းများ၌ကမ္ဘာ၏အလယ်ဗဟိုကိုဖြတ်သန်းလျက်ရှိသည်ဟု မှန်းဆထားအပ်သော အီကွေတာ မျဉ်းကြောင်းမှ မြောက်လတ္တီတွဒ် ၆၆°၊ ၃၃′ တွင် အာတိတ်စက်ဝိုင်းခေါ် စိတ်မှန်းမျဉ်းကြောင်းရှိ၏။ မြောက်ဝင်ရိုးစွန်းမှ ထိုအာတိတ်စက်ဝိုင်း မျဉ်းကြောင်း အတွင်းရှိ ၂၃°၊ ၂၇′ ကျယ်ဝန်းသော နေရာကို အာတိတ်ဒေသ ဟု ခေါ်ကြသည်။

အာတိတ် စက်ဝိုင်း မျဉ်းကြောင်းသည် အာရှတိုက်၊ အမေရိကတိုက်၊ ဥရောပတိုက်တို့၏ အစွန်အဖျားများကို ဖြတ်သန်းသွားသည်။ အာတိတ်ဒေသ၏ ကျန်စတုရန်းမိုင် ၇,၀၀၀,၀၀၀ ကျော်ကျယ်ပြန့်သော အစိတ်အပိုင်းကြီးမှာ စတုရန်းမိုင် ၅,၄၀၀,၀၀၀ ခန့် ကျယ်ဝန်းသော အာတိတ်သမုဒ္ဒရာနှင့် ထိုသမုဒ္ဒရာ အတွင်းရှိ ကျွန်းပေါင်း မြောက်မြားစွာတို့ဖြစ်သည်။ (အာတိတ်သမုဒ္ဒရာ — လည်းရှု။)

အာတိတ်စက်ဝိုင်းကြီးအတွင်း၌ အနည်းဆုံးအားဖြင့် တနှစ်လျှင်တရက် နေကိုလုံးလုံးမမြင်ရချေ။ ဤသို့ မမြင်ရခြင်းကား နေကို မိုးသားတိမ်တိုက်တို့ ဖုံးအုပ် နေသောကြောင့်မဟုတ်ပဲ နေသည် မိုးကုပ်စက်ဝိုင်း အထက်သို့တက်၍မလာသောကြောင့် ဖြစ်လေသည်။ အာတိတ်စက်ဝိုင်းမျဉ်းကြောင်းမှ ဝင်ရိုးစွန်းဖက်သို့ တိုးတက်၍ သွားလေလေ၊ နေကိုလုံးဝမမြင်ရသောရက်သည် ပို၍ များလာလေလေဖြစ်ရာ ကမ္ဘာ၏ ထိပ်ဖျား ဝင်ရိုးစွန်း အရပ်သို့ရောက်သောအခါ တနှစ်တွင်ခြောက်လလုံးလုံး နေကိုမမြင်ရပဲရှိလေသည်။ အပြန်အလှန်အားဖြင့်လည်းအာတိတ်စက်ဝိုင်းမျဉ်းကြောင်း တလျှောက်တွင် နွေရာသီ၌ပါ တရက်လုံး နေမပျောက်သောနေ့တနေ့ရှိပြန်၍ ဝင်ရိုးစွန်းရောက်အောင် တဖြည်းဖြည်း တိုးတက် သွားလျှင် တနှစ်တွင် ခြောက်လ တိုင်တိုင် နေမဝင်သည်ကို တွေ့ရပေသည်။

ဤသို့ဖြစ်ရခြင်းမှာ ကမ္ဘာမြေကြီး၏ ဝင်ရိုးသည် ယင်း၏ လှည့်ပြင်ညီ (ကမ္ဘာမြေကြီးသည် နေကိုလှည့်ပတ်သွားစဉ် ဖြစ်ပေါ်လာသောပြင်ညီ) နှင့်ထောင့်မတ်မကျပဲ ၂၃°၊ ၂၇′ မျှ စောင်းငိုက်နေသောကြောင့် ဖြစ်၏။ မြောက်ဝင်ရိုးစွန်းသည် နေဖက်သို့ တိမ်းစောင်းနေသည့်အခါ နေနှင့်နီး၍ နေ့တာရှည်ပြီးလျှင် အပြန်အလှန်အားဖြင့်လည်း နေနှင့်ဝေးသွားသည့်အလှည့်နှင့် ကြုံပြန်သောအခါ ညဥ့်တာရှည်လာပြန်လေသည်။

ဤအဖြစ်အပျက်ကို မျက်ဝါးထင်ထင် တွေ့မြင်လိုသူများသည် ဝင်ရိုးစွန်းအရပ်သို့ အသက်စွန့်၍ မသွားနိုင်စေကာမူ ဥရောပတိုက် မြောက်ဖက်ဖျားရှိ နိုင်ငံ များသို့ သွားရောက်လျှင် ညဥ့်အချိန်တွင် ထွက်ပေါ်သော သန်းကောင်နေကိုကြည့်ရှုကြလေသည်။

အာတိတ် စက်ဝိုင်းအတွင်း ကျရောက်သော အာရှ၊ အမေရိက၊ ဥရောပတိုက်ကြီးများရှိ ကုန်းမြေများ မှတပါး အကြီးဆုံးသောကုန်းမြေမှာ ဂရင်းလန်းကျွန်းကြီး ဖြစ်လေသည်။ ထိုကျွန်းကြီးသည် ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံးသော ကျွန်းကြီးဖြစ်၍ ထိုကျွန်းကို ဒိန်းမတ်နိုင်ငံက ပိုင်သည်။ (ဂရင်းလန်းကျွန်း — ရှု။) ကုန်းမြေများကို ကန့်သတ်ပိုင်းခြားလျှင် အာရှတိုက်မြောက်ဖက်ရှိ ချူးဆိုက်ဗီးရီးယားနှင့် လီနင်ကုန်းမြေ၊ အမေရိကမြောက်ဖက်ရှိ ဗတ်ဖင်ကျွန်း၊ ဗင့်ကျွန်း၊ ဝိတိုရိယကျွန်း၊ ဂရန့်ကုန်းမြေ၊ ဥရောပတိုက် မြောက်ဖက်ရှိ ဆွာလဗတ်ကျွန်းစု၊ ဖရစ်တယော့နန်းဆင်ကုန်းမြေများ ပါဝင်ကြ၏။ ထိုအရပ် ဒေသများအနက် ဂရင်းလန်းကျွန်းတွင် လူများ နေထိုင်၍ အခြားနေရာများတွင် များသောအားဖြင့် လူသူနေထိုင်ခြင်းမရှိပဲ နွေရာသီများတွင် မုဆိုးများ၊ တံငါများနှင့် ကမ္ဘာဦးက ထိုဒေသတွင်ကျက်စားခဲ့သော ရှေးဆင်ရိုင်းကြီး မျိုးတို့၏ အရိုးစုမှအစွယ်ကြီးများကို လိုက်လံရှာဖွေကြသောဆင်စွယ်ရှာဖွေသမားများကိုသာ ထိုဒေသများ၌ တွေ့ရလေသည်။

အာတိတ်ဒေသကြီးသည် တနှစ်ပတ်လုံး ရေခဲများ ဖုံးအုပ်လျက်ရှိသဖြင့် သစ်ပင် မြက်ပင်ဟူ၍ အလျဉ်းမရှိပဲ၊ ဆီးနှင်းခဲတို့သာ အစဉ်အမြဲကျနေသည့် ရေခဲကန္တာရကြီးလုံးဝဖြစ်သည်ဟု ရှေးကယူဆခဲ့ကြ၏။ သို့သော်စင်စစ်မှာမူ ဤသို့မဟုတ်ချေ။ ဖော်ပြခဲ့ပြီးဖြစ်သည့် အတိုင်း နွေရာဥတုပါ နေရောင်ခြည်ထွန်းတောက်လျက် ရှိသော နွေရာသီရှည်ကြီး၏အကျိုးကြောင့် ပူသည့် အခါတွင် ကျွန်ုပ်တို့နေထိုင်ရာဒေသများကဲ့သို့ပင် ပူနွေးလေသည်။

ထိုဒေသရှိ လူများမှာ မုဆိုးတံငါအလုပ်များဖြင့်အသက်မွေးကြ၍ တန်းဒြာသမင်များကို ထိန်းကျောင်းကာ နေရာအတည်တကျ နေလေ့မရှိကြပဲ၊ အမြဲတစေ ပြောင်းလွှဲနေထိုင်တတ်ကြ၏။ ဤသို့ မကြာခဏ နေရာ ရွှေ့ပြောင်းခြင်းမှာ တန်းဒြာသမင်များစားရန် မြက်ရှားသောကြောင့် မြက်ကုန်သော နေရာဟောင်းမှ မြက်ပေါ်ရာ နေရာသစ်သို့ တဆင့်တဆင့် ပြောင်းရွှေ့သွားခြင်းဖြစ်လေသည်။

အာတိတ်ဒေသတွင် နေသူများအနက် ဒေသ အသီးအသီးတွင် လူမျိုးအသီးအသီး ကွဲပြားကြ၏။ ဥရောပတိုက်မြောက်ဖျားတွင် လက်လူမျိုးများရှိကြ၏။ ရုရှနှင့် ဆိုက်ဗီးရီးယား မြောက်ဖျားဒေသများတွင် သမ်မိုယက်လူမျိုးများရှိကြ၏။ အမေရိကမြောက်ဖျား ကနေဒါ နိုင်ငံနှင့် အလာစကာ ဒေသတို့တွင်မူ အမေရိကန်အင်ဒီးယန်းခေါ် ရှေးဦးတိုင်းရင်းသား လူမည်းမျိုးများ ရှိကြ၏။ ဆိုက်ဗီးရီးယားနှင့် အလာစကာမှ လာဗရာဒေါ်ကျွန်းဆွယ်အထိ အက်စကီးမိုး လူမျိုးများသည် အနှံ့အပြား နေထိုင်ကြလေသည်။

ရေခဲအတိဖုံးလွှမ်းလျက် ဤမျှအေးမြသောဒေသတွင် လူသားများ အမြဲနေထိုင်ပါမည်လောဟု သံသယဖြစ်ဖွယ်ရှိ၏။ အပူပိုင်းဒေသတွင် နေလေ့ရှိသော ကျွန်ုပ်တို့သည် ထိုဒေသများတွင် နေနိုင်မည်မဟုတ်သကဲ့သို့ ထိုဒေသရှိလူများသည်လည်း ကျွန်ုပ်တို့နေထိုင်သည့် အရပ် များတွင် နေထိုင်နိုင်ကြမည်မဟုတ်ပေ။ သူတို့သည်ရှေးအစဉ်အလာကပင် အအေးပိုင်းတွင် နေလေ့ရှိသော သဘာဝသတ္တိထူးကြောင့် အအေးဒဏ်ကို ခံနိုင်ရည်ရှိကြသည့်ပြင် ကျွန်ုပ်တို့ထင်သကဲ့သို့ အစဉ်အမြဲလွန်ကဲစွာ အေး၍ နေသည်လည်းမဟုတ်ကြောင်းကို အထက်တွင်ဖော်ပြပြီးခဲ့လေပြီ။

ထိုဒေသများသို့ ရောက်ခဲ့ဘူးသော ပဂ္ဂိုလ်ကြီးများ၏ မှတ်တမ်းအရ ထိုဒေသများ၌ နွေရာသီတွင်ရရှိသော အပူရှိန်ကြောင့် မြက်ခင်းပြင်ကြီးများ၊ လှပသောပန်းပင်များ၊ ရေညှိပင်နှင့် မှော်ပင်များ၊ အသီးငယ်သီးသည့် အပင်ပုကလေးများ၊ ခြုံဖုတ်ငယ်များစသည်ဖြင့် သစ်ပင် အမျိုးပေါင်းများစွာ ပေါက်ရောက်လျက်ရှိကြောင်း သိရ၏။

ထိုဒေသရှိလူများသည် တန်းဒြာသမင်များကို မွေးမြူ၍ စွပ်ဖားဆွဲရန် စေခိုင်းလေ့ရှိကြသောကြောင့် ထိုသမင်များကို စွပ်ဖားသမင်ဟု ခေါ်တွင်၏။ ထို့ပြင်လည်း ခွေးများကို စွပ်ဖားဆွဲရန်စေခြင်းဖြင့် လူတို့၏ခရီးသွားမှုကို အထောက်အပံ့ရစေ၏။ အာတိတ်ဒေသရှိ လူမျိုးများသည် အမဲလိုက်ခြင်းဖြင့် တိရစ္ဆာန်များမှ များသောအားဖြင့် အသားနှင့် အမွေးများကို ရရှိကြလေသည်။ ထိုဒေသတွင် တွေ့ရသော ဝက်ဝံ၊ မြေခွေး၊ နွားကတိုး၊ ဝံပုလွေ၊ လင်မင်းကြွက်၊ ယုန်၊ မြေပါ်ဖျံ၊ ပင်လယ်ဖျံစသည့်တိရစ္ဆာန်များမှာ များသောအားဖြင့် ဖွံ့ဖြိုးသော သားမွေးရှိကြ၏။ ယင်းတို့၏သားမွေးများကို အနွေးထည် အဖြစ် နိုင်ငံခြားများသို့ တင်ပို့ရောင်းချကြ၏။

ထိုဒေသရှိ တိရစ္ဆာန်များ၌ အဖြူရောင် အမွေးရှိခြင်း

သည် ဖွေးဖွေးဖြူသောရေခဲပြင် အရောင်နှင့် တူညီလျက် တိရစ္ဆာန်နှင့်ရေခဲ ခွဲ၍မရအောင် ဖန်တီးပေးသော သဘာဝကြောင့်ပင်ဖြစ်လေသည်။

အလွန်ကျယ်ပြန့်သော မြက်ခင်းကြီးပေါ်တွင် တန်းဒြသမင်များနှင့် နွားကတိုးမျိုးတို့သည် ဘာသာဘာဝပျော်ရွှင်စွာ ကျက်စားနေသည်ကို တွေ့ရ၏။ ထိုတိရစ္ဆာန်တို့၌ အအေးဒဏ်ကို ခံနိုင်စေရန် ခိုအောင်းနားနေနိုင်သည့် အရိပ် အာဝါသလည်းမလို၊ စားသောက်ရန် အခြားကောက်ပဲသီးနှံလည်း မလိုပဲ ရေခဲပြင်အောက်တွင် တွေ့ရှိသော မြက်ကြမ်းကြီးများ၊ မှော်နှင့် ရေညှိပင်များ၊ သစ်မြစ်များကို ရှာဖွေစားသောက်ခြင်းဖြင့် အာဟာရဖြစ်နိုင်ကြ၏။ နောင်အခါ ဤနေရာဒေသမှ အသားအမြောက်အမြားပင် ထွက်ရန်အကြောင်းရှိလေသည်။

အာတိတ် ဒေသတွင် ၃၅ မျိုးမျှသော ငှက်များကိုလည်း ဒေသပြောင်း၍ လာရောက် နေထိုင်ကြသည်ကို တွေ့ရသေးသည်။

သို့ဖြင့် ဝင်ရိုးစွန်းဒေသတွင် သစ်ပင်များ၊ တိရစ္ဆာန်များ ပြည့်လျက်ရှိပြီးလျှင် အာတိတ် သမုဒ္ဒရာအတွင်း ဝင်ရိုးစွန်းအနီး ပတ်ဝန်းကျင်၌ပင် ဝေလ ငါးကြီးများ၊ ဝါးလရတ်ဖျံများကို တွေ့ရ၏။ ထိုသတ္တဝါကြီးများသည် ငါးကလေးများကို စားသောက်ကြ၍ ငါးကလေးများကလည်း ရေမှော် ရေညှိများကို စားသောက်ကြ လေသည်။ ထိုဒေသ၌ တံငါလုပ်ငန်းပင် တဖြည်းဖြည်းတိုးတက်ကြီးပွားလျက်ရှိ၏။

မကြာမီကမှ ဤဒေသတွင် တွင်းထွက် ဓာတ်သတ္တုများကိုတွေ့ရ၍ ယခုအခါ စနစ်တကျတူးဖော် လုပ်ကိုင်လျက်ရှိလေပြီ။ စပစ်ဗါဂျင်ကျွန်းတွင် ကျောက်မီးသွေးများကိုရင်း၊ လက်ပလန်ဒေသတွင် သံရိုင်းများကိုရင်းတွေ့ရှိရ၍ ဝိတိုရိယကျွန်းတွင် ကြေးနီများကို တွေ့ရလေသည်။

ဆိုဗီယက် ရုရှကလည်း အာတိတ် ဒေသတွင် အာတိတ်စက်ဝိုင်းအတွင်းရှိ ဆိုက်ဗီးရီးယားနယ်တွင် အကွက်အကွင်းကျသော နေရာတိုင်းလိုလို၌ပင် သင်္ဘောဆိပ်များ လေဆိပ်များတည်ဆောက်ခြင်းဖြင့် တတ်နိုင်သမျှတိုးတက်အောင် စွမ်းဆောင်လျက်ရှိနေလေသည်။

**အာတိတ်သမုဒ္ဒရာ။** ။ကမ္ဘာ့မြောက်ဝင်ရိုးစွန်း၏ပတ်ဝန်းကျင်ရှိ ရေပြင်ကျယ်ကြီးကို အာတိတ်သမုဒ္ဒရာဟု ခေါ်သည်။ထိုရေပြင်ကျယ်ကြီးသည် ဥရောပ၊ အာရှနှင့် မြောက်အမေရိကတိုက်တို့၏ မြောက်ဖက်တွင် တည်ရှိ၍ စတုရန်းမိုင်ပေါင်း ၅,၅၄၁,၀၀၀ ကျယ်ဝန်းလေသည်။ အနက်ဆုံး



အာတိတ်ဒေသရှိ လက်လူမျိုးများသည် တန်းဒြသမင်ကို မွေးမြူ၍ စွပ်ဖားဆွဲရန် စေခိုင်းလေ့ရှိသည်။




ကမ္ဘာ့မြောက်ဝင်ရိုးစွန်းရှိ အာတိတ်သမုဒ္ဒရာ ရေပြင်ကျယ်ကြီးသည် ရေခဲဆိုင်မျောများကြောင့် ဘေးအန္တရာယ်နှင့်မကင်းချေ။

နေရာတွင် ပေပေါင်း ၁၇,၈၅၀ နက်၏။ အာတိတ်သမုဒ္ဒရာ၏ ဗဟိုမှ ကမ္ဘာ့မြောက်ဝင်ရိုးစွန်းအထိ မိုင်ပေါင်း ၅၀၀ ခန့် ဝေးကွာသည်။အာတိတ်သမုဒ္ဒရာသည် ပစိဖိတ်သမုဒ္ဒရာနှင့် ဗဲရင်းရေလက်ကြား ဖြင့်၎င်း၊ ဗဲရင်းပင်လယ်ဖြင့်၎င်း ဆက်သွယ်လျက်ရှိသည်။ ဗတ်ဖင်ပင်လယ်အော်၊ဂရင်းလန်း ပင်လယ်၊ ဒေးဗစ်နှင့်ဒိန်းမတ်ရေလက်ကြားများကမူ အာတိတ်သမုဒ္ဒရာကို အတ္တလန္တိတ် သမုဒ္ဒရာနှင့် ဆက်သွယ်ပေးကြလေသည်။ အာတိတ်သမုဒ္ဒရာကမ်းခြေတွင် ဗိုးဖတ်ပင်လယ် (မြောက်အမေရိကတိုက်ကမ်းလွန်)၊ပွိုက်နှင့်ဗဲရင်းပင်လယ်များ (ဥရောပတိုက်ကမ်းလွန်)၊ ကာရာ၊ လက်ပတာက်နှင့် အရှေ့ဆိုက်ဗီးရီးယန်း ပင်လယ် (အာရှတိုက်ကမ်းလွန်)များ ရှိသဖြင့် ထိုပင်လယ်များသည်လည်း အာတိတ်သမုဒ္ဒရာတွင် ပါဝင် ကြလေသည်။ ထိုပင်လယ်များအတွင်းသို့စီးဝင်ကြသောအဓိကမြစ်များမှာမက်ကင်ဇီ၊အော့၊ လီနာနှင့် ယင်နီဆေးတို့ ဖြစ်သည်။ နယူးဖေါင်လန်ကျွန်းကြီးသို့ မှုထူများကို သယ်ဆောင်လာသော အေးသည့် လာဗရာဒေါ ရေစီးကြောင်းသည် အာတိတ်သမုဒ္ဒရာမှစ၍ စီးလာခြင်းဖြစ်သည်။

ဆိုဗီယက်အစိုးရက အရှေ့မြောက်လမ်းခေါ် ရေလမ်းတခုကို ၁၇၇၈–၁၇၇၉ ခုနှစ်တွင် တီထွင်ခဲ့သည်။ ထိုလမ်းသည် အာတိတ်သမုဒ္ဒရာကမ်းရှိ မားမန့်မှ ဗဲရင်း ရေလက်ကြားသို့ သွားသည်။ ထိုနောက် လမ်း တ လမ်း မှာ အနောက် မြောက်ဖက်လမ်း ဖြစ်၍ အမေရိက တိုက်၏မြောက်ဖက်မှ သွားသည်။ ထို နောက်လမ်းကို ၁၉၀၅ ခုနှစ်တွင် ရိုအဲအားမန်ဆင်က အဆုံးသတ်သွားခဲ့လေသည်။ ထိုပြင် အခြားဖြစ်နိုင်သည့် လမ်းလေးလမ်းလည်း ရှိသေးသည်။သို့သော်ထိုလမ်းများသည်ရေခဲစိုင်မျောများကြောင့် ဘေးအန္တရာယ်နှင့် မကင်းကြချေ။

အာတိတ်သမုဒ္ဒရာအတွင်း၌ ကျွန်း အမြောက်အမြားရှိရာ အကြီးဆုံး များမှာ ဂရင်းလန်း၊ ဗတ်ဖင်၊ ဝိတိုရိယ၊ အဲလဇမီးယား၊ ဗန့်နှင့် နိုဗယာ ဇင်လယာတို့ ဖြစ်သည်။ ဆိမာဆက်၊ ပါရီ၊ မဲလဗီးဗတ်ဟတ်နှင့် ကနေဒါ နိုင်ငံ၏ မြောက်ဖက်ရှိ အခြားကျွန်းများသည် အာတိတ်သမုဒ္ဒရာ၏ ကျွန်းစုဖြစ်သည်။

အာတိတ်သမုဒ္ဒရာရှိ အပင်နှင့် တိရစ္ဆာန်လောကသည် မြောက်အတ္တလန္တိတ်သမုဒ္ဒရာရှိ အပင်နှင့် တိရစ္ဆာန် လောကနှင့် မခြားနားချေ။ ရေခဲတမျှအေးသော အာတိတ်သမုဒ္ဒရာနှင့် လာဗရာဒေါ ရေစီးကြောင်းတို့တွင် ကော့ဒ၊ ဖလောင်ဒါနှင့် ဟယ်လီဗတ်တို့ကဲ့သို့သော အဖိုးတန် ငါးများနှင့် ပြည့်နှက်လျက်ရှိသည်။ ထိုပြင် အာတိတ်သမုဒ္ဒရာ

အတွင်း၌များသောအားဖြင့်ပင်လယ်ဖျံ၊လင်းပိုင်ခေါင်းတို၊ ဝါးလရတ်ဖျံနှင့် ဝေလငါးများကိုလည်းတွေ့နိုင်သေးသည်။

**အာဒါလွတ်ပင်**။ ။အာဒါလွတ်ပင်သည် အစာကြေလွယ်သော စတာ့(ကစီ) ဖြစ်သဖြင့် ယင်းကို ကလေးနှင့် နာမကျန်းဖြစ်နေသူများအဖို့ အစားအစာအဖြစ် အသုံးပြုလေ့ ရှိကြသည်။ သို့သော် လောဘကြီးသော စီးပွားရေးသမားများက ထိုအာဒါလွတ်မှုန့် များတွင် အာလူးမှုန့်၊ ဆန်မှုန့်၊ သို့မဟုတ် ရိုးရိုးဂျုံမှုန့်များကို ရော၍ အာဒါလွတ်မှုန့်အဖြစ် ရောင်းလေ့ ရှိကြသည်။



အာဒါလွတ်ပင်နှင့် စားသုံးရသောအတက်များ

ကစီကဲ့သို့သောပစ္စည်းမျိုးရနိုင်သည့်အာဒါလွတ်ပင်နှင့် နီးစပ်သောအပင်များ၏အမြစ်များနှင့်ရိုင်ဇုမ်အတက်များကို အာဒါလွတ်ဟု ခေါ်သည်။သို့သော် အနောက်အိန္ဒိယကျွန်းစုမှ အာဒါလွတ်ကိုသာ အာဒါလွတ်ဟု ခေါ်လေ့ရှိကြသည်။ ထိုအပင်ကို ရုက္ခဗေဒ အလိုအားဖြင့် မာရန်တာ အရန်ဒီနေးစီးဟု ခေါ်သည်။တနှစ်မကျော်သေးသည့် ရိုင်ဇုမ်အတက်များမှ ကစီကို ထုတ်ယူကြသည်။ ထိုအတက်များကို ရေဆေး၍ အခွံကိုခွာပြီးလျှင် ပျော့ဖတ်ဖြစ်အောင် လုပ်ယူ၍ ကြိမ်ဖန်များစွာ ရေခါဆေးပစ်ရသည်။ ထိုသို့ ရေဆေးစဉ် အမျှင်များကိုတွေ့လျှင် ဖယ်ပစ်ရသည်။ ထိုနောက် စစ်ပြီးလျှင် အခြောက်ခံရသည်။ ထိုအာဒါလွတ်မှုန့် အခြောက်များကို ရေနွေးနှင့်ရောမွှေပေးလျှင် ယိုကဲ့သို့ဖြစ်လာလေသည်။

အာဒါလွတ်ပင်သည် မာရန်တာမျိုးစုဝင်နှင့် မာရန်တေးစီးမျိုးရင်းဝင် ဖြစ်ပြီးလျှင် နှစ်ကြာခံ ပင်ပျော့မျိုးဖြစ်သည်။

အကောင်းဆုံးအာဒါလွတ်ကိုဗာမျူးဒါးနှင့်ဂျမေးကားထို့မှ ရရှိသော်လည်း အာဒါလွတ်ပင် အမျိုးမျိုးကို အရှေ့အိန္ဒိယကျွန်းစု၊ အနောက် အိန္ဒိယကျွန်းစု၊ ဩစတြေးလီးယားတိုက်နှင့် တောင်အာဖရိက တိုက်တို့တွင်လည်း စိုက်ပျိုးကြသေးသည်။ မြောက်အမေရိကတိုက်တွင်မူ မြောက်ဖက်သို့ ဖလော်ရီဒါအထိ စိုက်ပျိုးကြလေသည်။ မြန်မာနိုင်ငံ တွင်လည်း အာဒါလွတ်ပင် များ ကို စိုက်ပျိုးကြလေသည်။

အာဒါလွတ်ဟူသော စကားသည် အဲရိုးရုဆိုသည့် အင်္ဂလိပ်စကားမှဖြစ်လာဟန်ရှိသည်။ ထိုစကားလုံး၏အဓိပ္ပာယ်မှာ မြားမြစ် ဖြစ်သည်။ တောင် အမေရိက တိုက်မှ ရှေးတိုင်းရင်းသား များသည် အဆိပ်လူးမြားဖြင့် အပစ်ခံရသောအခါတွင် ထိုအပင်၏ အမြစ်ကိုဖြတ်၍ ကုသလေ့ရှိကြရာမှ ထိုစကားဖြစ်လာပုံရလေသည်။

**အာဒိစ္စဝံသ၊ ရှင် (မြန်မာ ၁၂၄၄–၁၃၁၃)** ။ ။ရှင်အာဒိစ္စဝံသ မပေါ်ပေါက်မီ ဗုဒ္ဓသာသနာ နှစ်ပေါင်း ၂,၅၀၀ အတွင်း သာသနာကျိုး၊ လောကကျိုးကို သည်ပိုးဆောင်ရွက်သွားသော ပုဂ္ဂိုလ်ကြီးတို့ကား

(၁) ပုဂံခေတ် သဒ္ဒနီတိကျမ်းပြု ရှင်အဂ္ဂဝံသ၊

(၂) ပင်းယခေတ် အဘိဓာန် ဋီကာကျမ်းပြု စတုရင်္ဂဗလအမတ်ကြီး၊

(၃) ကုန်းဘောင်ခေတ် ကျမ်းများစွာကို ပြုသည့်ပြင် လောကီလောကုတ္တရာတို့၌ မတတ်မသိ မရှိလောက်အောင် ကျွမ်းကျင်လိမ္မာသဖြင့် (မ-ကာရလောပ) မ-တလုံးကျေအမည်ရသော တောင်တွင်း သာသနာပိုင် ဆရာတော်ခင်ကြီးဖျော်၊

(၄) ယင်းခေတ် နေတ္တိမဟာဋီကာသစ်နှင့် သုတ်သီလက္ခန် ဋီကာသစ်တို့ကိုပြုသည့်ပြင် သက္ကတကျမ်းများစွာကို မြန်မာပြန်ဆိုခဲ့သော မောင်းထောင် သာသနာပိုင် ဆရာတော်၊

(၅) ယင်းခေတ် ပါဠိဘာသာ မြန်မာ ဘာသာကျမ်းများစွာကို ပြုခဲ့သဖြင့် (ဗုမ်အစ-ဗုမ်အလယ်-ဗုမ်အဆုံး)ဟု တသာသနာလုံး ခြီးကျူးခြင်းခံရသော ဆရာတော် ဦးဗုမ်၊

(၆) အင်္ဂလိပ်ခေတ် ဒီပနီကျမ်းများစွာကို ပြုခဲ့ရာ ပရမတ္ထ ဒီပနီကျမ်းကို ပြုရာ၌ ဋီကာကျော်ဝယ် အချက်ပေါင်းများစွာကို ပယ်ထားသဖြင့် "ဋီကာကျော်ကို ပယ်ရာ သလော့"ဟု တသာသနာလုံး တုန်လှုပ် ချောက်ချားသွား




ထူးချွန်သော ကျမ်းပြုပုဂ္ဂိုလ်ကျော် ရှင်အာဒိစ္စဝံသ

သော လယ်တီဆရာတော်ဟူ၍ ပုဂ္ဂိုလ်ကြီး ခြောက်ဦးတို့ ဖြစ်သည်။ ယင်းပုဂ္ဂိုလ်ကြီးတို့ကား ဗုဒ္ဓသာသနာဝယ် ရခဲ ပေါ်ပေါက်ခဲ့သဖြင့် သမိုင်းမော်ကွန်းဝင် ပုဂ္ဂိုလ်များတွင် အလွန်ထူးခြားသော သမိုင်းမော်ကွန်းဝင်တို့ဖြစ်သည်။

ယင်းအင်္ဂလိပ်ခေတ်မှာပင် ခုနစ်ဦးမြောက် ဖြစ်ထွန်း ပေါ်ပေါက်လာသော ပုဂ္ဂိုလ်ကြီးကား ရှင်အာဒိစ္စဝံသ ပင်ဖြစ်သည်။ ထိုရှင်အာဒိစ္စဝံသသည် လောကီ လော ကုတ္တရာ အရာရာတို့၌ တိကျမှန်ကန်သည်ဟု ယူဆအပ် သော မိမိ၏ယူဆချက်ကို သူတပါးနှစ်သက်သည်ဖြစ်စေ၊ မနှစ်သက်သည်ဖြစ်စေ ပြတ်ပြတ်သားသား ပြုလုပ်ရဲ၊ ပြော ဆိုရဲ၊ ရေးသားရဲသော အစွမ်းသတ္တိရှိသည်။ ပါဠိ၊ မြန်မာ၊ ကဗျာလင်္ကာမှစ၍ ကျမ်းပေါင်းများစွာကိုပြုရာတွင် "ဘိက္ခု နီသာသနောပဒေသကျမ်း"ကို ပြုရာ၌ ပကာသနီယကံနှင့် အပ္ပသာဒပဝေဒနီယကံ အပြုခံရသည်အထိ တသာသနာ လုံး တုန်လှုပ်ချောက်ချားသွားသောကြောင့် အလွန်ထူး ခြားသော သမိုင်းမော်ကွန်းဝင် ပုဂ္ဂိုလ်ကြီး တပါးဖြစ် ကြောင်း ထင်ရှားသည်။

ထိုရှင် အာဒိစ္စဝံသ၏ အတ္ထုပ္ပတ္တိကား ဤသို့တည်း။ ရှင်အာဒိစ္စဝံသသည် ရမည်းသင်းမြို့ အနောက်တောင်လက် ခရိုးလေးတိုင်ကွာ ရမည်းသင်းငါးမြို့အဝင် မြို့လှမြို့ အရှေ့ တောင်လက် ခရီးတတိုင်သာသာ ပင်းစုရွာတွင် ၁၂၄၄ ခုနှစ် နယုန်လပြည့်ကျော် ၁၁ ရက် တနင်္ဂနွေနေ့ နံနက်နေ ဝန်းပေါ်အချိန်တွင် ဖွားမြင်သည်။ အဖ ဦးလာ၊ အမိ ဒေါ်အုပ်၊ဦးလာကားအင်း–အိုင်–လက်ဖွဲ့–ခါးလှည့်–မန္တန် မှော်ပညာကို ကျွမ်းကျင်သော ဗိန္ဒောဆရာဖြစ်သည်။

ရှင်အာဒိစ္စဝံသကား တဦးတည်းသော သားဖြစ် သည်။လူဝင်စားလည်းဖြစ်၏။ဤဘဝမရောက်မီဘဝကအမိ ၏ မွေးချင်းငါးယောက်တွင် အငယ်ဆုံးညီမ ဖြစ်ခဲ့ဘူး၏။ ယင်းမိန်းမဘဝ မရောက်မီဘဝကလည်း ယောကျ်ားဖြစ်ခဲ့ ဘူး၏ဟု ရှေးရှေးဘဝအဖြစ်အပျက်ကို ပြောဆိုနိုင်သည်။

ငါးနှစ်အရွယ်တွင် "ရွာဦးကျောင်း ဦးရီးတော်အရင်း ရမည်းသင်းမြို့ ရွှေဂူ၊ ရန်အောင်၊ ဇောင်ခြမ်းတောင် သုံး ဂိုဏ်းချုပ် ဓမ္မကထိက မဟာဝိဘင်္ဂရေ ဘွဲ့တံဆိပ်တော်ရ ရှင်ဝိလာသထံ၌ သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ နမက္ကာရ၊ အောင်ခြင်း နှစ်မျိုး၊ ရတနာ့ရွှေချိုင့်၊ ပရိတ်ကြီး၊ သဒ္ဒါ ကြီး၊သင်္ဂြိုဟ်စသော အခြေခံကျမ်းစာတို့နှင့် ဗေဒင်လက်ရိုး ကို သင်ယူခဲ့သည်။

ဆဲ့လေးနှစ် အရွယ်တွင် ရှင်သာမဏေပြုသည်။ ဘွဲ့ အမည်ကား ရှင်အာဒိစ္စဝံသတည်း။ သာမဏေပြုပြီး မကြာမီ သုံးဂိုဏ်းချုပ်ဆရာတော်ကြီး ပျံလွန်တော်မူသဖြင့် ပညာသင်ကြားရေး နှောင့်နှေးသွားသည်။

ဆဲ့ခြောက်နှစ်အရွယ်တွင် ရမည်းသင်းနယ်ထောက်ကြံ့ ခြင်းကျောင်းတွင် ဂဏန်းသင်္ချာသင်ယူသည်။

ထိုနောက် ပျော်ဘွယ်မြို့ ဝေဇယန်ဆရာတော် ရှင် ဝိမလထံရောက်၍ ယင်း ဆရာတော်၏တူ လေသာဆရာ တော် ရှင်ဝိလာသထံတွင် ဋီကာကျော်၊ ကခ်ါ၊ ဝိနည်း ငယ်လေးစောင်၊ အဘိဓာန်တို့ကို သင်ယူသည်။

၁၂၆၃ ခုနှစ် နတ်တော်လဆန်း ၁၃ ရက်နေ့ နံနက် ၉ နာရီအချိန်တွင် ပျော်ဘွယ်မြို့ အိုးကုန်းတိုက် ခဏ္ဍသိမ်၌ ဝေဇယန်ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ကာရက သံဃာ ၅၀ ကျော် ခြံရံလျက် ရဟန်းဖြစ်သည်။

ရဟန်းနှစ်ဝါတွင် မန္တလေးသို့ရောက်၍ ဘုရားကြီးတိုက် တိုက်အုပ်ဆရာတော်၏ ကျောင်းသစ်ကြီး၌ နေသည်။ သုံး ဝါတွင် ဘုရားကြီးတိုက် မြို့အုပ်ကြီးကျောင်း ဂဏဝါစက ရှင်ဝိသုဒ္ဓထံ၌ သဒ္ဒါ၊ ဆန်း၊ အလင်္ကာ၊ အဘိဓာန်၊ ကစ္စာ ယနသာရ၊ ဘေဒစိန္တာ၊ ပုဒ်စစ်၊ အဘိဓမ္မာညဝါ၊ ဝိနည်း ငါးကျမ်း ပါဠိတော်တို့ကို သင်ယူခဲ့သည်။

ထိုနောက် စစ်ကိုင်းတောင် အရိယဝံသချောင်၌ သုံးလ နေပြီးလျှင်၊ ပခုက္ကူမဟာဝိသုဘာရာမတိုက်သို့သွား၍ ပိဋ္ဌ ကတ်သင်နည်းကို စုံစမ်းရာ၊ကျေနပ်မှုမရှိသဖြင့် ညောင်တုန်း မြို့ ရွှေဟသာတောရတိုက်သို့ သွားကာ၊ ဋီကာကျော် ယောဇနာ ကျမ်းပြုဆရာတော် ဝေဒ၊ သက္ကတ၊ ဂဏန်း၊ အင်္ဂလိပ်စသော ဘာသန္တရဆောက ရှင်ဥာဏိန္ဒာသဘထံ သင်ရိုးပိဋ္ဌကတ်အငွကထာစုံနှင့် ပဒရူပသိဒ္ဓိ၊ ဋီကာကျော်၊ သက္ကတဗျာကရဏ်းကျမ်းတို့ကို သင်ယူခဲ့သည်။

ထိုစဉ်အခါ ရဟန်းငါးဝါတွင် မူလရည်ရွယ်ချက်အတိုင်း ပိဋ္ဌကတ် တတ်မြောက်ပြီးဖြစ်၍ ဂဏဝါစက စာချပြုလုပ်

လျက် ပါဒသိက္ခာ နယပဒေသကျမ်းကို ရေးသားခဲ့သည်။ ထိုပြင် ထိုစဉ်က ထုတ်ဝေသော ဟံသာဝတီသတင်းစာတွင် ပညာဝန်ဦးဘိုးစ ဟူသော ကလောင်အမည်ဖြင့် ပိဋကတ်ဆိုင်ရာ ခက်ရာခက်ဆစ် ဆောင်းပါးတို့ကို အပြိုင်အဆိုင် ရေးသားခဲ့သည်။

ထိုနောက် ရှင်ဥာဏိန္ဒာသဘနှင့် အတူ တွံတေးမြို့ ကျောင်းသစ်ကျောင်း ရှင်နာဂထံ ရောက်၍ စာပေ ပို့ချလျက် တဝါနေကာ၊ ပါဠိဘာသာဖြင့် ကစ္စာယနသင်္ဂဟ ကျမ်းကို ရေးသားခဲ့သည်။

ထိုနောက် မော်လမြိုင်မြို့ ရတနာဘုံပျံကျောင်း ဆရာတော်ထံ တဝါ၊ တောင်ငူမြို့ ပိဋကတ္တယာ ရာမ ကျောင်းဆရာတော်ထံ သုံးလနေထိုင်ခဲ့၍၊ မိခင်ကြီးမကျန်းမာသဖြင့် နေရပ်သို့ပြန်ကာ ပျော်ဘွယ်မြို့ ဥပဇ္ဈာယ် ဆရာတော် ကျောင်းမှာပင် နေထိုင်လျက် ဝါကျွတ်၍ ရှစ်ဝါရတွင် မိခင်ကြီး ကွယ်လွန်အနိစ္စရောက်သည်။

တဖန် ပညာဗဟုသုတဆည်းပူးရန် အရပ်ရပ်သို့ လှည့်လည်ရာ၊ ကသာနယ် မန်လည်မြို့သို့ရောက်၍ မန်လည် ဆရာတော်ကြီးထံ တနှစ်နီးပါး ဆည်းကပ်နေထိုင်ခဲ့သည်။

ထိုနောက် မန္တလေး မစိုးရိမ်တိုက်သို့ရောက်၍ ဆရာတော် ရှင်သောမာဘိသိရိ ထံတွင် ကိုးဝါမှ ဆဲ့သုံးဝါအထိ ဂဏဝါစက စာချအဖြစ်ဖြင့် နေစဉ် ပါဠိဘာသာဖြင့် ပဒသင်္ဂဟကျမ်းကို ရေးသားခဲ့သည်။

တဖန် မော်လမြိုင်မြို့သို့ရောက်ပြန်၍ ကြံခင်းကျောင်း၌ မဟာနာယကအဖြစ် စာချ၍ နေစဉ်၊ မိလိန္ဒပညှာနိဿယနှင့် ပဒသင်္ဂဟနိဿယ တို့ကို ရေးသားခဲ့သည်။ ထိုစဉ်အခါ ဆဲ့လေးဝါတွင် ဖခင်ကြီး ကွယ်လွန်အနိစ္စရောက်သည်။

၁၂၇၆ ခုနှစ် ဝါဆိုဦးတွင် နောက်ပါသံဃာ ၅၀ ကျော်နှင့် ရန်ကုန်မြို့သို့ရောက်၍ ပုဇွန်တောင် တောင်လုံးပြန် သုသာန်ဟောင်း၌ "အရှင်အာဒိစ္စဝံသ ကျောင်းတိုက်" အမည်ဖြင့် စာသင်တိုက် စတင်တည်ထောင်ခဲ့သည်။

၁၂၈၀ ပြည့်နှစ် အစိုးရ ပဌမပြန် စာမေးပွဲ၌ ရှင်သေဠိလပဌမကျော် အောင်ခဲ့သည်။ ဆာဘိုးသာ စသောဒါယကာတို့နှင့် သဘောကွဲလွဲသဖြင့် အောင်ပွဲမလုပ်ဖြစ်။ ထိုအကြောင်းကို "ပဌမကျော်အရေးတော်ပုံ" စာအုပ်ရေးသား၍ မှတ်တမ်းတင်ခဲ့သည်။

၁၂၈၀ ပြည့်နှစ် ရဟန်းဆဲ့ခုနစ်ဝါတွင် ဘာသန္တရကို သင်ယူရန် အိန္ဒိယ၊ သီဟိုဠ်၊ အင်္ဂလန်တို့သို့ သွား၍၊ ကိုးနှစ်ကျော် ဘာသန္တရကို သင်ယူခဲ့သည်။ အင်္ဂလိပ်၊ ဟိန္ဒီ၊ ဗင်္ဂါလီ၊ ဂုရမုခီ၊ အူရဒူ၊ ဂျပန်ဘာသာတို့ကို တတ်မြောက်၍၊ ပြင်သစ်၊ ဣတလီစသော နိုင်ငံများသို့ လှည့်လည်ပြီးလျှင် ၁၂၉၀ ပြည့်နှစ် နယုန်လဆုတ် ၇ ရက်နေ့ မြန်မာနိုင်ငံသို့ ပြန်ရောက်သည်။

ပြန်ရောက်သောအခါ အရှင်အာဒိစ္စဝံသ ကျောင်းတိုက်တွင် မူလရှိရင်းစာသင်တိုက်အပြင် အစိုးရအထောက်ပံ့ခံ အထက်တန်းကျောင်း၊ အင်္ဂလိပ်စာ အလွတ်ပညာသင်ကျောင်းတို့ကိုတိုးချဲ့ဖွင့်လှစ်သည်။ရဟန်းတော်တို့ဘာသန္တရသင်ကြားရေးကိုလည်း စတင်ကြွေးကြော်ခဲ့သည်။

၁၂၉၃ ခုနှစ်တွင် အသောကမင်းတရားကြီးကျောက်စာတို့ကို မြန်မာဘာသာ ပြန်ဆို၍၊ "အသောကကျောက်စာတော်ကျမ်း" ကို ရေးသားခဲ့သည်။ ယင်းကျမ်းကားရန်ကုန်တက္ကသိုလ်က ဝေလမင်းသား ဆုတော်ငွေတထောင်ဖြင့် ချီးမြှင့်ခြင်းကိုခံရသောကျမ်းဖြစ်သည်။

ထိုနောက် ဘာသန္တရသင်ကြားရေး ကြွေးကြော်သံလည်း ပိုမိုပြင်းထန်လာသည်။ ကန့်ကွက်သူတို့ကလည်း အပြင်းအထန် ကန့်ကွက်လာကြသည်။ ထိုအခါ ရဟန်းတော်တို့ ဘာသန္တရသင်ကြားသင့် မသင်ကြားသင့် ငြင်းခုံသော ပဌမအကြိမ်ဝိဝါဒါခိကရုဏ်းကြီးဖြစ်ပေါ်လာသည်။ တသာသနာလုံး တုန်လှုပ်ချောက်ချား၍ တကမ္ဘာလုံး ကျော်ကြားသွားသည်။

ဘာသန္တရ မသင်ကြားသင့်သောဖက်မှ ရန်ကုန်မြို့ ဘုရားဖြူ ဆရာတော် ရှင်ရာဇိန္ဒက "လောကာယတာဒိဝိနိစ္ဆယကျမ်း" ကိုရေးသား၍ ကန့်ကွက်ခဲ့သည်။

သင်ကြားသင့်သောဖက်မှ ရှင်အာဒိစ္စဝံသက "ဘာသန္တရလမ်းညွှန်ကျမ်း" ကို ရေးသား၍ ဖြေရှင်းခဲ့သည်။

ထိုနောက် ရှင်အာဒိစ္စဝံသသည်ပင် ရဟန်းသံဃာ ချင်းချင်း ဖြစ်သော မှုခင်းကိစ္စတို့ကို လူရုံးသို့ရောက်၍၊ လူဥပဒေဖြင့် မဆုံးဖြတ်စေပဲ၊ ရဟန်း သံဃာတော်တို့ကသာ ဝိနည်းတော်ဖြင့် ဆုံးဖြတ်နိုင်ရန် ဝိနယဓရဥပဒေကို ရေးသား၍ ကြွေးကြော်ပြန်သည်။ အစည်းအဝေးပြုလုပ်၍ ဆုံးဖြတ်သည်။ ကန့်ကွက်သူတို့လည်း အကြီးအကျယ် ကန့်ကွက်ကြပြန်သည်။

ထိုအခါ ရဟန်းတော်တို့အတွက် ဥပဒေပြဋ္ဌာန်းသင့်၊ မပြဋ္ဌာန်းသင့် ငြင်းခုံသော ဒုတိယအကြိမ် ဝိဝါဒါခိကရုဏ်းကြီးဖြစ်လာပြန်သည်။ တသာသနာလုံး တုန်လှုပ်ချောက်ချား၍ တကမ္ဘာလုံး ကျော်ကြားသွားပြန်သည်။

ဥပဒေ ပြဋ္ဌာန်းသင့်သော ဖက်မှ ရှင်အာဒိစ္စဝံသက "ဓမ္မဝိနယပြန်တမ်း"ကို ရေးသား၍ ဖြေရှင်းခဲ့သည်။

ထိုနောက် ရှင်အာဒိစ္စဝံသ သည်ပင် သာသနာနှစ်ပေါင်း ၁,၀၀၀ ကျော်လောက်က အဆက်ပြတ်လာ၍ ပျောက်ဆုံးသွားသော ဘိက္ခုနီသာသနာကို ဖော်ထုတ်ရန် "ဘိက္ခုနီသာသနောပဒေသကျမ်း" ကို ရေးသားပြန်သည်။ ကြွေးကြော်သံလည်း ပိုမိုကျယ်လောင်စွာ ကြွေးကြော်ပြန်သည်။ ကန့်ကွက်သူတို့လည်း အပြင်းအထန်ဆုံး ကန့်ကွက်လာကြပြန်သည်။

ထိုအခါ ဘိက္ခုနီသာသနာ ဖော်ထုတ်သင့် မဖော်ထုတ်သင့် ငြင်းခုံသော တတိယအကြိမ် ဝိဝါဒါဓိကရုဏ်းကြီး ဖြစ်ပေါ်လာပြန်သည်။ ယခင် အဓိကရုဏ်းကြီးနှစ်ခုထက် ကြီးကျယ်သဖြင့် တပြည်လုံး တသာသနာလုံးတုန်လှုပ်ချောက်ချားလျက် တကမ္ဘာလုံး ကျော်ကြားသွားပြန်သည်။

ကန့်ကွက်သူတို့သည် ဘိက္ခုနီသာသနာ ဖော်ထုတ်သင့် မဖော်ထုတ်သင့် ဟူသော မူလဖြစ်ရင်း အဓိကရုဏ်းကြီးကို အရေးမယူပဲ၊ "ဘိက္ခုနီသာသနောပဒေသကျမ်း" နိဒါန်း စာမျက်နှာ ၂၄ – ၂၆ တွင် ပါရှိသော စကားတို့ကို အရေးယူကာ ရန်ကုန်မြို့ ကြည့်မြင်တိုင် ဗားကရာတိုက် ဆရာတော် ရှင်ပဒုမ၊ သာစုတိုက်ဆရာတော် ရှင်ပညာသာ မိ စသော ဆရာတော် ၂၄ ပါးနှင့် ဆရာကြီး သခင်ကိုယ်တော်မှိုင်း၊ ဒီးဒုတ်ဦးဘချို၊ ဂျွန်ဦးစော၊ ဆရာလင်း၊ ဆရာရိပ်စသော လူဒါယကာ ၂၃ ဦးတို့ ကြီးမှူးလျက်ပရိသတ် ၅,၀၀၀ ခန့် တက်ရောက်၍ ၁၂၈၇ ခုနှစ် တော်သလင်းလဆန်း ၁ ရက် တနင်္ဂနွေနေ့တွင် ဂျူဗလီဟောရုံ ကြီး၌ ရှင်အာဒိစ္စဝံသ အား ပကာသနီယကံ နှင့် အပ္ပသာဒပဝေဒနီယကံ တို့ကို ပြုကြသည်။

ပကာသနီယကံနှင့် အပ္ပသာဒပဝေဒနီယကံ ပြုသော ဖက်က စာမျက်နှာ ၄၆ ရှိ စာအုပ်ငယ်ကို ရေးသား၍ ဖြေရှင်းခဲ့သည်။

ရှင်အာဒိစ္စဝံသက "ဘိက္ခုနီအရေးတော်ပုံ" စာအုပ်ကြီးကို ရေးသား၍ ဖြေရှင်းခဲ့သည်။

ရှင်အာဒိစ္စဝံသမှာ ပကာသနီယကံ နှင့် အပ္ပသာဒပဝေဒနီယကံ အပြုခံရသော်လည်း ယခင်ကအတိုင်း စာချမြဲချလျက် စာရေးမြဲရေးလျက်ပင်နေသည်။

၁၂၈၃ ခုနှစ် နယုန်လအထိ ရေးသားပြီးစီးသောကျမ်းပေါင်း ၆၀ ၏ အမည်စာရင်းကို အသောကကျောက်စာတော်ကျမ်းအဆုံး ကိုယ်တိုင်ရေးသားသော အတ္ထုပ္ပတ္တိ၌ ပြဆိုလျက် ရှိသည်။

ဒုတိယကမ္ဘာစစ်ကြီးဖြစ်လာသောအခါ၌လည်း အရပ်တပါးတို့ တိမ်းရှောင်ခြင်းမရှိ၊ မိမိကျောင်းတိုက်၌ပင် နေ၍ စာပေပို့ချခြင်း၊ ကျမ်းစာ ရေးသားခြင်းတို့ဖြင့် သာသနာ့ဝန်ကို ဆောင်ရွက်လျက်ရှိသည်။

၁၃၀၄ ခုနှစ် ဝါခေါင်လဆုတ် ၁၄ ရက်နေ့ အသက် ၆၀ တွင် ရဟန်းဇာတ်သိမ်း၍ လူအဖြစ်သို့ ရောက်သည်။ အမည်ကား ဦးအောင်မြတ်ထွတ် ဖြစ်၏။ ထို့နောက် ဒေါ်ငွေတင်နှင့် အိမ်ထောင်ပြုကာ ကျောက်မြောင်းရပ်ကွက် ဘယသုဒ္ဓိလမ်း ဇနီးနေအိမ်၌ နေသည်။ လူမှုကိစ္စ စီးပွားရေးကို မဆောင်ရွက်ပဲ၊ ကွယ်လွန်သည်တိုင်အောင် စာပေပို့ချခြင်း၊ ကျမ်းစာရေးသားခြင်း အလုပ်တို့ဖြင့်သာ အချိန်ကုန်ခဲ့သည်။ ဆရာကြီး၏ စားဝတ်နေရေးအတွက် ဇနီးဖြစ်သူ ဒေါ်ငွေတင့်က အစစအရာရာတာဝန်ယူ၍ ပြုစုလုပ်ကျွေးသည်။

၁၃၁၁ ခုနှစ် ဝါခေါင်လဆုတ် ၄ ရက်နေ့ အသက် ၇၀ တွင် ကွယ်လွန်အနိစ္စရောက်သည်။ ရုပ်ကလာပ်ကို အရှင်အာဒိစ္စဝံသ ကျောင်းတိုက်သို့ယူ၍ ငါးရက် ထားပြီးလျှင် သင်္ဂြိုဟ်ကြသည်။

ရှင်အာဒိစ္စဝံသကား ဇွဲလုံ့လ အလွန်ကောင်းသည်။ ကျမ်းပေါင်းများစွာ ရေးသားခဲ့သည်။ အထူးအားဖြင့် အကြည့်အရှု အသင်အကြား နည်းပါး၍ ကျမ်းအိပ်ဟု သမုတ်သော နိကယ်ကြီးငါးရပ်ကို တသက်ပတ်လုံး ကွယ်လွန်သည်အထိ အခေါက်ပေါင်းများစွာ ချဉ်ခဲ့သည်။ တခေါက်လျှင် ခြောက်လဖြင့် အပြီးချပို့သည်။ ဦးကြီးမေ

**အာနန္ဒာထေရ်။** ။အာနန္ဒာထေရ်သည် ဂေါတမမြတ်စွာဘုရားလက်ထက်တော်တွင် အလုပ်အကျွေးအပါးတော်မြဲဖြစ်၍ အထူးထင်ရှားသည်။

အာနန္ဒာသည် မြတ်စွာဘုရား၏ ခမည်းတော်သုဒ္ဓေါဒနမင်း၏ညီတော် အမိတ္တောဒနမင်း၏ သားတော်ဖြစ်၍ မြတ်စွာဘုရား၏ ညီတော်ဝမ်းကွဲ တော်စပ်သည်။ မြတ်စွာဘုရား၏ ဖွားဖက်တော်ခုနစ်ဦးတွင်လည်း တဦးအပါအဝင်ဖြစ်သည်။ အရွယ်ရောက်သောအခါ အခြားသာကီဝင်မင်းသားတို့ကဲ့သို့ မြတ်စွာဘုရားထံသို့ သွားရောက်၍ ရဟန်းပြုသည်။ အာနန္ဒာနှင့်အတူ ညီတော်နောင်တော်များဖြစ်ကြသော အနုရုဒ္ဓါ၊ ဘဒ္ဒိယ၊ ကိမိလ၊ ဒေဝဒတ် စသော မင်းသားလေးပါးနှင့် ဆတ္တာသည် ဥပါလိတို့အတူပါသည်။

အာနန္ဒာသည် ရဟန်းပြုပြီးနောက် မြတ်စွာဘုရား၏ တရားတော်ကို နာကြားရသဖြင့် သောတာပတ္တိဖိုလ်၌ တည်သည်။ မြတ်စွာဘုရားအား ရိုသေစွာလုပ်ကျွေးသည်။ မြတ်စွာဘုရားသည် ဝါတော်နှစ်ဆယ်ရသော အခါမှစ၍ အစဉ်အမြဲ လုပ်ကျွေးရသည်။

အာနန္ဒာထေရ်သည် မြတ်စွာဘုရားထံတွင် လုပ်ကျွေးခြင်းပြုခွင့်ရသောအခါ လေးပါးသောဆုကို ဘောင်း၍ လေးပါးသောဆုကို ပယ်သည်။

အာနန္ဒာထေရ်တောင်းသောဆု လေးပါးမှာ

(၁) မိမိဝန်ခံဖိတ်ကြားအပ်သောဆွမ်းကို ခံတော်မူရန်၊
(၂) အဝေးအနီးမြို့ရွာ ကျေးလက်မှ ရောက်လာသော ပရိသတ်တို့က မြတ်စွာဘုရားအား ဖူးမျှော်လိုသဖြင့် မိမိကတဆင့် လျှောက်ထားလျှင် ဖူးမျှော်ခွင့်ပေးတော်မူရန်၊
(၃) မိမိ၌ ယုံမှားမှုရှိသောအခါ မြတ်စွာဘုရားအား လျှောက်မေးလိုသော် မေးခွင့်ပြုပါရန်၊

(၄) ကွယ်ရာ အခြားတပါးသော နေရာ၌ ဟောကြားတော်မူသော တရားတော်ကို မိမိအားပြန်၍ ဟောကြားပါရန်

ဟူ၍ ဖြစ်သည်။

ရှင်အာနန္ဒာပယ်သောဆုလေးပါးမှာ

(၁) မြတ်စွာဘုရားရအပ်သော ဆွမ်းကွမ်းပစ္စည်းဖြင့် မိမိအား မချီးမြှောက်ရန်၊

(၂) မွန်မြတ်သောသင်္ကန်းပစ္စည်းဖြင့် မချီးမြှောက်ရန်၊

(၃) ကိုယ်တော်မြတ်ကျိန်းဝပ်သော ဂန္ဓကုဋီသို့ ဝင်၍ မကျိန်းရစေရန်၊

(၄) ဆွမ်းဖိတ်သော ဒါယကာတို့အိမ်သို့ အတူလိုက်ပါရန် အတွက် မခေါ်ဆောင်ရန်

ဟူ၍ ဖြစ်သည်။

အာနန္ဒာထေရ်သည် မြတ်စွာဘုရားအား အသွယ်သွယ်သောနည်းတို့ဖြင့် လုပ်ကျွေးပြုစုတော်မူခြင်းကြောင့် ဓမ္မဘဏ္ဍာဂါရိကတရားမှူး၊ တရားထိန်း၊ တရားဘဏ္ဍာစိုး အရာ၌ ချီးမြှောက်တော်မူသည်။

မြတ်စွာဘုရား လက်ထက်တော်တွင် အာနန္ဒာထေရ်သည် ငါးပါးသော ဧတဒဂ်ဘွဲ့ကို ရသည်။ ဧတဒဂ်ငါးတန် ရရှိသဖြင့် ထူးမြတ်သောမထေရ်ကြီးတပါး ဖြစ်လာသည်။

ရှင်အာနန္ဒာရရှိသော ဧတဒဂ်ငါးပါးကား

(၁) အကြားအမြင်များခြင်းအဖြစ်၊ ဗဟုသုတ ဧတဒဂ်။

(၂) သတိအမှတ်ကောင်းခြင်းအဖြစ်၊ သတိမန္တဧတဒဂ်။

(၃) ပညာရှိခြင်းအဖြစ်၊ ဂတိမန္တဧတဒဂ်။

(၄) တည်ကြည်ခြင်းအဖြစ်၊ ဓိတိမန္တဧတဒဂ်။

(၅) အလုပ်အကျွေးပြုနိုင်ခြင်းအဖြစ်၊ ဥပဋ္ဌာက ဧတဒဂ်၊

ဟူ၍ ဖြစ်သည်။

ရှင်အာနန္ဒာသည် မြတ်စွာဘုရားပရိနိဗ္ဗာန်စံတော်မူပြီးနောက် ပဌမသင်္ဂါယနာတင်မည့်နေ့တွင် ဣရိယာပုထ်လေးပါးမှလွတ်၍ အာသဝေါကုန်သော ရဟန္တာဖြစ်လာသည်။

ကွယ်ရာတွင် မြတ်စွာဘုရား ဟောကြားတော်မူသောတရားတော်များကို ပြန်လည်ဟောကြားစေသော ရှင်အာနန္ဒာ၏ ကျေးဇူးတော်ကြောင့် ပုထုဇဉ်သတ္တဝါအများသည် မြတ်စွာဘုရားဟောကြားသော တရားတော်များကို ယခုထက်တိုင် ကြားနာကြည်ညိုကြရသည်။ သန်ကောင်ယံ၌ မထင်ရှားသောနတ်သားတပါးကို ဟောကြားတော်မူခဲ့သည့် မင်္ဂလသုတ်အစရှိသောတရားတော်များကို ကြားနာရသည်မှာလည်း ရှင်အာနန္ဒာထေရ်၏ ကျေးဇူးတော်ကြောင့်ပင်ဖြစ်သည်။ မြတ်စွာဘုရားပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက် ပဌမသင်္ဂါယနာတင်ရာတွင် ရှင်အာနန္ဒာ၏ စွမ်းဆောင်မှုကြောင့်သာလျှင် သုတ္တန်၊ အဘိဓမ္မာ ပိဋကများသည် မြတ်စွာဘုရားကိုယ်စား ကျန်ရစ်ခဲ့လေသည်။

**အာနန္ဒာဘုရား။** ။ပုဂံပြည့်ရှင် ကျန်စစ်သား မင်း၏ ကောင်းမှုတော်ဖြစ်သော အာနန္ဒာဘုရားသည် ပုဂံဘုရားများအနက် အလွန်တရာအချိုးအစားကျန လှပတင့်တယ်၍ ချီးကျူးဖွယ်အကောင်းဆုံးသောဘုရားတဆူဖြစ်သည်။ ရှေးမြန်မာ့ ဗိသုကာပညာ၏ အပြောင်မြောက်ဆုံးသော လက်ရာကို အာနန္ဒာဘုရား၌ တွေ့ရသည်။ ထိုဘုရားသည် စေတီဘုရားမဟုတ် ဂူဘုရားဖြစ်သည်။ ပုဂံမြို့ သရဘာတံခါး၏ အရှေ့ဖက်အနီး၌ တည်ရှိလေသည်။

ကျန်စစ်သားမင်းတရားသည် ခမည်းတော် အနော်ရထာ၏ ကုသိုလ်တော်ဖြစ်သော ရွှေစည်းခုံစေတီတော်ကို ထပ်မံမွမ်းမံ၍ အပြီးသတ်တည်ဆောက်ပြီးလေသော် အကြံတခုဖြစ်ပေါ်သည်။ ထိုအကြံကား ဘဒ္ဒကမ္ဘာ၌ ပွင့်တော်မူပြီးသော ကကုသန္ဓ၊ ကောဏာဂမန၊ ကဿပ၊ ဂေါတမ တည်းဟူသော ဘုရားရှင်တို့အားရည်စူး၍ ဂေါတမဘုရားရှင်၏ အရပ်တော် ၁၈ တောင် ပမာဏဖြင့် ရုပ်တော်မူဟန်လေးဆူသောရုပ်ပွားတော်များကို ထုလုပ်ပူဇော်လိုသော အကြံဖြစ်ပေသည်။ ထိုလေးဆူသောရုပ်ပွားတော်များကို ကိုးကွယ်ပူဇော်ထားရန် အဘယ်သို့သော ပုံသဏ္ဌာန်ရှိသည့် အဆောက်အအုံဖြင့် ကြည်ညိုဖွယ်ဖြစ်အောင် တည်ဆောက်ကိုးကွယ်ရအံ့နည်းဟု ကြံစည်တွေးတောနေတော်မူခဲ့လေသည်။

ထိုအတွင်း၌ပင် ရဟန္တာရှစ်ပါးတို့သည် မင်းကြီးနန်းတော်၌ ဆွမ်းရပ်လာကြသည်။ မင်းကြီးလည်း ကြည်ညိုစွာဖြင့် ဆွမ်းလုပ်ကျွေးပြီးလျှင် မည်သည့်အရပ်က ကြွလာကြောင်းမေးမြန်းလျှောက်ထားသော် (ဟိမဝန္တာအရပ်) ဂန္ဓမာဒနတောင်မှ ကြွလာကြောင်း မိန့်ကြားကြသည်။ ထိုအခါ မင်းတရားကြီးသည် အရှင်မြတ်တို့အား အလွန်သဒ္ဓါကြည်ညိုလှသဖြင့် ဝါဆိုကျောင်းဆောက်၍ လှူပြီးလျှင် ဝါတွင်းသုံးလပတ်လုံး နန်းတော်သို့ပင့်၍ ဆွမ်းလုပ်ကျွေးတော်မူသည်။ တရံခါသော် ကျန်စစ်သားမင်းတရားက အရှင်မြတ်တို့အား အရှင်မြတ်တို့ သီတင်းသုံးခဲ့ရာ ဂန္ဓမာဒနတောင်ရှိ နန္ဒမူလလိုဏ်ဂူကို တန်ခိုးတော်ဖြင့် သဏ္ဌာန်တူစွာပြု၍ ပြတော်မူရန် လျှောက်တောင်းပန်သည်။ အရှင်မြတ်တို့ကလည်း တန်ခိုးဖြင့် ပြတော်မူသော် နန္ဒမူလလိုဏ်ဂူ၏ တင့်တယ်သော အသရေကို မင်းတရားကြီး အလွန်တရာ နှစ်သက်ကြည်ညိုခြင်း ဖြစ်သည်။ ထို့ကြောင့် မူလရည်ရွယ်ရင်းရှိခဲ့သော ဘုရားရှင်လေးဆူတို့ စံပယ်ရန် နန္ဒမူလလိုဏ်ဂူသဏ္ဌာန် ကောင်းမှုတော်တဆူကို တည်ဆောက်၍ ပူဇော်ကိုးကွယ်ရန် အကြံတော်ဖြစ်သည်။ ရဟန္တာအရှင်မြတ် တို့အားလည်း ကူညီစောင်မရန် လျှောက်ထားတောင်းပန်သည်။ မထေရ်မြတ်တို့ကလည်း သဘောတူညီကြသဖြင့် သက္ကရာဇ် ၄၅၂ ခုနှစ် (ခရစ်



ရှေးမြန်မာ့ဗိသုကာပညာ၏ အပြောင်မြောက်ဆုံးလက်ရာကို ထင်ရှားတွေ့မြင်နိုင်သည့် ဂူဘုရားဖြစ်သော အာနန္ဒာဘုရား

၁၀၉၁ ခုနှစ်) အတွင်း၌ပင် အာနန္ဒာဘုရားကို စတင်တည်ဆောက်ရန် စီမံလေသည်။

ကျန်စစ်သားမင်းသည် မိမိ၏ကောင်းမှုတော်ကို သာသနာအနှစ် ၅,၀၀၀ တည်စေရန် ရည်ရွယ်သဖြင့် မည်သည့်အရပ်၌ တည်ဆောက်ရအံ့နည်းဟု ဆင်ခြင်သည်။ ထိုအခါ သိကြားမင်းကြွလာလတ်၍ ဘုရားတည်ဆောက်ရမည့်အရပ်ကို ညွှန်ပြသည်ဟု ဆိုသည်။ မင်းတရားကြီးလည်း ထိုအရပ်၌ ရေဝတီမြစ်ရေ တိုးစေကာမူ မိမိ၏ ကောင်းမှုတော် မပါနိုင် မပြိုနိုင်စေရန်၊ မြေကိုအစောက် သံတောင် ၆၀ ရေထွက်အောင် တူးစေပြီးသော် ရေမှ သံတောင် ၃၀ နဂါးရစ်ကျောက်တို့ကို တည်ခင်းစေ၏။ ထိုကျောက်တို့၏ အထက်၌ကား ဌာပနာအံ့သောငှာ သံတောင် ၃၀ ရှိ ဥမင်တိုက်ကို ဆောက်စေသည်။

မင်းတရားကြီး၏ ကောင်းမှုတော်အတွက် ဆောင်ရွက်ရသော ပန်းရံတို့ကား ဗိသုကာလေးရာ၊ ကံကျေးလေးသောင်းဖြစ်၍ လက်ခမှာ ရွှေစင်လေးသိန်းပေးရသည်။ ရဟန္တာအရှင်မြတ်တို့လည်း ဌာပနာတိုက် ဆောက်လုပ်ရာ၌ ကူညီကြသည်။ ထိုအရှင်မြတ်တို့အပြင် သီတင်းသုံးဖော် အခြားသောရဟန္တာအရှင်မြတ်တို့ကလည်း ဝိုင်းဝန်းကြသဖြင့် ထိုကောင်းမှုတော် တည်ဆောက်ရာ၌ ကူညီဝိုင်းဝန်းကြသော ရဟန္တာလေးကျိပ်လေးပါးရှိသည်။ ၎င်းကောင်းမှုတော်၏ တမျက်နှာလျှင် ရဟန္တာတကျိပ်စီစောင့်ရှောက်ကြသည်။ အခြားရဟန္တာလေးပါးတို့ကမူ နန္ဒမူလလိုဏ်ဂူသို့ကြွရောက်၍ လိုဏ်ဂူ၏ပုံပန်းအနေအထား အသေးစိတ်တို့ကို မျက်နှာတခုစီ၌ ကြီးကြပ်နေတော်မူသော ရဟန္တာတို့ကိုရင်း၊ ဗိသုကာလေးရာတို့တွင် အကြီးဖြစ်သော ဗိသုကာလေးယောက်တို့ကိုရင်း ညွှန်ကြားပြသပေးကြသည်။ ဝိသကြုံနတ်သားကမူ လေးမျက်နှာလုံးကို လှည့်လည်ကြည့်ရှုစီရင်သည်ဟု ဆိုသည်။ ထိုပြင် ဗိသုကာအကြီးလေးယောက်တို့၏ နှလုံးတွင် သူရဿတီ နတ်သမီးဝင်ရောက်နေသည်ဟုလည်း ဆိုကြသည်။

ဌာပနာတော်တိုက်အတွင်း၌ သွင်းထား ပူဇော်အပ်သော ဓာတ်တော်များကား ဂေါတမဘုရားရှင်၏ လက်သန်းဓာတ်တော်တဆူ၊ သွားတော်ဓာတ်တော်တဆူ၊ပုဆစ်ခုန်ညင်းဓာတ်တော်တဆူ၊ လည်ရိုးတော်တဆူ၊ ဦးခေါင်းဓာတ်တော်တဆူ၊ ပါးစောင်ဓာတ်တော်တဆူ၊ ဆံတော်ဓာတ်တော်တဆူတို့အပြင် သရီရဓာတ်တော် အစစ်ချည်း ၃၀၀ ကျော်တို့နှင့် သင်းပိုင်တော်လည်းပါဝင်သည်။ ယင်းဓာတ်တော် မွေတော်တို့ကို ပဲနောက်အဆင်းရှိသော ကျောက်ခွက်ဖြင့် အပြည့်ထည့်ပြီးသော်၊ ရွှေစင်သုံးသိန်းဖြင့် သွန်းအပ်သော ဓာတ်တော်ကြုပ်၌ တဖန်ထည့်၍ ရတနာပန်းတောင်းထက်၌ ထားသည်။

ဌာပနာတိုက်အတွင်း၌ ကြေးဘုရား ဆင်းတုတော် ရှိရာ၊ ထိုရုပ်ပွားတော်၏ အထက်အောက်၌ ရွှေစင်ဖြင့် သွန်းအပ်သော အရုပ်များရှိသည်။ ထိုရွှေစင်ရုပ်များကား ရေမာန်ကာန်းကို မှုဆိုး လေးနှင့်ပစ်ဟန်၊ ရေမာန်ကာန်း သေဟန်၊ ကျန်စစ်မင်းကြီး ဘုရားတည်မည့်အရပ်ရွေးဟန်၊ သိကြားမင်းက ညွှန်ပြဟန်၊ ထိုနောက် ဂေါတမ ဘုရား အလောင်းတော် တောထွက်တော်မူသည်မှ ပရိနိဗ္ဗာန် ပြုတော်မူသည်အထိ ဗုဒ္ဓဝင်ခန်းများလည်း ပါဝင်သည်။ ထိုရုပ်လုံးများ သွန်းလုပ်ရာ လူတို့အား နရ တောင်မှ နတ်တို့က ကူညီသည်ဟု ဆိုသည်။ ဂေါတမမြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုဟန် ပြုလုပ်ထားသော ရုပ်တုတော်သည် အနောက်ဖက်သို့ မျက်နှာမူလျက် ကြေးဘုရား အောက်၌ တည်ရှိသည်။ နေရဗာန်ဘုရား၏ ခေါင်းရင်းဝယ် ရွှေစင်ငါးသောင်းအကုန်ခံ၍ ပြုလုပ်သားသော ဆင်းတုတော်ကား မလ္လာယုကျွန်းမှ သာရစန္ဒရ သရက္ခာန်သား အနှစ်ဖြင့် ထုလုပ်ထားသည်။ ဌာပနာတိုက်အတွင်း အနောက်မျက်နှာ၌ကား နေရဗာန်ဘုရား၊ အရှေ့၊ တောင်၊ မြောက် သုံးမျက်နှာ တို့၌ကား ထက်ဝယ်ဖွဲ့ခွေ ဆင်း တု တော် တဆူကျစီ ရှိသည်။ ရွှေစင်ဖြင့်သွန်းအပ်သော ရဟန္တာရုပ်ပွား၊ ကျန်စစ်မင်းကြီး၏ ရုပ်ဘုများလည်း လက်ဝဲလက်ျာ လေးမျက်နှာ လုံး၌ ထားပေသည်။ ထိုပြင် ဘုရားသခင် စင်္ကြံတော်မူဟန်၊ သာသနာတည်သမျှ အရိယာရဟန်းတို့ စည်းဝေးဟန်၊ ရှင်အရဟံနှင့် အာနန္ဒာဘုရား တည်ဆောက်ရာ၌ ကြပ်မတ်ပေးကြသော ရဟန္တာတို့၏ စည်းဝေးဟန်တို့ကိုလည်း ရွှေစင်ဖြင့် သွန်းထားသည်။ ရနိုင်သမျှသော ပိဋကတ်၊ ဓမ္မသတ်၊ မန္တာန်စသည်တို့ကိုလည်း ဌာပနာတိုက် အတွင်း၌ ထည့်သည်။ ဘုရားရှင်အား ရည်မှန်း၍ လှူဒါန်းထားသော ရွှေတုံး၊ ငွေတုံးတို့ကား ရှစ်ဆဲ့ ရှစ်တုံး ရှိရာ တတုံးလျှင် အချိန် သုံးသောင်း သုံးရာ သုံးဆဲ့ သုံးကျပ် သုံးမတ်သားစီရှိသည်။ မိကျောင်းရုပ်ကို နဖားထွင်းပြီးလျှင် ရွှေတုံးကို ငွေကြိုး၊ ငွေတုံးကိုရွှေကြိုးဖြင့်သီသားသည်ဟုဆိုလေသည်။

ဌာပနာတိုက်၏ မုခ်လေးမျက်နှာ၌ ဆီမီးလေးတိုင် ပတ္တမြား လေးလုံးတို့ တည်ရှိရာ၊ ယင်းပတ္တမြား တို့၏ အရောင်သည် နေရောင်၊ လရောင်၊ ဆီမီးရောင် ကဲ့သို့ ဌာပနာတိုက်အတွင်း ထွန်းလင်းလျက် ရှိသည်။ မြတ်စွာဘုရား၏ ဓမ္မစကြာတရား ဟောသံကို ယန္တရားဆင်၍ ဖန်တီးစီရင်ထားရာ၊ ကရဝိက်ငှက်၏ ကြွေးကြော်သံကဲ့သို့ အလွန်တရာ သာယာလှသည်။ ထိုအသံကို နတ်ဗြဟ္မာတို့က ကောင်းချီးပေး၍ ခရုသင်းမှုတ်သံ၊ စည်၊ စောင်း ငြင်းတီးမှုတ်ဟန်တို့ကိုလည်း စီရင်ထားရာ၊ ဌာပနာတိုက် အတွင်း အသံသဲ့သဲ့ မြည်နေသည်။ နတ်တို့ လက်ပန်းပေါက်ခတ်ဟန်၊ ပန်းပေါက်ပေါက်ကြဲဟန်တို့ကိုရင်း၊ ဂန္ဓမာဒနတောင်၊ နန္ဒမူလ လိုဏ်ဂူဝ၌ မဉ္ဇူသက သစ်ပင်အောက်ရှိ ဂန္ဓကုဋိတိုက်၌ ဘုရား ပစ္စေကဗုဒ္ဓ သာဝကတို့အား နတ်တို့က ဒန်ပူကပ်ဟန်၊ ဇေတဝန် ကျောင်းတော်၌ ရှင်အာနန္ဒာက ဘုရားရှင်အား ဒန်ပူကပ်ဟန်၊ ဘုရားရှင် ပရိနိဗ္ဗာန် ပြုတော်မူသည့်အခါ သာဓုကီဠန သတ္တာဟ၊ စိတကသတ္တာဟ၊ ဓာတုပူဇာ သတ္တာဟတို့နှင့် ဓာတ်တော်ဝေခန်းတို့ကိုရင်း ရွှေစင်ရုပ်များ သွန်းလုပ်ထားသည်။ သင်္ဂါယနာသုံးတန် တင်ဟန်၊ ပြူစောထီးမင်းသည် ဝက်ကြီးစသော ရန်သူများကို အောင်နိုင်ဟန် အရုပ်များ ကိုလည်း ရွှေစင်ဖြင့် သွန်းလုပ် ထားသည်။ ထိုပြင် ရွှေဆင်းတုချည်းတထပ်၊ ငွေဆင်းတုချည်းတထပ်၊ လက်ဝဲ လက်ျာရံတို့နှင့်တကွ သွန်းလုပ် ထားသေးသည်။

အဖိုး အတိုင်းမသိသော ဌာပနာ ရတနာများကို ကာကွယ်သောအားဖြင့် ခြသေ့်စက်၊ ကျားရဲစက်၊ နဂါးစက်၊ ဂဠုန်စက်၊ ခွေးရဲစက်၊ ဆိတ်ရဲစက်၊ နွားရဲစက်၊ ကျွဲရဲစက်၊ စိုင်ရဲစက်တို့ကိုလည်း ဌာပနာတိုက်၏ တံခါးအထက်၌ တန်အောင်ထားသည်။ တံခါးရွက်ကား အဖိုးအတိုင်း မသိထိုက်သည်။ တံခါးတွင် ရွှေဘုရား၊ ငွေဘုရား၊ ပဉ္စလောဟာဘုရားများ ထားသည်။ ထိုများစွာသော ဘုရားတို့ကို ချီနိုင်မှသာလျှင် တံခါးကိုဖွင့်နိုင်မည်။ တံခါးတခုပွင့်လျှင် တံခါးအကုန် ပွင့်နိုင်အောင် စီရင် ထားလေသည်။

ဌာပနာတိုက်အတွင်းရှိ ကောင်းမှုတော်အစုစုကို ရွှေကွန်ရက်၊ ငွေကွန်ရက်၊ ပုလဲကွန်ရက်၊ ကြေးကွန်ရက်၊ စန္ဒကူးသရက္ခာန် ကွန်ရက်ဖြင့် ရံထားသည်။ ဌာပနာတိုက်၌ သွင်းအပ်သော ရုပ်လုံး ရုပ်ပွားများကို ရွှေစင် သုံးကုဋေ ခြောက်သန်း အကုန်ခံ၍ သွန်းလုပ်ထားလေသည်။ ပြည့်ရှင်မင်းကြီးက မရေမတွက်နိုင်သော ရွှေငွေရတနာတို့ကို အကုန်ခံ၍ ကုသိုလ်ပြုသည်ကို မြင်တွေ့ရသော ပြည်သူလူထုကလည်း ကြည်ညို သဒ္ဓါတရား ဖြစ်လာကြပြီးလျှင် များစွာသော ပစ္စည်းဥစ္စာတို့ကို ထည့်ဝင် လှူဒါန်းကြသည်။ မင်းကြီးသည် ဌာပနာတိုက်အတွင်း လှူဒါန်းပူဇော်သားသော ကောင်းမှုအစုံစုံကို ရှုမြင်တော်မူရလျှင် သဒ္ဓါစိတ်လွန်ကဲကာ ပီတိသောမနဿစိတ် အလွန်ဖြစ်ပွားပြီးလျှင် ဌာပနာတိုက်ကို မပိတ်မိပဲ ရှိနေသဖြင့် ရဟန္တာအရှင်မြတ်များက တရားဟောကြားကာ ဌာပနာတိုက်ကို ပိတ်စေရသည်။

ဖော်ပြခဲ့သော မြေအောက်ဌာပနာအပြင် အထက်ဌာပနာတိုက်၌လည်း မြတ်စွာဘုရား၏ ရုပ်ပွားတော်များကို ရွှေစင် သုံးကုဋေခြောက်သန်း အကုန်ခံ၍ သွန်းလုပ်လှူဒါန်းသည်။ ရွှေလှေနှင့်မင်းများအရုပ်ကိုလည်း ရွှေစင်



ပုဂံပြည့်ရှင် ကျန်စစ်သားမင်း၏ ကောင်းမှုတော် ဖြစ်သော အာနန္ဒာကူဘုရား

ဖြင့် သွန်း၍ ဌာပနာသည်။ မင်းများ အသုံးအဆောင် ဖြစ်သော စောင်း ငြင်းတူရိယာ တို့ကိုလည်း တီးသူလူရုပ်နှင့်တကွရင်း၊ နတ်သားရုပ်တို့ကိုရင်း ဌာပနာ လေသည်။ ကျန်စစ်မင်းကြီးသည် ပြူစောထီး စသော ရှေးဘေးလောင်းတော် ဘိုးလောင်းတော် မင်းအဆက်ဆက်တို့ထံမှ ဆက်ခံရရှိသော ဓာတ်တော်၊ မွေတော်၊ ကျောက်သံပတ္တမြား၊ ရွှေငွေဥစ္စာမှန်သမျှနှင့် မိမိ၏ဘုန်းကံကြောင့် နိုင်ငံရပ်ခြား တိုင်းဘပါးမှ လက်ဆောင်ပဏ္ဏာဆက်သလာသမျှတို့ကို စွန့်တော်မူမည်ဟု မိန့်ကြားပြီးလျှင် အတုမရှိသော ကောင်းမှုတော်ကို စီရင်စေလေသည်။

မင်းတရားကြီး၏ ကောင်းမှုတော်သည် ဘုရားရှင်တို့၏ အနန္တပညာကို ရည်မှတ်ပူဇော်ခြင်း ဖြစ်သဖြင့် အနန္တဘုရားဟု ဘွဲ့မည်တပ်ခဲ့သော်လည်း ကာလကြာမြင့်သော် အာနန္ဒာဘုရားဟု ခေါ်တွင်ခဲ့လေသည်။ ထိုကူဘုရားသည် ပုဂံခေတ် ကူဘုရားများအနက် ဥဒ္ဓတော် မမြင့်မားလှသော်လည်း ထုထည်မသေးပဲ အချိုးအစား ပြေပြစ် လှပသော ဘုရားတဆူဖြစ်သည်။ အောက်ခြေ ဖိနပ်တော်မှ ထီးတော်အထိ ဥဒ္ဓတော် ၁၆၈ ပေ အမြင့်ရှိသည်။ အောက်ခြေတွင် လေးထောင့် ကုလားကျောင်း ခံထားသည်။ ကုလားကျောင်း၏အလယ်၌ အုတ်ဖြင့်ပြီးသော ကန့်ကူဆံတုံးခေါ် မဏ္ဍိုင်ကြီးရှိရာ ဗဟို၌ ထုကြီး ထည်ကြီးဖြင့် တည်ဆောက်သော အိန္ဒိယ ကူဘုရားများနှင့် ရှေး အီဂျစ်တို့၏ ပိရမစ်ကြီးများ တည်ဆောက်ပုံသဘောမျိုး ဖြစ်သည်။

ကုလားကျောင်းမှ လေးဖက်လေးမျက်နှာသို့ အာရုံခံမုခ်တခုစီအသီးအသီးထုတ်ထားပြီးလျှင်အလယ်မဏ္ဍိုင်ကြီး၏ပတ်လည်၌ အတွင်းထပ်အပြင်ထပ် စင်္ကြံနှစ်ထပ်ရှိသည်။ အာနန္ဒာဘုရား၏ ပန္နက်ချပုံသည် ရှေးခေတ် ဂရိလူမျိုးတို့၏ သောတ္တိက၊ သို့မဟုတ် ကြက်ခြေခတ် ပန္နက်ပုံကဲ့သို့ရှိသည်။ ထိုပြင် ခရစ်ခုနှစ်ရာစုနှစ်၊ သို့မဟုတ် ရှစ်ရာစုနှစ်က ယခု ဗင်္ဂလားပြည်နယ်၊ ပဟာပူရ၌ရှိခဲ့သော ဘုရား တန်ဆောင်းတခု၏ ပန္နက်ပုံနှင့် အာနန္ဒာ၏ ပန္နက်ပုံသည် ဆင်ဆင် တူကြောင်း တွေ့ရလေသည်။ ကုလားကျောင်း၏ အလယ်ကိုဖြတ်သွားသော ကြက်ခြေခတ် မျဉ်းတန်းနှစ်ခုသည် ပေ ၂၀၀ စီ ရှည်လျားသည်။ ယင်းမျဉ်းတန်းနှစ်ခုနှင့် ပြိုင်လျက် အတွင်းထပ် အပြင်ထပ် စင်္ကြံနှစ်ခုမှ လိုဏ်ကြီး လိုဏ်ငယ်တို့ တန်းလျက်ရှိကြသည်။ ကုလားကျောင်း၌ရင်း၊ အာရုဏ်ခံ မုခ်များ၌ရင်း၊ ရိုးရိုး လေသာပြတင်းများကိုမသုံးပဲ ပဲပေါင်းချွန်းမုခ်ဝနှင့် မုခ်ပြတင်းများကို အသုံးပြုထားသည်။ ကုလားကျောင်း၏ နံရံသည် ၃၅ ပေ အမြင့်ရှိပြီးလျှင် မုခ်ပြတင်းနှစ်ဆင့်ဖြင့် ဆင်ယင်ထားသည်။ ထိုပြတင်းများမှရင်း၊ အတွင်းအပြင်စင်္ကြံများ၏ လိုဏ်ကြီးလိုဏ်ငယ်များမှရင်း အလင်းရောင် ဝင်ရောက်နိုင်သဖြင့် လိုဏ်ဂူကဲ့သို့ရှိသော ကုလားကျောင်းစေတီ၏ အတွင်းပိုင်း၌ မှောင်ခြင်းမရှိချေ။ ပြတင်းနှင့် လိုဏ်ကြီးလိုဏ်ငယ် ၁၄၀ ကျော်တို့မှ ညင်းညင်းသာသာ တိုက်ခတ်သော လေအေးလေသန့်တို့ အဝင်အထွက် ရှိနိုင်သဖြင့် ကူဘုရားအတွင်း ကောင်းမြတ် မျှတသော ဥတုသပ္ပါယကို ဖြစ်စေပေသည်။

ကုလားကျောင်းမှ အထက်တွင် ရေဆင်း၊ သို့မဟုတ် မိုးလျှော၊ ထိုအထက် ပဌမ ပစ္စယာ၊ ထိုနောက် ဒုတိယ ရေဆင်းနှင့် ဒုတိယ ပစ္စယာတို့ကို အဆင့်ဆင့်ပြုထားသည်။ ပစ္စယာ အဆင့်များတွင် ထောင့်စေတီများ စိုက်ထားသည်။ ဒုတိယပစ္စယာအထက်မှ ပစ္စယာသုံးဆင့်နှင့် ကွမ်းတောင်တက်ပြီးလျှင် စေတီငယ်နှင့် ထီးကို စိုက်ထူထားလေသည်။

ကန့်ကူဆံတုံး၊ သို့မဟုတ် အလယ်မဏ္ဍိုင်ကြီး၏ ပတ်လည်လေးဖက် လေးမျက်နှာ၌ မတ်ရပ် ဆင်းတုတော်ကြီး တဆူစီ အသီးအသီးကိန်းဝပ်ရာ ဂန္ဓကုဋိတိုက်များရှိသည်။ ထိုမတ်ရပ်တော်တို့ကား ဤကမ္ဘာ၌ ပွင့်တော်မူပြီးကုန်သော ဘုရားရှင်လေးဆူတို့ကို ရည်မှန်း၍ ပူဇော်ထားသော ၁၈ တောင်အရပ်တော်ရှိသည့် ရုပ်တုတော်များ ဖြစ်ကြသည်။ အရှေ့မျက်နှာ၌ စံပယ်သော ဆင်းတုတော်ကား မလ္လာယကျွန်းမှရအပ်သော သရက္ခာန် နံ့သာနှစ်ဖြင့် ထုလုပ်အပ်သည့် ကောဏာဂမန မြတ်စွာဘုရားတည်း။ အနောက်မျက်နှာမှ ရှင်တော်ဘုရားကား ပဥ္စလောဟာဖြင့် ပြီးသော ဂေါတမမြတ်စွာဘုရား၊ တောင်မျက်နှာမှဘုရားရှင်ကား ဟိမဝန္တာမှရအပ်သောထင်းရှူးသားဖြင့် ထုလုပ်ထားသည့် ကဿပမြတ်စွာဘုရား၊ မြောက်မျက်နှာမှ ရုပ်ထုတော်ကား ဥဿာပဲခူးပြည်မှ ဆက်သအပ်သော စံကားသားဖြင့် ထုလုပ်ထားသည့် ကကုသန္ဓမြတ်စွာဘုရားတည်း။ ထိုဆင်းတုတော်အသီးအသီး၏ မျက်နှာတော် တူရူအမိုးတွင်မုခ်ပြတင်းငယ်များရှိသည်ဖြစ်ရာဘုရားရှင်အသီးအသီးတို့၏ ကိုယ်တော် အထက်ပိုင်းပေါ်သို့ အလင်းရောင်ကျရောက်၍ လင်းလင်းချင်းချင်းရှိအောင် ဖန်တီးစီရင်ထားလေသည်။

ထိုရုပ်ပွားတော်များ အနက် မြောက် မျက်နှာနှင့် တောင်မျက်နှာမှ ရုပ်ပွားတော်များသာလျှင် မူလများ ဖြစ်ကြသည်။ အရှေ့နှင့် အနောက်အရပ်မှ ရုပ်ပွားတော်များသည်ကား မူလရုပ်ပွားတော်များ ယိုယွင်းပျက်စီးခဲ့သဖြင့် အသစ်တဖန် ပြန်လည် မွမ်းမံထားခြင်းများ ဖြစ်လေသည်။ သက္ကရာဇ် ၁၂၁၈ ခုနှစ်က အရှေ့မျက်နှာမှ သရက္ခာန်ရုပ်ပွားတော်ကြီးကို တေဇောဓာတ် သင့်သဖြင့် မင်းတုန်းမင်း တရားကြီးက စံကားသားဖြင့် အထက်တည်ရင်းစံနစ်အတိုင်း ထုလုပ်ပူဇော်ခဲ့ပေသည်။ သက္ကရာဇ်



အာနန္ဒာဘုရားမှ ဖွားမြင်တော်မူဟန် ကျောက်ချပ်ရုပ်တု

၁၁၀၇ ခုနှစ် ဟံသာဝတီရောက်မင်းလက်ထက်တွင် တကြိမ်၊ သက္ကရာဇ် ၁၂၄၇ ခုနှစ်တွင် တကြိမ်၊ အနောက်မျက်နှာမှ ပဉ္စလောဟာ ရုပ်တော်မူ ကိုယ်တော်ကြီးသည် ရန်သူဘေးကြောင့် ပျက်စီးချတ်ယွင်းခဲ့ပြန်သည်။ ထိုပျက်စီးမှုများကို ပြည်ပိုင်အစိုးရက ကမကတပြု၍ ပြည်သူလူထု၏ စေတနာ သဒ္ဓါတရား အကူအညီဖြင့် မူလကဲ့သို့ ပဉ္စလောဟာ မဟုတ်သော်လည်း ကျွန်းသစ်ဖြင့် ရှေးမူလတည်လုပ်ခဲ့သော စံနစ်အတိုင်း ပြုပြင်မွမ်းမံ ပူဇော်ခဲ့ကြလေသည်။

စင်္ကြံများရှိ လိုဏ်ကြီးလိုဏ်ငယ်များ၌ ဆင်းတုတော်ငယ် အမြောက်အမြားကိုလည်း ပူဇော်ထားရာ ထိုဆင်းတုတော်များကို လိုဏ်နံရံရှိ မုခ်ဒုရင်ကွက်များတွင် ထည့်ထားသည်။ ပဌမစင်္ကြံ၏ လိုဏ်နံရံတွင် ဗုဒ္ဓဝင်အခန်းပေါင်း ၈၀ ကို ပန်းတမော့ပညာဖြင့် နဂါးရစ် ကျောက်ရုပ်တုတို့ကို အဆန်းတကြယ် စီရင်ထားသည်။မုခ်ဦးအထွတ် လေးဖက်လေးမျက်နှာတို့၌ ဘုရားအလောင်း ပဋိသန္ဓေနေတော်မူဟန်၊ ဖွားမြင်တော်မူဟန်၊ ပရိနိဗ္ဗာန်ပြုတော်မူဟန်စသော ဗုဒ္ဓဝင်လာ အခန်းခန်းတို့ကို ကျောက်ရုပ်တု ၆၄ ဆူဖြင့် သရုပ်ဖော်ထား ပေသည်။ နံရံမုခ်ထွတ်အထက် အမိုးနှင့် အခြားအခြားသော လိုဏ်မုခ်တို့၌ သွန်းထားအပ်သော ရုပ်တုတော် များကား ဂေါတမဘုရားရှင်သည် ၄၅ ဝါ ပတ်လုံး လူ့နတ်ဗြဟ္မာအပေါင်းအား တရားရေအေးတိုက်ကျွေးဟန်ကို ရုပ်လုံးဖော်ထားရာရုပ်တုတော်ပေါင်း ၁,၃၀၄ ဆူရှိလေသည်။

အနောက်မျက်နှာ ဂန္ဓကုဋီတိုက်အတွင်းရှိ ရုပ်တော်မူ ရုပ်ပွားတော်၏ ဝဲယာရုပ်တုတို့တွင် မြောက်ဖက်ရုပ်တုကား ရှင်အရဟံ၊ တောင်ဖက်ရုပ်တုကား ကျန်စစ်မင်းကြီး၏ ရုပ်တုဟုဆိုကြသည်။ အနောက်မုခ်အလယ်၌ တရာ့ရှစ်ကွက် စက်လက္ခဏာတို့ဖြင့် ပြည့်စုံသော စက်တော်ရာနှစ်ဆူရှိသည်။ ထိုစက်တော်ရာတို့ကို အချို့က ကျန်စစ်မင်းကြီး၏ ကောင်းမှု၊ အချို့က နှောင်းကုသိုလ်ရှင်တို့၏ကောင်းမှုဟု ဆိုကြသည်။ မုခ်လေးမုခ်လုံး၌ နှစ်ရုပ်စီထားသော မဇ္ဈိမ ပုရိသ အရုပ်ကြီးရှစ်ရုပ်တို့လည်း ရှိပေသေးသည်။

အာနန္ဒာဘုရား၏ အောက်ခြေအပြင်ဖက် ဖိနပ်ခုံပစ္စယာကမှတ်၊သို့မဟုတ် ခါးပန်းတလျှောက်တွင်စဥ့်ကွင်းများရှိသည်။ ထိုစဥ့်ကွင်းများသည် တောင်ဖက်မုခ် ဖိနပ်ခုံမှ လက်ျာရစ်လှည့်၍ အနောက်ဖက်မုခ်အထိ ရုပ်သွင်သဏ္ဍာန် အမျိုးမျိုး လက်နက်အမျိုးမျိုးတို့ဖြင့် မာရ်နတ်စစ်သည်တို့က ဂေါတမဘုရားရှင်အား စစ်ထိုးလာဟန် စဥ့်ကွင်းရေ ၂၇၇ ခု၊ တောင်ဖက်မုခ်မှ လက်ဝဲလှည့် အရှေ့မုခ်အထိ၊ မြတ်စွာဘုရားအား သိကြား၊ ဗြဟ္မာ၊ နတ်၊ ဘီလူး၊ နဂါး၊ ဂဠုန်စသည်တို့က သောင်းသောင်းဖြဖြ ပူဇော်ကြဟန်ကို ပြသော စဥ့်ကွင်း ၂၇၆ ခုတို့ ရှိလေသည်။

အောက်ခြေမုခ်ထွတ်၊အထက်မုခ်ခင်း၊ မကာရ်းပစ္စယာတို့၌လည်း ခုန်ပေါက်မည့်အလား လည်ဆံဖားဖားဖြင့်ကြီးမားသော မနုဿီဟ အရုပ် ၁၄၄၊ နတ်ရုပ် ၂၈၊ စေတီ ၂၄၊ အထက်ကွန်းတောင်ငူ၌ ရုပ်တုတော် ၂၀ ရှိသည်။ ထိုပြင် စေတီတော်ကြီး၏ အနောက်တောင်ဖက်မှစ၍ ကေနိပါတ်အပဏ္ဏကဇာတ်ဖြင့် အစပြုပြီးလျှင် ဒုတိယပစ္စယာမြောက်မုခ်အထိ အသီတိနိပါတ်၊ မဟာသုတသောမဇာတ်တိုင်အောင် စဥ့်ကွင်း ၅၃၇ ခုနှင့်၎င်း၊ ထိုမှ အရှေ့သို့ပတ်၍ မဟာနိပါတ် မုဃပက္ခဇာတ်တော်မှစပြီးလျှင် ဇာတ်တော်ကြီးဆယ်ဘွဲ့မှအခန်းခန်းတို့ကိုအဆင့်ဆင့်သော ပစ္စယာတို့၌ စဥ့်ကွင်းရေ ၃၇၀ ဖြင့်၎င်း၊ ရှုမငြီးဖွယ်ရာ တန်ဆာဆင်ယင်ဖန်တီးစီရင်ထားလေသည်။ အဆိုပါ စဥ့်ကွင်းများ၏ အောက်ခြေတို့တွင် မွန်ဘာသာဖြင့်၎င်း၊ ပါဠိဘာသာဖြင့်၎င်း ကမ္ပည်းထိုးထားသည်။ထိုကမ္ပည်းစာများသည်ရဟန္တာအရှင်မြတ်တို့၏ မျက်မှောက်၌ ရေးထုအပ်သည်ဖြစ်၍ ထိုကမ္ပည်းစာများ တင်ပြီးသည်မှ အစပြုပြီးလျှင် ဘိုးတော်မင်းတရားလက်ထက်တိုင်အောင် ပုဒ်ပါဌ်အက္ခရာ သံသယရှိသော ပုဂ္ဂိုလ်တို့သည် ထိုစဥ့်ကွင်းကမ္ပည်းအက္ခရာများနှင့် တိုက်ဆိုင်ကြည့်ရှု အတည်ပြုကြကြောင်း အချို့က ဆိုကြလေသည်။

အာနန္ဒာဘုရား၏ မုခ်နံရင်းများတွင် အဆော်များ

သည် ခြသေ့်ရုပ်များဖြစ်သည်။ ဒုရင်အထွတ်ရှိ အဆင်တန်ဆာတို့သည် ရွှံ့ပုလဲနှင့် ကြာဖတ်တို့ဖြင့် ဆင်ယင်ထားသည်။ အခြားမုခ်အငယ်စားများနှင့် ပြတင်းများ၌လည်း အထွတ်များတွင် ထိုနည်းအတိုင်းပင်ဖြစ်လေသည်။

ရှေးသမိုင်း ဟောင်း များ၏ အဆိုအရ အာနန္ဒာဘုရား၏ အတိုင်းအတာတို့ကား စေတီကုလားကျောင်း အရှေ့မျက်နှာ၊ တောင်မြောက် အဝန်းအဝိုင်း အချင့်သည် ၁၁၅ တောင်၊ အာရုံခံ မုခ်နှစ်ဖက် ၃၃ တောင် လေးသစ်စီရှိပေရာ၊ လေးမျက်နှာပတ်လည် အဝန်းအဝိုင်း အချင့်ကား ၇၂၅ တောင် တမိုက်ရှိသတည်း။ အရုပ်တော်ပမာဏမှာ အောက်ခြေ ဖိနပ်တော် မှသည် ထီးတော်ဖျားအထိ ၁၂၅ တောင် နှစ်မိုက် လေးသစ်ရှိသည်ဟု ဆိုလေသည်။

ကျောက်စာရုံးက ထုတ်ပြန်သော အတိုင်းအတာကား အောက်ပါအတိုင်း ဖြစ်ပေသည်။

| | | |
|---|---|---|
| အလယ်မဏ္ဍိုင်ကြီး | အရှေ့၊ အနောက် တောင်မြောက် | ၈၈ ပေစီ |
| ပဌမအတွင်းလမ်းအနံ၊ | ခြောက်ပေ ခြောက်လက်မစီ | |
| ပဌမ အတွင်းလမ်းအလျား | အရှေ့၊အနောက် တောင်၊မြောက် | ပေ ၁၀၀ စီ |
| ဒုတိယအတွင်းလမ်းအနံ | | ရှစ်ပေစီ |
| ဒုတိယအတွင်းလမ်းအလျား | အရှေ့၊အနောက် ၁၄၇ ပေ တောင်၊ မြောက်–၆ လက်မစီ | |
| စေတီကုလားကျောင်း | အရှေ့၊အနောက် တောင်၊ မြောက် | ၁၇၅ ပေစီ |
| မုခ်တဖက်တဖက်လျှင် အလျား | | ၇၅ ပေစီ |
| ရင်း ,,အနံ | | ၈၈ ပေ၊ ခြောက်လက်မစီ |
| မုခ်အဝင်လမ်းအကျယ် | | ဆယ်ပေစီ ဖြစ်သတည်း။ |



အာနန္ဒာဘုရားမှ နိမိတ်ကြီးလေးပါး သရုပ်ဖော်ခဲ့ကျွင်း

ကျန်စစ်သားမင်းတရားကြီးသည် အာနန္ဒာစေတီတော်မြတ် တည်ဆောက်ပြီးမြောက်လျှင် မီးတား မဟာရံနှင့်တကွ ဝတ္ထုကံမြေ အရာမ်စောင့် ကျွန်သီးတော်တို့ကိုပါ လှူဒါန်း၍ ရွှေကရားဖြင့် ရေစက်သွန်းချလေသည်။

အာနန္ဒာစေတီတော်ကြီးသည် တည်ထားလုပ်ကိုင်ပုံ အလွန်သပ်ရပ်၍ ဆန်းကြယ် ခန့်ညား တင့်တယ်လှပေသည်။ ထို့ကြောင့် အာနန္ဒာဘုရား တည်ဆောက်ရာ၌ မြန်မာဗိသုကာလက်ရာ အထွတ် အထိပ် ရောက်သည်ဟု ဆိုကြသည်။ ထိုဘုရားကြီးကား နိုင်ငံခြားသား သုတေသီများအား ဂုဏ်ယူဝံ့ကြွားစွာ ညွှန်ပြနိုင်သော မြန်မာ့ဗိသုကာလက်ရာမွန်တရပ်လည်း ဖြစ်ပေသည်။

ထိုဘုရားကြီး၏ ပွဲတော်ကို နှစ်စဉ် ပြာသိုလ၌ သိုက်မြိုက်ခမ်းနားစွာ ကျင်းပလေသည်။

**အာဖဂနိစတန်နိုင်ငံ။** ။အာဖဂနိစတန် နိုင် ငံ သည် အာရှတိုက်၏ အလယ်တောင်ပိုင်းရှိ နိုင်ငံငယ်ကလေးတခု ဖြစ်လင့်ကစား ယင်း၏ တည်နေရာ အနေ အထားကို အကြောင်းပြု၍ ကမ္ဘာ့သမိုင်း၌ ဝင်ဆံ့ခဲ့သော နိုင်ငံတခု ဖြစ်ပေသည်။ ရှေး ဂရိ၊ ပါးရှင်း၊ မွန်ဂို ကေရာင်တို့သည် ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြားစသော ရတနာများ၊ ပိုး၊ ဖဲ စသော ပစ္စည်းများဖြင့် ကုံလုံကြွယ်ဝသည်ဟု ကျော်ကြားလှသည့် ရှေးအိန္ဒိယနိုင်ငံကြီးအား သိမ်းပိုက်နိုင်ရန် စစ်ဆင်ရေးအတွက် အာဖဂနိစတန် နိုင်ငံသည် စစ်လမ်းကြောင်း ကျနေပြီးလျှင် ယင်း နိုင်ငံမှ တဆင့်သာလျှင် အိန္ဒိယနိုင်ငံအတွင်းသို့ ချဉ်းနင်း ဝင်ရောက် နိုင်ခဲ့ ကြပေသည်။ ယခုခေတ်တွင်လည်း အာဖဂနိစတန် နိုင်ငံသည် အီရန်နိုင်ငံနှင့် တရုပ်နိုင်ငံ၊ ဆိုဗီယက်ရုရှနိုင်ငံနှင့် ပါကစ္စတန်နိုင်ငံတို့၏ အကြား၌ ကြားခံလျက် ရှိသည်။ သို့တစေ တောင် အထပ်ထပ် ဝိုင်းပတ် ကာဆီးနေ၍ တကြောင်း၊ တောင်ရိုးတောင်တန်းတို့အပေါ်၌ တည်ထားသော ကုန်းတွင်းနိုင်ငံ ဖြစ်သည်က တကြောင်း တို့ကြောင့် လမ်းပန်းဆက်သွယ်ရေး ခက်ခဲသဖြင့် စီးပွားကုန်သွယ်ရေး ဖွံ့ဖြိုးမှု နှေးကွေး၍ ပြည်ပနှင့် ဆက်ဆံမှုလည်း နည်းပါးသောကြောင့် အာဖဂနိစတန် နိုင်ငံတွင် ဓလေ့ထုံးစံတို့သည် ရှေးရိုးမပျက် တည်တံ့နိုင်ခဲ့လေသည်။

ထိုနိုင်ငံသည် မြောက်လတ္တီတွဒ် ၂၉ နှင့် ၃၈.၃၅ ဒီဂရီ အရှေ့လောင်ဂျီတွဒ် ၆၀.၅၀ နှင့် ၇၁.၅၀ ဒီဂရီ ကြား၌ တည်ရှိသည်။ ကျဉ်းမြောင်းရှည်သွယ်သော နယ်မြေအစွန်း တပိုင်းသည် အရှေ့လောင်ဂျီတွဒ် ၇၅ ဒီဂရီအထိ ရှည်ထွက် သွားသည်။ နယ်နိမိတ် အပိုင်းအခြားမှာ အရှေ့ဖက်နှင့် အရှေ့ တောင်ဖက်၌ ပါကစ္စတန် နိုင်ငံ၊ အနောက် ဖက်၌ အီရန်နိုင်ငံ၊ မြောက်ဖက်၌ ဆိုဗီယက်ရုရှနိုင်ငံ၊တောင်ဖက်၌ ဗလူချီစတန်ပြည်နယ်(ပါကစ္စတန်)တို့ဖြစ်ကြသည်။ နိုင်ငံ၏ အကျယ်အဝန်းသည် ၂၅၃,၈၆၁ စတုရန်းမိုင်ဖြစ်၍ လူဦးရေ ၁၇,၁၁၀,၀၀၀ (၁၉၇၂) ရှိမည်ဟု ခန့်မှန်းရသည်။ မြို့တော်သည် ကဘူးမြို့ (လူဦးရေ ၃၁၀,၀၉၄)ဖြစ်၍ အခြား ထင်ရှားသော မြို့များမှာ ကန္ဒဟား(လူဦးရေ ၁၃၃,၇၉၉)၊ ဟဲရတ်(လူဦးရေ ၇၅,၆၃၂)၊ မဇာ-အီ-ရှရစ် (လူဦးရေ ၄၃,၉၆၀) စသည်တို့ ဖြစ်ကြလေသည်။

သီဝေမြင့်ခေါင်သော တောင်စဉ် တောင်တန်း ရေ တံခွန် စိမ့်စမ်း အသွယ်သွယ်တို့ဖြင့် တင့်တယ် သာယာလှ သည်ဟု ဆိုရမည် ဖြစ်သော်လည်း ကြမ်းတမ်း ခက်ထရော် သည့် သဘောလည်း ပါနေသည်ဟု ဆိုကြသည်။

အာဖဂနိစတန်နိုင်ငံသည် တောင်စဉ်တောင်တန်း ပေါ များသောနိုင်ငံဖြစ်ရာ အထူးသဖြင့် အလယ်ပိုင်းနှင့်မြောက် ပိုင်းတို့၌ ပို၍ တောင်ထူထပ်သည်။ ပေနှစ်သောင်းကျော် အမြင့်ရှိသော တောင်ထွတ် အများအပြားရှိသည်။ ဟိန္ဒူကွတ် တောင်တန်းသည် ပမီးယားတောင်မြင့် လွင်ပြင်မှ သည် အီရန်နိုင်ငံ နယ်စပ်အထိ အနောက်ဖက်သို့တသွယ်၊ ပါကစ္စတန်နိုင်ငံ၏ အနောက် မြောက်နယ်ခြား ဒေသ၏ နယ်စပ်တလျှောက်မှ ဗလူချီစတန်ပြည်နယ်အထိ အနောက် တောင်ဖက်သို့ တသွယ် နှစ်သွယ်ဖြာဆင်းသွားသည်။ ဟယ် လမန်းမြစ်သည် နိုင်ငံ၏ အလယ်ပိုင်းနှင့် အနောက် တောင် ဖက်ပိုင်းကိုဖြတ်၍ ဟယ်လမန်းရေအိုင်တွင်းသို့စီးဝင်သည်။ အနောက်မြောက်ပိုင်းတွင် ဟာရီရုဒ်မြစ်သည်၎င်း၊ အရှေ့ မြောက်ပိုင်း နယ်စပ်တွင် အမူးဒါရယား မြစ် သည် ၎င်း စီးဆင်းကြ၍ အရှေ့ပိုင်းတွင် စီးဆင်းသော ကဘူးမြစ်သည် အိန္ဒုမြစ်အတွင်းသို့ စီးဝင်လေသည်။

တောင်စဉ်တောင်တန်းများ၏ အကြား၌ မြေဩဇာ ကောင်းသော လွင်ပြင်များနှင့် တောင်ကြား ဒေသများ ရှိသည်။နိုင်ငံ၏တောင်ဖက်ပိုင်းသည် သဲကန္တာရ ဖြစ်သည်။ အရှေ့ဖက်နယ်စပ်တွင် ပါကစ္စတန်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့သို့ ဝင်ရောက်နိုင်သော ကိုင်ဗာ တောင်ကြားလမ်း ရှိသည်။ ရှေးအခါက ပါးရှင်း၊ ဂရိစသော တိုင်းခြား တပ်များသည် အိန္ဒိယ နိုင်ငံတွင်းသို့ ဝင်ရောက်ရန် ထိုတောင်ကြားလမ်း အားဖြင့် ချီတက်ခဲ့ကြ၍ သမိုင်းအစဉ်အဆက်၌ ထင်ရှားခဲ့ သော တောင်ကြားလမ်း ဖြစ်လေသည်။



အာဖဂနိစတန်နိုင်ငံတည်နေရာပြ မြေပုံ

အာဖဂနိစတန်နိုင်ငံ၏ မြေမျက်နှာပြင်သည် တောင် စဉ်တောင်တန်းကြီးများ၊ လွင်ပြင်နှင့် တောင်ကြားဒေသ များ၊ သဲကန္တာရများဟူ၍ ခြားခြားနားနား ကွဲကွဲ ပြား ပြား ရှိပေရာ ရာသီဥတုကလည်း တဒေသနှင့် တဒေသ မတူ၊ ကွာခြားသည်။ အလွန်အမင်းချမ်းအေးသည့် ဒေသ၊ အလွန်အမင်း ပူပြင်းသည့်ဒေသဟူ၍လည်း ရှိသည်။ တနေ ရာ၊ တဒေသတည်း၌ပင် ဆောင်းရာသီ၌ အပူချိန် ဖာရင် ဟိုက် ၁၅ ဒီဂရီမျှသာ ရှိသော်လည်း နွေရာသီ၌ ဖာရင် ဟိုက် ဒီဂရီ ၁၂၀ ကျော်အထိ အပူရှိန် တက်သည်လည်း ရှိပေသည်။ တောင်တန်း ဒေသ များတွင် ဆောင်းရာသီ နှင်းခဲများသည် မြေပြင်ပေါ်၌ လပေါင်းများစွာ ကြာ အောင် စုခဲလျက် ရှိတတ်ရာ လူများသည် အိမ်ပြင်သို့ မထွက်နိုင်ကြတော့ချေ။ အချို့ ဒေသများတွင်မူ နေ့အခါ အလွန်ပူပြင်း၍ ညဉ့်အခါ အလွန် ချမ်းအေး လှပြန်သည်။ ယေဘုယျအားဖြင့် ဆိုရလျှင် အာဖဂနိစတန်နိုင်ငံ၏ အရပ် ဒေသများစွာတို့သည် မိုးပါး၍ ခြောက်သွေ့သည်။သို့သော် ကျန်းမာရေးနှင့် ညီညွတ်သော ရာသီဥတုမျိုး ရှိလေသည်။

တောင်တန်းဒေသများစွာတို့သည် စိုက်ပျိုးလုပ်ကိုင်ရန် မဖြစ်နိုင်လောက်အောင် မြေပြင်မာကျော ခြောက်သွေ့ သော်လည်း မြေဩဇာဆက်သန်ကောင်းမွန်သော လွင်ပြင် နှင့် တောင်ကြားဒေသများ၌ များသောအားဖြင့် တောင် ရိုး တောင်တန်းများမှ စီးဆင်းသော မြစ်ချောင်းများမှ ရေသွယ်ယူ၍ စိုက်ပျိုးလုပ်ကိုင်ကြရာ ဂျုံစပါးမုယောစပါး စသော ကောက်ပဲသီးနှံနှင့် သစ်သီးဝလံများ အလွန် ဖြစ် ထွန်းသည်။ ထို့ကြောင့် အာဖဂနိစတန်နိုင်ငံသည် ပြည် တွင်းရိက္ခာဖူလုံသော နိုင်ငံဖြစ်သည်။ နိုင်ငံသူ နိုင်ငံသား များသည် ပေါင်မုန့်နှင့် သစ်သီးဝလံ များကို ပဓာနအစာ အဖြစ် စားသုံးကြသည်။ အာဖဂနိစတန်မှ ဖရဲသီးနှင့်စပျစ် သီး အများအပြားထွက်သည်။ နိုင်ငံတွင်း စားသုံး၍ ပိုလျှံ

သေးသဖြင့် သစ်သီးများကို အခြောက်လှန်း၍တမျိုး၊ စည်သွတ်၍တဖုံ နိုင်ငံခြားသို့ တင်ပို့လျက် ရှိသည်။ ကြံပင်ကို မြေနိမ့်လွင်ပြင်များ၌ စိုက်ပျိုးကြ၍ ပူနွေးသောဒေသများတွင် ဝါဂွမ်းစိုက်ကြသည်။ ဆေးရွက်ကြီးများကိုလည်း စိုက်ပျိုး လုပ်ကိုင်ကြ၍ အိန္ဒိယနိုင်ငံ၊ ဆိုဗီယက် ရုရှနိုင်ငံတို့သို့ တင်ပို့ ရောင်းချကြသည်။ဘယဆေးပင်များလည်း အများအပြား ပေါက်ရောက်ရာ ကြက်ဆူပင်၊ နီပါးဆေးပင်၊ ရှိန်းခိုပင်တို့ ပေါများလှသည်။ နှင်းဆီရိုင်းပင်များသည် အနှံ့အပြား ပေါက်ရောက်၍ နိုင်ငံခြားသို့ တင်ပို့ရသည်။

စားကျက်မြက်ခင်းများလည်းရှိ၍ သိုးဆိတ်မွေးမြူရေးသည် အရေးပါသော လုပ်ငန်း ဖြစ်သည်။ အာဖဂန်လူမျိုးတို့သည် အသားဟူ၍ သိုးသားတမျိုးတည်းကိုသာ စားကြသည်။ သိုးအမြီးပိုင်း အဆီဖူးမှ ထုတ်ယူရရှိသော အဆီကို ထောပတ်ကဲ့သို့ စားသုံးကြသည်။ သိုးမွေးသည် အမျိုးအစားကောင်း၍ အမေရိကန် ပြည်ထောင်စုသို့ တင်ပို့ရသည်။ လမ်းပန်း ဆက်သွယ်ရေးအတွက် အသုံးပြုရသော ကုလားအုပ်များအပြင် မြင်း၊ မြည်း၊ ကျွဲ၊ နွားတို့ကိုလည်း လယ်ယာလုပ်ငန်းနှင့် ဝန်တင်လုပ်ငန်းတို့အတွက် မွေးမြူကြလေသည်။

အာဖဂနိစတန်မြောက်ပိုင်းမှ ကြေးနီ အတော်အသင့် ထွက်သည်။ ဟိန္ဒူကွတ်ရှ တောင်တန်းမှ ကျောက်မီးသွေး အများအပြားထွက်နိုင်သော ကျောက်မီးသွေးကြောကြီးများကို တွေ့ရှိထားကြသည်။ ဂေါ်ဗန်းချိုင့်ဝှမ်းမှ ခဲသတ္တုထွက်၍ ကာတာဂန်နှင့် ပါပယ်ဒေသမှ သံထွက်သည်။သလင်းကျောက်၊ အကြွပ်၊ ကျောက်နီ အညံ့စားတို့လည်း ထွက်ရှိသည့်ပြင် အာဖဂနိစတန်မှ ထွက်သော ကျောက်ပြာ (ပင်လယ်ပြာရောင်) တမျိုးသည် ကမ္ဘာ့၌ အကောင်းဆုံး အမျိုးအစားဟု ဆိုကြသည်။ ရွှေ၊ ငွေ၊ ကျောက်ဂွမ်း၊ လချေး၊ သိန္ဓောဆားတို့လည်း ထွက်သည်။ သို့သော် အာဖဂနိစတန်နိုင်ငံတွင် အဖိုးတန် သယံဇာတ ပစ္စည်း များကို တူးဖော် လုပ်ကိုင်ရန် အတွက် လမ်းပန်း ဆက်သွယ်ရေး မကောင်းသဖြင့် ကျယ်ကျယ်ပြန့်ပြန့် ထိထိရောက်ရောက် လုပ်ကိုင်နိုင်ခြင်း မရှိသေးချေ။ အာဖဂနိစတန်မြောက်ပိုင်းနှင့် ဟဲရတ်နယ်တို့တွင် ရေနံစိမ်းများထွက်သည်။ ဓာတ်ငွေ့ထုတ်ယူနိုင်သော ဒေသများလည်း မြောက်ပိုင်းတွင်ရှိရာ ၁၉၆၃ ခုနှစ်တွင် ဆိုဗီယက်ရုရှနိုင်ငံနှင့် ဓာတ်ငွေ့ ထုတ်ယူရေး စာချုပ်ကို ချုပ်ဆိုခဲ့လေသည်။



အာဖဂနိစတန်နိုင်ငံသည် တောင်စဉ်တောင်တန်း ရေတံခွန်စိမ့်စမ်း အသွယ်သွယ်တို့ဖြင့် တင့်တယ်သာယာလှသည်။

ကဗူးမြို့တွင် မီးခြစ်၊ ကြယ်သီး၊ ဖိနပ်၊ ကျောက်ဖြူပစ္စည်း၊ အိမ်ထောင်ပရိဘောဂ၊ သားရေထည်ပစ္စည်း၊ ဖန်ထည်၊ စက်ဘီးနှင့် ပလပ်စတစ်စက်ရုံများရှိသည်။ စက်ကရိယာ အပိုပစ္စည်းများထုတ်လုပ်သော စက်ရုံကို ရုရှအတတ်ပညာရှင်များ၏အကူအညီဖြင့် တည်ဆောက်လုပ်ကိုင်လျက်

ရှိသည်။ သိုးမွေးစက်ရုံ၊ ခြည်ထည်စက်ရုံ၊ ခြည်မျှင်စက်ရုံ၊ သကြားစက်ရုံ၊ သစ်သီး စည်သွတ်စက်ရုံ၊ ဓာတ်မြေစက်ရုံ များလည်း မကြာသေးမီက ဆောက်လုပ် ပြီးစီးခဲ့သည်။ ဂျာမန်အတတ်ပညာရှင်များ ဆောက်လုပ်ပေးသော ခေတ်မီ အထည်အလိပ်စက်ရုံကြီးတခုလည်း ရှိသည်။ စစ်ပစ္စည်း လက်နက်များ ထုတ်လုပ်သော စက်ရုံတခုလည်းရှိရာ ယင်း စက်ရုံတွင် ဒင်္ဂါးသွန်းလုပ်သော စက်လည်းပါရှိသည်။

ကြမ်းတမ်းခက်ထရော်သော မြေမျက်နှာပြင် ရှိသဖြင့် လမ်းပန်း ဆက်သွယ်ရေး အခက်အခဲကြောင့် အာဖဂနိစတန်နိုင်ငံသည် ဖွံ့ဖြိုး တိုးတက်မှု အလွန် နှောင့်နှေးခဲ့သည်။ နိုင်ငံအတွင်းရှိ မြစ်ချောင်းများသည်လည်း လှေ၊ သင်္ဘောများ သွားလာနိုင်သည်မဟုတ်ပေ။ မီးရထားလမ်း လည်း မရှိချေ။ ထိုကြောင့် သယ်ယူ ပို့ဆောင် ရေးကို အဓိကအားဖြင့် ထရပ်ကား၊ ကုလားအုပ်များနှင့် ဆောင်ရွက်ရသည်။ မြင်း၊ ကျွဲ၊ နွား၊ မြည်းတို့ကိုလည်း အသုံးပြုရသည်။ ၁၉၄၃ ခုနှစ် နောက်ပိုင်းမှစ၍ လမ်းပန်း အဆက်အသွယ်များကို တိုးချဲ့ ပြုပြင်ခဲ့သည်။ နယ်ကြီးများ၏ မြို့ကြီးများနှင့် ကဗူးမြို့ကို မော်တော်ကား လမ်းများဖြင့် ဆက်သွယ်ထားသည်။ ၁၉၆၃ ခုနှစ် တဟီရန် သဘောတူ စာချုပ်အရ ပါကစ္စတန်မှ မီးရထားလမ်းများကို အာဖဂနိစတန်နယ်စပ်ရှိ ချာမန်နှင့် တော်ခန်းမြို့တို့အထိ တိုးချဲ့ရန် အစီအစဉ် ရှိလေသည်။

နိုင်ငံပကုန်သွယ်လမ်းကြောင်းများမှာပါးရှား(အီရန်) နိုင်ငံ မီရှက်မြို့မှ အာဖဂနိစတန်နိုင်ငံအတွင်းရှိ ဟဲရတ်မြို့သို့ တလမ်း၊ ဗူခါရာမြို့မှ ကဗူးမြို့သို့ တလမ်းရှိသည်။ အရှေ့တာကီစတန်ရှိ ဒက်ရှန်မြို့နှင့် ကဖာရီစတန်မြို့တို့မှ ကဗူးမြို့သို့လည်း လမ်းပေါက်သည်။ ပါကစ္စတန်နှင့် အာဖဂနိစတန်တို့ အကြား ကူးသန်းသွားလာရာတွင် မြောက်ပိုင်းနှင့် တောင်ပိုင်း၌ ပေ ၂၀,၀၀၀ ကျော် မြင့်သော တောင်ရိုး တောင်တန်းများရှိ တောင်ကြားလမ်းများကို ဖြတ်ကျော်ရသည်။ အရှေ့မြောက်ဖက်ရှိ ကိုင်ဗာ တောင်ကြားလမ်း အားဖြင့် ပက်ရှဝါနှင့် ကဗူးမြို့တို့ကို ဆက်သွယ်ရသည်။ တောင်ပိုင်းတွင် ကိုဂျက်၊ ဗိုလန်၊ ဆီဗီတောင်ကြားလမ်းများအားဖြင့် ကန္ဒဟာမြို့သို့ ရောက်နိုင်သည်။ ဂိုမယ်၊တိုချီ၊ကူးရန်တောင်ကြားလမ်းများ အားဖြင့်လည်း ကန္ဒဟာမြို့သို့ ရောက်နိုင်သည်။

အာဖဂနိစတန်နိုင်ငံကို ရှေးရှေးက အာရိယနဟုလည်း ခေါ်တွင်ခဲ့သည်။ အာဖဂန် လူမျိုး တို့၏ တိုင်းပြည်ဟု အဓိပ္ပါယ် ရသည့် အာဖဂနိစတန် ဟူသော အမည်သည် ကမ္ဘာ အသိအမှတ်ပြု အမည် ဖြစ်သော်လည်း အာဖဂန် လူမျိုးတို့ကိုယ်တိုင်ကမူ ထိုအမည်ဖြင့် ခေါ်ဝေါ်သုံးနှုန်းမှု နည်းလှသည်။ ရှေး အာဖဂန် သမိုင်းဆရာကြီး များကမူ အာဖဂန် လူမျိုးတို့ကို ဗင်း–အီ–အစ္စရေ (ဣသရေလ အဆက်အနွယ်များ)ဟု ခေါ်ဝေါ်သုံးနှုန်းသည်။ယင်းတို့၏ အဆိုအရ အာဖဂန်တို့သည် ယင်းတို့က တလွတ်ဟု ခေါ်သော ဣသရေလဘုရင် ဆော်လမွန်၏ မြေးတော်တဦးဟု ဆိုသူ အာဖဂန်နာမှ ဆင်းသက်သည်ဟု အယူရှိခဲ့ကြသော ကြောင့်ပေတည်း။ ယခု အာဖဂန်လူမျိုးဟု ခေါ်ဝေါ်ခြင်း ခံရသူတို့က ယင်းတို့ကိုယ်ကို ယင်းတို့ ဒျူရနီဟု ဆိုကြသည်။ ထိုဒျူရနီတို့သည် အာဖဂနိစတန်နိုင်ငံကို ကြီးစိုးလွှမ်းမိုးနေသော လူမျိုးစု ဖြစ်၍ အီရန်နှင့် ဆီးမိုက်ကပြား အနွယ်များ ဖြစ်ကြသည်။ အာဖဂနိစတန်နိုင်ငံတွင် တိုင်းရင်းသား လူမျိုးစု အတော် များများ ရှိသည်အနက် ဒုတိယ အရေးပါသော လူမျိုးစုမှာ အိန္ဒိယသွေးပါသည် ဆိုသော ပထန်များ ဖြစ်ကြသည်။ မူလက ကန္ဒဟာနယ်၌ နေထိုင်ကြရာမှ ယခုအခါ ပါကစ္စတန်နိုင်ငံ အတွင်းရှိ ပက်ရှဝါခရိုင်တိုင်အောင် ပျံ့နှံ့နေသည်။ ကန္ဒဟာကုန်းပြင်မြင့်၌ နေထိုင်ကြသော ဂီလဇိုင်းလူမျိုးစုသည် တူရကီ အဆက်အနွယ်များဖြစ်ကြ၍ ၁၈ ရာစုနှစ် အစပိုင်းတွင် အာဖဂနိစတန်နိုင်ငံအတွင်း၌ ခေါင်းဆောင်ပိုင်းတွင် နေရာယူခဲ့ကြသည်။ ဟာဇရာခရိုင်မှ ဟာဇရာလူမျိုးစုတို့ကား ဂျင်ဂစ်ခန်၏ တပ်များနှင့် ပါလာသူများ၏ အဆက်အနွယ်များ ဖြစ်ကြ၍ မွန်ဂိုရုပ်လက္ခဏာများရှိသည်။ ပြောဆိုသော ဘာသာစကားမှုကား ပါးရှင်းဘာသာစကားတမျိုး ဖြစ်သည်။ တာဂျစ်လူမျိုးစုသည် ပါးရှင်းသွေးပါ၍ ကဖားများမှာမူ ဂရိအဆက်အနွယ်များ ဖြစ်သည်ဟု ဆိုကြသည်။ ဟိန္ဒုကီ လူမျိုးစုမူကား ဟိန္ဒူ အဆက်အနွယ်များ ဖြစ်လေသည်။

ဆိုခဲ့သော လူမျိုးစုအသီးအသီး အများစုသည် စိုက်ပျိုးရေးလုပ်ငန်းကို အဓိကလုပ်ကိုင်ကြ၍ ကော်ဇော၊ ရှောစောင် စသည်တို့ကို ရက်လုပ်သော လက်မှုပညာ လုပ်ငန်း၊ မွေးမြူရေးလုပ်ငန်းတို့ကိုလည်း လုပ်ကိုင်ကြသည်။ ကုလားအုပ်၊မြင်း စသည်တို့ကို အသုံးပြု၍ သယ်ယူပို့ဆောင် ရေးလုပ်ကိုင်ကြသူများလည်း အများအပြား ရှိသည်။ များသောအားဖြင့် တောင်ကြားချိုင့်ဝှမ်းများတွင် ကြိုးတိုး ကြဲတဲရှိနေသော ရွာကလေးများ၌ နေထိုင်ကြ၍ မိမိတို့၏ ဇာတိဌာနေမှ ခွာသူ အလွန်နည်းသည်။ သို့သော် ယင်းတို့သည် နိုင်ငံလူဦးရေ၏ တဝက်ခန့်မျှသာ ဖြစ်၍၊ ကျန်တဝက်သည် နေရာအတည်တကျ မနေပဲ ရေကြည်ရာ မြက်နုရာ ပြောင်းရွှေ့လှည့်လည် နေထိုင်ကြလေသည်။

အာဖဂန်တို့သည် ကိုယ်လက်ကြံ့ခိုင် တောင့်တင်း၍ ရုပ်ရည် ချောမောသူ ပေါများသည်။ အသားဖြူ၍ နှာခေါင်းကောက်ကောက် မုတ်ဆိတ်ရှည်ရှည်နှင့် ထင်ရှား ပြတ်သားသော မျက်နှာ သွင်ပြင် ရှိသည်။ အမျိုးသမီး များက ပို၍ချောမောလှပသည်။ အာဖဂနိစတန် နိုင်ငံ

သည် ရှေးအစဉ်အဆက်က စ၍ စစ်မြေပြင် ဖြစ်ခဲ့သဖြင့် အာဖဂန်အမျိုးသားတို့သည် တိုက်ရေးခိုက်ရေး၌ ဝါသနာထုံသည်။ မြင်းစီးကျော်များလည်း ဖြစ်သည်။ အိန္ဒိယစစ်တပ်များ၌ အာဖဂန် အမျိုးသားများစွာတို့ ဝင်ရောက်အမှုထမ်းနေကြ၍ စစ်ဖက်ရာထူးကြီးများစွာတွင် အာဖဂန်အမျိုးသားများ ရှိနေကြလေသည်။

လူမျိုးစု အများအပြားရှိ၍ ဘာသာစကား အမျိုးမျိုးပြောဆိုကြသော်လည်း နိုင်ငံ၏ ရုံးသုံးအဖြစ် ပါးရှင်းနှင့် ပွတ်ရှတူး ဘာသာ စကားတို့ကို သတ်မှတ်ထားသည်။ လူဦးရေ အများစုသည် အစ္စလာမ် အယူဝါဒကို ကိုးကွယ်ကြလေသည်။

အာဖဂနိစတန် နိုင်ငံ၏ အုပ်ချုပ်ရေး စံနစ်သည် ယခင်က စည်းမျဉ်းခံ ဘုရင့်အုပ်ချုပ်ရေးစံနစ် ဖြစ်သည်။



အစ္စလာမ်အယူဝါဒနှင့်အခြေခံ အသုံးလုံးကို သင်ကြားပို့ချပေးနေစဉ်

ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို အမန်နျူလာခန်းဘုရင်လက်ထက် ၁၉၂၃ ခုနှစ်က ပြဋ္ဌာန်းခဲ့သည်။ ထိုဥပဒေကို ၁၉၃၆ ခုနှစ်တွင် ဥပဒေသစ်ဖြင့် အစားထိုးပြင်ဆင်ခဲ့၏။ ဥပဒေပြု အခွင့်အာဏာသည် ဆီးနိတ်နှင့် အမျိုးသားလွှတ်တော်နှစ်ရပ် ပါဝင်သော ပါလီမန်၌ ရှိသည်။ ဥပဒေပြုအဖွဲ့၊ အုပ်ချုပ်ရေးအဖွဲ့နှင့် တရားစီရင်ရေးအဖွဲ့တို့ကား သီးခြား ဖြစ်၏။ ဝန်ကြီးချုပ် ခန့်ထားရေး၊ တရားလွှတ်တော်ချုပ် တရားဝန်ကြီးများ ခန့်ထားရေး စသည့်အာဏာများ ဘုရင်တွင်ရှိသည်။ နိုင်ငံကို ကဗူး၊ မဇာ၊ ကန္ဒဟာ၊ ဟဲရတ်၊ ကတဂန်–ဗဒက်ရှန်၊ နန်ဂရာဟာ (ယခင် အရှေ့ပိုင်းနယ်)၊ ပက်တယာ (ယခင် တောင်ပိုင်းနယ်)စသည်ဖြင့် ပြည်နယ် ၂၉ နယ် ခွဲထား၍ ဘုရင်ခံများ ခန့်ထားအုပ်ချုပ်စေသည်။

အာဖဂနိစတန် နိုင်ငံသားတို့သည် မြေမျက်နှာပြင်သဘာဝ၊ ရာသီဥတုသဘာဝတို့၏ ကြမ်းတမ်းခက်ထရော်မှုကိုသာ အစဉ်တစိုက် တွန်းလှန်ကာ နေထိုင် လုပ်ကိုင်စားသောက်ခဲ့ရသည် မဟုတ်သေး။ မိမိတို့၏ တိုင်းပြည်၊ မိမိတို့၏လူမျိုး တည်တံ့ရေးအတွက်လည်း တိုင်းတပါးမှဖိနှိပ် စိုးမိုး လာသူတို့၏ ရန်များ ကိုလည်း သမိုင်းစဉ်တလျှောက် အစဉ် တစိုက် တွန်းလှန်ခဲ့ ကြရသည်။ ထို့ကြောင့် အာဖဂနိစတန်၏ သမိုင်းတွင် တိုက်ရေး၊ ခိုက်ရေး၊ စစ်မက် အရေးအခင်းတို့ များပြားခဲ့လေသည်။ ယင်း၏ သမိုင်း အစပိုင်းတွင် အာဖဂနိစတန် ပြည်အားပါးရှင်း အင်ပိုင်ယာ၏ တစိတ်တဒေသအဖြစ် တွေ့ရှိရ၍ ခရစ်မပေါ်မီ ၃၂၆ ခုနှစ်တွင်မူ အယ်လက်ဇန္ဒာ–သ–ဂရိတ်က တိုက်ခိုက် သိမ်းပိုက်ခဲ့သည်။ သို့သော် ထိုစဉ်က မထင်မရှား တိုင်းငယ် ပြည်ငယ်ကလေး တခုမျှသာဖြစ်ပေသည်။ ဂရိလက်အောက်တွင် နှစ်ပေါင်း အတန်ကြာမျှ ရှိနေခဲ့ပြီးနောက်တွင် ဆီယီယန်နှင့် ပါသီယန်လူမျိုးတို့၏ လက်အောက်သို့ ရောက်ခဲ့ပြန်လေသည်။ ခရစ် တစ်ရာစုနှစ်ခန့်တွင်မူ အိန္ဒိယမြောက်ပိုင်းတွင် စိုးမိုးနေ၍ ဗုဒ္ဓဝါဒီများ ဖြစ်ကြသော ကုသျှန် မင်းများက သိမ်းပိုက်လိုက်ပြန်သည်။ ခရစ်ခုနှစ်ရာစုနှစ်တွင် မွတ်စလင်တို့ တန်ခိုးကြီးထွားလာ၍ အနောက်ပိုင်း နယ်မြေများကို ထိပါးလာသည်။အစ္စလာမ်အယူဝါဒသည်လည်း ဗုဒ္ဓအယူဝါဒနှင့် ဖာရစီအယူဝါဒတို့ကိုလက်ခံကိုးကွယ်လျက်ရှိသောအာဖဂနိစတန်မြေတွင် တဖြည်းဖြည်းဝင်ရောက် အမြစ်တွယ်ခဲ့သည်။ ၁၀ ရာစုနှစ်တွင် ဂါးဇနီမြို့၌ တာကိုမန်မင်းဆက် တည်ထောင်ပြီးနောက်တွင် အာဖဂနိစတန်သည်လည်း ထင်ရှားစပြုလာလေသည်။

ခရစ် ၁၄၄၀ ပြည့်နှစ်တွင် မဂိုကေရာဇ် တေမာလိန်း (တီမူး) သည် အာဖဂနိစတန် မြောက်ပိုင်းကို သိမ်းယူအုပ်စိုးခဲ့သည်။ တေမာလိန်း၏ အဆက်အနွယ် ဖြစ်၍ အိန္ဒိယနိုင်ငံ၌ မဂိုအင်ပိုင်ယာကို ထူထောင်ခဲ့သော မဂိုကေရာဇ် ဗေဗာ၏လက်ထက်တွင် ကဗူးနှင့် ကန္ဒဟာတို့သည် အိန္ဒိယနိုင်ငံ၏ တစိတ်တဒေသ ဖြစ်ခဲ့သော်လည်း၊ ဟဲရတ်သည် ပါးရှင်း ရှားဘုရင်များ လက်အောက် ရောက်သွားပြန်သည်။ ထိုနောက်တွင်မူ ပြည်ထောင်များ ကွဲပြားသွား၍ ပြည်ထောင်မင်းများလည်း ထီးပြိုင်နန်းပြိုင် အုပ်စိုးခဲ့ကြသည်မှာ ၁၇ရာစုနှစ်အစပိုင်းတိုင်အောင်ဖြစ်လေသည်။

၁၇၄၇–၁၈ ခုနှစ်တွင်မူ ဘုန်းလက်ရုံးနှင့် ပြည့်စုံသော ပါးရှင်းဘုရင်တပါး ဖြစ်သည့် နဒါးရှားသည် ကဗူးနှင့် ကန္ဒဟာတို့ကို သိမ်းပိုက်သည်။ ၁၇၄၇ ခုနှစ်တွင် ထိုရှား ဘုရင်လွန်သောအခါ ကန္ဒဟာပြည်ထောင်မှ အကြီးအမှူး များသည် ပါးရှင်း စစ်တပ်ထဲမှ အာဖဂန် အမျိုးသား စစ်မှူးကြီးတဦးကို အာဖဂန်နိုင်ငံအလုံး၏ ဘုရင်အဖြစ် တင်မြှောက်လိုက်ရာ အာဖဂန်နစ္စတန်သည် အစဉ်အဆက် တိုင်းခြားမင်းများ၏ အစိုးမိုးခံခဲ့ရသော ဘဝမှ ပဌမဆုံး အကြိမ် ကိုယ်မင်းကိုယ့်ချင်းနှင့် သီးခြားလွတ်လပ်သော နိုင်ငံတခုအဖြစ်သို့ ရောက်ခဲ့ရလေသည်။

ထိုမင်းသည် အာမက်ရှား ဒျူရန်ဘွဲ့ကိုယူ၍ အာဖဂန် စတန်နိုင်ငံ၌ ဒျူရန် မင်းဆက်ကို တည်ထောင်သည်။ ထို့ကြောင့် အာဖဂန်စတန်၌ စိုးမိုးသော လူမျိုးစုတို့သည် ဒျူရန်အမည်ကို ခံယူကြခြင်း ဖြစ်လေသည်။ အာမက်ရှား ဘုရင်သည် မိမိ၏နိုင်ငံကို အရှေ့ဖက်သို့ ပန်ဂျပ်နှင့် ကသ္မီရ တိုင်အောင်၎င်း၊ အနောက်ဖက်သို့ ကက်စပျန် ပင်လယ် အထိ၎င်း တိုးချဲ့၍ မြောက်ဖက်နယ်နိမိတ်အဖြစ် အမူးဒါရ ယားမြစ်ကို သတ်မှတ်ခဲ့လေသည်။

ထိုအချိန်ပိုင်းလောက်မှစ၍ ပါးရှားနိုင်ငံအပြင် ဂရိတ် ဗြိတိန်နိုင်ငံနှင့် ဆိုဗီယက် ရုရှနိုင်ငံတို့သည်လည်း အာဖဂန် စတန်နိုင်ငံကို မျက်စောင်းထိုးလာကြသည်။ အိန္ဒိယနိုင်ငံရှိ မိမိတို့၏အကျိုးကို အာဖဂန်စတန်နိုင်ငံမှတဆင့် ထိပါးနိုင် သဖြင့် ဂရိတ်ဗြိတိန်သည် အာဖဂန်စတန်နိုင်ငံ၌ ရုရှတို့က မိမိတို့ထက် အရေးပါ အရာရောက်သွားမည်ကို အလွန် စိုးရိမ်ခဲ့သည်။ ထို့ပြင် ဥရောပ၌လည်း နပိုလီယန် စခန်းထ ချိန်ဖြစ်၍အိန္ဒိယနိုင်ငံအရေးအတွက် ဂရိတ်ဗြိတိန်နိုင်ငံသည် ရင်မအေးနိုင်အောင်ဖြစ်ကာ အိန္ဒိယနိုင်ငံကို တိုက်ခိုက်နိုင် ရန် ခြေကုပ်စခန်းကောင်း ဖြစ်နိုင်သော အာဖဂန်စတန် နိုင်ငံကို ချော့မရသည့်အခါ ခြိမ်းခြောက်သည်။ ယင်းသို့ ဖြင့် ဗြိတိန်နှင့် အာဖဂန်စတန်နိုင်ငံတို့သည် ၁၈၃၉–၄၃ ခုနှစ်တွင်တကြိမ်၊ ၁၈၇၈–၇၉ ခုနှစ်တွင် တကြိမ် စစ်ခင်းခဲ့ လေသည်။ ရုရှနိုင်ငံသည် တာကီစတန်ကိုသိမ်းပိုက်၍ အမူး ဒါရယားမြစ်၏ တောင်ဖက် တိုင်အောင် ရုရှစစ်တပ်များ ဝင်ရောက်ခဲ့သော်လည်း အာဖဂန်စတန်ကို ထိပါးတိုက်ခိုက် ခြင်း မပြုခဲ့ပေ။

တဆဲ့ကိုးရာစုနှစ်အတွင်း အာဖဂန်စတန်နိုင်ငံ၏ အခြေ အနေသည် မတည်ငြိမ်ခဲ့ပေ။ ဗြိတိန်သည် ထိုနိုင်ငံအပေါ် ဩဇာ ကြီးမားနေသည်။ အာဖဂန်ဘုရင် အဗ္ဗဒူ ရာမန် ခန်၏ လက်ထက်တွင် ဗြိတိသျှတို့နှင့် ပြေလည်အောင် ဆက်ဆံ၍ မိမိတို့၏ နိုင်ငံကို အင်အားတောင့်တင်းစေရန် ၎င်း၊ အုပ်ချုပ်ရေးခိုင်မာစေရန်၎င်း ဆောင်ရွက် ခဲ့သည်။ ၁၈၉၃ ခုနှစ်တွင် အိန္ဒိယနိုင်ငံနှင့်၎င်း၊ ၁၈၉၅ ခုနှစ်တွင် ရုရှနိုင်ငံနှင့်၎င်း နယ်နိမိတ် ပိုင်းခြား သတ်မှတ် လေသည်။

ထိုဘုရင်၏ သားတော် ဟာဗီဗူလာခန်၏ လက်ထက် တွင် နိုင်ငံကို ခေတ်မီအောင် ပြုပြင်ခဲ့သည်။ ပဌမ ကမ္ဘာ စစ်ကြီး ဖြစ်ပွားလာသောအခါ အခြား မွတ်စလင်နိုင်ငံ ဖြစ်သော တူရကီက စစ်ထဲဝင်သော်လည်း အာဖဂန်စတန် နိုင်ငံက စစ်ထဲမဝင်ပဲ ကြားနေခဲ့သဖြင့် ကမ္ဘာက အံ့ဩ ခဲ့ရလေသည်။

၁၉၁၉ ခုနှစ်တွင် နန်းတက်သော အမန်နျူလာခန် လက်ထက်တွင် မိမိ၏ နိုင်ငံ၊ မိမိ၏ လူမျိုးကို သီးခြား လွတ်လပ်စွာ ရပ်တည်နိုင်အောင် ကြိုးပမ်းသည်။ ထိုမင်း သည် အာဖဂန်စတန် နိုင်ငံကို လွတ်လပ်သော နိုင်ငံဟု ကြေညာ၍ ဂရိတ်ဗြိတိန်နိုင်ငံကို စစ်ပြုသည်။ ရာဝါပင်ဒီ မြို့တွင် ၁၉၂၁ ခုနှစ်၌ ချုပ်ဆိုသော စာချုပ်အရ ဗြိတိန် နိုင်ငံက အာဖဂန်စတန်၏ လွတ်လပ်ရေးကို အသိအမှတ်ပြု ရသည်။ သို့သော် ဗြိတိသျှ၊ အိန္ဒိယ၊ အာဖဂန်စတန် နယ် နိမိတ်ကို ရှိနေဆဲအတိုင်း အာဖဂန်စတန်နိုင်ငံက လက်ခံရ သည်။ အာဖဂန်စတန်နိုင်ငံသည် ၁၉၁၉ ခုနှစ် မေလ ၂၇ ရက်နေ့ကို လွတ်လပ်ရေးနေ့အဖြစ် သတ်မှတ် ခဲ့လေသည်။

ထိုနေ့ ထိုရက်သည် အာဖဂန်စတန်နိုင်ငံအတွက် နှစ် ထပ်ကွမ်း အောင်ပွဲခံသော နေ့ရက်ဟုလည်း ဆိုရပေမည်။ အမန်နျူလာဘုရင်သည် သက်ဦးဆံပိုင် ဘုရင့်အုပ်ချုပ်ရေး ကိုလည်း ထိုစဉ်ကစ၍ ချုပ်ငြိမ်းစေ၍ စည်းမျဉ်းခံ ဘုရင့် အုပ်ချုပ်ရေးစံနစ် ဖြစ်မြောက်ရန် စီမံဆောင်ရွက်သည်။ တူရကီနိုင်ငံကို စံနမူနာထား၍ နိုင်ငံ၏ အုပ်ချုပ်ရေး၊ အယူ ဝါဒရေး၊ ဓလေ့ထုံးစံတို့ကိုခေတ်မီစေရန် ဒလကြမ်း ပြုပြင် သည်။ ထိုအခါ အယူဝါဒဆိုင်ရာ ပုဂ္ဂိုလ်များနှင့် ပဋိပက္ခ ဖြစ်ကာ နောက်ဆုံး၌ အများစု၏ အင်အားကို မလွန်ဆန် နိုင်သဖြင့် ၁၉၂၉ ခုနှစ်တွင် အမန်နျူလာဘုရင်သည် နန်း စွန့်ရလေသည်။

ထိုနှစ်အတွင်းမှာပင် စစ်ပွဲများ၌ သူရဲကောင်း တဦး ဖြစ်ခဲ့သူ မိုဟမ္မဒ်နဒါးခန်သည် နိုင်ငံ၏ အခြေအနေကို ထိန်းသိမ်းကာ နဒါးရှားဘွဲ့ကိုယူ၍ ထီးနန်းရိုက်ရာကို ဆက် ခံလိုက်သည်။ သို့သော် ၁၉၃၃ ခုနှစ်တွင် ကဗူးမြို့၌ လုပ်ကြံ ခံရသဖြင့် သားတော်ဖြစ်သူက မိုဟမ္မဒ် ဇဟာရှားဘွဲ့ ဖြင့် ထီးမွေနန်းမွေကို ဆက်ခံ အုပ်ချုပ်ခဲ့လေသည်။

မိုဟမ္မဒ် ဇဟာရှား ဘုရင်သည် ၁၉၃၇ ခုနှစ်တွင် တူရကီနိုင်ငံ၊ အီရက် နိုင်ငံ၊ အီရန်နိုင်ငံတို့နှင့် မဟာမိတ် အဖွဲ့ ဖွဲ့ခဲ့သည်။ သို့သော် ဒုတိယကမ္ဘာစစ်အတွင်း၌ ပဌမ ကမ္ဘာစစ်အတွင်းကကဲ့သို့ ကြားနေခဲ့သည်။ ၁၉၄၀ ပြည့် နှစ် ဇူလိုင်လတွင် ဆိုဗီယက်ရုရှနိုင်ငံနှင့် ကုန်သွယ်ရေး စာ ချုပ် ချုပ်ဆိုခဲ့လေသည်။ ၁၉၄၆ ခုနှစ်တွင် ကမ္ဘာ့ ကုလ သမဂ္ဂအဖွဲ့ဝင် ဖြစ်လာခဲ့လေသည်။

အာဖဂနိစတန်နိုင်ငံသည် ပြည်တွင်း ပြုပြင်ရေးများကို တဖြည်းဖြည်း ဆောင်ရွက်လျက် ရှိသည်။ မြို့ကြီးများ တိုးချဲ့ ဆောက်လုပ်သည်။ လမ်းပန်းဆက်သွယ်ရေးကို တိုးတက်ကောင်းမွန်အောင် ပြုပြင်သည်။ ဆည်မြောင်း စီမံကိန်းများကို ပိုမိုဆောင်ရွက်သည်။ ခြည်ထည်စက်ရုံ၊ သိုးမွေးထည်စက်ရုံများ တိုးတက်ရေးကို လုပ်ကိုင်သည်။ ရေးကကဲ့သို့ တနိုင်ငံတည်း အထီးတည်း မဖြစ်စေပဲ ကမ္ဘာ့နိုင်ငံများနှင့် ဆက်ဆံရေး ကောင်းမွန် အောင်လည်း ကြိုးစားဆောင်ရွက်ခဲ့လေသည်။

၁၉၇၃ ခုနှစ် ဇူလိုင်လ ၁၇ ရက်နေ့တွင် မိုဟမ္မဒ်ဇဟာရှားဘုရင်၏ ယောက်ဖတော် ဗိုလ်ချုပ်ကြီး ဒါအွတ်ခန် ခေါင်းဆောင်တော်လှန်ကာ ဘုရင့်အုပ်ချုပ်ရေး စနစ်ကို ပယ်ဖျက်လိုက်ပြီးလျှင် အာဖဂနိစတန်နိုင်ငံကို သမတနိုင်ငံအဖြစ် ကြေညာခဲ့၏။ ဗိုလ်ချုပ်ကြီး ဒါအွတ်ခန် ကိုယ်တိုင် သမတအဖြစ်၎င်း၊ ဝန်ကြီးချုပ်အဖြစ်၎င်း ဆောင်ရွက်လေသည်။

**အာဖရိကတိုက်။** ။အာဖရိကတိုက်သည် ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံးတိုက်ဖြစ်၍ ယင်းထက် ပို၍ကြီးသောတိုက်မှာ အာရှတိုက်သာဖြစ်သည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၁၁,၆၈၄,၀၀၀ ရှိ၍ ကမ္ဘာမြေပြင်၏ ငါးပုံတပုံရှိသည်။ မြန်မာနိုင်ငံထက် အဆ ၄၀ ကျော် ကျယ်ဝန်းသည်။ အာဖရိကတိုက်သည် လတ္တီတွဒ်မြောက် ၃၇° နှင့် တောင် ၃၅° အကြားနှင့် လောင်ဂျီတွဒ်အနောက် ၁၈° နှင့် အရှေ့ ၅၁° အကြားတွင် တည်ရှိ၍ လတ္တီတွဒ်မြောက် ၁၂° နေရာတလျှောက်သည် အာဖရိကတိုက်၏ အကျယ်ဆုံးနေရာဖြစ်သည်။ မြောက်မှတောင်သို့ အလျားမိုင်ပေါင်း ၄,၉၆၀ ရှည်၍ အရှေ့မှအနောက်သို့ အနံ ၄,၅၀၀ မိုင်ကျယ်သည်။

အာဖရိကတိုက်သည် ဥရောပတိုက်၏ တောင်ဖက် တောင်အတ္တလန္တိတ် သမုဒ္ဒရာထဲတွင် တည်ရှိသည်။ အာဖရိကတိုက်၏ အနောက်ဖက်ကမ်းရိုးတန်း အစွန်ဆုံးတွင် တည်ရှိသော ဒကာမြို့သည် တောင်အမေရိကတိုက်မှ မိုင်ပေါင်း ၁,၆၂၀ သာ ဝေးသည်။ အာဖရိကတိုက် မြောက်ဖက်ကမ်းရိုးတန်း တနေရာမှာမူ ဥရောပတိုက်မှ ကိုးမိုင်သာ ကွာဝေးသည်။

အာဖရိတိုက်၏ ပုံသဏ္ဌာန်သည် တြိဂံပုံဖြစ်ပြီးလျှင် အနောက်ဖက်ကမ်းရိုးတန်းသည် အရှည်ဆုံးဖြစ်၍ အလယ်၌ ဂင်းနီပင်လယ်ကွေ့နေရာတွင် ချိုင့်ဝင်သွားသည်။ ကမ်းရိုးတခုလုံးသည် မိုင် ၁၆,၁၀၀ ရှည်လျား၍ အကျယ်အဝန်းနှင့်စာသော် တိုသည်ဟုဆိုရပေမည်။ အာဖရိကတိုက်သည် ဥရောပတိုက်ထက် သုံးဆကျယ်သော်လည်း ကမ်းရိုးတန်းမှာမူ ဥရောပကမ်းရိုးတန်းထက် တိုသည်။ ပင်လယ်ကွေ့ ပင်လယ်အော်ဟူ၍ အနည်းငယ်သာရှိသဖြင့် သင်္ဘောကြီးများဆိုက်ကပ်ရန် ဆိပ်ကမ်းကောင်းများ မရှိချေ။ ကမ်းလွန်ပင်လယ်တွင် ကျွန်းဟူ၍ အနည်းငယ်သာ ရှိသည်။ အရှေ့ဖက်ကမ်းမှ မိုင် ၂၅၀ အကွာတွင် ကမ္ဘာပေါ်၌ စတုတ္ထအကြီးဆုံးဖြစ်သော မက်ဒါဂက်စကာကျွန်းရှိသည်။ (မက်ဒါဂက်စကာကျွန်း — လည်းရှု။)မက်ဒါဂက်စကာကျွန်း၏ အရှေ့ဖက် အိန္ဒိယသမုဒ္ဒရာထဲတွင် ရီယူနီယန်ကျွန်းနှင့်မော်ရစ်ရှပ်ကျွန်းတို့ရှိသည်။ (မော်ရစ်ရှပ်ကျွန်း — လည်းရှု။) အတ္တလန္တိတ် သမုဒ္ဒရာထဲ၌မူ ကနေရီကျွန်းစု၊ ကိပ်ဗတ်ကျွန်းများနှင့် မဒီးရာကျွန်းများ ရှိကြသည်။ (ကနေရီကျွန်းစု။ ကိပ်ဗတ်ကျွန်းများ။ မဒီးရာကျွန်းများ — လည်းရှု။)

အာဖရိကတိုက်၌ ကမ္ဘာပေါ်တွင် ဒုတိယအရှည်ဆုံးဖြစ်သည့် နိုင်းမြစ်သည်၎င်း၊ ကမ္ဘာပေါ်တွင် အကြီးဆုံးဖြစ်သည့် ဆဟာရ သဲကန္တာရသည်၎င်း၊ ကမ္ဘာပေါ်တွင် အရှည်ဆုံးရေအိုင်ဖြစ်သော တန်ဂန်ယီးကအိုင်သည်၎င်း ရှိသည်။ (နိုင်းမြစ်။ ဆဟာရသဲကန္တာရ။ တန်ဂန်ယီးကအိုင် — လည်းရှု။) လွန်ခဲ့သည့် နှစ်ပေါင်းခုနစ်ဆယ်ခန့်က ပင် အာဖရိကတိုက် နေရာအတော်များများကို မစူးစမ်းရသေးသဖြင့် ထိုတိုက်ကြီးကို "မှောင်မိုက်သောတိုက်ကြီး" ဟု ခေါ်စမှတ် ပြုခဲ့ကြသည်။ ယခုအချိန်အထိလည်း ဆဟာရ သဲကန္တာရ၏ အစိတ်အပိုင်း အချို့ကို မစူးစမ်းကြရသေးချေ။ ထိုမျှသာမဟုတ် အာဖရိကတိုက်၏ အပူပိုင်းဒေသကိုလည်း ပြည့်စုံစွာ မစူးစမ်းကြရသေးချေ။

အီကွေတာမျဉ်းသည် အလယ်ပိုင်းတလျှောက် ဖြတ်သန်းသွားခြင်းခံရသောတိုက်မှာ အာဖရိကတိုက်သာလျှင်ရှိသည်။ အာဖရိကတိုက်သည် မြောက်ဖက်၌ကျယ်၍ တောင်ဖက်သို့ကျဉ်းလာသောကြောင့် အီကွေတာ၏ မြောက်ဖက်၌ ကျယ်ဝန်း၍ တောင်ဖက်၌ ကျဉ်းမြောင်းသည်။

## မြေမျက်နှာပြင်

အာဖရိကတိုက် တတိုက်လုံးလိုပင် ကုန်းမြင့်ဒေသကြီးဖြစ်သည်။ တောင်ဖက်တွင် ပိုမြင့်၍ ပေ ၆,၀၀၀ ကျော်အထိရှိသည်။ တောင်တန်းကြီးဟူ၍ များများစားစား မရှိချေ။ အနောက်မြောက်ဖက်ပိုင်းတွင် ဥရောပတိုက်ရှိ တွန့်ခေါက်တောင်တို့၏ အဆက်ဖြစ်သော အက်တလပ်တောင်တန်းရှိသည်။ အက်တလပ်တောင်တန်းသည် မြေထဲပင်လယ်တလျှောက် တျူနစ်ဇီးယားနိုင်ငံမှ မော်ရိုကိုနိုင်ငံအထိရောက်၍ အာဖရိကတိုက်တွင် အရှည်ဆုံးနှင့် အကြီးဆုံးတောင်တန်းဖြစ်သည်။အမြင့်ပေပေါင်း ၁၄,၀၀၀ အထိရှိသည်။ အရှေ့ဖက်တွင် ပင်လယ်နီကမ်းရိုးတလျှောက် အီသီအိုးပီးယားနိုင်ငံဖက်၌ တောင်တန်းမြင့်ကြီးတစု၊ ဆ




အာဖရိကတိုက် တည်နေရာပြမြေပုံ

ဟာရ သဲကန္တာရတွင် တောင်တန်းမြင့်ကြီးတစု၊ ဂင်းနီ ပင်လယ်ကွေ့တွင်တစု အသီးအသီးရှိကြသည်။

ပင်လယ်နီအနီး အီသီအိုးပီးယား တောင်တန်းကြီးသည် တောင်ဖက်သို့ ဖြာထွက်လာပြီးလျှင် အာဖရိကတိုက် အရှေ့ပိုင်း ရေအိုင်ဒေသကိုဖြတ်၍ မြင့်မားမတ်စောက်သော ဒရက်ကင်စဗတ်တောင်တန်းနှင့် ဆက်သွားသည်။ ထိုတောင်တန်းသည် အက်တလပ်တောင်တန်းကဲ့သို့ တွန့်ခေါက်တောင်မဟုတ်ချေ။ မီးတောင်မှထွက်သော ချော်ရည်များ ကုန်းမြင့်ပေါ်သို့ စီးထွက်လာသောကြောင့် ဖြစ်ပေါ်လာသော တောင်များဖြစ်သည်။ အာဖရိက ကုန်းပြင်မြင့်ကြီး၏ အရှေ့ဖက်တွင် မြေလွှာကျွံ ချိုင့်ဝှမ်းများရှိသည်။ ယင်းချိုင့်ဝှမ်းဒေသများကြားတွင် အိုင်ကြီးများလည်းရှိသည်။ အာဖရိကတိုက်၏ အမြင့်ဆုံးတောင်ထွတ်များလည်း ရှိသည်။ အိုင်ကြီးများမှာ အတန်းနှစ်တန်းဖြစ်နေသည်။ အနောက်ဖက်တန်းတွင် အဲလဗတ်၊ အက်ဒွပ်၊ ကီ၊ တန်ဂန်ယီးက၊ မွေရူး၊ ဗန်ဂွေအူလူ၊ ကမ်ပိုလိုဗိုစသော အိုင်ကြီးများရှိ၍ အရှေ့ဖက်တန်းတွင် ဇွေး၊ လန်ဂနာ၊ ရှာလ၊ အဗူးစ၊ အဗယ၊ ချန်မိုဂန်ဂျူးရူးဒေါ့၊ ဗရင်းဂို၊ မာဂက်ဒီ၊ နာတရွန်၊ အီယာစီ၊ မညာရာ၊ ညာဆာချီအူးတားစသောအိုင်များ ရှိသည်။ ယင်းအိုင်တန်းနှစ်တန်းကြားတွင် ဝိတိုရိယအိုင်ကြီးရှိသည်။ ဝိတိုရိယအိုင်သည် စတုရန်းမိုင်ပေါင်း ၂၆,၀၀၀ ကျယ်၍ အာဖရိကတိုက်တွင် အကြီးဆုံးဖြစ်ပြီးလျှင် ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံးအိုင် ဖြစ်သည်။ တန်ဂန်ယီးကအိုင်မှုကား ကမ္ဘာပေါ်တွင် အရှည်ဆုံးအိုင်ဖြစ်သည်။ (တန်ဂန်ယီးကအိုင်။ ဝိတိုရိယအိုင် — ရှု။) အာဖရိကတိုက်၏ အမြင့်ဆုံး တောင်ထွတ်များမှာ ကီလီမန်ဂျာရိုတောင် (ပေ ၁၉,၃၂၀)နှင့် ကင်ညာတောင် (ပေ ၁၇,၀၀၀) တို့ဖြစ်သည်။

အီကွေတာမျဉ်းအနီးတွင်လည်း တောင်များရှိသည်။ ယင်းတို့သည် တောင်တန်းသဖွယ်မတည်ပဲ မြေပြင်မှ ရုတ်တရက် ပေါ်ထွက်လာကြသကဲ့သို့ သီးခြားတောင်များအဖြစ် တည်လျက်ရှိသည်။ ထိုတောင်များအကြားတွင် ကုန်းပြင်မြင့်များ တည်ရှိကြရာ၊ ယင်းတို့ကို အာဖရိကတိုက်အလယ်ပိုင်းတွင် ဆဗားနားလွင်ပြင်ဟုခေါ်၍ တောင်ဖက်ပိုင်းတွင်မူ ဗဲ့ဟုခေါ်သည်။ ထိုကုန်းမြေများသည် များသောအားဖြင့် ကျောက်ထူထပ်သည်။ အချို့နေရာတွင် ခြုံနှင့်မြက်ရှည်များ ကွက်ကြားပေါက်နေတတ်သည်။

အာဖရိကတိုက်ရှိ မြစ်များသည် အခြားတိုက်ရှိ မြစ်များနှင့်မတူ တမူထူးခြားသည်။ များသောအားဖြင့် မြစ်ညာပိုင်းတွင် ကူးသန်းသွားလာရန် အသုံးဝင်၍ မြစ်ဝမှ အထက်သို့ဘိုင် တောက်လျှောက် အသုံးဝင်သောမြစ်ဟူ၍ အလွန်ရှားပါးသည်။ အဘယ့်ကြောင့်ဆိုသော် မြစ်တို့သည် ကုန်းပြင်မြင့်မြေမျက်နှာပြင်တွင် မြစ်ဖျားခံ၍ ကုန်းမြင့်ပေါ်၌ စီးဆင်းကာ၊ ကုန်းမြင့်၏ အစွန်းပိုင်းသို့ ရောက်သောအခါ မြေမျက်နှာပြင် ရုတ်ခြည်းနိမ့်ကျသွားသဖြင့် မြစ်များလည်း အမြင့်မှအနိမ့်သို့ ရုတ်ခြည်းစီးဆင်းရသောကြောင့် ရေမော်များ၊ ရေတံခွန်များ ဖြစ်ပေါ်လာပြီးလျှင် ရေစီးလည်းအလွန်သန်သည်။ ထိုသို့ ရေတံခွန်များရှိခြင်းကြောင့် ရှေးအခါက မြစ်အတွင်း ကူးသန်းသွားလာရေး မလွယ်ကူရှိခဲ့သည်။ သို့ရာတွင် ဥရောပတိုက်သားများ ရောက်လာကြသောအခါ ယင်းတို့က ရေတံခွန်အချို့၏ ပတ်ဝန်းကျင်တွင် မီးရထားလမ်းများကို ဖောက်လုပ်လိုက်ရာ မြစ်ကြောင်းမှသယ်လာသည့်ကုန်များကို ရေတံခွန်နေရာ ရောက်သည့်အခါ မီးရထားလမ်းဖြင့်ပြောင်း၍ သယ်ပေးနိုင်သည်။

အာဖရိကတိုက်တွင် မြစ်ကြီးငါးစင်းရှိသည်။ ယင်းတို့မှာ နိုင်းမြစ်၊ ကွန်ဂိုမြစ်၊ နိုင်ဂျာမြစ်၊ ဇမ်ဗီဇီမြစ်နှင့် ဩရိန်းမြစ်တို့ဖြစ်ကြသည်။ နိုင်းမြစ်သည် အာဖရိကတိုက်တွင် အရှည်ဆုံးနှင့် ကမ္ဘာပေါ်တွင် ဒုတိယအရှည်ဆုံးမြစ်ဖြစ်၍ ကွန်ဂိုမြစ်သည် အာဖရိကတိုက်၏ အကြီးဆုံးနှင့် ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံးမြစ်ဖြစ်သည်။ (နိုင်းမြစ်။ ကွန်ဂိုမြစ် — လည်းရှု။) နိုင်ဂျာမြစ်သည် ဆီးယားရားလေအွန်းနိုင်ငံ အရှေ့မြောက်ပိုင်း၌ မြစ်ဖျားခံ၍ ဂင်းနီ ပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။ အရှည် ၂,၆၀၀ မိုင်ရှိသော်လည်း ကူးသန်းသွားလာမှုအတွက် အသုံးမဝင်ချေ။ (နိုင်ဂျာမြစ် — လည်းရှု။) ဇမ်ဗီဇီမြစ်သည် မိုင် ၁,၆၀၀ ရှည်၍ အချို့ပိုင်းတွင်သာ ကူးသန်းသွားလာနိုင်သည်။ မြောက်ရိုဒီးဇီးယားနိုင်ငံ(ဇမ်ဗီယာနိုင်ငံ)၌ မြစ်ဖျားခံပြီးလျှင် အိန္ဒိယသမုဒ္ဒရာထဲသို့ စီးဝင်သည်။ ယင်းမြစ်ပေါ်ရှိ ဝိတိုရိယ ရေတံခွန်သည် အာဖရိကတိုက်၌ အကြီးဆုံးရေတံခွန်ဖြစ်သည်။ ဩရိန်းမြစ်မှုကားဗာဆူးတိုလန်နယ်(လီဆိုသိုနိုင်ငံ)မြောက်ဖက်ပိုင်း၌ မြစ်ဖျားခံပြီးလျှင် အတ္တလန္တိတ်သမုဒ္ဒရာထဲသို့ စီးဝင်သည်။ အရှည်မှာ မိုင် ၁,၃၀၀ ရှိသည်။ အာဖရိကတိုက်၏မြစ်များအနက် သုံးပုံတပုံသည် ပင်လယ်သမုဒ္ဒရာထဲသို့ စီးဝင်ခြင်းမပြုပဲ ကုန်းပြင်၌သာ အစပျောက်ကာ ကုန်းတွင်းရေအိုင်ကြီးများ ဖြစ်လာသည်။ အာဖရိကတိုက် အနောက်ပိုင်းရှိ ချဒ်အိုင်သည် ယင်းသို့ဖြစ်ပေါ်လာသော အိုင်မျိုးဖြစ်သည်။

## ရာသီဥတု

အီကွေတာသည် အာဖရိကတိုက်ကို အလယ်တည့်တည့်မှဖြတ်သွားရုံမက အာဖရိကတတိုက်လုံးနီးနီး အပူပိုင်းဇုန်တွင် ပါဝင်နေရာ ရာသီဥတုအလွန်ပူသည်။ အာဖရိကတိုက်၏ အရှေ့အလယ်ပိုင်းဒေသသည် ကုန်းမြင့်ဖြစ်နေသဖြင့် အာဖရိက အခြားပိုင်းထက် ပို၍အေးသည်။ မြောက်ဖက်စွန်းနှင့် တောင်ဖက်စွန်းဒေသများသည်လည်း သမပိုင်းဇုန်

၌ ကျရောက်နေသဖြင့် ရာသီဥတုအေးသည်။ အီကွေတာမျဉ်းအလယ်မှ ဖြတ်သွားသဖြင့် အာဖရိကမြောက်ဖက်ပိုင်းသည် ဆောင်းရာသီဖြစ်နေသည့်အခါ တောင်ပိုင်းသည် နွေရာသီဖြစ်၍ မြောက်ပိုင်း၌နွေရာသီဖြစ်နေသည့်အခါ တောင်ပိုင်းတွင် ဆောင်းရာသီဖြစ်နေတတ်လေသည်။ အီကွေတာမျဉ်းတလျှောက် ဒေသများမှတပါး ကျန်ဒေသများတွင် မိုးအလွန်နည်းသည်။ အရှေ့ဖက်ကမ်းခြေတွင် မိုးပိုများ၍ အနောက်ဖက်သို့ရောက်လေလေ မိုးပါးလေလေဖြစ်သည်။ အာဖရိကတိုက်၏ မိုးအများဆုံး ဒေသများသည် ကမ္ဘာပေါ်တွင် မိုးအများဆုံးဒေသများ၌ ပါဝင်သော ဒေသအချို့ဖြစ်သည်။ အချို့ဒေသ၌ တနှစ်လျှင် မိုးရေချိန်လက်မ ၁၀၀ ခန့်ရှာ၍ အချို့ဒေသ၌ မိုးလုံးဝမရွာချေ။

အာဖရိကတိုက်၏ လေးပုံတပုံခန့်သည် သစ်တောကြီးများနှင့် ခြုံပုတ်များ ထူထပ်စွာပေါက်ရောက်နေ၍ လေးပုံတပုံခန့်သည် မြက်ခင်းဖြစ်ပြီးလျှင် လေးပုံတပုံမှာမူ စိုက်ပျိုးလုပ်ကိုင်သည့် ဒေသဖြစ်ကာ ကျန် လေးပုံတပုံမှာ သဲကန္တာရအတိ ဖြစ်သည်။

လူမျိုးနှင့် အလုပ်အကိုင်

အာဖရိကတိုက်ကို ပြည့်စုံအောင် စူးစမ်းရှာဖွေခြင်း မပြုရသေးသည့်အလျောက် ယင်းတိုက်ရှိ လူဦးရေကိုလည်း မည်သူမျှ အတိအကျ မပြောနိုင်ကြသေးချေ။ သို့ရာတွင် ၁၉၇၁ ခုနှစ် ခန့်မှန်းခြေအရ လူဦးရေ ၃၅၄,၀၀၀,၀၀၀ ရှိလိမ့်မည်ဟုကား ဆိုကြလေသည်။

အာဖရိကတိုက်၌ လူမျိုးပေါင်းများစွာ နေထိုင်ကြသည်။ နီးဂရိုးခေါ် ကပ္ပလီလူမျိုးသည် လူဦးရေ အများဆုံးဖြစ်သည်။ အာရပ်တို့သည် အာဖရိက မြောက်ပိုင်းကို ခရစ်နှစ် ၆၀၀ ကျော်လောက်က ဝင်ရောက်သိမ်းပိုက်လိုက်သောအခါ ယင်းတို့နှင့်အတူ အစ္စလာမ်ဝါဒပါရောက်ရှိလာလေသည်။ အာရပ်တို့မရောက်မီ ယဟူဒီလူမျိုးများ၊ ဗာဗာလူမျိုးများ၊ တူအာရက်လူမျိုးများ၊ အီဂျစ်မှလာသော ကော့လူမျိုး၊ အီသီအိုးပီးယားနှင့် ဆိုမာလီလူမျိုးတို့ ရှိနှင့်ပြီးဖြစ်သည်။ အာရပ်နှင့် ယဟူဒီလူမျိုးတို့ကို ပေါင်း၍ ဆီမိုက်လူမျိုးများဟုခေါ်၍ ဗာဗာ၊ တူအာရက်၊ ကော့၊ အီသီအိုးပီးယားနှင့် ဆိုမာလီလူမျိုးတို့ကို ပေါင်း၍ ဟမိုက်လူမျိုးများဟုခေါ်သည်။ အာဖရိက မြောက်ပိုင်းတွင်နေသော ယင်းလူမျိုးများသည် တောင်ပိုင်း၌နေကြသော နီးဂရိုးလူမျိုးများနှင့် ရောမိကြသည်။

အာဖရိကရှိ နီးဂရိုးလူမျိုးတွင် ဓလေ့ထုံးစံအနေအထိုင်ကိုစွဲ၍ အုပ်စုနှစ်စုကွဲသည်။ တစုကား အနောက်အာဖရိက နီးဂရိုးခေါ် ဆူဒန်နယ်သားအနွယ်များဖြစ်၍ ကျန်တစုမှာ ဗန်တူနီးဂရိုးဖြစ်သည်။ ဆူဒန်နီးဂရိုးသည် အီကွေတာ၏ မြောက်ဖက် ဆဟာရသဲကန္တာရနား ကပ်နေသောဒေသတွင် နေထိုင်ကြ၍ နီးဂရိုးလူမျိုးများအနက် နီးဂရိုးလူမျိုးအစစ်ဆုံးဖြစ်ကြသည်။ ကြွံခိုင်၍ အရပ်အမောင်းကောင်းသည်။ အသားမဲ၍ မျက်နှာပြားသည်။ ယင်းလူမျိုးများနှင့် ဟမိုက်လူမျိုးတို့ သွေးနှောကာ အာဖရိကမြောက်ပိုင်း၌နေထိုင်၍ ကောက်ပင်သီးပင်များ စိုက်ပျိုးအသက်မွေးကြသည်။ ဗန်တူနီးဂရိုးများကိုမူ အာဖရိကတောင်ပိုင်း၌တွေ့ရသည်။ ဗန်တူဘာသာစကားကို ပြောဆိုကြသည်ကိုစွဲ၍ ဗန်တူနီးဂရိုးဟု တွင်ခြင်းဖြစ်သည်။ ယင်းတို့သည် ဆူဒန်နီးဂရိုးတို့ထက် ပိုရိုင်း၍ အတိုက်အခိုက်ပိုမိုဝါသနာပါသည်။ တနေရာတည်း၌ အတည်တကျမနေပဲ လှည့်လည်သွားလာနေတတ်သည်။ အထက်ပါလူမျိုးများအပြင် အီကွေတာသစ်တောဒေသ၌ နေထိုင်ကြသော ဗွတ်ရှမင်လူမျိုး၊ ပစ်ဂမီလူမျိုး၊ ဟော့တင်းတော့လူမျိုးများလည်း ရှိသေးသည်။ ဗွတ်ရှမင်းလူမျိုးတို့သည် အာဖရိကတိုက်၌ နေထိုင်ကြသောလူမျိုးများအနက် ရှေးအကျဆုံးလူမျိုးများဟု အဆိုရှိသည်။ ရှေးက အာဖရိကတောင်ပိုင်းတခုလုံးလိုလိုတွင် တွေ့ရှိရသော်လည်း အခြားလူမျိုးများ ဝင်ရောက်လာသောအခါ ကလဟာရီ သဲကန္တာရနှင့် အခြားလူသူမနေသောအပိုင်းသို့စု၍ နေထိုင်ကြသည်။ ယခုအခါ လူဦးရေ ၇,၅၀၀ ခန့်သာရှိတော့သည်ဟု ခန့်မှန်းရသည်။ အရပ်ပု၍ အသားညိုသည်။ ပစ်ဂမီလူမျိုးများသည် ဗွတ်ရှမင်တို့ထက် ပို၍ပုသည်။ အရပ် လေးပေခန့်သာ ရှိတတ်သည်။ များသောအားဖြင့် ကွန်ဂိုနှင့် ကင်ညာနိုင်ငံ သစ်တောများတွင် နေထိုင်ကြသည်။ အာဖရိကတိုက်၌ ပစ်ဂမီလူမျိုး ၃၀,၀၀၀ ခန့်ရှိသည်ဟု ခန့်မှန်းကြသည်။ (ပစ်ဂမီလူမျိုး — ရှု။) ဟော့တင်းတော့လူမျိုးသည် ပစ်ဂမီလူမျိုးနှင့် သွေးနီးစပ်၍ ဟမိုက်လူမျိုးသွေးလည်းပါသည်။ အရပ်ပုသော်လည်း ဗွတ်ရှမင်တို့ထက်ထွား၍ မျက်နှာပိုပေါ်သည်။ ယခုမူ ယင်းလူမျိုးဟူ၍ အနည်းငယ်သာ ရှိတော့သည်။ အာဖရိကတိုက်၌ တိုင်းရင်းသား လူမျိုးများအပြင် ပြင်သစ်၊ အင်္ဂလိပ်၊ စပိန်၊ ဒပ်ချ၊ ပေါ်တူဂီ၊ ဂျာမန်နှင့် ဗဲလဂျီယန်လူမျိုးများလည်း အများအပြား လာရောက်နေထိုင်ကြသည်။ အထူးသဖြင့် အာဖရိကတိုက် တောင်ဖက်စွန်းနှင့် မြောက်ဖက်စွန်း ရာသီဥတု မျှတရာဒေသတွင် အနေများသည်။ များသောအားဖြင့် အစိုးရအမှုထမ်းများ၊ သတ္တုတွင်းနှင့် စိုက်ခင်းပိုင်ရှင်များဖြစ်၍ စုစုပေါင်းလူဦးရေ လေးသန်းကျော်ကျော်ရှိသည်။

အာဖရိကတိုက် မြောက်ပိုင်းတွင် အာရေဗစ်စကားကို အဓိကထား၍ ပြောဆိုကြသည်။ အာဖရိကတိုက် ရှေ့ပိုင်းတွင်မူ ဆွာဟီလီစကား အဓိကထား ပြောဆိုကြသည်။

အာဖရိကတိုက်နေ လူမျိုးများသည် များသောအားဖြင့် စာဖရးစာဖတ်ပင် မတတ်ကြချေ။ သူတို့ပြောဆိုသော



**အရှေ့အာဖရိကရှိ ဗန်တူလူမျိုးတို့သည် ရှာငယ်ကလေးများဖွဲ့ကာ တဲများကိုဝိုင်း၍ ဆောက်လေ့ရှိကြသည်။ ထိုတဲဝိုင်းများကို တဖန် ဆူးများဖြင့် ခြံကာထားလေ့ရှိကြသည်။**

စကားကို စာဖြင့်ရေးလေ့ မရှိကြသည့်အပြင် ပုံနှိပ်ခြင်းလည်း မရှိကြချေ။ ကလေးများသည် များသောအားဖြင့် ကျောင်းမနေကြချေ။ သို့သော် အာဖရိကတိုက်အတွင်း ဒေသအမြောက်အမြား၌ ပညာသင်ကြားရေးတွင် တိုးတက်စေရန် ပြုလုပ်လျက် ရှိကြလေသည်။ သာသနာပြုကျောင်းများက ထိုကိစ္စကို ပို၍ ဆောင်ရွက်ကြလေသည်။ ဒေသအမြောက်အမြားရှိ အစိုးရများက ယခုအခါ ပညာရေးတွင် တာဝန်ယူကာ ဆောင်ရွက်ပေးလျက် ရှိကြလေသည်။ အီဂျစ်နိုင်ငံတွင် တက္ကသိုလ်အတော်များများရှိ၍ တောင်အာဖရိကနိုင်ငံအတွင်း၌ တက္ကသိုလ်ကျောင်း ကိုးကျောင်းရှိသည်။ ဒုတိယကမ္ဘာစစ်အတွင်းက အာဖရိကတိုက်အတွင်း၌ တက္ကသိုလ်အမြောက်အမြားကို စတင်၍ တည်ထောင်ခဲ့ကြလေသည်။

ဗန်တူလူမျိုးမှ လူအမြောက်အမြား၊ ဆူဒန်နီးဂရိုး လူမျိုးမှ လူအမြောက်အမြားနှင့် အာဖရိကတိုက်ရှိ လူဦးရေတဝက်ကျော်ကျော်သည် နတ်ကိုကိုးကွယ်သူများ ဖြစ်ကြလေသည်။ မှော်အတတ်တွင် ယုံကြည်သူလည်း များသည်။

အာဖရိကတိုက် မြောက်ဖက်ပိုင်း ဆဟာရသဲကန္တာရ၊ ဆူဒန်မြောက်ဖက်ပိုင်း၊ အာဖရိကတိုက် အရှေ့မြောက်ဖက်စွန်းနေ လူမျိုးများသည် များသောအားဖြင့် အစ္စလာမ်အယူဝါဒကို သက်ဝင်ယုံကြည်သည်။ အီဂျစ်နှင့် အီသီအိုးပီးယား နိုင်ငံများအတွင်းရှိ လူပေါင်း ၅,၀၀၀,၀၀၀ ခန့်သည် ခရစ်ယန်အယူဝါဒကို ကိုးကွယ်ကြသည်။ တောင်အာဖရိကနိုင်ငံဖက်တွင် ခရစ်ယန်အယူဝါဒကို ယုံကြည်ကြသူ သန်းပေါင်းများစွာရှိသည်။

အာဖရိကတိုက်သားတို့၏ နေထိုင်ပုံသည် တနေရာနှင့် တနေရာ ရာသီဥတု ကွဲလွဲသကဲ့သို့ မတူညီကြချေ။

အပူပိုင်း သစ်တောဒေသနေ အာဖရိကတိုက်သားများသည် အစာများကိုစုဆောင်းခြင်း၊ မုဆိုးတံငါ လုပ်ကိုင်ခြင်းဖြင့် နေထိုင်ကြသည်။ အချို့က လယ်ယာအနည်းငယ်ကို ထွန်ယက်စိုက်ပျိုးကြသည်။ ထိုဒေသ၌ ကျွဲနွားတိရစ္ဆာန်များတွင် ရောဂါထူပြောသဖြင့် အသားစားသူ နည်းပြီးလျှင် ကျွဲနွားမွေးမြူသူလည်း နည်းပါးသည်။ ထိုဒေသ၏ မြောက်နှင့် တောင်ဖက်တို့တွင်မူ ဖူးပြောင်း၊ ဆန်

ပြောင်း၊ လူးနှင့်မြေပဲများသည် အရေးကြီးသော အစာများ ဖြစ်ကြလေသည်။ သွေ့ခြောက်သော ဒေသများတွင် နေထိုင်ကြသူများကမူ ကျွဲ၊ နွားနှင့်သိုးများကို မွေးမြူကြသည်။ နို့၊ အသားနှင့် သားရေအတွက် ဆိတ်များကိုလည်း မွေးကြသေးသည်။ အရှေ့အာဖရိကတိုက်ကနေ လူများက ကျွဲနွားများကို ဥစ္စာနေအဖြစ် ,သဘောထားကြသောကြောင့် အစာအဖြစ် ကျွဲနွားများကို သတ်ခဲကြသည်။

ပို၍ ပူနွေးသောဒေသနေ အာဖရိက တိုက်သားများသည် အဝတ်ကို အနည်းငယ်မျှသာ ဝတ်ဆင်ကြလေသည်။ သစ်တောနေ လူမျိုးအမြောက်အမြားကမူ အဝတ်ပင် ဝတ်လေ့မရှိကြချေ။ ဝတ်ဆင်ကြလျှင်လည်း အနည်းငယ်မျှသာ ဝတ်ဆင်ကြလေလည်။ နီးဂရိုးလူမျိုးများသည် များသောအားဖြင့် အရောင်နှင့် အလှအပများကို လွန်စွာ စုံမက်ကြလေသည်။ အဝတ်ဝတ်သည်မှာ နည်းပါးလှသဖြင့် သူတို့၏ကိုယ်တွင် ဆေးများဖြင့် လိမ်းခြယ်၍ အလှအပများကို ဆွဲထားလေ့ရှိကြသည်။ ယခုအခါတွင်မူ ပူအိုက်သောဒေသတွင် နေထိုင်ကြသူများက ခြည်ထည်များကို ဝတ်ဆင်ကြ၍ ပို၍အေးသောဒေသများတွင် နေထိုင်ကြသူများက သိုးမွေးထည်များကို ဝတ်ဆင်ကြလေသည်။

သဲကန္တာရအတွင်း၌ လှည့်လည်နေထိုင်ကြသူများသည် နေပူနှင့် တိုက်ခတ်သည့်လေကြောင့် လွင့်စဉ်လာသော သဲမှုန်များ၏ဒဏ်ကို ကာကွယ်နိုင်ကြစေရန် ဝတ်လုံပွကြီးများကို ဝတ်ဆင်လေ့ရှိကြသည်။

ဗန်တူလူမျိုးတို့သည် များသောအားဖြင့် ရွာငယ်ကလေးများဖွဲ့ကာ နေလေ့ရှိကြသည်။ ထိုရွာငယ်ကလေးများထဲတွင် တဲများကို ဝိုင်း၍ဆောက်လေ့ ရှိကြပြီးလျှင် ထိုတဲဝိုင်းများကို တဖန် ဆူးများဖြင့် ခြံကာထားလေ့ရှိကြသည်။ တဖန် ရွာဝိုင်း၏အလယ်တွင် ခြံကာထားသောတဲများကို စု၍ဆောက်ထားလေ့ ရှိကြပြန်သည်။ ထိုအလယ်ရှိတဲများသည် တိရစ္ဆာန်များထားရန်အတွက် ဖြစ်သည်။ ထိုသို့ပြုလုပ်ထားသဖြင့် လူနှင့်မွေးမြူထားသော တိရစ္ဆာန်များသည် ဘေးရန်မှ ကင်းရှင်းနိုင်ကြလေသည်။

အာဖရိကတိုက်ရှိ လူမျိုးများသည် များသောအားဖြင့် မိသားစုများ စားသောက်နိုင်ရန်အတွက်သာ ထွန်ယက်စိုက်ပျိုးလေ့ရှိကြသည်။ အချို့ကသာ အနီးရှိဈေးများသို့ ပို့သျှံသောပစ္စည်းများကို သွား၍ရောင်းချနိုင်ရန်အတွက် ပိုမို၍ စိုက်ပျိုးကြလေသည်။ လယ်ယာပြုလုပ်ခြင်းမှာ သူတို့အဖို့ လွယ်ကူလေသည်။ ရွာရှိယောကျ်ားများက အနီးရှိခြုံ သစ်တောတို့ကို လိုသလောက် ခုတ်ထွင်ရှင်းလင်းပြီးလျှင် မီးရှို့ လိုက်ကြသည်။ ထိုနောက် မိန်းမများက လယ်ယာများဖြစ်လာအောင် ဖန်တီးယူကြလေသည်။ နှစ်ကြာညောင်း၍ ကောက်ပဲသီးနှံများ အထွက်နည်းလာသောအခါ ယောကျ်ားများက နေရာသစ်များကို ရှာဖွေရှင်းလင်းပေးပြန်သည်။

ဆဟာရသဲကန္တာရ၏ မြောက်ဖက်ပိုင်းတွင် ထွန်ယက်စိုက်ပျိုးခြင်းသည် ဥရောပတိုက်တောင်ပိုင်းတွင် ပြုလုပ်သည်နှင့် တူ၏။ ထိုနေရာ၏ အရေးကြီးသော အပင်များတွင် မုယော၊ ဂျုံ၊ သံလွင်၊ သဖန်းနှင့်စပျစ်များ ပါဝင်သည်။ နိုင်းမြစ်ဝကျွန်းပေါ်နှင့် နိုင်းမြစ်ဝှမ်းဒေသသည် အာဖရိကတိုက်တွင် မြေဩဇာအကောင်းဆုံး ဒေသများဖြစ်သည်။ မြေဆီလွှာကောင်းသည့်အပြင် နိုင်းမြစ်မှရေကိုလည်း တူးမြောင်းများဖြင့် သွယ်ယူနိုင်လေသည်။ ထိုဒေသများတွင် အဓိကအားဖြင့် ဝါ၊ ပြောင်းဖူး၊ ဂျုံ၊ မုယော၊ ရိုင်းစပါးနှင့် ကြံများကို စိုက်ပျိုးကြသည်။

**သဘာဝပေါက်ရောက်သောအပင်နှင့် တွေ့ရှိရသော သားကောင်**

အာဖရိကတိုက်တွင် ဒေသအခြေအနေနှင့် ရာသီဥတုအလျောက် သစ်ပင်များ ပေါက်ရောက်လျက် ရှိသည်။ အက်တလပ်တောင်တန်း၏ မြောက်ဖက်တွင် ဥရောပတိုက်တောင်ပိုင်းဒေသ၌ တွေ့ရှိရသော ဖော့ပင်၊ ဝက်သစ်ချပင်နှင့် အပူပိုင်းဒေသဆံသော ဒေသများတွင် ပေါက်ရောက်သည့်အပင်များ တွေ့ရသည်။ သဲကန္တာရတွင် ရာသီအလျောက် ဖြစ်ပေါ်သော ချောင်းများရှိသည့် နေရာများ၊ မျက်နှာပြင်စမ်းများရှိသော နေရာများနှင့် ရေများကို ရေတွင်းများမှ စုတ်ယူပြီးလျှင် အိုအေဆစ်များ ဖြစ်လာအောင် ဖန်တီးယူနိုင်သော နေရာများမှလွဲ၍ အခြားနေရာ၌ အပင်များ ပေါက်လည်းမပေါက်၊ စိုက်ပျိုး၍လည်းမရချေ။ သဲကန္တာရအတွင်းရှိ အိုအေဆစ်များတွင် စိုက်ပျိုးသည့် စွန်ပလွံသီးသည် ထိုဒေသ၏ အရေးကြီးသောအစာဖြစ်သည်။ အပူပိုင်းဒေသ သစ်တောများတွင်မူ အက်ဗနီပင်နှင့် မဟောဂနီပင်တို့ကဲ့သို့ အဖိုးတန်သစ်ပင်များလည်း ပေါက်ရောက်သည်။

အာဖရိကတိုက်၏ မြောက်ဖက်စွန်းနှင့် တောင်ဖက်စွန်းဒေသများ၌ ဂျုံ၊ ဗာလီနှင့် အခြားကောက်နှံများ စိုက်ပျိုးကြသည်။ သကြား၊ ဆေးနှင့် အရည်ရွှမ်းသောအသီးအနှံများလည်းထွက်သည်။ ဥရောပတိုက်သားများ ရောက်လာသည့်အချိန်မှစ၍ ကကေးအိုပင်၊ ရော်ဘာပင်များကိုလည်း မိုးများသော အပူပိုင်းဒေသများ၌ ရှင်းလင်း၍ စိုက်ခင်းများ အကြီးအကျယ်လုပ်ကာ စိုက်ပျိုးကြသည်။

အာဖရိကတိုက် သစ်တောဒေသ၌ သားကောင်များ အလွန်ပေါများသည်။အာဖရိကတိုက်မြောက်ဖက်ပိုင်းတွင် ဥရောပတိုက် တောင်ပိုင်း၌ တွေ့ရလေ့ရှိသော တိရစ္ဆာန်မျိုးကို တွေ့ရသည်။ အထူးသဖြင့် ဆဟာရသဲကန္တာရ၏ တောင်ဖက်တွင် တောဆိတ်၊ သစ်ကုလားအုပ်၊ မြင်း



အရှေ့အာဖရိက ကင်ညာနိုင်ငံ၏ မြို့တော်ဖြစ်သော နိုင်ရိုဗီမြို့တော်တွင် လူဦးရေ ငါးသိန်းကျော်နေထိုင်၍ ခေတ်မီသော အဆောက်အအုံနှင့် ရှုံးများဖြင့် စည်ကားလေသည်။

ကျား၊ ကျဲ၊ ကြံ့၊ ဆင်၊ ခြင်္သေ့၊ သစ်နက်၊ ကျားသစ်၊ ဟိုင်းအီနာကောင်၊ ခွေးအ၊ မျောက်ဝံတို့ကဲ့သို့ တောရိုင်းတိရစ္ဆာန်များကို တွေ့ရသည်။ ရှေးအခါက အာဖရိကတိုက်တွင် ဆင်များ အများအပြား တွေ့ခဲ့ရသော်လည်း ယခုအခါတွင် အစွယ်အလို့ငှါ ဆင်များကို ဖမ်းဆီးသတ်ဖြတ်ကြသောကြောင့် များများစားစား မတွေ့ရတော့ချေ။ သဲကန္တာရမှတပါး အခြားနေရာများ၌ ငှက်နှင့်တွားသွားကောင်များကို တွေ့ရသည်။ အာဖရိကတိုက်ရှိ ငှက်များသည် များသောအားဖြင့် အမွေးအတောင်များ အလွန်လှပသော်လည်း အသံသာယာစွာ မအော်မြည်တတ်ကြချေ။ သဲကန္တာရ ခရီးသည်များအတွက် အလွန်အသုံးဝင်သော ကုလားအုပ်များကိုလည်း တွေ့ရှိရသည်။ ဆဟာရသဲကန္တာရ၏တောင်နှင့် အနောက်ဖက်တို့တွင် ငှက်ကုလားအုပ်များရှိသည်။ မိကျောင်းခေါင်းရှည်နှင့် ရေမြင်းများကိုမူ စိမ့်များနှင့် ချောင်းများ၌ တွေ့နိုင်သည်။

အာဖရိကတိုက်တွင် စိန်နှင့်ရွှေ အများအပြားထွက်သည်။ တောင်အာဖရိကနိုင်ငံ၌ စိန်တွင်း ရွှေတွင်းများရှိသည်။ ကင်ဗာလီမြို့သည် စိန်တွင်းတူးဖော်ရေး အချက်အချာမြို့ဖြစ်၍ ထရန်စဗားနယ်သည် ရွှေတွင်းတူးဖော်ရေး၏ အချက်အချာဒေသဖြစ်သည်။ ထိုဒေသတွင် ကျောက်မီးသွေးနှင့် သံကိုပါ ရရှိသည်။ ကွန်ဂို ဒီမိုကရက်တစ်သမတနိုင်ငံ (ဇိုင်ယာနိုင်ငံ)နှင့် မြောက်ရိုဒီးဇီးယားနိုင်ငံ (ဇမ်ဗီယာနိုင်ငံ)တို့တွင် ကြေးနီအမြောက်အမြား ရရှိသည်။ ယူရေနီယံ အမြောက်အမြားကို ကွန်ဂိုဒေသတွင် ရရှိလေသည်။

အာဖရိကတိုက်အတွင်း၌ ရေတံခွန် အမြောက်အမြားရှိသော်လည်း ရေအားလျှပ်စစ်ထုတ်လုပ်မှု နည်းပါးသည်။ ရေတံခွန်ရှိသည့်ဒေသ၌ စက်မှုလက်မှုလုပ်ငန်းဟူ၍ အကြီးအကျယ်လုပ်ကိုင်ရန် မလွယ်ကူသဖြင့် ရေအားလျှပ်စစ်ထုတ်လုပ်ရန် မကြိုးစားကြခြင်း ဖြစ်ဟန်တူသည်။

ရှေးအခါက အာဖရိကတိုက်တွင် စက်မှုလုပ်ငန်းအကြီးအကျယ် မလုပ်ကိုင်ခဲ့သော်လည်း ယခုအခါ ရိုဒီးဇီးယား၊ ကွန်ဂို(ဇိုင်ယာ)၊ ကင်ညာ၊ အီဂျစ်၊ တောင်အာဖရိကနိုင်ငံ၊ အာဖရိကတိုက် မြောက်ပိုင်းတို့တွင် စက်မှုလုပ်

နေ်းများကို ထူထောင်ခဲ့ရာ လျင်မြန်စွာ တိုးတက်လျက်ရှိသည်။ ဗိလတ်မြေစက်၊ စားသောက်ကုန် ထုတ်လုပ်သောစက်၊ သစ်သားထည်လုပ်စက်၊ ဓာတ်ပစ္စည်းထုတ်လုပ်သောစက်၊ သံနှင့်သံမဏိစက်ရုံတို့ ဖြစ်ကြသည်။

ကူးသန်းသွားလာရေး

မကြာသေးမီကအထိ အာဖရိကတိုက်တွင် တနိုင်ငံနှင့် တနိုင်ငံ ကူးသန်းသွားလာရေးမှာ ကုလားအုပ်များ လှည်းများကိုသာ အသုံးပြုကြရသည်။ ယခုထက်တိုင်လည်း အချို့တိုးတက်ဖွံ့ဖြိုးခြင်း မရှိသေးသော ဒေသများ၌ ကူးသန်းသွားလာရေးအတွက် ကုလားအုပ်နှင့် ဝန်တင်လှည်းများကို အသုံးပြုဆဲရှိသေးသည်။ မီးရထားလမ်းကို ၁၈၅၆ ခုနှစ်မှစ၍ အီဂျစ်နိုင်ငံ၌ စတင်ဖောက်လုပ် အသုံးပြုသည်။ အယ်လဂျီးရီးယားနိုင်ငံ၌ ၁၈၅၇ ခုနှစ်မှစ၍၎င်း၊ ကိပ်ကိုလိုနီနယ်(တောင်အာဖရိက)၌ ၁၈၅၉ ခုနှစ်မှစ၍၎င်း ဖောက်လုပ်ကြရာ ယခုအခါ မီးရထားလမ်း စုစုပေါင်း မိုင် ၄၂,၀၀၀ ကျော်နေလေပြီ။ ယင်းအနက် ၁၉၁၀ ခုနှစ်က ဖောက်လုပ်ပြီးစီးသော တောင်ဖက် ကိပ်တောင်းမြို့မှ မြောက်ဖက်ကိုင်ရိုမြို့သို့သွားသည့် မီးရထားလမ်းသည် အရှည်ဆုံးဖြစ်သည်။ မော်တော်ကားလမ်းများရှိသော်လည်း တနှစ်ပတ်လုံး အခါမလပ် သွားလာနိုင်သည် မဟုတ်ချေ။ မိုးသည်းထန်စွာရွာသွန်းသောအခါတွင် အချိန်အတော်ကြာသည်အထိ သွားလာခြင်း မပြုနိုင်ကြချေ။ မြစ်ကြီးများနှင့် အိုင်ကြီးများတွင် မီးသင်္ဘောများ ခုတ်မောင်းသွားလာလျက်ရှိသည်။ ကမ်းခြေတလျှောက်တွင်လည်း မီးသင်္ဘောများသွားလာလျက်ရှိသည်။ အချို့မြစ်များတွင် ရေတံခွန်ရှိသည့်နေရာ၌ မီးရထားလမ်းဖြင့် ပြောင်းရွှေ့သယ်ယူကာ ရေတံခွန်လွတ်သည့်နေရာကျမှ သင်္ဘောဖြင့် ဆက်လက်သွားလာကြသည်။ အာဖရိကတိုက်ရှိ မြို့ကြီးများ၌မူ တမြို့နှင့်တမြို့ လေယာဉ်အဆက်အသွယ်ရှိသည်။

ပါဝင်သောနိုင်ငံများ

အာဖရိကတိုက်တွင်ပါဝင်သော နိုင်ငံများမှာ မိုရော့ကို၊ အယ်လဂျီးရီးယား၊ တျူနစ်ဇီးယား၊ လစ်ဗျ၊ အီဂျစ်အာရပ်သမတနိုင်ငံ၊ မော်ရီတေးနီးယား၊ မောရစ်ရှပ်၊ မာလီ၊ နိုင်ဂျာ၊ ချဒ်၊ ဆူဒန်၊ အီသီအိုးပီးယား၊ ဆိုမာလီယာသမတနိုင်ငံ၊ ကင်ညာ၊ ယူဂန်းဒါး၊ အလယ်ပိုင်း အာဖရိက သမတနိုင်ငံ၊ အထက် ဗော်လတာ၊ ကမ္မရွန်း၊ နိုင်ဂျီးရီးယား၊ ဒါဟိုမီ၊ တိုဂို၊ ဂါနာ(ဂိုးလကို့)၊အိုင်ဗရီကို့၊ လိုက်ဗီးရီးယား၊ ဆီးယားရားလေအွန်း၊ ဂင်းနီ၊ ဂင်းနီ–ဗစ်ဆော၊ ဆင်နီဂေါ၊ ဂမ္ဘီယာ၊ ဂါဗွန်၊ အီကွေတိုးရီယယ်ဂင်းနီ၊ ကွန်ဂိုဒီမိုကရက်တစ်သမတနိုင်ငံ (ဇိုင်ယာနိုင်ငံ)၊ ကွန်ဂိုသမတနိုင်ငံ၊ ဗူရွန်ဒီ၊ အာဝမ်းဒါး၊ တန်ဇာနီယာ (တန်ဂန်ယီးက+ဇန်ဇီဗာ)၊ မာလာဂါဆီ၊ ဇမ်ဗီယာ၊ ရိုဒီးဇီးယား၊ မာလာဝီ၊ ဆွာဇီလန်၊ ဗာဆူးတိုလန် (လီဆိုသိုနိုင်ငံ)၊ တောင်အာဖရိကပြည်ထောင်စု၊ ဗက်ချူအာနာလန် (ဗော့ဆွာနာနိုင်ငံ) တို့ဖြစ်ကြသည်။ ထိုမှတပါး အန်ဂိုလာ၊ အနောက်တောင် အာဖရိက၊ မိုဇမ်ဗစ်၊ စပင်းနစ်ဆဟာရ၊ ကနေရီကျွန်းစု၊ မဒီးရာကျွန်းများ၊ ကိပ်ဗတ်ကျွန်းများ၊ ပြင်သစ်ဆိုမာလီလန် (ယခု အဖားနှင့် အိုက်ဆားနယ်)၊ကိုမိုရိုကျွန်းစသည့် နယ်မြေဒေသများလည်းရှိကြသေးရာ ယင်းတို့ကား ပြင်ပနိုင်ငံများ၏ အအုပ်အချုပ်ခံနေရလေသေးသည်။ (ဖော်ပြပါ နိုင်ငံများအတွက် သက်ဆိုင်ရာ ခေါင်းစဉ်များအောက်တွင်ရှု။)

သမိုင်း

အာဖရိကတိုက်သည် ကမ္ဘာ့ယဉ်ကျေးမှု အစတည်ရာဌာနတခု ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အာဖရိကတိုက် အရှေ့မြောက်ဖက်ရှိ အီဂျစ်နိုင်ငံတွင် ယဉ်ကျေးမှုများ စတင်ပေါက်ဖွားခဲ့သောကြောင့် ဖြစ်သည်။ ဂရိနှင့် ဖီနီရှန်တို့သည် အာဖရိကတိုက်မြောက်ဖက် မြေထဲပင်လယ်ကမ်းတလျှောက်တွင် နယ်သစ်များတည်ထောင်ကြသည်။ အာဖရိက မြောက်ဖက်ကမ်းခြေတွင်ရှိသော ကားသေ့မြို့ကို ဖီနီရှန်တို့ တည်ထောင်ကြသည်။ ဖီနီရှန်တို့၏ ကားသေ့အင်ပိုင်ယာသည် နှစ်ပေါင်းများစွာ ထွန်းကားစည်ပင်လာရာ မြေထဲပင်လယ် အနောက်ပိုင်းတလျှောက်တွင် ကားသေ့သင်္ဘောများသာ ကူးသန်းရောင်းဝယ်ကြသည်။ စစ္စလီကျွန်းကိုလည်း ကားသေ့တို့ကပင် သိမ်းယူထားခဲ့သည်။ (ကားသေ့မြို့ — လည်းရှု။)

ဘီစီသုံးရာစုခန့်တွင် စစ်မှုကရိယာမှအစ စစ်သည်အင်အားပြည့်စုံလာသော ရောမတို့က ကားသေ့အင်ပိုင်ယာကို စတင်တိုက်ခိုက်သည်။ ကားသေ့စစ်တပ်သည် ကြေးစားလူမျိုးခြား စစ်သည်များဖြင့် ဖွဲ့စည်းထားရကား ဝတ်ကြေတန်းကြေအမှုထမ်းကြသဖြင့်တကြောင်း၊ ကားသေ့အစိုးရထဲတွင် အချင်းချင်း မညီမညွတ် စိတ်ဝမ်းကွဲပြားနေသဖြင့်တကြောင်း ဘီစီ ၁၄၆ ခုတွင် ကားသေ့တို့ အရေးရှုံးနိမ့်ခဲ့ရသည်။ ကားသေ့မြို့လည်း ရောမတို့လက်တွင် ပြာကျခဲ့ရသည်။ ထိုအချိန်မှစ၍ အာဖရိကမြောက်ပိုင်းသည် ရောမအင်ပိုင်ယာ၏ တစိတ်တဒေသ ဖြစ်လာသည်။ ကားသေ့မြို့ပျက်ပြီးနောက် ရောမတို့လက်ထက်တွင် နိုင်းမြစ်ဝ၏ အနောက်ဖက်အနီးရှိ အယ်လက်ဇန္ဒြီးယားမြို့သည် ထင်ရှားလာသည်။ အေဒီ ငါးရာစုနှစ်တွင် ဗင်းဒေါတို့က ရောမမြို့၏ ကြွယ်ဝချမ်းသာပုံကို သိရှိသောအခါ ရောမတို့အား သွားရောက်တိုက်ခိုက်သဖြင့် ရောမမြို့ကျသည်။ ရောမ ကျသည်နှင့် ဗင်းဒေါတို့သည် အာဖရိကမြောက်ပိုင်းကိုပါ သိမ်းယူကြသည်။ (ဗင်းဒေါလူမျိုး — လည်းရှု။) ဗင်းဒေါတို့မေးမှိန်သွားသောအခါ အာဖရိကမြောက်ပိုင်းသည် ဗိုင်ဇင်း

တိုင် အင်ပိုင်ယာ၏ တစိတ်တဒေသ ဖြစ်လာသည်။ (ဗိုင်ဇင်းတိုင်အင်ပိုင်ယာ — လည်းရှု။) အေဒီ ခြောက်ရာစုနှစ်တွင် အာရေဗျနိုင်ငံ၌ မိုဟမ္မဒ် ပေါ်ထွန်းလာ၍ ဟောကြားသော အစ္စလာမ်တရားကြောင့် အာရပ်တို့ညီညွတ်ပြီးလျှင် အင်အားကောင်းကာ နယ်ချဲ့ကြသည်။ (မိုဟမ္မဒ် — လည်းရှု။) အာရပ်တို့သည် အာဖရိကမြောက်ပိုင်းကို သိမ်းပိုက်လိုက်ရာ အစ္စလာမ်အယူဝါဒ အာဖရိကတိုက်တွင် အခြေစိုက်မိသည်။ (အစ္စလာမ်အယူဝါဒ — လည်းရှု။) အာရပ်တို့ တန်ခိုးမှိန်ပြန်သောအခါ မိုရောက္ကိုနိုင်ငံမှတပါး အာဖရိကမြောက်ပိုင်းတခုလုံးသည် အော္တိုမန်တူရကီ အင်ပိုင်ယာတွင်းသို့ ရောက်ရှိသွားလေသည်။ အလယ်ခေတ်လောက်က ဥရောပနိုင်ငံများသည် အာဖရိကမြောက်ပိုင်းနှင့် အဆက်အသွယ် အနည်းငယ်သာရှိသော်လည်း ၁၅၁၀ ပြည့်နှစ် နောက်ပိုင်းတွင် ပင်လယ်ထဲ၌ သွားလာနေကြသော ဥရောပနိုင်ငံများပိုင် သင်္ဘောများကို အာဖရိကတိုက်မြောက်ပိုင်း မိုရောက္ကိုနိုင်ငံရှိ ပင်လယ်ဓားပြများက ထွက်၍တိုက်ခိုက်ကြသဖြင့် ဥရောပသင်္ဘောများက ယင်းတို့အား ဆက်ကြေးများ တင်ကြိုပေးကြရသည်။ ၁၈၀၀ ပြည့်နှစ်ကျော်တွင် ပြင်သစ်တို့သည် အယ်လဂျီးရီးယားနိုင်ငံ၊ မိုရောက္ကိုနိုင်ငံနှင့် တျူနစ်ဇီးယား နိုင်ငံတို့ကို သိမ်းပိုက်ကြသည်။

အာဖရိကမြောက်ပိုင်းကို ယင်းသို့ လူမျိုးပေါင်းစုံ လာရောက်သိမ်းပိုက်သွားကြသော်လည်း ယင်းဒေသကိုလွန်၍ ပေါက်ရောက်ခဲ့သူ အလွန်နည်းလေသည်။ အဘယ်ကြောင့်ဆိုသော် ယင်းဒေသကိုလွန်သော် ဆဟာရသဲကန္တာရပြင်ကြီးကို ဖြတ်ရမည်ဖြစ်သောကြောင့် ဖြစ်သည်။ သဲကန္တာရကိုလွန်လျှင် အာဖရိကတိုက်သည် မည်သို့ရှိသည်ကို မသိကြသောကြောင့် အာဖရိကတိုက်ကို မှောင်မိုက်သောတိုက်ကြီး (ဝါ) အမှောင်တိုက်ကြီးဟု ခေါ်စမှတ်ပြုကြသည်။

အာဖရိကတိုက်တွင် ဘီစီ ၃၀,၀၀၀ ခန့်ကပင် ကပ္ပလီ လူမျိုးစုသည် အရှေ့ဖက်ကမ်းမှ စတင်ဝင်ရောက်နေထိုင်ပြီးဖြစ်နေကြလေပြီ။ ကပ္ပလီများ ဝင်ရောက်လာသည့်အခါ အာဖရိက တိုင်းရင်းသားများသည် (ယခု ဗွတ်ရှမင်း၊ ပစ်ဂမီး၊ ဟော့တင်းဟော့လူမျိုးများ၏ ဘိုးစဉ်ဘောင်ဆက်များ) သဲကန္တာရနှင့် သစ်တောများဖက်သို့ ရွှေ့ပြောင်းနေထိုင်ကြသည်။ အလယ်ခေတ်သို့ ရောက်သောအခါ ကပ္ပလီတို့သည် ပြည်ထောင်များ အစဉ်အဆက်ထူထောင်ကာ မြေထဲပင်လယ်နိုင်ငံများနှင့် ကုန်သွယ်ကြသည်။ ထိုစဉ်က အာရပ်တို့ကလည်း အာဖရိက အရှေ့ဖက်ကမ်းသို့ ဝင်ရောက်နေထိုင်ကြရန် ရောက်လာကြသည်။ ထိုအချိန်အထိ ဥရောပနိုင်ငံများသည် အာဖရိကတိုက်ကို စိတ်ဝင်စားခြင်း မရှိသေးချေ။

၁၄၉၇ ခုနှစ်တွင် ပေါ်တူဂီလူမျိုး နယ်သစ်စူးစမ်းရှာဖွေသူ ဗက်စကို ဒါဂါးမသည်ဥရောပတိုက်မှထွက်၍ အာဖရိကတိုက်ကိုပတ်ကာ အရှေ့သွားခရီးကို အောင်မြင်စွာ တွေ့ရှိခဲ့သည့်အခါမှ ဥရောပနိုင်ငံများသည်အာဖရိကတိုက်ကိုစိတ်ဝင်စားလာကြသည်။ (ဗက်စကို ဒါဂါးမ — လည်းရှု။) အရှေ့အာရှနိုင်ငံများနှင့် ကုန်သွယ်သည့်အခါ အာဖရိကတိုက်ကိုပတ်၍ သင်္ဘောလွှင့်လျှင် အာဖရိကကမ်းရိုးတန်း၌ သင်္ဘောဆိပ်များတည်ထောင်ဖို့လိုကြောင်းလည်း သဘောပိုက်မိကြသည်။ ထို့ပြင် ကမ္ဘာ့သစ်ကို စတင်တွေ့ရှိစဖြစ်သဖြင့် ယင်းတိုက်များ၌ စိုက်ခင်းပျိုးခင်းများ ထူထောင်ရန် အလုပ်ကြမ်းသမား များစွာလိုလေသည်။

ထိုအခိုက် အင်္ဂလန်နိုင်ငံ၌ စက်မှုလုပ်ငန်းများ စတင်ထွန်းကားစဖြစ်၏။ စက်များမှထွက်သော အထည်များကို ယူဆောင်ကာ အာဖရိကကမ်းခြေတလျှောက်ရှိ ကပ္ပလီနယ်စားများထံသို့ လာရောက်ရောင်းချသောအခါ ကပ္ပလီနယ်စားတို့သည် မိမိတို့နှင့် မသင့်တင့်သော ကပ္ပလီအုပ်စုများကို ဖမ်းဆီးကာ ကျွန်ကုန်သည်များထံတွင် အဝတ်၊ သေနတ်၊ ပုတီးစေ့စသည်တို့နှင့် လဲလှယ်ကြသည်။ အချို့သော ကပ္ပလီများကိုမူ အနောက်နိုင်ငံသားတို့ကိုယ်တိုင် လက်နက်အားကိုး ဖမ်းဆီးကြသည်။ ကျွန်ကုန်သည်တို့သည် ထိုကပ္ပလီများကို အမေရိကန်စိုက်ပျိုးခင်း ပိုင်ရှင်များထံ အမြတ်အစွန်းကြီးစွာဖြင့် ရောင်းချကြ၏။ ထိုရသောငွေဖြင့် စိုက်ပျိုးခင်းများမှ ဝါဂွမ်း၊ ဆေးနှင့် သကြားတို့ကို ဝယ်ယူတင်ဆောင်ကာ ဥရောပနိုင်ငံများတွင် အမြတ်စွန်းကြီးစွာဖြင့် ရောင်းချကြပြန်သည်။ ယင်းသို့ အမြတ်အစွန်း များစွာရသောကြောင့် ဗြိတိသျှ၊ ပြင်သစ်၊ ပေါ်တူဂီ၊ ဒပ်ချ၊ ဒိန်း၊ ပရပ်ရှင်းစသော ဥရောပသားတို့သည် အပြိုင်အဆိုင် ကျွန်ကုန်ကူးကြသည်။ ထို့ကြောင့် အာဖရိက အနောက်ဖက်ကမ်းခြေတလျှောက်တွင် ဆင်နီဂေါ၊ ဂမ္ဗီယာ၊ ဆီယားရားလေအွန်း၊ ဂိုးလ်ကို့စသော ကျွန်ရောင်းဝယ်သည့် နယ်ကလေးများ ပေါ်ပေါက်လာသည်။ တဖန် အရှေ့အာရှတိုက်သို့ ကုန်သွယ်ရန်သွားလာရာ သင်္ဘောစခန်းဖြစ်သော ကိပ်တောင်းအစရှိသည့်မြို့ကလေးများလည်း အာဖရိကတောင်ဖက်နှင့် အရှေ့ဖက်ကမ်းခြေတလျှောက်တွင် ပေါ်ပေါက်လာလေသည်။ ဒပ်ချတို့သည် မိမိတို့ ကုန်သင်္ဘောများ စခန်းချရပ်ရန် ဂွတ်ဟုပ်အငူတွင် ဒပ်ချနယ်ကလေး တနယ်ကို ၁၆၅၁ ခုနှစ်တွင် ထူထောင်ထားကြသည်။ (ဂွတ်ဟုပ်အငူ — လည်းရှု။) ထိုနယ်ကလေးကို ၁၇၉၆ ခုနှစ်တွင် ဗြိတိသျှတို့က ဒပ်ချတို့လက်မှ လုယူ သိမ်းပိုက်လိုက်ပြီးလျှင် ကိပ်ကိုလိုနီဟုသမုတ်ကာ အုပ်စိုးလေသည်။ ဗြိတိသျှလက်အောက်တွင် မနေလိုသော ဗိုးဝါးခေါ် ဒပ်ချလယ်သမားတို့သည် မြောက်ဖက် မြေလွတ်များရှိရာသို့ ရှောင်တိမ်းနေ

ထိုင်ကြသည်။ ဗိုးဝါးတို့သည် ထိုဒေသများရှိ တိုင်းရင်းသားလူရိုင်းများနှင့်အမြဲတိုက်ခိုက်နေကြရသည့်ကြားမှပင် ဆင်းရဲဒုက္ခအမျိုးမျိုးခံကာ မြေရိုင်းများကို လယ်ယာများဖြစ်အောင် တီထွင်ပြီးသောအခါ ဗြိတိသျှတို့က ထိုမြေသစ်များကို လိုချင်လာကြပြန်သည်။ ထို့ကြောင့် ၁၈၃၅ ခုနှစ်တွင် ဗြိတိသျှတို့သည် ဗိုးဝါးတို့ တီထွင်ထားသော နယ်သစ်များကို သိမ်းယူကြပြန်သည်။ ထိုအခါ ဗိုးဝါးတို့သည် မြောက်ဖက်သို့ ရွှေ့ပြောင်းကြပြန်၍ ဩရိန်းဖရီးစတိတ်၊ ထရန်စဗားနှင့် နာတဲနိုင်ငံငယ်များကို တည်ထောင်နေထိုင်ကြသည်။ ဗြိတိသျှတို့သည် ၁၈၄၂ ခုနှစ်တွင် နာတဲနယ်ကို တိုက်ခိုက်သည်။ ၁၈၆၇ ခုနှစ်မှစ၍ ဩရိန်းနယ်အတွင်း၌ စိန်တွင်းများတွေ့ရှိရာ ဗြိတိသျှတို့က ထိုစိန်တွင်းများသည် ဩရိန်းနယ်နိမိတ် အပြင်ဖက်ဖြစ်သည်ဆိုကာ ၁၈၇၁ ခုနှစ်တွင် သိမ်းယူကြလေသည်။ ၁၈၇၇ ခုနှစ်တွင် ဩရိန်းနယ်ကိုပါ သိမ်းယူပြန်လေရာ ထိုအကြိမ်၌ ဗိုးဝါးတို့နှင့် စစ်အကြီးအကျယ် ဖြစ်ရလေသည်။ ၁၈၈၄ ခုနှစ်တွင် စစ်ပြေငြိမ်း၍ ဩရိန်းနယ်ကို နိုင်ငံခြားဆက်သွယ်ရေးမှအပ လွတ်လပ်သော နယ်တနယ်အဖြစ်ဗြိတိသျှတို့ကအသိအမှတ်ပြုသည်။

၁၈၈၄ ခုနှစ်တွင် ထရန်စဗားနယ်၌ ရွှေအမြောက်အမြားတွေ့ပြန်သည်။ ထိုအခါ နိုင်ငံခြားသား အမြောက်အမြား ထိုဒေသထဲသို့ ဝင်ရောက်လာကြသည်။ ယင်းတို့အနက် ဗြိတိသျှလူမျိုးမှာ အများဆုံးဖြစ်သည်။ နိုင်ငံအစိုးရက အခွန်အကောက်ယူသောအခါ နိုင်ငံခြားသားများက အခွန်ကြီးလေးသည်ဟု ဆူပူကန့်ကွက်ကြသည်။ နိုင်ငံခြားသားတို့ဖက်မှ ဗြိတိသျှတို့က အားပေးသည်။ ထို့ကြောင့် ၁၈၉၉ ခုနှစ်တွင် ဗြိတိသျှနှင့်ဗိုးဝါးတို့ စစ်အကြီးအကျယ် ဖြစ်ရပြန်သည်။ ပဌမတွင် ဗိုးဝါးတို့ဖက်မှ အရေးသာနေသော်လည်း နောက်ဆုံး၌ ဗြိတိသျှဖက်မှ စစ်ကူရောက်လာသဖြင့် လက်နက် အင်အားချင်း မမျှသောကြောင့် ဗိုးဝါးတို့ စစ်ရှုံးကြသည်။ (ဗိုးဝါးစစ်ပွဲ — ရှု။) ဩရိန်းပြည်နယ်နှင့် ထရန်စဗားပြည်နယ်တို့ကို ဗြိတိသျှတို့ကသိမ်းယူကာ ၁၉၁၀ ပြည့်နှစ်တွင် ကိပ်ကိုလိုနီ၊ နာတဲပြည်နယ်များနှင့် ပူးပေါင်း၍ တောင်အာဖရိက ပြည်ထောင်စုဟူ၍ ထူထောင်လိုက်သည်။ (တောင်အာဖရိက ပြည်ထောင်စု — ရှု။)

အာဖရိကတိုက်သည် သွားလာရန် ခက်ခဲရုံမက ကြမ်းကြုတ်သောလူရိုင်းများ နေထိုင်ရာလည်း ဖြစ်သဖြင့် ဥရောပတိုက်သားတို့သည် ပဌမ၌ ကမ်းခြေတလျှောက်တွင်သာ ကျက်စားကြသော်လည်း ၁၈ ရာစုနှစ်များတွင် ထွန်းကားလာသော စက်မှုလက်မှုလုပ်ငန်းများအတွက် ကုန်ရိုင်းဝယ်ရန်နှင့် ကုန်ချောရောင်းရန် ဈေးနယ်ရှာဖွေယင်း ကမ်းရိုးတန်းမှ အတွင်းဖက်သို့ တဖြည်းဖြည်း သွားလာပေါက်ရောက်ခဲ့ကြသည်။ ကျွန်အရောင်းအဝယ်ဖြင့် စည်ကားနေသော အာဖရိက အနောက်ဖက်ကမ်းရိုးတန်းတလျှောက်ရှိ နယ်ကလေးများသည် ၁၈၀၇ ခုနှစ်တွင် ဗြိတိသျှတို့က ကျွန်ကုန်ကူးခြင်းကို ပိတ်လိုက်သည့်အချိန်မှစ၍ မစည်ကားတော့ချေ။ သို့ရာတွင် ယင်းနယ်ကလေးများ၌ အုန်းပင်အများအပြားရှိသဖြင့် အင်္ဂလန်နိုင်ငံမှ စက်မှုလုပ်ငန်းနှင့် ဆပ်ပြာလုပ်ငန်းအတွက် များစွာအသုံးကျသော အုန်းဆီရနိုင်ရကား ဆီအရောင်းအဝယ်ဖြင့်စည်ကားလာပြန်သည်။ ဗြိတိသျှတို့သည် အခြားဥရောပနိုင်ငံသားတို့ တည်ထောင်ထားသော နယ်များကို ဝယ်ယူပြီးလျှင် အကြီးအကျယ် ဆီကုန်ကူးကြသည်။ ထိုနယ်များ၌လည်း ဗြိတိသျှတိုင်းရင်းသားတို့ လာရောက်နေထိုင်ကြသည်။ ယင်းသို့ဖြင့် ဗြိတိသျှတို့ဩဇာသည် အတွင်းပိုင်းသို့ ပျံ့နှံ့လေသည်။ ဗြိတိသျှတို့သည် ဂမ်ဗီယာ၊ ဆီယားရားလေအွန်းနယ်များနှင့် လားဂိုးကျွန်းများကို သိမ်းယူအုပ်ချုပ်ကြသည်။

အချို့စွန့်စားသောသူတို့ကလည်း အာဖရိကတိုက်ကို စုံလင်စွာ သိရှိနိုင်ရန် အစိုးရအကူအညီဖြင့် ဘေးအန္တရာယ်အမျိုးမျိုးကို ရင်ဆိုင်ကာ အတွင်းပိုင်း တောတောင်ထူထပ်သော နယ်ပယ်များသို့ သွားရောက်စုံစမ်းကြသည်။

၁၇၇၀ ပြည့်နှစ်တွင် စကော့လူမျိုး နယ်သစ်ရှာဖွေသူ ဂျိမ်း ဗရုက အီသီအိုးပီးယားနှင့် ဗလူးနိုင်း ဒေသများသို့ သွားရောက်ကာ စူးစမ်းလေ့လာခဲ့သည်။ ဗရုသည် ဗလူးနိုင်းမြစ်ဖျားကို တွေ့ရှိရုံမက ဗလူးနိုင်းနှင့် ဝိုက်နိုင်းဆုံရာကိုလည်း စူးစမ်းခဲ့သည်။ ၁၇၉၅ ခုနှစ်နှင့် ၁၈၀၅ ခုနှစ်ကြားတွင် မန်ဂို ပတ်ဆိုသူ စကော့လူမျိုးတဦးသည် နိုင်ဂျာမြစ်ကို မြစ်ဖျားမှမြစ်ဝအထိ စူးစမ်းရန် သွားရောက်ခဲ့သည်။ (ပတ်၊ မန်ဂို — လည်းရှု။) အင်္ဂလိပ်လူမျိုး နယ်သစ်ရှာဖွေသူများဖြစ်ကြသော ရစ်ချတ် ဗာတန်နှင့် ဂျွန် စပက်ဆိုသူတို့သည် လူသိနည်းသော အာဖရိကတိုက် အရှေ့ဖက်ပိုင်းရှိ ကုန်းပြင်မြင့်များအကြောင်းကို ပို၍ လူသိများလာကြစေရန်အကူအညီပေးခဲ့ကြလေသည်။

အာဖရိကတိုက်အတွင်းပိုင်းကို စူးစမ်းရှာဖွေခဲ့သူများအနက် အထင်ရှားဆုံးမှာ ဒေးဗစ် လစ်ဗင်စတုန်နှင့် ဟင်နရီ စတန်လေတို့ ဖြစ်ကြသည်။ (လစ်ဗင်စတုန်၊ ဒေးဗစ်။ စတန်လေ၊ အိပ်၊ အမ် — လည်းရှု။) လစ်ဗင်စတုန်သည် ၁၈၄၉ ခုနှစ်တွင် သူ၏စူးစမ်းရှာဖွေမှုခရီးကို စတင်ရာ သူ့သတင်းကို နှစ်ပေါင်းများစွာ မကြားရသဖြင့် ၁၈၆၉ ခုနှစ်တွင် နယူးယော့ဟယ်ရယ် သတင်းစာတိုက်က ငွေကုန်ကြေးကျခံ၍ သူ့အားရှာဖွေရန် စတန်လေကို လွှတ်လိုက်ရသည်။ ထိုသူနှစ်ဦးသည် အာဖရိက အရှေ့ပိုင်းတခွင်နှင့် ကွန်ဂိုမြစ်ဖျားဒေသ များကို နှံ့စပ်အောင် သွားလာစူးစမ်းခဲ့သည်။ ပြင်သစ်၊ ပေါ်တူဂီ၊ ဂျာမနီနိုင်ငံများမှ စွန့်စားသည့် ခရီး

သည်ကြီးများလည်း အာဖရိက တလွှားကို နှံ့စပ်အောင် သွားလာစုံစမ်းကြသည်။ ၁၉ ရာစုနှစ် ကုန်ခါနီးတွင် အာဖရိကတိုက်ရှိ တိုင်းရင်းသားများ၊ သဘာဝပစ္စည်းများ၊ကုန်ရိုင်းများ၊ မြေဩဇာကောင်းသောနယ်များ အကြောင်းကို အတော်စုံစုံပင် သိလာကြသောအခါ ဥရောပနိုင်ငံတို့သည် အာဖရိကတိုက်ကို ခွဲဝေယူရန် စိုင်းပြင်းကြသည်။

၁၈၇၆ ခုနှစ်တွင် ဗဲလဂျီယန်ဘုရင် လီယိုပိုသည် အာဖရိကတိုက်ကို ခွဲဝေယူရန် ဥရောပနိုင်ငံပေါင်းစုံ အစည်းအဝေးခေါ်၍ စီစဉ်လေသည်။ သို့ရာတွင် ဗဲလဂျီယမ်နိုင်ငံကောင်းစားရေးအတွက်ချည့် အစီအစဉ်ဋ္ဌပါသဖြင့် အခြားနိုင်ငံများသည် မိမိတို့ဘာသာ စူးစမ်းရှာဖွေသူများလွှတ်၍ အာဖရိကတိုက်အကြောင်း စုံစမ်းသည်။ တွေ့ရှိပေါက်ရောက်သော နယ်များအတွက် ဥရောပတိုက်သားတို့သည် တဦးနှင့်တဦး နယ်လုကြရကား မကြာခဏ အချင်းများကြသည်။ ထိုကြောင့် ၁၈၈၄ ခုနှစ်တွင် ဂျာမနီနိုင်ငံ ဘာလင်မြို့၌ နိုင်ငံပေါင်းစုံ စည်းဝေးပြီးလျှင် အာဖရိကနယ်များကို သိမ်းယူပြီးနောက် ပိုင်ပြားငြိမ်ဝပ်စွာ အုပ်ချုပ်နိုင်မှသာ အပိုင်ယူစတမ်းဟု ဆုံးဖြတ်ကြလေသည်။ ထိုအခါမှစ၍ ဥရောပတိုက်သားတို့သည် အာဖရိကတိုက်နယ်များသို့ သွားရောက်ကာ အပူတပြင်း နယ်ချဲ့သိမ်းယူကြသည်။ ၁၉ ရာစုနှစ် ကုန်သောအခါ အာဖရိကတိုက် တတိုက်လုံးသည် ခွဲဝေပြီးဖြစ်လေသည်။

ဗြိတ်သျှတို့သည် အီဂျစ်၊ ဆူဒန်၊ ဗြိတိသျှဆိုမာလီလန်၊ ဗြိတိသျှအရှေ့အာဖရိက၊ ရိုဒီးရှားယား၊ တောင်အာဖရိကပြည်ထောင်စု၊ နိုင်ဂျီးရီးယား၊ ဂိုးလကို့၊ ဆီယားရားလေအွန်းနယ်များကို ရကြသည်။ ပြင်သစ်တို့သည် အယ်လဂျီးရီးယား၊ တျူနစ်ရှီးယား၊ မိုရော့ကို၊ ဆင်နီဂေါ၊ ဆဟာရ၊ ပြင်သစ်ဆူဒန်၊ ကွန်ဂိုမြောက်ပိုင်းနှင့် မက်ဒါဂက်စကာကျွန်းတို့ကို ရကြသည်။ ပေါ်တူဂီတို့ကမူ အန်ဂိုလာနှင့် ပေါ်တူဂီအရှေ့အာဖရိကနယ်များကို ရကြ၏။ ဗဲလဂျီယမ်နိုင်ငံက ကွန်ဂိုနယ်ကြီးကိုင်၊ ဂျာမနီနိုင်ငံက ကမ္မရွန်း၊ ဂျာမန်အနောက်တောင်အာဖရိက နယ်များကိုင်၊ ဣတလီနိုင်ငံက ထရစ်ပိုလီ၊ အီရစ်ထရီးယားနှင့် ဣတာလျံဆိုမာလီလန်နယ်များကိုင်၊ စပိန်တို့က ယခု စပင်းနစ်ဆဟာရခေါ်သည့် ရီအိုဒါအိုရိုနှင့် စပင်းနစ်ဂင်းနီနယ်ကိုင် ရရှိကြသည်။ ယင်းသို့ဖြင့် နိုင်ငံရင်းသား ကပ္ပလီလူမဲများသည် အုပ်ချုပ်သူဥရောပတိုက်သား လူဖြူများ၏ အဖိနှိပ်ခံ အခိုင်းခံလူတန်းစား ဖြစ်လာကြသည်။ အိန္ဒိယခေါင်းဆောင်ကြီး မဟတ္တမ ဂန္ဒီကပင် လူမဲများအား တန်းတူအခွင့်အရေးပေးရန် တောင်းဆိုပေးခဲ့ဘူးလေသည်။ သို့ရာတွင် မရချေ။ လူဖြူလူမဲပြဿနာကား အမြဲပေါ်လျက်ရှိသည်။

အာဖရိကတိုက်ကို ခွဲဝေယူစဉ်က လွတ်လပ်စွာကျန်ခဲ့သော အီသီအိုးပီးယားနိုင်ငံကို ၁၉၃၆ ခုနှစ်တွင် ဣတလီနိုင်ငံက ဝင်ရောက်သိမ်းယူကာ ဣတလီပိုင် ကိုလိုနီနယ်အဖြစ် ထားရှိပြန်သည်။ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ် နွေရာသီခန့်တွင် ဣတလီက အီဂျစ်နိုင်ငံအတွင်းသို့ ဝင်ရောက်တိုက်ခိုက်ခဲ့သည်။ သို့သော် ၁၉၄၁ ခုနှစ်စောစောပိုင်းကပင် ဗြိတိသျှတို့က ဣတာလျံလူမျိုးတို့အားတိုက်ထုတ်ပစ်နိုင်ခဲ့သဖြင့် အီသီအိုးပီးယားနိုင်ငံသည်ရင်း၊ အီဂျစ်နိုင်ငံသည်ရင်း ဣတာလျံ လက်အောက်မှ လွတ်မြောက်ခဲ့သည်။ ၁၉၄၁ ခုနှစ်တွင် ဂျာမန်တို့က အီဂျစ်နှင့် လစ်ဗျနိုင်ငံတို့ကို ဝင်ရောက်တိုက်ခိုက်ကြသည်။ ဂျာမန်စစ်သားများသည် ဆူးအက်တူးမြောင်းခန့်အထိ တိုက်ခိုက်လာနိုင်ခဲ့သည်။ သို့သော် ၁၉၄၂ ခုနှစ်အတွင်းတွင် ဗြိတိသျှတို့က ဂျာမန်စစ်သားများကို တိုက်ထုတ် ပစ်နိုင်ခဲ့ လေသည်။ ၁၉၄၂ ခုနှစ် နိုဝင်ဘာလတွင် အမေရိကန်စစ်တပ်များသည် မိုရော့ကိုနှင့် အယ်လဂျီးရီးယားသို့ ဆိုက်ရောက်လာကြလေသည်။ မဟာမိတ်တပ်များ တိုက်ခိုက်မှုကြောင့် ဝင်ရိုးတန်းနိုင်ငံတပ်များသည် ၁၉၄၃ ခုနှစ် မေလ ၁၂ ရက်နေ့တွင် အာဖရိကတိုက်၌ လက်နက်ချကြလေသည်။ (ကမ္ဘာစစ်၊ ဒုတိယ — လည်းရှု။) မြေထဲပင်လယ်ကမ်းခြေ တလျှောက်ရှိ အာဖရိကတိုက်ရောက် မဟာမိတ်တပ်များသည် ဥရောပတိုက် တောင်ဖက်ပိုင်းသို့လည်း လိုအပ်သလို ဝင်ရောက်တိုက်ခိုက်နိုင်ခဲ့ကြသဖြင့် ထိုဒေသများသည် ဒုတိယကမ္ဘာစစ်အတွင်းတွင် အရေးပါသော စစ်စခန်းများ ဖြစ်ခဲ့ကြသည်။

ဒုတိယကမ္ဘာစစ်အပြီးတွင် များစွာသော ဂျာမန်ပိုင်အာဖရိကနယ်များသည်ရင်း၊ ဣတာလျံဆိုမာလီလန်နယ်သည်ရင်း ထိန်းသိမ်းရေးအဖွဲ့ လက်အောက်ခံနယ်များ ဖြစ်လာလေသည်။ လစ်ဗျနှင့် အီသီအိုးပီးယားတို့သည် လွတ်လပ်သည့်နိုင်ငံများ ဖြစ်လာကြလေသည်။ အီရစ်ထရီးယားသည်လည်း အီသီအိုးပီးယားနိုင်ငံ၏ တစိတ်တဒေသ ဖြစ်လာလေသည်။

ဥရောပတိုက်ရှိ နိုင်ငံများက အာဖရိကတိုက်အတွင်း၌ စီးပွားရေးတိုးတက်လာစေရန် ငွေအမြောက်အမြားကိုမြှုပ်နှံခဲ့ကြလေသည်။ ထိုသို့ ငွေအမြောက်အမြား မြှုပ်နှံခဲ့ကြသော်လည်း အာဖရိကတိုက်သားတို့၏ လူမှုရေးနှင့် နိုင်ငံရေး တိုးတက်မှုအတွက်ကိုမူ လုံးဝမရည်ရွယ်ခဲ့ကြချေ။ ဒုတိယကမ္ဘာစစ်အပြီးတွင်ကား အာဖရိကတိုက်သားတို့၏ လူနေမှုအဆင့်အတန်း မြင့်မားလာရေးအတွက် များစွာပြုလုပ်ခဲ့ကြလေသည်။

အာဖရိကတိုက်အတွင်း၌ လူမျိုးခွဲခြားမှုသည် ရှေးအခါကပင် ရှိခဲ့လေသည်။ လူဖြူနှင့် နီးဂရိုး(ကပ္ပလီ) လူမဲများသည် ကိုယ်စီကိုယ်ငှ အလုပ်လုပ်ကြ၍ တသီးတခြားစီသာ



နိုးကြားတိုးတက်လာသော ဂါနာအမျိုးသားတို့သည် ဤသို့ လွတ်လပ်ရေးအထိမ်းအမှတ်ပွဲကို ဆင်နွှဲခဲ့ကြသည်။

နေခဲ့ကြလေသည်။ သို့သော် ထိုပြဿနာ ပပျောက်စေနိုင်သောနည်းများကို ဒေသအမြောက်အမြားတွင် ပြုလုပ်လျက်ရှိကြလေသည်။ ထင်ရှားစေရန် သာဓကအဖြစ် ဖော်ပြရလျှင် မိုဇမ်ဗစ်နယ်တွင် လူဖြူများအတွက် လယ်သစ်ယာသစ်များ ပေးထားသကဲ့သို့ နီဂရိုးလူမျိုးများအတွက်ပါ ပေးထားလေသည်။ ပြင်သစ် အနောက်အာဖရိကရှိ လူဖြူနှင့် နီဂရိုးများသည် ကျောင်းများကို အတူတကွတက်လျက်ရှိကြလေသည်။

သတ္တုတွင်း အသစ်များကို နောက်ထပ် တူးဖော်ပေးခြင်းနှင့် လမ်းပန်းဆက်သွယ်ရေးများကို တိုးတက်ကောင်းမွန်လာအောင် ဖန်တီးပေးခြင်းများ ပြုလုပ်ပေးသည်နှင့်အမျှ အာဖရိကတိုက်ရှိ စီးပွားရေးအခြေအနေသည်လည်း တိုးတက်ကောင်းမွန်လာလေသည်။ ထိုသို့ ဖြစ်လာစေရန် စက်ကရိယာများကို ပို၍ အသုံးပြုလာကြလေသည်။ လျှပ်စစ်ဓာတ်အားကိုလည်း ပို၍ထုတ်လုပ်လာကြသည်။ အာဖရိကတိုက်အတွင်း၌ လယ်ယာစိုက်ပျိုးခြင်းနှင့် သက်ဆိုင်သော စက်ကရိယာများကို အမြောက်အမြား ပြုလုပ်လာကြသည်။ စက်များကို မပြုလုပ်နိုင်သေးသော ဒေသများတွင်လည်း ကောက်ပဲသီးနှံများ ပိုမိုထွက်ရှိလာစေရန် နိုင်ငံခြားမှ စက်ကရိယာများကို မှာယူတင်သွင်းယူကြသည်။

အာဖရိကတိုက်ရှိ လူမျိုးများသည် အမျိုးသားစိတ်ဓာတ် တက်ကြွလျက်ရှိကြလေသည်။ ထို့ကြောင့် လူမျိုးခြားလက်အောက်ခံ ကိုလိုနီအမြောက်အမြားသည် လွတ်လပ်ရေးအတွက် ကြိုးပမ်းကြရာ အာဖရိကတိုက်တွင် ယခင်က လွတ်လပ်သောနိုင်ငံဟူ၍ အကျယ်အဝန်း အားလုံး၏ ခုနစ်ပုံတပုံသာ ရှိခဲ့သော်လည်း ယခုအခါ တိုင်းရင်းသားတို့ နိုးကြားလာမှုကြောင့် နိုင်ငံခြားအအုပ်အစိုးခံ မလွတ်လပ်သေးသောနိုင်ငံဟူ၍ ခုနစ်ပုံတပုံခန့်သာ ကျန်တော့သည်။ ခုနစ်ပုံခြောက်ပုံသော နိုင်ငံများသည် ကိုယ်ပိုင်အုပ်ချုပ်ရေးကို ရရှိကုန်ပြီးဖြစ်သည်။

ပြင်သစ်တို့လက်အောက်မှ ၁၉၅၆ ခုနှစ်တွင် မိုရော့ကိုနိုင်ငံသည်၎င်း၊ ၁၉၅၈ ခုနှစ်တွင် ဂင်းနီနယ်သည်၎င်း၊ ၁၉၆၀ ပြည့်နှစ်တွင် မက်ဒါဂက်စကာကျွန်း၊ ပြင်သစ်အနောက်အာဖရိကနှင့် အီကွေတိုးရီးယဲ အာဖရိကတို့သည်၎င်း

လွတ်လပ်ရေးရခဲ့သည်။ မက်ဒါဂက်စကာကျွန်းသည် မာလာဂါဆီ သမတနိုင်ငံဟူ၍ ဖြစ်လာသည်။ ၁၉၆၂ ခုနှစ်တွင် အယ်လဂျီးရီးယားသည် လွတ်လပ်ရေးရခဲ့သည်။ ပြင်သစ်အနောက်အာဖရိကသည် မော်ရီတေးနီးယား၊ မာလီ၊ ဆင်နီဂေါ၊ အိုင်ဗရီကို့၊ အထက်ဗော်လတာ၊ နိုင်ဂျာ၊ ဒါဟိုမီ၊ တိုဂိုစသော နိုင်ငံများ ဖြစ်လာ၍ ပြင်သစ်အီကွေတိုရီးယဲ အာဖရိကသည် ချဒ်နိုင်ငံ၊ အလယ်ပိုင်း အာဖရိကသမတနိုင်ငံ၊ ကွန်ဂိုသမတနိုင်ငံ၊ ဂါဗွန်နိုင်ငံဟူ၍ အသီးသီးဖြစ်လာသည်။

ဗြိတိသျှတို့လက်အောက်မှလည်း ၁၉၂၂ ခုနှစ်တွင် အီဂျစ်နိုင်ငံသည်၎င်း၊ ၁၉၃၁ ခုနှစ်တွင် တောင်အာဖရိကပြည်ထောင်စုနိုင်ငံသည်၎င်း၊ ၁၉၅၆ ခုနှစ်တွင် ဆူဒန်ပြည်သည်၎င်း၊ ၁၉၆၀ ပြည့်နှစ်တွင် ဂိုးလက်ကို့၊ ဗြိတိသျှဆိုမာလီလန်နှင့် နိုင်ဂျီးရီးယားနယ်တို့သည်၎င်း၊ ၁၉၆၁ ခုနှစ်တွင် ဆီယာရာလေအွန်းနယ်သည်၎င်း၊ ၁၉၆၂ ခုနှစ်တွင် တန်ဂန်ယီးကနှင့် ယူဂန်းဒါးတို့သည်၎င်း၊ ၁၉၆၃ ခုနှစ်တွင် ကင်ညာနှင့် ဇန်ဇီဗာတို့သည်၎င်း၊ ၁၉၆၄ ခုနှစ်တွင် မြောက်ရိုဒီးဇီးယားနှင့် နီယာစာလန်နယ်တို့သည်၎င်း လွတ်လပ်ရေးရကြသည်။ ၁၉၆၅ ခုနှစ်တွင် တောင်ရိုဒီးဇီးယားနယ်က ရိုဒီးဇီးယားနိုင်ငံဟု တဖက်သတ် လွတ်လပ်ရေးကြေညာခဲ့၍၊ ၁၉၆၅ ခုနှစ်မှာပင် ဂမ္ဘီယာနယ်သည်၎င်း၊ ၁၉၆၆ ခုနှစ်တွင် ဗက်ချူအာနာလန်နယ် နှင့် ဗာဆူးတိုလန်နယ်တို့သည်၎င်း လွတ်လပ်လာခဲ့ပြီးလျှင် ၁၉၆၈ ခုနှစ်တွင် ဆွာဇီလန်နယ်သည်၎င်း၊ မောရစ်ရှပ်ကျွန်းသည်၎င်း လွတ်လပ်လာခဲ့လေသည်။ ဂိုးလက်ကိုနယ်ကို ဂါနာနိုင်ငံဟု ပြောင်းလဲမှည့်ခေါ်ထားသည်။ ထို့ပြင် ဗက်ချူအာနာလန်ကို ဗော့ဆွာနာဟူ၍၎င်း၊ ဗာဆူးတိုလန်ကို လီဆိုသိုဟူ၍၎င်း ပြောင်းလဲမှည့်ခေါ်ထား၏။ မြောက်ရိုဒီးဇီးယားကို ဇမ်ဗီယာသမတနိုင်ငံဟု၎င်း၊ နီယာစာလန်နယ်ကို မာလာဝီနိုင်ငံဟု၎င်း ပြောင်းလဲမှည့်ခေါ်ထားသည်။ တန်ဂန်ယီးကနှင့် ဇန်ဇီဗာ နှစ်နိုင်ငံကလည်း ၁၉၆၄ ခုနှစ်တွင်ပေါင်းကာ တန်ဂန်ယီးကဇန်ဇီဗာသမတနိုင်ငံဟူသော အမည်ဖြင့် ထူထောင်သည်။ ထိုနှစ် အောက်တိုဘာလ ၃၀ ရက်နေ့မှစ၍ယင်းနိုင်ငံကို တန်ဇာနီယာနိုင်ငံဟု ခေါ်တွင်လာခဲ့သည်။

ဣတလီအစိုးရလက်အောက်မှ ၁၉၅၁ ခုနှစ်တွင် လစ်ဗျားနိုင်ငံသည်၎င်း၊ဒုတိယကမ္ဘာစစ်အပြီးတွင် အီရစ်ထရီးယားပြည်သည်၎င်း၊ ၁၉၆၀ ပြည့်နှစ်တွင် ဣတာလျံဆိုမာလီလန်နယ်သည်၎င်း လွတ်လပ်ရေးရခဲ့သည်။ အီရစ်ထရီးယားသည် အီသီယိုပီးယားနိုင်ငံထဲသို့ရောက်ရှိသွား၍ ဣတာလျံဆိုမာလီလန်နယ်သည် လွတ်လပ်သွားပြီဖြစ်သော ဗြိတိသျှဆိုမာလီလန်နယ်နှင့် ပေါင်း၍ ဆိုမာလီယာ သမတနိုင်ငံအဖြစ် တည်ထောင်ခဲ့သည်။

ဗဲလဂျီယန်အစိုးရထံမှ ၁၉၆၀ ပြည့်နှစ်တွင် ကွန်ဂိုနိုင်ငံသည်၎င်း၊ ၁၉၆၂ ခုနှစ်တွင် ရွာအန်းဒါးနယ်နှင့် အူရွန်ဒီနယ်တို့သည်၎င်း လွတ်လပ်ရေးရခဲ့သည်။ကွန်ဂိုနိုင်ငံသည် ကွန်ဂိုဒီမိုကရက်တစ် သမတနိုင်ငံဟု မှည့်ခေါ်ခဲ့ရာမှ ၁၉၇၁ ခုနှစ်တွင် ဇိုင်ယာသမတနိုင်ငံဟု ပြောင်းလဲ မှည့်ခေါ်ခဲ့၏။ ရွာအန်းဒါးသည် အာဝမ်းဒါးသမတနိုင်ငံဟူ၍၎င်း၊ အူရွန်ဒီသည် ဗူရွန်ဒီနိုင်ငံဟူ၍၎င်း ခေါ်ဝေါ်လာခဲ့သည်။ စပိန်ပိုင်မိုရော့ကိုနယ်ကလေးသည် စပိန်တို့လက်အောက်မှ လွတ်မြောက် လာခဲ့ပြီးနောက် ပြင်သစ်ပိုင် မိုရော့ကို နယ်နှင့်ပေါင်းကာ မိုရော့ကိုနိုင်ငံ ထူထောင်ကြသည်။ စပိန်ပိုင်ဂင်းနီနယ်သည်လည်း ၁၉၆၈ ခုနှစ်တွင် လွတ်လပ်ရေးရခဲ့သည်။ ပြင်သစ်တို့ထိန်းသိမ်းစောင့်ရှောက်ခဲ့ရသောကမ္မရွန်းနယ်သည်လည်း ၁၉၆၀ ပြည့်နှစ်တွင် လွတ်လပ်သော နိုင်ငံဖြစ်လာခဲ့လေသည်။

၁၉၇၄ ခုနှစ်တွင် ပေါ်တူဂီဂင်းနီနယ်သည် လွတ်မြောက်ခဲ့၍ ဂင်းနီ–ဗစ်ဆောသမတနိုင်ငံဖြစ်လာခဲ့လေသည်။

**အာမခံလုပ်ငန်း**။ ။တွေးတောကြောက်လန့်နေကြရမည်ဟု မဆိုသော်လည်း လူ့ဘဝ၌ ဘေးဥပဒ် အန္တရာယ်အမျိုးပေါင်းများစွာ ရှိသည်ကိုသတိပြုသင့်၏။ လူသည် အချိန်အခါမရွေး သေတတ်၏။ ထိခိုက် ရှနာတတ်၏။ နာမကျန်းဖြစ်တတ်သည်။ ထိုအတူ လူတို့၏ ပစ္စည်းများ သည်လည်း အချိန်အခါမရွေး ရန်သူမျိုးငါးပါး အပျက်အဆီးကြောင့်ဖြစ်စေ၊ ကံမကောင်း အကြောင်းမလှ၍ဖြစ်စေ ပျက်စီးဆုံးရှုံးတတ်သည်။ ထိုကဲ့သို့သော ဘေးအန္တရာယ်နှင့် အပျက်အစီးများမှာ လူတိုင်းလူတိုင်း အခါမရွေး တွေ့ကြုံရသော ဖြစ်စဉ်ပင်ဖြစ်သည်။

အိမ်ထောင်စုတခုလုံးအတွက် တာဝန်ကို ထမ်းဆောင်သူတယောက်သည် ငွေကြေး စုဆောင်းပြီးမရှိမီ သေဆုံးသွားလျှင် ကျန်ရစ်သောအိမ်ထောင်မှာ အတိဒုက္ခရောက်ကြသည်သာများ၏။ ထိုမှတပါး ပစ္စည်းဥစ္စာ မည်မျှပင်ချမ်းသာကြွယ်ဝနေသူဖြစ်စေကာမူ ရန်သူမျိုး ငါးပါးတွင်တပါးပါးနှင့် ကြုံတွေ့ရလျှင် အနှစ်နှစ်အလလ စုဆောင်းခဲ့သမျှသည် နာရီပိုင်းရက်ပိုင်းအတွင်း အားလုံးမကုန်နိုင်ဟူ၍ မည်သူသည် ပြောနိုင်ပါမည်နည်း၊ အဖိုး များစွာထိုက်တန်သော အဆောက်အအုံကြီးများ ပင်လျှင် နာရီအနည်းငယ်အတွင်း မီးစာဖြစ်သွားသည်ကို၎င်း၊အဖိုးတန်ကုန်ပစ္စည်းများတင်ဆောင်သည့် သင်္ဘောကြီး များသည် နစ်မြုပ် ပျက်စီးရသည်ကို၎င်း တွေ့ကြုံဘူးကြသည်သာဖြစ်၏။ထိုကဲ့သို့သောအပျက်အစီးများနှင့်ကြုံတွေ့ရသောအခါတွင် ကြိုတင်တွေးတော၍ မထားခဲ့သော ဒုက္ခအပေါင်းသည် ဝင်ရောက်လာတတ်လေသည်။

ရှေးအခါက ကုန်သည်များသည် မိမိတို့၏လုပ်ငန်းတွင် တန်ဖိုးအများဆုံးဖြစ်သော ကုန်သင်္ဘောကြီးများပင်လယ်တွင် နစ်မြုပ်ပျက်စီးခြင်းဘေးနှင့် ကြုံတွေ့ရသောအခါ နေ့ချင်းညချင်းလူဆင်းရဲအဖြစ်သို့ ရောက်သွား တတ်ကြလေသည်။ ထိုသို့ဖြစ်ရခြင်းကို ကာကွယ်နိုင်သော နည်းကောင်းလမ်းကောင်းများကို ရှာဖွေကြသော အခါတွင် တဦးတယောက်တည်း မတတ်နိုင်စေကာမူ အများနှင့် ဆောင်ရွက်ရသော် ဖြစ်နိုင်သည်ကို တွေ့ကြ လေသည်။ ထိုနည်းကောင်းမှာ အာမခံထားသော နည်းဖြစ်၍ ယခင်ကြုံတွေ့ခဲ့ရသော အပျက်အစီးတို့၏ ဒဏ်ချက်များကို သိသိသာသာ လျော့ပါးသွားစေလေသည်။ ထိုအခါမှစ၍ မမြော်လင့်ပဲ ကြုံတွေ့ရသော အပျက်အစီး အမျိုးမျိုးကြောင့်ဆင်းရဲဒုက္ခရောက်ရခြင်းများကိုကာကွယ်ရန် အာမခံထားသော စံနစ်သည် ယခုခေတ် စံနစ်များကဲ့သို့ မဟုတ်သေးပဲ သဘောမျှသာဖြစ်ခဲ့၏။ ရှေးအကျဆုံး အသက်အာမခံတခုကို ၁၅၈၃ ခုနှစ်တွင်တွေ့ခဲ့ရ၍ ၁၆၀၁ ခုနှစ်တွင်မှ အင်္ဂလန်ပြည်တွင် အာမခံနှင့်ဆိုင်သော ဥပဒေရပ်များကို စတင်ထုတ်ပြန်ခဲ့သည်။

၁၈၇၁ ခုနှစ်အထိ အာမခံစံနစ်တွင် ရေကြောင်းအာမခံ၊ အသက်အာမခံ နှင့် မီးအာမခံဟူ၍ သုံးမျိုးသာ ရှိခဲ့သည်။ ကမ္ဘာပေါ်တွင် ရှေးအကျဆုံးနှင့် အကျော်ကြားဆုံးသော အာမခံကုမ္ပဏီတခုမှာ လန်ဒန်မြို့ရှိ လွိုက်ကုမ္ပဏီဖြစ်ကောင်းဖြစ်ပေမည်။

အများဆုံးအသုံးပြုကြသော အာမခံမှာ အသက်အာမခံဖြစ်၏။ အသက်အာမခံထားသောအခါ လူတယောက်က သူကိုယ်လွန်သောအခါ ကျန်ရစ်သူသားမယားအတွက် အတိဒုက္ခမရောက်စေရန် ထားခဲ့လိုသောငွေကို သတ်မှတ်၍ အချိုးကျနှစ်စဉ်ကြေးကို ပေးသွင်းသွားရသည်။ထိုအာမခံထားသူ သေဆုံးသောအခါတွင် အာမခံ ကုမ္ပဏီက ကျန်ရစ်သော သားမယားအား သတ်မှတ်ထားသော ငွေကိုထုတ်ပေးရ၏။ ထိုအာမခံစံနစ်အပြင် အသက် အာမခံငွေစုစံနစ်တမျိုးကိုလည်း အသုံးများကြသည်။ ထိုစံနစ်မှာ ရိုးရိုးအသက်အာမခံကဲ့သို့ပင် သတ်မှတ်ထားသော ငွေအတွက် အချိုးကျနှစ်စဉ်ကြေးကို နှစ် အပိုင်းအခြား နှင့် သတ်မှတ်၍ ပေးသွင်းရ၏။ သတ်မှတ်ထားသော နှစ်မစေ့မီ ထိုသူသေဆုံးခဲ့လျှင် သတ်မှတ်သော ငွေကို ကုမ္ပဏီက ပေးလျော်ရသည်။ အကယ်၍ သတ်မှတ်ထားသော နှစ်အပိုင်းအခြားကုန်ဆုံးသွား၍ သတ်မှတ်ထားသော ငွေကိုလည်း အပြည့်ပေးသွင်းပြီးလျှင် ထိုငွေကို အာမခံထားသူကိုယ်တိုင် ပြန်လည် ထုတ်ယူနိုင်ခွင့်ရှိသည်။ ပမာအားဖြင့် လူတယောက်သည် ငွေကျပ် ၂,၀၀၀ ကိုသတ်မှတ်၍ အနှစ် ၂၀ အာမခံထားက နှစ်စဉ် ကျပ် ၁၀၀ ကျပေးသွင်းသွား၏။ အာမခံစာချုပ်အတည်ဖြစ်ပြီး၍ သတ်မှတ်သောနှစ်မစေ့မီ ထိုသူသေဆုံးပါက ကျန်ရစ်သော သားမယားအား ကုမ္ပဏီက ငွေကျပ် ၂,၀၀၀ အပြည့်ပေးလျော်ရသည်။ အကယ်၍ ထိုသူမသေဆုံးပဲ အနှစ် ၂၀ ပြည့်အောင် နှစ်စဉ်ကြေးပေးသွင်းပြီးဖြစ်လျှင် ငွေကျပ်၂,၀၀၀ ကို ထိုသူအားပင်ပြန်၍ထုတ်ပေးသည်။

မီးအာမခံ၊ ရေကြောင်း အာမခံတို့မှာလည်း ထိုစံနစ်များကဲ့သို့ပင် နှစ်စဉ်ကြေးပေးသွင်းကာ တစုံတရာ ဆုံးရှုံးနစ်နာမှုရှိလျှင် အာမခံကုမ္ပဏီကပေးလျော်ရသည်။

၁၈၇၁ ခုနှစ်နောက်ပိုင်းတွင် စက်မှုလက်မှုလုပ်ငန်းများ တိုးတက်ဖွံ့ဖြိုးလာသကဲ့သို့ပင် အာမခံ လုပ်ငန်းသည်လည်း တိုးတက်ဖွံ့ဖြိုးခဲ့သည်။ ယခင်က ရေကြောင်းအာမခံ၊ မီးအာမခံနှင့် အသက်အာမခံဟူ၍ သုံးမျိုးသာရှိခဲ့သော်လည်း ထိုခေတ်မှစ၍ လူ တို့တွင် တွေ့ကြုံရတတ်သော ပျက်စီးဆုံးရှုံး နစ်နာမှု ဟူသမျှကို အာမခံ ထားနိုင်ကြလေသည်။ မတော်တဆ ထိခိုက်နာကျင်မှု၊ခြေလက်အင်္ဂါချွတ်ယွင်းမှုမှ အစ မော်တော်ကားများပျက်စီးမှု၊မော်တော်ကားအတိုက်ခံရမှုတို့ကိုပါအာမခံထားနိုင်၏။ (ဟော်လီဝုဒ်ရုပ်ရှင်မင်းသမီးများသည် မိမိတို့အသံကိုပင်အာမခံထားကြသည်။)

ဂရိတ်ဗြိတိန်နိုင်ငံတွင်အသက် ၁၄ နှစ်မှ ၆၅နှစ်အတွင်းရှိအလုပ်လက်ကိုင်ရှိ၍ တနှစ်လျှင်ဝင်ငွေ အနည်းဆုံး စတာလင်ပေါင် ၂၅၀ ထက်မနည်း ရရှိသူတို့သည် အမျိုးသားကျန်းမာရေး အာမခံအက်ဥပဒေအရ အာမခံ ထားကြရလေသည်။ ထိုအာမခံထားရာ၌ ပေးသွင်းရန်လိုအပ်သော ငွေကိုအစိုးရ၊ အလုပ်ရှင်နှင့် ကာယကံရှင်သုံးဦးကပူးပေါင်းတာဝန်ယူ၍ ပေးသွင်းရ၏။ အသက် ၁၄ နှစ်အထက်ရှိ လူတို့သည်လည်း အလုပ်လက်မဲ့ အာမခံကိုထားကြ၍အလုပ်ရှိစဉ် ကုမ္ပဏီမှ သတ်မှတ်ထားသော ငွေရင်းကို ပေးသွင်းကြပြီးလျှင် အလုပ်လက်မဲ့ ဖြစ်သည့်အခါများတွင် ထိုသို့ပေးသွင်းထားသောငွေမှ အပတ်စဉ် အရစ်ကျ ရရှိခံစားကြရ၏။ ဤသို့ဖြင့် အလုပ်လက်မဲ့ပြဿနာမှာ ဖြေရှင်းပြီးဖြစ်ရလေသည်။

သားသမီးများ၏ ပညာသင်ကြားရေးအတွက် စိတ်ချရစေရန် ငွေစုသည့်သဘောနှင့်လည်း အာမခံ ပြုလုပ်နိုင်၏။ ထိုစံနစ်မှာ သားသမီးများငယ်စဉ်မှစ၍ အာမခံငွေကိုပေးသွင်းပြီးလျှင် ငွေကုန်ကြေးကျ အများဆုံးပညာကို သင်ယူရမည့်အချိန်တွင် ထုတ်ယူ သုံးစွဲရန်ဖြစ်၏။ မြန်မာနိုင်ငံအဖို့ဆိုလျှင် သားသမီးများကို တက္ကသိုလ်သို့ ပို့ချိန်မှာ ငွေကုန်ကြေးကျအများဆုံးဖြစ်ပေသည်။

ထိုကဲ့သို့သော အချိန်မျိုးတွင် ငွေကြေး အခက်အခဲနှင့် မကြုံရလေအောင် ကြိုတင်စီမံထားသော စံနစ်ဖြစ်လေသည်။

ကြွေးမြီများကို အာမခံသော စံနစ်လည်းရှိ၏။ ပမာအားဖြင့် လူတယောက်သည် အိမ်တဆောင်ကို အကြွေးဝယ်ယူထား၍ ထိုအကြွေးမပြေမီ သေဆုံးသွားရာ ကျန်ရစ်သော သားမယားများက ဆက်လက် ပေးဆောင်နိုင်သောအခြေအနေမရှိလျှင် အိမ်မဲ့ယာမဲ့ ဖြစ်သွားပေမည်။ သို့သော် အထူးအာမခံစံနစ်မျိုးအရ ထိုသူသေဆုံးသည်နှင့်တပြိုင်နက် ကျန်အကြွေးအားလုံးကိုလျှော်ပစ်ရသည်။

အသက်ကိုဖြစ်စေ၊ ပစ္စည်းကိုဖြစ်စေ အာမခံထားရာ၌ အာမခံကုမ္ပဏီက လူဖြစ်လျှင် အသက်အရွယ်ကျန်းမာရေး အခြေအနေတို့ကိုစစ်ဆေး၍ အိမ်ယာပစ္စည်းတခုခုဖြစ်လျှင် ထိုပစ္စည်း၏ ခိုင်ခံ့မှု လုံခြုံမှုအခြေအနေကို စစ်ဆေးပြီးမှ သင့်လျော်သောနှုန်းစဉ်ကြေးကို သတ်မှတ်ကောက်ခံသည်။ ပမာအားဖြင့်မီးအာမခံပြုလုပ်သောအိမ်တဆောင်အတွက် နှုန်းစဉ်ကြေးကို သတ်မှတ်ရာ၌ အဆောက်အအုံ၏ ခိုင်ခံ့မှုအပေါ်တွင် အခြေပြုရသည်။ သံတိုင်၊ သံဘောင်၊ အုတ်၊ ကျောက်စသည့် မီးမစွဲနိုင်သောပစ္စည်းများဖြင့် ဆောက်သောအိမ်သည် သစ်ဝါးတို့ဖြင့် ဆောက်သော အိမ်ထက် အာမခံနှုန်းလျှော့၍ပေးရ၏။ ဤသို့ အာမခံနှုန်းထားနှင့်ဆိုင်သောအချက်အလက်များကို အာမခံဆိုင်ရာ ဂျေရဂျူကြီးများသည် နှစ်ပေါင်းများစွာ လေ့လာတွက်ချက်၍ ပျမ်းမျှနှုန်းများကို သတ်မှတ်ထားကြလေသည်။

**အာမာဒီလိုကောင်။** ။အာမာဒီလိုကောင်အမျိုးမျိုးရှိ၍ ယင်းတို့ကို အမေရိကတိုက် အလယ်ပိုင်းနှင့် တောင်အမေရိကတိုက်ဘို့တွင် တွေ့နိုင်လေသည်။ ယင်းဘို့သည် နို့တိုက်သတ္တဝါများဖြစ်ကြပြီးလျှင်အရိုးကဲ့သို့မာကျောသောအခွံများရှိသည့် တိရစ္ဆာန်ငယ်များဖြစ်ကြလေသည်။ အာမာဒီလိုကောင်များသည် သွေ့ခြောက်သောနေရာများတွင် လိုဏ်ခေါင်းများတူး၍ နေထိုင်ကြသည်။ အထူးသဖြင့် ညဥ့်ဖက်တွင်ထွက်၍ အစာရှာဖွေလေ့ရှိကြသည်။ ယင်းတို့သည် များသောအားဖြင့် ပိုးကောင်၊ တီကောင်၊ပင့်ကူ များကို စားလေ့ရှိကြသည်။ တခါတရံတွင် အသားပုပ် များကို စားလေ့ရှိကြသည်။ သစ်မြစ်နှင့် သစ်သီးများကိုလည်း စားတတ်ကြသေးသည်။ အာမာဒီလိုကောင်၏ကျောပြင်တလွှားနှင့် ဘေးနှစ်ဖက်တို့တွင် ဦးချိုကဲ့သို့ မာကျောတောင့်တင်းသောအခွံပြားများသည် တခုနှင့်တခုဆက်စပ်လျက်ရှိ၍ အလယ်ခေတ်က စစ်မှုထမ်းများ ဝတ်ဆင်လေ့ရှိသော သံချပ်အင်္ကျီနှင့်တူလေသည်။

အာမာဒီလိုကောင်၌ အလွန်တိုသည့်ခြေထောက်များရှိသော်လည်း တာတိုအတွက် လျင်မြန်စွာ ပြေးနိုင်သည်။ ထို့ပြင် ခြေထောက်များတွင် သန်မာသော ခြေသည်းလက်သည်းများ ရှိသဖြင့် လိုဏ်ခေါင်းတူး၍နေထိုင်နိုင်ကြလေသည်။ရှည်၍ချွန်သောနှုတ်သီးများလည်းရှိသည်။လျှာ



အမေရိကတိုက်အလယ်ပိုင်းနှင့် တောင်အမေရိကတိုက်တို့တွင်တွေ့ရသော အာမာဒီလိုကောင်

ကိုပိုးကောင်များ ဖမ်းရာတွင် အသုံးပြုကြသည်။ သွားများမှာ သေးငယ်ပြီးလျှင် ပါးစပ်၏နောက်ဖက်တွင်သာ ရှိကြသဖြင့်ထိုသွားများဖြင့်ရန်သူကိုမကာကွယ်နိုင်ကြချေ။ ချောင်းများကို ဖြတ်ကူးရာ၌တခါတရံချောင်း၏အောက်ခြေတွင် တွားရွသွားခြင်းဖြင့် ဖြတ်ကူးလေ့ရှိကြသည်။

အာမာဒီလိုကောင်ရှိအခွံများသည် ယင်း၏အကောင်းဆုံးသော အကာအကွယ်ဖြစ်သည်။ ထိုအခွံများသည် တခုနှင့်တခု ဆက်စပ်လျက်ရှိသဖြင့် အာမာဒီလိုကောင်သည် ယင်း၏ဦးခေါင်းနှင့် ခြေလက်များကိုကွေးပြီးလျှင် တောင့်တင်းမာကျောသော ဘောလုံးတလုံးကဲ့သို့ ပြုလုပ်နိုင်လေသည်။ ထိုအခါမျိုးတွင် အာမာဒီလိုကောင်ကို ကိုက်နိုင်သော၊ သို့မဟုတ် ခြေသည်းလက်သည်းများဖြင့် ကုပ်ခြစ်နိုင်သော သတ္တဝါဟူ၍ မရှိသလောက် ရှားပါး လေတော့သည်။ သို့သော် အာမာဒီလိုကောင်သည် ထိုကဲ့သို့ လုံး၍နေခဲလေသည်။ အခြားကာကွယ်နိုင်သည့် နည်းလမ်းမရှိသောအခါမျိုးတွင်မှသာ ထိုသို့ပြုလုပ်လေ့ရှိသည်။ အာမာဒီလိုကောင်သည် ရန်သူကိုမြင်သည်နှင့်တပြိုင်နက် ယင်း၏လိုဏ်ခေါင်းရှိရာသို့သာ အရောက်ပြေးသွားလေ့ ရှိသည်။ ယင်း၏လိုဏ်ခေါင်းနှင့် ဝေးကွာလွန်းလျှင် အချိန်ရှိကလိုဏ်ခေါင်းတူး၍ လွတ်အောင်ပုန်းအောင်းနေလေ့ရှိသည်။

အာမာဒီလိုကောင်၏အရောင်မှာ နီညိုရောင် ဖြစ်ပြီးလျှင် အပေါ်ဖက်တွင် အဝါရောင် သန်းလျက် အောက်ဖက်တွင်မူ အဝါဖျော့ရောင်သမ်းနေလေသည်။

အမေရိကန် ပြည်ထောင်စုတွင် အခွံပြားကိုးခုရှိသော အာမာဒီလိုကောင်တမျိုးတည်းသာရှိသည်။ ထိုအာမာဒီလိုကောင်မျိုးသည် အမြီး အပါအဝင် နှစ်ပေခန့် ရှိပြီးလျှင် အလေးချိန် ဆဲ့ငါးပေါင်အထိ လေးတတ်သည်။ အချို့အာမာဒီလိုအကောင်ကြီးမျိုးသည် ကိုယ်ထည်အရှည် သုံးပေနှင့် အမြီး၏အရှည်မှာလည်း ထိုမျှပင် ရှိတတ်လေသည်။ အခြား အာမာဒီလိုကောင်မျိုးများမှာမူ ခြောက်လက်မထက်ပို၍ရှည်ခဲလေသည်။

အမေရိကန်နိုင်ငံ၏ တောင်ဖက်ကျသော အခြားနိုင်ငံများ၌ တွေ့ရလေ့ရှိသော အခြားအာမာဒီလိုကောင်မျိုးများတွင် အခွံပြားကိုးပြားအစား သုံးပြား၊ သို့မဟုတ် ခြောက်ပြားပါရှိကြသည်။ အာမာဒီလိုကောင်၏အသားကို စားနိုင်လေသည်။ ယင်းတို့၏အခွံများကို တခါတရံတွင် တောင်းများအဖြစ် ရက်ပြီးလျှင် ရောင်းချလေ့ ရှိကြသည်။

အာမာဒီလိုကောင်သည် သွားမဲ့၊ သို့မဟုတ် သွားမရှိသလောက်နည်းပါးသောပရွက်စားကောင်ပါဝင်သောအုပ်စုတွင် ပါဝင်ပြီးလျှင် ယင်းကို ပါဏဗေဒအလိုအရ အီဒင်တေးတားဟု ခေါ်သည်။ ယင်းသည် ဒေဆီပိုဒီး မျိုးရင်းတွင် ပါဝင်လေသည်။ သမိုင်းမတင်နိုင်သေးသော ရှေးအခါက ဂလစ်တိုဒွန်ကဲ့သို့ အလွန် ကြီးမားသည့် အာမာဒီလိုကောင်များရှိခဲ့ဘူးသည်။ ထိုအာမာဒီလိုကောင်သည် ရှစ်ပေရှည်၍ ယင်း၌လွန်စွာ လေးလံသော စည်ပုံသဏ္ဍာန်အခွံရှိလေသည်။

**အာမီးနီးယန်းနိုင်ငံ။** ။ရှေးခေတ် အာမီးနီးယန်းနိုင်ငံ၏အရေးပါသော အစိတ်အပိုင်း အများဆုံး ပါဝင်သည့် အာမီးနီးယားနိုင်ငံသည် ဆိုဗီယက် ဆိုရှယ်လစ်ပြည်ထောင်စု သမတနိုင်ငံအတွင်း ပါဝင်သော သမတနိုင်ငံငယ်တခုဖြစ်သည်။ အာမီးနီးယန်း ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ ဟုခေါ်သည်။ကော့ကဆပ် တောင်တန်းဒေသ၏တောင်ပိုင်း၌ တည်ရှိ၍၊ အရှေ့ဖက်၌ အဇာဘိုင်ဂျန် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၊ အနောက်ဖက်၌တူရကီနိုင်ငံ၊ မြောက်ဖက်၌ ဂျော်ဂျီယန် ဆိုဗီယက်ဆိုရှယ်လစ် သမတနိုင်ငံ၊ တောင်ဖက်၌ နာခီချီဗန်း ဆိုဗီယက်ဆိုရှယ်လစ် သမတနိုင်ငံ(နောင်အခါ အဇာဘိုင်ဂျန်၏ တစိတ်တဒေသ ဖြစ်သွားသည်)နှင့်အီရန်(ပါးရှား)နိုင်ငံတို့ဖြင့် ဝန်းရံလျက်ရှိသည်။နိုင်ငံ၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၁,၄၉၀ ရှိ၍၁၉၇၀ ပြည့်နှစ် လူဦးရေသည် ၂,၄၉၃,၀၀၀ ဖြစ်သည်။

ပြည်နယ်၏ မြို့တော်သည် အီရီဗန်း (လူဦးရေ ၇၆၇,၀၀၀)ဖြစ်၍ ဇန်ဂါမြစ်ပေါ်၌ တည်ရှိသည်။အခြားအရေးပါသော မြို့ကြီးများမှာ လူဦးရေ ၁၆၄,၀၀၀ ယောက်ရှိသော လီနင်နကန် (ယခင်က အယ်လက်ဇန္ဒရိုပိုမြို့) နှင့် ကီရိုဗကန် (ယခင်က ကာရာကလစ်မြို့)တို့ဖြစ်ကြသည်။

အာမီးနီးယန်း ဆိုဗီယက်နိုင်ငံအတွင်း၌ အီရန်ကုန်းပြင်မြင့်မြောက်ဖက်စွန်း တစိတ်တဒေသအပြင် အားရတ်မြစ်နှင့် ယင်း၏လက်တက် ဇန်ဂါမြစ်တို့၏ အလယ်ပိုင်းမြစ်ဝှမ်းဒေသတို့ ပါဝင်သည်။ တောင်ထူထပ်၍ ပေ ၁၀,၀၀၀ ကျော်မြင့်သော တောင်ထွတ်များစွာရှိသည်အနက် အမြင့်ဆုံးဖြစ်သော အာလာဂူး (အာရာဂတ်) တောင်ထွတ်သည် ၁၃,၄၃၅ ပေကျော်မြင့်သည်။ ဗိုရိုတန်မြစ် စီးဆင်းရာ အရှေ့တောင်ပိုင်းဒေသသည် မြေမျက်နှာပြင် မညီမညာလှပေ။ အားရတ်မြစ် စီးဆင်းရာ အနောက်တောင်ပိုင်းဒေသသည် အတန်ငယ် ညီညာပြေပြစ်သော မြေမျက်နှာပြင်ရှိသည်။ အားရတ်မြစ်သည် တူရကီနှင့် အာမီးနီးယန်း နိုင်ငံတို့၏ နယ်နိမိတ်ကြောင်းလည်း ဖြစ်ပေသည်။ နိုင်ငံ၏ အလယ်ဗဟို၌ ရှိ၍၊ ပင်လယ်ရေပြင်မှ ပေ ၆,၃၄၀ အမြင့်၌ရှိသော ဆီဗန်း ရေအိုင်ကြီးသည် အလျားမိုင် ၄၀၊အနံ ၁၅ မိုင်ရှိ၍ ကမ္ဘာပေါ်၌ အကြီးဆုံးသော တောင်ပေါ်အိုင်ကြီးတခုပေတည်း။

မြေမျက်နှာပြင်၏ အနိမ့်အမြင့် ထွေပြားမှုကြောင့်



အာမီးနီးယန်းခရစ်ယန်ဂိုဏ်းချုပ် သီတင်းသုံးရာ
အက်ခမီအတ်ဇင် ကျောင်းတိုက်

ရာသီဥတုသည် နေရာဒေသအလိုက် အမျိုးမျိုးအထွေထွေ ဖြစ်သည်။ ထို့ပြင် ပင်လယ်ရေပြင်နှင့် ဝေးကွာ၍ တောင်ရိုး တောင်တန်း များကလည်း ပတ်လည် ဝန်းရံကာဆီးလုမတတ်ရှိနေသဖြင့် နိုင်ငံတခုလုံးကို ချုံ၍ ပြောရလျှင် များသောအားဖြင့် ခြောက်သွေ့၍ဆောင်းရာသီတို့သည် ရှည်လျားပြီးလျှင် နွေရာသီတို့သည် ပူပြင်းလေသည်။ နွေနှင့်ဆောင်း အပူချိန်သည် အလွန်ကွာခြားသည်။ မြစ်ဝှမ်းမြေနိမ့်ပိုင်းတို့၌ နှစ်စဉ်မိုးရေချိန်ရှစ်လက်မမှ ၁၂ လက်မခန့်သာ ရွာသွန်း၍ ကုန်းမြင့်ပိုင်းတို့၌မူ ၁၂ လက်မ မှ ၂၄ လက်မအထိ ရွာသွန်းသည်။

အာမီးနီးယန်းနိုင်ငံ၏ နယ်မြေ ဧရိယာထက်ဝက်ကျော်ခန့်သည် သစ်ပင်ကင်းသော အယ်လပိုင်းစာကျက်များဖြစ်၍ ၁၃ ရာခိုင်နှုန်းခန့်တွင်သာ သစ်တောများရှိသည်။ မိုးနည်းပါးသဖြင့် လယ်ယာစိုက်ပျိုးရေးကို ရေသွင်းစံနစ်ဖြင့် လုပ်ကိုင်ရသည်။ တောင်ပေါ်မြစ်ချောင်းများ၌ ရေသွယ်ယူရ၍ ယင်းတို့မှ လျှပ်စစ်ဓာတ်အားလည်း ထုတ်ယူရရှိသည်။ ဆီဗန်း ရေအိုင်ကြီးရှိ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးစက်ရုံကြီးသည် အချက်အချာ ဖြစ်၍၊ လယ်ယာများနှင့် မြို့ကြီးများသည် လျှပ်စစ်ဓာတ်အား ဖောဖောသီသီ ရရှိသည်။ အာမီးနီးယန်းနိုင်ငံ၏ စက်မှုလယ်ယာများမှ ထွက်ကုန်များမှာ ဂျုံ၊ ရိုင်းစပါးနှင့် အခြားကောက်စပါးအမျိုးမျိုးတို့အပြင် ချဉ်ကြား မုန်လာ၊ ဆေးရွက်၊ အာလူး စသည်တို့ ဖြစ်သည်။ ထိုနိုင်ငံသည် ဆိုဗီယက်ပြည်ထောင်စုတွင် ပိုးမွေးမြူရေး၌ ကြီးကျယ်သော နိုင်ငံတခု ဖြစ်သည့်ပြင်၊ ခြည်မျှင်ရှည်ဝါအထွက်ကောင်းသည်။ စပျစ်စိုက်ပျိုးရေးသည်လည်း ထိုနိုင်ငံတွင် အရေးပါသော လုပ်ငန်းတရပ်ဖြစ်သည်။ နွား၊ သိုး၊ ဆိတ်၊ ကြက်၊ ဝက်၊မြင်းမွေးမြူရေး လုပ်ငန်းကိုလည်း လုပ်ကိုင်ကြသည်။

ဆိုဗီယက်ပြည်ထောင်စုအတွင်း ပါဝင်လာစက အလွန်ခေတ်နောက်ကျ၍ မဖွံ့ဖြိုးမတိုးတက်သေးပဲ ရှိခဲ့လင့်ကစား၊ ယခုအခါ စက်မှုလုပ်ငန်းဖက်၌လည်း တိုးတက်ထွန်းကားလျက်ရှိသည်။ ဒုတိယကမ္ဘာစစ်အတွင်းက စက်မှုပစ္စည်း သစ် အမျိုးပေါင်း ၂၅၀ ကျော်ကို ထုတ်လုပ်နိုင်ခဲ့သည်။ အာမီးနီးယန်း နိုင်ငံမှ ရော်ဘာတု ပြုလုပ်ခြင်းကို စတွင်ခဲ့၍ အခြားထုတ်လုပ်ခဲ့သော ပစ္စည်းများမှာ စက်ပစ္စည်းများ၊ ဓိလတ်မြေ၊ သားရေ၊အထည်အလိပ်နှင့် အသားဗူးတို့ဖြစ်သည်။ အရာရတ်တောင်ထွတ်ရှိရာ ခရိုင်နယ်မှထွက်သည့် ရို့တျူဖာခေါ် ကျောက်သားတမျိုးသည်လုပ၍ ကိုင်တွယ်အသုံးပြုရန် လွယ်ကူပြီးလျှင် ကြာရှည်ခံသဖြင့် အဆောက်အအုံဆောက်လုပ်ရာ၌ အသုံးပြုရန်အလွန်ကောင်းသည်။ အာမီးနီးယန်းနိုင်ငံ၏ အခြားမြေထွက် သယံဇာတပစ္စည်းများမှာ ကြေးနီ၊ ခဲ၊သွပ်၊ငွေ၊ရွှေနှင့်မိုလစ်ဒီနမ်တို့ အပြင်၊ ကျောက်မီးသွေးနှင့် အခြားသတ္တုရိုင်းများဖြစ်ကြသည်။ ထုံးကျောက်၊ ကျောက်ပွနှင့် စကျင် ကျောက်တို့လည်း ပေါပေါများများ ထွက်လေသည်။

မြစ်ချောင်းများသည် ရေစီးမြန်သဖြင့် ကူးသန်းသွားလာရေးနှင့် သယ်ယူပို့ဆောင်ရေးအတွက် အသုံးမဝင်ချေ။ အာမီးနီးယန်းနိုင်ငံသည် ကုန်းတွင်းပြည်နယ်ဖြစ်သဖြင့် ပင်လယ်ဆိပ်ကမ်းမြို့များလည်း မရှိပေ။နိုင်ငံ၏ မြောက်ပိုင်းနှင့် အနောက်ပိုင်းတွင်မူ ကောင်းမွန်သော မီးရထားလမ်း ရှိသည်။ ထိုမီးရထားလမ်းသည် ဂျော်ဂျီယာနိုင်ငံ၏ မြို့တော်တစ်ဖလစ်(တပလီဆီ)မှ တောင်ဖက်သို့ ဆင်းလာကာ အာမီးနီးယန်းနိုင်ငံတွင်းသို့ဝင်ရောက်လာပြီးလျှင်လီနင်နကန်မြို့သို့ အရောက်တွင် လမ်းသွယ်နှစ်ခုခွဲထွက်သည်။ ပဌမလမ်းခွဲသည် အနောက်ဖက်သို့ သွားရာ တူရကီနိုင်ငံတွင်းရှိ ကာဒ်စမြို့သို့ ရောက်သည်။ ကာဒ်စမြို့သည် အန်ကာရာမြို့၊ အစ္စတန်ဗူမြို့တို့နှင့် မီးရထားလမ်း အဆက်အသွယ် ရှိသည်။ ဒုတိယလမ်းခွဲသည် ယခု အဇာဗိုင်ဂျန်နိုင်ငံ၏ တစိတ်တဒေသ ဖြစ်သော ယခင် နခီရှီဗန်နိုင်ငံကို ဖြတ်၍ အီရန်နိုင်ငံတွင်းသို့ ရောက်သွားရာ၊တဗရီးမြို့၊ တဟီရန်မြို့၊ ပါးရှင်းပင်လယ်ကွေ့တို့နှင့် ဆက်သွယ်နိုင်လေသည်။

ဆိုဗီယက် ဆိုရှယ်လစ်သမတနိုင်ငံ ဖြစ်လာပြီးနောက်

တွင် ယခင်က စာမတတ်သူ လူဦးရေအလွန်များခဲ့သော အာမီးနီးယန်းနိုင်ငံတွင် ၁၉၄၀ ပြည့်နှစ် စစ်ဘမ်းများအရ အားလုံးလိုလို စာတတ်သူများဖြစ်လာကြသည်ကို တွေ့ရသည်။ အီရီဗန်း တက္ကသိုလ်အပါအဝင် အထက်တန်းပညာရေးအဖွဲ့အစည်း ၁၀ ခုခန့် ရှိသည်။ ထိုပြင် ဆေးစိုက်ပျိုးရေးနှင့် ဗိသုကာအတတ်သင် ကျောလိပ်များလည်း သီးသန့်ရှိသေးသည်။ သိပ္ပံနှင့် သုတေသနဗိမာန်များလည်း အများအပြား ဖွဲ့စည်းထားလေသည်။

၁၉ ရာစုနှစ် အလယ်ပိုင်းအထိ တူရကီပိုင် အာမီးနီးယန်းပြည်၌ လူများစုဖြစ်ခဲ့သော အာမီးနီးယန်းအမျိုးသားတို့သည် တူရကီတို့၏ ညှဉ်းဆဲသတ်ဖြတ်မှုကြောင့် သေဆုံးသူ အများအပြား ရှိခဲ့၍ တိုင်းခြားနိုင်ငံများသို့ အမြောက်အမြား တိမ်းရှောင်ခဲ့ကြရသည်။ ထိုကြောင့် ဆိုဗီယက်ဆိုရှယ်လစ်ပြည်ထောင်စုဝင် နိုင်ငံအဖြစ်ကျေညာစဉ်က အာမီးနီးယန်းနိုင်ငံ၌ အာမီးနီးယန်း အမျိုးသား ၇၂၀,၀၀၀ ခန့်သာ ရှိသည်။ သို့သော် အနှစ် ၂၀ ခန့်အတွင်း၌ တိုင်းတပါးမှ အာမီးနီးယန်းအမျိုးသားတို့ ပြန်လာကြသဖြင့် လူဦးရေနှစ်ဆ တိုးသွားသည်။ ထိုကြောင့် အာမီးနီးယန်းတို့သည် နိုင်ငံလူဦးရေ၏ ၈၅ ရာခိုင်နှုန်း ဖြစ်ခဲ့၍ ကျန်လူဦးရေမှာ အဇာဗိုင်ဂျန်၊ ရုရှ၊ ကျော်ဂျီယန်း၊ ကတ်နှင့်ဂရိအမျိုးသားများ ဖြစ်ကြသည်။

အာမီးနီးယန်း လူမျိုးတို့သည် အင်ဒို–ဥရောပလူမျိုးကြီးများမှ ဆင်းသက်လာ၍ အင်ဒို – ဥရောပဘာသာစကားကို ပြောဆိုကြပြီးလျှင် အက္ခရာ ၃၈ လုံး ပါဝင်သော ကိုယ်ပိုင်စာပေ ရှိသည်။ တိုင်းခြား စိုးမိုးသူများ၏ အညှဉ်းဆဲကို မရှုမလှ ခံခဲ့ရလင့်ကစား၊ မိမိတို့၏မျိုးရိုးဇာတိမာန်နှင့် ယဉ်ကျေးမှုတို့ကို မပျောက်မပျက်အောင် ထိန်းသိမ်းနိုင်ခဲ့သဖြင့် လူမျိုးမပျောက်ခဲ့ပေ။ အာမီးနီးယန်းတို့သည် များသောအားဖြင့် အရည်အသွေး ပြည့်ဝသူများ ဖြစ်ကြ၍၊ အခွင့်သာသည့်အခါ ယင်းတို့သည် ဘဏ်လုပ်ငန်း၊ ကုန်သည်လုပ်ငန်းတို့၌ ကျွမ်းကျင်သူများအဖြစ် လူစွမ်း လူစ ပြသခဲ့ကြသည်။ ထိုကြောင့်ပင် စိုးမိုးသူတူရကီများက မျက်မှောင်ညှိုးကာ အလွန်ဖိနှိပ်ခဲ့သည်။ အေးချမ်းတည်ငြိမ်စွာ နေရသော ခေတ်ကောင်းနှင့်ရှည်ကြာစွာ မကြုံခဲ့ကြရသဖြင့် အာမီးနီးယန်းတို့၏ လက်ရာလသမြောက်သော ကျမ်းကြီးကျမ်းခိုင်များ မပေါ်ထွက်နိုင်ခဲ့စေကာမူ ယင်းတို့၏ သမိုင်းအစဉ် အဆက်ကိုမူ ၁၁ ရာစုနှစ်တိုင်အောင် မပျက်မကွက် မှတ်တမ်းတင်ခဲ့ကြလေသည်။

သမိုင်းစဉ်ကို ပြန်လည်သုံးသပ်ကြည့်လျှင် ရှေးအာမီးနီးယန်းနိုင်ငံသည် ဘီစီ ခုနစ်ရာစုနှစ်ခန့်က ပေါ်ထွန်းခဲ့ကြောင်း တွေ့ရသည်။ အာရှမိုင်းနား၏ အရှေ့မြောက်ပိုင်း၊ ကောကဆပ်တောင်တန်းနှင့် ဗန်းရေအိုင်အကြား၌ တည်ရှိခဲ့သော ထိုနိုင်ငံသည် မူလက ဗန်းနစ်လူမျိုးများ နေထိုင်ရာ ဒေသဖြစ်၍ ဗန်းနိုင်ငံ ဟုခေါ်သည်။ ထိုနိုင်ငံကို မကြာခဏ လာရောက်တိုက်ခိုက်သော အဆီးရီးယန်းလူမျိုးတို့ကမူ အူရားတူး ဟုခေါ်သည်။ အဆီးရီးယန်းတို့၏ တိုက်ခိုက်မှုကြောင့် ဘီစီခုနစ်ရာစုနှစ် နောက်ပိုင်းတွင် ဗန်းနိုင်ငံ ပျက်သုဉ်းသောအခါ အာမီးနီးယန်းလူမျိုးတို့သည် ထိုဒေသတွင် ဝင်ရောက်ကြီးစိုးခဲ့ကြသည်။ အာမီးနီးယန်းတို့သည် မြင့်မားသော ယဉ်ကျေးမှုအဆင့်အတန်း ရှိခဲ့ကြကြောင်းကို ထိုစဉ်က ခံတပ်မြို့ရိုးရှိသော မြို့ပြများ၌ နေထိုင်ပုံ၊ လယ်ယာများကို ရေသွင်းစိုက်ပျိုးပုံ၊ ကောင်းစွာပြုပြင်ထားသော လယ်ယာနှင့် စပျစ်ခင်းများကို လုပ်ကိုင်ခဲ့ပုံ အထောက်အထားများအရ သိရပေသည်။

သို့သော် အာမီးနီးယန်းတို့သည် မိမိတို့နိုင်ငံ၏ လွတ်လပ်ရေးကို ကြာရှည်စွာ ထိန်းသိမ်းမထားနိုင်ခဲ့ကြချေ။ ရှေးအာမီးနီးယန်းနိုင်ငံသည် ဥရောပနိုင်ငံများနှင့် အာရှနိုင်ငံတို့ အကူးအသန်းပြုရာလမ်းကြောင်းပေါ် ကျရောက်ခဲ့ပေသည်။ ထိုကြောင့် နယ်ချဲ့လိုသော ဥရောပနိုင်ငံကြီးများသည် အာမီးနီးယန်းကို ပိုင်ဆိုင်လိုကြသဖြင့် ထိုနိုင်ငံအား မကြာခဏ တိုက်ခိုက်ကြရာ တိုင်းခြားတို့၏ လက်အောက် အကြိမ်ကြိမ်ရောက်ခဲ့ရ၍ ရှေးအာမီးနီးယန်းနိုင်ငံ၏ နယ်နိမိတ်သည်လည်း အကြိမ်ကြိမ် ပြောင်းခဲ့ရလေသည်။

ရှေးအာမီးနီးယန်းနိုင်ငံသည် တိုင်းတပါးတို့၏လက်သို့ အကြိမ်ကြိမ် ကျရောက်ခဲ့သည်ဟုဆိုခဲ့ရာ ရှေးဦးစွာ မီဒီးလူမျိုးတို့၏ လက်အောက်သို့ ကျရောက်ခဲ့သည်။ နောင်အခါပါးရှင်း(အီရန်)တို့၏ လက်အောက်သို့ရင်း၊ ဂရိတို့၏ လက်အောက်သို့ရင်း ရောက်ခဲ့ ပြန်သည်။ ထိုနောက် တိုင်းခြားတို့၏ လက်အောက်မှ လွတ်မြောက်ပြန်သည့်အခါ ပြည်တွင်းအာဏာလုမှုများကြောင့် နိုင်ငံနှစ်ပိုင်းဖြစ်သွားပြီးလျှင် အာမီးနီးယန်းအကြီးနှင့် အာမီးနီးယန်းအငယ် ဟူ၍ နှစ်ခြမ်းကွဲခဲ့ရပြန်သည်။ ဘီစီ ၉၅ ခုနှစ်မှ ၅၅ ခုနှစ်အထိ အုပ်စိုးခဲ့သော အာမီးနီးယန်း ဘုရင် တိုက်ဂရေနီ–သ–ဂရိတ်လက်ထက်တွင် နိုင်ငံကိုပြန်လည်ပူးပေါင်းခဲ့သည်။ ထိုစဉ်က အာမီးနီးယန်းနိုင်ငံသည် စည်ပင်ဝပြောသော နိုင်ငံတခုဖြစ်ခဲ့သည်။

သို့တစေ အင်အားကြီးနိုင်ငံများဖြစ်သော ရောမနှင့် ပါးရှားနိုင်ငံတို့၏ အကြား၌ ရှိနေသဖြင့် တစတစနှင့် ထိုနိုင်ငံကြီးများ၏ ဗိုလ်လုပွဲ ကျင်းပရာ မြေဇာပင်နိုင်ငံ ဖြစ်လာသည်။ ဘီစီ ၆၆ ခုနှစ် ခန့်တွင် ရောမ၏ လက်အောက်ခံဖြစ်သွားပြီးလျှင် ခရစ်ယန် အယူဝါဒသည်

လည်း နိုင်ငံတွင်း၌ စည်ပင်ပြန့်ပွားလာသည်။ ခရစ် ၃၀၃ ခုနှစ်တွင် ခရစ်ယန်အယူဝါဒကို နိုင်ငံတော်အယူဝါဒအဖြစ် အာမီးနီးယန်းနိုင်ငံက ပြဋ္ဌာန်းခဲ့လေသည်။

ခရစ်သုံးရာစုနှစ်မှ ခုနစ်ရာစုနှစ်အတွင်း၌လည်း အာမီးနီးယန်းနိုင်ငံသည် ရောမနှင့် ပါးရှားဖက်တော်သားနိုင်ငံများ၏ စစ်ဟလင်း ဖြစ်ခဲ့ရသည်။ ၁၂၄၂ ခုနှစ်တွင် မွန်ဂိုတို့က တိုက်ခိုက်သိမ်းပိုက်၍ လုယက်ဖျက်ဆီး ခဲ့သည်။ ဥရောပအလယ်ခေတ်တွင် ခရစ်ယန်နိုင်ငံများနှင့် အစ္စလာမ်နိုင်ငံများ၏ ပဋိပက္ခ၌လည်း အာမီးနီးယန်းနိုင်ငံသည် မြေဇာပင် ဖြစ်ခဲ့ရပြန်သည်။ ၁၅ ရာစုနှစ်မှ ၁၉ ရာစုနှစ် အစပိုင်းအထိ အာမီးနီးယား၌ တူရကီနှင့် ပါးရှားတို့ အင်အားပြိုင်ခဲ့ကြပြန်သည်။ ၁၅၁၄ ခုနှစ်၌ အာမီးနီးယန်းနိုင်ငံကို တူရကီတို့က သိမ်းပိုက်၍ အော့တိုမန်အင်ပိုင်ယာအတွင်း သွတ်သွင်းခဲ့သည်။ သို့သော် ၁၆၁၉ ခုနှစ်တွင် ပါးရှားနိုင်ငံက နိုင်ငံအရှေ့ပိုင်းကို တိုက်ခိုက်သိမ်းယူလိုက်ပြန်သည်။ ၁၈၀၂ ခုနှစ်တွင် ရုရှနိုင်ငံက ဂျော်ဂျီယာကို သိမ်းယူလိုက်သောအခါ၊ အာမီးနီးယားပြည်နှင့် ရုရှနိုင်ငံတို့သည် နယ်နိမိတ်ချင်း ဆက်စပ်သွားသည်။ ထိုအခါ ရုရှနိုင်ငံကလည်း အာမီးနီးယားပြည်၏ ခရိုင်နှစ်ခုကို ၁၈၂၈ ခုနှစ်နှင့် ၁၈၂၉ ခုနှစ်များတွင် သိမ်းယူလိုက်ပြန်သည်။ ထိုအတွင်း ဂရိတ်ဗြိတိန်နိုင်ငံကလည်း အရှေ့ဖျားမှ မိမိ၏ ပိုင်နက်နယ်ပယ်များကို စောင့်ထိန်းနိုင်ရေးအတွက် ခရီးလမ်းကြောင်းကျနေသော အာမီးနီးယား အပေါ် ဩဇာလွှမ်းမိုးလိုလာပြန်လေသည်။

အားမီးနီးယားပြည်၏ အခြေအနေသည် ရှုပ်ထွေးနေခဲ့၏။ တိုင်းပြည်မှာလည်း စိတ်ပိုင်းခွဲဝေ စိုးမိုးခြင်းကို ခံနေရသည်။ ထိုအခါ အာမီးနီးယန်း အမျိုးသားတို့သည် နိုးကြားထကြွလာကြသည်။ ယင်းသည်ကို တူရကီတို့က မလိုသားချေ။ ထိုကြောင့် အာမီးနီးယန်းတို့ကို အလွန်ညှဉ်းပန်းနှိပ်စက်လေသည်။ ထိုအခါ အခွင့်သင့်သည့်အခါ အာမီးနီးယားတို့အထဲမှ အရည်အချင်းနှင့် ပြည့်စုံသော လူတော်လူကောင်းများ ပေါ်ထွက်နိုင်ခဲ့သည်ကို တူရကီတို့က မရှုဆိတ်ချေ။ ရုရှတို့က ကူညီမည်ကိုလည်း အလွန်စိုးရိမ်သည်။ ထိုကြောင့် လူမျိုး ပြုတ်လောက်အောင် သတ်ဖြတ်ညှဉ်းဆဲမှုများ ပြုသည်။ ပဌမ ကမ္ဘာစစ်ကြီးအတွင်းက အာမီးနီးယန်းတို့ အများအပြား သေကြေပျက်စီးရသည်။ မဟာမိတ်တို့ဖက်မှ ပါဝင်တိုက်ခိုက်ခဲ့ခြင်းကြောင့်ရင်း၊ တူရကီတို့၏ ညှဉ်းဆဲနှိပ်စက် သတ်ဖြတ်မှုကြောင့်ရင်း အာမီးနီးယန်း တသန်းကျော်မျှ သေကြေပျက်စီးခဲ့ရသည်။ ထိုပြင် အာမီနီးယန်း အများအပြားသည် တိုင်းခြား နိုင်ငံများသို့ ထွက်ပြေး တိမ်းရှောင်နေခဲ့ကြရလေသည်။

တူရကီတို့ ဖိနှိပ်ညှဉ်းပန်းခဲ့သည့်အကြားမှပင် အာမီးနီးယန်း မျိုးချစ်တစု (ဒက်ရှနက်) တို့သည် ပဌမ ကမ္ဘာစစ်အတွင်းက ရုရှကို ကူညီ၍ တူရကီတို့အား တိုက်ခဲ့သည်။ ၁၉၁၆ ခုနှစ်တွင် တူရကီပိုင် အာမီးနီးယားဒေသကို ရုရှတို့က သိမ်းပိုက်နိုင်ခဲ့သည်။ သို့သော် ရုရှတော်လှန်ရေးကြီး (၁၉၁၇ ခုနှစ်) ဖြစ်ပွားသဖြင့် ရုရှ–တူရကီနယ်နိမိတ်သည် ယခင်အတိုင်းပင် ပြန်ဖြစ်သွားပြန်လေသည်။

ထိုအတောအတွင်း အာမီးနီးယန်းမျိုးချစ် ဒက်ရှနက်တို့က ဦးစီး၍ ရုရှပိုင် အာမီးနီးယားကို ဂျော်ဂျီယာ၊ အဇာဗိုင်ဂျန်တို့နှင့် တွဲပြီးလျှင် ထရန်စကော့ကဆပ်ပြည်ထောင်စု သမတနိုင်ငံဟူ၍ ထူထောင် လိုက်သည်။ ၁၉၁၈ ခုနှစ်တွင်မူ ထိုနိုင်ငံကို ဖျက်သိမ်းလိုက်၍ သီးခြားလွတ်လပ်သော သမတနိုင်ငံငယ်သုံးခု တည်ထောင်ခဲ့ပြန်သည်။ သို့သော် မကြာမီ တူရကီတို့သည် အာမီးနီးယန်းသမတနိုင်ငံငယ်ကို တိုက်၍ အရေးပါသော ကားဇန်းနှင့် မောင့်အရာရတ် ခရိုင်များကို သိမ်းပိုက် လိုက်သည်။ ဆိုဗီယက်ရုရှကသာ ကြားမဝင်ခဲ့ပါက ထိုအာမီးနီးယန်းသမတနိုင်ငံငယ်သည် တူရကီတို့၏ဩဇာခံ ဖြစ်သွားဖွယ်ရာရှိလေသည်။ ထိုဒေသအတွင်း၌ အခြေအနေသည် မတည်မငြိမ်ဖြစ်နေသေးသော်လည်း၊ ဆိုဗီယက် အုပ်ချုပ်ရေးမျိုးကို တည်ထောင်၍ ဒက်ရှနက်တို့က ဝင်ရောက်ဆောင်ရွက်ခဲ့သည်။ ၁၉၂၁ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင်မူ အာမီးနီးယန်းနိုင်ငံကို ဆိုဗီယက်ဆိုရှယ်လစ် သမတနိုင်ငံအဖြစ် ကြေညာလိုက်လေသည်။

အကျယ်အဝန်း စတုရန်းမိုင် ၅၇,၀၀၀ ရှိသော တူရကီပိုင် အာမီးနီးယန်း နယ်သည်မူ ဆိုဗီယက် အာမီးနီးယန်းနိုင်ငံကဲ့သို့ နိုင်ငံရေးရာ အဆင့်အဘန်းမရှိချေ။ ထိုဒေသတွင် ရှေးအာမီးနီးယန်းနိုင်ငံ အပိုင်းအခြား၏ အမြင့်ဆုံးပိုင်းဖြစ်သော အာရာရတ်တောင်ရှိ၍၊တိုင်းဂရစ်၊ယူဖရေးဘီးနှင့် အားရတ်မြစ်တို့သည် ထိုဒေသအတွင်း၌ မြစ်ဖျားခံကြလေသည်။

**အာရိယန်လူမျိုး။** ။အာရိယန်တို့သည် ကမ္ဘာ့ဦးလူမျိုးကြီးတမျိုး ဖြစ်သည်။ အသားဖြူ၊ အသားဝါ၊ အသားမည်းဟူ၍ ရှိသည့်အနက် အာရိယန်တို့သည် အသားဖြူလူမျိုးတမျိုး ဖြစ်သည်။ အခြားအသားဖြူ လူမျိုးကြီးနှစ်မျိုးမှာ ဟမ်းမိုက်လူမျိုးနှင့် ဆီးမိုက်လူမျိုးတို့ ဖြစ်ကြသည်။ အာရိယန်တို့ကို အင်ဒို–ဥရောပလူမျိုး၊ သို့မဟုတ် အင်ဒို–ဂျာမန်လူမျိုးဟုလည်း ခေါ်သည်။ ကမ္ဘာ့ဦးလူမျိုးတို့သည် အာရှတိုက်၌ စတင်ပေါက်ပွားခဲ့ကြသည်သာ ဖြစ်ပေရာ၊ လူဖြူလူမျိုးတို့၏ မူလဌာနေသည်လည်း အာရှတိုက်ဖြစ်ပေသည်။ အာရိယန်တို့သည် အာရှတိုက်အလယ်ပိုင်း

ကက်စပျန်ပင်လယ်၏ အရှေ့ဖက် ဟိန္ဒူကွတ်ရှတောင်တန်း နှင့် ပါရိုပါမိုင်းဆတ်တောင်တန်းတို့၏ မြောက်ဖက်ဒေသ များ၌ နေထိုင်ခဲ့ကြသည်။

အာရိယန် လူမျိုးတစုတစုတွင် အကြီးအကဲတဦးစီရှိ သည်။ ထိုအကြီးအကဲ၏ အဆက်အနွယ်များသာလျှင် အကြီးအကဲ၏ ရာထူးကို ဆက်ခံရသည်။ အာရိယန်တို့ ပြောဆိုသုံးနှုန်းသော ဘာသာစကားသည် သက္ကတဘာ သာစကား ဖြစ်သည်။ နှစ်ပရိစ္ဆေဒကြာမြင့်လာသောအခါ လူဦးရေတိုးပွားလာသဖြင့် အနေအထိုင် ကြပ်တည်းကျဉ်း မြောင်းလာသည်။ စားနပ်ရိက္ခာရှာဖွေရန် မလွယ်ကူဖြစ် လာသည်။ ထို့ကြောင့် မိမိတို့၏ဇာတိဌာနေကို စွန့်ခွာ၍ ရေကြည်ရာမျက်နုရာသို့ တသုတ်ပြီးတသုတ် ရွှေ့ပြောင်းကြ သည်။ ထိုအချိန်၌ အာရိယန်တို့တွင် ကျွဲနွားများရှိပေရာ၊ အိမ်ထောင်ပစ္စည်းများကို လှည်းကြမ်းကြီးများတွင် တင် ပြီးလျှင် တနေရာမှတနေရာသို့ ရွှေ့ပြောင်းကြသည်။ စခန်း ချရန် သင့်တင့်လျောက်ပတ်သော အရပ်သို့ရောက်လျှင် သစ်ခက်များကိုကပ်များပြုလုပ်၍ ရွှံ့ဖြင့်မံပြီးလျှင် ယာယီ တဲထိုးကာ နေထိုင်ကြသည်။ နွားဖြင့် မြေကိုထွန်ယက်ကာ စားသောက်ရန် ဂျုံများကို စိုက်ပျိုးကြသည်။ သို့သော် ဂျုံများကို ရိတ်သိမ်းပြီးသောအခါ တနေရာသို့ ပြောင်းကြ ပြန်သည်။ ယင်းသို့ ရွှေ့ယင်းပြောင်းယင်းနှင့်ပင် သံများ ကိုတွေ့ရှိ၍ ပစ္စည်းအသုံးအဆောင်အမျိုးမျိုးပြုလုပ် အသုံး ချတတ်လာကြသည်။ မြင်းများကိုလည်း ဖမ်းယူအသုံးပြု လာလေသည်။

မူလဒေသမှ ရေကြည်ရာမျက်နုရာသို့ ရွှေ့ကြပြောင်း ကြသော အာရိယန်တို့သည် အုပ်စုနှစ်စု ကွဲသွားသည်။ တစုသည် ဥရောပတိုက်ဖက်သို့ ရောက်သွား၍ ကျန်အုပ်စု သည် ယခုကမ္ဘာ့အရှေ့အလယ်ပိုင်းနိုင်ငံများသို့ ရောက်ကြ သည်။ အနောက်ဖက်သို့ တသုတ်ပြီးတသုတ် ရွှေ့ပြောင်း ကြသော အာရိယန်တို့သည် ဥရောပတိုက်အတွင်း အရပ် ရပ်သို့ ပျံ့နှံ့သွားကြသည်။ ပဌမအသုတ်သည် ဥရောပတိုက် နေရာဒေသများစွာတို့၌ လွှမ်းမိုးခဲ့ကြသော ကဲ့လူမျိုးများ ဖြစ်လာကြသည်။ နောက်ခေတ်များတွင် တသုတ်ပြီး တသုတ် ရွှေ့ပြောင်းလာကြသူများသည် ဣတာလျံလူမျိုး၊ ဂရိလူမျိုးနှင့် တျူးတိုးနစ်လူမျိုးများ၏ ဘိုးဘေးဘီဘင် များ ဖြစ်ကြသည်။ ကက်စပျန်ပင်လယ်၏မြောက်ဖက်လမ်း ကြောင်းအတိုင်း လိုက်၍ ရွှေ့ပြောင်း လာကြသူများ၏ အဆက်အနွယ်များသည် ယခု ဆလဗ်ဘာသာစကားပြော လူမျိုးများပေတည်း။

တောင်ဖက်သို့ရွှေ့ပြောင်းကြသော အာရိယန်တို့သည် အိန္ဒိယကျွန်းဆွယ်အထိ ရောက်သည်။ အချို့သည် ယခု ပါးရှားနိုင်ငံဖြစ်လာသည့် ဒေသ၌ အခြေစိုက်ကြရာ ရှေး ခေတ်သမိုင်းများ၌ ပါဝင်သော မိဒလူမျိုးနှင့် ပါးရှင်း လူမျိုးတို့သည် ယင်းအာရိယန်တို့မှဆင်းသက်ဆက်နွယ်လာ သည်။ အိန္ဒိယကျွန်းဆွယ်ဖက်သို့ ရွှေ့ကြသူများသည် အိန္ဒု မြစ်ဝှမ်းနှင့် ဂင်္ဂါမြစ်ဝှမ်းတို့၌ လွှမ်းမိုးကြီးစိုးခဲ့ကြလေသည်။

အိန္ဒိယကျွန်းဆွယ်ဖက်သို့ ရွှေ့လာကြသူများသည် ဘီစီ ၁၅၀၀ ခန့်တွင်တောင်ကြားလမ်းများကို ဖြတ်ကျော်လျက် အိန္ဒိယနိုင်ငံအတွင်းသို့ ရောက်မှန်းမသိ တဖြည်းဖြည်း ရောက်ရှိလာကြသည်။ အိန္ဒုမြစ်ကြီးနှင့် မြစ်ကြီးငါးသွယ် ကို ယင်းတို့တွေ့ရှိကြရသည့်အပြင် တိုင်းရင်းသား ဒြာဗီးဒီး ယန်းတို့သည် အခြေတကျ မြို့ပြတည်ထောင်နေထိုင်ကြ သည်ကိုလည်း တွေ့ကြရသည်။ ထိုအခါ အာရိယန်တို့သည် လည်း ထိုဒေသ၌ လယ်ယာစိုက်ပျိုး၍ အခြေစိုက်နေထိုင် ကြရန် စိတ်ဆုံးဖြတ်လိုက်ကြသည်။ ထိုအပြင် ဒြာဗီးဒီး ယန်းတို့ကဲ့သို့ မြို့ပြတည်ထောင်နေလိုကြသည်။ ဒြာဗီး ဒီးယန်းတို့ကလည်း အိန္ဒုမြစ်ဝှမ်းသို့ ကျူးကျော်ဝင်ရောက် လာသူများအား မလိုလားကြပေ။ ထို့ကြောင့် ဒြာဗီးဒီး ယန်းနှင့် အာရိယန်တို့သည် နေရာထိုင်ခင်းအတွက် စစ်ပြိုင် ကြသည်။ ဒြာဗီးဒီးယန်းတို့သည် အာရိယန်တို့ထက် နေ ထိုင်မှုအဆင့်အတန်းမြင့်သော်ငြားလည်း တိုက်ခိုက်ရေး၌မူ အာရိယန်တို့ကို အရှုံးပေးရသည်။ အာရိယန်တို့သည် တနေရာမှတနေရာသို့ ရွှေ့ပြောင်းလှုပ်ရှား နေထိုင်ခဲ့ကြ သဖြင့် လျင်မြန်ဖြတ်လတ်သည်။ မြင်းနှင့်လှည်းများရှိသဖြင့် ကြမ်းကြမ်းတမ်းတမ်း တိုက်ခိုက်နိုင်ကြသည်။ ထို့ကြောင့် ဒြာဗီးဒီးယန်းတို့အရေးနိမ့်ကာ ဂင်္ဂါမြစ်ဝှမ်းသို့ ရွှေ့ပြောင်း ကြရာ၊ အာရိယန်တို့ကလည်း ထိုအထိလိုက်၍တိုက်ကြပြန် သည်။ ဒြာဗီးဒီးယန်းတို့သည် ဟိမဝန္တာတောင်ခြေရင်းသို့ ၎င်း၊အိန္ဒိယတောင်ဖက်ပိုင်း ကုန်းပြင်မြင့်ဒေသသို့၎င်း ပြေး ကြပြန်ပြီးလျှင် မြို့ပြဖြင့်နေခဲ့ကြသော ဘဝမှ ရွာသိမ်ရွာ ငယ်များဖြင့် နေကြရသောဘဝသို့ ဆင်းသက်သွားကြရ သည်။ အိန္ဒုမြစ်ဝှမ်းမှ ယဉ်ကျေးမှုအဆင့်အတန်းမြင့်မား သော မဟိန္ဒောဇရောနှင့် ဟာရပ္ပမြို့ကြီးတို့သည် အာရိ ယန်တို့ဝင်ရောက်လာစဉ်က ပျက်သုဉ်းခဲ့သည်ဟု အချို့က ယူဆကြသည်။ အာရိယန်တို့သည် အိန္ဒုမြစ်နှင့် ဂင်္ဂါ မြစ်ဝှမ်းတလျှောက်ဖြစ်သော ဟိန္ဒူစတန်လွင်ပြင်ကြီးတွင် မြို့ပြတည်ထောင် နေထိုင်ကြသည်။ လယ်ယာစိုက်ပျိုး လုပ်ကိုင်ကြသည်။လက်ရဖမ်းမိသော ဒြာဗီးဒီးယန်းများကို ကျွန်ပြုကြသည်။ အာရိယန်တို့သည် အိန္ဒိယမြောက်ပိုင်း တခွင်တပြင်တွင် အုပ်စိုးလွှမ်းမိုးကာ အိန္ဒိယခေတ်သစ်ကို ထူထောင်ကြလေသည်။

အာရိယန်တို့သည် အခြေတကျနေထိုင်ကြသောအခါ သစ်သားအိမ်ကို ဆောက်လုပ် နေထိုင်ကြသည်။ အိမ်၏ အလယ်၌ ခန်းမကြီးတခုပါရှိသည်။ ညဉ့်အခါ အကြီးအကဲ

မိသားစုသည် ကွပ်ပျစ်ပေါ်၌အိပ်ကြ၍ ကျန်လူများကမူ ကြမ်းပေါ်၌ သင့်သလို အိပ်ကြရသည်။အိမ်၏ဘေးပတ်ဝန်းကျင်၌ နွားတင်းကုပ်များ၊ မြင်းဇောင်းများကို ဆောက်လုပ်ကြသည်။

ညဥ့်ဦးယံအခါ အာရိယန်တို့သည် အိမ်ခန်းမကြီး၌ သောက်စားပျော်ပါး ကခုန်မြူးတူးကြသည်။ ထိုစဉ်က အာရိယန်တို့သည် စာမတတ်ကြချေ။ သို့သော် ရှေးဟောင်းနှောင်းဖြစ်များ၊ ပုံတိုပတ်စများ၊ ရှေးသူရဲကောင်းကြီးများ၏ အတ္ထုပ္ပတ္တိများကို လက်တန်းစပ်ဆိုနိုင်ကြသော စာဆိုများရှိသည်။ ပျော်ပွဲကျင်းပသောညဥ့်အခါ၌ အကြီးအကဲ၏အိမ်ခန်းမကြီး၌ စုဝေးဝိုင်းဖွဲ့ကြပြီးလျှင်၊ စာဆိုများက မိမိတို့စပ်ဆိုသီကုံးထားသော သီချင်းကဗျာများကို ရွတ်ဆိုပြသည်။ နားထောင်သူများကလည်း နှစ်သက်ကြည်နူးစွာဖြင့် နှုတ်တက်ကျက်မှတ်ကာ လိုက်၍သီဆိုကြသည်။ ထိုနည်းအားဖြင့် အာရိယန်တို့၏ အဖြစ်အပျက်များသည် သားစဉ်မြေးဆက်တို့၏နှုတ်ဖျား၌ အဆင့်ဆင့် မပျောက်မပျက် တည်ရှိခဲ့လေသည်။

အာရိယန်တို့သည် အိန္ဒုမြစ်ဝှမ်းသို့ရောက်စက မြောက်ဖက်တလွှား၌ မှိုင်းမှိုင်း ညို့ညို့၊ ဆီးနှင်းတဝေဝေဖြင့် ရှိနေသော ဟိမဝန္တာတောင်တန်းကြီးကို တွေ့မြင်ရသောအခါ တန်ခိုးရှင်ဒေဝများနေထိုင်သော နတ်ဘုံနတ်နန်းများရှိရာ အရပ်ဟု ယူမှတ်ကြသည်။ အာရိယန်တို့သည် ထိုစဉ်က ဒေဝများကို ကိုးကွယ်ကြသည်။ ဒေဝများသည် ကိုယ်ရောင်ကိုယ်ဝါထွန်းတောက်သူများဟု အာရိယန်တို့ကယူဆကြသောကြောင့် ယင်းတို့၏ သက္ကတဘာသာဖြင့် ဒေဝဟုခေါ်ဝေါ်ခြင်းဖြစ်သည်။ လယ်ယာစိုက်ပျိုးလုပ်ကိုင်သူတို့၏ ထုံးစံအတိုင်း မြေ၊ ရေ၊ လေကို စောင့်ရှောက်သူများဟု ယူဆကြသော နတ်များကို ကိုးကွယ်ကြသည်။ အချိန်မှန် ရွာသွန်းသောမိုးကို ဣန္ဒခေါ် နတ်အဖြစ်၎င်း၊ မီးကိုလည်း အဂ္ဂိခေါ် နတ်အဖြစ်၎င်း၊ လေကိုမရုတ်ခေါ် နတ်အဖြစ်၎င်း၊ နေကို သူရိယခေါ် နတ်အဖြစ်၎င်း ခေါ်ဝေါ်ကာ ဆည်းကပ်ပူဇော်ကြသည်။ ယင်းသို့ ကိုယ်ရောင်ကိုယ်ဝါထွန်းလင်းသောဒေဝများကို ကိုးကွယ်ကြရာတွင်၊ ကောင်းကင်၌ ဒေဝ ၁၁ ဆူ၊ ကောင်းကင်နှင့်မြေအကြား၌ ဒေဝ ၁၁ ဆူ၊ မြေပြင်၌ ၁၁ ဆူ၊ ပေါင်း ဒေဝ ၃၃ ဆူဟူ၍တည်း။ အိန္ဒိယမြောက်ပိုင်း၌ အနေကြာသောအခါ၊ ဒြာဗီးဒီးယန်းတို့ ကိုးကွယ်သည့် နဂါး၊ ဂဠုန်၊ တောစောင့်နတ်၊ တောင်စောင့်နတ်များကိုလည်း ကိုးကွယ်လာကြလေသည်။

မိမိတို့ကိုးကွယ်သော ဒေဝများကို အာရိယန်တို့သည် ပန်းသစ်သီးစသော လှူဖွယ်ဝတ္ထုတို့ဖြင့်လည်း ပူဇော်သည်။ သာယာချောင်းသောစကားလုံးတို့ဖြင့် ကဗျာလင်္ကာဖွဲ့နွဲ့ပြီးလျှင် အသံနေအသံထားဖြင့် လျှောက်ထားရွတ်ဆို ပူဇော်ခြင်းလည်း ပြုကြ၏။ ယင်းသို့ ရွတ်ဆိုပူဇော်သော ကဗျာလင်္ကာစုများကို ဗေဒဟုခေါ်သည်။ ထိုစဉ်က ဗေဒ သုံးပုံရှိရာ ဣရုဗေဒ၊ သာမဗေဒ၊ ယဇုဗေဒ ဟူ၍တည်း။ ဣရုဗေဒတွင် အာရိယန်တို့သည် အိန္ဒုမြစ်ဝှမ်းသို့ မည်သို့ရောက်ရှိပုံ၊ လူမည်းများနှင့် တိုက်ခိုက်ရပုံစသည်တို့ကို စပ်ဆိုထားသည်။ သာမဗေဒတွင် မိမိတို့မူလဌာနေ၌ နေစဉ်ကပင် သောက်သုံးခဲ့သော သေရည်ဖြင့် သာမဒေဝကို ပူဇော်ရာ၌ ရွတ်ဆိုသောကဗျာစု ပါဝင်သည်။ ယဇုဗေဒကား ယဇ်ပူဇော်ပုံအခမ်းအနားကို ကဗျာစုနှင့်စကားပြေ တွဲဖက်လျှောက်ထားချက်ဖြစ်သည်။ စင်စစ် သာမဗေဒနှင့် ယဇုဗေဒတို့သည် ဣရုဗေဒမှ ဆိုင်ရာဆိုင်ရာ ကဗျာစုတို့ကို ထုတ်နုတ်ထားခြင်းများသာလျှင် ဖြစ်ကြပေသည်။

အာရိယန်တို့သည် မိမိတို့ပြောဆိုသော သက္ကတဘာသာစကားကို ပိုမိုကောင်းမွန်၍ ပိုမိုကြွယ်ဝအောင် တိုးတက်ပြုပြင်ကြသည်။ စာရေးနည်းကိုလည်း ထွင်ကြသည်။ စာရေးနည်းထွင်ကြပြီးသော် ယခင်က နှုတ်တက်ရွတ်ဆိုခဲ့သော ဗေဒသုံးပုံတို့ကို ကျမ်းများအဖြစ် ပြုစုကြသည်။ ဣရုဗေဒတွင် အိန္ဒုမြစ်ဝှမ်းမရောက်မီက စပ်ဆိုခဲ့သော ကဗျာစုနှင့် အိန္ဒုမြစ်ဝှမ်းရောက်ပြီးနောက် စပ်ဆိုသောကဗျာစုများပါဝင်ရာ၊ ဣရုဗေဒ၌ နောက်ထပ်ဖြည့်သွင်းသော ကဗျာစုနှင့် အသစ်စပ်ဆိုသော ကဗျာစုတို့ကို ထုတ်နုတ်၍ အာထဗ္ဗနဗေဒဟု အမည်တပ်လေသည်။ ယဇ်ပူဇော်ခြင်းနှင့်စပ်လျဉ်း၍ ရိုးရိုးစကားပြေဖြင့် ဖော်ပြချက်များကို စုပေါင်းကာ ဗြဟ္မဏကျမ်းများအဖြစ် ပြုစုသည်။ အာရိယန်တို့၏ ဓလေ့ထုံးစံနှင့် ကျင့်ဝတ်တရားတို့ကိုလည်း သုတ္တကျမ်းများ၌ ဖော်ပြသည်။ အာရိယန်တို့သည် စဉ်းစားဉာဏ် ပိုမိုကျယ်ဝန်း၍ ရင့်သန်လာကြသဖြင့် နက်နဲကြီးကျယ်သော ကျမ်းကြီးကျမ်းခိုင်များကိုလည်း ပြုစုကြရာ ယင်းတို့မှာ ကိုယ်ခန္ဓာအကြောင်းကို ဖော်ပြသောဥပနိသျှကျမ်း၊ ရှေးသူတော်ကောင်းတို့ လေ့ကျင့်သော တရားတို့ကို ဖော်ပြသည့် ပူရာဏကျမ်း၊ နက္ခတ်တာရာအကြောင်းကိုပြုစုသည့် အာကာသသျှတ္တရကျမ်းနှင့် ခန္ဓာကိုယ် အခွဲအစိတ်ပညာဆိုင်ရာကျမ်း၊ ဆေးကျမ်း စသည်တို့ ဖြစ်ကြလေသည်။

ရှေးအာရိယန်တို့တွင် အုပ်စုတစု၌ အုပ်ချုပ်သူအကြီးအကဲတဦးစီရှိသည်။ ထိုအကြီးအကဲသည် ရွာကိုလည်း အုပ်ချုပ်သည်။ လယ်ယာများကိုလည်း ရွာသားများနှင့် အတူ ထွန်ယက်စိုက်ပျိုးသည်။ ယဇ်နတ်များကိုလည်း ကိုယ်တိုင်ပူဇော်သည်။ မြို့ကြီးပြကြီးများ၌ နေထိုင်လာကြသောအခါ၊ ထိုအကြီးအကဲများသည် ဘုရင်စိုးမင်းများ ဖြစ်လာကြသည်။ ထိုအခါ ဘုရင်များတွင် ဆောင်ရွက်ရန် တာဝန်ဝတ်တရားများပြားလာသဖြင့် လယ်ထွန်ခြင်း၊ ယဇ်

ပူဇော်ခြင်းများကို ကိုယ်တိုင် မပြုလုပ် နိုင်တော့ချေ။ ထိုကြောင့် စာဆိုများ၊ ဗေဒကျမ်းတတ်ကျွမ်းသူများကို ယင်ပူဇော်ပေးရန် ရွေးချယ်ရသည်။ လယ်ယာများကို ထွန်ယက်စိုက်ပျိုးသူများထားရသည်။စစ်ပွဲများ၌ ဖမ်းဆီးရခဲ့သောလူမည်းများကို ကျွန်ပြုရသည်။ယင်းသို့ဖြင့် အာရိယန်လူမျိုးတို့တွင် (၁) ခတ္တိယရှင်ဘုရင်မျိုး၊(၂) ဗြဟ္မာအပညာရှိမျိုး၊ (၃) လယ်သမားမျိုး၊ (၄) ကျွန်မျိုးဟူ၍ အမျိုးလေးပါး ကွဲပြားလာသည်။ ထိုသို့ အမျိုးလေးပါး ကွဲပြားခြင်းကို ဇာတ်ဟုခေါ်သည်။ နှစ်ပရိစ္ဆေဒကြာမြင့်လေသော် အလုပ်အကိုင် အမျိုးအမည်တို့လည်း တိုးပွားလာ၍ အလုပ်အကိုင်ကိုလိုက်၍ ဇာတ်အမျိုးမျိုး ကွဲပြားလာကာ ဇာတ်နိမ့်၊ ဇာတ်မြင့် စသည်ဖြင့် လူတန်းစားခွဲခြားခြင်းများလည်း ရှိလာခဲ့လေသည်။

အာရိယန်တို့၏ အရှိန်အဝါသည် အိန္ဒိယလွင့်ပြင်ကြီးတလျှောက်၌ ပျံ့နှံ့လွှမ်းမိုးခဲ့သော်လည်း၊ တောင်ဖက်သို့ကား ကောင်းစွာမပျံ့နှံ့ မထိုးဖောက်နိုင်ခဲ့ချေ။ တဖြည်းဖြည်း တစတစဖြင့် အာရိယန်တို့သည် တိုင်းရင်းသားများနှင့် လူမျိုးချင်းရောရှက်ကာ အာရိယန်လူမျိုးစစ်စစ်သည် တဖြည်းဖြည်း တိမ်ကောပပျောက်ခဲ့လေသည်။ သို့သော် အာရိယန်တို့၏ဘာသာစကားဖြစ်သော သက္ကဘာဘာသာစကားဖြင့် ရှေးဟောင်းစာပေကျမ်းဂန်များစွာတို့ကို မှတ်တမ်းတင်ထားခဲ့သဖြင့် ထိုဘာသာစကားသည် ယခုတိုင်မတိမ်မြုပ်မပျောက်ကွယ်ခဲ့သေးပေ။ ယင်းသည် အရေးပါသော ကမ္ဘာ့မူလဘာသာစကားကြီးတရပ်လည်း ဖြစ်ခဲ့၍ ကမ္ဘာ့ ဘာသာ စကားများကို ဆန်းစစ်ရာ၌ များစွာအထောက်အကူဖြစ်ခဲ့ပေသည်။ သက္ကတဘာသာစကားကို ဆန်းစစ် လေ့လာခြင်းအားဖြင့် ယင်း ဘာသာစကားကို ပြောဆိုခဲ့သော ရှေးအာရိယန်လူမျိုးများ အကြောင်း၊ ယင်းလူမျိုးများ ပျံ့နှံ့ခဲ့ပုံ၊ ယင်းတို့မှ ဆင်းသက်ဆက်နွယ်ပေါက်ပွားခဲ့သော လူမျိုးများအကြောင်း စသည်တို့ကို လေ့လာ သိရှိနိုင်ခဲ့ ကြလေသည်။ (ဘာသာစကားရပ်ပညာ။ သက္ကတနှင့် ပါဠိဘာသာ — ရှု။)

အာရိယန်ဟူသောအမည်ကို အိန္ဒိယ ကျွန်းဆွယ်သို့ ရောက်သူများက ခံယူခဲ့ကြသည်။ သက္ကဘာဘာသာစကားဖြင့် အာရိယန်၏အဓိပ္ပါယ်သည် "မြင့်မြတ်သော"ဟူ၍ ၎င်း၊ "ကောင်းမြတ်သော"ဟူ၍၎င်း၊ "ရေမြေသခင်" ဟူ၍၎င်း အဓိပ္ပါယ်ရပေသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီကာလက ဂျာမနီနိုင်ငံ၏အာဏာရှင် အဲဒေါ့ ဟစ်တလာက ဂျာမန်လူမျိုးများသည် မြင့်မြတ်သော အာရိယန်လူမျိုးများ၏ အဆက်အနွယ်များဟုဆိုလျက် ဂျာမန်တမျိုးသားလုံးကို စည်းရုံးပြီးလျှင် အာရိယန်အဆက်အနွယ်မဟုတ်သော ယဟူဒီလူမျိုးများကို တိုက်ခိုက်သုတ်သင်ခဲ့သည်။ စင်စစ် ဥရောပတိုက်သားလူမျိုးများအနက် ဂျာမန်တဦးတည်းသာလျှင် အာရိယန်တို့၏အဆက်အနွယ်များမဟုတ်ပဲ အခြားဥရောပလူမျိုးများလည်း ရှိသေးကြောင်း ရှေ့ပိုင်းတွင် ဖော်ပြခဲ့ပြီးလေပြီ။ ရှေးဟိန္ဒူတို့၏ ဗြဟ္မာကျမ်းများတွင်လည်း ဟိန္ဒူတို့က မိမိတို့သည် အရိယာ၊ သို့မဟုတ် မြင့်မြတ်သော အမျိုးအနွယ်များဟူ၍ သုံးနှုန်းဖော်ပြထားလေသည်။

**အာရေဗျကျွန်းဆွယ်။** ။အာရှ တိုက်၏ အနောက်တောင်ဖက်ဖျားရှိကျွန်းဆွယ်ကြီးကို အာရေဗျကျွန်းဆွယ်ဟု ခေါ်သည်။ မြောက်လတ္တီတွဒ် ၁၂° မှ ၃၂° အတွင်းနှင့် အရှေ့လောင်ဂျီတွဒ် ၃၅° မှ ၆၀° အတွင်း၌ တည်ရှိသည်။

မြောက်ဖက်တွင် အက္ကဗာပင်လယ်ကွေ့ထိပ်မှစ၍ထရန်စဂျော်ဒန်နိုင်ငံ (ဂျော်ဒန်နိုင်ငံ)၊ အီရက်နိုင်ငံတို့နှင့်စပ်၍ ပါးရှင်းပင်လယ်ကွေ့အထိ ကျယ်ပြန့်သည်။အနောက်ဖက်တွင် ပင်လယ်နီ၊ အရှေ့ဖက်တွင် ပါးရှင်းပင်လယ် ကွေ့နှင့် အိုမန်ပင်လယ်ကွေ့၊ တောင်ဖက်တွင် အေဒင် ပင်လယ်ကွေ့၊ အာရေဗျပင်လယ်နှင့် အိန္ဒိယသမုဒ္ဒရာတို့ ဝန်းရံလျက်ရှိသည်။အနောက်မြောက်ထောင့်မှ အရှေ့တောင်ထောင့်အထိ အလျားမိုင် ၁,၇၀၀ ကျယ်သည်။ တောင်ဖက်ကမ်းသည် အကျယ်ဆုံးဖြစ်၍ ပျမ်းမျှခြင်း အားဖြင့် မိုင် ၆၀၀ ခန့်ကျယ်သည်။ အချို့နေရာ၌ မိုင် ၁,၂၀၀အထိ ကျယ်သည်။ အာရေဗျ ကျွန်း ဆွယ် တခုလုံး၏ အကျယ်အဝန်းသည် ဧရိယာစတုရန်းမိုင်ပေါင်း ၁,၀၀၀,၀၀၀ ခန့် ကျယ်ပြန့်၍ မြေပုံပေါ်တွင်ကြည့်က ဗွတ်ဖိနပ်ကြီးနှင့် ခပ်ဆင်ဆင်တူလေသည်။ မြန်မာနိုင်ငံထက် လေးဆခန့်ကျယ်ဝန်းသည်။ သို့ရာတွင် လူဦးရေဆယ်သန်းခန့်ရှိရာသား မြန်မာနိုင်ငံလူဦးရေ၏သုံးပုံတပုံခန့်သာ ရှိသည်။

အာရေဗျကျွန်းဆွယ်သည် များသောအားဖြင့် ပူပြင်းခြောက်သွေ့သော သဲကန္တာရပြင်ကြီးဖြစ်သည်။ မြက်ပင်နှင့် ခြုံဖုတ်များ အနည်းငယ်မျှသာ ပေါက်ရောက်ပြီးလျှင် ကျောက်ခဲ ကျောက်တောင်များပေါများလှသည်။ အချို့ဒေသများတွင် စိမ်းလန်းစိုပြေ၍ မြေသြဇာကောင်းသော အိုအေးဆစ်ခေါ် ကန္တာရရိပ်သာများရှိသည်။ အာရေဗျကျွန်းဆွယ်၏ထင်ရှားသော သဲကန္တာရများမှာ မြောက်ဖက်တွင် နေဖတ်ကြီးသဲကန္တာရ၊ အရှေ့ဖက်တွင် နေဖတ်ငယ်၊ သို့မဟုတ် ဒါနာသဲကန္တာရ၊ အရှေ့တောင်ဖက်တွင် ရုဗာအာခါလီသဲကန္တာရ၊ ဘောင်ဖက်တွင် အယ်အာကက်သဲကန္တာရတို့ ဖြစ်ကြသည်။

အာရေဗျ ကျွန်းဆွယ်ကို သဘာဝအားဖြင့် အပိုင်းကြီးသုံးပိုင်း ပိုင်းနိုင်သည်။ (၁) ဟာဂျက်၊ အစီးယား၊




အာရေဗျကျွန်းဆွယ် တည်နေရာ ပြမြေပုံ

ယေမင်၊ ဟက်ဒရာမောက်၊ အိုမန်နှင့် ဟာဆာ နယ်မြေများပါဝင်သည့် မြေသြဇာ ကောင်းမွန်သော အပြင်ပိုင်း၊ (၂) နဖတ်၊ ဒါနာနှင့် ရုဗာအာခါလီသဲကန္တာရများ ပါဝင်သည့် ခြောက်သွေ့ရေရှားသည့်အပိုင်း၊ (၃)သဲကန္တာရအတိုင်းသော အတွင်းဆုံးပိုင်းတို့ ဖြစ်ကြသည်။ ယေဘုယျအားဖြင့်ဆိုရမူ အာရေဗျကျွန်းဆွယ်နေရာခပ်များများသည် ခြောက်သွေ့သောသဲကန္တာရဖြစ်သည်။ ဤအာရေဗျသဲကန္တာရသည်ကမ္ဘာပေါ်တွင်အာဖရိကတိုက်ရှိ ဆဟာရသဲကန္တာရနောက် အကျယ်ပြန့်ဆုံး သဲကန္တာရဖြစ်၍သည်။

ပင်လယ်ကမ်းပါးတလျှောက်၌ အကျယ် ပျမ်းမျှခြင်းအားဖြင့် ၁၀ မိုင်မှ မိုင် ၂၀ ရှိသော တီဟာမား ကမ်းရိုးတန်းလွင်ပြင်ရှိသည်။ ထိုကမ်းရိုးတန်း လွင်ပြင်အနောက်ဖက်ဘွင် ဟက်ဂျက် တောင်တန်းရှိသည်။ ယင်းတောင်တန်းသည် ဟက်ဂျက်နိုင်ငံ(ဆအူဒီ အာရေဗျ) ဖက်တွင် ပေ ၇,၀၀၀ ကျော်မြင့်၍ ယေမင်နိုင်ငံဖက်သို့ ရောက်သောအခါ ပေ ၁၀,၀၀၀ ကျော်မြင့်သော တောင်ထွတ်များကို တွေ့ရှိနိုင်သည်။ ဟက်ဂျက် တောင်တန်းကြီး၏ အနောက်ဖက်တွင် ပျမ်းမျှခြင်းအားဖြင့် ပေ ၂,၅၀၀ မြင့်

သော နက်ဂျက်ကုန်းပြင်မြင့်ရှိသည်။ ယင်း ကုန်းပြင်မြင့်တွင် ဂျေဗယ်ရှမ်းမားကုန်းမြင့်သည် ပေ ၅,၀၀၀ အထိမြင့်သည်။ နက်ဂျက်နှင့် ရှမ်းမားကုန်းမြင့်သည် ပါးရှင်း ပင်လယ်ကွေ့ဖက်သို့ နိမ့်ဆင်းသွားသည်။ ပါးရှင်းပင်လယ်ကွေ့တဝိုက်၌ ကျယ်ပြန့်သော မြေနိမ့်လွင်ပြင်ကြီးရှိသည်။

အာရေဗျကျွန်းဆွယ်၌ တနှစ်ပတ်လုံး ရေရှိသောမြစ်ချောင်းဟူ၍ရင်း၊ ရေအိုင်စစ်စစ်ဟူ၍ ရင်း မရှိချေ။ မြစ်ချောင်းများသည် ရေခန်းခြောက်နေသည်သာများသည်။ ရေများခန်းခြောက်နေသော မြစ်ချောင်းရာများကိုတွေ့ရှိရာ အာရေဗျကျွန်းဆွယ်သည် ရှေး လွန်လေပြီးသော အခါက ယခုထက် မိုးပိုမိုရွာသွန်းခဲ့ဘူးလိမ့်မည်ဟု ခန့်မှန်းရသည်။ ယခုမူ အလွန်ခြောက်သွေ့၍ ရာသီဥတုအပူချိန်သည် ၁၃၀ အထိရှိတတ်သည်။ ကျွန်းဆွယ်၏ အနောက်တောင်စွန်းကို "အာရေဗျ ဖေလစ်" ဟု ခေါ်သည်။ အဓိပ္ပါယ်မှာ "ကံ ကောင်းသောအာရေဗျ" ဟူ၍ဖြစ်သည်။ နွေအခါတွင် အာရေဗျကျွန်းဆွယ်၏ ထိုအပိုင်းကိုပင်လယ်မှ တိုက်ခတ်လာသော မိုးငွေ့ပါသည့် လေသည် ဖြတ်၍သွားကာ အတွင်းပိုင်းတောင်ကုန်းဒေသအချို့၌ မိုးအဖြစ်ရွာသွန်းသည်။ ရံဖန်ရံခါ ရွာသွန်းသောမိုးကြောင့် သစ်ပင်ငယ်များ ကျိုးကျဲပေါက်သည်။

ရာသီဥတု ခြောက်သွေ့ ပူပြင်းသဖြင့် အာရေဗျကျွန်းဆွယ်တွင် စမ်းချောင်းနှင့် ရေတွင်းများရှိရာ အိုအေးဆစ်များ၌သာ သစ်ပင်သီးပင် အနည်းငယ် စိုက်ပျိုးနိုင်သည်။ အိုအေးဆစ်များ၌ စွန်ပလွံပင်များ အများအပြား စိုက်ပျိုးကြသည်။ ရာသီဥတုကောင်းသောနှစ်များတွင်သဖန်းပင်၊ စပျစ်ပင်၊ ပြောင်းပင်တို့ကို ဆည်မြောင်းများဖောက်၍ ရေရယူနိုင်သော ဒေသအချို့တွင် စိုက်ပျိုးကြသည်။ ကျွန်းဆွယ်၏အနောက်တောင်စွန်းဖြစ်သော ယေမင်နိုင်ငံ၌မူကာဖီ၊ ဂျုံ၊ဗာလီနှင့် နှံစားပြောင်းများစိုက်ပျိုးသည်။ ယေမင်နိုင်ငံမှထွက်သော မိုချာကာဖီသည် အလွန်ကောင်းသဖြင့် နာမည်ကြီးသည်။

အာရေဗျကျွန်းဆွယ်အိုအေးဆစ်ဒေသများတွင် မြင်း၊ ကုလားအုပ်၊ ငှက်ကုလားအုပ်၊ ဒရယ်၊ မြေခွေး၊ ခွေးအနှင့် တခါတရံ ခြသေ့်များကို တွေ့ရှိရသည်။ အာရေဗျမြင်းသည် အပြေးမြန်၍ အမောခံနိုင်သည့်ဖက်တွင် ကမ္ဘာကျော်ဖြစ်သည်။ ကုလားအုပ်မှာမူ အာရေဗျ သဲကန္တာရတွင် အသုံးအကျဆုံးသော ယာဉ်တမျိုး ဖြစ်သည်။မြင်းသည် နက်ဂျက်နိုင်ငံမှထွက်၍ ကုလားအုပ်သည် အိုမန်နိုင်ငံမှထွက်သည်။ အာရေဗျကျွန်းဆွယ်တွင် သံ၊ကြေးနီ၊ ခဲ အနည်းငယ်ထွက်သည်မှအပ အခြား ဓာတ်သတ္တုများ အကြီးအကျယ်မထွက်သော်လည်းဒုတိယကမ္ဘာစစ်အတွင်းမှစ၍ အင်္ဂလိပ်နှင့် အမေရိကန် ရေနံ ကုမ္ပဏီကြီးများက ရေနံလာရောက်ရှာဖွေရာ ယခုအခါ ပါးရှင်း ပင်လယ်ကွေ့ထဲ၌ တည်ရှိသော ဗာရိန်းကျွန်း၊ ဆအူးဒီ အာရေဗျနိုင်ငံ၊ အိုမန်နိုင်ငံ၊ ကော့တာနိုင်ငံနှင့်ကူဝိတ်နိုင်ငံ၊ အာရပ်စော်ဘွား နယ်ပေါင်းစုနိုင်ငံတို့တွင် ရေနံအကြီးအကျယ် တွေ့ရှိလေသည်။ ရေနံထွက်ကုန်ကြောင့် အာရေဗျကျွန်းဆွယ်သည် ကမ္ဘာတွင် အရေးပါအရာရောက်လာလေသည်။

အာရေဗျကျွန်းဆွယ်၏ လမ်းပန်းအဆက်အသွယ်သည် ညံ့ဖျင်းသည်။ ခရီးရှည် သွားလာလိုသည့်အခါ ကုလားအုပ်များကိုပင် အသုံးပြုကြသည်။ ကျောက်ခင်းလမ်း ဟူ၍ ဂျစ်ဒါမှ မက္ကာ၊ မဒီနားမြို့သို့ သွားသော လမ်းတလမ်းသာရှိသည်။ အာရေဗျကျွန်းဆွယ်၌ မီးရထားလမ်းဟူ၍ တခုတည်းသာရှိသည်။ ယင်းမှာ ပင်လယ်နီကိုမျဉ်းပြိုင်ဖောက်ထားသော ထရန့်စဂျော်ဒန်မှ မဒီနားသွားရထားလမ်းဖြစ်သည်။ အရေးပါသော မြို့ကြီးများတွင် ရေကြောင်းခရီးလမ်းများ ဖွင့်ထားသည်။

အာရေဗျ ကျွန်းဆွယ်တွင် စည်ကား ကြီးကျယ်သော မြို့ကြီးများဟူ၍ များများစားစားမရှိချေ။ ဆအူးဒီအာရေဗျနိုင်ငံ ဟက်ဂျက်နယ်တွင် အစ္စလာမ် အယူဝါဒီတို့၏ အထွတ်အမြတ်ထားရာ မက္ကာနှင့် မဒီနားမြို့၊ ဆိပ်ကမ်းမြို့ဖြစ်သော ဂျစ်ဒါနှင့် ယမ်ဗိုမြို့၊ ဆအူးဒီ အာရေဗျနိုင်ငံ၏မြို့တော် ရိယတ်မြို့၊ ဟိုဖတ်မြို့နှင့် ပေးမြို့၊ယေမင်အာရပ်သမတနိုင်ငံ၏ မြို့တော် ဆန်နာ၊ ဆိပ်ကမ်းမြို့မိုချာ၊ အိုမန်နိုင်ငံ၏မြို့တော် မတ်စကက်မြို့၊ ယေမင်ပြည်သူ့ဒီမိုကရက်တစ်သမတနိုင်ငံ၏မြို့တော် မဒီနာ အယ် အက်ရှစ်မြို့နှင့် အုပ်ချုပ်ရေးရုံးစိုက်ရာ အေဒင်မြို့၊ ကူဝိတ်နိုင်ငံ၏ မြို့တော် ကူဝိတ်မြို့တို့ဖြစ်ကြသည်။ ဒေသ၏မြေမျက်နှာပြင် ရာသီဥတုစသော အထွေထွေအခြေအနေအရ လူအများစုဝေးမှီတင်း နေထိုင်ခြင်းမပြုနိုင်သဖြင့် မြို့ကြီးများရှားပါးခြင်းဖြစ်သည်။

မက္ကာနှင့် မဒီနားမြို့များသည် အစ္စလာမ်အယူဝါဒီတို့အထွတ်အမြတ်ထားရာမြို့များဖြစ်သဖြင့် ကမ္ဘာ့အရပ်ရပ်မှအစ္စလာမ်အယူဝါဒီတို့ နှစ်စဉ် လာရောက်ကြသောကြောင့် အလွန်စည်ကားသည်။ (မက္ကာမြို့ —ရှု။)

အာရေဗျကျွန်းဆွယ်တွင် လူမျိုးပေါင်းများစွာရှိသည် အနက် မြေသြဇာကောင်းရာ ပင်လယ်ကမ်းမြောင်ဒေသနှင့် မြို့ရွာများတွင် အမြဲနေထိုင်ကြသူများနှင့် သဲကန္တာရအတွင်းတွင် ရေကြည်ရာမြက်နုရာသို့ အစဉ် သွားလာလှည့်လည်နေတတ်သော လူမျိုးများဟူ၍နှစ်မျိုးရှိကြသည်။

လူဦးရေ ဆယ်သန်းခန့်ရှိသည်အနက် အတည်တကျမနေပဲ လှည့်လည်သွားလာနေတတ်သော ဗက်ဒူးအင်လူမျိုး တသန်းခန့်ပါဝင်သည်။ ဗက်ဒူးအင်တို့သည် သိုးများဆိတ်ပုများကို မွေးမြူထိန်းကျောင်း နေထိုင်ကြသည်။

အာရပ် လူမျိုးတို့ကား သဲကန္တာရအတွင်း မွေးဖွား၍ သဲကန္တာရအတွင်း ကြီးပြင်း လာရသော လူမျိုးများ ဖြစ်သည့်အတိုင်း အပူခံနိုင်ကြသည်။ ကြွခိုင်သန်စွမ်း၏၊ အမောခံနိုင်၏၊ကုလားအုပ်သည် အစာအနည်းငယ် စား၍ သဲကန္တာရထဲတွင် ရက်ပေါင်းများစွာ ရေမသောက်ပဲ ခရီး သွားနိုင်သကဲ့သို့ အာရပ်တို့သည်လည်း တလက်ဆုပ်စာမျှ သော စွန်ပလွံသီးများကိုစား၍ တင်းတိမ်စွာသွားလာနိုင် သည်ဟု ဆိုသည်။

မြို့နေလူတို့သည် ထုံးကျောက်များဖြင့် တိုက်အိမ်များ ဆောက်လုပ်နေထိုင်ကြသော်လည်း တောရွာများ၌မူကား မြက်ပင်ကျူပင်များကို ရွှံ့စေးများဖြင့် အမိုးအကာပြုလုပ် နေထိုင်ကြသည်။ အာရပ်လူမျိုးများသည် ယောကျ်ား မိန်းမမခြား ရှည်လျားသော ဝတ်လုံအင်္ကျီရှည်များကို ဝတ်ဆင်ကြသည်။

တမန်တော်မိုဟမ္မဒ် မဖွားမြင်မီ (ခရစ် ၅၇၁ ခုနှစ်)က အာရှဧဗျကျွန်းဆွယ်၏ သမိုင်းကို အနည်းငယ်သာ သိကြ သည်။ အရှေ့ဖက်မှ သဲကန္တာရနှင့် အနောက်ဖက်မှ တောင်တန်းကြီးကာဆီးနေရကား အာရှဧဗျကျွန်းဆွယ်၏ လူနေမှုအခြေအနေသည် နှစ်ရာပေါင်းများစွာ တိုးတက် ပြောင်းလဲမှုဟူ၍ မရှိခဲ့ချေ။ အာရပ်တို့သည် အစ္စလာမ် အယူဝါဒီများ မဖြစ်မီကပင် နိုင်ငံခြားများသို့ ရောက်ဘူး သော်လည်း စီးပွားရှာမှုတခုတည်းကိုသာ စိတ်ဝင်စား ခဲ့ကြသည်။ တမန်တော်မြတ် ပေါ်လာသည့်အချိန်မှစ၍ အာရပ်လူမျိုးတို့သည် အယူဝါဒရေးကို အကြောင်းပြု၍ တလုံးတစည်းတည်း ဖြစ်လာကြသည်။ (မိုဟမ္မဒ်။ အစ္စလာမ် အယူဝါဒ—လည်းရှု။) မိုဟမ္မဒ် လွန်တော်မူပြီးနောက် ဆက်ခံသူများသည် နိုင်ငံအသီးအသီးသို့ သာသနာပြုရန် စစ်ချီကြသည်။ သာသနာပြုရာမှအစပြု၍ နိုင်ငံပေါင်း များစွာကို အုပ်ချုပ်သူများအဖြစ်သို့ ရောက်ရှိကြသည့် အခါ တိုးတက်မှုအရပ်ရပ်ကို လိုက်စားကြသည်။ မိုဟမ္မဒ် နောက်ဆက်ခံသူ အစ္စလာမ်ခေါင်းဆောင်များကို ကေးလစ် ဟုခေါ်သည်။ ကေးလစ်တို့လက်အောက်တွင် အာရပ် တို့သည် အလွန်အင်အားကောင်းရကား ဥရောပ၊အာဖရိက နှင့် အာရှတိုက်များသို့တိုင် သိမ်းပိုက်နိုင်ခဲ့ကြသည်။ ကေးလစ်တို့သည် ရှေးဦးစွာ မဒီးနားမြို့မှနေ၍ မွတ်စလင် နိုင်ငံတော်ကြီးကို အုပ်ချုပ်ကြသည်။ နောက်ဒမတ်စကက် မြို့၊ ထိုနောက် ဗက်ဒ်ဒ်လုံးမြို့တို့မှ အုပ်ချုပ်ကြသည်။ဥရောပ ကို အောင်မြင်သည့်အခါ ဂရိတို့ ပျက်သုဉ်းပြီးနောက် ဂရိပညာရှိတို့၏ ပညာဉာဏ်သည် ကာလကြာဖြင့်စွာ ညှိုးမှိန် လျက်နေရာ အာရပ်တို့က ဆက်လက်၍ အသက်ဆက်ပေး ခဲ့ကြသည်။ ထိုပြင် ဟိန္ဒူတို့၏ သင်္ချာကျမ်းများကိုလည်း အာရပ်တို့လေ့လာကြသည်။ ထိုဂရိကျမ်း၊ သင်္ချာကျမ်း တို့ကိုအခြေပြုကာ အာရပ်တို့သည် မိမိတို့၏ ပညာသစ် ဉာဏ်သစ်တို့ကို ကမ္ဘာသို့ အမွေပေးခဲ့လေသည်။ ဆေး ပညာ၊ နက္ခတ္တပညာ၊ ရူပဗေဒတို့ကို အာရပ်ပညာရှိတို့သည် တိုးတက်အောင်ဆောင်ရွက်ခဲ့ကြသည်။ ယခုအခါ ဥရောပ တိုက်၌ အသုံးပြုလျက်ရှိသော တစ်၊ နှစ်၊ သုံး စသော ဂဏန်းအရေးအသားတို့သည် အာရပ်တို့၏ ဂဏန်းအရေး အသားများ ဖြစ်သည်။ ဒသမတွက်နည်းစံနစ်သည်လည်း အာရပ်တို့၏ စံနစ်ပင်ဖြစ်သည်။ အာရပ်တို့သည် သတ္တုရိုင်း ကို အသုံးချသောနည်း၊ ဆေးဆိုးနည်း၊ အဆီအနှစ်ထုတ် နည်း၊ မျက်မှန်စီရင်နည်းတို့ကို သိခဲ့ကြသည်။ သို့ရာတွင် အာရပ်တို့သည် အဂ္ဂိရတ်ကိုသာ အထူးလိုက်စားကြသည်။ ရွှေဖြစ်ငွေဖြစ်လမ်း၊ ပြဒါးဝိဇ္ဇာ၊ သံဝိဇ္ဇာ၊ မသေစေတတ် သော အမတဆေးတတ်ကိုသာ အာရုံစူးစိုက်ခဲ့ကြလေသည်။ ထိုအဂ္ဂိရတ်နည်းသည် ဥရောပတိုက်သို့ ရောက်သွားရာ ထိုနည်းကို အမှီပြု၍ ဓာတုဗေဒသည် တစတစပေါ်ထွန်း လာသည်။ စာပေဖက်၌လည်း အာရပ်တို့သည် အလွန် တိုးတက်လာသည်။ အာရပ်စာဆိုများ ရေးခဲ့သောကဗျာ နှင့်ပုံပြင်တို့သည် ကမ္ဘာကျော်စာပေစု၌ ပါဝင်စေလသည်။

၁၂၅၈ ခုနှစ်တွင် ကေးလစ်တို့ တန်ခိုးကျရာ ဥရောပရှိ ပိုင်နက်များကို စွန့်လွှတ်ခဲ့ရသည်။ ခရစ်နှစ် ၁၅၀၀ ကျော် တွင် တူရကီတို့က အာရှဧဗျကျွန်းဆွယ်ရှိ ဟက်ဂျက်နှင့် ယေမင်နိုင်ငံများကို သိမ်းပိုက်လိုက်သည်။ သို့ရာတွင် ယေမင်နှင့် အိုမန်နိုင်ငံတို့သည် တူရကီတို့လက်အောက်မှ ပဌမဆုံး လွတ်မြောက်ခဲ့ကြသည်။ အေဒင်နိုင်ငံကိုလည်း ဗြိတိသျှတို့က ၁၈၃၉ ခုနှစ်မှစ၍ သိမ်းပိုက်အုပ်ချုပ်ကြ သည်။ ၁၈၀၀ ပြည့်နှစ်ကျော်ထွင် မိဟာမက် အလီနှင့် အီဗရာဟမ် ပါးရှားတို့ခေါင်းဆောင်သော အီဂျစ်တို့က ယခု ဆအူးဒီအာရှဧဗျနိုင်ငံနေရာကို သိမ်းပိုက်ထားခဲ့သည်မှာ ၁၈၄၀ ပြည့်နှစ်အထိ ဖြစ်သည်။

ပဌမကမ္ဘာစစ်မဖြစ်ပွားမီက အာရှဧဗျကျွန်းဆွယ်တခု လုံးလိုလိုပင် တူရကီနိုင်ငံ၏ လက်အောက်ခံဖြစ်လေသည်။ စစ်ကြီးဖြစ်ပွားသောအခါ အင်္ဂလိပ်တို့သည် အာရှဧဗျ နယ်စား စော်ဘွားများကို တန်စိုးလက်ဆောင်ပေးပြီးလျှင် တူရကီအစိုးရကို တော်လှန်စေသည်။စစ်ကြီးပြီး၍ တူရကီတို့ စစ်ရှုံးသောအခါ အာရှဧဗျနိုင်ငံများသည် လွတ်လပ်သော နိုင်ငံငယ်များ ဖြစ်လာသည်။ ဟူစိန်ဘုရင်ဦးစီးသော ဟက်ဂျက်နိုင်ငံနှင့် အစ်ဗင်ဆုအူး ဦးစီးသောနက်ဂျက်နိုင်ငံ ဟူ၍ ထွန်းကားလာသည်။ အင်္ဂလိပ်တို့သည် ထိုနှစ်နိုင်ငံကို ရန်တိုက်ပေးလေသည်။ ၁၉၂၄ ခုနှစ်တွင် ဟက်ဂျက်ဘုရင် ဟူစိန်သည် အစ္စလာမ်အယူဝါဒီနိုင်ငံများ၏ သဘော တူညီချက်မရပဲ ကေးလစ်ခေါ် အစ္စလာမ်ခေါင်းဆောင်ဘွဲ့ကို ခံယူရာ နက်ဂျက်နိုင်ငံနှင့် စစ်ဖြစ်ပွားရလေသည်။ အင်္ဂလိပ်

တို့သည် ဟူစိန်ဘုရင်ကို အကူအညီမပေးပဲနေသဖြင့် ဟူစိန် စစ်ရှုံးရသည်။ ထို့ကြောင့် နက်ဂျက်ဘုရင် အစ်ဗင်ဆုအူး သည် နက်ဂျက်နိုင်ငံနှင့် ဟက်ဂျက်နိုင်ငံကို သွေးစည်း ပူးပေါင်း၍ ဆအူးဒီအာရေဗျနိုင်ငံဟူသော အမည်မှည့် တည်ထောင်လိုက်သည်။ (ဆအူးဒီ အာရေဗျနိုင်ငံ—ရှု။) ဆုအူးဘုရင်သည် အစ္စလာမ်ခေါင်းဆောင်ဘွဲ့နှင့်စပ်လျဉ်း၍ အစ္စလာမ်အယူဝါဒီနိုင်ငံအားလုံးကို ဖိတ်ခေါ်ကာ ညီနိုင်း တိုင်ပင်သည်။ အစ္စလာမ်အယူဝါဒီနိုင်ငံများ စည်းလုံး ညီညွတ်ပုံကိုတွေ့မြင်ရသောအခါ အင်္ဂလိပ်တို့သည် အာရေ ဗျကျွန်းဆွယ်တွင် ထပ်မံ၍ မစွက်ဖက်ဝံ့ကြတော့ချေ။ သို့ရာတွင် ပင်လယ်နီအဝင်ဝရှိ အေဒင်မြို့ကိုမူကား သင်္ဘော စခန်းအဖြစ် ကောင်းမွန်သောကြောင့် ၁၉၆၇ ခုနှစ်အထိ အင်္ဂလိပ်တို့ သိမ်းယူထားခဲ့ကြသည်။

ယခုအခါ အာရေဗျကျွန်းဆွယ်တွင် ဆအူးဒီအာရေဗျ နိုင်ငံ၊ ယေမင်အာရပ်သမတနိုင်ငံ၊ ယေမင်ပြည်သူ့ဒီမိုကရက် တစ်သမတနိုင်ငံ၊ဗာရိန်းနိုင်ငံ၊ကူဝိတ်နိုင်ငံ၊အာရပ်စော်ဘွား နယ်ပေါင်းစုနိုင်ငံ (ထရူးရှဲပြည်နယ်များ)၊ ကောတာနိုင်ငံ နှင့် အိုမန်နိုင်ငံတို့ရှိကြသည်။ ယင်းတို့အနက် ဆအူးဒီ အာရေဗျနိုင်ငံသည် အကြီးဆုံးဖြစ်သည်။

ယေမင် ပြည်သူ့ဒီမိုကရက်တစ် သမတနိုင်ငံ။ ။၁၉၆၇ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် တောင်ပိုင်းယေမင်သမတ နိုင်ငံဟု လွတ်လပ်လာခဲ့သောနိုင်ငံကို ၁၉၇၀ ပြည့်နှစ် နိုဝင်ဘာလ ၃၁ ရက်နေ့တွင် ယေမင်ပြည်သူ့ဒီမိုကရက်တစ် သမတနိုင်ငံဟု အမည်ပြောင်းလိုက်လေသည်။ (တောင်ပိုင်း ယေမင်နိုင်ငံ—ရှု။)

ယေမင် အာရပ် သမတနိုင်ငံ။ ။ယေမင် ပြည်သူ့ ဒီမို ကရက်တစ်သမတနိုင်ငံ၏ အနောက်တောင်ဖက် အာရေဗျ ကျွန်းဆွယ် အနောက်တောင်ဒေါင့်သည် ယေမင် နိုင်ငံဖြစ် သည်။ အကျယ်အဝန်းအားဖြင့် ၇၅,၂၉၀ စတုရန်းမိုင်ရှိ ၍ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ လူဦး ရေ ၆,၀၆၀,၀၁၁ ရှိသည်။ များသောအားဖြင့် အာရပ် လူမျိုးများ ဖြစ်ကြသည်။ ပဌမကမ္ဘာစစ် ပြီးသည်မှစ၍ တူရကီလက်အောက်ခံဘဝမှ လွတ်မြောက်ခဲ့၍ ဘုရင်အုပ် ချုပ်သော သီးခြားနိုင်ငံငယ်ဖြစ်လာသည်။ ယေမင်ဘုရင် သည်ယေမင်နိုင်ငံ၏ နိုင်ငံရေးခေါင်းဆောင်သာမက အယူ ဝါဒရေးရာ ခေါင်းဆောင်လည်း ဖြစ်သည်။ တမန်တော် မိုဟာမွဒ်၏ သမက်အလီမှ ဆင်းသက် ဆက်နွယ်သူများ ဖြစ်သည်ဟု ဆိုသည်။ ယေမင်နိုင်ငံသို့ နိုင်ငံခြားသားများ ကို ဝင်ခွင့်ပြုသည်မှာ မကြာသေးချေ။ ဦးစွာ၌ နက်ဆာ ၏ အီဂျစ် နိုင်ငံခြားရေးဝါဒကို လိုက်နာ ခဲ့သော်လည်း နောင်အခါ အမေရိကန်၊ ဗြိတိန်စသော နိုင်ငံများနှင့်လည်း အဆက်အသွယ်ပြုလုပ်ခဲ့သည်။

၁၉၆၂ ခုနှစ် စက်တင်ဘာလ ၂၆ ရက်နေ့တွင် ဘုရင် အိမ် အာမက် လုပ်ကြံ သတ်ဖြတ်ခြင်း ခံခဲ့ရ၍ ဗိုလ်မှူးချုပ် အဗ္ဗဒုလာ အယ် ဆာလာခေါင်းဆောင်သည့်တော်လှန်ရေး အုပ်စုက နိုင်ငံကို ယေမင်အာရပ်သမတနိုင်ငံ ဟု ကြေညာ ခဲ့သည်။ အယ် ဆာလာသည် သမတဖြစ်လာခဲ့၏။

အိမ် အာမက်၏ သားတော် အီမံ မိုဟာမွဒ် ဆယ်ဗေဒါ သည် တောင်တန်းများရှိရာ ထွက်ခွာသွားကာ တောင် ပေါ်သားများ၏ အကူအညီကို ရယူပြီးလျှင် ထီးနန်းကို ပြန်ရရန်တိုက်ခိုက် ခဲ့သည်။ ဤသို့အားဖြင့်ဘုရင့်ဂိုဏ်းသား များနှင့် သမတဂိုဏ်းသားတို့အကြား ပြည်တွင်းစစ် ဖြစ် ပွားခဲ့ရာ အီဂျစ်သမတနက်ဆာက သမတဂိုဏ်းသားများ ဖက်မှ စစ်တပ်အကူအညီများပေးခဲ့၍ဆအူးဒီအာရေဗျက ဘုရင့်ဂိုဏ်းသားများဖက်မှ အလားတူ အကူအညီများ ပေးခဲ့လေသည်။

၁၉၆၇ ခုနှစ် အာရပ်—အစ္စရေးယယ်စစ်ပွဲနောက်ပိုင်းတွင် အီဂျစ်ဘပ်များကို ရုပ်သိမ်းခဲ့၍ဆအူးဒီ အာရေဗျကလည်း ဘုရင့်ဂိုဏ်းသားများအား ကူညီနေခြင်းကို ရပ်ဆိုင်းမည် ဟု ကြေညာခဲ့၏။ ထိုနှစ်နိုဝင်ဘာလတွင် သမတ အယ် ဆာလာ၏အစိုးရအဖွဲ့ကို သွေးမြေ မကျစေပဲ တော်လှန် ဖြုတ်ချလိုက်သည်။ အဗ္ဗဒူ ရာမန် အယ် အီရီယာနီ ခေါင်း ဆောင်သည့် သမတကောင်စီက တိုင်းပြည်ကို ဦးဆောင်၍ နောင်အခါ အယ် အီရီယာနီသည် သမတ ဖြစ်လာခဲ့ လေသည်။

သမတဂိုဏ်းသားများနှင့်ဘုရင့်ဂိုဏ်းသားများအကြား တိုက်ပွဲများလည်း ဆက်လက် ဖြစ်ပွားခဲ့ရာ တောင်ပိုင်း ယေမင်နိုင်ငံက သမတဂိုဏ်းသားများကို ကူညီခဲ့၍ဆအူး ဒီ အာရေဗျနိုင်ငံကလည်း ဘုရင့် ဂိုဏ်းသားများကို ပြန် လည်ကူညီလာခဲ့လေသည်။ ၁၉၇၀ ပြည့်နှစ် ဧပြီလတွင် ယေမင်နိုင်ငံနှင့်ဆအူးဒီ အာရေဗျနိုင်ငံတို့အကြားသဘော တူညီမှုများရရှိခဲ့၍ရင်း၊ အစိုးရအဖွဲ့တွင် ဘုရင့်ဂိုဏ်းသား အမြောက်အမြား ခန့်ထားခဲ့၍ရင်း တိုက်ခိုက်မှုများပြီးဆုံး သွားခဲ့လေသည်။

၁၉၆၇ ခုနှစ် အာရပ်—အစ္စရေးယယ်စစ်ပွဲကြောင့် အမေ ရိကန်ပြည်ထောင်စုနှင့် ယေမင်နိုင်ငံတို့အကြား သံတမန် အဆက်အသွယ်များ ပြတ်နေခဲ့ရာမှ ၁၉၇၂ ခုနှစ်တွင် ပြန် လည်ဆက်သွယ်ခဲ့၏။

ယေမင်အာရပ် သမတနိုင်ငံသည် ကုလသမဂ္ဂ အဖွဲ့ဝင် နိုင်ငံတခုဖြစ်၍ အာရပ်အမျိုးသားအဖွဲ့ဝင်နိုင်ငံ တခုလည်း ဖြစ်သည်။

ယေမင် နိုင်ငံသည် အာရေဗျကျွန်းဆွယ်တွင် စိုက်ပျိုး ရေးအကောင်းဆုံးဒေသဖြစ်သည်။ မိုချာကာဖီ အဘွက် ကျော်ကြားသည်။မိုချာကာဖီ၊ သားရေဝိမ်းများ၊ စွန်ပလွံ

သီးများ၊ ဝါဂွမ်း၊ နှမ်း၊ သစ်ဥများ၊ သစ်သီးများနှင့်အဖိုးတန်ကျောက်မျက်များ တင်ပို့ရောင်းချသည်။ ၁၉၇၂ ခုနှစ်တွင် ရေနံကိုစတင်တွေ့ရှိခဲ့သည်။ ယေမင်၏မြို့တော်သည် ဆန်နာမြို့ဖြစ်၍ ဟိုဒီအီဒါမြို့၊ မိုချာမြို့နှင့် လိုဟီအီ ယာမြို့တို့သည် ဆိပ်ကမ်းမြို့ကြီးများ ဖြစ်လေသည်။

အိုမန်နိုင်ငံ။ ။ယေမင် ပြည်သူ့ဒီမိုကရက်တစ် သမတနိုင်ငံ၏ အရှေ့ဖက်တွင်မူ အိုမန်နိုင်ငံရှိသည်။ ယခင်ကအိုမန်နှင့် မတ်စကက်နိုင်ငံဟုခေါ်သည်။ ယခုလက်ရှိ စူလတန်စော်ဘွား ကာဗတ် ဗင် ဆာအိက အိုမန်နိုင်ငံဟု အမည်ပြောင်းခဲ့ခြင်း ဖြစ်သည်။အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၈၂,၀၀၀ ရှိ၍ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေအရ လူဦးရေ ၇၀၀,၀၀၀ ယောက်ရှိသည်။ အများစုမှာ အာရပ်လူမျိုးများဖြစ်၏။ မြို့ကြီးများနှင့် ကမ်းရိုးတန်းတလျှောက်တွင် ဗလူချီလူမျိုး၊ ပါကစ္စတန်လူမျိုးနှင့် နီးဂရိုးလူမျိုးများကို တွေ့ရသည်။ စူလတန်စော်ဘွား အုပ်ချုပ်သော လွတ်လပ်သည့် နိုင်ငံဖြစ်သည်။ သို့ရာတွင် တဆဲ့ကိုးရာစုနှစ် အစောပိုင်းမှစတင်၍ ဗြိတိန်နိုင်ငံ၏ အစောင့်အရှောက်ကို ခံယူခဲ့လေသည်။ ဗြိတိန်နိုင်ငံနှင့် မဟာမိတ်စာချုပ်၊ ကူးသန်းရောင်းဝယ်ရေး စာချုပ်များ ချုပ်ဆိုထားခဲ့သည်။

အိုမန်နိုင်ငံသည် စိုက်ပျိုးရေးထွက်ကုန်နှင့် ဓာတ်သတ္တုကြွယ်ဝသောနိုင်ငံဖြစ်သည်။ စွန်ပလွံသီး၊ ရှောက်သီး၊ တလည်းသီးနှင့်ငါးခြောက်များကိုနိုင်ငံခြားသို့ တင်ပို့ ရောင်းချသည်။ရေနံလည်းအကြီးအကျယ်ထွက်သည်။ ၁၉၆၄ခုနှစ်တွင်စတင်တွေ့ရှိ၍ ၁၉၆၇ ခုတွင် စတင်ထုတ်လုပ်ခဲ့ရာ ၁၉၇၂ ခုနှစ်တွင် ကမ္ဘာ့ရေနံထွက်နိုင်ငံများတွင် ၁၆ အဆင့်မှလိုက်၏။ နာမည်ကျော် ကုလားအုပ်များကိုလည်း အကြီးအကျယ်မွေးမြူကြသည်။

မတ်စကက်မြို့သည် မြို့တော်ဖြစ်ရုံသာမက သင်္ဘောဆိပ် မြို့ကြီးလည်းဖြစ်သည်။ အခြားထင်ရှားသော မြို့မှာ မတြာ မြို့ဖြစ်သည်။ မတ်စကက်မြို့မှ မိုင် ၂၁၁ ဝေးသော ကာလဗာမြို့သို့ မော်တော်ကားလမ်း တခုရှိသည်။အခြားလမ်းများမှာ မြေဖို့လမ်းများသာ ဖြစ်သည်။

အိုမန်နိုင်ငံသည် ကုလသမဂ္ဂ အဖွဲ့ဝင်နိုင်ငံ ဖြစ်သည်။

အာရပ်စော်ဘွားနယ်ပေါင်းစုနိုင်ငံ။ ။အိုမန် နိုင်ငံ၏ အရှေ့ဖက်တွင် နယ်နိမိတ်ချင်း ဆက်စပ်လျက်ရှိသော အာရပ် စော်ဘွားနယ်ပေါင်းစုနိုင်ငံတွင်လည်း ၁၈၅၃ ခုနှင့် ၁၈၉၂ ခုနှစ်စာချုပ်များအရ ဗြိတိသျှ အစောင့်အရှောက်ခံရှိတ်စော်ဘွားများ အုပ်ချုပ်သော နယ်ခုနစ်နယ် ပါဝင်သည်။ ယင်းတို့မှာ အဗူဓာဗီ၊ အပ်ဇမန်ဒူးဗေ၊ ဖူဂျေရာ၊ ရပ်စ အယ် ခိုင်မာ၊ ရှာဂျာ၊ အပ်ဂျမန်နှင့် အမ်အယ်ခိုင်ဝန်နယ်များဖြစ်ကြသည်။ အကျယ်အဝန်းအားဖြင့် ၃၂,၂၇၈ စတုရန်းမိုင်ရှိ၍ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေ အရ လူဦးရေ ၂၁၀,၀၀၀ ယောက်ရှိသည်။ မြို့တော် အဗူဓာဗီမြို့သည် သင်္ဘောဆိပ်မြို့ကြီးလည်း ဖြစ်သည်။ အခြား ထင်ရှားသော မြို့ကြီးများမှာ ရှာဂျာမြို့၊ဒူဗေဒီမြို့တို့ ဖြစ်ကြသည်။

အထက်တွင် ဖော်ပြထားသော စော်ဘွားနယ်များသည် ဗြိတိသျှတို့က မိမိတို့နှင့် ချုပ်ဆိုထားသော စာချုပ်များ ၁၉၇၁ ခုနှစ်တွင် ပျက်ပြယ်သွားစေမည်ဟု ကြေညာပြီးနောက်တွင် ဗြိတိသျှ အစောင့်အရှောက်ခံ နယ်များဖြစ်သည့် ဗာရိန်းကျွန်း၊ ကော့တာနယ်တို့နှင့် ပူးပေါင်း၍ ပြည်ထောင်စုဖွဲ့ရန် ကြိုးပမ်းခဲ့၏။ မအောင်မြင် ခဲ့ပေ။ သို့သော် မိမိတို့ စော်ဘွားနယ်များအချင်းချင်း စုပေါင်း၍ ပြည်ထောင်စုဖွဲ့ခဲ့ရာတွင်လည်း ဦးစွာ၌ အဗူဓာဗီ၊ ဒူဗေ၊ ရှာဂျာ၊ အပ်ဂျမန်၊ ဖူဂျေရာနှင့် အမ်အယ်ခိုင်ဝန်တို့ ပါဝင်ခဲ့၍ နောက်မှ ရပ်စ အယ် ခိုင်မာ ပါဝင်လာခဲ့၏။ဤသို့ဖြင့် ၁၉၇၁ ခုနှစ် ဒီဇင်ဘာလ ၂ ရက်နေ့တွင် ထရူးရှဲနိုင်ငံဟု ပေါ်ပေါက်လာခဲ့သည်။ သို့သော် နောင်အခါတွင်မူ အာရပ်စော်ဘွား နယ်ပေါင်းစု နိုင်ငံဟု အမည်ပြောင်းလိုက်လေသည်။

အဗူဓာဗီ၊ ဒူဗေနှင့် ရှာဂျာ နယ်များတွင် ရေနံအမြောက်အမြား တိုးတက်ထွက်ရှိနေခဲ့ရာ ကမ္ဘာ့ရေနံထွက် နိုင်ငံများတွင် ၁၄ အဆင့်မှလိုက်သည်။

အာရပ်စော်ဘွား နယ်ပေါင်းစု နိုင်ငံသည် ကုလသမဂ္ဂအဖွဲ့ဝင် နိုင်ငံတခု ဖြစ်၏။

ကော့တာနိုင်ငံ။ ။အာရပ် စော်ဘွား နယ်ပေါင်းစု နိုင်ငံ၏ အနောက်မြောက်ဖက် ပါးရှင်း ပင်လယ်ကွေ့အတွင်း ထိုးထွက်နေသော ကော့တာကျွန်းဆွယ် တခုလုံးသည် ကော့တာ နိုင်ငံဖြစ်သည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၆,၀၀၀ ရှိ၍ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေ အရ လူဦးရေ ၁၁၅,၀၀၀ ရှိသည်။ ဗြိတိသျှအစောင့်အရှောက်ခံ ရှိတ်စော်ဘွားနယ်တခု ဖြစ်ခဲ့၍ ၁၉၇၁ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့မှစ၍ လွတ်လပ်သောနိုင်ငံ ဖြစ်လာခဲ့သည်။ ရေနံအကြီးအကျယ် ထွက်သည်။ ကမ္ဘာ့ ရေနံထွက် နိုင်ငံများတွင် ၁၅ အဆင့်မှလိုက်၏။ ၁၉၄၉ ခုနှစ်မှစ၍ ရေနံထုတ်လုပ်လာခဲ့ရာ နှစ်စဉ်ဝင်ငွေ ဒေါ်လာ ၁၅၀၀,၀၀,၀၀၀ ရရှိလေသည်။ စီးပွားဖြစ် ငါးဖမ်းခြင်း၊ အစိုးရအထောက်အပံ့ဖြင့် စိုက်ပျိုးလုပ်ကိုင်ခြင်း၊ သိုး ဆိတ် ကုလားအုပ်မွေးမြူခြင်းတို့မှာ အရေးပါသော လုပ်ငန်းများ ဖြစ်၏။ မြို့တော်မှာ ဒိုဟာမြို့ဖြစ်သည်။

ကော့တာနိုင်ငံသည် ကုလသမဂ္ဂအဖွဲ့ဝင် နိုင်ငံလည်းဖြစ်၍ အာရပ်အမျိုးသား အဖွဲ့ဝင်နိုင်ငံလည်း ဖြစ်၏။

ဗာရိန်းကျွန်း။ ။ကော့တာနိုင်ငံ၏ အရှေ့ဖက် ပါးရှင်း ပင်လယ်ကွေ့အတွင်းရှိ ဗာရိန်းကျွန်းစု သည်လည်း ဗြိတိသျှ အစောင့်အရှောက်ခံ ရှိတ်စော်ဘွား အုပ်ချုပ်သော နယ်

ဖြစ်ခဲ့၍ ၁၉၇၁ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် လွတ်လပ်သော နိုင်ငံဖြစ်လာခဲ့သည်။ ဆအူးဒီ အာရေဗျကမ်းခြေမှ ၂၁ မိုင်ဝေးသည်။ အကျယ်အဝန်းအားဖြင့် ၂၃၁ စတုရန်းမိုင်ရှိ၍ ၁၉၇၂ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ လူဦးရေ ၂၂၀,၀၀၀ ယောက်ရှိသည်။ မြို့တော်သည် မနာမာမြို့ ဖြစ်သည်။ ပါးရှင်း ပင်လယ်ကွေ့အတွင်း ပုလဲရှာဖွေရေး လုပ်ငန်း၏ ဗဟိုဌာနဖြစ်၍ ဗုဇွန်၊ သစ်သီးနှင့် ဟင်းသီး ဟင်းရွက်များကား ရေနံမထွက်သေးမီက နိုင်ငံစီးပွားရေး၏ ကျောထောက် နောက်ခံများ ဖြစ်သည်။ ဆအူးဒီ အာရေဗျနိုင်ငံ နက်ဂျက်နှင့် ဟာဆာ နယ်များမှ ထွက်ကုန်များကိုလည်း ဗာရိန်းနိုင်ငံဖက်မှ တဆင့် တင်ပို့ကြသည်။ ထိုကျွန်း၌ ၁၉၃၂ ခုနှစ်မှစ၍ ရေနံ အမြောက်အမြားထွက်ခဲ့၍ယခုအခါ လျော့နည်းသွားရာ ပြည်တွင်းထွက် ရေနံနှင့် ဆအူးဒီအာရေဗျမှရေနံများကို ချက်လုပ်ခြင်း၊ အလျူမီနီယမ်သတ္တုချက်စက်ကြီးတခု တည်ဆောက်လုပ်ကိုင်ခြင်း၊ ကုန်စည်ဖလှယ်တင်ပို့ရာ ဌာန ဖြစ်လာခြင်းတို့ကြောင့် စီးပွားရေးအခြေ ကောင်းလာခဲ့လေသည်။

ဗာရိန်းနိုင်ငံသည် ကုလသမဂ္ဂဝင် နိုင်ငံဖြစ်၍ အာရပ်အမျိုးသား အဖွဲ့ဝင်နိုင်ငံလည်း ဖြစ်၏။

ကူဝိတ်နိုင်ငံ။ ။ဆအူးဒီအာရေဗျနိုင်ငံ၏အရှေ့မြောက်ဖက် ပါးရှင်း ပင်လယ်ကွေ့ အနောက်မြောက်ထောင့်တွင် ကူဝိတ်နိုင်ငံ တည်ရှိသည်။ အကျယ်အဝန်းအားဖြင့် ၆,၁၇၈ စတုရန်းမိုင် ရှိ၍ လူဦးရေ ၉၁၀,၀၀၀ (၁၉၇၂) ရှိသည်။ ယခင်က ဗြိတိသျှ အစောင့်အရှောက်ခံ ရှိတ်စော်ဘွားပိုင်နယ် ဖြစ်ခဲ့သော်လည်း ၁၉၆၁ ခုနှစ် ဇွန်လ ၁၀ ရက်နေ့မှစ၍ လွတ်လပ်ရေးရခဲ့သည်။လွတ်လပ်ရေးရသည်နှင့် အီရက်နိုင်ငံက သူပိုင်ထိုက်သည်ဆိုကာ တိုက်ခိုက်သဖြင့် ဗြိတိသျှတပ်များအကူအညီဖြင့် တွန်းလှန်တိုက်ခိုက်ခဲ့ရသည်။

ကူဝိတ်နိုင်ငံသည် ငယ်ပင် ငယ်သော်လည်း ကမ္ဘာပေါ်တွင် ရေနံအထွက်ဆုံးနိုင်ငံတခုအဖြစ် ကမ္ဘာ့ရေနံထွက် နိုင်ငံများတွင် ခြောက်အဆင့်မှလိုက်သဖြင့် ကမ္ဘာ့ နိုင်ငံများက အထူးအာရုံစိုက်ကြခြင်းဖြစ်သည်။ ကူဝိတ်အစိုးရ နှစ်စဉ်ရရှိသော အခွန်တော်၏ ၉၈ ရာခိုင်နှုန်းသည် ရေနံမှ ရသောအခွန်တော်ဖြစ်သည်။ သို့ဖြစ်၍ နိုင်ငံသား တဦးချင်း အလိုက် ဝင်ငွေသည် ဒေါ်လာ ၃,၀၀၀ ဖြစ်ရာ ကမ္ဘာပေါ်ရှိ အကြီးမြင့်ဆုံးသော ဝင်ငွေများတွင် အပါအဝင်ဖြစ်၏။ ကူဝိတ်တနိုင်ငံလုံးသည် များသောအားဖြင့် သဲကန္တာရဖြစ်သည်။ ကူဝိတ်အစိုးရသည် တိုင်းသူပြည်သားတို့အား အခမဲ့ ဆေးဝါးကုသခွင့်၊ အခမဲ့ပညာသင်ခွင့် ပေးလျက် လူမှုရေး ဖူလုံမှုရှိစေမည့် ပြည်တော်သာနိုင်ငံ ဖန်တီးပေးရန်အတွက် ရေနံမှရရှိသော ကြီးမားလှသည့် အမျိုးသားဝင်ငွေကို အသုံးပြုလျက် ရှိသည်။ ကူဝိတ် နိုင်ငံတွင် အကောက်အခွန်ကလွဲ၍ အခြား အခွန်တော်များမရှိပေ။ မြို့တော်မှာ ကူဝိတ်မြို့ဖြစ်သည်။

အာရေဗျကျွန်းဆွယ်နှင့် ပတ်ဝန်းကျင်တွင်ရှိကြသော အာရပ်နိုင်ငံများသည် မိမိတို့အချင်းချင်း စီးပွားရေး၊ ယဉ်ကျေးမှုနှင့် နိုင်ငံရေးတို့ဖက်တွင် ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် ၁၉၄၅ ခုနှစ်တွင် အာရပ်လိဂ်ခေါ် အာရပ်အမျိုးသား အဖွဲ့ကို ဖွဲ့စည်းခဲ့သည်။ ထိုအဖွဲ့၏ လောလောဆယ်ဆယ် ရည်မှန်းချက်များမှာ အာရပ်တိုင်းပြည်များတွင် တိုင်းတပါးသားတို့ စိုးမိုးမှုကို စခန်းသိမ်းပစ်ရန်နှင့် ပယ်လက်စတိုင်ရှိ ယဟူဒီတို့၏ အန္တရာယ်ကို စုပေါင်းတွန်းလှန်ပစ်ရန် ဖြစ်လေသည်။ စာချုပ် လက်မှတ်ရေးထိုးခဲ့သည့် အဖွဲ့ဝင်များမှာ အီဂျစ်၊ အီရက်၊ ဆီးရီးယား၊ လက်ဗနွန်၊ ထရန်စဂျော်ဒန် (ဂျော်ဒန်)၊ ဆအူးဒီ အာရေဗျနှင့် ယေမင်နိုင်ငံတို့ဖြစ်သည်။ အမြဲတမ်းဌာနချုပ်ကို အီဂျစ်နိုင်ငံ ကိုင်ရိုမြို့တွင် ဖွင့်လှစ်ထားသည်။

ဤအာရပ်အမျိုးသားအဖွဲ့မှာ အကြွင်းမဲ့ ပူးပေါင်းထားသော အဖွဲ့မျိုးလည်းမဟုတ်၊ ပြည်ထောင်စု အနေဖြင့် ဖွဲ့စည်းထားသော အဖွဲ့မျိုးလည်း မဟုတ်ပဲ၊ အချုပ်အချာ အာဏာပိုင် နိုင်ငံအချင်းချင်း အကျိုးတူ ကိစ္စများတွင် ပူးပေါင်းဆောင်ရွက်ကြရန် ဖွဲ့စည်းထားသော အဖွဲ့အစည်းသာဖြစ်လေသည်။ သို့ဖြစ်၍ ၁၉၄၉ ခုနှစ် ရောက်လျှင်ပင် အဖွဲ့ဝင်များသည် မိမိတို့ အချင်းချင်း အတူတကွ လုပ်ဆောင်သွားရန် ခက်ခဲသည်ကို တွေ့လာရသည်။ မိမိတို့အားလုံး၏ရန်သူ အစ္စရေးယ်နှင့်စပ်လျဉ်း၍ပင် အကြွင်းမဲ့ သဘောတူညီမှု မရနိုင် ဖြစ်ခဲ့ရလေသည်။ ထရန်စဂျော်ဒန်ဘုရင် အဗ္ဗဒူလာသည် ဂျော်ဒန် မြစ်၏ မြောက်ဖက်ရှိ အာရပ် ပယ်လက်စတိုင် ဒေသကို သိမ်းပိုက်ခဲ့ရာတွင် အဖွဲ့ဝင် အခြားနိုင်ငံများက တရားမဝင်ဟုယူဆပြီးလျှင် အဗ္ဗဒူလာကို အဖွဲ့မှ ထုတ်ပစ်မည်ဟု ခြိမ်းခြောက်ခဲ့သည်။ ၁၉၅၀ ပြည့်နှစ်တွင် အဖွဲ့ဝင် ငါးနိုင်ငံတို့သည် လုံခြုံရေးအဖွဲ့တခုကို ဖွဲ့စည်းခဲ့ရာ ၁၉၅၂ ခုနှစ်တွင် ဂျော်ဒန် နိုင်ငံသည် ထိုအဖွဲ့သို့ ပါဝင် ခဲ့သော်လည်း အီရက်နိုင်ငံသည် အဖွဲ့ဝင်အဖြစ်မှ နှုတ်ထွက်ခဲ့သည်။ ၁၉၅၃ ခုနှစ်တွင် လစ်ဗျားနိုင်ငံသည် အာရပ် အမျိုးသား အဖွဲ့တွင် အဖွဲ့ဝင်ဖြစ်လာခဲ့သည်။ ဆူဒန်နိုင်ငံသည် ၁၉၅၆ ခုနှစ်တွင်၎င်း၊ တျူနစ်ဇီးယားနှင့် မိုရော့ကိုနိုင်ငံတို့သည် ၁၉၅၈ ခုနှစ်တွင်၎င်း၊ ကူဝိတ်နိုင်ငံသည် ၁၉၆၁ ခုနှစ်တွင်၎င်း၊ အယ်လ်ဂျီးရီးယားနိုင်ငံသည် ၁၉၆၂ ခုနှစ်တွင်၎င်း အသီးအသီး အဖွဲ့ဝင် ဖြစ်လာခဲ့ လေသည်။ ယေမင်ပြည်သူ့ ဒီမိုကရက်တစ်နိုင်ငံ၊ ကော့တာ နိုင်ငံနှင့် ဗာရိန်းနိုင်ငံတို့သည်လည်း အာရပ်အမျိုးသား အဖွဲ့ဝင်နိုင်ငံများ ဖြစ်လေသည်။

**အာရေဗျပင်လယ်။** ။အာရေဗျကျွန်းဆွယ်နှင့် အိန္ဒိယ နိုင်ငံတို့အကြားရှိ အိန္ဒိယ သမုဒ္ဒရာ၏ တစိတ်တဒေသကို အာရေဗျပင်လယ်ဟု ခေါ်သည်။ ထိုပင်လယ်သည် အိန္ဒိယ နိုင်ငံ၏ တောင်ဖက်အစွန်းရှိ ကိုမိုရင်အငူမှ အာဖရိကတိုက်၊ ဆိုမာလီလန်း၏ အရှေ့ဖက် ကမ်းခြေရှိ ဂွါဒါဖွီးအငူအထိ စိတ်ကူးဖြင့် ရေးဆွဲ ထားသော မျဉ်းကြောင်း၏ မြောက်ဖက်တွင် တည်ရှိသည်။ ပင်လယ်နီ၊ အေဒင် ပင်လယ်ကွေ့၊ ပါးရှင်း ပင်လယ်ကွေ့နှင့် အိုမန် ပင်လယ်ကွေ့တို့သည် အာရေဗျ ပင်လယ်၏ လက်တက်များ ဖြစ်ကြသည်။ ရှေးအခါက ထိုအာရေဗျ ပင်လယ်သည် ပင်လယ်ကြောင်း ကူးသန်းသွားလာမှုအတွက် အလွန် အရေးပါခဲ့သည်။ ကမ္ဘာ့အရှေ့ဖက်စွန်း ဒေသများမှ ကုန်ပစ္စည်းများကို သင်္ဘောများဖြင့် တင်ဆောင်ပြီးလျှင် အာရေဗျကျွန်းဆွယ် အနောက်ဖက်ကမ်းခြေသို့ တင်ပို့ပေးခဲ့ကြသည်။ ထိုမှတဆင့် ကုလားအုပ်များဖြင့် အာရေဗျကျွန်းဆွယ်ကို ဖြတ်သန်းကာ မြေထဲ ပင်လယ်ဖက်သို့ သယ်ဆောင်ပေးခဲ့ကြလေသည်။

အာရေဗျပင်လယ်အတွင်းရှိ ကျွန်းကြီးများမှာ လက်ကဒိုက်ကျွန်းစုနှင့် ဆိုကိုထရာကျွန်းတို့ ဖြစ်သည်။ လက်ကာဒိုက်ကျွန်းစုသည် အိန္ဒိယနိုင်ငံ၏ အနောက်ဖက်ကမ်းခြေမှ အလွန်တွင် တည်ရှိကြသည်။ ဆိုကိုထရာကျွန်းသည်ကား အီသီအိုးပီးယားနိုင်ငံ၏ အရှေ့မြောက်ဖက်တွင် တည်ရှိလေသည်။

အာရေဗျပင်လယ်၏ပျမ်းမျှအနက်မှာအလံ ၁,၅၀၀ ခန့်ရှိသော်လည်း အိန္ဒုမြစ်နှင့် နာဗဒ္ဒမြစ် အပါအဝင် မြစ်အများအပြား စီးဝင်သော အရှေ့မြောက်ဖက်ပိုင်းတွင်မူ ထိုထက် တိမ်လေသည်။

မုတ်သုန်ရာသီ အစနှင့်အဆုံးတို့တွင် အာရေဗျပင်လယ်ထဲ၌ အတွင်းဝိုက်လေဝဲ(ဆိုင်ကလုန်)များ ကျရောက်တတ်သည်။ ထို အတွင်းဝိုက်လေဝဲများသည် အာရေဗျပင်လယ်၏ အရှေ့ တောင်ဖက် ပိုင်းရှိ မဲလဒိုက်ကျွန်းများ အနီးတဝိုက်တွင် စတင် ဖြစ်ပေါ်တတ်လေသည်။

**အာရပ်ပြည်ထောင်စုသမတနိုင်ငံ။** ။အာဖရိကတိုက်ရှိ အီဂျစ်နိုင်ငံဟု ရှေးကခေါ်သော နိုင်ငံကို နောင်အခါ အာရပ်ပြည်ထောင်စုသမတနိုင်ငံဟု ခေါ်ဝေါ်ခဲ့သည်။(အီဂျစ်နိုင်ငံ—လည်းရှု။)ယင်းတွင် နိုင်းမြစ်ဝှမ်းဒေသ၊ မြစ်ဝကျွန်းပေါ်ဒေသ၊ လစ်ဗျား၊ သို့မဟုတ် အနောက်ပိုင်း သဲကန္တာရ၊အာရေဗျ၊ သို့မဟုတ် အရှေ့ပိုင်းသဲကန္တာရ၊ ဆီနိုင်းကျွန်းဆွယ်၊ ဆူးအက် ပင်လယ်ကွေ့နှင့် ပင်လယ်နီရှိကျွန်းကလေးများ ပါဝင်သည်။

အာရပ်ပြည်ထောင်စု သမတနိုင်ငံဟူသောအမည်သည် ၁၉၅၈ ခုနှစ် ဖေဖွာရီလ ၁ ရက်နေ့မှစ၍ ပေါ်ပေါက်ခဲ့သည်။ ထိုနေ့၌ အီဂျစ်သမတ နာဆာနှင့် ဆီးရီးယား သမတ ကူဝပ်တလီတို့က ညပဒေပြုလွှတ်တော် တခုတည်း၊ တပ်မတော် တခုတည်း၊ အလံ တခုတည်းနှင့် သမတတဦးတည်း အောက်တွင် ဆီးရီးယား နှစ်နိုင်ငံကို ပူးပေါင်း၍ အာရပ်ပြည်ထောင်စု သမတ နိုင်ငံ အဖြစ် တည်ထောင်လိုက်ကြောင်း ကိုင်ရိုမြို့မှနေ၍ ကြေညာခဲ့လေသည်။

ထိုနှစ် မတ်လ ၈ ရက်နေ့တွင် ယေမင်နိုင်ငံသည် အာရပ် ပြည်ထောင်စု သမတနိုင်ငံနှင့် ပူးပေါင်း၍ အာရပ်ပြည်ထောင်စုနိုင်ငံကို ဖွဲ့စည်းလိုက်ပြန်သည်။

၁၉၆၁ ခုနှစ် စက်တင်ဘာလ ၂၆ ရက်မှ ၂၈ ရက်နေ့အတွင်း ဆီးရီးယားနိုင်ငံ၌ စစ်တပ်မှ အာဏာ သိမ်းလိုက်ပြီးနောက် အာရပ်ပြည်ထောင်စု သမတနိုင်ငံအတွင်းမှ ခွဲထွက်ကြောင်း ကြေညာလိုက်ရာ သမတ နာဆာကလည်း ဆီးရီးယားနိုင်ငံသို့ ပို့ထားသော အီဂျစ်တပ်များကို ပြန်လည် ရုပ်သိမ်းလိုက်သည်။ ထိုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ယေမင်နိုင်ငံနှင့် ပူးပေါင်း အုပ်ချုပ်ခြင်းကိုလည်း ရုပ်ဆိုင်းလိုက်သည်။ ၁၉၆၂ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် သမတနာဆာသည် အီဂျစ် တနိုင်ငံတည်းကို အာရပ် ပြည်ထောင်စု သမတနိုင်ငံ အဖြစ် ကြေညာ၍ ဝန်ကြီး ၂၅ ဦးပါဝင်သော အမှုဆောင် ကောင်စီနှင့် အဖွဲ့ဝင် ၂၀ ပါဝင်သော ကာကွယ်ရေး ကောင်စီတို့ကို ဖွဲ့စည်းလိုက်သည်။ (အီဂျစ်နိုင်ငံ—ရှု။) အာရပ်ပြည်ထောင်စု သမတနိုင်ငံကို အင်္ဂလိပ် ဘာသာဖြင့် အတိုကောက် ယူ–အေ–အာဟု ခေါ်သည်။

၁၉၇၁ ခုနှစ် ဩဂုတ်လအတွင်း အီဂျစ်သမတ ဆဒတ်၊ ဆီးရီးယား သမတအဆတ်နှင့် လစ်ဗျခေါင်းဆောင် ကဒတ်ဖီတို့သည် ဒမက်စကတ်မြို့တွင် တွေ့ဆုံကြပြီးလျှင် မိမိတို့၏ သုံးနိုင်ငံကို ပူးပေါင်းကာ အာရပ် သမတနိုင်ငံများ ပြည်ထောင်စုတည်ထောင်ရန် ဆွေးနွေးဆုံးဖြတ်ခဲ့သည်။ ထိုဆွေးနွေးပွဲမှ ဆုံးဖြတ်ချက်အရ အာရပ်သမတ နိုင်ငံများ ပြည်ထောင်စု ဖွဲ့စည်းပုံ အခြေခံဥပဒေကို ထိုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် လူထုဆန္ဒ ခံယူပွဲဖြင့် အတည်ပြုခဲ့လေသည်။

ထိုနောက် စက်တင်ဘာလ ၂ ရက်နေ့တွင် အာရပ်ပြည်ထောင်စုသမတနိုင်ငံ (ယူ အေ အာ)ဟူသော အမည်ကို ဖျက်သိမ်း၍ အီဂျစ် အာရပ် သမတနိုင်ငံဟု အမည်ပြောင်းလဲသတ်မှတ်ခဲ့လေသည်။

**အာရုံခြောက်ပါး။** ။အားနည်းသော ယောကျ်ားသည် တောင်ဝှေးစသည်ကို ဆွဲကိုင်အပ်သကဲ့သို့ စိတ်စေတသိက်တို့ ဆွဲကိုင်အပ်သောကြောင့်ရင်း၊ စိတ်စေတသိက်

တို့ လာရောက်၍ မွေ့လျော်ရာဖြစ်သောကြောင့်ရင်း အာရုံ ဟုခေါ်သည်။ အာရုံခြောက်ပါးရှိသည်။

အာရုံ ခြောက်ပါး ဆိုသည်မှာ (၁) ရူပါရုံ – မြင်အပ်သောအဆင်းအမျိုးမျိုး၊ (၂) သဒ္ဒါရုံ – ကြားအပ်သော အသံအမျိုးမျိုး၊ (၃) ဂန္ဓာရုံ – နမ်းရှုအပ်သော အနံ့အမျိုးမျိုး၊ (၄) ရသာရုံ – လျက်အပ်၊ သာယာအပ်သော အရသာအမျိုးမျိုး၊ (၅) ဖောဋ္ဌဗ္ဗာရုံ – တွေ့ထိ၍သိအပ်သော အရာအမျိုးမျိုးနှင့် (၆) ဓမ္မာရုံ – ပသာဒရုပ် ငါးခု၊ သုခုမရုပ် ၁၆ ခု၊စိတ်၊စေတသိက် နိဗ္ဗာန်ပညတ်တို့ဖြစ်သည်။

ရူပါရုံ (မြင်အပ်သော အဆင်းအမျိုးမျိုး) သည် စက္ခုဝိညာဏ်စိတ်၏ မွေ့လျော်ရာ ဖြစ်သည်။

သဒ္ဒါရုံ (ကြားအပ်သော အသံအမျိုးမျိုး) သည် သောတဝိညာဏ်စိတ်၏ မွေ့လျော်ရာ ဖြစ်သည်။

ဂန္ဓာရုံ (နမ်း ရှုအပ်သော အနံ့အမျိုးမျိုး) သည် ဃာန ဝိညာဏ်စိတ်၏ မွေ့လျော်ရာဖြစ်သည်။

ရသာရုံ (လျက်အပ်၊ သာယာအပ်သော အရသာ အမျိုးမျိုး) သည် ဇိဝှါဝိညာဏ်စိတ်၏ မွေ့လျော်ရာဖြစ်သည်။

ဖောဋ္ဌဗ္ဗာရုံ (တွေ့ထိ၍ သိအပ်သော အရာအမျိုးမျိုး) သည် ကာယဝိညာဏ်စိတ်၏ မွေ့လျော်ရာ ဖြစ်သည်။

ဓမ္မာရုံ (ပသာဒရုပ် ငါးခု၊ သုခုမရုပ် ၁၆ ခု၊ စိတ်၊ စေတသိက်၊ နိဗ္ဗာန်၊ ပညတ်)သည် မနောဒွါရ၊ မနောဝိညာဏဓာတ်တို့၏ မွေ့လျော်ရာ ဖြစ်သည်။

# ကမ္ဘာပေါ်တွင် အကြီးဆုံးသောတိုက်

**ကမ္ဘာပေါ်တွင် တိုက်ကြီးခြောက်တိုက်ရှိသည့်အနက် အကြီးဆုံးသော တိုက်လည်းဖြစ်သည်။ ကမ္ဘာပေါ်တွင် အထူးခြားဆုံးသော တိုက်ကြီးလည်း ဖြစ်သည်။ ကမ္ဘာပေါ်ရှိ ယဉ်ကျေးသော လူမျိုးတို့ ဆည်းကပ်သည့် အယူဝါဒအားလုံး စတင်ပေါက်ဖွားရာ ဘူမိနက်သန်မြေလည်း ဖြစ်သည်။ ကမ္ဘာ့လူမျိုးများ စတင်ပေါက်ဖွားရာနှင့် ယဉ်ကျေးမှု စတင်ထွန်းကားရာလည်း ဖြစ်သည်။ ထိုတိုက်ကြီးကား အာရှတိုက်ဖြစ်လေသည်။**

**အာရှတိုက်။** ။ကမ္ဘာပေါ်ရှိ ယဉ်ကျေးသောလူမျိုးတို့ ဆည်းကပ်သည့်အယူဝါဒအားလုံး၏ စတင်ပေါက်ဖွားရာ ဘူမိနက်သန်မြေကား အာရှတိုက်ဖြစ်၏။ ဤမျှသာမက အာရှတိုက်သည် ကမ္ဘာပေါ်တွင် အမြင့်ဆုံးသော တောင်ထိပ်၊ အကျယ်ဆုံးသော ကုန်းပြင်မြင့်၊ ရေမျက်နှာပြင်အောက် အနိမ့်ကျဆုံးသောဒေသ၊ မိုးအစွတ်ဆုံးသောအရပ်၊ အခြောက်သွေ့ဆုံးသောနေရာ၊ နွေရာသီနှင့် ဆောင်းရာသီ အပူချိန်ဒီဂရီ အကွာခြားဆုံးဌာန၊ လေဖိအားအနည်းဆုံးသောဒေသ စသည်တို့တည်ရာ ကမ္ဘာပေါ်ရှိ အထူးခြားဆုံးသော တိုက်ကြီးလည်းဖြစ်၏။ ကမ္ဘာ့လူမျိုးများ၏ စတင်ပေါက်ဖွားရာနှင့် ယဉ်ကျေးမှုများ စတင်ပေါ်ထွန်းရာဌာနလည်း ဖြစ်လေသည်။ ကမ္ဘာပေါ်ရှိ တိုက်ကြီးခြောက်တိုက်ရှိသည့်အနက် အကြီးဆုံးသောတိုက်လည်းဖြစ်၏။ ဥရောပတိုက်နှင့် အာဖရိကတိုက်နှစ်ခုပေါင်း၏ အကျယ်အဝန်းထက်ပင် စတုရန်းမိုင်ပေါင်း ၂,၀၀၀,၀၀၀ ခန့် ပိုနေသေး၍ အမေရိကတိုက် နှစ်တိုက်ပေါင်းထက်လည်း စတုရန်းမိုင် ၆၀၀,၀၀၀ ခန့် ပိုနေသေးသည်။

အာရှတိုက်၏ ရာသီဥတုအကြောင်းကို ခြုံ၍ပြောရန် အလွန်ခက်၏။ ပူသောတိုက်ကြီးဟု ပြောရမည်လည်း မလွယ်။ အေးသည်ဟုလည်း မပြောနိုင်။ မိုးအလွန်ရွာသောတိုက်ဟု ပြောရမည်ကလည်း တနေ့လျှင် မိုးရေချိန် နှစ်လက်မကျော် သုံးလက်မရွာသောဒေသ ရှိငြားလည်း တနှစ်လုံးနေ၍မှ မိုးတပေါက်မျှ မမြင်ရသောဒေသလည်း ရှိနေသေး၏။

အာရှတိုက်ဟူသော အမည်သည် ဟီဗရူးဘာသာမှ ဆင်းသက်၍ "အရှေ့"၊သို့မဟုတ် "နေထွက်ရာ"ဟုအဓိပ္ပါယ်ရ၏။ အာရှတိုက်သည် ကမ္ဘာဦးလူတို့ စတင်ပေါက်ဖွားရာ ဒေသဟု ခရစ်ယန်ဓမ္မဟောင်းကျမ်း၌ ဆိုထား၏။ ဗုဒ္ဓအယူဝါဒဆိုင်ရာ စာပေကျမ်းဂန်တို့၌လည်း ကမ္ဘာပျက်၍ ဦးစွာပေါ်လာသောဌာနသည် ဇမ္ဗူဒီပါလကျွာတောင်ကျွန်းရှိ ဘုရားပွင့်ရာမြေဟု ဆိုထားရာ ကမ္ဘာဦးအစကပင် သမိုင်းတွင် စာတင်လောက်အောင် ပေါ်ပေါက်ခဲ့သော တိုက်ကြီးဟု ဆိုရပေမည်။

အာရှတိုက် အီရက်နိုင်ငံရှိ ယူဖရေးတီးနှင့် တိုင်းဂရစ်မြစ်ဝှမ်းဒေသသည် ကမ္ဘာ့ယဉ်ကျေးမှု စတင်ထွန်းကားရာဌာနဖြစ်၏။ ထိုဒေသတဝိုက်ရှိ တိုင်းပြည်တို့သည် ကမ္ဘာပေါ်တွင် ယဉ်ကျေးမှုနိုးကြားထကြွခြင်း မရှိမီကပင် ယဉ်ကျေးမှု တိုးတက်လျက်ရှိသော မင်းနေပြည်တော်များ ဖြစ်ခဲ့ကြ၏။ အဆီးရီးယားနိုင်ငံတွင် ယခုထက်တိုင် ကမ္ဘာ့ယဉ်ကျေးမှု၏ သဲလွန်စ အနုပညာလက်ရာများကို အထင်အရှား တွေ့ရှိနိုင်လေသည်။ ဥရောပနှင့် အမေရိကတိုက်များရှိ လူတို့သည်ပင် အထက်ပါဒေသများမှ စတင်ပေါက်ဖွားခဲ့သော လူမျိုးစု၏ အဆက်အနွယ်များဖြစ်လေသည်။

အစ္စလာမ်အယူဝါဒ ထွန်းကားစအခါလောက်က အာရပ်တို့သည် ဆင်စီး၊ မြင်းစီး၊ စစ်တိုက် အလွန်ကျွမ်းကျင်ရကား အာဖရိကတိုက်နှင့် စပိန်ပြည်ဖက်သို့ပင် နယ်ချဲ့လာခဲ့ရာ ဥရောပတိုက်ကို အာရပ်တို့ ကြီးစိုးမည်ကဲ့သို့ ဖြစ်ခဲ့ဘူးသည်။ မွန်ဂိုလူမျိုးတို့သည် အာရပ်တို့ကြီးစိုးရာ ဗဂ္ဂဒက်နှင့်

ဆီးရီးယားကို သိမ်းပိုက်လိုက်၍သာ ဥရောပတိုက်သည် ထိုဘေးမှ သီသီကလေး လွတ်ခဲ့လေသည်။ ယင်းသို့ လွတ်ခဲ့ပြီးနောက် ဥရောပတိုက်မှ ကုန်သည်များ၊ နယ်သစ်စွန့်စားရှာဖွေသူများ၊ သာသနာပြုများ၏ ပယောဂကြောင့် အာရှတိုက်သည် ဥရောပတိုက်သားတို့၏ နယ်ချဲ့ရာမြေ ဖြစ်ခဲ့ရလေသည်။ အင်္ဂလိပ်၊ စပိန်၊ ဒပ်ချ၊ ပေါ်တူဂီလူမျိုးတို့သည် ဤသို့ဖြင့် အာရှတိုက်တွင် အင်ပါယာချဲ့နိုင်ခဲ့လေသည်။ ဤအချိန်မှစ၍ အနောက်တိုင်း ယဉ်ကျေးမှုများသာ တဖြည်းဖြည်း ထွန်းကားလာခဲ့သည်။ သို့ရာတွင် အနောက်တိုင်းသားတို့ ကြီးစိုးသည်ကို ငြိုငြင်မည့်လူမျိုးများ မဟုတ်သည့်အတိုင်း ၁၉၄၁ ခုနှစ်တွင် ဂျပန်နိုင်ငံက အာရှသည် အာရှလူမျိုးများအဖို့ဟူသော ကြွေးကြော်သံနှင့် ဗြိတိသျှအစရှိသော အနောက်တိုင်းသားတို့အပေါ် စစ်ကျေညာလိုက်လေသည်။ စစ်ကျေညာပြီးသည်နှင့် တပြိုင်နက် ဖိလစ်ပိုင်၊ မလေးကျွန်းဆွယ်၊ ဒပ်ချအရှေ့အိန္ဒိယကျွန်းစုနှင့် မြန်မာနိုင်ငံကို သိမ်းယူပြီးလျှင် အနောက်တိုင်းသားတို့ကို နှင်ထုတ်ခဲ့လေသည်။ ၁၉၄၅ ခုနှစ်တွင်ကား အားချင်းမမျှသဖြင့် လက်နက်ချ၍ ထိုနိုင်ငံများကို ပြန်အပ်ရ၏။ သို့ရာတွင် ထိုတိုင်းပြည်များကို တိုင်းရင်းသားတို့၏ နိုးကြားမှုကြောင့် နယ်ချဲ့သမားတို့သည် ကြာရှည်မအုပ်စိုးနိုင်ချေ။ စစ်ပြီး၍ မကြာမြင့်မီ အသီးအသီး လွတ်လပ်ရေးများ ရရှိလျက် စီးပွားရေး၊ ပညာရေး၊ ကျန်းမာရေးနှင့် ယဉ်ကျေးမှုများကို မြှင့်တင်လျက် ရှိကြသည်။

### တည်နေရာနှင့် အကျယ်အဝန်း

အာရှတိုက်သည် ကမ္ဘာမြေပြင်၏ သုံးပုံတပုံခန့် ကျယ်ဝန်း၍ စတုရန်းမိုင်ပေါင်း ၁၇,၀၀၀,၀၀၀ ခန့်ရှိ၏။ ဒုတိယအကြီးဆုံးသော အာဖရိကတိုက်ထက်ပင် တဆခွဲမျှ ကြီးသည်။ မြောက်ဖက် အာတိတ်ဒေသမှ တောင်ဖက် အလွန်ပူပြင်းသော အီကွေတာမျဉ်းအထိ ကမ္ဘာ့အထက်ပိုင်းတပိုင်းလုံးလိုလို ပြန့်ကျယ်လေသည်။ အာရှတိုက်တွင် အပါအဝင်ဖြစ်သော အရှေ့အိန္ဒိယကျွန်းစုအချို့မှာမူ အီကွေတာမျဉ်းအောက်ဖက်သို့ပင် ကျနေသေး၏။ အာရှတိုက်၏ အနောက်ဖက်၌ကား အနေအထိုင် အလုပ်အကိုင် ယဉ်ကျေးမှုစသည်တို့တွင် လုံးဝမတူတမူကွဲသော ဥရောပတိုက်မြေပြင်နှင့် ဆက်စပ်လျက်ရှိ၏။ အရှေ့ဖက်တွင် အမေရိကတိုက် အလာစကာပြည်နယ်နှင့် ၃၆ မိုင်ခန့်ကျယ်သော ဗဲရင်းရေလက်ကြားဖြင့်သာ ခြားလျက်ရှိသည်။ အနောက်တောင်ထောင့်ရှိ အာဖရိကတိုက်နှင့်မူ ဆူးအက်တူးမြောင်းမဖောက်မီက ကုန်းချင်းစပ်လျက်ရှိသည်။ သို့ရာတွင် သုံးဖက်စလုံး၌ကား ရေများဝိုင်းရံလျက်ရှိ၏။ မြောက်ဖက်၌ အာတိတ်သမုဒ္ဒရာ၊ အရှေ့ဖက်၌ ကမ္ဘာပေါ်တွင် အကျယ်ဆုံးသော ပစိဖိတ်သမုဒ္ဒရာနှင့် တောင်ဖက်တွင် အိန္ဒိယသမုဒ္ဒရာတို့ ရှိကြသည်။ မြောက်ဖက်ရှိ အာတိတ်သမုဒ္ဒရာမှာကား လပေါင်းများစွာ ရေခဲနေသဖြင့် ဆိပ်ကမ်းများ၌ သင်္ဘောများ မဆိုက်ကပ်နိုင်ချေ။ အာရှတိုက် ပင်လယ်ကမ်းရိုးတန်းသည် မိုင်ပေါင်း ၅၀,၀၀၀ ခန့်ရှည်၏။ ကမ်းရိုးတလျှောက် မနီးမဝေးတို့၌ ကျွန်းကလေးပေါင်းများစွာကို တွေ့နိုင်သည်။ အာရှတိုက်သည် အရှေ့မှအနောက်သို့ မိုင်ပေါင်း ၆,၀၀၀ ခန့်၊ တောင်မှမြောက်သို့ မိုင်ပေါင်း ၅,၄၀၀ ခန့် ခရီးဆန့်လေသည်။ မြောက်ဖက်စွန်းဖြစ်သော ချယ်လျူစကင်းအငူသည် မြောက်ဝင်ရိုးစွန်းမှ ၁၂ ဒီဂရီအတွင်း၌တည်ရှိ၍တောင်ဖက်အဖျားဆုံးကျသည့် မလ္လာယုကျွန်းဆွယ်အစွန်းဖြစ်သော ရိုမေနီယားအငူကား အီကွေတာနှင့် ၁ $\frac{1}{2}$ ဒီဂရီခန့်သာ ကွာလေသည်။ ယင်းသို့ အာရှတိုက်သည် အလွန်ကျယ်ပြန့် ကြီးကျယ်လွန်းရကား အနောက်ဖက် အိမ်နီးချင်းဖြစ်သည့် ဥရောပတိုက်ကိုပင် အချို့ပထဝီဝင်ဆရာတို့က အာရှတိုက်၏ ကျွန်းဆွယ်ဟူ၍ ထည့်သွင်းရေးသားကြသည်။

အာရှတိုက်အလယ်ပိုင်း အိန္ဒိယအနောက်မြောက်ဖက်ရှိ "ကမ္ဘာ့အမိုး"ဟု ခေါ်ကြသော ပမီးယားတောင်ထွတ်မှ မြစ်များ တောင်များသည် အရပ်ရှစ်မျက်နှာသို့ ဖြာထွက်လျက်ရှိသည်။ အရှေ့တောင်ဖက်သို့ ဖြာထွက်သွားသော တောင်တန်းကား ဟိမဝန္တာတောင်တန်းဖြစ်၏။ (ဟိမဝန္တာတောင်တန်း — ရှု။) ပေပေါင်း ၂၉,၀၂၈ ပေမြင့်၍ ကမ္ဘာပေါ်၌ အမြင့်ဆုံးသော ဧဝရက်တောင်သည်လည်း ဟိမဝန္တာတောင်တန်းတွင် ပါဝင်သော တောင်ထွတ်တခုဖြစ်၏။ (ဧဝရက်တောင်ထိပ် — ရှု။)ထိုဟိမဝန္တာတောင်တန်းသည် တရုပ်နိုင်ငံနှင့် မြန်မာနိုင်ငံ နယ်နိမိတ်စပ်ကြားအထိ ဆင်းသွားလေသည်။ ထိုတောင်တန်းသည် ရှေးဟောင်း ဗုဒ္ဓဝင်ပုံပြင်တို့၌ အလွန်ထင်ရှား၍ လူသိများသော တောင်တန်းဖြစ်၏။ ထိုတောင်တန်းမှ မြန်မာနိုင်ငံဖက်သို့ ဖြာထွက်ခဲ့သော တောင်တန်းများသည် အနောက်ရိုးမ၊ အရှေ့ရိုးမ အမည်များဖြင့် ထင်ရှားရှိလေသည်။ ထိုတောင်တန်းသည် အလွန်မြင့်ရကား အနိမ့်ဆုံးတောင်ကြားလမ်းသည်ပင် ပေ ၁၅,၀၀၀ မြင့်လေသည်။ ပမီးယားတောင်ထွတ်၏ အရှေ့ဖက်စူးစူးသို့ တန်းဆင်းသွားသော တောင်တန်းကား ကာရာကိုရမ်တောင်တန်းဖြစ်၏။ ထိုတောင်တန်းသည် တရုပ်နိုင်ငံဖက်အထိ တန်းဆင်းသွားရာ တရုပ်နိုင်ငံရှိ ဆင်လင်တောင်သည် ထိုတောင်တန်းမှ ဖြာထွက်သွားသော တောင်ဆက်ဖြစ်၏။ အရှေ့မြောက်ဖက်သို့ ဖြာဆင်းသွားသော တောင်တန်းသည်ကား တီယန်ရှင်တောင်တန်းဖြစ်သည်။ ဤတောင်တန်းကြီးသုံးခုသည် ပမီးယားတောင်ထွတ်မှ အရှေ့ဖက်သို့ဖြာထွက်သော တောင်တန်းသုံးသွယ်ဖြစ်၏။အနောက်ဖက်သို့တန်းဆင်းသွားသော




**အာရှတိုက် တည်နေရာပြ မြေပုံ**

ဆူလေမန်တောင်တန်းသည် အီရန်နိုင်ငံ ကမ်းရိုးတန်းအနီး မှဖြတ်လျက် အာရှမိုင်းနားအတွင်း ထိုးဝင်သွားကာ အာမီးနီးယန်းတောင်တန်းစု ဖြစ်လာပြီးနောက် အာရှမိုင်းနား တောင်ဖက် ကမ်းရိုးတန်းတလျှောက် တန်းဆင်းသွား၏။ (အာရှမိုင်းနား — လည်းရှု။) အနောက်ဖက်စူးစူးသို့ဖြာ ထွက်သွားသော တောင်တန်းသည်ကား အီရန်နိုင်ငံမြောက်ပိုင်းနှင့် ကက်စပျန်ပင်လယ်ကို ဖြတ်လျက် အာရှမိုင်းနား မြောက်ဖက်စွန်းသို့ သွယ်တန်းသွား၏။ (ကက်စပျန် ပင်လယ် — ရှု။) ထိုတောင်တန်းကို ဟိန္ဒူကွတ်ရှတောင်တန်းဟုခေါ်၏။ ဤသို့ အလယ်ဗဟို၌သာ အမြင့်ဆုံးဖြစ်၍ အရပ်လေးမျက်နှာသို့ တရွေ့ရွေ့နိမ့်လျော ဆင်းသွားရကား အာရှတိုက်သည် ရေပေါ်၌ ပေါ်လောပေါ်နေသော လိပ်ကျောကုန်းနှင့် တူလှလေသည်။

ထိုတောင်တန်းကြီးတို့၏ကြားတွင်တည်ရှိသော တိဗက်ကုန်းပြင်မြင့်ကြီးကား ကမ္ဘာပေါ်တွင် လူနေသည့် အမြင့်ဆုံးသော ကုန်းပြင်မြင့်ဖြစ်သည်။ ပင်လယ်ရေမျက်နှာပြင်

ထက် ပေပေါင်း ၁၆,၆၀၀ မှ ၁၇,၀၀၀ အထိမြင့်၏။ တိဗက်ပြည်၏ အရှေ့ဖက်စွန်းတွင်လည်း ရေမျက်နှာပြင်ထက် ပေ ၉,၀၀၀ ခန့်မြင့်သော ကိုကိုနော်ခေါ် အိုင်ပြာလည်းရှိ၏။ အာဖဂနိစတန်၊ ဗလူချီစတန်နှင့် အီရန်နိုင်ငံတို့အပါအဝင်ဖြစ်သော အီရန်ကုန်းပြင်မြင့်၊ အာရှမိုင်းနားကုန်းပြင်မြင့်၊ အိန္ဒိယနိုင်ငံ ဒက္ခိဏကုန်းပြင်မြင့်တို့သည်လည်း အာရှတိုက်၏ ထင်ရှားကျယ်ပြန့်၍ လူနေအိမ်ခြေများသောကုန်းပြင်မြင့်များ ဖြစ်ကြ၏။

အာရှတိုက်တွင် ကမ္ဘာ့အမိုးသာမက ကမ္ဘာ့မြေအောက်ခန်းလည်းရှိ၏။ ထိုမြေအောက်ခန်းမှာ အာရေဗျကျွန်းဆွယ်မြောက်ဖက်ရှိ ဒက်ဆီးခေါ် ပင်လယ်သေဖြစ်သည်။ (ပင်လယ်သေ — လည်းရှု။) ရေမျက်နှာပြင်အောက် ပေပေါင်း ၁,၂၉၀ နိမ့်၏။ ကမ္ဘာပေါ်တွင် အနိမ့်ဆုံးသောဒေသဖြစ်လေသည်။ ရေမျက်နှာပြင်အောက် နိမ့်သောအခြားပင်လယ်တခုကား ကက်စပျန်ပင်လယ်ဖြစ်၏။ ရေမျက်နှာပြင်အောက် ၈၅ ပေ နိမ့်သည်။ ယင်းတို့သည်ကား စင်စစ်အားဖြင့် အိုင်အကြီးစားမျိုး ဖြစ်လေသည်။

ပမီးယားတောင်ထွတ်မှ ဖြာတန်းသွားသော တောင်တန်းများသည် ဆီနှင်းခဲများ ဖုံးအုပ်နေသဖြင့် နွေရာသီတွင် နေပူရှိန်ကြောင့် အရည်ပျော်ကျလာပြီးလျှင် နိမ့်ရှိုင်းရာသို့ စီးဆင်းခဲ့ရာမှ မြစ်ပေါင်းများစွာဖြစ်ခဲ့၏။ မြောက်ဖက်သို့ စီးဆင်းသော အော့ဗ်မြစ်၊ယန်နီဆေးမြစ်နှင့်လီနာမြစ်များသည် ဆိုက်ဗီးရီးယားဒေသကိုဖြတ်၍ အာတိတ်သမုဒ္ဒရာသို့ စီးဝင်သည်။ ထိုမြစ်များသည် သစ်တောများနှင့် မြက်ခင်းများကိုဖြတ်သန်းစီးဆင်းသဖြင့် ရေစီးအလွန်နှေးသည်ကတာကြောင်း၊ မြောက်ပိုင်းရှိ ရေအမြဲခဲသော တန်းဒြာဒေသများ ခံနေသည်တကြောင်းတို့ကြောင့် လွင်ပြင်များပေါ်တွင် ရေလျှံပြီးလျှင် ရွှံ့အိုင်ကြီးများ ဖြစ်နေလေသည်။ အရှေ့ဖက်သို့စီးဆင်းသော မြစ်များကား အမူမြစ်၊ ယန်ဆီမြစ်၊ ဆီကျန်မြစ်၊ ဝှန်ဟိုမြစ်တို့ဖြစ်၏။ တောင်ဖက်သို့စီးဆင်းသော မြစ်များကား ထိုင်း(ယိုးဒယား)နိုင်ငံ၌ မဲခေါင်မြစ်၊ မြန်မာနိုင်ငံ၌ သံလွင်မြစ်၊ ဧရာဝတီမြစ်၊ အိန္ဒိယနိုင်ငံ၌ ဂင်္ဂါမြစ်၊ ဗြဟ္မပုတြမြစ်၊ အိန္ဒုမြစ်တို့ဖြစ်ကြ၏။ အနောက်ဖက်တွင်ကား တိုင်းဂရစ်နှင့် ယူဖရေးတီးမြစ်တို့သည် အီရက်နိုင်ငံကိုဖြတ်လျက် ပါးရှင်းပင်လယ်ကွေ့ထဲသို့ စီးဆင်းကြလေသည်။

### ရာသီဥတုနှင့် ကောက်ပဲသီးနှံများ

ဤမျှကျယ်ဝန်းသော ဒေသသည် ရာသီဥတုအားဖြင့် တနေရာနှင့်တနေရာ အလွန်ကွာခြားလှသည်မှာ အံ့သြဖွယ်ရာ မဟုတ်ချေ။ အာရှတိုက်၏ လေးပုံသုံးပုံသည် သမပိုင်းတွင်ပါဝင်ပြီးလျှင် ရှစ်ပုံတပုံသည် အပူပိုင်းတွင်ပါဝင်၍ ကျန်ရှစ်ပုံတပုံကား အာတိတ်ရေခဲသော အအေးပိုင်းတွင် ပါဝင်လေသည်။ အာတိတ်အအေးပိုင်းတွင်ပါဝင်သောဒေသများသာမက တောင်မြင့်များပေါ်တွင် တည်ရှိသောဒေသတို့သည်လည်း တနှစ်ပတ်လုံး ရေခဲနေကြ၏။ လီနာမြစ်ဝကျွန်းပေါ်အရပ်၏ ပျမ်းမျှအပူဒီဂရီဖာရင်ဟိုက်သည် ၁° ဒီဂရီသာရှိသည်။ ဆောင်းရာသီ အပူဒီဂရီဖာရင်ဟိုက်ကား ၅၉° ဒီဂရီရှိ၍ နွေရာသီ၌ ၅၉° ဒီဂရီရှိ၏။ ယင်းမှာ နွေနှင့်ဆောင်း အပူဒီဂရီ အကွာဆုံးဒေသ ဖြစ်လေသည်။ အာရှတိုက်၏ တစိတ်တဒေသဖြစ်သော ဂျပန်ကျွန်းသည် မြောက်နှင့်တောင် အလျားလိုက်တည်ရှိနေ၍ မြောက်ဖက်ဆုံးအပိုင်းသည် ရေခဲ၏။ တရုပ်နိုင်ငံသည် သမပိုင်းတွင် ကျရောက်လျက်ရှိ၏။ သို့ရာတွင် အာရှတိုက် အလယ်ပိုင်းမှ တိုက်ခတ်လာသော လေအေးကြောင့် ဆောင်းတွင်းတွင် အလွန်အေးမြသည်။ တိဗက်ပြည်သည် တောင်ကုန်းမြင့်ပေါ်တွင် တည်ရှိသဖြင့် မိုးနည်း ခြောက်သွေ့သော်လည်း အလွန်အေးလှ၏။ အီရန်နိုင်ငံကား နွေအခါ၌ ခြောက်သွေ့ပူအိုက်၍ ဆောင်းအခါ၌ အလွန်အမင်း အေးသော နိုင်ငံဖြစ်သည်။အာရှမိုင်းနား၊ ဆီးရီးယား၊ပယ်လက်စတိုင်၊ အာရေဗျကျွန်းဆွယ်နှင့်အာဖဂနိစတန်တို့၏ ရာသီဥတုကား အီရန်နိုင်ငံမှာကဲ့သို့ပင် အလွန်ပူသောနွေနှင့် အလွန်အေးသော ဆောင်းရာသီရှိ၏။ မလ္လာယုကျွန်းဆွယ်၊ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့သည်ကား မုတ်သုန်ရာသီဒေသများ ဖြစ်ကြ၏။ ရာသီဥတုမှာ နွေအခါ၌ ပူအိုက်၍ မိုးတွင်းတွင် စွတ်စိုပြီးလျှင် ဆောင်းတွင်း၌ အေးမြလှ၏။ ကမ္ဘာပေါ်၌ မိုးအများဆုံးရွာသော အရပ်သည်လည်း အာရှတိုက်၌ပင် ရှိလေသည်။ ထိုအရပ်မှာ တနှစ်လျှင် မိုးရေချိန် လက်မ ၄၀၀ ကျော် ရွာသွန်းသော အိန္ဒိယနိုင်ငံ အာသံပြည်နယ်ဖြစ်၏။ တနှစ်ပတ်လုံး မိုးမရွာသောဒေသလည်း ရှိသေး၏။ ထိုအရပ်တို့ကား အာရေဗျကျွန်းဆွယ် ပင်လယ်နီ ဝန်းကျင်ရှိ ခြောက်သွေ့သော ဒေသ၊ အာရေဗျသဲကန္တာရ၊ အိန္ဒိယနိုင်ငံသား သဲကန္တာရ၊ မွန်ဂိုလီးယားနိုင်ငံ ဂိုဗီသဲကန္တာရတို့ ဖြစ်ကြသည်။ ယင်းသို့ ရာသီဥတု အခြေအနေလည်း ကွဲပြား ခြားနားလှသလောက် ပေါက်ရောက်ကြသော အသီးအနှံများလည်း အတန်ပင် ကွာခြားလှလေသည်။

အာရှတိုက်၏ မြောက်ဖက်ဆုံးဒေသသည် တနှစ်ပတ်လုံး ရေခဲများဖုံးလွှမ်းနေသဖြင့် သစ်ပင်ပန်းပင် မပေါက်ရောက်ပဲ ရေညှိပင်များသာ ပေါက်ရောက်လေသည်။ လူနေအိမ်ခြေ မရှိသလောက်ပင် ဖြစ်၏။ နေထိုင်သူ အနည်းငယ်တို့မှာလည်း လယ်ယာလုပ်ကိုင် မရသဖြင့် ငါးဖမ်းခြင်း အမဲလိုက်ခြင်းတို့ဖြင့်သာ အသက်မွေး၍ အမြဲပြောင်းရွှေ့လှည့်လည်နေတတ်၏။ မြောက်ဖက်အစွန်ဆုံး ရေခဲပြင်ရှိရာအရပ်မှ တောင်ဖက်သို့ တဖြည်းဖြည်း ဆင်းလာခဲ့သော် မြက်ခင်းများ ပေါက်ရောက်နေသော လွင်ပြင်ကြီးများ၊

ထင်ရှူးပင်များ ပေါက်ရောက်နေသော တောင်ကုန်းတောင်တန်းများကို တွေ့နိုင်၏။ ထိုဒေသများကား ရုရှနိုင်ငံမှ ရာဇဝတ်ကောင်များကို ပို့ရာဒေသဖြစ်ခဲ့၏။ ရွှံ့နွံထူထပ်၍ တောကြီးသောကြောင့် ငှက်ဖျားရောဂါထူထပ်ကာ လမ်းပန်းအဆက်အသွယ် အလွန်ခက်ခဲ၏။ ၂၀ ရာစုနှစ်အစက ဖောက်လုပ်ပြီးခဲ့သော ရုရှနိုင်ငံ မောစကိုမြို့တော်မှ ဆိုက်ဗီးရီးယားအရှေ့ဖက်ကမ်းပေါ်ရှိ ဗလာဒီဗော့စတော့မြို့အထိ ဆက်သွယ်ထားသော ထရန်ဆိုက်ဗီးရီးယန်း မီးရထားလမ်းကြောင့် အနည်းငယ် အသွားအလာ လွယ်ကူလာလေပြီ။ ထိုသစ်တောကြီးများမှာ အရှေ့မှအနောက် အလျားမိုင်ပေါင်း ၅,၀၀၀ ကျော်ရှိ၍ တောင်မှမြောက်သို့ အနံမိုင်ပေါင်း ၁,၀၀၀ မှ ၂,၀၀၀ အထိ ကျယ်၏။ အချို့အပိုင်းကား သစ်တောထူထပ်လှသဖြင့် ပေါက်ရောက်သူအလွန်နည်းပါး၏။ ဝက်ဝံ၊ မြေခွေး၊ ရှဉ့်စသော သားမွေးရသည့် သတ္တဝါများကိုလိုက်လံဖမ်းဆီး၍ သားမွေးရောင်းသော မုဆိုးများသာ ရောက်ကြ၏။ သို့သော် ယခုအခါ ဆိုက်ဗီးရီးယားဒေသကို တိုးတက်ဖွံ့ဖြိုးလာအောင် အပြင်းအထန် ဆောင်ရွက်လျက်ရှိသည်။

ထိုထူထပ်လှသော သစ်တောကြီးများမှ တောင်ဖက်သို့ တဖြည်းဖြည်းဆင်းလာသော် တဖြည်းဖြည်း သစ်ပင်များပါးလာ၏။ မိုးနည်းလှသဖြင့် သစ်ပင်ကြီး များစွာမပေါက်ပဲ မြက်ခင်းများသာရှိ၏။ ခြုံပုတ်ခြုံစပ်များကို ဟိုတစုသည်တစုသာ တွေ့ရလေသည်။ ထိုအရပ်၌ မြက်ပင်ပေါသဖြင့် ထိုအရပ်ရှိလူတို့သည် နွားများ၊ သိုးများ မွေးမြူအသက်မွေးပြီးလျှင် ရေကြည်ရာမြက်နုရာ လှည့်လည်နေထိုင်ကြလေသည်။ ထိုကြောင့် ထိုအရပ်မှ နွားနို့ဒိန်ခဲထောပတ်များထွက်၏။ ဤမြက်ခင်းကြီးသည် မန်ချူးရီးယားပြည်မှ မွန်ဂိုးလီးယားနိုင်ငံ အလယ်ပိုင်းကိုဖြတ်၍ ဆိုက်ဗီးရီးယားတောင်ပိုင်း၊ အာရှမိုင်းနားနှင့် အာရေဗျနိုင်ငံအထိ ကျယ်ဝန်း၏။ ထိုအရပ်သည် ကုန်းပြင်မြင့်လည်းဖြစ်မိုးလည်းခေါင်သောဒေသ ဖြစ်သဖြင့် ကောက်ပဲသီးနှံ စိုက်ပျိုး၍ မဖြစ်ချေ။

ထိုမြက်ခင်းကြီး၏ တောင်ဖက်၌ကား အလွန်ခြောက်သွေ့သော သဲကန္တာရကြီးရှိ၏။ ထိုသဲကန္တာရကို ဂိုဗီသဲကန္တာရဟုခေါ်၏။ ပင်လယ်ကမ်းရိုးတန်းမှ မိုင်ပေါင်း ၁,၀၀၀ ကျော် ၁,၅၀၀ ခန့် ဝေးရကား ပင်လယ်မှတိုက်ခတ်သည့် ရေခိုးရေငွေ့ပါသော လေများသည် ထိုအပိုင်းသို့ ရောက်သောအခါ ကမ်းရိုးတန်း၌ မိုးရွာခဲ့ပြီးဖြစ်သဖြင့် ရေ



ရုရှနိုင်ငံမှ ဆိုက်ဗီးရီးယားဒေသတွင် သစ်တောကြီးများ ထူထပ်စွာ ဖုံးအုပ်နေသည်ကို လူသူနေထိုင် လုပ်ကိုင်စားသောက်နိုင်ရန်အတွက် စက်ကရိယာစွမ်းအားဖြင့် ဆောင်ရွက်ပေးကြသည်။

ခိုးရေငွေ့ အနည်းငယ်ခန့်သာ ကျန်တော့၏။ သို့ဖြစ်၍ ထိုအရပ်၌ တနှစ်လျှင် မိုးရေချိန် ၁၀ လက်မပင် ပြည့်အောင်မရွာချေ။ အနောက်တောင်ဖက်မှလာသော ရေခိုးရေငွေ့များစွာပါသည့် မုတ်သုန်လေသည် မြင့်မားလှသော ဟိမဝန္တာတောင်တန်းကြီးက ကာဆီးနေသဖြင့် ထိုအရပ်သို့ ရေခိုးရေငွေ့ရောက်အောင် မဆောင်နိုင်တော့ချေ။ထို့ကြောင့် ထိုအရပ်သည် ခြောက်သွေ့သော ကန္တာရကြီး ဖြစ်နေလေသည်။ သဲကန္တာရကြီး၏အလယ် အချို့နေရာများတွင်သာ ရေထွက်၍ သစ်ပင်များ ပေါက်နေသဖြင့် လူနေအိမ်ခြေရှိလေသည်။ ထိုလူနေအိမ်ခြေရှိသော ရပ်ကွက်ကို အိုအေးဆစ်ဟုခေါ်သည်။အထူးသဖြင့် စွံပလွန်ပင်များပေါက်သည်။ အခြားတိုင်းပြည်မှ လူတို့သည် ဆန်စပါး၊ ဂျုံတို့ကို အရေးတကြီး စိုက်ပျိုးစားသောက်ကြသကဲ့သို့ သဲကန္တာရရှိလူတို့သည် စွံပလွန်သီးကို မှီခိုအားထား စားသောက်ကြရလေသည်။ အချို့အိုအေးဆစ်တို့မှာ အလွန်ကျယ်ပြန့်သဖြင့် ဟင်းသီးဟင်းရွက်၊ ကောက်ပဲသီးနှံများကို စိုက်ပျိုးလုပ်ကိုင် စားသောက်နိုင်ကြ၏။ အိန္ဒိယ၊ တရုပ်၊ ရုရှနိုင်ငံတို့မှ ကုန်သည်များ တွေ့ဆုံရောင်းချရာ မြို့ကြီးများလည်း ထိုဒေသတွင် ရှိလေသည်။ ကြေးအိုး ကြေးခွက်၊ လက်ဖက်ခြောက်၊ ပိုးထည်ခြည်ထည်စသော ကုန်များကို လဲလှယ်ရောင်းချကြသည်။ ထင်ရှားသော အိုအေးဆစ်မြို့ကြီးများမှာ ယတ်၊ ကက်ရှဂါး၊ ခိုတန်၊ တက်ရှကင့်၊ ဆမာကန်၊ ဗိုခါရာနှင့် ခီဗမြို့ကြီးများ ဖြစ်ကြ၏။ အာရှတိုက်ရှိ ထိုသဲကန္တာရ၏ တောင်ဖက်၌ကား တိဗက်ပြည်ရှိ၏။ ကုန်းပြင်မြင့်ဖြစ်သဖြင့် သီးပင်စားပင် အကြီးအကျယ် မစိုက်ပျိုးချေ။ ထိုပြည်၏ တောင်ဖက်သို့ သွားပါက မုတ်သုန်ဒေသများဖြစ်သည့် အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ မလ္လာယုကျွန်းဆွယ်၊ ယိုးဒယားနိုင်ငံနှင့် အင်ဒိုချိုင်းနားပြည်တို့ကို တွေ့ရ၏။ ထိုအရပ်များ၌ကား ဂုန်လျှော်ပင်၊ လက်ဖက်၊ ကြက်ပေါင်စေး၊ ကာဖီပင်၊ ဘိန်းပင်၊ ဆေးပင်၊ ကျွန်းသစ်၊ ဆန်စပါး၊ အမွှေးအကြိုင်၊ ဆင်ကိုနာပင်၊ အုန်း၊ ငှက်ပျော၊ ရှောက်၊ သရက်ပင်တို့ကို များစွာစိုက်ပျိုးကြသည်။ဂုန်လျှော်ပင်ကို အိန္ဒိယ၊ဗင်္ဂလားဒေ့ရှနှင့် မြန်မာနိုင်ငံတို့မှရ၏။ ကမ္ဘာပေါ်တွင် အာရှတိုက်တတိုက်၌သာလျှင် ထိုအပင်မျိုး ပေါက်ရောက်၏။ ဆေးပင်ကို အိန္ဒိယနိုင်ငံ၊ အင်ဒိုချိုင်းနားနှင့် အရှေ့ဒပ်ချ အိန္ဒိယကျွန်းစု (အင်ဒိုနီးရှား)မှရ၏။ ကြက်ပေါင်စေးကို အရှေ့ဒပ်ချ အိန္ဒိယကျွန်းစု(အင်ဒိုနီးရှား)၊ မလ္လာယုကျွန်းဆွယ်၊ သီဟိုဠ်ကျွန်းတို့မှ ရသည်။ ကာဖီပင်ကို ဂျားဗားကျွန်းနှင့် အာရေဗျကျွန်းဆွယ်တွင်စိုက်၏။ ကျွန်းသစ်ကို မြန်မာနိုင်ငံမှ များစွာရ၏။ ဆန်စပါးကို မြန်မာ၊ အိန္ဒိယ၊ တရုပ်၊ ထိုင်း၊ အင်ဒိုချိုင်းနားပြည်တို့တွင် စိုက်ပျိုးကြသည်။

## လူမျိုးနှင့်ဘာသာ

အာရှတိုက်လူဦးရေသည် သန်းပေါင်း တထောင့်သုံးရာကျော် (၁,၃၂၆,၀၀၀,၀၀၀) ရှိသည့်အနက် အချို့ဒေသ၌ စတုရန်းတမိုင်လျှင် လူဦးရေ ၅၀၀ ကျော်ရှိ၍ အချို့ဒေသတွင် လူနေအိမ်ခြေ လုံးဝမရှိသလောက် ရှားပါးသည်ကို တွေ့ရသည်။ အာရှတိုက် တောင်ဖက်နှင့် အရှေ့ဖက်တလျှောက်ရှိ မြစ်ဝကျွန်းပေါ်နှင့် မြစ်ဝှမ်းဒေသများတွင် လူနေအိမ်ခြေထူထပ်၍ အာရှတိုက်မြောက်ဖက်ဆုံးဒေသများ၌ကား တနှစ်ပတ်လုံး ရေခဲနေသဖြင့် လူနေအိမ်ခြေဟူ၍ မရှိချေ။ အနောက်တောင်ဖက်ပိုင်းနှင့် အလယ်ပိုင်းတို့၌ကား လူနေအိမ်ခြေပါးလှသည်။

ကမ္ဘာ့လူဦးရေ၏ ထက်ဝက်ကျော်မျှရှိသည့် အာရှလူဦးရေတွင် လူမျိုးပေါင်းစုံလှ၏။ သို့ရာတွင် ထိုလူမျိုးတို့ကို တမျိုးစီမလေ့လာပဲ သွင်ပြင်အသားအရောင်အနေအထားကို ယေဘုယျအားဖြင့် နှစ်မျိုးခွဲ၍ လေ့လာနိုင်၏။ အာရှတိုက်မြောက်ပိုင်းနှင့် အရှေ့ပိုင်းတွင် နေထိုင်သူတို့အားတစု၊ အနောက်တောင်ပိုင်းတွင် နေထိုင်သူတို့အားတစု ခွဲနိုင်လေသည်။ အာရှတိုက် လူဦးရေ၏ သုံးပုံနှစ်ပုံသည် ပဌမလူမျိုးစုတွင် ပါဝင်လေသည်။ ထိုလူမျိုးစု၏ သွင်ပြင်ဆင်းရောင်ကား အရပ်ပု၍ မျက်နှာပြားပြား၊ မျက်စိပေါက်ကျဉ်းကျဉ်း၊ မျက်ရစ်မထင်မရှားပဲ ဆံပင်မှာမည်းနက်၍ ဖြောင့်စင်းသည်။ ထိုလူမျိုးစုကို မွန်ဂိုလီယန် အဆက်အနွယ်ဟုခေါ်ကြ၏။ အထူးသဖြင့် ဂျပန်နိုင်ငံ၊ တရုပ်နိုင်ငံ၊ မြန်မာနိုင်ငံနှင့် မလ္လာယုကျွန်းဆွယ်တို့တွင် နေထိုင်ကြသည်။ ဒုတိယအစုကား ဥရောပတိုက်ရှိ လူမျိုးများနှင့် ပုံပန်းသဏ္ဍာန်အားဖြင့် အလွန်တူသော အာရိယန်၊ သို့မဟုတ် အင်ဒိုယူရိုပီယန် အနွယ်ဖြစ်၏။ ထိုလူမျိုးစုကား အာရှတိုက်တွင် မွန်ဂိုလီယန် အနွယ်တို့ထက် ဦးစွာနေထိုင်ခဲ့သူများဖြစ်၏။ သို့ရာတွင် မွန်ဂိုလီယန်လူမျိုးများ ပေါပေါက်လာသောအခါ သူတို့လည်း အနောက်ဖက်ဆီသို့ ပြောင်းရွှေ့သွားရာ တဖြည်းဖြည်း ဥရောပတိုက်တွင် ထိုလူမျိုးများ စတဲချနားနေတော့သည်။ ကျန်ရစ်ခဲ့သော ယင်းတို့၏ အဆက်အနွယ်များကား အာရှမိုင်းနား၊ အီရန်၊ အီရက်နှင့် အိန္ဒိယနိုင်ငံများတွင် ယခုထက်တိုင် နေထိုင်လျက်ရှိကြသည်။ ထိုလူမျိုးကား အရပ်မြင့်၍ နှာတံပေါ်၏။ ဆံပင်ကောက်၍ အသားညိုလေသည်။ ဤကား မျိုးပေါင်းစုကြီးနှစ်စုသာဖြစ်၍ ထိုနှစ်စုမှ ဖြာထွက်သော လူမျိုးပေါင်းကား များလှဘိ၏။ (အာရိယန်လူမျိုး—လည်းရှု။)

လူမျိုးအရေအတွက် များသလောက် ကိုးကွယ်သော အယူဝါဒ၊ ပြောဆိုသောဘာသာစကားတို့လည်း များလှ၏။ အိန္ဒိယနိုင်ငံ၌ပင်လျှင် ဘာသာစကားပေါင်း ၂၀၀ ကျော်ရှိလေသည်။ အာရှတိုက်၌ ပြောဆိုအသုံးပြုသော

ဘာသာစကားများကို ယေဘုယျအားဖြင့် အလွယ်ဆုံးခွဲလိုက်ပါမူ အရေးပါသည့် အုပ်စုကြီးသုံးခုရနိုင်၏။ အင်ဒို–ဥရောပ(ဝါ)အာရိယန်၊ ယူရယ်အော်လတိတ်၊ ဆိုင်နိုတစ်ဟူ၍ ဖြစ်သည်။ ယေဘုယျအားဖြင့် အင်ဒို–ဥရောပအုပ်စုဝင် ဘာသာစကားများကို အာရှတိုက်အနောက်ပိုင်းတွင် ပြောဆိုသည်။ ယူရယ်အော်လတိတ်အုပ်စုဝင် ဘာသာစကားများကို အာရှတိုက်မြောက်ပိုင်းတွင် ပြောဆိုသည်။ ဆိုင်နိုတစ်အုပ်စုဝင် ဘာသာစကားများကိုမူကား အာရှတိုက်အရှေ့ပိုင်းနှင့် အရှေ့တောင်အာရှအချို့ဒေသများတွင် ပြောဆိုသည်။ ထို့ပြင် အခြေခံဘာသာစကားအုပ်စုငယ်များလည်း ရှိသေးရာ ယင်းတို့တွင် ဆီမစ်တစ်ဘာသာစကားအုပ်စုသည် အရေးပါ၏။ ဆီမစ်တစ်အုပ်စုတွင် အနောက်တောင်အာရှမှ အာရေဗစ်နှင့် ဟီဗရူဘာသာစကားတို့ ပါဝင်သည်။ ဒေသန္တရဘာသာစကား အများအပြားနှင့် သီးခြားဘာသာစကား အများအပြားလည်း ထိုအခြေခံအုပ်စုများမှ ပေါက်ပွားလာသည်။

လူမျိုးနှင့် ဘာသာစကားသာမဟုတ် ကိုးကွယ်သော အယူဝါဒလည်း များလှဘိ၏။ အာရှတိုက်သည် ကမ္ဘာပေါ်ရှိ ယဉ်ကျေးသောလူမျိုးတို့ ကိုးကွယ်သော အယူဝါဒပေါင်းစုံ ပေါက်ဖွားထွန်းကားရာ ဒေသလည်းဖြစ်၏။ လွန်ခဲ့သည့်နှစ်ပေါင်း ၂,၅၀၀ ကျော်လောက်က အိန္ဒိယနိုင်ငံ၌ ဗုဒ္ဓမြတ်စွာ ပွင့်တော်မူ၍ ဗုဒ္ဓသာသနာတော်ကြီး ထွန်းကားခဲ့သည်။ ကမ္ဘာ့အရပ်ရပ်ရှိ လူဦးရေသန်းပေါင်း ၃၅၀ ကျော်တို့ သက်ဝင်ယုံကြည်သော အယူဝါဒကြီးတခုဖြစ်၏။ ဘုရားပွင့်တော်မူရာ ဖြစ်သော အိန္ဒိယနိုင်ငံ ဗုဒ္ဓဂယာသည် ကမ္ဘာ့ဗုဒ္ဓဝါဒီ လူထု၏ အမြတ်တနိုးထားရာဒေသ ဖြစ်ခဲ့လေသည်။

ဂေါတမမြတ်စွာဘုရား ပွင့်တော်မူစဉ်အခါနှင့် မရှေးမနှောင်း အိန္ဒိယနိုင်ငံ၌ ဟိန္ဒူအယူဝါဒသည် ပေါ်ထွန်းနေလေသည်။ သင်္သကရိုက်ဘာသာဖြင့် ရေးသားခဲ့ကြသော ဗေဒကျမ်းကြီးတို့မှာ ခရစ်မပေါ်မီနှစ်ပေါင်း ၂,၀၀၀ ခန့်က ရေးသားခဲ့သည်ဟု ယုံကြည်ကြသည်။ ယခုအခါ ဟိန္ဒူအယူဝါဒကို အိန္ဒိယနိုင်ငံ အနှံ့အပြား၌ ကိုးကွယ်ကြသည်။ (ဟိန္ဒူအယူဝါဒ — လည်းရှု။)

ဂျိန်းအယူဝါဒမှာ ခရစ်မပေါ်မီ အနှစ်ငါးရာကျော်က မဟာဝီရဆိုသူပုဂ္ဂိုလ်က တည်ထောင်ခဲ့ရာ ယခုအခါ အိန္ဒိယနိုင်ငံတောင်ဖက်ပိုင်း၌ ယုံကြည်ကိုးကွယ်သူများလေသည်။

ခရစ်ယန် အယူဝါဒသည်လည်း လွန်ခဲ့သည့် နှစ်ပေါင်း ၁၉၀၀ ကျော်လောက်က ပယ်လက်စတိုင်ပြည်တွင် စတင်ပေါ်ပေါက်ခဲ့၏။ ပယ်လက်စတိုင်ပြည်ရှိ ဗက်သလီဟမ်မြို့မှာ ခရစ်တော် ဖွားမြင်ရာဖြစ်၍ ယခုထက်တိုင် ခရစ်ယန်တို့ အမြတ်တနိုးထားလျက်ရှိ၏။ (ခရစ်ယန်အယူဝါဒ —လည်းရှု။) အစ္စလာမ်အယူဝါဒ စတင်ပေါက်ဖွားရာ အရပ်ကား အာရေဗျနိုင်ငံ မက္ကာမြို့ဖြစ်၏။ ခရစ် ၅၇၁ ခုနှစ်တွင် မက္ကာမြို့၌ တမန်တော် မိုဟမ္မဒ်ကို ဖွားမြင်လေသည်။ (အစ္စလာမ်အယူဝါဒ။ မိုဟမ္မဒ် — လည်းရှု။) တရုပ်နိုင်ငံ ရှန်တန်နယ် ချူးဖူးမြို့ရှိ တရုပ်ဒဿနိကဗေဒဆရာကြီး ကွန်ဖူးဇီး၏ သင်္ချိုင်းတော်သို့ ကွန်ဖူးဇီး အယူဝါဒီတို့သည် နှစ်စဉ်လာရောက်၍ အရိုအသေပြုကြသည့်အလေ့ပင် ရှိသေးလေသည်။ ခရစ်တော်မပေါ်မီ နှစ်ပေါင်းခြောက်ရာခန့်အတွင်းက ပါးရှင်းလူမျိုး ဇိုရိုအက်စတာ စတင်ထူထောင်ခဲ့သော ဇိုရိုအက်စတာ အယူဝါဒ ရှိသေးသည်။ (ဇိုရိုအက်စတာ — လည်းရှု။) ဤသို့လျှင် ကမ္ဘာ့အယူဝါဒကြီးများ ပေါက်ဖွားရာ မြေထူးမြေမြတ်ကြီး ဖြစ်ခဲ့သဖြင့်လည်း အာရှတိုက်ရှိ လူအပေါင်းတို့သည် အယူဝါဒပေါင်းများစွာ ကိုးကွယ်လျက်ရှိ၏။ အိန္ဒိယလူမျိုးများသည် များသောအားဖြင့် ဟိန္ဒူနှင့် အစ္စလာမ်အယူဝါဒကို လက်ခံကြ၏။ အာရှတိုက် အနောက်တောင်ပိုင်းရှိ လူအားလုံးလိုလိုနှင့် မလ္လာယုကျွန်းဆွယ် အရှေ့အိန္ဒိယကျွန်းစုရှိ လူတို့ကား အစ္စလာမ်အယူဝါဒကို ကိုးကွယ်ကြလေသည်။ သီဟိုဠ်ကျွန်း၊ မြန်မာနိုင်ငံနှင့် ယိုးဒယားနိုင်ငံတို့၌ အထူးသက်ဝင်ကိုးကွယ်သော အယူဝါဒကြီးမှာ ဗုဒ္ဓအယူဝါဒဖြစ်၏။ တရုပ်နိုင်ငံ၌မူ ကွန်ဖူးဇီးနှင့် ဗုဒ္ဓအယူဝါဒတို့ကို အထူးသဖြင့် ယုံကြည်ကိုးကွယ်ကြလေသည်။ ထိုထင်ရှားသော အယူဝါဒကြီးများအပြင် အခြားအယူဝါဒငယ်များနှင့် နတ်ကိုးကွယ်မှုများလည်း ရှိသေး၏။

## သဘာဝထွက်ကုန်နှင့် အလုပ်အကိုင်

အာရှတိုက်ရှိ လူဦးရေသုံးပုံနှစ်ပုံကျော်သည် လယ်ယာစိုက်ပျိုးခြင်းဖြင့် အသက်မွေးကြ၏။ အာရှတိုက် အရှေ့ပိုင်းနှင့် တောင်ပိုင်းတို့တွင် လယ်ယာစိုက်ပျိုးခြင်းကို အကြီးအကျယ် လုပ်ကိုင်ကြလေသည်။ အာရှတိုက်အရှေ့ပိုင်း၌ ကနေဒါနိုင်ငံအကျယ်အဝန်း၏ လေးပုံသုံးပုံမျှသော ဒေသသည် လယ်ယာစိုက်ပျိုးခြင်း အကြီးအကျယ် လုပ်ကိုင်သောဌာနဖြစ်၏။ ဆန်စပါးကို အများဆုံးစိုက်ပျိုးကြလေသည်။ အချို့ဒေသများတွင် ဆန်စပါးစိုက်ပျိုးရန် ရာသီဥတုအားဖြင့် သင့်တော်သော်လည်း ပင်ခြေ၌ ရေမဝပ်သော ဆင်ခြေလျှောမြေဖြစ်သဖြင့် တောင်စောင်းကို လှေကားထစ်များသဖွယ် ပြုလုပ်၍၎င်း၊ လယ်ကွက်ပတ်လည်တွင် ဆည်တမံများ ပြုလုပ်၍၎င်း စိုက်ပျိုးကြရ၏။ သို့ရာတွင် တောင်ပိုင်းလယ်ယာလုပ်ကိုင်သူများသည် အရှေ့ပိုင်းရှိ လယ်သမားများလောက် လယ်မြေကို ကြံဖန်ပြုပြင်၍ လုပ်ကိုင်ရန် မလိုကြချေ။ ထိုအရပ်များမှ ဆန်စပါးအပြင် ဂျုံ၊ သကြား၊ ဝါ၊ ဂုန်လျှော်၊ သာဂူ၊ ဗာလီ၊ ပဲအမျိုးမျိုး



**အာရှတိုက်အတွင်း ပါဝင်သော အရှေ့အိန္ဒိယကျွန်းစု (အင်ဒိုနီးရှား)မှ သာယာလှသော ရှုခင်းတခု**

တို့ထွက်၏။ တရုပ်နိုင်ငံ မန်ချူးရီးယား ပြည်နယ်မှ အချို့လယ်သမားတို့သည် ပိုးခြည်ထွက်သော ပိုးများကို မွေးမြူရန် ပိုးစာပင်များကို စိုက်ပျိုးကြ၏။ တရုပ်နိုင်ငံ ကြီးကား လူဦးရေလည်းများပြား လယ်ကွက်စိုက်ခင်းက လည်း ပြည့်နှက်နေရကား မြစ်ထဲတွင်ပင် လှေဖောင်ဖွဲ့၍ နေထိုင်လျက် ရှိကြရလေသည်။ တရုပ်နိုင်ငံ၌ ဆန်စပါးစိုက် ပျိုးခြင်း၊ ပိုးထည်ရက်လုပ်ခြင်းနှင့် ကြွေထည်ဆေးရေး လုပ်ငန်းများကို ရှေးနှစ်ပေါင်းများစွာကပင် စတင်လုပ်ကိုင် လာကြသည်။ စာပုံနှိပ်စက်၊ သံလိုက်၊ သင်္ဘောအိမ်မြှောင်၊ စက္ကူနှင့် ယမ်းတို့သည် တရုပ်နိုင်ငံမှ စတင်ပေါက်ဖွားလာ ခဲ့ရာ ယခုထက်တိုင်လည်း လုပ်ကိုင်လျက်ရှိလေသည်။

အိန္ဒိယနိုင်ငံ အာသံပြည်နယ်၊ သီဟိုဠ်ကျွန်းနှင့် မြန်မာ နိုင်ငံတို့တွင် ရာသီဥတုအားဖြင့်လည်း ပူအိုက်၍ မိုးများစွာ ရရှိရကားတောင်တန်းတောင်စောင်းတလျှောက်တွင်လက် ဖက်ပင်များ အကြီးအကျယ်စိုက်ပျိုး၍ နိုင်ငံခြားသို့ပင် တင်ပို့ကြ၏။ ထို့ပြင် နှစ်ပေါင်းတထောင်ကျော် ကြာသည့် တိုင်အောင် ပိုးမထိုး ဆွေးမြေ့မသွားသော ကျွန်းတောကြီး များနှင့် အခြားအဖိုးတန် သစ်တောကြီးများလည်း အာရှ တိုက်တွင် အလွန်ပေါများလှ၏။ မြန်မာနိုင်ငံသည် ကျွန်း သစ်အထွက် အထူးပင်ထင်ရှားလှလေသည်။ ကမ္ဘာ့အဖိုး တန်ပစ္စည်းတခု ဖြစ်သည့် ကြက်ပေါင်စေးပင်များလည်း အာရှတိုက် မလ္လာယုကျွန်းဆွယ်မှ မြောက်မြားစွာ ထွက် လေသည်။ အာရှတိုက်မြောက်ပိုင်း မြက်ခင်းများပေါရာ အရပ်၌ကား လူတို့သည် တနေရာထဲတွင် အတည်တကျ မနေကြပဲ သိုး၊ မြင်း အစရှိသော တိရစ္ဆာန်များကို မွေး မြူ၍ လှည့်လည်နေထိုင်ကြ၏။ ထိုသားကောင်များ ရရှိ လာမှ နို့အသားအရေများဖြင့်သာ မှီတင်းနေထိုင်ကြပေ သည်။ ယင်းသို့ တနေရာတည်း၌ မနေပဲ လှည့်လည်သွား လာတတ်သော လူမျိုးတမျိုးကို အာရေဗျနိုင်ငံ၌လည်း တွေ့ရ၏။ ထိုသူတို့ကို ဗက်ဒူးအင်လူမျိုးများဟု ခေါ်သည်။ ထိုသူတို့သည် ဆိတ်နှင့်သိုးများကိုမွေးမြူ၍ ထိုတိရစ္ဆာန်တို့မှ ရသော အသားအရေ၊ သားမွေးတို့ကို ရောင်းချခြင်းဖြင့် ကြွယ်ဝချမ်းသာလျက်ရှိ၏။ အာရှတိုက်၏ မြောက်ဖက်ဆုံး သောဒေသကား တနှစ်ပတ်လုံး ရေခဲနေသဖြင့် လယ်ယာ လုပ်ကိုင်နိုင်ခြင်းမရှိပဲ ထိုအရပ်ရှိ လူတို့သည် အမဲလိုက်ခြင်း၊ ငါးများခြင်း စသည်တို့ဖြင့်သာ အသက်မွေး၍ နေထိုင်ကြ ၏။ ထိုအရပ်၌တွေ့ရှိသော ဝင်ရိုးစွန်းဝက်ဝံများ၊ တန်းဒြ သမင်များ၊ပင်လယ်ဖျံများကိုဖမ်း၍ အသားကိုစားသောက် ပြီးလျှင် အရေကို နေအိမ်နှင့် အဝတ်များအတွက် အသုံး ပြု၍ အဆီကို မီးထွန်းရန် ထုတ်ယူကြ၏။

အာရှတိုက်သည် လယ်ယာလုပ်ကိုင်ခြင်း ထွန်းကားသောဌာနသာဖြစ်၏။ စက်မှုလက်မှုလုပ်ငန်းကား ပြောပလောက်အောင် မကြီးကျယ်သေးချေ။ ထို့ကြောင့် အခြားတိုင်းပြည်များသို့ တင်ပို့ရောင်းချသော ကုန်များမှာလည်း ကုန်ကြမ်းများသာဖြစ်၏။ အိန္ဒိယ၊ ဂျပန်နှင့် ရုရှနိုင်ငံတို့တွင်သာ စက်ရုံကြီးများဖြင့် လုပ်ကိုင်ကြသည်ကို တွေ့ရသေး၏။ လွတ်လပ်သော တရုပ်ပြည်သူ့သမတနိုင်ငံတွင် ယခုအခါ စက်ရုံကြီးများ အသင့်အတင့် ဆောက်လုပ်၍ အများအပြားထွက်ရှိစေရန် စတင်ထုတ်လုပ်လျက် ရှိပေသည်။ မြန်မာနိုင်ငံ၊ သီဟိုဠ်ကျွန်း (သီရိလင်္ကာနိုင်ငံ)၊ မလေးရှားနိုင်ငံ၊ ထိုင်း(ယိုးဒယား)နိုင်ငံ စသော နိုင်ငံငယ်များကား ထိုစက်မှုလက်မှုလုပ်ငန်းကို အစပျိုးရန် အားပြုဆဲဖြစ်လေသည်။

အာရှတိုက်သည် အခြားတိုက်ကြီးများနှင့် စာလျှင် သဘာဝဓာတ်သတ္တုများ အလွန်အထွက်နည်းသောတိုက်ဖြစ်၏။ အီရန်၊ အီရက်၊အရှေ့အိန္ဒိယကျွန်းစု(အင်ဒိုနီးရှား) နှင့် မြန်မာနိုင်ငံတို့၌ ရေနံထွက်၏။ များမကြာသေးမီအချိန်မှစ၍ ဆအူးဒီအာရေဗျနိုင်ငံ၊ ဗာရိန်းကျွန်း၊ ကူဝိတ်နိုင်ငံ၊ ကော့တာနိုင်ငံ၊ အိုမန်နိုင်ငံနှင့် အာရပ်စော်ဘွားနယ်ပေါင်းစုနိုင်ငံတို့တွင် ရေနံအကြီးအကျယ် ထွက်ရှိနေလေသည်။ အိန္ဒိယ၊ မလ္လာယုကျွန်းဆွယ်၊ တရုပ်နိုင်ငံမြောက်ပိုင်း၊ မန်ချူးရီးယားပြည်နယ်၊ ကိုရီးယားနိုင်ငံနှင့်ဆိုက်ဗီးရီးယားဒေသတို့၌ကား သံအနည်းငယ်ရရှိ၏။ ကျောက်မီးသွေးကိုကား အိန္ဒိယနှင့်ဂျပန်နိုင်ငံတို့၌ အများဆုံးရရှိလေသည်။သို့ရာတွင် အာရှတိုက်၏ တွင်းထွက်ပစ္စည်းများကား မြောက်အမေရိကတိုက်၊ ဥရောပတိုက်တို့နှင့် နှိုင်းစာလျှင် အလွန်ပင်နည်းလှလေသည်။ ပတ္တမြား၊ နီလာ၊ ကျောက်စိမ်း စသော တွင်းထွက်ရတနာများကား အာရှတိုက်တောင်ဖက်ပိုင်းရှိ တိုင်းပြည်များမှ ရရှိလေသည်။ပတ္တမြား၊ နီလာနှင့်ကျောက်စိမ်းတို့ကို မြန်မာနိုင်ငံ၌ အထူးတွေ့ရှိရသည်။ မည်သို့ပင်ဖြစ်စေ အာရှတိုက်သည် ကုန်ရိုင်းများ၊ ကောက်ပဲသီးနှံ၊ ကျွန်းသစ်များ ပေါများ၍ အလုပ်သမားခသက်သာရကား အသက်မွေးဝမ်းကျောင်းမှု ချောင်ချိလှသဖြင့်နိုင်ငံခြားတို့လာရောက်နယ်ချဲ့ရာ ဌာနကြီးဖြစ်နေ၏။ အာရှတိုက်တွင် ဥရောပတိုက်နိုင်ငံများမှ လာရောက်စိုးမိုးအုပ်ချုပ်သည်ကို ခံခဲ့ရသောပြည်ငယ်များကား အလွန်ပင်များခဲ့သည်ကို ထောက်ဆ၍သိနိုင်လေသည်။သို့ရာတွင် မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ ဖိလစ်ပိုင်ကျွန်းစု၊ အင်ဒိုနီးရှားနိုင်ငံ စသော လက်အောက်ခံ တိုင်းပြည်များမှ တိုင်းရင်းသားတို့၏ နိုးကြားထကြွမှု မျိုးချစ်စိတ်ထက်သန်မှုကြောင့် တပြည်ပြီးတပြည်၊ တနိုင်ငံပြီးတနိုင်ငံ လွတ်လပ်ရေးရရှိလာခဲ့ရာ အာရှတိုက်သည် မကြာမီကာလအတွင်း



ဆန်စပါးသည် အာရှတိုက်၏ အဓိကထွက်ကုန်တခုဖြစ်သည်။ မြန်မာနိုင်ငံမှ ဆန်စပါးကို အများအပြား တင်ပို့ရောင်းချသည်။

စီးပွားရေး၊ ပညာရေး၊ နိုင်ငံရေးတို့၌ ကမ္ဘာပေါ်ရှိ နိုင်ငံကြီးများနှင့် ယှဉ်ဘေးင်တန်းနိုင်တော့မည်ဟု ထင်မှတ်ရပေသည်။

## ပါဝင်သောနိုင်ငံများ

အာရှတိုက်တွင် ပါဝင်သော နိုင်ငံများမှာ ကူဝိတ်နိုင်ငံ၊ ကိုရီးယားဒီမိုကရက်တစ် ပြည်သူ့သမတနိုင်ငံ၊ ကိုရီးယားသမတနိုင်ငံ၊ ကော့တာနိုင်ငံ၊ ခမာ(ကမ္ဘောဒီးယား)နိုင်ငံ၊ ဂျပန်နိုင်ငံ၊ ဂျော်ဒန်နိုင်ငံ၊ စင်္ကာပူနိုင်ငံ၊ ဆအူးဒီအာရေဗျနိုင်ငံ၊ ဆီးရီးယားနိုင်ငံ၊ တရုပ်ပြည်သူ့သမတနိုင်ငံ၊ တူရကီနိုင်ငံ၊ ယေမင်ပြည်သူ့ဒီမိုကရက်တစ်သမတနိုင်ငံ၊ ထိုင်းလင်းနိုင်ငံ၊ နီပေါနိုင်ငံ၊ ပါကစ္စတန်နိုင်ငံ၊ ဖိလစ်ပိုင်နိုင်ငံ၊ ဗာရိန်းနိုင်ငံ၊ဗီယက်နမ်ဒီမိုကရက်တစ်သမတနိုင်ငံ၊ဗီယက်နမ်သမတနိုင်ငံ၊ ဗင်္ဂလားဒေ့ရှ်နိုင်ငံ၊ ဘူတန်နိုင်ငံ၊ မလေးရှားနိုင်ငံ၊ မောလဒစ်နိုင်ငံ၊အိုမန်နိုင်ငံ၊ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံ၊ မွန်ဂိုလီးယားပြည်သူ့သမတနိုင်ငံ၊ ယေမင်အာရပ်သမတနိုင်ငံ၊ လောနိုင်ငံ၊ လက်ဗနွန်နိုင်ငံ၊ သီရိလင်္ကာ(သီဟိုဠ်)နိုင်ငံ၊ အာဖဂနိစတန်နိုင်ငံ၊အာရပ်စော်ဘွားနယ်ပေါင်းစုနိုင်ငံ၊ အီရက်နိုင်ငံ၊ အီရန်နိုင်ငံ၊ အင်ဒိုနီးရှားနိုင်ငံ၊ အဇ္ဇရီယယ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့ ဖြစ်ကြသည်။ (ဖော်ပြပါနိုင်ငံများအတွက် သက်ဆိုင်ရာခေါင်းစဉ်များအောက်တွင်ရှု။)

ထိုနိုင်ငံများအနက် ဂျပန်နိုင်ငံ (ဂျပန်နိုင်ငံ — ရှု။) တရုပ်နိုင်ငံ (တရုပ်ပြည်သူ့သမတနိုင်ငံ — ရှု။) တူရကီနိုင်ငံ (တူရကီနိုင်ငံ — ရှု။) ထိုင်းလင်းနိုင်ငံ (ယိုးဒယားနိုင်ငံ — ရှု။) နီပေါနိုင်ငံ (နီပေါနိုင်ငံ — ရှု။) အာဖဂနိစတန်နိုင်ငံ (အာဖဂနိစတန်နိုင်ငံ — ရှု။)နှင့် အီရန်နိုင်ငံ (အီရန်နိုင်ငံ — ရှု။) တို့သည် အစဉ်တစိုက် လွတ်လပ်ခဲ့သောနိုင်ငံများ ဖြစ်လေသည်။ ကူဝိတ်နိုင်ငံသည် ၁၈၉၇ ခုနှစ်မှစ၍ ဗြိတိသျှတို့ အစောင့်အရှောက်ခံနယ်ပယ် ဖြစ်လာခဲ့ရာမှ ၁၉၆၁ ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် ဗြိတိသျှအုပ်ချုပ်ရေးမှ လွတ်လပ်ရေးရရှိခဲ့သည်။ (အာရေဗျကျွန်းဆွယ် — လည်းရှု။) မူလက လွတ်လပ်ခဲ့သော ကိုရီးယားနိုင်ငံသည် ၁၉၁၀ ခုနှစ်မှ ၁၉၄၅ ခုနှစ်အထိ ဂျပန်တို့ သိမ်းပိုက်ထားခြင်း ခံခဲ့ရသည်။ ဒုတိယကမ္ဘာစစ်အပြီးတွင် ဆိုဗီယက်တပ်များ သိမ်းပိုက်ထားသော ၃၈ ဒီဂရီ မျဉ်းပြိုင်မြောက်ဖက်နယ်မြေသည် ၁၉၄၈ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့တွင် ကိုရီးယားဒီမိုကရက်တစ် သမတနိုင်ငံ ဖြစ်လာသည်။ အမေရိကန်တပ်များ သိမ်းပိုက်ထားသော ၃၈ ဒီဂရီ မျဉ်းပြိုင်တောင်ဖက်နယ်မြေသည် ၁၉၄၈ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ကိုရီးယားသမတနိုင်ငံ ဖြစ်လာလေသည်။ (ကိုရီးယားနိုင်ငံ — ရှု။) ယခင်က ပြင်သစ် အင်ဒိုချိုင်းနားတွင် အပါအဝင် ဖြစ်ခဲ့သော ကမ္ဘောဒီးယား (ခမာ)၊ လောနှင့်ဗီယက်နမ်ပြည်တို့အနက် ကမ္ဘောဒီးယား (ခမာ)သည် ၁၉၄၉ ခုနှစ် နိုဝင်ဘာလ ၈ ရက်နေ့တွင် ပြင်သစ်ပြည်ထောင်စုတွင် လွတ်လပ်သောနိုင်ငံ ဖြစ်လာသည်။ ၁၉၅၄ ခုနှစ်ဒီဇင်ဘာလ ၉ ရက်နေ့တွင် အချုပ်အခြာ အာဏာပိုင် လွတ်လပ်သောနိုင်ငံ ဖြစ်လာခဲ့သည်။ ၁၉၇၀ ပြည့်နှစ် အောက်တိုဘာလ ၉ ရက်နေ့တွင် ခမာသမတနိုင်ငံ ဖြစ်လာ၏။ (ကမ္ဘောဇနိုင်ငံ — ရှု။) လောနိုင်ငံသည် ၁၉၄၉ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့တွင် ပြင်သစ်တို့ အုပ်ချုပ်မှုအောက်မှ လွတ်လပ်ရေး ရရှိခဲ့သည်။ (လောနိုင်ငံ — ရှု။) ၁၉၅၄ ခုနှစ်တွင် ဗီယက်နမ်မှ ပြင်သစ်အုပ်ချုပ်ရေးဆုတ်ခွာပြီးနောက် ၁၇ ဒီဂရီမျဉ်းပြိုင် တောင်ပိုင်းနယ်မြေ၌ ၁၉၅၅ ခုနှစ် အောက်တိုဘာလ ၂၆ ရက်နေ့တွင် ဗီယက်နမ်သမတနိုင်ငံ ထူထောင်ခဲ့သည်။ ၁၇ ဒီဂရီမျဉ်းပြိုင်မြောက်ပိုင်းနယ်မြေ၌ ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံ ထူထောင်ခဲ့ လေသည်။ (ဗီယက်နမ်နိုင်ငံ — ရှု။) ဂျော်ဒန်နိုင်ငံမှာ ရှေးက တူရကီလက်အောက်ခံ ဖြစ်ခဲ့ရာမှ ပဌမကမ္ဘာစစ်အတွင်း အင်္ဂလိပ်တို့က သိမ်းပိုက်ယူခဲ့ပြီးနောက် ဗြိတိသျှသြဇာခံပြည်တခု ဖြစ်ခဲ့၏။ ဒုတိယကမ္ဘာစစ်အပြီး ၁၉၄၆ ခုနှစ်တွင် လွတ်လပ်သောနိုင်ငံ ဖြစ်လာခဲ့လေသည်။ (ဂျော်ဒန်နိုင်ငံ — ရှု။) ဗြိတိသျှကရောင်းကိုလိုနီတခုဖြစ်ခဲ့သော စင်္ကာပူသည် ၁၉၅၆ ခုနှစ်တွင် ပြည်တွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရရှိလာခဲ့၍ ၁၉၆၃ ခုနှစ်တွင် မလေးရှား ပြည်ထောင်စုတွင် ပါဝင်ခဲ့သည်။ သို့သော် ၁၉၆၅ ခုနှစ် ဩဂုတ်လ ၉ ရက်နေ့တွင် မလေးရှား ပြည်ထောင်စုမှ ခွဲထွက်ပြီးနောက် အချုပ်အခြာ အာဏာပိုင် လွတ်လပ်သော ဗြိတိသျှမနေသဟာယ အဖွဲ့ဝင်နိုင်ငံ ဖြစ်လာလေသည်။ (စင်္ကာပူမြို့ — လည်းရှု။) ၁၉၂၆ ခုနှစ်တွင် အာရေဗျကျွန်းဆွယ်မှ နက်ဂျနိုင်ငံ၏ စူလတန်ဘုရင်ဖြစ်သော အစ်ဗင်ဆအူးသည် မက်ဂျနိုင်ငံကိုသိမ်းယူ၍ နက်ဂျနိုင်ငံနှင့်ပူးပေါင်းကာ နှစ်နိုင်ငံ၏ ဘုရင်အဖြစ် အုပ်စိုးခဲ့၏။ နောက်နှစ်တွင် ထိုနိုင်ငံ၏ လွတ်လပ်ရေးကို ဗြိတိန်နိုင်ငံက အသိအမှတ်ပြုခဲ့သည်။ ၁၉၃၂ ခုနှစ်တွင် ထိုနိုင်ငံကို ဆအူးဒီအာရေဗျနိုင်ငံဟူ၍ အမည်ပြောင်းလိုက်လေသည်။ (ဆအူးဒီအာရေဗျနိုင်ငံ — ရှု။)

၁၉၁၇ ခုနှစ်တွင် တူရကီတို့၏ အုပ်စိုးခြင်းအဆုံးသို့ရောက်ခဲ့ပြီးမှ ၁၉၂၀ ပြည့်နှစ်၌ ပြင်သစ်သြဇာ လွှမ်းမိုးသောနယ်ဖြစ်လာသည့် ဆီးရီးယားနယ်သည် ၁၉၃၀ ပြည့်နှစ်တွင် ဆီးရီးယားသမတနိုင်ငံ ဖြစ်လာခဲ့သည်။ သို့သော် ပြင်သစ်သြဇာခံနိုင်ငံ ဖြစ်နေခဲ့သေး၍ ၁၉၄၆ ခုနှစ်တွင်မှ လွတ်လပ်သောနိုင်ငံ ဖြစ်လာခဲ့လေသည်။ (ဆီးရီးယားနိုင်ငံ — ရှု။) တောင်ယေမင်နိုင်ငံသည် ဗြိတိသျှတို့ အုပ်စိုးမှုအောက်၌ ၁၂၉ နှစ် နေခဲ့ရပြီးနောက် ၁၉၆၇ ခုနှစ်

နိုဝင်ဘာလ ၃၀ ရက်နေ့တွင် အချုပ်အခြာ အာဏာပိုင် လွတ်လပ်သောနိုင်ငံ ဖြစ်လာခဲ့သည်။ (တောင်ယေမင်နိုင်ငံ — ရှု။) ၁၉၇၀ ပြည့်နှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် ယေမင်ပြည်သူ့ဒီမိုကရက်တစ် သမတနိုင်ငံဟူ၍ အမည်ပြောင်းထိုက်လေသည်။ ယင်း၏ အိမ်နီးချင်းနိုင်ငံ ဖြစ်သော ယေမင်အာရပ်သမတနိုင်ငံသည် မူလက လွတ်လပ်ခဲ့၍ ၁၅၃၈ ခုနှစ်မှ ၁၆၃၀ ပြည့်နှစ်အထိရင်း၊ ၁၈၄၆ ခုနှစ်မှ ၁၉၁၈ ခုနှစ်အထိရင်း တူရကီတို့သိမ်းပိုက်ထားခြင်း ခံခဲ့ရသည်။ ယေမင်နိုင်ငံသည် ပဌမကမ္ဘာစစ်အပြီး ပြန်လည်လွတ်လပ်လာ၍ ၁၉၃၄ ခုနှစ်တွင် ဆအူးဒီအာရေဗျ၊ ဗြိတိန်တို့နှင့်ချုပ်ဆိုခဲ့သော စာချုပ်အရ အချုပ်အခြာ အာဏာပိုင်နိုင်ငံအဖြစ် အသိအမှတ်ပြုခြင်း ခံခဲ့ရလေသည်။ (အာရေဗျကျွန်းဆွယ် — ရှု။)

ယေမင်နိုင်ငံကဲ့သို့ပင် အာရေဗျကျွန်းဆွယ်တွင်ရှိသော ကော့တာနိုင်ငံသည် ဗြိတိသျှအစောင့်အရှောက်ခံ နယ်မြေအဖြစ်မှ ၁၉၇၁ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် လုံးဝလွတ်လပ်သောနိုင်ငံအဖြစ် ကျေညာခဲ့၏။ ထို့အတူ ဗြိတိသျှ အစောင့်အရှောက်ခံနယ် ဖြစ်ခဲ့သော ဗာရိန်းကျွန်းသည်လည်း ၁၉၇၁ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် လွတ်လပ်သောနိုင်ငံတခု ဖြစ်လာခဲ့သည်။ အရေဗျကျွန်းဆွယ်အရှေ့တောင်ဖက်တွင်ရှိသော ထရူးရှဲစော်ဘွားနယ်များသည်လည်း ဗြိတိသျှအစောင့်အရှောက်ခံနယ်များ ဖြစ်သည်။ ၁၉၇၁ ခုနှစ် ဒီဇင်ဘာလ ၁ ရက်နေ့တွင် လွတ်လပ်ရေးရရှိခဲ့သည်။ အာရပ်စော်ဘွားများ နယ်ပေါင်းစုနိုင်ငံဟု ပြောင်းလဲမှည့်ခေါ်ထား၏။ ယင်း၏တောင်ဖက်ရှိ မတ်စကက်နှင့် အိုမန်နိုင်ငံသည် စူလတန်စော်ဘွား အုပ်စိုးသော သီးခြားနိုင်ငံတခု ဖြစ်သော်လည်း ဗြိတိသျှတို့၏ အစောင့်အရှောက်ခံ ဖြစ်ခဲ့၏။ ၁၉၇၀ ပြည့်နှစ် ဇူလိုင်လ ၂၃ ရက်နေ့တွင် လက်ရှိ စူလတန်စော်ဘွား ဆာအီဗင်တိုင်မူကို တော်လှန်၍ စူလတန်ဖြစ်လာသော သားတော် ကာဗတ် ဗင် ဆာအိလက်ထက်တွင် တိုင်းပြည်၏အမည်ကို အိုမန်ဟု ပြောင်းလိုက်သည်။ (အာရေဗျကျွန်းဆွယ်—ရှု။)

အိန္ဒိယတိုက်ငယ်တွင် ဗြိတိသျှတို့သည် နှစ်ပေါင်းများစွာ ကြီးစိုးလွှမ်းမိုးလာခဲ့ရာ ယခင်က ဗြိတိသျှအိန္ဒိယဟူ၍ပင် ခေါ်တွင်ခဲ့သည်။ ၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ဗြိတိသျှတို့က လက်လွှတ်လိုက်ပြီးသော် အိန္ဒိယနှင့် ပါကစ္စတန်ဟူ၍ ဒိုမီနီယန်နိုင်ငံနှစ်ခုအဖြစ် ခွဲခြားပေးလိုက်သည်။ အိန္ဒိယနိုင်ငံသည် ၁၉၅၀ ပြည့်နှစ် ဇန္နဝါရီလ ၂၆ ရက်နေ့တွင် အချုပ်အခြာ အာဏာပိုင် ပြည်ထောင်စုသမတနိုင်ငံအဖြစ် ကျေညာခဲ့သည်။ (အိန္ဒိယပြည်ထောင်စုသမတနိုင်ငံ — ရှု။) ၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် ထွန်းပေါ်လာသည့် ဒိုမီနီယန် အဆင့်အတန်းရှိသော ပါကစ္စတန်နိုင်ငံသည် ၁၉၅၆ ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် အစ္စလာမ်အယူဝါဒကို အခြေခံသော ပါကစ္စတန်သမတနိုင်ငံဖြစ်ကြောင်း ကျေညာခဲ့လေသည်။ (ပါကစ္စတန်နိုင်ငံ — ရှု။)

အိန္ဒိယတိုက်ငယ်၏ တောင်ဖက်စွန်းရှိ ရှေးကလွတ်လပ်ခဲ့သော သီဟိုဠ်ကျွန်းသည် ပေါ်တူဂီ၊ ဒပ်ချနှင့် ဗြိတိသျှတို့ အစဉ်အဆက် ကြီးစိုးလွှမ်းမိုးခြင်းကို ခံခဲ့ရပြီးနောက် ၁၉၄၈ ခုနှစ် ဖေဖွာရီလ ၄ ရက်နေ့တွင် ဗြိတိသျှအစိုးရက သီဟိုဠ်ကို ဗြိတိသျှဓနသဟာယအဖွဲ့ဝင် ဒိုမီနီယန်နိုင်ငံတခုအဖြစ် တိုးတက်သတ်မှတ်ပေးခဲ့သည်။ ၁၉၇၂ ခုနှစ် မေလ ၂၂ ရက်နေ့တွင် သီဟိုဠ်နိုင်ငံကို သမတနိုင်ငံအဖြစ် ကျေညာခဲ့၍ နိုင်ငံ၏အမည်ကိုလည်း သီရိလင်္ကာသမတနိုင်ငံဟု အမည် ပြောင်းလိုက်လေသည်။ (သီဟိုဠ်ကျွန်း — ရှု။) ပါကစ္စတန်နိုင်ငံ၏ ပြည်နယ်တခုဖြစ်သော အရှေ့ပါကစ္စတန်သည် ၁၉၇၁ ခုနှစ် ဒီဇင်ဘာလ ၃ ရက်နေ့မှ ၁၆ ရက်နေ့အထိ ဖြစ်ပွားခဲ့သော အိန္ဒိယ–ပါကစ္စတန် စစ်ပွဲအတွင်း ဗင်္ဂလားဒေ့ရှ်နိုင်ငံအဖြစ် လွတ်လပ်ရေးရရှိခဲ့လေသည်။ ဟိမဝန္တာတောင်တန်း အရှေ့ပိုင်းတွင် တည်ရှိသော ဘူတန်နိုင်ငံသည် ဘုရင်အုပ်ချုပ်သော နိုင်ငံတခုဖြစ်သည်။ သို့သော် နိုင်ငံခြားရေးရာကိစ္စများတွင် အိန္ဒိယနိုင်ငံ၏ ညွှန်ကြားမှုကို ခံယူလေသည်။ (ဘူတန်နိုင်ငံ — ရှု။)

မြန်မာနိုင်ငံသည် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် လုံးဝလွတ်လပ်သော အချုပ်အခြာအာဏာပိုင်သမတနိုင်ငံ ဖြစ်လာသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော်ဟု ခေါ်တွင်ခဲ့သည်။ သို့သော် ၁၉၇၃ ခုနှစ် ဒီဇင်ဘာလ ၁၅–၃၁ နေ့တွင် ပြည်လုံးကျွတ် ဆန္ဒခံယူပွဲကြီးဖြင့် အတည်ပြုပြဋ္ဌာန်းလိုက်သည့် ဖွဲ့စည်းပုံအခြေခံဥပဒေအရ ပြည်ထောင်စုဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်ဟူ၍ ပြောင်းလဲမှည့်ခေါ်ခဲ့လေသည်။

မော်လဒစ်ကျွန်းစုသည် မူလကသီဟိုဠ်ကျွန်း၏ ဩဇာခံဖြစ်ခဲ့၍ ၁၈၈၇ ခုနှစ်မှစ၍ ဗြိတိသျှတို့ အစောင့်အရှောက်ခံနယ်ပယ်ဖြစ်လာခဲ့သည်။ ၁၉၄၈ ခုနှစ်အထိ ဗြိတိသျှ ကိုလိုနီ သီဟိုဠ်ကျွန်းကို မှီခိုခဲ့ရ၏။ ၁၉၅၆ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့တွင် ဗြိတိသျှတို့အုပ်ချုပ်မှုအောက်မှ လုံးဝလွတ်လပ်သောနိုင်ငံတခု ဖြစ်လာခဲ့ပြီးလျှင် ၁၉၆၈ ခုနှစ် နိုဝင်ဘာ ၁၁ ရက်နေ့တွင် မော်လဒစ်သမတနိုင်ငံဟူ၍ ဖြစ်လာခဲ့လေသည်။

အာရှအရှေ့မြောက်ပိုင်းတွင် တည်ရှိ၍ ယခင်က အပြင်မွန်ဂိုလီးယားဟုခေါ်ခဲ့သော မွန်ဂိုလီးယားပြည်သူ့သမတနိုင်ငံသည် ရှေးက ဩဇာအာဏာကြီးမားသည့် နိုင်ငံကြီးတခုဖြစ်ခဲ့ရာမှ နောင်အခါ တန်ခိုးမှေးမှိန်လာ၍ တရုပ်နိုင်ငံ၏ ဩဇာလွှမ်းမိုးမှုအောက်တွင် ကျရောက်ခဲ့ရလေသည်။

၁၉၁၁ ခုနှစ် တရုပ်တော်လှန်မှုကြီး ဖြစ်ပွားသောအခါ ရုရှတို့၏ အားပေးထောက်ခံမှုဖြင့် လွတ်လပ်သောနိုင်ငံအဖြစ် ကျေညာခဲ့၏။ ၁၉၂၁ ခုနှစ်တွင်မွန်ဂိုလီးယားပြည်သူ့သမတနိုင်ငံဟု ကျေညာခဲ့လေသည်။ တရုပ်နိုင်ငံကလည်း ၁၉၄၅ ခုနှစ်တွင် လွတ်လပ်သော နိုင်ငံအဖြစ် အသိအမှတ်ပြုခဲ့သည်။

ဗြိတိသျှတို့ နှစ်ပေါင်းများစွာ ကြီးစိုးလွှမ်းမိုးလာခဲ့သော မလ္လာယုကျွန်းဆွယ်တွင် မလ္လာယုပြည်ထောင်စုဟူ၍ ၁၉၄၈ ခုနှစ် ဖေဖွာရီလတွင် ဖွဲ့စည်းခဲ့၏။ ထိုနောက် ၁၉၅၇ ခုနှစ်တွင် မလ္လာယုပြည်ထောင်စုသည် ဗြိတိသျှမနသဟာယအဖွဲ့ဝင် အချုပ်အခြာအာဏာပိုင်နိုင်ငံ ဖြစ်လာခဲ့သည်။ ၁၉၆၃ ခုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့မှ အစပြု၍ မလ္လာယုပြည်ထောင်စု၊ စင်္ကာပူ၊ ဆရာဝပ်နှင့် ဆားဗား (ယခင်ဗြိတိသျှမြောက်ဗော်နီယိုနယ်)တို့ကို စုပေါင်း၍ မလေးရှားပြည်ထောင်စုနိုင်ငံဟူ၍ ဖွဲ့စည်းတည်ထောင်လိုက်သည်။ သို့သော် ၁၉၆၅ ခုနှစ် ဩဂုတ်လ ၉ ရက်နေ့တွင် စင်္ကာပူသည် မလေးရှားပြည်ထောင်စုမှ ခွဲထွက်လိုက်လေသည်။ (မလ္လာယုကျွန်းဆွယ် — ရှု။)

ယခင်က မက်ဆိုပိုတေးမီးယားဟု တွင်ခဲ့သော ယခု အီရတ်နိုင်ငံ တည်ရှိရာဒေသကို တူရကီတို့ ကြီးစိုးလွှမ်းမိုးခဲ့ရာမှ ပဌမကမ္ဘာစစ်ကြီးအပြီးတွင် ဗြိတိန်နိုင်ငံက နိုင်ငံပေါင်းချုပ်အသင်းကြီး၏ အခွင့်အမိန့်ဖြင့် အုပ်ချုပ်လာခဲ့ရသည်။ ၁၉၃၂ ခုနှစ်တွင် အီရတ်နိုင်ငံကို ဘုရင်အုပ်ချုပ်သော တိုင်းပြည်တခုအဖြစ် အသိအမှတ်ပြုခဲ့သည်။ သို့သော် ၁၉၅၈ ခုနှစ်မှအစပြု၍ သမတနိုင်ငံတခု ဖြစ်လာခဲ့လေသည်။ (အီရတ်နိုင်ငံ — ရှု။)

၁၉၄၂ ခုနှစ် မတ်လအထိ ယခု အင်ဒိုနီးရှားနိုင်ငံဟုခေါ်တွင်လျက်ရှိသောနိုင်ငံသည် နယ်သာလန် (ဒပ်ချ) အစိုးရပိုင် ပင်လယ်ရပ်ခြား နယ်ပယ်များ ဖြစ်ခဲ့၏။ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၂ ခုနှစ်မှ ၁၉၄၅ ခုနှစ်အထိ ဂျပန်တို့ ကြီးစိုးလွှမ်းမိုးခြင်း ခံခဲ့ရပြီးနောက် ဒေါက်တာ ဆိုကာနိုနှင့် ဒေါက်တာဟာတာတို့ ခေါင်းဆောင်ကာ တော်လှန်ပုန်ကန်ခဲ့၍ ၁၉၄၅ ခုနှစ် ဩဂုတ်လ ၁၇ ရက်နေ့တွင် သမတနိုင်ငံအဖြစ် ကျေညာခဲ့၏။ ၁၉၄၅ ခုနှစ်မှ ၁၉၄၉ ခုနှစ်အတွင်း ဒပ်ချတို့နှင့် လွတ်လပ်ရေးအတွက် ယှဉ်ပြိုင်တိုက်ခဲ့ရာ နောက်ဆုံး ကုလသမဂ္ဂ၏ ဝင်ရောက်ဖြန်ဖြေပေးမှုကြောင့် ထိုနှစ် (၁၉၄၉) ဒီဇင်ဘာလ ၂၇ ရက်နေ့တွင် အင်ဒိုနီးရှား ပြည်ထောင်စုနိုင်ငံ ပေါ်ပေါက် လာလေသည်။ (အင်ဒိုနီးရှားနိုင်ငံ — ရှု။)

၁၉၄၉ ခုနှစ် နိုဝင်ဘာလ ၂၉ ရက်နေ့တွင်ကျင်းပသော ကုလသမဂ္ဂအထွေထွေလွှတ်တော် အစည်းအဝေးက ယယ်လက်စတိုင်ပြည်ဘွင် ၁၉၄၈ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့မတိုင်မီ သီးခြားလွတ်လပ်သောနိုင်ငံ နှစ်နိုင်ငံထူထောင်ရန် ဆုံးဖြတ်ခဲ့ပြီးနောက် ၁၉၄၈ ခုနှစ် မေလ ၁၄ ရက်နေ့တွင် အစ္စရီးယယ်သမတနိုင်ငံဟူ၍ ပေါ်ပေါက်လာခဲ့လေသည်။ (အစ္စရီးယယ်နိုင်ငံ — ရှု။)

ပဌမကမ္ဘာစစ်အပြီးတွင် နိုင်ငံပေါင်းချုပ်အသင်းကြီးက ယခု လက်ဗနွန်နှင့် ဆီးရီးယားနိုင်ငံတို့ တည်ရှိရာနယ်မြေဒေသကြီးကို တူရကီတို့လက်တွင်းမှ လွှဲပြောင်း၍ ပြင်သစ်တို့အား ဩဇာခံနယ်ပယ်အဖြစ် အုပ်ချုပ်စေခဲ့သည်။ ပြင်သစ်တို့သည် ၁၉၂၆ ခုနှစ်တွင် ယခု လက်ဗနွန်နိုင်ငံ နယ်နိမိတ်ကို သတ်မှတ်ပြီးလျှင် သမတအုပ်ချုပ်ရေးစံနစ် လက်ခံသည့် အခြေခံဥပဒေတရပ်ကို ပေးခဲ့၍ အယူဝါဒီဆိုင်ရာ အုပ်စုများဖြင့် အုပ်ချုပ်ရေးစံနစ်ကိုလည်း အတည်ပြုခဲ့သည်။ ၁၉၄၁ ခုနှစ်တွင် လွတ်လပ်သည့် သမတနိုင်ငံအဖြစ် ကျေညာခဲ့လေသည်။ (လက်ဗနွန်နိုင်ငံ — ရှု။)

**အာရှမိုင်းနား။** ။အာရှတိုက်မှ အနောက်ဖက်သို့ ထိုးထွက်လျက် ဥရောပတိုက်နှင့် အာရှတိုက်ကို တန်တားသဖွယ်ဆက်သွယ်ပေးသကဲ့သို့ တည်ရှိနေသော ကျွန်းဆွယ်ကို အာရှမိုင်းနား ဟုခေါ်သည်။ အာရှမိုင်းနားသည် မြေထဲပင်လယ်နှင့် ပင်လယ်နက်တို့ကို ခြားထားပြီးလျှင် အနောက်ဖက်တွင် ဥရောပတိုက်ကို မျက်နှာမူနေလေသည်။ အရှေ့ဖက်နယ်နိမိတ်၌ကား အီရတ်နှင့် အာမီးနီးယားနိုင်ငံများရှိ၏။ ထိုကျွန်းဆွယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၂၀၁,၉၄၀ မျှဖြစ်၍ လူဦးရေမှာ ၁၀,၀၀၀,၀၀၀ ခန့်ရှိလေသည်။

ထိုကျွန်းဆွယ်ကို အာရှမိုင်းနား ဟု စတင်ခေါ်သူများမှာ ရောမလူမျိုးတို့ဖြစ်သည်။ ရောမလူမျိုးတို့သည် ထိုကျွန်းဆွယ်ကို သိမ်းပိုက်ရရှိသောအခါ အာရှတိုက်ကြီးနှင့် ခွဲခြားသိသာစေရန် အာရှတိုက်ငယ် ဟု အဓိပ္ပါယ်ရသော အာရှမိုင်းနားအမည်ဖြင့် ခေါ်ခဲ့ကြ၏။ ယနေ့ခေတ်၌မူ အနာတိုလီးယားဟုလည်း ခေါ်ကြသေး၏။ ယင်းမှာ အရှေ့တိုင်းဟု အဓိပ္ပါယ်ရလေသည်။ ထိုကျွန်းဆွယ်တခုလုံးသည် တူရကီသမတနိုင်ငံ၏ အစိတ်အပိုင်းတခုဖြစ်နေလျက် တူရကီနိုင်ငံ၏ မြို့တော်သစ်ဖြစ်သော အန်ကာရာမြို့သည် ထိုကျွန်းဆွယ်၌ပင် တည်ရှိလေသည်။

အာရှမိုင်းနားကျွန်းဆွယ်သည် အာမီးနီးယားကုန်းပြင်မြင့်နှင့် တဆက်တည်းဖြစ်ရကား ယင်း၏ မြေမျက်နှာပြင်သည်လည်း အတန်ပင်မြင့်လေသည်။ ဘေးပတ်ပတ်လည်တွင် တောင်တန်းများ ကာရံတည်ရှိ၏။ အနောက်ဖက် အီးဂျီးယန်းပင်လယ်သို့ မျက်နှာမူနေသော ကမ်းရိုးတန်းဆီသို့ ကုန်းမြင့်သည် ခပ်ပြေပြေနိမ့်လျှော သွားလေသည်။ ထိုအနောက်ဖက် ဆင်ခြေလျှော ကမ်းမြောင်ဒေသကား

မြေသြဇာကောင်းမွန်၏။ မြောက်ဖက်ဥမ္မ တောင်တန်းများသည် ကမ်းရိုးတန်းတွင် မတ်စောက်စွာ ကပ်၍တည်ရှိကြ၏။ တောင်ဖက် ကမ်းရိုးတန်းတလျှောက်သည်လည်း ထိုနည်းအတိုင်းဖြစ်သည်။ အာရှမိုင်းနားကုန်းပြင်မြင့်သည် အပူပိုင်း မြက်ခင်းဒေသဖြစ်၍ သစ်ပင်ကြီးများမပေါက်၊ ဆားပေါက်အိုင် များစွာရှိလေသည်။ ထိုကုန်းမြင့်တွင် ပေပေါင်း ၁၃,၁၆၀ မြင့်သော အာကီယပ် မီးတောင် တတောင်လည်း ရှိ၏။

မိုးအလွန်နည်း၍ နွေအခါတွင်အလွန်ပူပြီးလျှင် ဆောင်းအခါ၌ အလွန်အေးသည့် အတွင်းဖက်ရှိ ကုန်းမြင့်ဒေသမှ လွဲ၍ ကျန်အပိုင်းများကား ဥရောပတိုက်တောင်ပိုင်းတွင် ရရှိသော မြေထဲပင်လယ်ရာသီဥတုမျိုးကို ရရှိကြလေသည်။ အနောက်ဖက်ကမ်းခြေသည် ထိုကျွန်းဆွယ်တွင် ရာသီဥတု အမျှတဆုံးဒေသဖြစ်၍ ဂျုံ၊ ဗာလီ၊ ဝါဂွမ်း၊ ဆေးပင်များနှင့်တကွ သံလွင်သီး၊ သဖန်းသီး၊ စပျစ်သီး၊ လိမ်မော်သီး စသော အသီးအနှံများ ထွက်လေသည်။ အလယ်ပိုင်း ကုန်းပြင်မြင့်တွင် မြက်ခင်းများသာရှိသဖြင့် ဆိတ်များ သိုးများ မွေးမြူကြသည်။ ကမ္ဘာကျော် အင်ဂိုရာဆိတ်မွေးဖြင့် ရက်လုပ်သောကော်ဇော်များသည် ထိုဒေသမှထွက်၏။ အာရှမိုင်းနားတွင် တွင်းထွက်ပစ္စည်းများလည်း ပေါများရာ ခဲ၊ ကြေးနီ၊ ရေနံ၊ ရွှေ၊ ငွေနှင့် ကျောက်မီးသွေးများကို တွေ့ရှိရလေသည်။

အနောက်ဖက်စွန်းတွင် တည်ရှိသော ထရွိုင်းမြို့ ခေတ်ကောင်းစဉ်အချိန်မှစ၍ အာရှမိုင်းနားသည် အပြည်ပြည် စစ်သည်တော်တို့၏ စစ်ခင်းရာ စစ်တလင်းဖြစ်ခဲ့၏။ လစ်ဒီးယားပြည် ဟစ်တိုက်လူမျိုးတို့ နေထိုင်ရာဒေသကြီးဖြစ်ခဲ့သည့်ပြင် ကမ်းရိုးတန်းတလျှောက်တွင် ဂရိပိုင်နယ်ပယ်များ အထင်အရှား ထွန်းကားခဲ့ကြ၏။ ခေတ်အဆက်ဆက်တွင် ကရီးဆပ်ဘုရင်၏ အောင်တပ်တော်များ၊ ပါးရှင်းမင်းတို့၏ တပ်မတော်များ၊ အလက်ဇန္ဒားဘုရင်ကြီး၏ စစ်သည်ဘော်များနှင့် ရောမစစ်သည်တော်တို့သည် အာရှမိုင်းနား၌ ခြေရာထပ်မျှ ကူးလူးဖြတ်သန်း၍ စစ်ခင်းကာ အောင်ပန်းဆွတ်ခဲ့ကြလေသည်။ ထိုနောက် ၁၁ ရာစုနှစ်အစလောက်တွင် တူရကီများလက်အောက်သို့ တဖြည်းဖြည်းကျရောက်သွားခဲ့ရာ မျက်မှောက်ခေတ်သို့ပင် တိုင်ခဲ့လေပြီ။

အာရှမိုင်းနားတွင် ထင်ရှားသော ဆိပ်ကမ်းမြို့များမှာ ပင်လယ်နက်ကမ်းပေါ်ရှိ ထရက်ဘီဇွန်မြို့နှင့် အီးဂျီးယန်းပင်လယ်လမ်းပေါ်ရှိဆမာနာမြို့များဖြစ်ကြသည်။ပြည်တွင်းသွားလာရေးတွင် အရေးပါဆုံးလမ်းကြောင်းကား ဗော့စပိုရပ်မှ ဆီးရီးယားနိုင်ငံ အလက်ပိုမြို့ကိုဖြတ်၍ အီရက်နိုင်ငံသို့ အရောက်သွားသော အနာတိုလီယန် မီးရထားလမ်းကြီးပင် ဖြစ်လေသည်။

**အာလူး။** ။ဥရောပတိုက်၏သမိုင်းတွင် အာလူးစိုက်ပျိုးလုပ်ကိုင်ခြင်းသည် အရေးပါအရာရောက်သည့်အချက်တရပ်ဖြစ်လေသည်။ ပုံစံပြရမည်ဆိုလျှင် အနှစ်သုံးဆယ်တာရှည်သည့် စစ်ပွဲဖြစ်ပွားခြင်းကြောင့် ဂျာမနီပြည်တွင် စားနပ်ရိက္ခာခေါင်းပါးခြင်းဘေး ဆိုက်ရောက်လာရာ အာလူးကို စိုက်ပျိုးသဖြင့် အချို့အပိုင်းများ၌ ထိုဘေးရန်ကို တားဆီးနိုင်ကြသည်။ အိုင်ယာလန်ပြည်တွင် တောင်သူလယ်သမားတို့သည် ၁၆၈၈ ခုနှစ်မှစ၍ အာလူးကို ပဓာနအစာအဖြစ်ဖြင့် အသုံးပြုခဲ့ကြသည်တွင် ၁၈၄၅ ခုနှစ်သို့ ရောက်သည့်အခါ အာလူးစိုက်ခင်းများ တတိုင်းပြည်လုံးတွင် ပျက်စီးကုန်ကြသဖြင့် လူများအစားအစာခေါင်းပါးသည့်ဘေးနှင့် ရင်ဆိုင်တိုးကြ၏။ ယင်းသို့ အိုင်ယာလန်ပြည်တွင် အစာခေါင်းပါးသည့် ကပ်ဆိုက်ရောက်လာသဖြင့် အိုင်ယာလန်လူမျိုးတို့သည် သူတို့၏နေရင်းအရပ်ကို စွန့်ခွာလျက် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်နေထိုင်ကြလေသည်။

အာလူး၏ ဇာတိပေါက်ရောက်ရာအရပ်ကို တပ်အပ်သေချာစွာမသိရသော်လည်း ၁၅၂၄ ခုနှစ်တွင် စပိန်လူမျိုးများ တောင်အမေရိကတိုက်သို့ စစ်ချီတိုက်ခိုက်သည့်အခါ၌ ထိုတိုင်းပြည်ရှိ တိုင်းရင်းသားတို့သည် အစားအစာအတွက် အာလူးကဲ့သို့ ဥစားပင်မျိုးပေါင်းမြောက်မြားစွာ စိုက်ပျိုး



အာလူးစိုက်ခင်း

လျှ က်ရှိကြသည်ကို တွေ့ရှိရသည်။ ထိုအပြင် အမေရိကန်ပြည် ထောင်စု၏ အနောက်တောင်ပိုင်းဆီမှ တောင်အမေရိကတိုက် တောင်ဖက်စွန်းအထိ ကုန်းပြင်မြင့်များပေါ်တွင် အာလူးအရိုင်းပင်များ ပေါက်ရောက်လျှက်ရှိသည်။ ထိုကြောင့် အမေရိကတိုက်သည် အာလူးပင်များ၏ ဇာတိအရပ်ဖြစ်သည်ဆိုလျှင် ဆိုသင့်ပေသည်။

စပိန်လူမျိုးများသည် ဥရောပတိုက်သို့ အာလူးမျိုးကို ယူဆောင်ခဲ့ကြသည်ဟုယူဆရပေမည်။ အာလူးသည် ရာသီဥတုအေးသော အရပ်ဒေသများ၌ ကောင်းစွာဖြစ်ထွန်းသည်။ ထိုပြင် အစားအစာအတွက် စိုက်ပျိုးကြသော အခြား အသီးအနှံပင်များထက် အာလူးမှာ အထွက်ပိုများသဖြင့် လူနေထူထပ်သည့် ဥရောပတိုက်တွင် အာလူးကို နိုင်ငံခြားသို့ တင်ပို့နိုင်လောက်အောင် အမြောက်အမြား စိုက်ပျိုးလုပ်ကိုင်ကြသည်။

အာလူးတွင် ရေအလေးချိန် လေးပုံသုံးပုံခန့်ပါ၍ ကျန်သမျှမှာ ကစီဖြစ်သည်။ ပရိုတင်းဓာတ်နှင့် အဆီဓာတ်အနည်းငယ်မျှသာ ရှိသည်။ အာဟာရဖြစ်စေမည့် ပရိုတင်းဓာတ်သည် အခွံနှင့်ကပ်လျက်ရှိသဖြင့် ချက်ပြုတ်ရန်အာလူးခွံကို ခပ်ပါးပါးသင်ပစ်ရသည်။ အာလူးမှ အာလူးကစီမှုန့်၊ အာလူးမှုန့်များ ပြုလုပ်ကြသည်။ လွန်ခဲ့သည့် အနှစ်တရာအတွင်း အာလူးမှ စက်များမောင်းနှင်ရန် အသုံးကျသော အရက်ပြန်တမျိုးကို ရရှိလာရာ အထူးသဖြင့် ဂျာမနီနိုင်ငံတွင် အာလူးစိုက်ပျိုးခြင်းလုပ်ငန်းနှင့် အရက်ပြန်ချက်ခြင်းလုပ်ငန်းကို တွဲဖက်ဆောင်ရွက်လျက် ရှိကြသည်။အရက်ပြန်ချက်လုပ်ပြီးနောက် ကြွင်းကျန်နေသော အာလူးဖတ်များကို တိရစ္ဆာန်အစာအတွက် ပြန်လည်၍ အသုံးချကြသည်။ ထိုကြောင့် ဂျာမနီနိုင်ငံတွင် တိရစ္ဆာန်မွေးမြူသည့်လုပ်ငန်းမှာလည်း တိုးတက်လာလေသည်။

အာလူးပင်မှ အစေ့ပါသော အစိမ်းရောင်အသီးငယ်များသီးသည်။ ထိုအသီးများတွင် လူကို ဥပဒ်ဖြစ်စေမည့် အဆိပ်အတောက်များပါရှိတတ်သဖြင့် လူများစားသုံးခြင်းငှာ မသင့်ချေ။ အာလူးများကိုလည်း မြေပေါ်တွင် ကြာကြာထားလျှင် အရောင်မှာ စိမ်းလာ၍ အဆိပ်အတောက်ဖြစ်ပေါ်လာနိုင်သည်။ ထိုကြောင့် အစိမ်းရောင်အသားရှိသော အာလူးများနှင့် အညှောက်ကြီးများထွက်ပေါ်နေသည့် အာလူးတို့ကို စားသုံးရန်မသင့်ချေ။

အာလူးကို စိုက်ပျိုးသည့်အခါ၌ အာလူးအလုံးလိုက်ကိုဖြစ်စေ၊ ထက်ခြမ်းခြမ်း၍ဖြစ်စေ၊ ခွဲစိတ်၍ဖြစ်စေ စိုက်ပျိုးလေ့ရှိကြသည်။ ယင်းသို့စိုက်ပျိုးလိုက်သည့်အခါ အာလူးတွင်ရှိသော မျက်စိမှ အမြစ်များ အစို့များထွက်ပေါ်လာကြသည်။ အာလူးမျိုးသန့် ရွေးချယ်သည့်အခါ၌သာ မျိုးစေ့ကို စိုက်ပျိုးယူကြသည်။ အပင်များမျိုးသန့်ခြင်းလုပ်ငန်းတွင် အထူးတလည် တတ်ကျွမ်းသည့် အမေရိကန်လူမျိုး လူသာ ဗားဗင်ဆိုသူသည် ထူးကျိုင်းချောမွတ်သော အာလူးမျိုးကိုတီထွင်လိုက်သဖြင့်ဗားဗင်အာလူးမျိုးဟူ၍တွင်ကျန်ရစ်လေသည်။ (ဗားဗင့်၊ လူသာ—လည်းရှု။)

အာလူးပင်သည် တပေမှ သုံးပေအထိ မြင့်တတ်ပြီးလျှင် အဖြူ သို့မဟုတ် ခရမ်းရောင်အပွင့်များ ပွင့်တတ်သည်။ အာလူးပင်၏ အဖျားများ ရင့်ယော်လာသောအခါတွင် အာလူးများကို တူးယူသင့်သည်။

ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း ရှမ်းပြည်နယ်၌ အာလူးကို စိုက်ပျိုးကြသည်။ ဆင်ဖြူကျွန်းဒေသတွင်လည်း အာလူးများကို စိုက်ပျိုးကြသေးသည်။ ရှမ်းပြည်မှ ရရှိသော အာလူးမျိုးကောင်းကို ပြည်တွင်းသုံးမျှသာမက ပိုမိုထွက်သဖြင့် အိန္ဒိယနိုင်ငံသို့ပင် ပို့ရသေးသည်။ ဈေးချိုသော အာလူးများကိုသာ အိန္ဒိယနိုင်ငံမှဝယ်ယူကြသည်။

အာလူးသည် ဆိုလာနေစီအီးမျိုးရင်းတွင် ပါဝင်ပြီးလျှင် ယင်းအား ရုက္ခဗေဒအလိုအားဖြင့် ဆိုလေနမ် တျူဗာရိုဆမ်ဟု ခေါ်သည်။

**အာလံမြို့။** ။အောင်လံမြို့ — ရှု။

**အာသာဘုရင်၏စားပွဲဝိုင်း။** ။ကမ္ဘာပေါ်၌ထင်ရှားကျော်ကြားသော သမိုင်းဝင် ပုံပြင်ကြီးများထဲတွင် အာသာဘုရင်နှင့် သူ၏ဝိုင်းတော်သား အာဇာနည်ကြီးများ၏ ပုံပြင်ကြီးကား ရာစုနှစ်ပေါင်းများစွာမျှ လူကြီးလူငယ်မရွေး နှစ်ခြိုက်စွဲလမ်းကြသော ပုံပြင်ကြီးတခုဖြစ်ခဲ့၏။ အာသာဘုရင်သည် ငါးရာစုနှစ်ခန့်က ဗြိတိန်နိုင်ငံကို ဝင်ရောက်တိုက်ခိုက်လာသောဆက္ကဆွန်လူမျိုးများကိုတွန်းလှန်တိုက်ခိုက်နိုင်ခဲ့သော ရဲစွမ်းသတ္တိနှင့် ပြည့်စုံလှသည့် အာဇာနည် စစ်သားကောင်းကြီးဖြစ်သည်ဟူ၍ အဆိုရှိလေသည်။

အာသာဘုရင်၏ပုံပြင်များကို ၁၁၃၆ ခုနှစ်တွင် မွန်မတ်မြို့မှ ဂျက်ဖရီအမည်ရှိ ဘုန်းကြီးတပါးက ဗြိတိန်နိုင်ငံ၏ဘုရင်များဟူသော နိုင်ငံသမိုင်းစာအုပ်တအုပ်တွင် ထည့်သွင်း ရေးသားခဲ့၏။ ထိုနောက်တွင်မူ အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီစသည့် နိုင်ငံများမှ စာဆိုကြီးများသည် အာသာဘုရင်နှင့် သူ၏အာဇာနည်သူရဲကောင်းများအကြောင်းကို ခြီးကျူးသည့် ကဗျာ လင်္ကာများကို ဖွဲ့နွဲ့စပ်ဆိုခဲ့ကြသည်။ နှောင်းခေတ်များတွင်လည်း ကဗျာစာဆိုများ၊ ဝတ္ထုရေးဆရာများသည် အာသာပုံပြင်များကို မိမိတို့ခေတ်အခြေအနေကိုလိုက်၍ မိမိတို့စိတ်ကူးဉာဏ်ကွန့်မြူးကာ ရေးသားကြ၏။ ထိုကြောင့် အာသာပုံပြင်များသည် အမည်ချင်းတူသော်လည်း တခုနှင့်တခု အကြောင်းအရာ အချက်အလက်ချင်း အနည်းငယ်စီကွဲပြားလေသည်။

ထို့ကြောင့် အာသာဘုရင်ပုံပြင်များမှာ တကယ့်အဖြစ်အပျက် မဟုတ် ဟုလည်း မငြင်းဆိုနိုင်၊ အားလုံးကို အဖြစ်အပျက် အမှန်ချည်းဟူ၍လည်း ဝန်မခံနိုင်ချေ။ သို့သော် အင်္ဂလိပ်ဘာသာဖြင့် ရေးသားထားသော အာသာဘုရင်ပုံပြင်များထဲတွင် ၁၅ ရာစုနှစ်ခန့်က ဆာ တောမတ် မလ့်ရှိက ပြင်သစ်ဘာသာမှ ပြန်ဆိုခဲ့သော အာသာအနိစ္စရောက်ခြင်း အမည်ရှိ စာအုပ်နှင့် လော့ ဇင်နီဆန် ရေးသားသည့် အာသာဘုရင်အကြောင်း ကဗျာတို့မှာ စာပေလောကတွင် အထူးပင် ထင်ရှားခဲ့လေသည်။

ထိုပုံပြင်များ ပေါ်ပေါက်သည့်အခါက ဥရောပတိုက်တွင် နိုက်သူရဲကောင်းတို့ ခေတ်စားနေသည့် အချိန်ဖြစ်သည်။ ထို့ကြောင့် ထိုခေတ်က စာဆို၏ စိတ်ကူးဥာဏ်တွင် အထူးချွန်ဆုံးဖြစ်နိုင်မည့် နိုက်သူရဲကောင်းတဦး၏ ထက်မြက် ပြောင်မြောက်သည့် အရည်အသွေးများဖြင့် အာသာဘုရင်ကို ရုပ်လုံးဖော်ကြလေသည်။ အာသာဘုရင်သာမက အာသာဘုရင်၏ လက်ရွေးစင် အာဇာနည်သူရဲကောင်းများလည်း အာသာဘုရင်နှင့်အတူ ထင်ရှားကျော်ကြားကြလေသည်။ ဆာ ဂါဝိန်နှင့် ဆာ လန်ဆလော့တို့သည် ချစ်ခင်ကြည်ညိုလေးစားစွာ စံနမူနာတင်ရသော သူရဲကောင်းများ ဖြစ်လာကြ၏။ ဆာ လန်ဆလော့နှင့် ဂွင်နီဗား မိဖုရားတို့၏ အချစ်ဇာတ်လမ်းမှာ ကမ္ဘာပေါ်တွင် အကောင်းဆုံးတခုဖြစ်ခဲ့သည်။ ဆာဂါလာဟတ်သည် ဘုရားတရား ကြည်ညိုလေးစားလှ၍၊ ခြောက်ပြစ်ကင်း စင်းလုံးချော သူရဲကောင်းတဦးအဖြစ် ကျော်ကြားလေသည်။

ယင်းသို့ အကြောင်းအချက်များဖြင့် လူအဆင့်အတန်းမရွေး နှစ်သက်စွဲလမ်းခဲ့သော အာသာပုံပြင် အကျဉ်းချုပ်ကား ဤသို့တည်း။

တနေ့သော နံနက်ခင်းအချိန်တွင် ပညာရှိ မှော်ဆရာကြီး မာလင်သည် စုတ်နုပ်စွာ ဝတ်စားလျက် အူသာ ပင်ဒရာဂွန်ဘုရင်၏ နန်းတော် မလှမ်းပေါက်အနီး၌ တစုံတခုကို စောင့်မျှော်လျက်ရှိ၏။ မကြာမီ မလှမ်းပေါက်တံခါး ပွင့်လာ၍ သူရဲကောင်းနှစ်ဦးနှင့် အပျိုတော်နှစ်ဦးတို့ထွက်လာပြီးလျှင် အပျိုတော်တဦး၏လက်ထဲတွင် ရွှေခြည်ရက်အနီးဖြင့် ယုယစွာပိုက်ထွေးထားသော ကလေးတယောက် ပါလာလေသည်။ ထိုကလေးငယ်ကို မာလင်သည် လှမ်းယူကာ ယုယစွာ ပွေ့ချီ၍ထွက်ခဲ့လေသည်။ ထိုနောက်မာလင်သည် ထိုကလေးအား ဥစ္စာစနေနှင့်ပြည့်စုံ၍ စိတ်သဘောထား ကောင်းမွန်လှသော ဆာ ဟက်တာအမည်ရှိ သူရဲကောင်းကြီးနှင့် ကြင်ယာတို့ထံတွင် အာသာအမည်ဖြင့် ကောင်းမွန်စွာ ကျွေးမွေးပြုစုရန် အပ်နှံထား၏။ ဆာ ဟက်တာတို့မောင်နှံသည် မိမိတို့၏သားရင်း ဆာ ကေးနှင့်မခြား အာသာကို ကောင်းစွာကျွေးမွေးပြုစုကြလေသည်။

မာလင်သည် အာသာ၏ရှေ့ရေးကို ကြိုတင်သိမြင်ထားသူဖြစ်သဖြင့် အူသာဘုရင်နှင့် လျှို့ဝှက်စွာ တိုင်ပင်၍ အာသာဖွားမြင်သည်ကို အခြားသူများ မသိအောင် လျှို့ဝှက်ထားခြင်းဖြစ်၏။ မကြာမီအတောအတွင်း အခြားပြည်နယ်ဘုရင်များသည် အူသာ၏ထီးနန်းကို လုယူလိုကြသဖြင့် စစ်ပွဲများ ဆင်နွှဲကြလေသည်။ ထို့ကြောင့် အူသာဘုရင်သည် အလွန်တရာ မကျန်းမမာဖြစ်လျက်ပင် မာလင်၏ အကြံပေးချက်အတိုင်း ထွက်၍တိုက်သဖြင့် ရန်သူတို့ကို အောင်မြင်ခဲ့၏။ သို့သော် အူသာဘုရင်၏ ရောဂါမှာ သက်သာရာမရပဲ နတ်ရွာစံအံ့ဆဲဆဲတွင် မိမိ၏သားတော် အာသာအား မိမိ၏ထီးနန်းကို ဆက်ခံစေလိုကြောင်း မိန့်ကြားခဲ့လေသည်။

သို့သော် အာသာသည် မည်သူဖြစ်ကြောင်းကို မာလင်မှတပါး အခြားမည်သူမျှ မသိကြချေ။ မာလင်ကလည်း ထိုစဉ်က အလွန်နုနယ်ငယ်ရွယ်နေသေးသော အာသာကို ဘုရင်လုပ်ချင်သူ များပြားနေသည့်အခါတွင် ဖော်ထုတ်ခြင်းမပြုချေ။ ထိုသို့ပြုလိုက်ပါက အာသာကိုဝိုင်း၍ ရန်မူကြမည် ဖြစ်သည်။ ထို့ကြောင့် အူသာဘုရင် ကွယ်လွန်ပြီးနောက်တွင် ဘုရင်လုပ်လိုသူများသည် တဦးကိုတဦး တိုက်ခိုက်ကာ အခြေအနေကို များစွာဆိုးရွားစေခဲ့လေသည်။ မာလင်ကလည်း အာသာအတွက် အချိန်မကျသေးသဖြင့် အာသာကို ဖော်ထုတ်ခြင်း မပြုခဲ့ချေ။ သို့ဖြင့် အာသာ တဆယ့်ငါးနှစ်သားအရွယ်သို့ တိုင်ခဲ့လေသည်။ ထိုအခါမှ မာလင်သည် ကန်တာဗာရီဂိုဏ်းအုပ်ကြီးနှင့် တိုင်ပင်လျက် ဗြိတိန်နိုင်ငံအရပ်ရပ်မှ အထက်တန်းစားမင်းသမီး မင်းသားများနှင့် သူကောင်းမျိုးများ အားလုံးတို့ကို လန်ဒန်မြို့ ဘုရားရှိခိုးကျောင်းကြီး၌ ခရစ်စမတ်ပွဲတော်နေ့တွင် လာရောက်စုရုံးကြရန် ဖိတ်ကြားလိုက်လေသည်။ ဖိတ်ကြားချက်အတိုင်း လာရောက်ကြသူတို့ကား ဘုရားရှိခိုးကျောင်းဝင်းထဲတွင် အံ့ဖွယ်သရဲ ထူးကဲချက်တခုကို တွေ့မြင်ကြရလေသည်။ ထိုထူးကဲချက်ကား မာကျောလှသော သံမဏိပေအတွင်းသို့ ဓားကြီးတစင်းထိုးစိုက်ဝင်နေ၍ထိုဓားအနီးတွင် ရွှေစာလုံးဖြင့် ဤသို့ရေးသားထားလေသည်။ "ဤပေထဲသို့ထိုးစိုက်နေသော 'ဓားမဟာ' ကိုဆွဲနုတ်နိုင်သူသည် အင်္ဂလန်ပြည်အားလုံး၏ဘုရင်ဖြစ်လတ္တံ့" ဟူသတည်း။

သူတို့သည် ဘုရားရှိခိုးကျောင်းအတွင်းသို့ ဝင်ရောက်ကြ၍ ဘုရားရှိခိုးကြပြီးနောက် ဓားမဟာကြီးကို တဦးပြီးတဦး ဆွဲနုတ်ကြသော်လည်း မည်သူတဦးမျှ မစွမ်းနိုင်ချေ။ ထို့ကြောင့် နှစ်သစ်ကူးနေ့တွင် သူရဲကောင်းအားလုံးတို့ကို ဖိတ်ကြားပြီးလျှင် လက်ရုံးရည်ပြိုင်ပွဲကြီး ကျင်းပပြီးနောက် ဘုရင်လောင်းကို ရှာကြမည်ဟု စီစဉ်ခဲ့ကြ၏။ ထိုနှစ်သစ်ကူးနေ့ လက်ရုံးရည်ပြိုင်ပွဲကြီးသို့ လာရောက်ကြသောသူ

ကောင်းများထဲတွင် ဆာ ဟက်တာတို့ သားအဖသုံး ယောက်လည်း ပါလေသည်။ သားအဖသုံးယောက်စလုံး လက်ရုံးရည်ပြိုင်ပွဲတွင် ပါဝင်ဆင်နွှဲသင့်က ဆင်နွှဲရန် လာကြရာ၊ လမ်းခုလတ်တွင် ဆာ ကေးသည် မိမိ၏ဓားကို တည်းခိုရာရဲတိုက်၌မေ့ကျန်ခဲ့ကြောင်း သတိရလေ၏။ ထိုကြောင့် အာသာအား ပြန်ယူခိုင်းရာတည်းခိုရာရဲတိုက်ရှင်များလည်း ပြိုင်ပွဲသို့ သွားရောက်နေကြပြီဖြစ်၍ ရဲတိုက်ထဲသို့ မဝင်နိုင်တော့ချေ။ ထိုကြောင့် အာသာသည် မိမိ၏နောင်တော် ဆာ ကေးအား ဓားမပါပဲ ပြိုင်ပွဲဝင်၍ အရှက်မရစေခြင်းငှာ ဓားတစင်းရဘို့ အကြံထုတ်လေ၏။ ထိုအခါ ဘုရားရှိခိုးကျောင်းဝင်းကြီးအတွင်းမှ ဓားမဟာကို သတိရလေသည်။

ထိုကြောင့် ဘုရားရှိခိုးကျောင်းဝင်းအတွင်းသို့ သွားရောက်၍ ဓားကိုဆွဲနုတ်သောအခါသူ့ဘုန်းနှင့်သင့်မြတ်တိုက်ဆိုင်သဖြင့် လွယ်လင့်တကူရရှိလေသည်။ထိုဓားကိုယူဆောင်ကာ ဆာ ကေးကိုသွားပေးသောအခါ ဆာ ကေးသည်ဓားမဟာ၏အကြောင်းကို သိထားသဖြင့် ဖခင်အား မိမိသည် အင်္ဂလန်ပြည်အလုံး၏ ဘုရင်ဖြစ်တော့မည်ဟုပြော၏။ သို့သော် ဆာ ဟက်တာက မယုံကြည်နိုင်၍ သစ္စာဆိုစေကာ သေချာစွာ မေးမြန်းသောအခါ အာသာသာလျှင် ဓားမဟာကို နုတ်နိုင်စွမ်းသူဖြစ်၍ ဘုရင်ဖြစ်ထိုက်သူမှန်ကြောင်း သိရလေသည်။ ထိုအခါမှပင် အာသာသည် မိမိမှာ ဆာ ဟက်တာ၏ သားရင်းမဟုတ်ကြောင်းကို သိလေသည်။

အာသာသည် မိမိတဦးတည်းသာ ထိုဓားမဟာကို ဆွဲနုတ်ယူနိုင်သူဖြစ်၍ဘုရင်ဖြစ်ထိုက်သူမှန်ကြောင်းကို အကြိမ်ကြိမ် ပရိသတ် ဗိုလ်ပုံအလယ်တွင် ပြရပေသေး၏။ မြောက်မြားလှစွာသော မင်းညီမင်းသား အထက်တန်းစားနှင့် ထင်ရှားသော သူရဲကောင်းများရှိပါလျက် မထင်ရှား၍ ငယ်ရွယ်နုပျိုလှသော အာသာက ဘုရင်ဖြစ်ထိုက်ကြောင်းပြနေသည်ကို အလွန်ပင်မကျေမနပ် ဖြစ်ကြလေသည်။ သို့သော် ဘုရားသခင်အလိုအတိုင်း ဖန်တီးလာခြင်းဖြစ်၍ နောက်ဆုံးတွင် အာသာအား ဘုရင်တင်မြှောက်ကြရလေသည်။

သို့တိုင်အောင်ပင် အာသာဘုရင်ကို မလောက်လေး မလောက်စား ဟုထင်ကာ ရန်တုလာသူများ၊ ပုန်ကန်သူများ အများအပြား ပေါ်ပေါက်ခဲ့သေး၏။ အာသာသည် များပြားလှသော ရန်သူများကို သူ၏ ထူးခြားထက်မြက်သော စွမ်းရည်ဖြင့် နှိမ်နင်းအောင်မြင်လေသည်။ ယင်းသို့သော အခြေအနေဆိုးများကြားထဲမှ နုပျိုသော ဘုရင်အာသာသည် မြင့်မြတ်သောစိတ်ဓာတ်၊ ထက်သန်သောလုံ့လ၊ ပြောင်မြောက်သော စွမ်းရည်တို့ဖြင့် စည်ကားသာယာသော နိုင်ငံကြီးကို တည်ထောင်လေသည်။ ပင်လယ်ရပ်ခြားမှ ဝင်ရောက်တိုက်ခိုက်လာသော ဆက္ကဆွန်များကိုလည်း တွန်းလှန်လိုက်၏။ လူတို့စိတ်ဓာတ် အကျင့်စာရိတ္တကို ပြုပြင်ရန် ကြိုးစား၍ မကောင်းသူကိုပယ်၊ ကောင်းသူကိုကယ်သည့် လက်ရွေးဆန် သူရဲကောင်းအဖွဲ့ကြီးကို ဖွဲ့စည်းခဲ့၏။ ယင်းသို့ဖြင့် အာသာနန်းစိုက်ရာ ကွန်ဝေါနယ် ကမ်မီလော့မြို့တော်ကြီးမှာ ဒုက္ခသည်တို့၏ မှီခိုအားထားရာ ဌာနကြီးဖြစ်၍ သူရဲကောင်းအာဇာနည်တို့အား ခြီးမြှင့်မြှောက်စားရာ ဌာနကြီးလည်း ဖြစ်လေသည်။ ထိုကဲ့သို့ အခြေအနေမျိုးသို့ ရောက်ရှိစေရန် မာလင်သည် အာသာအား အစဉ်သဖြင့် အကြံဉာဏ်ပေးကာ စောင့်ရှောက်ခဲ့ကြ၏။ ပြိုင်စံရှားအောင် လှပသော ဂွင်နီဗားကို မိဖုရားမြှောက်မည်ပြုစဉ်က ထိုမိဖုရားအတွက် နောင်အခါ အရှုပ်အထွေးများ ပေါ်ပေါက်စရာရှိသဖြင့် မာလင်ကတားမြစ်သော်လည်း အာသာက နားမထောင်ချေ။ ထိုကြောင့် နောင်အခါ စိတ်မချမ်းမြေ့ဖွယ်ရာကိစ္စများ ပေါ်ပေါက်ခဲ့၏။ မာလင်ကြိုတင်ဟောသည့်အတိုင်း မေလ တရက်နေ့တွင် မွေးဖွားသော တူရင်းတော်စပ်သည့် ဆာ မော့ဒရက်သည် အာသာနှင့်တကွ လက်ရွေးဆန် သူရဲကောင်းများ၏ ပျက်စီးရာပျက်စီးကြောင်းကို ပြုလုပ်ခဲ့လေသည်။

ဆာ မော့ဒရက်သည် အာသာဘုရင်ကို မလိုလားရကား နောက်ဆုံး၌ အာသာ၏ စည်းစိမ်ရိုက်ရာကို လုယူရာမှ သူကိုယ်တိုင်လည်း အာသာ၏ လက်ချက်ဖြင့် ကျဆုံးလေသည်။ အာသာ၏ သူရဲကောင်း အများအပြားပင် ပျက်စီးကြရပြီးသော် အာသာသည်လည်း ဒဏ်ရာပြင်းထန်စွာ ရသွားလေသည်။ ထိုကဲ့သို့ ဒဏ်ရာပြင်းထန်စွာရသည့် အာသာကို နတ်သမီးသုံးဦးက အေဗလွန်အမည်ရှိ ထူးဆန်းသော ကျွန်းတခုသို့ ယူဆောင်သွားကြ၏။

ယင်းသို့ ဆောင်ယူသွားခြင်းခံရသော အာသာသည် ထိုကျွန်း၌ပင် အနိစ္စရောက်သည်ဟု အချို့ကယုံကြည်ကြသည်။ အချို့ကမူ အာသာဘုရင်သည် ဒဏ်ရာများမှ ပျောက်ကင်းချမ်းသာ၍ ယခုထက်တိုင် အသက်ရှင်လျက်ရှိသည်ဟု ယုံကြည်ကြသည်။ သင့်မြတ်သော အချိန်အခါကျရောက်ပါက အင်္ဂလန်ပြည်အလုံးကို သာယာဝပြောစွာ တိုးတက်စေ၍ တရားမျှတစွာ အုပ်စိုးရန် အာသာဘုရင်သည် ပြန်လာလိမ့်မည်ဟု မြန်မာများက စကြာမင်းကို မျှော်သကဲ့သို့ ထိုခေတ်ကဗြိတန်နိုင်ငံသူ နိုင်ငံသားတို့လည်း အာသာဘုရင်ကို မျှော်ဆဲမျှော်ကာ ရှိခဲ့ကြလေသည်။

**အာသံပြည်နယ်။** ။အာသံပြည်နယ်သည် အိန္ဒိယနိုင်ငံ၏ အရှေ့မြောက်ဆောင့် ဗင်္ဂလားပြည်နယ်၊ မြန်မာနိုင်ငံနှင့် ဟိမဝန္တာတောင်တန်းများ အကြားတွင် တည်ရှိသည်။ အာသံတပြည်နယ်လုံးမှာ ဗြဟ္မပုတ္တရမြစ်နှင့် ယင်းမြစ်၏လက်တက်များ ဖြတ်သန်းစီးဆင်းရာ ရှည်လျားသော

ချိုင့်ဝှမ်းဒေသကြီးပင် ဖြစ်သည်။ ဗြဟ္မပုတ္တရမြစ်ဝှမ်းမှာ မြေဩဇာထက်သန်ကောင်းမွန်သည်။ အာသံပြည်နယ်၏ တောင်တန်းများပေါ်တွင် ရွာသွန်းသော မိုးရေချိန်မှာ ကမ္ဘာပေါ်တွင် အများဆုံးဖြစ်သည်။ မိုးအများဆုံးနေရာတွင် တနှစ်လျှင် ပျမ်းမျှမိုးရေချိန် လက်မ ၄၀၀ ခန့်ရွာသွန်းသည်။ မကြာသေးမီက တနှစ်အတွင်း မိုးရေချိန် ၈၀၅ လက်မအထိ ရွာသွန်းလိုက်ရာ ထိုစံချိန်သစ်မှာ အမြင့်ဆုံးပင်ဖြစ်နေလေသည်။အထူးသဖြင့် မိုးအသည်းထန်ဆုံး အချိန်မှာ နွေရာသီ နှစ်လခန့်အတွင်းတွင် ဖြစ်သည်။

အာသံပြည်နယ်အတွင်းရှိ တောများတွင် ကျား၊ ကျားသစ်၊ ဝက်ဝံ၊ ကြံ့၊ ကျွဲ၊ ဆင်နှင့် အခြားနို့တိုက်သတ္တဝါများရှိသည်။ မြွေများကိုလည်း တွေ့နိုင်သည်။ တိုင်းရင်းသားများ ရှိသည့် အနက် ထက်ဝက်ခန့်သည် ဟိန္ဒူအယူဝါဒတွင် သက်ဝင်ယုံကြည်ကြ၍ လေးပုံတပုံခန့်သည် အစ္စလာမ်အယူဝါဒီများ ဖြစ်ကြပြီးလျှင် ခြောက်ပုံတပုံခန့်သည် နတ်ကိုးကွယ်သူများ ဖြစ်ကြလေသည်။

လက်ဖက်ခင်းများရှိသောကြောင့် ကမ္ဘာတွင် ထင်ရှားသည့် အာသံပြည်နယ်တွင်းသို့ မြန်မာနိုင်ငံမှ တဆင့်ချင်းတွင်း မြစ်ကို ဖြတ်ကျော်၍ ရွှေ့ပြောင်းနေထိုင်လာခဲ့ကြသော ရှမ်းတို့သည် ခရစ် ၁၂၂၈ ခုနှစ်ခန့်ကပင် စတင်ရောက်ရှိလာခဲ့ပြီးနောက် အာသံနယ်၏ မြေပြန့်ဒေသတို့တွင် အခြေစိုက် နေထိုင်ကာ အဟုမ်းပြည်ကို တည်ထောင်ခဲ့ကြ၏။ အာသံမြေပြန့်တွင် အဟုမ်းရှမ်းတို့သည် ချူတိယများကိုရင်း၊ ၁၅၄၀ ပြည့်နှစ်တွင် ကချာရီများကိုရင်း အောင်နိုင်ခဲ့၏။ ၁၇ ရာစုနှစ်တွင် ဗင်္ဂလားနယ်မှ မုတ်စလင်တို့ လာရောက် တိုက်ခိုက်ခဲ့သော်လည်း မအောင်[[ ]]ခဲ့ပေ။ ထိုနောက် အာသံနယ်၌ ထီးနန်း ဆက်ခံရေးအတွက် ပြဿနာတရပ် ပေါ်ပေါက်ခဲ့ရာတွင် နန်းချခံရသော စန္ဒရကန္တရှိန် အတွက် မြန်မာတို့သည် နှစ်ကြိမ်တိုင် သွားရောက်တိုက်ခိုက်၍ ယင်းကို နန်းတင်ပေးခဲ့သည်။ ဤသို့အားဖြင့် အာသံ နယ်တွင် ခရစ် ၁၈၂၂ ခုနှစ်မှ အစပြု၍ မြန်မာတို့၏ ဩဇာ အာဏာ ပျံ့နှံ့ခဲ့လေသည်။ ထိုသို့ ဩဇာအာဏာ ပျံ့နှံ့ လာခြင်းသည်ပင်လျှင် ပဌမ အင်္ဂလိပ်မြန်မာစစ်ပွဲ ဖြစ်ပွားရခြင်း၏အကြောင်း တစိတ်တဒေသ ဖြစ်လေသည်။

၁၈၂၆ ခုနှစ် အင်္ဂလိပ်–မြန်မာပဌမစစ်ပွဲ အပြီးတွင် အာသံနယ်သည် ဗြိတိသျှတို့ ထိန်းသိမ်းထားသော ပြည်နယ်ဖြစ်လာလေသည်။ ၁၈၃၂ ခုနှစ်တွင် ကချာနယ်ကို ပူးပေါင်းလျက်၊ ၁၈၃၅ ခုနှစ်နှင့် ၁၈၃၉ ခုနှစ် များတွင် ဂျိန်တိယနယ်နှင့် အာသံမြောက်ပိုင်းတို့သည် အသီးအသီး အရှေ့အိန္ဒိယကုမ္ပဏီလက်အောက်သို့ ရောက်ရှိခဲ့ကြသည်။ ၁၈၇၄ ခုနှစ်တွင် အာသံနယ်ကို ဗင်္ဂလားပြည်နယ်မှ ခွဲခြားလိုက်ပြီးလျှင် ဝန်ရှင်တော်မင်းကြီး သီးခြား အုပ်ချုပ်ရသော နယ်အဖြစ် သတ်မှတ်ခဲ့သည်။

၁၉၀၅ ခုနှစ်တွင် ဗင်္ဂလားပြည်နယ်ကို အရှေ့ပိုင်း အနောက်ပိုင်း ခွဲခြားခဲ့ပြန်လေရာ၊ အာသံနယ်ကို အရှေ့ဗင်္ဂလားပြည်နယ်နှင့် ပေါင်းစပ်၍ ဒုတိယ ဘုရင်ခံတဦးက အုပ်ချုပ်ခဲ့လေသည်။ ၁၉၁၂ ခုနှစ်သို့ ရောက်သောအခါ သီးခြားပြည်နယ်တခုအဖြစ် သတ်မှတ်ပြီးလျှင် ဘုရင်ခံတဦးအား အုပ်ချုပ်စေခဲ့လေသည်။ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယနှင့်ပါကစ္စတန်ဟူ၍ ဒိုမိုနီယန်နိုင်ငံနှစ်ခု ခွဲလိုက်သောအခါ အာသံပြည်နယ်တွင် အပါအဝင်ဖြစ်ခဲ့သောစီလဟက်ခရိုင်မှာ ပါကစ္စတန်ပိုင်နက်ထဲသို့ ပါသွားသည်။ အာသံနယ်သည်လည်း အိန္ဒိယနိုင်ငံတွင် အဝင်အပါ ဘုရင်ခံတဦး အုပ်ချုပ်သော ပြည်နယ်တခုဖြစ်လာသည်။အုပ်ချုပ်ရေးစံနစ်မှာ ပါလီမန်အုပ်ချုပ်ရေးစံနစ်မျိုးဖြစ်၍ ဝန်ကြီးချုပ်တဦး ခေါင်းဆောင်သည့် ဝန်ကြီးအဖွဲ့က ဥပဒေပြုလွှတ်တော်သို့ တာဝန်ခံ၍ အုပ်ချုပ်လေသည်။ အာသံပြည်နယ်တွင် ကိုယ်စားလှယ်ပေါင်း ၁၀၅ ဦးပါဝင်သည့် ဥပဒေပြု လွှတ်တော်တရပ်သာ ရှိ၏။ အာသံ ပြည်နယ်၏ ဧရိယာ အကျယ် အဝန်းမှာ ၈၄,၈၉၉ စတုရန်း မိုင်ခန့်ရှိသည်။ အာသံတပြည်နယ်လုံးမှာ များသော အားဖြင့် တောတောင်ထူထပ်လှသည်။ ထိုတောနက်ကြီး များမှ ရရှိသော ကုန်ပစ္စည်းများမှာ ကျွန်းသစ်၊ ဆင်စွယ်နှင့် ကြံ့ချိုဖြစ်သည်။ အာသံပြည်နယ်လူဦးရေသည် ၁၉၇၁ ခုနှစ်ခန့်မှန်းသန်ကောင်စာရင်းအရ ၁၄,၉၂၅,၁၀၈ ဖြစ်သည်။

လူအနေများသော ဒေသတို့မှာ ဗြဟ္မပုတ္တရမြစ်ဝှမ်းနှင့် တောင်ခြေရင်းတလျှောက်တွင် ဖြစ်သည်။လူဦးရေ၏ ရာခိုင်နှုန်း ၉၀ ခန့်မှာ လယ်ယာ စိုက်ပျိုးခြင်းဖြင့် အသက်မွေးမှုနေထိုင်ကြသည်။ ဆန်စပါးကို အမြောက်အမြားပင် စိုက်ပျိုး လုပ်ကိုင်သော်လည်း မလုံလောက်သဖြင့် နိုင်ငံခြားမှ တင်သွင်း ဝယ်ယူရသည်။ အာသံတပြည်နယ်လုံးတွင် လက်ဖက်စိုက်ပျိုးသော မြေကေပေါင်းမှာ ၄၀၀,၀၀၀ ရှိ၍ တ နှစ် လျှင် လက် ဖက် ခြောက်ပေါင် သန်းပေါင်း ၂၈၀ ခန့် ထွက်သည်။

တနေရာမှ တနေရာသို့ ကူးသန်း သွားလာရေးအတွက် မီးရထားလမ်းများ ဖောက်လုပ်ထားသည့် အပြင် မြစ်ကြောင်းမှလည်း မီးသင်္ဘောတို့ဖြင့် သွား လာ နိုင်ပေသည်။ မြို့တော်မှာ ရှီလောင်မြို့ဖြစ်၍ ဗြဟ္မပုတ္တရမြစ်ကမ်း ပေါ်တွင် တည်ရှိသည်။ ထိုမြို့၏ လူဦးရေမှာ ၁၇,၀၀၀ မျှသာ ရှိသည်။ အခြားမြို့များမှာ ဒီဗရုဂါးမြို့၊ အိုက်ဂျာမြို့နှင့် ဂေါဟတ္တီမြို့ စသည်တို့ဖြစ်ကြသည်။

အာသံပြည်နယ်သည် သဘာဝပစ္စည်းတို့ဖြင့် ကြွယ်ဝသော အဖိုးတန် ဒေသတခု ဖြစ်သည်။ အိန္ဒိယ နိုင်ငံမှ

ထွက်သော ရေနံ၏ သုံးပုံနှစ်ပုံကို အာသံပြည်နယ်မှ ရရှိသည်။ ကျောက်မီးသွေးလည်း နှစ်စဉ် တန်ချိန်ပေါင်း ၁၅၀,၀၀၀ ခန့်ထွက်သည်။

**အာဠဝကဘီလူး။** ။ဂေါတမ မြတ်စွာဘုရားလက်ထက်တော်ဝယ် မဇ္ဈိမဒေသ၏ အရှေ့ မြောက်စွန်း ဟိမဝန္တာအနီးတွင် အာဠဝီတိုင်းပြည်ရှိ၏။ ထိုတိုင်းပြည်အတွင်း မင်းနေပြည်ကြီးနှင့် မနီးမဝေး ခရီးတဂါဝုတ်ကျော်ကွာဝေးသောအရပ်၌ ညောင်ပင်ကြီး တပင်ရှိသည်။ ထိုညောင်ပင်၌ အာဠဝကဘီလူးသည် စတုမဟာရာဇ်နတ်မင်းတို့ထံတွင် ကျိုးနွံခယလေ့ရှိသောကြောင့် မွန်းတည့်ကာလ ထိုညောင်ပင်ရိပ်ကျရာသို့ ရောက်ရှိလာသော သတ္တဝါတို့အား စားပိုင်ခွင့် ရရှိလေသည်။ ထိုကြောင့် အာဠဝကဘီလူးသည် ညောင်ပင်ရိပ်သို့ ရောက်လာသမျှသော သတ္တဝါတို့ကို စားသောက်နေထိုင်၏။ထိုဘီလူး၏ဗိမာန်မှာ ထိုညောင်ပင်ကြီး၏အနီး တောကြီးအတွင်း၌ တည်ရှိ၍ လူများ‌တည်ထားသော မြို့ကဲ့သို့ တန်တိုင်းမြို့ရိုး၊ ပစ္စင်၊ ရင်လျောက်၊ ရင်တား၊ ပြအိုး၊ တံခါး၊ ကျုံးမြောင်းလည်းရှိ၏။ အပြန့်အားဖြင့် ငါးယူဇနာ၊ အစောက်အားဖြင့်သုံးယူဇနာရှိသော ထိုဗိမာန်၏အထက်တွင် ကြေးကွန်ရက်တို့ဖြင့် ဖုံးလွှမ်းထားသည် ဖြစ်ရကား လှန်စွာလုံခြုံလေသည်။

တနေ့တွင် အာဠဝီပြည့်ရှင် ဘုရင်မင်းတရားသည် တောကစားထွက်တော်မူရာ၌ နောက်ပါခြေရံမိဿံသင်းပင်းတို့နှင့်တကွ မိမိတို့တာမှ သားကောင်ကို မလွတ်အောင် ဖမ်းကြစတမ်း ဟု ကတိကဝတ်ပြုကြပြီးလျှင် လိုက်လံရှာဖွေကြရာ တခုသောသမင်ကိုတွေ့လေသည်။ ထိုသမင်ကို ဝိုင်းဝန်းဖမ်းကြရာတွင် သမင်သည် မင်းကြီး၏ တာမှလွတ်ထွက်ပြေးလေသည်။ ထိုအခါ မင်းကြီးက လေးမြားသန်လျက်တို့ကို ကိုင်ဆောင်ပြီးလျှင် သမင်၏နောက်သို့ အပြင်းလိုက်လေသည်။ မကြာမီပင် သမင်ကို မိ၍ မောပန်းစွာနှင့် ပြန်လာခဲ့ရာ လမ်းခရီးအကြားတွင် နားနေဦးမည် ဟုနှလုံးပိုက်၍ အာဠဝကဘီလူး၏ ညောင်ပင်အရိပ်သို့ ဝင်မိလေသည်။ ထိုအခါ အာဠဝကဘီလူးသည် ညောင်ပင်ပေါ်မှ ဆင်းသက်၍ သင်မင်းကြီး မသွားနှင့်တော့၊ သင်ကား ငါ၏အစာဖြစ်ချေပြီ ဟုဆိုရာ၊ မင်းကြီးသည် များစွာကြောက်ရွံ့လျက် သူ၏ကိုယ်စား သမင်ကို စားရန် ပြောလေသည်။ သို့သော် သမင်ရောလူပါ သူ၏ အရိပ်သို့ဝင်လာကြသဖြင့် လွှတ်ဖို့ရာခွင့်မရှိဟု ဘီလူးက ဆိုလေလျှင် နေ့စဉ်ထမင်းတအုပ်နှင့် လူတယောက်ကျပို့ပါမည်။ မပို့သောနေ့ကျလျှင် ငါ့အားသင်စားပိုင်စေ ဟု ပြောဆိုမှ အခွင့်လွှတ်လိုက်လေသည်။

မင်းကြီးလည်း နန်းတော်သို့ ရောက်သောအခါ မြို့ဝန်ကို ခေါ်၍ အကြောင်းကို ပြောကြားလျှင် မြို့ဝန်လည်း နေ့ရက်အပိုင်းအခြား မထားခဲ့မိသည်ကို မေးမြန်းသိရှိရ၍ ကြာမြင့်စွာ ဤတာဝန်ကိုရွက်ဆောင်ရလိမ့်မည် ဖြစ်လတ္တံ့ ဟုသိသဖြင့် နေ့စဉ်နှောင်အိမ်မှ လူတယောက်ကျ အပြစ်မှ လွတ်အံ့သကဲ့သို့ ပရိယာယ်ဉာဏ်ဆင်ကာ အပြင်သို့ထုတ်ပြီးသော် ဤထမင်းထုပ်ကို ညောင်စောင့်နတ်အား ပို့ဆက်၍ သွားလိုရာ သွားလေတော့ ဟုနေ့စဉ် တယောက်ကျ စေလွှတ်လေသည်။

နှောင်အိမ်တွင်း၌ လူကုန်လတ်သော် ဥစ္စာထုပ်ကို သင့်လျော်ရာတွင် ချထား၍ ကောက်ယူသူအား အပြစ်ပြုကာ နှောင်အိမ်သို့ ချ၍ ရှေးနည်းအတိုင်း စေလွှတ်ပြန်၏။ နှောင်ကာလကြာသော် ထိုအကြောင်းကို ပြည်သူတို့ သိ၍ အပြစ်ရှိသူကို မရနိုင်လတ်သော် မွေးဖွားစ ပုခက်တွင်းရှိ သူငယ်များကို ပို့ပြန်လေသည်။ ဤနည်းအားဖြင့် ၁၂ နှစ်တိုင်တိုင် လူပေါင်း ၄,၃၂၀ ကုန်လေသော် အာဠဝီပြည်၌ တယောက်သော သူငယ်ကိုမျှ ရှာ၍မရနိုင်သဖြင့် တနေ့သောအခါ မင်းကြီး၏သားတော် အာဠဝက ကုမာရမင်းသားငယ် တယောက်သာလျှင် ပြည်တော်တွင်ရှိကြောင်းကို လျှောက်ကြရာ ထိုမင်းသားငယ်ကိုပင် ပို့ရန် အမိန့်ကျလေသည်။

အာဠဝကမင်းသားအား ဘီလူးစာအဖြစ် မပို့မီ တနေ့ နံနက်ကပင် မြတ်စွာဘုရားသခင်သည် မဟာကရုဏာသမာပတ်ကို ဝင်စားတော်မူ၍ သဗ္ဗညုတညာဏစက္ခုဖြင့် လောကကို ရှုတော်မူသောအခါ အာဠဝကမင်းသား၏ အနာဂါမိဖိုလ်သို့ရောက်မည့်အကြောင်း၊ အာဠဝကဘီလူးသောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်မည့်အကြောင်းနှင့် ရှစ်သောင်းလေးထောင်သော သတ္တဝါတို့၏ တရားရအံ့သော အကြောင်းကို မြင်တော်မူသဖြင့် လကွယ်နေ့ ညချမ်းအချိန်ကပင် တကိုယ်တော်တည်း ပရိက္ခရာရှစ်ပါးကိုယူဆောင်လျက် သာဝတ္ထိပြည်မှ ယူဇနာသုံးဆယ်ကွာသော အာဠဝီပြည်သို့ကြွတော်မူပြီးလျှင် အာဠဝကဘီလူး၏ ဗိမာန်သို့ အရောက်တွင် တံခါးစောင့်အား တည်ခို့မျှ တည်းခိုခွင့်ပြုရန် မိန့်ကြားလေသည်။ ထိုအခါ၌ အာဠဝကဘီလူးသည် ဟိမဝန္တာ၌ နတ်များစွာတို့၏ အစည်းအဝေးသို့ သွားနေခိုက်ဖြစ်သည်။ တံခါးစောင့်ဖြစ်သော ဂဒြဘဘီလူးက အာဠဝက ဘီလူးထံ ခွင့်တောင်းပေးမည့် အကြောင်း လျှောက်ထားပြီးနောက် အာဠဝကဘီလူးရှိရာသို့ ထွက်သွားလေသည်။

မြတ်စွာဘုရားသည် အာဠဝကဘီလူး၏ ဗိမာန်တွင်းသို့ ဝင်ပြီးလျှင် အာဠဝကဘီလူး၏ ရာဇပလ္လင်ထက်သို့တက်၍ ထိုင်ဘော်မူသည်။ ထိုအခါ အာဠဝကဘီလူး၏ မောင်းမ

မိဿံတို့သည် မြတ်စွာဘုရားထံသို့ လာရောက်ကြပြီးလျှင် ရှိသေစွာ ရှိခိုး၍ ခြံရံကာ နေကြသောအခါ မြတ်စွာဘုရားက သင့်တော်သည့် တရားစကားများကို မိန့်ကြားဟောပြောနေလေသည်။

နတ်သဘင်အစည်းအဝေးတွင် သာတာဂိရိနှင့် ဟေမဝတနတ်ဘီလူးနှစ်ယောက်တို့က အာဠဝကဘီလူးအား သူ့ဗိမာန်၌ မြတ်စွာဘုရားစံပယ်တော်မူနေသဖြင့် လျင်မြန်စွာသွားကာ ရှိခိုးပူဇော်ရန် ပြောကြားကြလေသည်။တခါး စောင့်ဖြစ်သောဂဒြဘကလည်း မြတ်စွာဘုရားဗိမာန်တွင်း၌ စံပယ်နေတော်မူကြောင်းကို လျှောက်ကြားလေသည်။

အာဠဝကဘီလူးသည် ဟိမဝန္တာအရပ် နတ်တို့၏ အစည်းအဝေးမှ ပြန်လာ၍ မြတ်စွာဘုရားကို မြင်လေသော် စော်ကားသည့်သဘောအရနှင့် ရုတ်ခြည်းဒေါသထွက်ပြီးလျှင် လက်နက်အမျိုးမျိုး၊ မိုးကြိုးပုဆိန်၊ တိမ်ခိုးလျှပ်စစ်၊ ချုန်းထစ်ရိုက်ကျူးလျက် အထူးထူးသော ကြောက်မက်ဖွယ်တို့ဖြင့် မှုတ်လွင့်ဖျောက်ဖျက်ရန် နှလုံးသွင်းနှင့် တန်ခိုးချင်းပြိုင်လေရာ အနိုင်မရ ရှုံးသည်ချည်းသာ ဖြစ်၍ နည်းသစ်ကြံကာ ပြဿနာကိုမေးမြန်း၏။

ထိုပြဿနာကို အာဠဝကဘီလူး၏ အမိအဖများသည် ကဿပမြတ်စွာဘုရားထံမှ အဖြေနှင့်တကွ သင်ကြားပြီးသော် သားဖြစ်သော အာဠဝကအား ငယ်စဉ်ကပင် သင်ကြားပေးခဲ့ကြသည်။ သို့သော် အာဠဝကဘီလူးသည် ကာလကြာရှည်သဖြင့် အဖြေကို မေ့လေလျှင် မေးစဉ် ပုစ္ဆာမျှကိုသာ မမေ့ရလေအောင် ရွှေပြားထက်၌ ဆေးဒန်းမြင်းသိလာဖြင့် သေချာစွာ ရေးကူး၍ ဗိမာန်ဦး၌ ထားလေသည်။

အာဠဝကဘီလူးက –

(၁) လောကသုံးပါး၌ ယောကျ်ားမိန်းမ ဟူသမျှတို့၏ မြတ်လှစွာသောဥစ္စာရတနာကား အဘယ်နည်း။

(၂) လေ့ကျက်ခြင်းတကာဝယ် မည်သည့်အလေ့အကျက်သည် ချမ်းသာကို ဆောင်သနည်း။

(၃) အရသာတို့တွင် မည်သည့်အရသာကို သာလွန်ကောင်းမြတ်သည် ဟုဆိုအပ်သနည်း။

(၄) အသက်မွေးခြင်းတို့တွင် အဘယ်မည်သော အသက်မွေးခြင်းကို မြတ်သည် ဟုဆိုအပ်သနည်း ဟုမေး၏။

ထိုအခါ မြတ်စွာဘုရားသခင်သည် ကဿပဘုရားက ဖြေကြားတော်မူခဲ့သကဲ့သို့ ဖြေကြားတော်မူသည်မှာ –

(၁) ဤလူ့ဌာန၌ ယောကျ်ားမိန်းမ ဟူသရွေ့၏ မြတ်လှစွာသောဥစ္စာရတနာမှာ ရတနာသုံးပါးတို့၏ ဂုဏ်၌ မတုန်မလှုပ် ခိုင်မင်ကြည်ညိုခြင်းဖြစ်သည်။

(၂) လေ့ကျက်ခြင်းများအနက် ကောင်းစွာ လေ့လာကျင့်သုံးအပ်သော ကုသိုလ်ကမ္မပထတရား ဆယ်ပါးသည် လူ့ပြည်နတ်ရွာ နိဗ္ဗာန် ဟု ချမ်းသာသုံးပါးကို မချွတ်နိုင်အောင် ဆောင်ရွက်ပေးသည်။

(၃) အရသာတကာတို့တွင် မှန်ကန်ဖြောင့်မတ်သော စကားသည် အလွန်ကောင်းမြတ်သော အရသာဖြစ်သည်။

(၄) အသက်မွေးခြင်းတကာတို့တွင် ပညာဖြင့် အသက်မွေးခြင်းကို လိမ်မာကုန်သော ပညာရှိတို့က မြတ်၏ ဟုဆိုကုန်သည်။

ထိုသို့မြတ်စွာဘုရားဖြေဆိုသည်ကိုအာဠဝကဘီလူးသည် အလွန် နှစ်သက်ဝမ်းမြောက်လှသဖြင့် ကြွင်းသေးသော ပြဿနာကို ထပ်ကာ မေးမြန်းပြန်သည်မှာ –

(၁) အဘယ်သို့သော အကြောင်းအရာဖြင့် သံသရာ ဟူသော ဩဃကို ကူးမြောက်နိုင်ပါအံ့နည်း။

(၂) အဘယ်သို့သော အပြုအားဖြင့် ဝဋ်ဆင်းရဲ ဟူသော သမုဒ္ဒရာကို ကောင်းစွာ လွန်မြောက်နိုင်ပါအံ့နည်း။

(၃)အဘယ်သို့သော အကြောင်းဖြင့် ဆင်းရဲအပေါင်းမှ ကောင်းစွာ လွတ်ပါအံ့နည်း။

(၄) အဘယ်ရေအေးဖြင့် ကိလေသာဟူသော အညစ်အကြေးကို ဆေးကြော သုတ်သင်၍ စင်ကြယ်ပါအံ့နည်း။

မြတ်စွာဘုရားက ဖြေတော်မူသည်မှာ –

(၁) သဒ္ဓါတရားဖြင့် သံသရာတည်း ဟူသော ဩဃကို ကူးမြောက်နိုင်သည်။

(၂) ကုသိုလ်ကောင်းမှုပြုရာ၌ ပေါ့ပေါ့မမေ့မလျော့ခြင်းဖြင့် သမုဒ္ဒရာပမာထက်ကဲ ဝဋ်ဆင်းရဲကို လွန်မြောက်နိုင်သည်။

(၃) ပါရမီဆယ်ပါး တရားဝီရိယ မြတ်ခမ္မ၌ နိစ္စကြိုးကုတ် အားထုတ်ခြင်းဖြင့် ဆင်းရဲအပေါင်းကို လွတ်စေနိုင်သည်။

(၄) ဝိပဿနာ ပညာဆယ်ပါး ဥာဏ်တရားဖြင့် ကိလေသာမှုံမှေး အညစ်အကြေးမှ စင်ကြယ်စေနိုင်သည်။

ထိုသို့ မြတ်စွာဘုရား ဖြေတော်မူသည်ကို ကြားရသောအခါ အာဠဝက ဘီလူးသည် ပါရမီသမ္ဘာရ ရှိသူဖြစ်သည့်အလျောက် သောတာပတ္တိ ဖိုလ်၌ တည်လေသည်။ (အောင်ခြင်းရှစ်ပါး - လည်းရှု။)

ထိုသို့ အာဠဝကဘီလူးအား တရားဟော၍ပြီးဆုံးခြင်း၊ ထိုညဉ့်ကုန်လျက် နေအရုဏ်တက်လျက် မိုးသောက်ခြင်းနှင့် အာဠဝီပြည်သားတို့က အာဠဝက မင်းသားကို ဘီလူးစာအလို့ငှာ ပို့လာ၍ ရောက်ခြင်းတို့သည် တပြိုင်နက်ဖြစ်လေသည်။ အာဠဝီပြည်သားတို့သည် ဘီလူးအား အာဠဝကမင်းသားကလေးကို အလိုရှိသလိုပြုလုပ်ရန် ပေးအပ်လိုက်ရာ သောတာပန်အဖြစ်သို့ ရောက်ပြီးဖြစ်သော

ဘီလူးက သူငယ်ကို လက်နှစ်ဖက်ဖြင့် ချီငင်၍ "အရှင်ဘုရား ဤသူငယ်ကို ဆလိုရှိရာ ပြုတော်မူပါ၊ အကျွန်ုပ်ကပ်လှူပါသည်" ဟု ဆိုပြီးလျှင် ဘုရားအား သူငယ်ကလေးကို ကပ်လှူလေသည်။

ထိုအခါ မြတ်စွာဘုရားက ချီငင်ခံတော်မူ၍ မင်းချင်းများကို ခေါ်ပြီးလျှင် မင်းသားအား ကောင်းစွာကျွေးမွေး၍ ကြီးရင့်သည့်အခါမှ မိမိထံသို့ ယူဆောင်လာရန် မှာကြားပြီးသော် မင်းချင်းတို့၏လက်သို့ သူငယ်အားပြန်၍ပေးအပ်လေသည်။ ဤကဲ့သို့ မင်းချင်းတို့လက်မှ အာဠဝကလက်၊ ယင်းလက်မှတဆင့် ဘုရားသခင်လက်တော်၊ ဘုရားသခင်လက်တော်မှ မင်းချင်းတို့လက်သို့ပြန်ရောက်ရသည်ကို အစွဲပြု၍ ထိုမင်းသားငယ်ကို ထိုအခါကစ၍ ဟတ္ထာဠဝကမင်းသား ဟုတွင်လေသည်။

ဟတ္ထာဠဝကမင်းသားလည်း အရွယ်သို့ရောက်သောအခါ ခမည်းတော်မင်းကြီးနှင့်တကွ မှူးမတ်အပေါင်းများက အကြောင်းပြသ တိုက်တွန်းကြသဖြင့် မြတ်စွာဘုရားထံသို့ အခြံအရံငါးရာနှင့်တကွ ဆည်းကပ် ရောက်လာကြလေပြီးနောက် မကြာမီပင် အနာဂါမိဖိုလ်၌တည်ပြီးလျှင် အရံငါးရာနှင့်တကွ ဘုရားသခင်၏ ခုနစ်ယောက်သော သီတင်းဦးတွင် အပါအဝင်ထင်ရှားစွာဖြစ်လေသတည်း။

**အားကစားရုံ။** ။ကစားရုံများ — ရှု။

**အားခိးမီးဒိး** (ဘီစီ ၂၈၇–၂၁၂)။ ။အားခိးမီးဒိးကို ရှေး ဂရိလူမျိုး သိပ္ပံပညာရှင်ကြီးများအနက် အကျော်ကြားဆုံးသော သင်္ချာပညာရှင်ကြီးအဖြစ် အသိများကြသည်။မြေထဲပင်လယ်အတွင်း စစ္စလီကျွန်းရှိ ဆာရာကျူမြို့တော်၌ ဘီစီ ၂၈၇ တွင် ဖွားမြင်ပြီးလျှင် ဘီစီ ၂၁၂ ၌ ရောမလူမျိုးများလက်သို့ ဆာရာကျူမြို့တော် ကျဆုံးချိန်တွင် ရောမ စစ်သားတို့၏ လက်ချက်ဖြင့် ကွယ်လွန်သည်။ အားခိးမီးဒိးသည် မင်းမျိုးဟု ယူဆရသော်လည်း လူမှုကိစ္စများနှင့် အဆက်ဖြတ်ထားပုံရ၍ အီဂျစ်ပြည် အယ်လက်ဇန္ဒြီးယားမြို့၌ ပညာဆည်းပူးပြီးလျှင် အသက်ထက်ဆုံး သိပ္ပံပညာဆိုင်ရာ သုတေသနလုပ်ငန်းများကို လေ့လာလိုက်စားခဲ့လေသည်။

အားခိးမီးဒိးသည် မက္ကင်းနစ်ပညာ (စက်ပညာ) ကို နက်နက်နဲနဲ လိုက်စား ရေးသားခဲ့ပြီးလျှင် နည်းသစ်နည်းဆန်းများကို ကြံစည်တီထွင်သည့်ဖက်တွင် အကျော်ကြားဆုံးသော ပညာရှိကြီးအဖြစ်ဖြင့်လည်း ထင်ရှားခဲ့လေသည်။ အားအနည်းငယ် စိုက်ထုတ်ရုံမျှဖြင့် အဆမတန်ကြီးမားသော ဝန်စည်ပစ္စည်းများကို ရွှေပြောင်းချီပင့်နိုင်သည့် ကုတ်၏ စွမ်းရည်သတ္တိကို ပဌမဦးစွာ သဘောပေါက်တွေ့ရှိသူမှာ အားခိးမီးဒီးဖြစ်လေသည်။ သူသည် ကုန်တင်ကုန်ချရာတွင် အလွန်အကျိုးများ အသုံးဝင်လျက်ရှိသော စက်သီးတွဲများကိုလည်း ကြံစည်တီထွင်ခဲ့လေသည်။ အီဂျစ်ပြည်တွင် ရေတင်ရန်အတွက် အားခိးမီးဒိး တီထွင်ပေးခဲ့သော ကရိယာတမျိုးမှာ ယခုထက်တိုင်အောင်ပင် အသုံးများလျက်ရှိပေသေးရာ အဆိုပါကရိယာမှာ လွန်ပူပုံ ဝက်အူရစ်နှင့်သဏ္ဌာန်တူသဖြင့် အားခိးမီးဒိးဝက်အူဟူ၍အမည်တွင်ရစ်လေသည်။ ဆာရာကျူမြို့တော် မကျဆုံးမီ ရောမစစ်သည်တော်များ သုံးနှစ်သုံးမိုးတိုင်တိုင် ကြိုးစားဝိုင်းရံထားလျက်ရှိစဉ်အချိန်အတွင်း၌လည်း အားခိးမီးဒိးသည် ကာကွယ်ရေးလက်နက်ဆန်းများကို တီထွင်ပေးခဲ့ရပြီးလျှင် ရောမ စစ်သင်္ဘောများကို မှန်ဖြင့် ပြန်ဟပ်စေသောနေရောင်ခြည်ဖြင့် ထိုးပြမီးလောင်စေနိုင်သည့်နည်းကိုပင် ကြံစည်ခဲ့သေးသည် ဟုအဆိုရှိလေသည်။

အားခိးမီးဒိးနှင့်စပ်လျဉ်း၍ ယနေ့တိုင် မမေ့နိုင်အောင် စိတ်ဝင်စားဖွယ်ကောင်းသည့် အဖြစ်အပျက်တခုမှာ ဆာရာကျူမြို့တော်လမ်းမတလျှောက်တွင် "တွေ့ပြီ တွေ့ပြီ"ဟု ဝတ်လစ်စလစ်နှင့် အော်ဟစ်ပြီးပြေးခဲ့သည့်အဖြစ်အပျက်ပင်ဖြစ်လေသည်။

ဖြစ်ပုံမှာ အခါတပါး၌ ဆာရာကျူမြို့တော်၏ ဘုရင်ဒုတိယဟီအာရိုသည် ရွှေပန်းထိမ်ဆရာတဦးအား လိုသမျှရွှေကို ချိန်တွယ်ထုတ်ပေးပြီး သရဖူတလုံးကို အလုပ်ခိုင်းလေသည်။ သို့ရာတွင် သရဖူပြီး၍ ဘုရင်ကိုဆက်သသောအခါ ရွှေခိုး၍ သတ္တုရောထည့်လိုက်သည်ဆိုသည့် ယန်းမကင်းစရာ စွပ်စွဲသံများ ပေါ်ထွက်လာလေသည်။ ဘုရင်လည်း အားခိးမီးဒိးကိုဆင့်ခေါ်၍ အဆိုပါသရဖူရှိရွှေ စစ်မစစ်ကို စမ်းသပ်ရန် လွှဲအပ်လေရာ အားခိးမီးဒိးမှာ ထိုအချိန်မှစ၍ ရွှေခိုးပြဿနာဖော်ထုတ်ရေးအတွက် နေ့ရောညဥ့်ပါ တွေးတောယင်းဖြင့်သာအချိန်ကုန်လေတော့သည်။

တနေ့သော် အားခိးမီးဒိးသည် ရေချိုးရန်အတွက် ရေချိုးခန်းသို့သွား၍ မိမိကိုယ်ကို ရေစည်ထဲသို့ နှစ်လိုက်စဉ် လျှံကျလာသောရေကိုမြင်ရာမှ မိမိပြဿနာအတွက် သဲလွန်စကိုရရှိပြီးလျှင် အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း ဝတ်လစ်စလစ်နှင့် "တွေ့ပြီ တွေ့ပြီ" ဟု အော်ဟစ်ယင်း ထပြေးလေတော့သည်။

အိမ်ရောက်လျှင်ရောက်ခြင်း အားခိးမီးဒိးသည် သရဖူအပြင် သရဖူနှင့်အလေးချိန်ညီသော ရွှေတုံးကို ရေအပြည့်ထည့်ထားသော အင်တုံတွင် တလှည့်စီနှစ်ကြည့်ပြီးနောက် လျှံကျလာသောရေ၏ အရွယ်ပမာဏကို တိုင်းတာကြည့်သည်။ သရဖူနှင့်ရွှေတုံးမှာအလေးချိန်ချင်းညီသဖြင့်အကယ်၍ နှစ်ခုစလုံး ရွှေချည်းသက်သက်သာဖြစ်ပါက လျှံကျလာသောရေ၏ အရွယ်ထုချင်းမှာလည်း တူညီရပေမည်။ သို့



ရှေးဂရိလူမျိုး သိပ္ပံပညာရှင် အားခိီးမီးဒီး

သော် သရဖူကို နှစ်စဥ် လျှံကျလာသောရေ၏အရွယ်ထုက ကြီးမားနေသည်ကို တွေ့ရလေရာ သရဖူရှိရွှေမှာ ရွှေမစစ် ပဲ တခုခုရောထားကြောင်း ထင်ရှား၍နေလေတော့သည်။

အားခိီးမီးဒီးသည် ဤကဲ့သို့ သရဖူမှ ရွှေခိုးမှုကို ဖော်ထုတ်သွားပြီးနောက် အဆိုပါပြဿနာကို ဖြေရှင်းရာမှ သဘာဝစည်းတခုကို တွေ့ရှိလေသည်။ ထိုစည်းအရမှာ ပစ္စည်းတခုသည် အရည်တခုတွင် နစ်သွားသောအခါ အလေးချိန်လျော့သွား၍ ဤလျော့သွားသောအလေးချိန်သည် ထိုပစ္စည်းအတွက် နေရာဖယ်ပေးရသောအရည်ထု၏ အလေးချိန်နှင့်တူညီသည်။ ထိုစည်းမှာ ယနေ့ထက်တိုင် အားခိီးမီးဒီး၏စည်း ဟူ၍ တွင်လျက်ရှိလေသည်။

**အားတိမစ်။** ။ဂရိနတ်များ — ရှု။

**အားဗင်း,ဆာ ဟင်နရီ** (ခရစ် ၁၈၃၈–၁၉၀၅)။ ။ အင်္ဂလိပ်သဘင်သည် ဟင်နရီအားဗင်း (နာမည်ရင်း ဂျွန်ဗရော့ဒရစ်) သည် ၁၈၃၈ ခုနှစ် ဖေဖွာရီလ ၆ ရက်နေ့တွင် ဆမ္မားဆက်နယ်ရှိ ကင်တန်မင်ဒီးစုဗီးမြို့ကလေး၌ ဖွားမြင်သည်။ သူ့ဖခင်ကား ဈေးဆိုင်ငယ်တည်ခင်းရောင်းချရသူ ဖြစ်သည်။ အားဗင်းသည် ငယ်စဥ်ကတည်းက အကအခုန် ဝါသနာပါသူဖြစ်၍ တနေ့နေ့တွင် ကမ္ဘာကျော် ဇာတ်မင်းသားတဦး ဖြစ်ရမည် ဟုစိတ်၌ စွဲမြဲစွာ ယုံကြည်ခဲ့လေသည်။ စာရေးအလုပ်ကို လုပ်နေယင်း အားလပ်ချိန်၌ ပြဇာတ်စာအုပ်များကို ဖတ်ရှုလေ့လာ၏။ အကသင်၏။ ဓားသိုင်း အတတ်တို့ကိုလည်း သင်ကြား လေ့လာ၏။ ၁၈၅၆ ခုနှစ် စက်တင်ဘာလ၌ အသက် ၁၈ နှစ်အရွယ်တွင် အားဗင်းသည် ပဌမဆုံးအကြိမ် ရစ်ရှလျူး ပြဇာတ်တွင် အော်လီယန်းမြို့စား ဂတ်စတန်အခန်းမှ ဟင်နရီ အားဗင်း ဟူသောအမည်ဖြင့် ပါဝင်ကပြခဲ့လေသည်။ ထိုအခါမှစ၍ သူသည် ထိုဟင်နရီ အားဗင်းဟူသောအမည်ကို ခံယူလိုက်၏။ ထိုနောက်တွင် သူသည် ဇာတ်ဖွဲ့များတွင် ပါဝင်ကပြသဖြင့် ရက်သတ္တတပတ်လျှင် ၂၅ သျှီလင်မျှ အခကြေးငွေရလေသည်။ ထိုမျှနည်းပါးလှသော ငွေထဲမှ မိဖများကို ထောက်ပံ့ရသေး၏။ လက်ဦးအစတွင် ဟင်နရီသည် နယ်များ၌သာ လှည့်လည်ကပြခဲ့ရသည်။ သို့သော် ၁၈၆၆ ခုနှစ်တွင် လန်ဒန်မြို့၌ ပဌမဦးဆုံး အကြိမ်အဖြစ် စိန်ဂျိမ်းဇာတ်ပွဲရုံတွင် ကပြခဲ့ရလေသည်။ ထိုနောက် သူသည် ဘုရင်မဇာတ်ပွဲရုံ၊ ဟေးမားကက်ဇာတ်ပွဲရုံ၊ ဒရူးရီးလိန်းဇာတ်ပွဲရုံနှင့် ဂေတီဇာတ်ပွဲရုံများတွင်လည်း ရံဖန်ရံခါ ကပြခဲ့ရလေသည်။သို့သော် ၁၈၇၁ နှစ်ရောက်မှ သီးဗဲခေါ် ပြဇာတ်၌ ဇာတ်ဆောင် မသီးယတ်အခန်းမှ ပါဝင်ကပြရာတွင် သူ၏နာမည် ထင်ရှားလာလေသည်။ ၁၈၇၈ ခုနှစ်တွင် လိုင်စီယမ်ဇာတ်ပွဲရုံကို သူကိုယ်တိုင်ကြီးကြပ် အုပ်ချုပ်ခဲ့သည်။ ထိုဇာတ်ပွဲရုံ၌ နာမည်ကျော် စာရေးဆရာကြီးများ ရေးသောပြဇာတ်များကို ရုံတင်ခဲ့ရာတွင် ကိုယ်တိုင်ပါဝင်၍ အယ်လင် တယ်ရီကို ခေါင်းဆောင်မင်းသမီးအဖြစ်ထားကာ တွဲဖက် ကပြခဲ့လေသည်။ နာမည်ကျော် အင်္ဂလိပ်လူမျိုး စာရေးဆရာကြီး ရှိပ်စပီးယား၏ လက်ရာများကို ပြဇာတ်ခုံပေါ် သို့တင်၍ ကပြသဖြင့် ဟင်နရီ အားဗင်း



အင်္ဂလိပ်သဘင်ပညာသည် ဆာ ဟင်နရီ အားဗင်း

၏အမည်မှာ အင်္ဂလိပ်ပြဇာတ်လောကတွင် ပိုမိုထင်ပေါ် လာလေသည်။

ဟင်နရီအားဗင်းသည် အင်္ဂလန်ပြည်တွင် သဘင်ပညာနှင့် သဘင်သည်တို့၏ အဆင့်အတန်းကို တိုးတက်ကြီးပွားစေ၍ ခေတ်မီအောင်ပြုပြင်ပေးခဲ့သူဖြစ်ပေသည်။ သို့အလျောက် ၁၈၉၅ ခုနှစ်၌ ဆာဘွဲ့ချီးမြှင့် သူကောင်းပြုခြင်း ခံရလေသည်။ အားဗင်း၏ လိုင်စီယမ်ပြဇာတ်အဖွဲ့သည် အမေရိကန်ပြည်ထောင်စုသို့အခေါက်ခေါက်အခါခါ သွားရောက်ကပြခဲ့ဘူးလေသည်။ဆာ ဟင်နရီ အားဗင်းသည် ၁၉၀၅ ခုနှစ် အောက်တိုဘာလ ၁၃ ရက်နေ့တွင် ဗရက်ဖို့မြို့၌ ပြဇာတ်ကပြနေစဉ် ကွယ်လွန်သည်။ ဝက်စမင်စတာဘုရားရှိခိုးကျောင်းတွင် သူ၏ရုပ်အလောင်းကို မြှုပ်နှံသင်္ဂြိုဟ်လေသည်။

အင်္ဂလိပ်ပြဇာတ် အဆင့်အတန်းကို မြှင့်တင်ခဲ့သဖြင့် သဘင်သည်ထဲတွင် ပဌမဦးဆုံးဆာဘွဲ့ရသူ ဟင်နရီအားဗင်း ၏ ပုံတူရုပ်ကို လန်ဒန်မြို့ ထရာဖဲလဂါစကွဲယား အနီး၌ ထုလုပ်တည်ဆောက်ထားလေသည်။

**အားဗင်း ဝါရှင်တန်** (ခရစ် ၁၇၈၃–၁၈၅၉)။ ။ အမေရိကန် လွတ်လပ်ရေးတိုက်ပွဲ ပြီးစ အချိန်တွင် တော်လှန်ရေးခေါင်းဆောင်ကြီး ဂျော့ ဝါရှင်တန် ၏ အမည်မှာ အလွန်ခေတ်စားလျက်ရှိလေသည်။ ထိုအခါက ဖွားမြင်ခဲ့သောကလေးများကို ခေါင်းဆောင်ကြီး၏ အမည်ကို ယူ၍ မှည့်ခေါ်ကာ ဂုဏ်ယူခြင်းမှာ ခေတ်စားလျက်ရှိ၍လောမသီ၊ ထိုခေတ်က ထင်ပေါ်ကျော်စောသူများအနက် ဝါရှင်တန်အမည်နှင့် ပုဂ္ဂိုလ်များ အတော်များခဲ့လေသည်။ ယင်းတို့အနက် ကမ္ဘာကျော် စာရေးဆရာကြီး ဝါရှင်တန် အားဗင်းသည်လည်း တဦးအပါအဝင် ဖြစ်သည်။ ခေါင်းဆောင်ကြီး ဝါရှင်တန်သည် အမေရိကန်ပြည်ထောင်စု၏ ဖခင်ကြီးဖြစ်သကဲ့သို့ စာရေးဆရာကြီး ဝါရှင်တန် အားဗင်းသည်လည်း အမေရိကန်ပြည်ထောင်စု၏ စာပေ ဖခင်ကြီး ဟု ခေါ်ဆိုလောက်ပေသည်။

ဝါရှင်တန် အားဗင်းကား ၁၇၈၃ ခုနှစ် ဧပြီလ ၃ ရက်နေ့တွင် နယူးယော့မြို့၌ ဖွားမြင်လေသည်။ ဖခင်ကား စကော့လူမျိုး ကုန်သည်တဦး ဖြစ်သည်။ သားသမီး ၁၁ ယောက်အနက် အထွေးဆုံးဖြစ်သည့်အလျောက် ယယ်စဉ်ကပင် အစ်ကိုကြီးများ၏ အားပေးမှုဖြင့် စာရေးစာဖတ် ဝါသနာထုံခဲ့လေသည်။ အထူးသဖြင့် ခရီးသွားလာခြင်းနှင့်ဆိုင်သော စာအုပ်များကို နှစ်သက်လေသည်။ ကျောင်းနေရန် အလွန်ပျင်းသူဖြစ်သည့်အလျောက် အသက် ၁၆ နှစ်တွင် ကျောင်းမှထွက်၍ ဥပဒေပညာကို ဆည်းပူး၏။ သို့ရာတွင် စိတ်အားထက်သန်စွာ ဆည်းပူးခြင်းမပြုပဲ၊ သေ



အမေရိကန်စာရေးဆရာကြီး ဝါရှင်တန် အားဗင်း

နတ် တလက်၊ ခွေးတကောင်ကို အဖော်ပြုကာ ကြိုကြိုကြားကြား ခရီးသွားခြင်းကိုသာ ဝါသနာအလျောက် ပြုလျက် ရှိလေသည်။ သူမရောက်ဘူးသည့် နေရာ ဟူ၍ မရှိသလောက် ရှားတော့၏။ အားဗင်းသည် သွားဖန်များ ခရီးရောက်ရုံမက ပါးစပ် အအားမနေ မေးမြန်းတတ်သဖြင့် နယူးယော့မြို့တွင် နေထိုင်သော ဒပ်ချလူမျိုးများ၏ အဆက် အနွယ်များထံမှ ကြားသိရသော ပုံတိုပတ်စများကို နောင်အခါတွင် ပါးစပ်ရာဇဝင်တစောင်ဖြစ်အောင် ပြုစုရေးသားခဲ့သဖြင့် နာမည်ထင်ရှား ကျော်ကြားလာလေသည်။

အားဗင်းသည် အလွန်ချူချာသူဖြစ်သည်သာမက စာရေးဆရာအဖြစ်ဖြင့်သာ အသက်မွေးဝမ်းကျောင်းရန် မဖြစ်နိုင်သောကြောင့် ဆင်းရဲငြိုငြင်စွာ နေခဲ့ရသည်။ ဥပဒေပညာ ဆည်းပူးနေယင်း ထိမ်းမြားရန်စေ့စပ်ထားသည့် ချစ်သူ မတီလဒါ ဟော့ဖမန်း ကွယ်လွန်သဖြင့် စိတ်နှလုံးကို ပိုမိုထိခိုက်ကာ မကျန်းမာပဲရှိသဖြင့် အင်္ဂလန်၊ ဟော်လန်၊ ပြင်သစ်၊ ဣတလီနိုင်ငံများသို့ အလည်အပတ် ထွက်လာခဲ့လေသည်။ ဤသို့ လှည့်လည်သွားလာယင်း ဥရောပလူမျိုးတို့၏ စာပေနှင့် ဓလေ့ထုံးစံတို့ကို လေ့လာခွင့်ရခဲ့လေသည်။ ၁၈၀၆ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ ပြန်ရောက်ပြီးနောက် ၁၈၀၇ ခု၊ ၁၈၀၈ ခုနှစ်များတွင် သူ၏အစ်ကိုများနှင့်အတူ ဆာလမဂန်ဒီ ခေါ် စာစောင်ကို အပတ်စဉ်ထုတ်ဝေလိုက်ရာ အထူးပင် နာမည်ထွက်လာလေသည်။ စာရေးဆရာအဖြစ် "ကနစ်ကားဗော့ကား" ဟူသော အမည်ကို ခံယူလျက် နယူးယော့သမိုင်းကို ရေးသား ထုတ်ဝေ၏။ ၁၈၁၀ ပြည့်နှစ်တွင် အားဗင်းသည် အစ်ကိုများနှင့်အတူ သံကိရိယာလုပ်ငန်းကို လုပ်ကိုင်ခဲ့သော်လည်း အလုပ်အကိုင်

ရှုံးသဖြင့် ယခင်က စာရေးခြင်းဖြင့် ရရှိထားသော ငွေရင်းကလေးပင်ပြုတ်ရရှာလေသည်။ အလုပ်အကိုင်ပျက်စီးသော်လည်း အင်္ဂလန်ပြည်နှင့် အမ်ဦးကြမ်းပြင်ပမာ ကူးသန်းသွားလာနေခဲ့ရမှုကြောင့် အားဗင်းသည် အင်္ဂလိပ်စာရေးဆရာကြီးများနှင့် အထူးအကျွမ်းဝင်ကာ စိတ်ကူးဉာဏ်ဗဟုသုတ ပို၍ရှင်လန်းလာလေသည်။ စာရေးဆရာကြီးဆာဝေါလတာစကော့၏ အားစပေးကူညီမှုဖြင့် အမေရိကန်ပုံတိုပတ်စကလေးများကို "စာတိုပေစ" အမည်နှင့်ထုတ်ဝေလိုက်ရာ အထူးပင် နာမည်ရ၍ အရောင်းရ သွက်သောကြောင့်အားဗင်းသည်အသုံးအစွဲချောင်လည်၍အစ်ကိုများကိုပင်ထောက်ပံ့နိုင်သည့်အခြေသို့ရောက်လာပြန်သည်။

စာတိုပေစ စာအုပ်မှာ အားဗင်း၏ အကောင်းဆုံးစာအုပ် ဖြစ်လေသည်။ ထိုစာအုပ်တွင် ရစ်ဗန်ဝင်းကယ်နှင့် ငိုက်မျည်းနေသော သစ်ခေါင်းကြီး ပုံဝတ္ထုများ ပါရှိလေသည်။ ထိုဝတ္ထုမှာ ငယ်စဉ်က ဒပ်ချလူမျိုးတို့၏ အဆက်အနွယ်များထံမှ ကြားသိရသော ဒဏ္ဍာရီများကို ရေးသားခြင်း ဖြစ်၏။ ဟင်းဒရစ် ဟဒ်ဆန်နှင့် အပေါင်းပါများဝတ္ထုတိုမှာ အားဗင်း ငယ်စဉ်အခါက အမေးအမြန်းထူကာ စုဆောင်းရရှိသော ပုံပြင်များ ဖြစ်ကြသည်။

အားဗင်းသည် မိမိ၏မိတ်ဆွေဖြစ်သူ စပိန်နိုင်ငံရှိ အမေရိကန် သံအမတ်၏ ဖိတ်ခေါ်ချက်အရ ခြောက်နှစ်မျှ သွားရောက် နေထိုင်သောအခါ သူ၏အသက်မှာ လေးဆဲ့သုံးနှစ် ရှိလေပြီ။ ထိုအခါတွင် သူသည် စပိန်နိုင်ငံ၏သမိုင်းကို လေ့လာ၍ ကိုလံဗပ်အတ္ထုပ္ပတ္တိ၊ အယ်လမ်ဗရာ ဝတ္ထုနှင့် ဂရန်နဒါကို အောင်မြင်ခြင်း ဟူသော စာအုပ်တို့ကို ရေးသားထုတ်ဝေပြန်သည်။ ၁၈၂၉ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်လာကာ အမေရိကန်ဥပဒေအဖွဲ့၏ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်နေလေသည်။ တော်ဝင်စာပေအသင်းက ရွှေတံဆိပ်ချီးမြှင့်ခြင်း ခံရရုံသာမက၊ အောက်စဖို့တက္ကသိုလ်ကြီးမှ စာပေပါရဂူဘွဲ့ ချီးမြှင့်ခြင်းကိုလည်း ခံရလေသည်။ ၁၈၃၂ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ ပြန်လာပြီးနောက် ဟဒ်ဆန်မြစ်ပေါ်ရှိ ငိုက်မျည်းနေသော သစ်ခေါင်းကြီးအကွက်နားတွင် မြေယာကာ တူမ များနှင့်အတူ နေထိုင်လျက် စာပေရေးသားနေလေသည်။ အမေရိကန်အစိုးရက သူ့အား ရာထူးကြီးများပေး၍ ချီးမြှင့်သော်လည်း ၁၀ နှစ်လုံးလုံး ငြင်းပယ်ခဲ့၏။ ၁၈၄၂ ခုနှစ်ကျမှ စပိန်သံအမတ်ရာထူးကို လက်ခံကာ လေးနှစ်ကြာမျှ အမှုထမ်းလေသည်။ ၁၈၅၉ ခုနှစ် အသက် ၇၆ နှစ်တွင် ကွယ်လွန်ခဲ့လေသည်။

**အားမန်ဆင်၊ အာ** (ခရစ်၁၈၇၂–၁၉၂၈)။ ။ကမ္ဘာ့ဝင်ရိုးစွန်းအရပ်များသို့ စွန့်စားသွားလာခဲ့သော နော်ဝေးလူမျိုး ရိုအဲ အားမန်ဆင်သည် နော်ဝေးနိုင်ငံ အော့စလိုမြို့တော်တွင် ပညာသင်ကြား၍ ဝိဇ္ဇာ ဘွဲ့ကို ယူပြီးနောက် ဆေးပညာကို လေ့လာခဲ့၏။ သို့သော် ၁၈၉၄ ခုနှစ်တွင် ရေတပ်သို့ ဝင်ရောက်အမှုထမ်းခဲ့လေသည်။ ၁၉၀၃ ခုနှစ်တွင် အနောက်မြောက်လမ်းခရီးအတိုင်း အာတိတ်ဒေသသို့ "ဂျိုယာ" အမည်ရှိ တပင်တိုင်ရွက်သင်္ဘောဖြင့် ထွက်ခွာသွားခဲ့၏။ သူ၏ ခရီးစဉ်မှာ အောင်မြင်၍ သံလိုက်မြောက်ဝင်ရိုးစွန်း၏ တည်နေရာကို စုံစမ်းရှာဖွေ သတ်မှတ်နိုင်ခဲ့ပေသည်။ နယ်သစ်ရှာဖွေသူများအနက် အားမန်ဆင်ကို သိပ္ပံနည်းစနစ်ဖြင့် ရှာဖွေသူတဦး ဖြစ်သည် ဟု ယူဆကြသည်။ ထိုသို့ ယူဆကြသည်မှာ သူသည် ဂရုတစိုက်နှင့် စနစ်တကျ လုပ်ကိုင်လေ့ရှိခြင်းကြောင့် ဖြစ်သည်။



ကမ္ဘာ့ဝင်ရိုးစွန်းအရပ်များသို့ စွန့်စားသွားခဲ့သူ ရိုအဲ အားမန်ဆင်

၁၉၁၀ ခုနှစ်တွင် "ဖရမ်" အမည်ရှိ သင်္ဘောဖြင့် မြောက်ဝင်ရိုးစွန်းသို့ တဖန်ထွက်ပြန်ရာမှမမြော်လင့်ပဲ တောင်ဝင်ရိုးစွန်းသို့ ရောက်သွားခဲ့ရာ အင်္ဂလိပ်လူမျိုး ကပ္ပတိန်စကော့ထက် အားမန်ဆင်က ရက်သတ္တပတ် အနည်းငယ်စော၍ ရောက်ခဲ့၏။ ၁၉၁၃ ခုနှစ်တွင် တောင်ဝင်ရိုးစွန်းမှ ပြန်ခဲ့ပြီးနောက် မြောက်ဝင်ရိုးစွန်းသို့ဆက်လက်ခရီးထွက်ရန် ကြံစည်နေခိုက် ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွားသဖြင့် မသွားရတော့ချေ။ စစ်ကြီးပြီးသည့်အထိ နားနေပြီးသော် တဖန်ခရီးပြန်ထွက်ရာ ဝင်ရိုးစွန်းဆီသို့ စီးသော ရေစီးလမ်း မမှန်သည်ကို တွေ့ရသဖြင့် ၁၉၂၅ ခုနှစ်တွင်လေယာဉ်ပျံဖြင့် မြောက်ဝင်ရိုးစွန်းသို့ အရောက်သွားရန် ကြိုးစားခဲ့ပြန်သည်။ သို့သော် ထိုနှစ်တွင် မအောင်မြင်ခဲ့ချေ။ ၁၉၂၆ ခုနှစ် မေလ ၁၁ ရက်နေ့တွင် ဣတာလျံ လေကြောင်းဗိုလ် နိုဗိုင်းတို့နှင့်

အတူ လေသဘောင်္ဘောတစင်းဖြင့် ထွက်ပြန်ရာ မြောက်ဝင်ရိုးစွန်းသို့ရောက်သဖြင့် နှစ်ပတ်ဝဲ၍ ကြည့်ခဲ့ပြီးနောက် မေလ ၁၄ ရက်နေ့တွင် ဗဲရင်းပင်လယ်ထဲရှိ ကျွန်းတကျွန်းပေါ်သို့ ဆင်းသက်ခဲ့လေသည်။ ၁၉၂၈ ခုနှစ်တွင် ဂျင်နရယ် နိုဗိုင်း၏ လေသင်္ဘောမှာ မြောက်ဝင်ရိုးစွန်းမှ အပြန်လမ်းခရီးတွင် ပျက်ကျခဲ့၏။ အားမန်ဆင်သည် နိုဗိုင်းကို ရှာဖွေကယ်ဆယ်ရန် လေယာဉ်ပျံတစင်းနှင့် အလျင်အမြန် ထွက်ခွာသွားရာ သူလည်း ပြန်ရောက်မလာတော့ချေ။ ထိုနောက် လပေါင်းများစွာကြာမှ ရေထဲ၌မျောနေသော သူ၏လေယာဉ်ပျံအပျက်ကိုသာ တွေ့ကြရလေတော့သည်။

**အားရစ်ဆန်,ဂျွန်(ခရစ် ၁၈၀၃–၁၈၈၉)။** ။ဆွီဒင်နိုင်ငံ ဝမ်းမလန်းနယ်၊ လန်ဗန်ရှစ်တန်မြို့၌ ၁၈၀၃ ခုနှစ် ဇူလိုင်လ ၃၁ ရက်နေ့တွင် ဖွားမြင်သော ဂျွန်,အားရစ်ဆန်သည် စာမရေးတတ်သေးမီ အရွယ်ကပင် စက်ကရိယာ ပုံစံများကို စတင်ရေးဆွဲလာခဲ့သည်။ အသက် ရှစ်နှစ်အရွယ်တွင် မြို့ဖက်ဆိုင်ရာ အင်ဂျင်နီယာရုံးတရုံး၌ ပုံစံများကို ရေးဆွဲနေပြီဖြစ်၍ အသက် ၁၂ နှစ်တွင် ကမ္ဘာကျော် ယူတာ တူးမြောင်းကို ဖောက်လုပ်သော ကုမ္ပဏီ၌ ဝင်ရောက်လုပ်ကိုင်လျက်ရှိပေသည်။ အသက် ၁၇ နှစ်မှ ၂၄ နှစ်အထိ စစ်တပ်တွင် ဝင်ရောက်အမှုထမ်းခဲ့ရာ ဉာဏ်ထက်မြက်သည့်အတွက် အချိန်အနည်းငယ်အတွင်း ဗိုလ်ကြီးရာထူးအထိ တိုးတက်ခဲ့လေသည်။

နောင်သော် ဆွီဒင်နိုင်ငံ၌ မကြီးပွားနိုင်သည်ကို သိသဖြင့် အားရစ်ဆန်သည် အင်္ဂလန်ပြည်သို့ ရွှေ့ပြောင်းနေထိုင်ပြီးနောက် ၁၀ နှစ်အတွင်း တီထွင်မှုပေါင်း ၃၀ ကျော်မျှကို ပြုလုပ်မှတ်ပုံတင်ခဲ့လေသည်။ သူ၏ တီထွင်မှုများအနက် အကျော်ကြားဆုံးမှာ စကရူး ပရိုပယ်လာ (ဝက်အူရစ်ပန်ကာ) ခေါ် ငမန်းစက်ပင် ဖြစ်၏။ ထိုတီထွင်ချက်ကို အတ္တလန္တိတ်သမုဒ္ဒရာကို ပဌမဦးစွာ ဖြတ်ကျော် ခုတ်မောင်းသော သင်္ဘောများ၌ တပ်ဆင် သုံးစွဲခဲ့ပေသည်။

အားရစ်ဆန်သည် ၁၈၃၉ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ တဖန်ပြောင်းရွှေ့နေထိုင်ပြန်၍၊ ၁၈၄၈ ခုနှစ်တွင် အမေရိကန်ပြည်သားအဖြစ် ခံယူလေသည်။ ပဌမတွင် အနေအထိုင်ဆင်းရဲခဲ့သည်။ သို့သော် အမေရိကန်ပြည်တွင်းစစ်ဖြစ်ပွားချိန်အတွင်း တောင်ပိုင်းသူပုန်တို့ဖက်မှ မယ်ရီမက်ဆိုသည့် သံသင်္ဘောကို တိုက်ခိုက်နိုင်မည့် မော်နီတာ ခေါ် သံချပ်ကာတိုက်သင်္ဘောကို အစိုးရဖြစ်သော မြောက်ပိုင်းအတွက် အောင်မြင်စွာ တည်ဆောက်နိုင်ခဲ့ရာမှ သူ့အမည်သည် ထင်ရှားလာလေသည်။ စစ်ပွဲ အတွင်း မော်နီတာထက် သာလွန်ကောင်းမွန်သော အခြား စစ်



ဆွီလူမျိုး သိပ္ပံပညာရှင် ဂျွန် အားရစ်ဆန်

သင်္ဘောများကိုလည်း တည်ဆောက်ပေးခဲ့သည်။ စစ်ပွဲပြီးဆုံးပြီးနောက် နယူးယော့မြို့တွင် နေသားတကျ နေထိုင်ကာ အခြားတီထွင်မှု အမျိုးမျိုးကို စမ်းသပ် ကြံစည်ယင်း ၁၈၈၉ ခုနှစ်၊ မတ်လ ၈ ရက်နေ့၌ ထိုမြို့မှာပင် ကွယ်လွန်လေသည်။ သူ၏ ရုပ်အလောင်းကို ဆွီဒင်အစိုးရက တောင်းသည့်အတိုင်း ပေးလိုက်၍ ဆွီဒင်နိုင်ငံတွင် မြှုပ်နှံထားလေသည်။ အမေရိကန် ပြည်ထောင်စုတွင် လည်း နောင်လာနောက်သားများ သူ့အား အမှတ်တရ ဖြစ်ကျူးဂုဏ်ပြုနိုင်စိမ့်သောငှာ နယူးယော့မြို့ ဗက်ထရီဥယျာဉ်အတွင်း၌ သူ၏ကြေးရုပ်ကို မားမားမတ်မတ် စိုက်ထူထားရှိပေသည်။

**ဣတလီနိုင်ငံ။** ။ဣတလီ နိုင်ငံသည် ဥရောပတိုက်၏ တောင်ဖက်တွင် မြေထဲပင်လယ်ထဲသို့ ထိုးထွက်နေသော ကျွန်းဆွယ်ကြီးတခု ဖြစ်၍ ပုံသဏ္ဌာန်အားဖြင့် မြင်းစီးဖိနပ်နှင့် တူလေသည်။ မြောက်ဖက်မှ တောင်ဖက်အငူစွန်းအထိ မိုင်ပေါင်း ၇၅၀ ခန့် ရှည်လျား၍၊ ပျမ်းမျှမိုင် ၁၀၀ မှ ၁၂၀ ခန့်ကျယ်သည်။ ဣတလီနိုင်ငံ၏ အကျယ်အဝန်းမှာ ဆာဒင်းနီးယားကျွန်း၊ စစ္စလီကျွန်းနှင့် အနီးပတ်ဝန်းကျင်ရှိ ကျွန်းကလေးများ အပါအဝင် ၁၁၆,၃၀၃ စတုရန်းမိုင်ရှိ၍၊ ၁၉၇၄ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ဣတလီတနိုင်ငံလုံးရှိ လူဦးရေမှာ ၅၅သန်းခွဲကျော်ဖြစ်သည်။ (ဆာဒင်းနီးယားကျွန်း။ စစ္စလီကျွန်း — ရှု။)

ဣတလီနိုင်ငံ၏ မြောက်ဖက်တွင် ဆွစ်ဇာလန်နှင့်




ဣတလီနိုင်ငံ တည်နေရာပြ မြေပုံ

ဩစတြီးယားနိုင်ငံတို့ ရှိကြ၍၊ အရှေ့ဖက်တွင် ယူဂိုစလားဗီးယားနိုင်ငံနှင့် အေဒြီယက်တစ်ပင်လယ်၊ အနောက်ဖက်တွင် တိုင်ရေးနီးယန်း ပင်လယ်နှင့် တောင်ဖက်တွင် စစ္စလီကျွန်းနှင့် မြေထဲပင်လယ်တို့ ရှိကြသည်။

ဣတလီ တနိုင်ငံလုံးသည် တောတောင် ထူထပ်သည်။ အက်ပင်းနိုင်း တောင်တန်းသည် တောင်ဖက်အစွန်းတိုင်အောင် ကျောရိုးသဖွယ် ရှည်လျားစွာ တည်ရှိသည်။ ယင်းတောင်တန်းသည် မြောက်ပိုင်းတွင် အတော်နိမ့်ပြီးလျှင် အဲ့လပတောင်တန်းနှင့် ဆက်ကာ တည်ရှိ၏။ အဲ့လပတောင်တန်းသည် ဣတလီ နိုင်ငံ၏ မြောက်ဖက်နယ်ခြား ဖြစ်ရာ ဗြိတိသျှ ကျွန်းစုကဲ့သို့ပင် ဥရောပတိုက်မကြီးနှင့် အဆက်အသွယ်မရှိပဲ တည်ရှိနေသည်ဟု ဆိုနိုင်ပေသည်။ အဲ့လပတောင်တန်း တောင်ဖက်တွင် အေဒြီယက်တစ် ပင်လယ်ကမ်းခြေအထိ ကျယ်ပြန့်သော ပိုးချိုင့်ဝှမ်း တည်ရှိ၏။ မြေဩဇာလည်း ကောင်းမွန်သည့်ပြင် ယင်းချိုင့်ဝှမ်းကို လောင်းဗတ် လွင်ပြင် ဟူ၍ ခေါ်သည်။ တနိုင်ငံလုံးတွင် အတိုးတက် အစည်ကားဆုံးသော အပိုင်း ဖြစ်သည်။ ပိုးမြစ်သည် ဣတလီနိုင်ငံတွင် အရှည်လျားဆုံးမြစ် ဖြစ်၏။ ဒုတိယ အရှည်ဆုံးမြစ်မှာ အက်ဒစ်မြစ် ဖြစ်သည်။ (ပိုးမြစ် — လည်းရှု။)

ဣတလီနိုင်ငံမြောက်ပိုင်းတွင် အိုင်များပေါလှသည်။ ထင်ရှားသော အိုင်များတွင် ကော်မို၊ လူဂါနို၊ မက်ဂျီရီနှင့် ဂါဒါ အိုင်များ ပါဝင်သည်။ ထိုပြင် မီးသေ တောင်များတွင် ရေတင်ရာမှ ဖြစ်ပေါ်လာသော အိုင်ကြီးများလည်း ရှိသေး၏။

အလယ်ပိုင်းသို့ ရောက်သောအခါ အက် ပင်း နိုင်း တောင်တန်းသည် တဖြည်းဖြည်း မြင့်တက်လာ၏။ အချို့တောင်ထွတ်များမှာ ပေ ၇,၀၀၀ ကျော် ၉,၀၀၀ ခန့် မြင့်သည့်ပြင်၊ အချို့မှာ ၉,၀၀၀ ကျော်ကျော်ပင် မြင့်သေး၏။ တောင်တန်း၏ တဖက်တချက်ရှိ ဆင်ခြေလျှောများတွင် မြေဩဇာကောင်း၍ မိုးကောင်းစွာ ရွာသွန်းသဖြင့် စိုက်ပျိုးလုပ်ကိုင် အောင် မြင် သည်။ တောင်တန်း၏ အနောက်ဖက်ပင်လယ်ကမ်းရိုးတန်းပေါ်ရှိ နေပယ်ပင်လယ်ကွေ့သည် ကမ္ဘာပေါ်တွင် အသာယာဆုံးသော အရပ် ဖြစ်လေသည်။ ဤဒေသတွင် အရေးပါဆုံးသော မြစ်ကြီး နှစ်သွယ်မှာ အာနို နှင့် တိုင်ဗာ မြစ်တို့ ဖြစ်၏။ (တိုင်ဗာမြစ် — ရှု။) အာနိုမြစ်ပေါ်တွင်ဖလော်ရင့်မြို့ကြီး တည်ရှိ၍၊ တိုင်ဗာ မြစ်ပေါ်တွင် ဣတလီ နိုင်ငံ၏မြို့တော် ရောမမြို့တော်ကြီး တည်ရှိလေသည်။ (ရောမမြို့။ဖလော်ရင့်မြို့ — လည်းရှု။)

တိုင်ဗာမြစ်နှင့် တပ်စကန်နီနယ်စပ်ကြားတွင် မီးမြို့တောင်များ ထူထပ်ပေါများ၏။ ရှေးအခါက ဤမီးတောင်တို့သည် ပြင်းထန်စွာ ပေါက်ကွဲခဲ့ဘူးသည်။ ဣတလီနိုင်ငံ အလယ်ပိုင်းသို့ အက်ပင်းနိုင်း တောင်တန်းကြီးမှ ခွဲထွက်လာသော ကာရားရာတောင်မှ ကျောက်ရုပ်တုများ ထုလုပ်ရာတွင် အသုံးပြုသည့် စကျင် ကျောက်များကို တူးဖော်ရရှိသည်။

ဣတလီနိုင်ငံ တောင်ဖက်ပိုင်းသို့ ရောက်သောအခါ အက်ပင်းနိုင်းတောင်တန်းသည် တဖြည်းဖြည်း နိမ့်ဆင်းသွားလေသည်။ အလယ်ပိုင်းကဲ့သို့ တောတောင်မထူထပ်သဖြင့် အက်ပင်းနိုင်းတောင်ကုန်း၏ အနောက်ဖက်တွင် ကမ်ပါနီယာ လွင်ပြင်ကြီးနှင့် အရှေ့ဖက်တွင် ကျွဲနွားအကြီးအကျယ် မွေးမြူနိုင်သော အပျူလီယာ မြက်ခင်းလွင်ပြင်ကြီး ရှိလေသည်။ နေပယ်ပင်လယ်ကွေ့ ကမ်းပေါ်တွင်ကား ကမ္ဘာ ပေါ်တွင် အထင်ရှားဆုံး ဖြစ် သည့် ဗီဆူဗီးယတ် မီးတောင်ကြီး ရှိသည်။ (ဗီဆူဗီးယတ်မီးတောင် — ရှု။) ဣတလီနိုင်ငံ တောင်ဖက်စွန်းရှိ စစ္စလီကျွန်းပေါ်တွင်မူ အက်တနမီးတောင်ကြီး ရှိ၏။ (အက်တနမီးတောင် — ရှု။) ထိုတောင်နှစ်ခုစလုံးမှာ ယနေ့ထက်တိုင် မီးခိုးတလူလူနှင့် ရှိနေသေးသည်ကို အဝေးကပင် တွေ့မြင်နိုင်လေသည်။

ဣတလီနိုင်ငံ၏ရာသီဥတုမှာ မြေထဲပင်လယ် ရာသီဥတုမျိုးဖြစ်၍ နွေအခါတွင် ပူပြင်းခြောက်သွေ့ကာ ဆောင်းအခါတွင် မိုးရွာသွန်းလေသည်။ တနိုင်ငံလုံးတွင် မိုးအနှံ့အပြား ရွာသွန်းသော်လည်း ဆောင်းတွင်း၌သာ ရွာသွန်းသဖြင့် စိုက်ပျိုးရေးအတွက် အသုံးမဝင်လှချေ။ ပိုးမြစ်ဝှမ်းတွင် လွန်ကဲသော ရာသီဥတုမျိုးရှိ၏။ တနိုင်ငံလုံးတွင် နေရောင် လိုသည်ထက် ပို၍ ရလေသည်။ ထို့ကြောင့်လည်း "နေသာရွှေပြည် ဣတလီ"ဟု တချို့က ခေါ်ဝေါ်ကြသည်။

ဣတလီနိုင်ငံသည် အခြား တောင်ထူထပ်သောနိုင်ငံများကဲ့သို့ တွင်းထွက် ရတနာများဖြင့် မကြွယ်ဝလှချေ။ ကျောက်မီးသွေးမှအစ အခြား သတ္တုရိုင်းများ ချို့တဲ့မှုကြောင့် စက်မှုလက်မှု မထွန်းကားပဲ လက်လုပ်ပစ္စည်းများ ထုတ်လုပ်ရာ၌သာ ထင်ရှားခဲ့လေသည်။

ဣတလီနိုင်ငံတွင် ၁၈၆၆ ခုနှစ် မတိုင်မီ အချိန်က သီးခြားပြည်နယ်ပေါင်း ၁၈ နယ်ခန့် ရှိ၍၊ တနယ်တမင်း အုပ်စိုးခဲ့ကြ လေသည်။ ထိုပြည်နယ် များမှာ ပီးဒမွန့်၊ လီဂူရီးယား၊ လောင်ဗာဒီ၊ ဗီနီးရှား၊ ဗီးနီးရှားထရိုင်ဒင်းရှား၊ ဗီနီးရှားဂျူလီယားနှင့် ဇာရာ၊ အယ်မီးလီးယား၊ အဗရပ်ဇီနှင့် မိုလီစီ၊ တပ်စကန်နီ၊ မားချက်၊ အမ်ဗရီးယာ၊ လေဇီယို၊ ကမ်ပါနီယာ၊ အပျူလီယာ၊ လူကာနိယာ၊ ကာလာဗရီယာ၊ စစ္စလီနှင့် ဆာ ဒင်း နီး ယား တို့ ဖြစ်ကြ၏။

ထိုပြည်နယ် ၁၈ နယ်တွင် ပီးဒမွန့်၊ လီဂူးရီးယား၊ ဗီနီးရှား၊ အယ်မီးလီးယား နှင့် တပ်စကန်နီ နယ် တို့ ကို မြောက်ပိုင်း ဣတလီဟုခေါ်၍၊ အမ်ဗရီးယား၊ မားချက်၊ အဗရပ်ဇီနှင့် မိုလီစီနယ်တို့ကို အလယ်ပိုင်းဟု ခေါ်ကြ၏။ ကျန်ပြည်နယ်များကို တောင်ပိုင်းဟုခေါ်လေသည်။

မြောက်ပိုင်းမှာ စက်မှုလက်မှုလုပ်ငန်းများ အသင့်အတင့် ထွန်းကားခဲ့၍၊ မော်တော်ကား၊ လေယာဉ်ပျံမှအစ သံမဏိပစ္စည်းများ ထုတ်လုပ်နိုင်သော်လည်း၊ များသောအားဖြင့် စက်ရုံများမှာ တောင်ကျရေတံခွန်များမှ ရေအားဖြင့် လည်ကြရလေသည်။

စက်မှုပစ္စည်းများမှတပါး လက်ရက်ပိုးထည်၊ အဆောက်အအုံများတွင် အသုံးပြုသည့် ကျောက်ဖြူများ၊ လက်ရက်မြက်ဦးထုပ်များ ထုတ်လုပ်သည်။ အလယ်ပိုင်းရှိ လွင်ပြင်နှင့် နေပယ်နှင့် တပ်စကန်နီတို့ အနီးအနားရှိဒေသများတွင်မြေ ဩဇာ ကောင်းမွန်၍၊ ပိုးမြစ်ဝှမ်းမှ ရေကောင်းစွာရသဖြင့် လယ်ယာစိုက်ပျိုးရေး လုပ်ကိုင်အောင်မြင်သည်။ ဂျုံမှာ အဓိကကောက်ပဲသီးနှံ ဖြစ်၍ ပြောင်းမှာ ဂျုံမစိုက်နိုင်သည့် နေရာတွင် စိုက်ပျိုးသော အသီးအနှံ ဖြစ်သည်။ စပါးကို လောင်ဗာဒီ၊ ပီးဒမွန့်နှင့် အခြားနယ်များတွင် စိုက်ပျိုး၏။ ဣတလီတနိုင်ငံလုံးတွင် စပျစ်နွယ်ပင်များကို စိုက်ပျိုးလေသည်။ သံလွင်သီးနှင့် သစ်အယ်သီးများမှာ ဣတလီနိုင်ငံတွင် အများသုံး အစားအစာများ ဖြစ်ကြသည်။ ဣတလီနိုင်ငံ တောင်ပိုင်းထွက် ထင်ရှားသော သစ်သီးများမှာ လိမ်မော်၊ ရှောက်၊ သဖန်း၊ ဗာဒမ်တို့ ဖြစ်၏။ ပိုက်ဆံလျှော်၊ ဘီသွာလျှော်၊ ဝါဂွမ်းတို့ကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်လေသည်။

စားကျက်ကောင်းများ ပေါများရာ လောင်ဗာဒီနှင့် အယ်မီးလီးယားနယ်များတွင် ကျွဲနွား တိရစ္ဆာန်များကို မွေးမြူ၍ ဒိန်ခဲလုပ်ငန်းများလည်း ဖြစ်ထွန်း၏။ တောင်ထူထပ်သော ခရိုင်များတွင် သိုးများကို မွေးမြူ၍၊ ဆိတ်များကို ဣတလီအလယ်ပိုင်းနှင့် တောင်ပိုင်း စစ္စလီကျွန်းတို့တွင် မွေးမြူကြလေသည်။

ထွက်ကုန်ဝင်ကုန်များ လဲလှယ်ရာဖြစ်သော အချက်အခြာဆိပ်ကမ်း မြို့ကြီးနှစ်မြို့မှာ၊ အေဒြီယက်တစ်ပင်လယ်ကွေ့ရှိ ဗင်းနစ်မြို့နှင့် ဂျီနိုးအာပင်လယ်ကွေ့ရှိ ဂျီနိုးအာမြို့ကြီးများ ဖြစ်ကြလေသည်။ ရှေးခေတ်မှစ၍ ဗင်းနစ်နှင့် ဂျီနိုးအာမြို့သားများသည် နိုင်ငံခြားနှင့် ဆက်သွယ်ရောင်းဝယ်ဖောက်ကား နေကြသောကုန်သည်ကြီးများ ဖြစ်ကြသည်။ အခြား ဆိပ်ကမ်းမြို့များမှာ စပီဇီးယား၊ လက်ဂဟွန်းရက်ဂျီယို၊ ပါလာမို၊ ဖြန်ဒိစီ စသည်တို့ ဖြစ်ကြသည်။

ထင်ရှားသော မြို့ကြီးများမှာ မြို့တော် ရောမ၊ မီလန်၊ နေပယ်၊တျူရင်၊ ဖလောရင့်၊ ဗိုလိုနျာ စသည်တို့ ဖြစ်ကြသည်။ ဣတာလျံ ကလေးသူငယ်များမှာ ခြောက်နှစ်အရွယ်မှ ၁၄ နှစ်အရွယ်တိုင်အောင် စာသင်ကျောင်းများတွင် တက်ရောက်စာပေသင်ကြားရမည် ဖြစ်၏။ သို့သော်လည်း မသင်မနေရ ဥပဒေများကို အတိအကျ လိုက်နာအောင် မဆောင်ရွက်နိုင်သည်က များသည်။ သို့ဖြစ်၍ ဣတာလျံလူမျိုး သုံးပုံနှစ်ပုံခန့်မှာ စာရေးစာဖတ် မတတ်သူများဖြစ်ကြ၏။ မြို့ကြီးများတွင်နေထိုင်သူအားလုံးလိုလိုတွင် ပညာအခြေခံ အတော်အတန်ရှိသော်လည်း ကျောင်းများ ခပ်ကျဲကျဲတည်ရှိရာ တောင်ပိုင်းတွင်မူ အရေးအဖတ်မတတ်သူ ရာခိုင်နှုန်းမှာ ၉၀ နီးပါးမျှ ဖြစ်မည်ဟု ခန့်မှန်းကြလေသည်။

ခြောက်နှစ်မှ ကိုးနှစ်အရွယ်အတွင်း ကလေးသူငယ်များမှာ အက်ရှီလီခေါ် မူလတန်းကျောင်းများတွင် တက်ရောက်သင်ကြားရပြီးလျှင်၊ ကိုးနှစ်မှ ဆဲ့နှစ်နှစ်အရွယ်အတွင်း ကလေးသူငယ်များမှာ အောက်တန်းကျောင်းများတွင် သင်ကြားရကာ၊ ၁၂ နှစ်မှ ၁၄ နှစ်အရွယ်အတွင်း ကလေး သူငယ်များမှာမူ အောက်တန်းလွန်တွင် ပညာသင်ကြားရလေသည်။ အလယ်တန်းကျောင်းကျောင်းများများတွင် စာကြီး ပေကြီး သက်သက်ကိုဖြစ်စေ၊ သိပ္ပံပညာရပ်များသက်သက်ကို ဖြစ်စေ၊ ဆရာအတတ်သက်သက်ကို ဖြစ်စေသင်ကြားပေးလေသည်။

ထိုပြင် စိုက်ပျိုးရေးအတတ်၊ ကုန်သွယ်ရေးအတတ်နှင့် စက်မှုလက်မှုအတတ်သင် အလယ်တန်းကျောင်းများလည်း ရှိသေး၏။ ဣတလီနိုင်ငံတွင် အနုပညာနှင့် ဂီတပညာသင်ကျောင်းပေါင်း ၇၀ ကျော်ခန့် ရှိသည်။ ကမ္ဘာကျော် တက္ကသိုလ်ကျောင်းများလည်းရှိ၏။

၁၉၄၆ ခုနှစ် ဇွန်လတိုင်အောင် ဣတလီနိုင်ငံမှာ ဘုရင်အုပ်စိုးသော နိုင်ငံဖြစ်ခဲ့ပေသည်။ ထိုလတွင် သမတနိုင်ငံအဖြစ် ကြေညာပြီးနောက် တိုင်းပြည်ပြုလွှတ်တော် ရွေးကောက်တင်မြှောက်ကာ ဖွဲ့စည်းပုံအခြေခံဥပဒေကို ရေးဆွဲခဲ့ရာ၊ ၁၉၄၇ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် ယင်းကို နောက်ဆုံး အတည်ပြုခဲ့လေသည်။ ထိုဥပဒေအရ ပြည်သူ့လွှတ်တော်နှင့် ဆီးနိတ်လွှတ်တော် တည်းဟူသော ဥပဒေပြုလွှတ်တော် နှစ်ရပ်ကို လျာထား၍၊ ထိုလွှတ်တော် နှစ်ရပ် ပူးပေါင်းဆွေးနွေးလျှင် အမျိုးသား လွှတ်တော်ဟု ခေါ်ရမည်ဟု ဆိုထားလေသည်။ ထိုအမျိုးသားလွှတ်တော်မှာ သမတရွေးနိုင်ခွင့်၊ စစ်ကြေညာနိုင်ခွင့်နှင့် စာချုပ်များချုပ်ဆိုနိုင်ခွင့် ရှိ၏။ ဒေသဆိုင်ရာ ကိုယ်ပိုင်လွှတ်လပ်မှုအခွင့်အရေးများကိုလည်း ပေးထားသည်။

ဗရင်ဂျီဂိုဏ်းသည် နိုင်ငံတော်၏ အယူဝါဒ ဖြစ်၍၊ တနိုင်ငံလုံးရှိ လူ ၉၀ ရာခိုင်နှုန်းက သက်ဝင်ယုံကြည်သည်။ ရောမမြို့သည် တကမ္ဘာလုံးရှိ ဗရင်ဂျီဂိုဏ်းဝင်တို့၏ ဌာနချုပ် ဖြစ်ပေသည်။

ဣတလီနိုင်ငံ၏အလယ်ပိုင်းတွင်ကား မြို့တော်ဖြစ်သော ရောမမြို့တည်ရှိ၏။ အလယ်ပိုင်းတွင် နေထိုင်သူများမှာ များသောအားဖြင့် လယ်ယာစိုက်ပျိုးခြင်းဖြင့် အသက်မွေးမြူကြသူများ ဖြစ်ကြ၏။ စက်မှုလက်မှုလုပ်ငန်းမှာ မရှိသလောက်ပင် နည်းပါးသည်။ အလယ်ပိုင်းမှာ ပန်းချီ၊ ပန်းပု၊ ဂီတမှအစ အနုပညာကျော်များ အများဆုံး ပေါ်ထွက်ရာအရပ်ဖြစ်သည်။ ဣတာလျံတို့သည် အလှအပနှင့် သာယာမှုကို ခုံမင်သူများ ဟုထင်ရှား၏။ အားလပ်သောနေ့များတွင် စုတ်စုတ်နုတ်နုတ်ဝတ်ဆင်ထားသော ဣတာလျံအလုပ်သမားများကို အနုပညာ ပြတိုက်များတွင်၎င်း၊ တီးမှုတ် နေသည့် နေရာများတွင် စိတ်ပါ ဝင်စားစွာနားထောင်နေကြသည်ကို၎င်း တွေ့မြင်ရတတ်သည်။

တောင်ပိုင်းသားများမှာလည်း အလယ်ပိုင်းသားများထက်ပင် ခေတ်နောက်ကျသူများ ဖြစ်ကြ၏။ များသောအားဖြင့် လယ်သမားများ သိုးထိန်းများသာ ဖြစ်ကြသည်။ တနိုင်ငံလုံးရှိ မြေသုံးပုံနှစ်ပုံကို စိုက်ပျိုးလုပ်ကိုင်ကြ၏။ မျှားမကြာမီ နှစ်များအတွင်း လူဦးရေ တိုးတက်လာ၍၊ ပိုးမြစ်ဝှမ်းမှတပါး အခြားနေရာများတွင် နေထိုင်မှုအဆင့်အတန်းမှာ နိမ့်ကျလှသည်။ စက်မှုလက်မှုလုပ်ငန်းများ ထွန်းကားရာ မြောက်ပိုင်းရှိ မြို့များတွင်ကား နေထိုင်မှု အဆင့်အတန်းသည် အတော်မြင့်တက်လာပြီ ဖြစ်သည်။

ဣတလီနိုင်ငံသည် ဥရောပတိုက်သမိုင်းတွင် ခေတ်တိုင်း၌ ထင်ရှားခဲ့သော နိုင်ငံဖြစ်လေသည်။ ရောမနိုင်ငံတော်ကြီးထွန်းကားစဉ်အခါက ဣတလီသည် ကမ္ဘာ့အနောက်ပိုင်း၏ ဗဟိုဌာနကြီးတခု ဖြစ်ခဲ့၏။ ဣတလီယဉ်ကျေးမှုသည် ဥရောပတိုက်တတိုက်လုံးကိုသာမက အာဖရိကတိုက်မြောက်ပိုင်းနှင့် အရှေ့ပိုင်းဖက်သို့ပင် ပျံ့နှံ့ခဲ့လေသည်။ ဣတလီသည် ဥရောပတိုက်၏ အမှောင်ခေတ်ကြီးကို ဖြိုခွင်းရာတွင် ခေါင်းဆောင်နိုင်ငံဖြစ်၍၊ ခေတ်ဆန်းချိန် စတင်ရာဒေသလည်းဖြစ်ခဲ့၏။

သမိုင်းတင်စခေတ်တွင် ဣတလီနိုင်ငံအလယ်ပိုင်း၌ အီထရပ်စကန်လူမျိုးတို့ နေထိုင်ခဲ့ကြသည်။ (အီထရပ်စကန်လူမျိုး — ရှု။) ထိုနောက် ဂရိလူမျိုးတို့နှင့် နောင်အခါတွင် သွေးနှောကာ ဣတာလျံလူမျိုးဟု ဖြစ်လာသောလူမျိုးစုတို့သည် ဣတလီတောင်ဖက်ပိုင်းနှင့် စစ္စလီကျွန်းသို့တက်ရောက်အခြေစိုက်ခဲ့ကြ၏။ ထိုနောက် တဖန် ဥရောပတိုက် အလယ်ပိုင်းမှ ဂေါလလူမျိုးတို့သည် ဣတလီနိုင်ငံမြောက်ပိုင်းမှ တသုတ်ပြီးတသုတ် ဝင်ရောက်လာကြပြီးလျှင်၊ ပိုးမြစ်ဝှမ်းတွင် အိုးအိမ်ထူထောင် နေထိုင်ခဲ့ကြလေ

သည်။ နောက်ဆုံး ဣတလီနိုင်ငံလုံးကို ရောမဘုရင်များ ကြီးစိုးလွှမ်းမိုးသည့် အချိန်တွင်ကား ဂျာမန်သွေးပါသည့် ဂေါ့သလူမျိုးတို့သည် အင်အားကြီးမားသော လူစုလူဝေးဖြင့် ဣတလီမြောက်ပိုင်းသို့ ဝင်ရောက်လာကြလေသည်။ ထိုနောက် နှစ်ပေါင်း လေးရာခန့် ကြာမြင့်သောအခါ ဣတလီတောင်ဖက်ပိုင်းတွင် မွတ်စလင်များ ဖြစ်ကြသော အာရပ်လူမျိုးတို့ ဝင်ရောက်လာကြပြန်သည်။ ရောမနိုင်ငံတော်ကြီး ထူထောင်ခဲ့သည့်ခေတ်က ဣတာလျံလူမျိုးတို့သည် ထင်ရှား ကျော်ကြားလာလေသည်။ သို့ရာတွင် ဣတလီနိုင်ငံသမိုင်းဟူ၍ သီးခြားမရှိခဲ့ပဲ၊ ရောမနိုင်ငံတော်သမိုင်း၏ တစိတ်တဒေသမျှ ဖြစ်ခဲ့သည်။ ရောမနိုင်ငံတော်ကြီး ပြိုကွဲပျက်စီးချိန်တိုင်မှသာလျှင် ဣတလီနိုင်ငံသမိုင်းဟူ၍ မှတ်သားနိုင်ခဲ့ပေသည်။ (ရောမနိုင်ငံသမိုင်း — ရှု။)

အေဒီ ၄၇၆ ခုနှစ်တွင် ရောမနိုင်ငံတော်ကို တိုက်ခိုက်သိမ်းယူခဲ့သော အိုဒိုးဇားဘုရင်သည် မိမိကိုယ်မိမိ ဣတလီဘုရင်ဟူသော အမည်ကို ခံယူသည်မှ အစ ဣတလီနိုင်ငံသမိုင်းမှာ တသီးတခြား ဖြစ်လာခဲ့လေသည်။

အိုဒိုးဇားဘုရင်ကို သီအိုဒိုရစ်က လာရောက်တိုက်ခိုက်ပြီးနောက် ဣတလီနိုင်ငံကို အော့စတြိုဂေါ့သဘုရင် စိုးမိုးအုပ်ချုပ်ခဲ့၏။ သီအိုဒိုရစ်သည် နိုင်ငံတော်ကို လိမ္မာရေးခြားစွာ အုပ်ချုပ်ခဲ့ရာ၊ နိုင်ငံမှာ အေးချမ်းသာယာ၍ စည်ပင်ဝပြောခဲ့ပေသည်။ ၅၅၂ ခုနှစ်တွင် ဂေါ့သမင်းဆက်ပြတ်သွားပြီးနောက် ဣတလီနိုင်ငံသည် ဗိုင်ဇင်းတိုင်နိုင်ငံတော်ကို မှီခိုအားထားခဲ့ရလေသည်။ ထိုအချိန်တွင် ဂျာမန်အနွယ်ဖြစ်သော လောင်းဗတ်လူမျိုးတို့သည် ဣတလီနိုင်ငံတွင်းသို့ တဖြည်းဖြည်း ဝင်ရောက်လာခဲ့ရာ ရောမမြို့အနီးအနားသို့ပင် ရောက်ခဲ့လေသည်။ ထိုအခါ ရောမရဟန်းမင်းသည် ပြင်သစ်ဘုရင် ပက်ပင်၏ အကူအညီကိုတောင်းယူကာ လောင်းဗတ်တို့အား တားဆီးရလေသည်။ လောင်းဗတ်တို့ကို ပက်ပင်၏သားတော် ရှားလမိန်းဘုရင်လက်ထက်သို့ ရောက်မှ အပြီးသတ်နှိမ်နင်းအောင်မြင်၍ ရှားလမိန်းသည် ကေရာဇ်ဘုရင် အဖြစ်ကို ခံယူပြီးလျှင်ခမည်းတော် ပက်ပင်လက်ထက်က ရဟန်းမင်းသို့ ပေးအပ်ခဲ့သော လက်ဆောင်တော်မြေများကို ထပ်မံအတည်ပြုပေးအပ်ခဲ့ပြန်၏။ (ရှားလမိန်းဘုရင် — ရှု။)

၈၄၃ ခုနှစ်တွင် ရှားလမိန်း၏ နိုင်ငံတော်ကြီး ပြိုကွဲပျက်စီးသွားသောအခါ ဥရောပတိုက်ရှိ နိုင်ငံအသီးအသီးမှ ဘုရင်နှင့် ကေရာဇ်မင်းတို့သည် ဣတလီနိုင်ငံကို အုပ်စိုးရန်အားထုတ်ခဲ့ကြသည်နှင့်အမျှ နှစ်ပေါင်း ၁၀၀ ကျော်မျှ ဣတလီနိုင်ငံမှာ ဝင်ရောက်လုယက် တိုက်ခိုက်ဖျက်ဆီးခြင်း ခံခဲ့ရလေသည်။ ဤကဲ့သို့သော အဖြစ်ဆိုးမှာ ၉၆၂ ခုနှစ်တွင် နန်းတက်သော ရောမသာသနာစောင့် ကေရာဇ် ပဋ္ဌမ



ရှေ့ခေတက နန်းပြာသာဒ်များနှင့် ကူးလူးဆက်ဆံရာတွင် နာမည်ကျော်ကြားခဲ့သော ဗင်းနစ်မြို့

အော့တိုးလက်ထက်တွင် အဆုံးသတ် သွားလေသည်။ (ရောမသာသနာစောင့်နိုင်ငံတော် — ရှု။) အလယ်ခေတ်တလျှောက်လုံးတွင် ရောမသာသနာစောင့် နိုင်ငံတော် ကေရာဇ်မင်းတို့သည် ဣတလီနိုင်ငံကို မိမိတို့ လုံးဝအာဏာဖြင့် အုပ်စိုးခွင့်ရှိသည် ဟု ယူဆခဲ့ကြသော်လည်း ဂျာမန်အုပ်စိုးမှုကို လက်မခံလိုသော ဣတလီနိုင်ငံသားများသည် အမြဲပင် တော်လှန်ပုန်ကန်ခဲ့ကြလေသည်။ ရောမသာသနာစောင့်နိုင်ငံတော် ကေရာဇ်ဘုရင်တို့သည် ဣတလီနိုင်ငံတွင် အာဏာတည်မြဲရေးအတွက် ခက်ခဲစွာ တိုက်ခိုက်ကြရလေသည်။ ကေရာဇ်မင်းတို့၏ အင်အားအကောင်းဆုံး အတိုက်အခံများမှာ ပုတ်ရဟန်းမင်းများပင် ဖြစ်ကြ၏။

ထိုသို့ ကေရာဇ်နှင့် ပုတ်ရဟန်းမင်းတို့ အာဏာလုမှုများ အတောမသတ်မီအတွင်း ဣတလီနိုင်ငံတွင် မီလန်၊ဂျီနိုးအာ၊ ဖလော်ရင့်၊ ပီစာ၊ ဗင်းနစ် စသည့် မြို့များသည် လွတ်လပ်သော သီးခြားပြည်နယ်ကလေးများ အဖြစ် တည်ထောင်လိုက်ကြလေသည်။ ဤ ပြည်ထောင်ကလေးများသည် တဖြည်းဖြည်း အင်အားကြီးမားလာရကား ယင်းတို့အပေါ်တွင် စိုးမိုးအုပ်ချုပ်လိုသောမှူးမတ်များကိုသာမက ကေရာဇ်ဘုရင်တို့ကိုပင် တော်လှန်နိုင်ခဲ့၏။ ပုတ်ရဟန်းမင်းသည် ရံဖန်ရံခါ ပြည်ထောင်ကလေးများကို ကူညီခဲ့လေသည်။

ပြည်ထောင်ကလေးများ ထွန်းကားသော ခေတ်တွင် ဣတလီတနိုင်ငံလုံးလိုလိုပင် များစွာ တိုးတက်ခဲ့သော်လည်း ပြည်ထောင်တိုင်းတွင် ပုတ်ရဟန်းမင်း၏ လူများနှင့်ကေရာဇ်၏လူများ အာဏာလုမှု အရှုပ်အထွေးများ ရှိခဲ့လေရာ တိုင်းပြည်တိုးတက်ရေးအတွက် မဆောင်ရွက်နိုင်လောက်အောင်ပင် အရှုပ်အထွေးများနှင့် အတော် အချိန်ကုန်ခဲ့ရလေသည်။

ပြည်ထောင်ကလေးများကို အုပ်စိုးသော မင်းများမှာ သက်ဦးဆံပိုင်စနစ်ဖြင့် အုပ်ချုပ်ခဲ့ကြ၍ ထိုခေတ်ကို ဣတလီနိုင်ငံ၏ သက်ဦးဆံပိုင်ခေတ် ဟု ခေါ်စမှတ်ပြုကြ၏။ ယင်းသည့်ခေတ်က ဣတလီအနုပညာနှင့် စာပေသမိုင်းတွင် ထင်ရှားသော ပုဂ္ဂိုလ်ကြီးများဖြစ်သည့် ဒန်တီ၊ တောမတ်အက်ကွိုင်နတ်၊ ပီတြာခ်၊ ဒီကမ်ဗရို တို့ပေါ်ထွက်ခဲ့သည်။ ပြည်ထောင်မင်းများအနက် ဖလော်ရင့်ကို အုပ်စိုးသော မဲဒီချီ ဆွေမျိုးဆက်သည် အထင်ရှားဆုံး ဖြစ်၍ အနုပညာနှင့် စာပေကို အထူးအားပေးခဲ့၏။ (ဒန်တီ၊ အလီဂျာရီ။ မဲဒီချီ — ရှု။)

ဣတလီနိုင်ငံတွင် ဤသို့ ပြည်ထောင်ငယ်ကလေးများ အကွဲကွဲအပြားပြား ဖြစ်နေခြင်းကြောင့် အနီးအနားတိုင်းပြည်များက ဝင်ရောက်သိမ်းပိုက်ရန် အခွင့်အလမ်း



ဣတလီနိုင်ငံ၏ သမိုင်းဝင် ရှေးဟောင်းဇာတ်ရုံကြီးတခု

သာခဲ့၏။ ၁၄၉၄ ခုနှစ်တွင် ပြင်သစ်ဘုရင် အင်္ဂမချားသည် နေပယ်ကို သိမ်းပိုက်လိုက်၏။ ထို့နောက် စပိန်နှင့် ရောမ သာသနာစောင့် နိုင်ငံတော် ကေရာဇ် ပဉ္စမချားသည် ဣတလီနိုင်ငံအလုံးကို တိုက်ခိုက် သိမ်းယူလိုက်လေသည်။ ကေရာဇ်ပဉ္စမချားလက်ထက်တွင် ဣတလီနိုင်ငံမှာ ရှေးကထက် အေးချမ်းသာယာစွာ ရှိလေသည်။

ထို့နောက် နှစ်ပေါင်း ၂၀၀ ခန့်အတွင်း ဣတလီနိုင်ငံရှိ ပြည်နယ်တို့မှာ ဥရောပတိုက်ရှိ ထီးဆောင်းမင်းများနှင့် ဣတာလျံမင်းသားများ သူတပြန် ကိုယ်တပြန် သိမ်းယူ အုပ်စိုးခြင်းကို ခံခဲ့ကြရ၏။ ယင်းသို့ အုပ်စိုးခဲ့ရာတွင် မကြာခဏ နယ်လုစစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဣတလီပြည်နယ်များကို တိုက်ခိုက်ရာတွင် ကြေးစားစစ်တပ်များကိုပင် အသုံးပြုခဲ့ကြပေသည်။

ပြင်သစ်တော်လှန်ရေး ပေါ်ပေါက်သောအခါ ဣတလီပြည်နယ်များ စုစည်းကာ ပြင်သစ်ကိုတိုက်ခိုက်ရန် ကြိုးစားခဲ့ကြလေသည်။ (ပြင်သစ်တော်လှန်ရေး — လည်းရှု) သို့ရာတွင်မအောင်မြင်ခဲ့ရုံမျှမက နပိုလီယန်ကဣတလီကျွန်းဆွယ်တခုလုံးကို တိုက်ခိုက် ခြေမှုန်းခဲ့လေသည်။ ပြင်သစ်လက်အောက်သို့ ကျရောက်ရပြန်သော ဣတလီ ပြည်နယ်များအနက် ဗင်းနစ်ကို ဩစတြီးယားသို့ ပေါင်းပေးခဲ့၍ ကျန်နယ်များကို သမတပြည်ထောင် ငါးပြည်ထောင် ဖွဲ့စည်းတည်ထောင်ပေးခဲ့၏။ သို့ရာတွင် များမကြာမီပင် နပိုလီယန်သည် ဣတလီတနိုင်ငံလုံးကိုပြန်၍ စုပေါင်းအုပ်စိုးကာ သူ၏ညီတော် ဂျိုးဇက်၊ထို့နောက် ယောက်ဖတော် ယိုခင်မူရာတို့အား နေပယ်ဘုရင်အဖြစ် ကျေညာခဲ့သည်။ ပုတ်ရဟန်းမင်း သတ္တမပိုင်းယတ်အား ပြင်သစ်နိုင်ငံသို့ ခေါ်ဆောင်၍ အကျဉ်း ချထားပြီးလျှင် သူ၏ ( နပိုလီယန် ) မွေးစားသားအား ရောမဘုရင်အဖြစ်ကျေညာခဲ့သည်။

နပိုလီယန်သည် ဤသို့ ဣတလီပြည်နယ်များကို အသစ်တဖန်ပြန်၍ ဖွဲ့စည်းလိုက်ခြင်းသည် ပြည်ထောင်ငယ်ကလေးများနှင့် အကွဲကွဲအပြားပြား နေထိုင်ခဲ့ရသော ဣတလီနိုင်ငံရှိလူများအား ခေတ်ဟောင်းတွင် ကွဲပြားနေသည့်အဖြစ်ကို မေ့ပျောက်စေကာ ဣတလီနိုင်ငံသူနိုင်ငံသားအားလုံးမှာ သွေးတူသားတူများဖြစ်ကြကြောင်းကို သတိရလာစေခဲ့ရာ လွတ်လပ်လိုသော စိတ်ဓာတ် များပေါက်ဖွားတက်ကြွလာခဲ့ကြလေသည်။

၁၈၁၅ ခုနှစ်တွင် ကျင်းပသော ဗီယင်နား အစည်းအဝေးဆုံးဖြတ်ချက်များအရ ဣတလီ ပြည်နယ်များသည် ဩစတြီးယားနှင့် ပုတ်ရဟန်းမင်းတို့၏ လက်အောက်သို့ ရောက်သွားခဲ့ ပြန်လေသည်။ ဆာဒင်းနီးယား ကျွန်းကို အရေးတော်ပုံအတွင်းက လက်လွှတ်ခဲ့ရသော ဆဗွိုင်းမင်းဆက်က ပြန်လည်အုပ်စိုး၏။ စစ္စလီနှစ်ပြည်ထောင့်ကိုဗူးဗွန်မင်းဆက် ဖာဒီနန်ကပြန်လည်အုပ်စိုး၍ ယခင်က ပုတ်ရဟန်းမင်း၏နယ်မြေများကို ပုတ်ရဟန်းမင်းပင်လျှင် ပြန်လည်ရရှိခဲ့လေသည်။ ကျန်နေရာများတွင် ဩစတြီးယန်းဘုရင်၏ အာဏာစက်ပျံ့နှံ့ခဲ့လေသည်။

ထို့နောက် ဣတလီ ပြည်သူပြည်သားတို့သည် တနိုင်ငံလုံး သွေးစည်းရေးနှင့် လွတ်လပ်ရေးအတွက် လှုပ်ရှားစပြုလာကြ၏။ ဩစတြီးယားကလည်း ဤသို့သော လှုပ်ရှားမှုများကို အပြင်းအထန်နှိပ်ကွပ်ခဲ့၏။ သို့ရာတွင် ဣတလီ ပြည်သူပြည်သားတို့၏ ဆန္ဒမှာလည်း ထိုအတူ ပြင်းထန်နေပြီဖြစ်သောကြောင့် ဣတလီနိုင်ငံတွင်း၌ အုပ်စိုးသူ နိုင်ငံခြားသားများကို လျှို့ဝှက်စွာ လုပ်ကြံသတ်ဖြတ်မှုများ ပေါ်ပေါက်လာခဲ့လေသည်။

၁၈၃၁ ခုနှစ်တွင် ဆာဒင်းနီးယားဘုရင်အဖြစ် ဆက်ခံသော ချားအဲလဗတ်သည် ဣတလီနိုင်ငံ စည်းလုံး လွတ်လပ်ရေးတွင် များစွာ စိတ်ပါဝင်စား၍ ဣတလီနိုင်ငံရှိ ပြည်နယ်အသီးအသီးတို့ကလည်း ဆာဒင်းနီးယားဘုရင်ကိုပင် အားကိုးအားထားပြုလာကြ၏။ ထိုအချိန်တွင် စူးရှသောအမြင်ရှိသူ ခေါင်းဆောင်ကြီး ဂျူးဆက် မတ်ဇီနီသည် ဣတလီ စည်းလုံးလွတ်လပ်ရေးကို ရှေးရှုလျက် ပွင့်သစ်စဣတလီ ဟူသော ဣတလီ လူငယ်များအဖွဲ့ကိုဖွဲ့စည်းလေသည်။ (မတ်ဇီနီ,ဂျီ — လည်းရှု။)

ထိုပွင့်သစ်စ ဣတလီအသင်း၏ လုပ်ငန်းစဉ်မှာ အခြားအသင်းအဖွဲ့များကဲ့သို့ လျှို့ဝှက်စွာ လုပ်ကြံ သတ်ဖြတ်ရန် မဟုတ်၊ ပညာတတ်လူငယ်ကလေးများကို သိမ်းသွင်း စုရုံး၍ ဆူပူထကြွရန်ဖြစ်လေသည်။ သူတို့၏ ရည်ရွယ်ချက်မှာ ဣတလီ နယ်မြေမှ သက်ဦးဆံပိုင် အုပ်စိုးသူများကို အပြီးတိုင် မောင်းနှင်ထုတ်ပြီးနောက် တပြည်လုံး သွေးစည်းကာ သမတနိုင်ငံထူထောင်ရန်ဖြစ်၏။

၁၈၄၈ ခုနှစ်တွင် ဥရောပအနောက်ပိုင်းတခုလုံးတော်လှန်ရေးမီးတဟုန်းဟုန်း တောက်လောင်ခဲ့လေရာ၊ ဣတလီပြည်သို့လည်း ကူးစက်ခဲ့လေသည်။ တနိုင်ငံလုံး ဆူပူသောင်းကျန်းမှုများပေါ်ပေါက်သဖြင့်နေပယ်နှင့်ဗင်းနစ်တို့တွင် စည်းမျဉ်းတကျ အုပ်ချုပ်သော အစိုးရအဖွဲ့များ ဖွဲ့စည်းခွင့်ပေးခဲ့ရလေသည်။ ခေါင်းဆောင်ကြီး မတ်ဇီနီ၏နောက်လိုက်များတွင် မျိုးချစ်ခေါင်းဆောင်ကြီးဂျူးဆက် ဂယ်ရီဗောဒီး၏ ဆောင်ရွက်ချက် များမှာ ဣတလီနိုင်ငံသမိုင်းတွင် ထင်ရှားလှပေသည်။ မတ်ဇီနီနှင့် ဂယ်ရီဗောဒီးတို့သည် ပုတ်ရဟန်းမင်း နဝမပိုင်းယတ် အုပ်စိုးလျက်ရှိသည့် ရောမမြို့ကို သိမ်းပိုက် ခဲ့ကြလေသည်။ သို့ရာတွင် များမကြာမီ ပြင်သစ်စစ်တပ်များက ပုတ်ရဟန်းမင်းကို လာရောက်ကူညီ၍ရောမမြို့ကိုပုတ်ရဟန်းမင်းသည်ပြန်လည် အုပ်စိုးရပြန်လေသည်။ (ဂယ်ရီဗောဒီး,ဂျီ — လည်းရှု။)

ထိုအချိန်တွင် စစ္စလီကျွန်း ကလည်း ဩစတြီးယား လက်အောက်မှ အလွတ်ရုံးနိုင်ခဲ့လေသည်။ ထိုမျှမကသေး၊ ဆာဒင်းနီးယားဘုရင် ချားအဲလဗတ်သည် ဩစတြီးယားကို စစ်ကျေညာ၍ တိုက်ခိုက်ခဲ့သော်လည်း ၁၈၄၉ ခုနှစ်တွင် အရေးနိမ့်ခဲ့သဖြင့် ထီးနန်းစွန့်ရလေရာ သူ၏ သားတော် ဒုတိယ ဗစ်တာအီမန်းနျူးအယ်က ဆက်ခံ၏။ သူ၏ လက်ထက်တွင်လည်း လွတ်လပ်စည်းလုံးရေးစိတ်ဓာတ်များသည်ခိုင်မြဲလျက်ပင်ရှိလေသည်။ (ဗစ်တာအီမန်းနျူးအယ်၊ ဒုတိယ — လည်းရှု။)

ဗစ်တာ အီမန်းနျူးအယ်သည် ဩစတြီးယား နိုင်ငံမှ ပေးသော အခွင့်အရေးများကို လက်မခံပဲ ဣတလီ လွတ်လပ်စည်းလုံးရေးကို လုံးပန်းလျက် ၁၈၅၂ ခုနှစ်တွင် နောင်အခါ ဣတလီတနိုင်ငံလုံး အကျိုးဖြစ်ထွန်းအောင် ဆောင်ရွက်နိုင်ခဲ့သူ ကောင့် ကဗူးအား သူ၏ နန်းရင်းဝန်အဖြစ် ရွေးချယ်ခန့်ထားလိုက်လေရာ သူ၏ လုပ်ငန်းစဉ်များသည် အထူးပင် အောင်မြင် ခဲ့လေသည်။ ကောင့် ကဗူးကား အမြော်အမြင်ကြီးမားလှသော တိုင်းပြည်ပြု သုခမိန်ကြီးပင်တည်း။ (ကဗူး,စီ၊ဗီ — လည်းရှု။)

ကဗူးသည် ပြင်သစ်ဘုရင်တတိယနပိုလီယန်နှင့်ပူးပေါင်း၍ဩစတြီးယားကိုတိုက်ခိုက်ရန်အီမန်းနျူးအယ်ဘုရင်အားတိုက်တွန်းလေရာ ဘုရင်က သဘောတူခဲ့သဖြင့် ဣတာလျံစစ်တပ်တို့သည် ပြင်သစ် စစ်တပ်များနှင့် ပူးပေါင်း ကာ ဩစတြီးယန်းတပ်တို့အား ဣတလီမြောက်ပိုင်းမှ မောင်းထုတ်နိုင်ခဲ့ကြလေသည်။ သို့ရာတွင် တတိယနပိုလီယန်သည် ဣတလီ၏ဆန္ဒမပြည့်စုံမီ ဩစတြီးယားနှင့် စစ် ပြေငြိမ်းလိုက်သဖြင့် ဩစတြီးယားတို့၏လက်အောက်တွင် ဗင်းနစ်ပြည်နယ် ကျန်ရစ်ခဲ့လေသည်။

ထိုအချိန်တွင် ဂယ်ရီ ဗောဒီးသံည် လက်ရွေးဆန် ဣတလီ မျိုးချစ်သူရဲကောင်း ၁,၀၀၀ ခန့်နှင့် စစ္စလီကျွန်းပေါ်မှ စတင်တိုက်ခိုက်ပြီးနောက် ဣတလီကျွန်းဆွယ်ပေါ်သို့ တက်ရောက်ခဲ့လေသည်။ တောင်ပိုင်းသားတို့ကလည်း ပြင်သစ်စစ်တပ်များကို နေရာအနှံ့အပြားတွင် တပ်ပိုင်တည်းတော်လှန်ကြလေသည်။ပြင်သစ် လက်အောက်ခံ ဣတာလျံစစ်သား အပေါင်းတို့သည်လည်း ဂယ်ရီဗောဒီး၏ တော်လှန်ရေးစစ်တပ်ကြီးနှင့် ပူးပေါင်းကြသောကြောင့် ဂယ်ရီဗောဒီး၏ စစ်တပ်ကြီးသည် တမုဟုတ်ခြင်းပင် လူအင်အား လက်နက်အင်အား တောင့်တင်း လာလေရာ မျှားမကြာမီပင် နေပယ် မြို့တော်တွင်းသို့ အောင်တပ်ခင်းကာ ဝင်ရောက်နိုင်ခဲ့လေသည်။ သို့ဖြင့် စစ္စလီ နှစ်ပြည်ထောင်မှာ ဗစ်တာ အီမန်းနျူးအယ်၏ ပိုင်နက် အတွင်း ပါဝင်ခဲ့လေသည်။

၁၈၆၀ ပြည့်နှစ် နိုဝင်ဘာလတွင် ဗစ်တာ အီမန်း နျူးအယ်အား ဣတလီ နိုင်ငံသစ်ကြီး၏ ဘုရင်အဖြစ် တင်မြှောက်အုပ်စိုးစေခဲ့လေသည်။ ထိုအချိန်အထိ ပုတ်ရဟန်းမင်း အုပ်စိုးသော နယ်အချို့နှင့် ဗင်းနစ် ပြည်နယ်မှာ ဣတလီနိုင်ငံသစ်အတွင်းသို့ မပါဝင်သေးချေ။ သို့ရာတွင် ၁၈၆၆ ခုနှစ်တွင် ဖြစ်ပွားသော ဩစတြီးယား–ပရပ်ရှား စစ်ပွဲတွင် ဣတလီတို့သည် ပရပ်ရှားဖက်မှ ကူညီခဲ့သဖြင့် ဗင်းနစ်မြို့ကို ဆုလာဘ်အဖြစ် ရရှိခဲ့လေသည်။

ရောမမြို့တော်နှင့်တကွ ပုတ်ရဟန်းမင်း အုပ်စိုးသော နယ်ပယ်များမှာမူ ပြင်သစ်စစ်တပ်များက ကာကွယ်ထားသဖြင့် ဣတလီနိုင်ငံသစ်တွင်မပါဝင်ခဲ့သေးပဲ ၁၈၇၀ ပြည့်နှစ်၌ ပြင်သစ်–ပရပ်ရှား စစ်ပွဲကြောင့် ပြင်သစ် စစ်တပ်များ ရုပ်သိမ်းသွားရသောအခါ ဗစ်တာ အီမန်း နျူးအယ်ဘုရင်သည် အလုံးအရင်းနှင့် ချီတက် တိုက်ခိုက်သိမ်းပိုက်သဖြင့် ရောမမြို့တော်ကို ရရှိလေသည်။ သို့ဖြင့် ပုတ်ရဟန်းမင်းလည်း အခွင့်အရေး အာဏာများ ဆုံးရှုံးလျက် ရောမမြို့တော်အစွန်ရှိ ဗက်တီကင်မြို့တော်သို့ ပြောင်းရွှေ့ နေထိုင်ရလေသည်။ ထိုအခါတွင် ဣတလီနိုင်ငံသည် လုံးဝလိုလိုပင် စည်းလုံးမိလေတော့သည်။

ဣတလီနိုင်ငံ စည်းလုံးမိပြီးသည့်နောက် ဗစ်တာ အီမန်းနျူးအယ်၏ တာဝန်များမှာ ပြည်တွင်း ငြိမ်းချမ်းရေး စည်ပင်သာယာရေးပင် ဖြစ်၏။ ထိုတာဝန်များကို ၁၈၇၈ ခုနှစ်တွင် ဗစ်တာ အီမန်းနျူးအယ် နတ်ရွာစံ၍ သူ၏သားတော် ဟမ်းဗတ်က ဆက်လက် ဆောင်ရွက်ရလေသည်။ ထိုအခါတွင် ဣတလီ နိုင်ငံနှင့် အနီးအနားရှိ ဣတလီပိုင်သင့်သည်ဟု ယူဆသော နယ်များကို ပူးပေါင်းရန် လိုလားသော သူတစု၏ နိုင်ငံရေး လှုပ်ရှားမှုတခု ပေါ်



ဣတာလျံ အနုပညာရှင်တဦး

ပေါက်ခဲ့လေသည်။ ၁၉၀၀ ပြည့်နှစ်တွင် တနိုင်ငံလုံး ချစ်ခင်လေးစားခြင်းခံရသော ဟမ်းဗတ်အား လုပ်ကြံ သတ်ဖြတ်လိုက်ကြလေရာ သူ၏ သားတော် တတိယ အီမန်နျူးအယ် နန်းတက်လေသည်။ ထိုအခါ ဣတလီနိုင်ငံကို ဥရောပနိုင်ငံကြီးတခုအဖြစ် အသိအမှတ်ပြုရေးအတွက်၎င်း၊ နယ်သစ်များ ရရှိရေးအတွက်၎င်း ကြိုးပမ်းခဲ့ရာတွင် ပြည်သူပြည်သားများမှာ အခွန်အတုတ် ကြီးလေးစွာ တောင်းခံခြင်း ခံရလေသည်။

၁၉၀၈ ခုနှစ်တွင် ဣတလီတောင်ပိုင်းနှင့် စစ္စလီကျွန်းတပိုင်း၌ ပြင်းထန်သော မြေငလျင် ဘေးကြောင့် မြို့ပြပြည်ရွာများ ပျက်စီးခဲ့၍ လူပေါင်း တသိန်း ငါးသောင်းကျော် သေကြေပျက်စီးခဲ့ရုံမက တောင်ပိုင်းနှင့် အရှေ့ပိုင်းတို့တွင် ရောဂန္တရကပ် ဖိစီးခြင်းကို နှစ်ပေါင်း အတန်ကြာ အပြင်းအထန် ခံစားလိုက်ရ သောကြောင့် အခြေအနေ အတော်ပင်ယိုင်ခဲ့ရလေသည်။ယင်းသို့ အခြေယိုင်လာသော အခါ ဣတလီနိုင်ငံမှာ ငြိမ်းချမ်းရေးဝါဒကို လက်ကိုင် မပြုနိုင်တော့ဘဲ နယ်ချဲ့ရန် ကြိုးစားရလေတော့သည်။

ရှေးဦးစွာ အာဖရိကတိုက်ရှိ အီရစ်ထရီးယားနှင့် ဆိုမာလီလန် နယ်မြေ အချို့ကို သိမ်းပိုက်လေသည်။ ထိုနောက် တူရကီပိုင် ထြိပိုလီနယ်ရှိ ဣတာလျံ လူမျိုးများကို ကာကွယ်ရန်ဟူသော အကြောင်းပြချက်ဖြင့် တူရကီကို စစ်ကျေညာလိုက်လေသည်။ ထိုစစ်ပွဲတွင် ဣတလီသည် တူရကီတို့ထံမှ ထြိပိုလီနယ်ကို ရရှိလိုက်၏။ ထိုအချိန်တွင် ဣတလီနိုင်ငံတွင်း၌ နိုင်ငံရေး လှုပ်ရှားမှုများကြောင့် အတော်ပင် ဆူပူလာခဲ့လေသည်။ နိုင်ငံရေး ခေါင်းဆောင် များအနက် ဆိုရှယ်လစ်အဖွဲ့၏ ကြွေးကြော်သံ အဗန်တီ သတင်းစာ၏ အယ်ဒီတာချုပ် ဗင်နီတို မူဆိုလီနီသည် ပြည်ရေး ပြည်ရာ အဖြာဖြာကို သူ၏သတင်းစာမှ ပြင်းထန်စွာ ဝေဖန် ရေးသားသဖြင့် ထင်ရှားလာလေသည်။ (မူဆိုလီနီ၊ဗင်နီတို — လည်းရှု။)

၁၈၈၂ ခုနှစ်ခန့်မှစ၍ ဣတလီနိုင်ငံသည် ဂျာမနီ၊ ဩစတြီးယားတို့နှင့် သုံးပြည်ထောင် မဟာမိတ်စာချုပ် ချုပ်ဆိုထားခဲ့သည် မှန်သော်လည်း ပြင်သစ်နိုင်ငံနှင့်သာ ပိုမိုရင်းနှီးစွာ ဆက်ဆံ ခဲ့သောကြောင့် ၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ ပြင်သစ်၊ အင်္ဂလိပ်နှင့် ရုရှတို့ ပါဝင်သော မဟာမိတ်နိုင်ငံများဖက်မှ ပါဝင်ရန် သေချာသလောက် ဖြစ်ခဲ့၏။

ပဌမ ကမ္ဘာစစ် စတင်ဖြစ်ပွားသောအခါ ဣတလီနိုင်ငံသည် ရုတ်တရက် ပါဝင်တိုက်ခိုက်ခြင်း မပြုသေးပဲ ၁၉၁၅ ခုနှစ် မေလအထိ စစ်ထဲသို့ ဝင်ရေး မဝင်ရေးတွင် အမျိုးမျိုး ဝေဖန် ဆွေးနွေးခဲ့ကြလေသည်။ မူဆိုလီနီသည် သူ၏ သတင်းစာမှနေ၍ ဤစစ်ကြီးတွင် ဣတလီသည် မဟာမိတ်နိုင်ငံများဖက်မှ ပါဝင်တိုက်ခိုက်ရန် အပြင်းအထန် လှုံ့ဆော်ရေးသားခဲ့လေသည်။ (ကမ္ဘာစစ်၊ ပဌမ — လည်းရှု။)

၁၉၁၅ ခုနှစ် မေလတွင် ဣတလီနိုင်ငံသည် ဩစတြီးယား၊ ဟန်ဂေရီနိုင်ငံများကို စစ်ကျေညာလိုက်လေသည်။ ထိုနောက်တွင် ဆက်လက်၍ ဗူလဂေးရီးယား၊ တူရကီနှင့် ဂျာမနီနိုင်ငံတို့ကိုလည်း စစ်ကျေညာခဲ့၏။ ယင်းသို့ ဣတလီနိုင်ငံပါဝင်လာသည့်အတွက်မဟာမိတ်နိုင်ငံများမှာ များစွာ အထောက်အကူ ရရှိခဲ့သည်။ ၁၉၁၇ ခုနှစ်တွင် ရုရှားဖက်မှ စစ်ရေးမသာခိုက် ဂျာမန်တို့ အင်အားတောင့်တင်းလာသောကြောင့် ဣတလီတို့လည်း မိုင်ပေါင်းများစွာ ဆုတ်ခဲ့ရလေသည်။ သို့ရာတွင် နောက်တနှစ်၌ အားသစ် အင်သစ် ဖြည့်တင်းပြီးဖြစ်သော ဣတလီစစ်တပ်များက ဩစတြီးယားကို အပြုတ်တိုက်ထုတ် နိုင်ခဲ့လေသည်။ ၁၉၁၈ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် စစ်ကြီး ပြီးဆုံး နိုင်ခဲ့ခြင်းမှာ ဣတလီတို့၏ လျင်မြန်လှသော အောင်မြင်မှုများကြောင့်လည်း ဖြစ်ပေသည်။ စစ်ကြီးအပြီးတွင် ဣတလီသည် ဝေစုအဖြစ် ဗီနီရှား၊ ထရိုင်ဒင်ရှား၊ ဂေါရီဇားနှင့် ဂရေဒစ်စကား၊ ထရီယက်စတီ၊ အစ္စတြီးယားဇာရာ၊ ဒါလမေရှားပြည်နယ်တွင် ပါဝင်သော ကျွန်းကလေးများနှင့် ဖီးယမ်းနယ်မြေများကို ရရှိခဲ့သည်။ စစ်ပွဲတွင် လူပေါင်း ခြောက်သိန်းကျော်သေ၍ တသန်းကျော်ဒဏ်ရာရခဲ့လေသည်။မူဆိုလီနီသည်လည်း စစ်ထဲသို့ပါဝင်ခဲ့၍ ဒဏ်ရာရရှိခဲ့၏။

စစ်ကြီး ပြီးဆုံးသည်နှင့် တပြိုင်နက် ဣတလီနိုင်ငံတွင်း၌ နိုင်ငံရေးနှင့် စက်မှုလက်မှု အလုပ်သမားများအရေးသည် ရှုပ်ထွေးလာခဲ့လေသည်။ အခက်အခဲများမှာ ကုန်ဈေးများ အဆမတန်ကြီးခြင်း၊ စစ်ပြန် အလုပ်လက်မဲ့များ ပေါများခြင်း၊ နိုင်ငံရေးလှုပ်ရှားမှုများနှင့် စစ်ပြေငြိမ်းရေး အစီအစဉ်နှင့် စပ်လျဉ်း၍ မကြေနပ်မှု တို့ပင်ဖြစ်၏။ ၁၉၁၉ ခုနှစ်နှင့် ၁၉၂၀ ပြည့်နှစ်များတွင် အလုပ်သမား၊ လယ်သမားများ အနှံ့အပြား သပိတ်မှောက်ကြလေရာ၊ အလုပ်ရုံ အချို့တွင် ဆိုရှယ်လစ် အလုပ်သမားအဖွဲ့က လုစားထိုးနိုင်ခဲ့သော်လည်း၊ နိုင်ငံရေး သဘောကွဲလွဲမှုများကြောင့် ဆိုရှယ်လစ်တို့ မအောင်မြင်ခဲ့ချေ။

၁၉၁၉ ခုနှစ် မတ်လတွင် မူဆိုလီနီသည် နောက်လိုက်များကို စုရုံးကာ ဖက်ဆစ်အစည်းအရုံးကြီးကို ဖွဲ့စည်းတည်ထောင် ခဲ့လေသည်။ (ဖက်ဆစ်ဝါဒ — လည်းရှု။) နိုင်ငံဆူပူလျက်ရှိသော ၁၉၁၉ ခုနှစ်နှင့် ၁၉၂၀ ပြည့်နှစ်များအတွင်း ဖက်ဆစ်အစည်းအရုံးသည် လူအင်အားစုဆောင်းခြင်း၊ ဆိုရှယ်လစ်နှင့် ဗုရင်ဂျီ အလုပ်သမား အဖွဲ့များကို တိုက်ရန် ကြိုးပမ်းခြင်း တို့ဖြင့် အချိန် ကုန်ခဲ့ လေသည်။ မူဆိုလီနီသည် သူ၏ဘပ်ဖွဲ့ကို "ရှပ်နက် အပျော်ထမ်းတပ်ဖွဲ့" ဟု အမည်ပေးခဲ့၏။

ဆိုရှယ်လစ်အဖွဲ့ဝင်ဟောင်းတဦး ဖြစ်ခဲ့သောမူဆိုလီနီသည် ယခုအခါတွင် ဆိုရှယ်လစ်တိုက်ဖျက်ရေး၊ ကွန်မြူနစ်ဆန့်ကျင်ရေးကို စနစ်တကျ စီစဉ်လေသည်။ သူ၏ ရှပ်နက်အပျော်ထမ်း တပ်သားများသည် ဆိုရှယ်လစ်နှင့် ကွန်မြူနစ်တို့၏ လုပ်ငန်းစဉ်များကို အစွမ်းကုန်တိုက်ဖျက်ကြ၍၊ နောက်ဆုံးတွင် အရေးပါ အရာရောက်သော ဆိုရှယ်လစ်နှင့် ကွန်မြူနစ် ခေါင်းဆောင်ကြီးများကို ခြိမ်းခြောက်ခြင်း၊ သတ်ဖြတ်ခြင်းတို့ဖြင့် နှိမ်နင်းကြလေသည်။ ထိုအချိန်တွင် ဣတလီလူငယ် အများအပြားသည် တဖြည်းဖြည်း တန်ခိုးကြီးလာသော ဖက်ဆစ် အစည်း အရုံးသို့ အင်တိုက်အားတိုက် ဝင်ခဲ့လေသည်။

၁၉၂၀ ပြည့်နှစ်တွင် ဣတလီ ဥပဒေပြုလွှတ်တော်သို့ ဖက်ဆစ်ကိုယ်စားလှယ် ၃၅ ဦး တက်ရောက်နိုင်သည်အထိ အင်အား ကြီးမား လာခဲ့ လေသည်။ ၁၉၂၁ ခု နှစ်နှင့် ၁၉၂၂ ခုနှစ်များတွင် ဣတလီနိုင်ငံ၏ ဘဏ္ဍာရေး အခြေအနေမှာ အတော်ပင် ဆိုးရွား ခဲ့သည်။ ထိုအချိန်တွင် ဖက်ဆစ်တို့၏ မတရား ဖိနှိပ်ခြင်း ခံနေကြရသော ဆိုရှယ်လစ်နှင့် ကွန်မြူနစ်တို့သည် တနိုင်ငံလုံးတွင် သပိတ်မှောက်မှုများ ပေါ်ပေါက်အောင် လှုံ့ဆော်ခဲ့ရာ အောင်မြင်ခဲ့ကြလေသည်။

အစိုးရတွင် ပြည်လုံးကျွတ်သပိတ်ကြီးကို ဖြိုခွင်းရန် အစွမ်းမရှိသည့်အဖြစ်ကို အခွင့်ကောင်းယူကာ အင်အားစုပြီးဖြစ်သော ဖက်ဆစ် တို့သည် သပိတ် သမား များကို အပြင်းအထန်နှိပ်ကွပ်ပြီးလျှင် တနိုင်ငံလုံးကို ဖက်ဆစ်အာဏာဖြင့် လွှမ်းမိုးလိုက်လေသည်။

၁၉၂၂ ခုနှစ် အောက်တိုဘာလတွင်မူဆိုလီနီ၏အမိန့်အရ လေးသောင်းခန့်ရှိသော ရှပ်နက် တပ်ဖွဲ့ဝင်တို့သည် နေပယ်မြို့တွင် ညီလာခံကြီးတခု ကျင်းပပြီးနောက် မြို့တွင်းသို့ လှည့်လည် အင်အားပြကာ ရောမမြို့တော်သို့လက်နက်စွဲကိုင်၍ ချီတက်ခဲ့ကြလေသည်။

ဖက်ဆစ်များ ရောမမြို့တော်အတွင်းသို့ ရောက်သည်နှင့်တပြိုင်နက် တတိယ ဗစ်တာ အီမန်နျူးအယ် ဘုရင်သည် မူဆိုလီနီအား ဝန်ကြီးချုပ်အဖြစ် ခန့်အပ်၍၊ အစိုးရအဖွဲ့ ဖွဲ့စည်းရန် လွှဲအပ်လေသည်။ အုပ်ချုပ်ရေးအာဏာကို ရရှိသည်နှင့်တပြိုင်နက် မူဆိုလီနီသည် သူ၏အာဏာများကို ပျံ့နှံ့ လွှမ်းမိုး စေလေ တော့သည်။ နိုင်ငံတွင်း၌ ပြောင်းလဲမှု များစွာ ပြုလုပ်စီမံ၍၊ အုပ်ချုပ်ရေး အဖွဲ့ကိုလည်း လုံးဝ အာဏာပိုင် အဖြစ် ကြိုးကိုင် လေသည်။ ၁၉၂၅ ခုနှစ်တွင် မူဆိုလီနီသည် ဣတလီ တနိုင်ငံ လုံး၏ အချုပ်အခြာ အာဏာကို အရယူလိုက်၏။

ဘုရင်နှင့် ဒီမိုကရေစီ စနစ်များလည်း ပျောက်ကွယ်လျက် အုပ်ချုပ်မှုအကြံပေးနှင့် ဥပဒေပြု လုပ်ငန်းများကို ဖက်ဆစ်ကောင်စီ အဖွဲ့ကြီးက ဆောင်ရွက် သွားသည်။ မူဆိုလီနီအား သတ်ဖြတ်ရန် အကြိမ်ကြိမ် ကြိုးစားခဲ့ကြသော်လည်း၊ မအောင်မြင်ရုံသာမက မူဆိုလီနီအား ပို၍ ပင် ထင်ရှား လာစေလေသည်။

၁၉၃၄ ခုနှစ်တွင် မူဆိုလီနီသည် သူ၏ စနစ်သစ်များအရ ဥပဒေပြုလွှတ်တော်ကို ပြန်လည် ဖွဲ့စည်းခဲ့၏။ လွှတ်တော်သို့ တက်ရောက်ရန် ကိုယ်စားလှယ် များကို ရွေးကောက်ပွဲသို့ နယ်ပယ်အလိုက် မဟုတ်စေပဲ၊ အလုပ်အကိုင်အလိုက် ရွေးချယ်ခြင်းဖြစ်၏။ အလုပ် အကိုင် အလိုက် ဖွဲ့စည်းထားသော တရားဝင် အဖွဲ့အစည်းပေါင်း ၂၂ ခုကို အသိအမှတ်ပြု၍ ထိုအဖွဲ့ ၂၂ ဖွဲ့မှ ကောင်စီဝင်များ ပါဝင်သော အမျိုးသားကောင်စီကို ပြည်သူ့လွှတ်တော် အတွက် အစားထိုးခြင်းပင် ဖြစ်သည်။

မူဆိုလီနီသည် ဣတလီနိုင်ငံကို အင်အား တောင့်တင်းသော နိုင်ငံတခု ဖြစ်စေရန်၊ လူဦးရေ တိုးတက်ရေး၊ လယ်ယာစိုက်ပျိုးရေး၊ စက်မှုလက်မှု ထွန်းကားရေးတို့ကို အာဏာဖြင့် စီမံဆောင်ရွက်ခဲ့လေသည်။ လယ်ယာ စိုက်ပျိုးရေးတွင် ယခင်က မြေလပ် များကို တကွက်မကျန် ထွန်ယက်စိုက်ပျိုးစေ၍ ရေမိုး မလုံလောက်သော ဒေသများတွင် ဆည်မြောင်းများ ဖောက်လုပ်စေ၏။ ကျောက်မီးသွေး ရှားပါးမှုကြောင့် တောင်ကျရေအားဖြင့် လည်သော စက်ရုံများကို တည်ဆောက်ကာ ကုန်ပစ္စည်း ထုတ်လုပ်ရေးကို အင်တိုက်အားတိုက် ဆောင်ရွက်စေလေသည်။

ဤသို့လျှင် ဣတလီနိုင်ငံတွင် တိုးတက်မှု များစွာ ရှိခဲ့သော်လည်း၊ ကုန်ရိုင်းအထွက် နည်းပါးသောကြောင့် ဝယ်ယူသုံးစွဲရလေရာ အဝင်နှင့်အထွက် မျှတရုံသာ ရှိ၍ စီးပွားရေး တိုးတက်မှုမှာ ထင်သလောက် ခရီးမရောက်နိုင်ခဲ့ချေ။ ထိုသို့ရှိစဉ်ပင် မူဆိုလီနီသည် ကုန်းတပ်၊ ရေတပ်၊ လေတပ်များကို တိုးချဲ့လိုက်ပြန်သဖြင့် ဣတလီ နိုင်ငံမှာ အကြွေးထူသော နိုင်ငံတခု ဖြစ်လာလေသည်။ ထိုအခါတွင် မူဆိုလီနီသည် ကုန်ရိုင်းများစွာထွက်မည့် အာဖရိကတိုက်တွင် နယ်ချဲ့ရန် စီစဉ်ရလေတော့သည်။

၁၉၃၅ ခုနှစ် အောက်တိုဘာလတွင် ဣတလီစစ်တပ်များသည် အာဖရိက အရှေ့ပိုင်းရှိ အီသီအိုးပီးယားနိုင်ငံကို တိုက်ခိုက်လေသည်။ (အီသီအိုးပီးယားနိုင်ငံလည်း — ရှု။) အီသီအိုးပီးယားနိုင်ငံသည် နိုင်ငံပေါင်းချုပ် အသင်းဝင်နိုင်ငံ တခုဖြစ်၍ ဣတလီတို့၏ ကျူးကျော်စော်ကားမှုကို နိုင်ငံပေါင်းချုပ် အသင်းကြီးသို့ တိုင်တန်းလျက်၊ လိုအပ်သည့် အကာအကွယ်များကို တောင်းခံခဲ့၏။ သို့ရာတွင် ထိရောက်သော အကာ အကွယ် တစုံ တရာ မရရှိသောကြောင့် အီသီအိုးပီးယား နိုင်ငံသည် ဣတလီလက်အောက်သို့ ကျရောက်ခဲ့ရလေသည်။ အီသီအိုးပီးယားနိုင်ငံကို ရရှိ

ပြီးနောက် မူဆိုလီနီ၏ နယ်ချဲ့ခြေလှမ်းသည် သွက်လာခဲ့လေသည်။ စပိန်သူပုန်အရေးတွင် မူဆိုလီနီသည် ဂျာမနီ အာဏာရှင် ဟစ်တလာနှင့် ပူးပေါင်း၍ သူပုန် တို့အား လူအား လက်နက်အားဖြင့် ကူညီခဲ့ လေသည်။ ဤသို့ ဂျာမနီနှင့် ပူးပေါင်းမိသောအခါ၊ အရှေ့တိုင်းမှ အင်အားကြီးမားလာသော ဝါဒတူ ဂျပန် နိုင်ငံနှင့်လည်း စကားကမ်းလှမ်းကာ ဣတလီ၊ ဂျာမနီနှင့် ဂျပန် သုံးနိုင်ငံတို့သည် ကွန်မြူနစ် ဆန့်ကျင်ရေး စာချုပ်ကို ချုပ်ဆိုခဲ့ကြလေသည်။

၁၉၃၆ ခုနှစ်တွင် မူဆိုလီနီသည် အယ်လဗေးနီးယားနိုင်ငံကို အနိုင်အထက် သိမ်းယူခဲ့ပြီးနောက် ဗော်လကန်နိုင်ငံများအထိ လွှမ်းမိုးရန် ကြံစည်ဆဲတွင် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားခဲ့လေသည်။ (အယ်လဗေးနီးယားနိုင်ငံ — လည်းရှု။) ၁၉၃၉ ခုနှစ် စက်တင်ဘာလတရက်နေ့တွင် ပိုလန်နိုင်ငံကို ဂျာမန်စစ်တပ်များက ဝင်ရောက်တိုက်ခိုက်သောအခါတွင် မူဆိုလီနီသည် ထောက်ခံအားပေးခြင်းမပြုသေးပဲ၊ စေ့စပ်ရေးအတွက် ကြိုးစားခဲ့လေသည်။ ကမ္ဘာစစ်ကို အချိန်ဆွဲထားလိုသေးသော ပြင်သစ်နှင့် အင်္ဂလိပ်တို့ကလည်း မူဆိုလီနီ၏ စေ့စပ်ရေးကို သဘောတူကာ ဂျာမန်စစ်တပ်များကို ပိုလန်နိုင်ငံအတွင်းမှ ထွက်ခွာပေးရန် တောင်းဆိုကြလေသည်။ သို့ရာတွင် အာဏာရှင်ဟစ်တလာသည် စေ့စပ်ရေးကိုလျစ်လျူရှုလိုက်သဖြင့် မူဆိုလီနီသည် ဝါဒတူ ဟစ်တလာဖက်သို့ လိုက်ပါ၍ အင်္ဂလိပ်နှင့်ပြင်သစ်တို့အား စစ်ကျေညာကာ ၁၉၄၀ ပြည့်နှစ် ဇွန်လ ၁၀ ရက်နေ့တွင် ဒုတိယကမ္ဘာစစ်အတွင်းသို့ ဝင်ရောက်ခဲ့လေသည်။ (ကမ္ဘာစစ်၊ ဒုတိယ — လည်းရှု။)

ဤသို့ဝင်လိုက်သည်နှင့်တပြိုင်နက် မူဆိုလီနီသည် အာဖရိကတိုက်မြောက်ပိုင်းနှင့် ဣတလီ အနောက်မြောက်နယ်စပ်တွင် စစ်မျက်နှာဖွင့်ခဲ့လေသည်။ ပဌမတွင် မဟာမိတ်တပ်များ အသင့်ပြင်ဆင်ပြီး မရှိသေးသည်နှင့် အာဖရိကစစ်မျက်နှာတွင် ဣတာလျံတို့အရေးသာလျက်ရှိသော်လည်း ၁၉၄၀ ပြည့်နှစ် ကုန်လောက်တွင် မဟာမိတ်တို့ အင်အားတောင့်တင်းလာသောကြောင့် ဣတာလျံတို့ အရေးရှုံးနိမ့်ကာ ဆုတ်ခွာခဲ့ရလေသည်။ဤသို့ရှိစဉ် မူဆိုလီနီသည် အယ်လဗေးနီးယားနိုင်ငံကိုဖြတ်၍ ဂရိနိုင်ငံသို့ ချီတက်တိုက်ခိုက်လေသည်။ ဂရိစစ်မျက်နှာတွင်လည်း ဂျာမန်စစ်တပ်များက ကူညီမှသာ ဣတာလျံတို့ ထင်တိုင်းပေါက်ကာ ယူဂိုစလားဗီးယားနိုင်ငံ တပိုင်းတစနှင့် ဂရိနိုင်ငံကို သိမ်းပိုက်နိုင်ခဲ့သည်။

၁၉၄၁ ခု နှစ်ဆန်းစတွင်ကား ဣတာလျံတို့သည် စစ်မျက်နှာတိုင်းတွင် အရှုံးကြီးရှုံးနေသဖြင့်၊ ဂျာမနီနိုင်ငံက ကူညီခဲ့ရလေသည်။ အာဖရိကတိုက်မြောက်ပိုင်းသို့ ဂျာမန်စစ်ကူတသိန်းကျော် ပို့သဖြင့် မဟာမိတ်တို့ ဒုတိယအကြိမ်နောက်ဆုတ်ရပြန်၏။ ၁၉၄၁ ခုနှစ် ဧပြီလတွင် ဂျာမန်နှင့် ဣတာလျံ စစ်တပ်များသည် အီဂျစ်နယ်စပ်ကိုပင် ဖြတ်ကျော်နိုင်ခဲ့ပေသည်။ သို့သော် မကြာမီ အာဖရိကတိုက်မြောက်ပိုင်းစစ်မျက်နှာတွင် ဗြိတိသျှစစ်တပ်များသည် အင်အားတောင့်တင်းလာပြန်သောကြောင့် အီသီအိုးပီးယားနိုင်ငံကိုပင် ပြန်လည်ဆိမ်းယူလိုက်ကြလေသည်။ ထိုအချိန်လောက်မှစ၍ ဣတလီ၏ စစ်အခြေအနေမှာ တဖြည်းဖြည်းနိမ့်၍ဆင်းခဲ့သောကြောင့် နေရာတိုင်းတွင် ဂျာမနီကိုအားကိုးအားထားပြုရခဲ့လေသည်။ မူဆိုလီနီသည် အစွမ်းကုန်အားထုတ်၍ အင်အားဖြည့်တင်းခဲ့သော်လည်း အရေးနိမ့်မြဲနိမ့်လျက်သာ ရှိခဲ့ရာ၊ ၁၉၄၃ ခုနှစ် မေလတွင် အာဖရိကတိုက်မြောက်ပိုင်းမှ ဝင်ရိုးတန်းစစ်တပ်များ စစ္စလီကျွန်းအထိ ဆုတ်ခွာခဲ့ကြရလေသည်။

ထိုနှစ်ဇူလိုင်လ ၁၀ ရက်နေ့တွင် မဟာမိတ်စစ်တပ်များက စစ္စလီကျွန်းကို တက်ရောက်တိုက်ခိုက်သောအခါ ဣတာလျံ ဖက်ဆစ်ကောင်စီအဖွဲ့ကြီးတွင် အပြင်းအထန် အခြေအတင်ပြောဆိုပြီးနောက် မူဆိုလီနီကို ဝန်ကြီးချုပ်ရာထူးမှ ဖြုတ်ချ၍ အကျဉ်းချထားခဲ့ပြီးလျှင် မာရှယ်ဗဒေါ်လျိုအား ဝန်ကြီးချုပ်အဖြစ် တင်မြှောက်လိုက်ကြလေသည်။ ထိုအခါ ဟစ်တလာသည် မူဆိုလီနီအား အချုပ်မှ ခိုးယူကယ်တင်ကာ ၁၉၄၃ ခုနှစ်စက်တင်ဘာလ ၂၃ ရက်နေ့တွင် ဣတလီမြောက်ပိုင်း၌ ဖက်ဆစ်သမတအစိုးရအဖွဲ့ ဖွဲ့စည်းအုပ်ချုပ်ရန် ကူညီခဲ့လေသည်။

ဗဒေါ်လျိုအစိုးရသည် မဟာမိတ်တို့နှင့် စစ်ပြေငြိမ်းရန် စေ့စပ်သော်လည်း နောက်ကျခဲ့ပြီ ဖြစ်သောကြောင့် ၁၉၄၃ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့တွင် ခြွင်းချက်မရှိ လက်နက်ချလိုက်ရလေတော့သည်။ အုပ်ချုပ်ရေးကိုဗဒေါ်လျိုအား ပြန်လည်ပေးအပ်သော်လည်း ၁၉၄၄ ခုနှစ်တွင် ဗဒေါ်လျိုရာထူးမှနုတ်ထွက်လိုက်သဖြင့် ဆိုရှယ်လစ် ခေါင်းဆောင်ကြီး အီဗနို ဗိုနိုမီသည် ဝန်ကြီးချုပ် ဖြစ်လာလေသည်။ဣတလီနိုင်ငံမြောက်ပိုင်းကိုဂျာမန်တို့ ကြိုးကိုင်သော မူဆိုလီနီ၏ရုပ်သေးအစိုးရက အုပ်ချုပ်နေခဲ့သေးသည်။

၁၉၄၅ ခုနှစ် ဧပြီလတွင် မဟာမိတ် တို့သည် ဣတလီမြောက်ပိုင်းသို့ တိုက်စစ်ဆင်၍ ချီတက်ခဲ့လေလည်။ မဟာမိတ်တို့အား လိုလားသည့် ဣတာလျံလူမျိုးများစွာက ဟစ်တလာနှင့် မူဆိုလီနီတို့၏စစ်တပ်နောက်ပိုင်းမှနေ၍အနှောင့်အယှက်ပေးကာ မဟာမိတ်စစ်တပ်များကို ကူညီခဲ့ကြ၏။ ၁၉၄၅ ခုနှစ် ဧပြီလ ၂၆ ရက်နေ့တွင် မူဆိုလီနီသည် သူ၏ ဇနီး၊ သူ၏ အစိုးရအဖွဲ့ဝင်တို့နှင့်အတူ ဆွစ်ဇာလန်သို့ ထွက်အပြေး နယ်စပ်ရှိ ကိုးမိုအိုင်အနီးတွင် ကွန်မြူနစ် ပါတီဝင်များကမိသဖြင့် အားလုံးကိုပစ်သတ်လိုက်လေသည်။

၁၉၄၅ ခုနှစ် မေလ ၈ ရက်နေ့တွင် ဒုတိယ ကမ္ဘာစစ်ပြီးဆုံး သွားသော်လည်း ဣတလီနိုင်ငံတွင်မူကား ပြည်တွင်းရေးများ ရှုပ်ထွေးလျက်ပင် ရှိသေး၏။ ပြည်တွင်းရေးအရှုပ်အထွေးများအတွင်း ဗိုနိုမီ၏အစိုးရအဖွဲ့ နုတ်ထွက်လိုက်ရာ ဖါရူချီ ပါရီသည် ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်ကာ အစိုးရအဖွဲ့ဖွဲ့၍ အုပ်ချုပ်လေသည်။ ထိုအစိုးရအဖွဲ့လက်အောက်တွင်လည်း ပြည်တွင်းရေး တနေ့ထက်တနေ့ပိုပြီးဆူပူလှုပ်ရှားလာသဖြင့်၎င်း၊ အစိုးရ အဖွဲ့ဝင် အခြားသောနိုင်ငံရေးအဖွဲ့များ၏ ကိုယ်စားလှယ်များ ရာထူးမှ နုတ်ထွက်ကြသဖြင့်၎င်း ဝန်ကြီးချုပ်ပါရီလည်း ရာထူးမှ နုတ်ထွက်ရပြန်လေသည်။ ၁၉၄၅ ခုနှစ် ဒီဇင်ဘာလ ၁၀ရက်နေ့တွင် အယ်ဆီဒီ ဒါဂက်စပါရီဆိုသူ ဝန်ကြီးချုပ် အဖြစ်နှင့်ညွန့်ပေါင်းအစိုးရအဖွဲ့တခုထပ်မံဖွဲ့စည်းခဲ့ပြန်လေသည်။

ဒီမိုကရေစီစနစ်အရ ဖွဲ့စည်း အုပ်ချုပ်ခဲ့သော်လည်း ဣတလီနိုင်ငံတွင် တတိယ ဗစ်တာအီမန်နျူးအယ်ကပင် ဘုရင်အဖြစ် စိုးစံလျက်ရှိ၏။ တတိယ အီမန်နျူးအယ်ဘုရင်သည် ဘုရင်အသစ်ရလျှင် ဣတလီနိုင်ငံသားတို့က ဘုရင့်အစိုးရကို ထောက်ခံကြလိမ့်မည်ဟု မြော်လင့်ကာ ၁၉၄၆ ခုနှစ်မေလ ၉ ရက်နေ့တွင် ထီးနန်းစွန့်ပြီးလျှင် သူ၏သားတော်ဟမ်းဗတ်အား ဒုတိယဟမ်းဗတ်အဖြစ် ထီးနန်းဆက်ခံစေသည်။ သို့ရာတွင် ထိုနှစ်အတွင်း ကျင်းပသောလူထုဆန္ဒခံယူပွဲတွင် သမတအစိုးရတည်ထောင်လိုသူများက အနိုင်ရသွားလေရာ ဒုတိယ ဟမ်းဗတ်ဘုရင်သည်လည်း နန်းသက်၃၅ရက်ခန့်မျှနှင့်ထီးနန်းမှ ဆင်းရလေတော့သည်။

အရီချီ ဒါ နီကိုလာသည် ဣတလီသမတနိုင်ငံ၏ပဌမဆုံးယာယီသမတဖြစ်၏။ ၁၉၄၈ ခုနှစ်တွင် အိုင်နိုဒီအားသမတအဖြစ် ရွေးကောက် တင်မြှောက်လိုက်ကြ လေသည်။ သမတ၏သက်တန်းမှာ ခုနစ်နှစ်ဖြစ်လေသည်။

**အီကောလူမျိုး။** ။ကောလူမျိုး — ရှု။

**အီကော်လိုဂျီ။** ။အီကော်လိုဂျီသည် ဇီဝဗေဒဆိုင်ရာ သိပ္ပံပညာ၏ ပညာရပ်ခွဲတခုဖြစ်၍ ထိုပညာရပ်သည် သက်ရှိများနှင့် ယင်းတို့၏ ပတ်ဝန်းကျင်များအချင်းချင်း ဆက်သွယ်နေပုံ များကို လေ့လာသော ပညာရပ် ဖြစ်သည်။ သိပ္ပံပညာရပ်များအနက် အီကော်လိုဂျီသည် နောက်အကျဆုံး ပေါ်ထွက်လာသော ပညာရပ်များတွင် ပါဝင်သည်။ ထိုပညာရပ်ကို သိခြင်းဖြင့် မြေဆီလွှာကို မည်ကဲ့သို့ ထိန်းသိမ်းထားနိုင်ပုံကို သိနိုင်လေသည်။ တိရစ္ဆာန်နှင့် အပင်များက ပတ်ဝန်းကျင်ကို မည်ကဲ့သို့ အကျိုးသက်ရောက်စေပုံနှင့် ထိုတိရစ္ဆာန်နှင့် အပင်များမည်ကဲ့သို့ အချင်းချင်း အကျိုးပြုနိုင်ပုံများကိုလည်း သိနိုင်သည်။

သက်ရှိ အမြောက်အမြားရှိသည့်အနက် သက်ရှိတမျိုးတည်းသာရှိခြင်းကိုတွေ့ရခဲလေသည်။ တိရစ္ဆာန်၊သို့မဟုတ် အပင်တမျိုးမျိုးကို တွေ့ရသောနေရာတွင် အနီးအနား၌ အခြားတိရစ္ဆာန်၊ သို့မဟုတ် အပင်များကို တွေ့ရမည်မှာ သေချာသလောက် ဖြစ်သည်။ ဆဟာရာ သဲကန္တာရနှင့် အာတိတ်၊ သို့မဟုတ် အန္တာတိတ် ဒေသကဲ့သို့ လွန်စွာပူပြင်းသော၊သို့မဟုတ် လွန်စွာချမ်းအေးသောနေရာမျိုးတွင်သာ တနေရာ၌ တွေ့ရသော သက်ရှိမျိုး၏ အရေအတွက်သည် နည်းပါးမည် ဖြစ်လေသည်။ ရာသီဥတု ပိုမို၍ကောင်းမွန်သော နေရာ မျိုးတွင်မူ သက်ရှိ မျိုးစိတ်အမြောက်အမြား ရှိသည်ကို တွေ့ရပေလိမ့်မည်။

တနေရာရာတွင် သက်ရှိတမျိုးမျိုးရှိနိုင်ရန် ထိုနေရာရှိ မြေဆီလွှာ၏ အမျိုးအစား၊ ရေငွေ့ ပမာဏနှင့် အလင်း၊ ပြောင်းလဲနေသော အပူချိန်နှင့် ရာသီဥတုများနှင့် သင့်ရပေမည်။ ထိုပြင် ထိုနေရာရှိ သက်ရှိများသည် တမျိုးနှင့်တမျိုး အနည်းဆုံး ထိုအချိန်အတွင်း၌ အဆက်အသွယ်ရှိနိုင်ကြရလေသည်။ ထိုသို့ သက်ရှိ အဖွဲ့ အစည်းများဆက်လက်၍ တည်ရှိသွားနိုင်ကြစေရန် ရှုပ်ထွေး သိမ်မွေ့သော မျှတမှု ရှိနေရလေသည်။ သို့သော် မပြောပလောက်သည့်ပြောင်းလဲချက်ကလေး ရှိလာသည်နှင့်တပြိုင်နက် သက်ရှိအဖွဲ့အစည်းတွင် ကမောက်ကမ ဖြစ်လာ လေတော့သည်။

အီကော်လိုဂျီတွင် နေရာတနေရာ၌ အစာရရှိရေးသည် အလွန်အရေးကြီးသော အချက်တချက် ဖြစ်သည်။ အပင်စိမ်းများက အစာကို ပြုလုပ်ပေးခြင်းသည် အခြားသက်ရှိများအဖို့ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ ဖြစ်စေ အစာကိုရရှိစေလေသည်။ တိရစ္ဆာန် အမြောက်အမြားက အပင်များကို စားသောက်ကြသဖြင့် ထိုအပင်များ၏ အရေအတွက်နှင့် အမျိုးအစားက ထိုနေရာတွင်ရှိမည့် တိရစ္ဆာန်၏ အမျိုးအစားကို သတ်မှတ် ပေးလေသည်။ သားစားတိရစ္ဆာန်များသည် သူတို့ စားလိုသော သားကောင်များရှိရာဒေသကို ရှာဖွေကာ နေထိုင်ကြလေလည်။

သက်ရှိများ တမျိုးနှင့်တမျိုး တုန့်ပြန်မှုကို လေ့လာခြင်းသည်လည်း အီကော်လိုဂျီတွင် ပါဝင်သည်။ အပင်များက တိရစ္ဆာန်များကို ယင်းတို့၏ ရန်သူများအား ကာကွယ်ပေးခြင်းကိုသော်၎င်း၊ ရာသီဥတု ဆိုးရွား ခြင်းမှ တားဆီး ခြင်းကို သော်၎င်း ပြုလုပ် ပေး သည်။ ထိုပြင် ကိုတိရစ္ဆာန်များ နေထိုင်ရန်အတွက် ပစ္စည်းကိရိယာ ဖြစ်စေလေသည်။ တိရစ္ဆာန်များက အစေ့များကို ဖြန့်ကြဲပေးခြင်းဖြင့် အပင်များကို တိုးပွားစေသည်။ တီမျိုးများနှင့် အခြားမြေတူး တိရစ္ဆာန်များက အပင်ကြီးထွားနိုင်စေရန် မြေဆီလွှာကို ပိုမို၍ ကောင်းမွန်စေသည်။

အချို့ ပေါက်ဖတ်မျိုးသည် အပင်တမျိုး၏ အရွက်များကိုသာ စားသောက်နိုင်သည်။ ထို့ကြောင့် ထိုအပင်မျိုးမပေါက်ရောက်သော နေရာမျိုးတွင် ထိုပေါက်ဖတ်မျိုး နေနိုင်လိမ့်မည် မဟုတ်ချေ။ တိရစ္ဆာန်နှင့် အပင်များသည် တမျိုးနှင့်တမျိုး အပေါ်တွင် ကပ်ပါးများ အဖြစ်နှင့် နေထိုင်ကြလေသည်။ အချို့ တီမျိုးနှင့် ပိုးကောင်အမြောက်အမြားသည် အခြားသက်ရှိများထံမှ အစာကို ရရှိခြင်းမှာ ထင်ရှားသော သာဓကများ ဖြစ်သည်။ တခါတရံတွင် သက်ရှိနှစ်မျိုးသည် တမျိုးနှင့် တမျိုး အပြန်အလှန်အကျိုးကျေးဇူးရှိသော ဆက်ဆံခြင်းမျိုးဖြင့် ရင်းနှီးစွာ ဆက်ဆံနေကြသည်ကို တွေ့နိုင်လေသည်။ ထိုကဲ့သို့သော နေထိုင်ခြင်းမျိုးကို ဆင်ဗိုင်အိုစစ်ဟု ခေါ်သည်။ ထိုအခြေအနေမျိုးကို ထင်ရှားစေသော သာဓကမှာ ခြမျိုးနှင့် ပရိုတိုဇွန်းကောင်တို့ ဖြစ်သည်။ သေးငယ်သည့် ပရိုတိုဇွန်းကောင်ကလေးများသည် ခြတို့၏ အုံအတွင်း၌ နေထိုင်လေသည်။ ပရိုတို ဇွန်းကောင် ကလေး များက ခြတို့၏ အစာအချို့ကို စားပစ်သည်မှာ မှန်၏။ သို့သော် ခြတို့မချေနိုင်သည့် သစ်သား ဆဲလျူလို့ကို ပရိုတိုဇွန်းကောင်ကလေးများက ချေပေးလေသည်။ (ဆင်ဗိုင်အိုစစ်။ ပရိုတိုဇွန်းကောင် — လည်းရှု။)

အီကော်လိုဂျီကို လေ့လာ လိုက်စား ထားသူသည် သဘာဝအတွင်း၌ အကျိုးရှိစေနိုင်သော မျှတမှုကို ထိန်းသိမ်းပေးနိုင်လေသည်။ လယ်ယာကို ထွန်ယက်သောအခါ၌ ဖြစ်စေ၊ သစ်တောများကို ခုတ်ပစ်သောအခါ၌ဖြစ်စေ အပင်နှင့် တိရစ္ဆာန်တို့၏ အပြောင်းအလဲကို အုပ်ထိန်းပေးနိုင်လေသည်။ မီးလောင်သောအခါ၊ ကျွဲ နွားများ မြက်များကို အစားလွန်သောအခါ၊ မြစ်ရေက ကမ်းကို တိုက်စားသောအခါနှင့် ရေလွှမ်းသောအခါများတွင် ဖြစ်ပေါ်လေ့ရှိသောအပြစ်များမှလည်း တားဆီးပေးနိုင်လေသည်။ အီကော်လိုဂျီ စည်းမျဉ်း များကို သိထားလျှင် မြေမှ သဘာဝအလျောက် ရရှိသော ပစ္စည်းများကို ထိန်းသိမ်းပေးနိုင်လေသည်။ ထိုမျှမကသေး၊ ဆင်ခြင် တိုင်းထွာပြီးလျှင် ထိုပစ္စည်းများကိုလည်း သုံးစွဲနိုင်ပေသည်။

**အီဂျစ်ထုံးဟောင်းပုံပြင်များ။** ။မြေ၊ ရေ၊ လေ၊ မီး စသည့် သဘာဝတရားများကို တန်ခိုးရှင် နတ်များဟု ရှေးသူဟောင်းတို့ အယူရှိခဲ့ကြသည်။ ထိုတန်ခိုးရှင် နတ်များမှာ လူသားတို့ထက် တန်ခိုးဣဒ္ဓိပါဒ် ကြီးမားသူများဖြစ်၍ ကိုးကွယ်ဆည်းကပ်ထိုက်သည်ဟု ရှေးသူဟောင်းတို့သည် နတ်များကို ကိုးကွယ် ဆည်းကပ်ခဲ့ကြသည်။ အီဂျစ်ရှေးသူဟောင်းတို့သည်လည်း ဤနည်းနှင်နှင့် နေနတ်သား၊ ရေနတ်သား စသည်ဖြင့် ကိုးကွယ်ဆည်းကပ်ခဲ့ကြသည်။

သို့သော် အီဂျစ် ရှေးသူဟောင်းတို့မှာ တရွာလျှင် နတ်တပါးကျစီ ကိုးကွယ်ခဲ့ကြ၍ မြို့ကြီး ပြကြီးများ၌လည်း ထိုအတိုင်းပင်ဖြစ်ခဲ့ကြသည်။ထိုနောက်တွင်မှ ကျေးရွာနတ်များ တဖြည်းဖြည်း ပပျောက်လာကာ မြို့ပြနတ်ကြီးများကိုသာ ကိုးကွယ်လာကြသည်။ ယင်းသည့် တိုင်အောင်ပင် နတ်များမှာ များပြားလျက်ပင် ရှိကြသေးရာ နောင်အခါတွင် လောက၌ ကိုးကွယ်ဆည်းကပ်ရာ ဘုရားတဆူတည်း ဝါဒကိုပင် ဖြန့်ခဲ့သော်လည်း များစွာထမြောက် အောင်မြင်ခြင်း မရှိခဲ့ချေ။ (နတ် — လည်းရှု။)

အီဂျစ်တို့သည် သဘာဝ တရားများကိုသာ နတ်များအဖြစ် ကိုးကွယ်ကြသေးသည် မဟုတ်သေး။ငှက်တိရစ္ဆာန်တို့မှာလည်း နတ်မင်းများ ဝင်စားသည်ဟူ၍ ငှက်တိရစ္ဆာန်များကိုလည်း အထွတ်အမြတ်ထားကာ ကိုးကွယ် ကြသေးသည်။ အီဂျစ် ရှေးဟောင်း နတ်ရုပ်များမှာ တိရစ္ဆာန်ရုပ်များ၊ တိရစ္ဆာန်ခေါင်း လူကိုယ်ခန္ဓာတို့ဖြင့် သရုပ်ဖော်ပြထားလေ့ ရှိကြလေသည်။

ထို့ကြောင့်လည်း အီဂျစ်နတ်များတွင် တန်ခိုးအကြီးဆုံး နတ်မင်းဖြစ်သော ရေး၊ သို့မဟုတ် ရား နတ်မင်းကို သိမ်းငှက် ဦးခေါင်းတပ်လျက် တွေ့မြင်ကြရသည်။ ထိုနတ်မင်းမှာ နေနတ်မင်း ဖြစ်သည်ဟုလည်း အယူရှိကြသဖြင့် ဦးခေါင်းထက်တွင် နေ၏ အထိမ်းအမှတ်သင်္ကေတ အပြားဝိုင်းကလေးတွင် အတောင်တပ်၍ ဖော်ပြလေ့ ရှိကြသည်။

အီဂျစ် ထုံးဟောင်းပုံပြင်အရဆိုလျှင် ကမ္ဘာလောကကြီးတွင် သက်ရှိသက်မဲ့တို့ မပေါ်ပေါက်မီက အဏ္ဏဝါ ရေပြင်ဖြင့်သာ ဖုံးလွှမ်းလျက် ရှိခဲ့၏။ ထိုအခါ ရေပြင်ထက်တွင် ဥကြီးတလုံး ပေါ်လာပြီးလျှင် ထိုဥကြီးမှ ရေးနတ်မင်းကို ပေါက်ဖွား ခဲ့သည်။ ရေးနတ်မင်းသည် ကက် (ကမ္ဘာမြေပြင်)နှင့် နတ် (မိုးကောင်းကင်)တို့ကို ပေါက်ဖွားစေသည်။ ကက်နှင့် နတ်တို့က တဖန် အိုဆိုင်းရစ်နှင့် အိုင်ဆစ်တို့ကို ပေါက်ဖွားပြန်သည်။ အိုဆိုင်းရစ်နှင့် အိုင်ဆစ်တို့၏သားတော်မှာ ဟိုရပ် နတ်သားဖြစ်ပေသည်။

ရေးနတ်မင်းသည် ကမ္ဘာလောကကြီးတွင် နှစ်ပေါင်းအခွန့်ကြာရှည်စွာ အုပ်စိုးခဲ့ရာ အိုဆိုင်းရစ်၏ ကြင်ယာတော် အိုင်ဆစ်နတ်သမီး ခေါင်းဆောင်သော နတ်များနှင့် လူသားတို့က ပုန်ကန်ခြင်းကြောင့် မိမိ၏ရိုက်ရာ စည်းစိမ်ကို စွန့်လွှတ်ကာ ကောင်းကင်ဘုံ၌ သွားရောက် စံမြန်းနေခဲ့ရသည်ဟု ဆို၏။

အိုဆိုင်းရစ်နတ်မင်းကား သုစရိုက်နတ်မင်း ဖြစ်သည်။ အီဂျစ်တို့၏ တန်ခိုးကြီး နတ်တပါးလည်း ဖြစ်၍ လယ်ယာစိုက်ပျိုးရေးကို စောင့်ရှောက်သည်။ထို့ပြင် အီဂျစ်နိုင်ငံ၏ အသက်သွေးခဲဖြစ်သော နိုင်းမြစ်ကြီးကို စောင့်သည့် နတ်မင်းလည်း ဖြစ်သည်။ အိုဆိုင်းရစ် နတ်မင်း၏ ပုံပန်း

သဏ္ဍာန်ကို ဖော်ပြကြရာ၌ တခါတရံ ဆင်နှာမောင်း တပ်လျက်ငင်း၊ တခါတရံ ငန်းခေါင်းတပ်ဆင်လျက်ငင်း၊ တခါတရံနွားသိုး၏ချိုကို ဦးခေါင်း၌ တပ်ဆင်လျက်ငင်း ဖော်ပြရေးသားထုလုပ်တတ်ကြ၏။

အီဂျစ်ထုံးဟောင်းပုံပြင်များ၌ နတ်ကောင်းတို့ကို ဒုက္ခပေးသော နတ်ဆိုးများအကြောင်းလည်း ပါရှိပေသည်။ ဆက်မှာ နတ်မိစ္ဆာဖြစ်၍ အမိုက်ငှမှောင်နတ် ဖြစ်သည်။ အိုဆိုင်းရစ်နှင့် ညီအစ်ကိုတော်လည်း ဖြစ်၏။ ဆက်နှင့် အိုဆိုင်းရစ်တို့ တိုက်ခိုက်ကြရာ အိုဆိုင်းရစ် ကျဆုံး၍ ခန္ဓာကိုယ် အပိုင်းပိုင်း အဖြတ်ခံရသည်။ သို့သော် ထိုနတ်မင်းသည် မရဏနိုင်ငံသို့ ရောက်သွားကာ ထိုနိုင်ငံကို စိုးမိုးသူ နတ်မင်းကြီး ဖြစ်နေလေသည်။

အိုဆိုင်းရစ်၏ သားတော် ဟိုရပ်သည် ဆက်နတ်ဆိုးအား သတ်ဖြတ်၍ ခမည်းတော်အတွက် လက်စားချေလေသည်။ ဟိုရပ် နတ်မင်းကား အလင်းရောင်နတ် ဖြစ်သည်။ ထိုနတ်မင်း၏ ပုံပန်းသဏ္ဍာန်ကို ဖော်ပြရာ၌ သိန်းငှက်၏ ဦးခေါင်း တပ်လျက် ဖော်ပြကြလေသည်။ ထိုနတ်မင်းကား ကမ္ဘာမြေပြင်ကို အစိုးရသူ ဖြစ်၏။

အိုင်ဆစ်နတ်သမီးမှာ အိုဆိုင်းရစ် နတ်မင်း၏ နှမတော်လည်း ဖြစ်၍ ကြင်ယာတော်လည်း ဖြစ်ကာ အီဂျစ် နတ်သမီးများထဲတွင် တန်ခိုးအကြီးဆုံး ဖြစ်ပေသည်။ အိုဆိုင်းရစ်နတ်မင်းအားဆက်နတ်ဆိုးကသတ်ဖြတ်ပြီးနောက် ခန္ဓာကိုယ်ကို အပိုင်းပိုင်းဖြတ်၍ လျှို့ဝှက်ထားသည်ကို မတွေ့တွေ့အောင် ရှာခဲ့သည်။ သားတော် ဟိုရပ်က ခမည်းတော်အတွက် လက်စားချေရန် ဆက်နတ်ဆိုးကို ဖမ်းဆီးချုပ်နှောင်ထားသောအခါ အိုင်ဆစ်က ဆက်အား လွှတ်ပစ်ခဲ့သည်။ ထိုကြောင့် ဟိုရပ်က မယ်တော်၏ဦးခေါင်းကို ဖြတ်ခဲ့သည်။ ထိုနောက်မှ နွားမ၏ ဦးခေါင်းကို တပ်ဆင်ပေးခဲ့၏။ သို့ဖြင့် အိုင်ဆစ် နတ်သမီး၏ ရုပ်တုများတွင် နွားမဦးခေါင်း တပ်ဆင်လျက် တွေ့ကြရခြင်း ဖြစ်သည်။

ထိုနတ်မိသားစုများအပြင် အခြား ထင်ရှားသောနတ်များလည်း ရှိပေသေးသည်။ ယင်းတို့တွင် တားနတ်မင်းမှာ လက်မှုပညာသည်နှင့် အနုပညာသည်တို့၏ နတ်မင်းဖြစ်သည်။ နိတ်မှာ စစ်မက်ဆိုင်ရာ နတ်သမီးဖြစ်၍ မက်မှာ သစ္စာတရားကို စောင့်ရှောက်သောနတ်သမီးဖြစ်ပေသည်။ ထို့ပြင် ဒေသန္တရဆိုင်ရာ ထင်ရှားသော နတ်များလည်း ရှိကြသေးရာ သာဓကဆောင်ရသော် သီးဗီးမြို့တော်နတ် အမွန်၊ ဟာမိုပိုလစ်မြို့တော်နတ် သော့နှင့် သဲကန္တာရ နတ် မင်းတို့ ဖြစ်ကြ၏။

လူတို့ သေပြီးသည့်နောက်တွင် တမလွန်ဘဝ ရှိသည်။ လူ၏ ခန္ဓာကိုယ်မှ စွန့်ခွာသွားသော ဝိညာဉ်သည် ကျန်ရစ်ခဲ့သော ခန္ဓာကိုယ်ကြီးကို မပျက်မစီးပဲ ကြာရှည်ခံအောင် ပြုပြင်စီရင်ထားမှသာလျှင် ဝိညာဉ်လည်း တည်မြဲနေနိုင်သည်ဟု အယူရှိကြသည်။ ထို့ကြောင့် အီဂျစ်တို့သည် လူသေအလောင်းများကို မပျက်မစီးရအောင် ဆေးရည်စိမ်ကာ မံမီများ ပြုလုပ်ထားခဲ့ကြ၏။ (မံမီရုပ်ကလာပ် — ရှု)။ ထို့ပြင် လူခန္ဓာကိုယ်မှ စွန့်ခွာလာခဲ့သော ထိုဝိညာဉ်၏ နောင်ရေးမှာ မူလပိုင်ရှင်၏ အသည်းနှလုံးကို ဟိုရပ်က သစ္စာတရားတည်းဟူသော အလေးချိန်နှင့် ချိန်ဆ ကြည့်ပြီးမှ ဆုံးဖြတ် ချမှတ်သည့် အပေါ်တွင် တည်နေပေ၏။ ယင်းသို့ ချိန်တွယ် ကြည့်ရှုသည်ကို သစ္စဝါဒီ နတ်သမီး မက်က စောင့်ကြပ်ကြည့်ရှုပြီးနောက် စာရေးတော် နတ်မင်း သော့က မှတ်တမ်း တင်ရသည်ဟု ရှေး အီဂျစ်သူဟောင်းတို့ ယုံကြည်ကြလေသည်။

**အီဂျစ်၊ရှေးခေတ်။** ။ကမ္ဘာပေါ်တွင် ယဉ်ကျေးမှု၌ ရှေးအကျဆုံး နိုင်ငံတခုဖြစ်သည့်အီဂျစ်နိုင်ငံ၏ရှေးဟောင်းသမိုင်းသည် အဆန်းတကြယ် အံ့သြဖွယ်တို့နှင့် ပြည့်လျက်ရှိရာ အဆောက်အအုံ၊ဝတ္ထု ပစ္စည်း၊ စာပေအမှတ်အသားမှစ၍ သက်သေခံ အထောက်အထားများလည်း ရှိနေလေသည်။

အီဂျစ်နိုင်ငံသည် အာဖရိကတိုက်၏ မြောက်ပိုင်းတွင် တည်ရှိ၍ ပင်လယ်နီ၏ အနောက်ဖက်ကမ်းအထိရောက်၏။ မြောက်ဖက်တွင် မြေထဲပင်လယ်နှင့် ဆက်စပ်လျက် ရှိရာ ၃၈၆,၁၉၈ စတုရန်းမိုင်ကျယ်သော်လည်း ထွန်ယက် စိုက်ပျိုးနိုင်သည့်မြေမှာ စတုရန်းမိုင်ပေါင်း ၁၂,၀၀၀ ခန့် သာရှိ၏။ အီဂျစ်နိုင်ငံကို ဖြတ်သန်း စီးဆင်းလျက် ရှိသော နိုင်းမြစ်ကြီးသည် မိုင် ၄,၁၄၅ ခန့်ရှည်လျား၍ ကမ္ဘာပေါ်တွင် အရှည်ဆုံးမြစ်ကြီးတသွယ်ဖြစ်လေသည်။

ဤမြစ်ကြီးကို ဆန်တက်သော် လွန်ခဲ့သော နှစ်ပေါင်း ခြောက်ထောင် ခုနစ်ထောင် ခန့်က တည်ထား ခဲ့သည့် သင်းချိုင်းဂူကြီးများနှင့် အထိမ်းအမှတ်အဆောက်အအုံကြီးများသည် ထိုနိုင်ငံ၏ ရှေးခေတ်သမိုင်းကို ကျွန်ုပ်တို့အား ပြန်ကြားပြောဆိုနေဘိသကဲ့သို့ရှိ၏။ လူတို့၏ တိုးတက်မှုသမိုင်းကို ဤနေရာမှာထက်ပို၍ ကမ္ဘာတဝှန်းလုံးရှိ အခြားမည်သည့်နေရာတွင်မျှ ပြည့်စုံစွာ တွေ့နိုင်မည်မဟုတ်ချေ။

ရွှံ့မံတဲကုပ်ကလေးများတွင် နေထိုင်ခဲ့ရာမှ ပိုမိုခိုင်ခန့်သော အဆောက်အအုံများကို ဆောက်လုပ် တတ်လာခြင်း၊သတ္တုများကို တူးဖော်အသုံးပြုတတ်လာခြင်း၊စာဖြင့်ရေးသားမှတ်တမ်းတင်တတ်လာခြင်း စသည်ဖြင့် နိုင်းမြစ်ဝှမ်းတွင် အဓိကအားဖြင့် ရှေးဦးယဉ်ကျေးမှု အစပျိုးခဲ့လေသည်။ ထိုဒေသ၏ရာသီဥတု ခြောက်သွေ့ခြင်း၊ မိုးပါးခြင်း၊ သဲအတိရှိခြင်းတို့ကလည်း ရှေးဟောင်းယဉ်ကျေး



ရှေးအီဂျစ်ဘုရင်များ၏ အလောင်းများထားရာ ပိရမစ်အဆောက်အအုံကြီးများကို ယခုထက်တိုင် ကျောက်တောင်ကြီးများသဖွယ် မားမားမတ်မတ် တွေ့ရသေးသည်။

မှ အကြွင်းအကျန်များကို တာရှည်ခံစေရန် ကူညီ ထိန်းသိမ်းပေးသကဲ့သို့ ရှိနေသောကြောင့် အခြား နိုင်ငံများထက် ဤနိုင်ငံတွင် ပိုမိုတွေ့ရခြင်းဖြစ်လေသည်။

သဲမြေ၏အောက် ကျောက်မြေလွှာတွင် ရှေးအခါက လူကောင်မြှုပ်ရာ တွင်းကြီးများနှင့် လူရိုးများကိုတွေ့ရ၍ ထိုလူရိုးများမှာ လွန်ခဲ့သော နှစ်ပေါင်း ၆၆,၀၀၀ ခန့် ကျောက်ခေတ်နှောင်းမှ တောင်သူလယ်သမား များနှင့် အကြီးအကဲတို့၏ အရိုးများဖြစ်သည်ဟု ယူဆကြသည်။ထို အရိုးစုများအနီးတွင်ကျောက်ဖြင့် ပြုလုပ်ထားသောအသုံးအဆောင်ပစ္စည်းများနှင့် မြေအိုး၊ မြေခွက်များကိုလည်း တွေ့ရလေရာ သတ္တုကိုအသုံးမပြုတတ်သေးမီကပင်အစားအစာနှင့် သောက်ရေသုံးရေထည့်ရန် အိုးခွက်များကိုကျနစွာ လုပ်နိုင်ကြောင်းသိရလေသည်။

ဆေးရေး အရုပ်များကို ကြည့်ရခြင်းအားဖြင့်လည်း အကြီးအကဲလုပ်သူများသည် ရေသွယ် တူးမြောင်း တာတမံများကို ကြီးကြပ်အုပ်ချုပ်ပုံနှင့်တကွ ကောက်ပဲသီးနှံနှင့်လျှော်များကို အခွန်တော်အဖြစ် ခံယူပုံများကိုသိရ၏။ ထို့မှတပါး ထိုခေတ်ကအသုံးပြု၍ ကြွင်းကျန် ရစ်ခဲ့သော အဝတ်ပိုင်းများ၊ ဂျုံစပါး၊ မုယောစပါးများ၊ လှေငယ် တက်စင်းပုံများ ရေးခြယ်ထားသည့် ပန်းစိုက်အိုးကြီးများကိုမြင်ရသဖြင့် ထိုခေတ်က အခြေအနေကို ခန့်မှန်းနိုင်လေသည်။

အလွန်ရှေးကျသည်ဆိုသော ဂရိတို့ပင် အီဂျစ်နိုင်ငံနှင့် စာသော် ကလေးအရွယ်မျှသာရှိသေး၏။ အဘယ်ကြောင့်ဆိုသော် လွန်ခဲ့သော နှစ်ပေါင်း ၂,၀၀၀ ခန့်က အီဂျစ်နိုင်ငံကို အုပ်စိုးသွားသည့် ကလီယိုပါးထရားဘုရင်မခေတ် မတိုင်မီကပင် နှစ်ပေါင်း ၂,၀၀၀ ခန့် ကျော်လွန်ခဲ့ပြီ ဟု သမိုင်းများတွင် ဖော်ပြထားသောကြောင့်တည်း။

လွန်ခဲ့သော နှစ်ပေါင်းအနည်းငယ်က ရှေးဟောင်းပစ္စည်းကမ္ပည်းကျောက်စာများ တူးဖော်သူတို့၏ ကျေးဇူးကြောင့်သာ အီဂျစ်နိုင်ငံ၏သမိုင်းစဉ်များကို ကောင်းစွာ သိရှိနိုင်ကြပြီးလျှင် ခရစ်မပေါ်မီ နှစ်ပေါင်း ၅,၀၀၀ ခန့်က အီဂျစ်ပြည်သားများသည် ထိုစဉ်က ရှံ့မံထားသည့် တဲပုတ်များ၌နေထိုင်ကာ ကျောက်တုံးများ၊ အမဲရိုးများ ကို လက်နက်ကရိယာများပြုလုပ်အသုံးပြုခဲ့ကြကြောင်း၊ သတ္တု၏ အမျိုးမျိုးအသုံးဝင်ပုံကို တစတစ သိလာကြကြောင်း၊ ထိုစဉ်ကပင် လူများသည် လယ်မြေများတွင် ရေကိုသွင်းယူ၍ စပါး၊ ဂျုံစသည်တို့ကို စိုက်ပျိုးကြောင်း၊ အထည်ရက်ခြင်း၊ အိုးခွက် လုပ်ခြင်း စသည့် အလုပ်များကိုလည်း လုပ်ခဲ့ကြောင်း စသည်တို့သည် ဘွင်းဘွင်းကြီး ပေါ်လာလေသည်။

၁၇၉၉ ခုနှစ်၌ နပိုလီယန် စစ်သည်တော် များသည် အီဂျစ်နိုင်ငံ၌ ကတုတ် ကျင်းများကို တူးဖော်ရာတွင် အလျား သုံးပေ ကိုးလက်မ အနံ နှစ်ပေ လေးလက်မခန့်ရှိ ချော်နက်ကျောက်တုံးကြီးတခုကို တွေ့ကြရ၏။ နိုင်းမြစ်ဝ တခုရှိ ရိုဇက်တာမြို့အနီးတွင် တွေ့ရ၍ ထိုကျောက်တုံးကို "ရိုဇက်တာကျောက်တုံး"ဟု အမည် ပေးထားလေသည်။ (ရိုဇက်တာကျောက်စာ — ရှု။) ကျောက်တုံးပေါ်ရှိ စာများမှာ ထိုစဉ်ကရုံးသုံးဖြစ်သည့် ဂရိဘာသာနှင့် အီဂျစ်ဘာသာများဖြင့် ရှေးအီဂျစ်ဘုရင်တပါး၏ အမိန့်ပြန်တမ်းအကြောင်းကို ရေးသားထားသည်။ အီဂျစ် ဘာသာဖြင့် ရေးထိုးရာတွင် ဟိုင်ယာရို ဂလစ်ဖစ်ခေါ် ရုပ်ပုံစာရေးနည်းဖြင့်၎င်း၊ ဒီမိုတစ်ခေါ် လူသိများသော ရှေးအီဂျစ် စာရေးနည်းဖြင့်၎င်း ရေးထားသည်ကို တွေ့ရလေသည်။

ဤသို့ဖြင့် ကျောက်စာပညာရှိများသည် ဂရိဘာသာပြန်ကို အီဂျစ်စာမူများနှင့် တိုက်ဆိုင်နှိုင်းရှည့်ကာ အီဂျစ် ရုပ်ပုံစာများဖြင့်ရေးထားသည့်စာများကို ဖတ်လာနိုင်ကြပြီးလျှင် အီဂျစ်နိုင်ငံ၏ ရှေးဟောင်းသမိုင်းများကို အတော်စုံလင်စွာ လေ့လာလိုက်စားနိုင်ခဲ့ကြသည်။

နှောင်းခေတ်များတွင်အီဂျစ်လူမျိုးတို့ တည်ဆောက်ခဲ့သည့် သင်းချိုင်းဂူများကို ကြည့်



ရှေးခေတ် အီဂျစ်လူမျိုးများ ရေသွင်းထွန်ယက်စိုက်ပျိုးနေပုံ

ခြင်းဖြင့် သမိုင်းအစဉ်အဆက်နှင့်တကွ သူတို့၏ တိုးတက်လာပုံကို ကောင်းစွာ သိရလေသည်။ ထို အချိန်သို့ ရောက်သောအခါ အီဂျစ်နိုင်ငံသားများသည် ပ ပိုင်းရပ် စာခွေများ ပြုလုပ်တတ်နေပြီဖြစ်ကြောင်း၊ ရုပ်ပုံစာမှ အက္ခရာဖြင့်ရေးသောစာသို့ တိုးတက်လာပြီဖြစ်ကြောင်း၊ ပုံသွင်း၍လုပ်သော အုတ်၊ ကျောက်ကိုဆစ်၍လုပ်သော အုတ်များကိုသာမက ကျောက်ရုပ်များကိုပင် ထုထွင်းလာနိုင်ပြီ ဖြစ်ကြောင်း သိရ၏။ ထိုအပြင် အံ့သြဖွယ် အကောင်းဆုံးမှာ မပုပ်မသိုး မပျက်မစီးပဲ ပကတိအတိုင်း တည်နေသည့် ရှေးဘုရင်များ၏ အလောင်းများကို တွေ့ရခြင်း ဖြစ်သည်။ (ပ ပိုင်းရပ်ပင်။ မံမိရုပ်ကလာပ် — လည်းရှု။)



ပေပေါင်း ၆ဝ ကျော် မြင့်မားသည့် ကျောက်ရုပ်တုကြီးများ

ကမ္ဘာ့သမိုင်းတွင် အဖြစ်အပျက်တရပ်နှင့် စပ်လျဉ်း၍ အစောဆုံးနှင့် အတိကျဆုံးပြောနိုင်သော ခုနှစ်သက္ကရာဇ်မှာဘီစီ ၄၂၄၁ ခုနှစ်ဖြစ်၍ ထိုနှစ်တွင် အီဂျစ်လူမျိုးတို့သည် ရက်ပေါင်း ၃ဝ စီရှိ၍ လပေါင်း ၁၂ လပါဝင်သည့် ပက္ခဒိန်ကို တီထွင်ခဲ့ကြသည်။ ဘီစီ ၃၄ဝဝ ခန့်တွင် သီးနစ်မြို့၌ ဖွားရာဇာတိရှိသော မီးနီး ဘုရင်သည် ထိုစဉ်က အီဂျစ်အထက်ပိုင်းနှင့် အောက်ပိုင်းဟူ၍ ကွဲပြားနေခဲ့သော နှစ်နိုင်ငံလုံးကို စုပေါင်းအုပ်ချုပ်ခဲ့၏။

သီးနစ်မြို့မှာ ကိုင်ရိုမြို့တောင်ဖက် မိုင် ၃၅ဝ ခန့်အကွာတွင်ရှိ၍ မြို့ပတ်ဝန်းကျင်တွင် မြေအောက် ဂူကြီးအများအပြားကိုတွေ့ရ၏။ တခုသောဂူမှာ မီးနီးဘုရင်သင်းချိုင်းရာပင်ဖြစ်ဟန်ရှိ၍ ထိုဂူတွင်း၌မှတ်တမ်းများ ရေးထိုးထားသည့် ကျောက်စီဆင်စွယ်ပြားများ၊အက်ဗနီသစ်သားပြားများကိုတွေ့ရ၏။ ထိုမှတ်တမ်းများ၌ ထိုခေတ်ကမင်းများကုသိုလ်ကောင်းမှုလုပ်ပုံ၊ စီမံအုပ်ချုပ်ပုံ၊ သံကန္တာရအတွင်းမှ လူရိုင်းများနှင့် စစ်တိုက်ပုံများပါရှိလေသည်။

ဂရိသမိုင်း ဆရာကြီး ဟီရော့ဒိုးတပ် အဆိုအရ ရှေးအီဂျစ်လူမျိုးများသည် အယူဝါဒဆိုင်ရာတွင် အလွန်ရိုသေကိုင်းရှိုင်းသူများ ဖြစ်သည့်အတိုင်း လူ၏ဝိညာဉ်သည် သေပြီးနောက် မပျောက်မပျက်ပဲ တည်နေ၍ ဘဝဆာပါးတွင် အိုဆိုင်းရစ် နတ်မင်းကြီးထံ မိမိဘဝ ကောင်းမှုပြုလုပ်ခဲ့သည့် ကောင်းမှု မကောင်းမှုတို့ကို အစီရင်ခံရကြောင်း။ ထိုဝိညာဉ်သည် မိမိ၏ရုပ်အလောင်း ရှိရာသို့ပြန်လာ၍ မိမိအတွက်ထားသော စားဖွယ် သောက်ဖွယ်များကို စားသောက်ခြင်း၊ ကျမ်းစာများကို ဖတ်ခြင်း၊ အခြားအသုံးအဆောင်များကို ခံစားခြင်းစသော အမှုများကို ပြုလုပ်နိုင်ကြောင်းအယူရှိသည်ဟု ဆိုလေသည်။

သို့ဖြစ်၍လည်း ရှေးအီဂျစ်ပြည့်ရှင် ဖရိုး ဘုရင်များသည် မိမိတို့သင်းချိုင်းရာအတွက် မြေထဲတွင် အုတ်ဖြင့်ပြီးသော ဂူကြီးများကို မသေမီကပင် ကြိုတင်တည်ဆောက်ထားလေ့ရှိကြ၏။ ဘီစီ ၃ဝဝဝ ခန့်သို့ ရောက်လတ်သော် ပိရမစ် ဂူ သင်းချိုင်းကြီးများကို တည်ဆောက် လာကြလေသည်။ (ပိရမစ် — လည်းရှု။)

အီဂျစ်နိုင်ငံသမိုင်း၏ ဒုတိယ အခန်းကို အောက်ပါအမှတ်အသားများဖြင့် သိရ၏။ ကိုင်ရိုမြို့တောင်ဖက် ၁၂ မိုင်ခန့်အကွာတွင် ရှေးမြို့တော်ကြီး ဖြစ်သော မင်းဖစ်မြို့ကြီးရှိရာ ခုနစ်ရာစုနှစ် အတွင်းက အာရပ်လူမျိုးများ ဖျက်ဆီးပစ်လိုက်သောကြောင့် ယခုအခါဂရင်းနိုက်ကျောက်တုံးအချို့၊ ကျောက်ရုပ်တု အကျိုးအပဲ့အချို့နှင့် အုတ်ကျိုးအုတ်ပဲ့အပုံများ အနည်းငယ်သာ တွေ့ရလေတော့သည်။

ရှေးဘုရင်များ၏ အလောင်းများထားရာ ပိရမစ်ကြီးများကား ယခုတိုင် ကျောက်တောင် သဖွယ် မားမားမတ်မတ် တည်ရှိကြသေး၏။ ထိုပိရမစ်များအတွင်း၌ဘုရင်၏ရုပ်ကလာပ်ထားသော သီးခြားအခန်း တခုစီ ရှိမြဲဖြစ်ပေသည်။

ဤအခန်းတွင် ဖဲရိုး ခေါ် ရှေးဘုရင်တို့၏ရုပ်ကလာပ်ကို အီဂျစ်လူမျိုးများ တတ်မြောက်သည့်နည်းဖြင့် နှစ်ပေါင်းများစွာခံလေအောင် ဆေးစိမ်လျက် ကျောက်မျက်ရတနာများ၊ အဖိုးတန်အထည်ကောင်းများဖြင့် ရစ်ပတ်ခြယ်လယ်၍ထား၏။ (မံမီရုပ်ကလာပ် — လည်းရှု။) သို့သော်ကျောက်ခေါင်းများကို ရှေးနှစ်ပေါင်း များစွာကပင် လူမသမာတို့ထွင်းဖောက်၍ အဖိုးတန် ပစ္စည်းများကို ခိုးယူသွားခဲ့ကြပြီးဖြစ်သည်။ မင်းဖစ်မြို့ အနီးတွင် ရှေးအကျဆုံးဖြစ်သော အုတ်ဂူကြီး တခုရှိရာထိုဂူကြီးမှာ ဇိုဇာဘုရင်၏ သင်းချိုင်းဂူဖြစ်၍ မူလထိပ်ပြား အုတ်ဂူကြီးတခုအပေါ်တွင် အုတ်ဂူငယ်များကို အဆင့်ဆင့် ထပ်ကာပုံကျအောင် တည်ထားသောဂူမျိုးဖြစ်လေသည်။

အခြားအံ့ဘနန်း ပိရမစ်သင်းချိုင်းဂူတခုလည်းရှိသေး၏။ ထိုဂူမှာ ဘေးတဖက်လျှင် ၇၅၅ ပေကျော် အလျားရှိ၍ ပေ ၅၀၀ ခန့် မြင့်သည်။ ဂူကြီး၏ အောက်ခြေမှာ ၁၃ ကေခန့်ရှိသည်။ ထိုပိရမစ်ဂူကြီးသည်ဆုံးကျောက်တုံးပေါင်း ၂,၃၀၀,၀၀၀ ဖြင့် တည်ဆောက်ထားသဖြင့် တနေ့လျှင်လူကြမ်းတယောက် အလုပ်လုပ်နိုင်သည့်အင်အားဖြင့် ခန့်မှန်းသော် လူပေါင်း ၁၀၀,၀၀၀နှင့် နှစ်ပေါင်း ၂၀ မျှတည်ဆောက်ပြီးပေလိမ့်မည်။

ထိုဂူကြီးမှာ ကိုင်ရိုမြို့နှင့် မျက်နှာချင်းဆိုင် ဂီးဇာသင်းချိုင်းရာတွင် ရှေးအခါက ခူးဖူးဘုရင် တည်ထားခဲ့သော ဂရိတ်ပိရမစ်ပေတည်း။

လူ၏မျက်နှာနှင့် ခြင်္သေ့ကိုယ်ပုံ သဏ္ဌာန် တည်ထားသည့် စဖင့်ကျောက်ရုပ်ကြီးများအကြောင်းကား ဤသို့ဖြစ်၏။ (စဖင့်ရုပ်များ — လည်းရှု။)

အထက်ပါ ခူးဖူး ပိရမစ်ဂူကြီးနှင့်မနီးမဝေး၌ အတန်ငယ်သေးသော ခါဖရာ ဘုရင်၏ ပိရမစ်သင်းချိုင်းဂူတခုရှိရာ ထိုရှေ့၌ စဖင့် ရုပ်ကြီးတခု ရှိ၏။ ထိုစဖင့်ရုပ်ကြီး၏ ဦးခေါင်းမှာ ခါဖရာဘုရင်၏ ဦးခေါင်းပုံတူ ဖြစ်သည် ဟု အဆိုရှိသဖြင့် အခြားစဖင့် ရုပ်များ၏ ဦးခေါင်းများသည်လည်း အခြားဘုရင်များ၏ ဦးခေါင်းပုံတူများ ဖြစ်ရမည်ဟု ခန့်မှန်းရ၏။ ထိုပိရမစ်များအနီးတွင် အမိုးပြား နှင့် ဆောက်လုပ်ထားသော ဂူငယ်ကလေးများရှိရာ၊ ယင်းသည့် ဂူငယ်ကလေးများမှာ မှူးမတ် သေနာပတိများ၏ သင်းချိုင်းဂူများ ဖြစ်သည်။

ခါဖရာအမည်ရှိ ပိရမစ်ဂူကြီး အနီးတွင် ဘုရားရှိခိုးကျောင်းကြီး တဆောင်ရှိ၍ ခန်းမကြီးမှာ အလွန် ကျယ်ဝန်းပြီးလျှင် လေးမြောင့်ကျောက် တိုင် ကြီး များ ဖြင့် ဆောက်လုပ်ထား၏။ အမိုးပေါ်တွင်ဘုံသုံးဆင့်ရှိရာ အလယ်ဘုံသည် ဘေးနှစ်ဖက်ရှိဘုံများထက်မြင့်၏။ အလယ်အမိုးနှင့်အောက်အမိုး ဆက်သွယ်ထားသည့် နံရံပေါက်များမှ အလင်းရောင်ဝင်နိုင်၍ ဆောက်ထားပုံ လက်ရာများသာမက အင်ဂျင်နီယာအတတ်နှင့် တကွ ပုံစံထုတ်သည့်အတတ်ပညာများသည် အလွန် ချီးကျူးထိုက်ပေ၏။



လူ၏မျက်နှာနှင့် ခြင်္သေ့ကိုယ်ပုံသဏ္ဌာန် တည်ထားသည့် စဖင့်ကျောက်ရုပ်ကြီး

မှူးမတ်သေနာပတိများ၏ သင်းချိုင်းဂူများ၌လည်း ဝတ်ကျောင်းများရှိရာ ဆုန်းကြီးများနေထိုင်လျက် တိုင်းသူ ပြည်သားများက ဘုန်းကြီး များအား ပေးကမ်းထောက်ပံ့ကြ၏။ ဘုန်းကြီး များကမူ သေသူ၏ ဝိညာဉ်အတွက် အစာကျွေးခြင်း၊ ဆုတောင်းမေတ္တာ ပို့သခြင်း၊ ဂါထာမန္တရားရွတ်ဖတ်ခြင်းများကို အချိန်မှန် ပြုလုပ်ပေးလေသည်။ နှောင်းလူများလက်ထက်၌ ပပိုင်းရပ် စာခွေများပေါ်တွင် ဆုတောင်း စာများ၊ ဂါထာမန္တရားများကိုရေး၍လူသေနှင့်တပါတည်းမြှုပ်နှံခဲ့သည်ကိုတွေ့ရသည်။

ပိရမစ်များ တည်ဆောက်ခဲ့သည့်ခေတ်က ပန်းချီ၊ ပန်းပု၊ ကျောက်ဆစ် စသည့် အနုသုခုမပညာရပ်များ တိုးတက်ထွန်းကားနေကြောင်း ထင်ရှား၏။ ပုံတူရုပ်ထုလုပ်သူများက သစ်သားကိုသော်၎င်း၊ကျောက်ကိုသော်၎င်း ပုံတူထုလုပ် နိုင်ပြီးလျှင် ' မျက်လုံးနေရာ၌ ကျောက်သလင်းများကို ထည့်ထားခြင်းဖြင့် သဘာဝကျအောင် ကြိုးစားခဲ့၏။ ဆေးရောင်စုံဖြင့်လည်း နဂိုအတိုင်းနှင့် တူအောင်ဆေးခြယ်ထား၏။ သို့သော် အဝေးကြည့်အချိုးအစားနှင့် တကွ အကြီးအငယ် အချိုးအစားများတွင် မှန်ကန်ခြင်း မရှိသေးချေ။

ဘုရားရှိခိုးကျောင်း နံရံနှင့် အမိုးများ၌ ထုလုပ်ရေးခြယ်ထားသော ရုပ်လုံးနှင့် ပန်းချီကားများမှာ မှူးမတ်မြေပိုင်ရှင်ကြီးများ အုပ်စိုးရာ ဒေသ၏ ပတ်ဝန်းကျင်ဘဝကို ဖော်ပြသည်။ ယင်းတို့၏ ကျွဲအုပ် နွားအုပ်များကို၎င်း၊ လယ်သမားတို့ ထွန်ယက်စိုက်ပျိုးနေပုံကို၎င်း တွေ့ရသည်။ ထို့ပြင် လက်မှုပညာသည်များသည် မိမိတို့ဆိုင်ရာ လုပ်ငန်းများ လုပ်ကိုင်နေပုံကိုလည်း ဖော်ပြထားသည်ကို တွေ့ရလေသည်။

ပိရမစ်များကို စတင်တည်ဆောက်သည့် ဘုရင်များလက်ထက်တွင် အီဂျစ်နိုင်ငံ၌ ယဉ်ကျေးမှု အနုပညာများ ထွန်းကားနေရုံမျှမက လက်မှုပညာများလည်း ထွန်းကားခဲ့ကြောင်း သိရ၏။ ထို့ပြင် ဘုရင်များ ကိုယ်တိုင်လည်း ပစ္စည်းဘဏ္ဍာ ရတနာ ရွှေငွေနှင့် ပြည့်စုံကြောင်း၊ တန်ခိုးအာဏာ ဩဇာတိက္ကမနှင့် ပြည့်စုံကြောင်း ထင်ရှား၏။ ထိုခေတ်က ကောက်ပဲသီးနှံကိုသော်၎င်း၊ သက်ရှိတိရစ္ဆာန်များကိုသော်၎င်း အထည်အလိပ်၊ ဝိုင်အရက် ပျားရည်မှစ၍ သက်မဲ့ဝတ္ထုပစ္စည်းများကိုသော်၎င်း အခွန်တော်အဖြစ် ပေးဆောင်ကြရ၏။

ဘုရင်များကိုယ်တိုင်ကပင် ဖီနီရှားနိုင်ငံနှင့် အာဖရိကတိုက် အရှေ့ဖက်ကမ်းရိုးတန်းသို့ သင်္ဘောများ စေလွှတ်ကုန်သွယ်စေခြင်း၊ဆူဒန်နယ်သို့ မြည်းဝန်တင်များလွှတ်ကာ ဆင်စွယ်၊ ငှက်ကုလားအုပ်မွေး၊ အမွှေး နံ့သာများကို လဲလှယ်ဝယ်ယူစေခြင်း စသည်တို့ကို ပြုလုပ်ခဲ့လေသည်။

ဤသို့ ယဉ်ကျေးမှုများ ထွန်းကားသည့်ခေတ် (ပိရမစ်ခေတ်) မှာ နှစ်ပေါင်း ၅၀၀ ခန့် တည်နေခဲ့ပြီးနောက် ဘီစီ ၂၅၀၀ ခန့်တွင် အီဂျစ် မှူးကြီး မတ်ကြီးများသည် ဆင်းရဲသား၊ လယ်သမားနှင့် အလုပ်သမားတို့ အပေါ်တွင် ကံကျွေးချစံနစ်ဖြင့် လွှမ်းမိုးလာစ ပြုတော့၏။ ဤသို့ဖြင့် ဘုရင်များ အပေါ်၌ပင် တုပြိုင် ကျော်လွှန်နိုင်ခဲ့ကြလေသည်။ ထိုမြေပိုင်ရှင် မှူးမတ်ကြီးများ၏ သင်းချိုင်းဂူများကို နိုင်းမြစ်ဝမှ မိုင် ၂၀၀ ခန့် မြစ်ညာသို့ ဆန်တက်သောအခါ မြစ်ကမ်းဘေးတွင် တွေ့မြင်နိုင်လေသည်။

ထိုသင်းချိုင်းဂူများတွင် ရှေးအကျဆုံးသော ပပိုင်းရပ်စာခွေ စာအုပ်များကို တွေ့ရ၏။ အချို့စာအုပ်များ၌ ပုံဝတ္ထုများ ပါရှိ၍ အာရှတိုက်အတွင်း စွန့်စားသွားရောက်ပုံများ သင်္ဘောပျက်ပုံများ ပါရှိကာ၊ အချို့စာအုပ်များ၌ မျက်လှည့်အတတ်များ ပါရှိသည့်ပြင် အချို့စာအုပ်များ၌ ဘုရင်များအား ချီးကျူး ရေးသားထားသည့် ကဗျာလင်္ကာများကိုလည်း တွေ့ရ၏။ ဂူတခုတွင် ဆေးကျမ်းတကျမ်းကို၎င်း၊ အခြားဂူတခုတွင် မင်းသမီး တပါး၏ လက်ဝတ်ရတနာများကို၎င်း တွေ့ရလေသည်။

ထိုခေတ်ဖါရိုးဘုရင်များသည်ရေသွင်းစိုက်ပျိုးရန်အတွက် ဆည်မြောင်းများ တူးဖော်ခဲ့၍ ပင်လယ်နီ၏ မြောက်ဖက်အစွန်းမှသည် နိုင်းမြစ်၏ အနီးဆုံးသော မြစ်လက်တက်သို့ အရောက် တူးမြောင်းတခု သွယ်တန်းဖောက်လုပ်ခဲ့၏။

ကံကျွေးချ စံနစ်ခေတ်၏ အရှိန်အဝါသည် ဘီစီ ၂၀၀၀ ခန့်မှ ၁၇၀၀ ခန့်အတွင်း အမြင့်မားဆုံး ဖြစ်ခဲ့၏။ထိုနောက်တွင် အီဂျစ်နိုင်ငံကို တိုင်းတပါးမှ မင်းများ ဝင်ရောက်အုပ်စိုးခဲ့၏။ ထိုမင်းများကို သိုးထိန်းဘုရင်များဟု အသိအမှတ်ပြုကြ၏။ မြင်းများကို အီဂျစ်နိုင်ငံသို့ ရှေးဦးစွာ ယူဆောင် လာသူများမှာ ထိုသိုးထိန်း ဘုရင်များပင် ဖြစ်လေသည်။

ကိုင်ရိုမြို့ အထက် မိုင်ပေါင်း ၄၀၀ ခန့်ကွာသော နေရာတွင် မြစ်သည် ကျယ်ပြန့်သွား၍ အနောက်ဖက်ကမ်း သီးဗီးလွင်ပြင်တွင် တတိယ အေမင်ဟိုတက် ဘုရင်၏ရုပ်တုကြီးနှစ်ခု တည်ရှိ၏။

အီဂျစ်အင်ပိုင်ယာကြီး အထွန်းကားဆုံး အချိန်က ကျဉ်းမြောင်းသော နိုင်းမြစ်ဝှမ်း၌သာ မဟုတ်ပဲ နိုင်းမြစ်စတုတ္ထမြစ်ကျဉ်းမှသည် မက်ဆိုပိုတေးမီးယားရှိ ယူဖရေးတီးမြစ်သို့ တိုင်အောင် ကျယ်ပြန့် ခဲ့၏။ ဤသို့ အားဖြင့် သီးဗီးလွင်ပြင်ဒေသတွင် ရှေးဟောင်း အဆောက်အအုံအပျက်အစီးတို့ဖြင့် ပြည့်နှက်လျက် ရှိလေသည်။

လတ်ဇောမြို့၏ အရှေ့မြောက်ဖက်တွင် ကာနက်မြို့ ရှိ၍ ထိုမြို့မှ ဘုရားရှိခိုးကျောင်းများ ရှိရာသို့ သွားရာ လမ်းတလျှောက် တဖက်တချက်တွင် သိုးခေါင်းနှင့် စဖင့်ရုပ်များ

စီတန်းတည်ရှိနေသည်ကို တွေ့ရ၏။ ထိုမြို့တွင်ပင် တိုင်လုံးကြီးများဖြင့် စီတန်းစိုက်ထူထားသည့် အလွန်ကြီးကျယ်ခမ်းနားသော ခန်းဆောင်ကြီးတခုရှိ၏။ အလယ်စကြံ တိုင်ကြီးများမှာ ၆၇ ပေမြင့်၍ လုံးပတ် ၃၃ ပေရှိသည်။

ထိုဘုရားရှိခိုး ကျောင်းကြီးအနီး၌ ကျောက် တုံးတတုံးပေါ်တွင် ရုပ်ကြွများကို ထွင်းထု၍ ထားရာ ထိုကျောက်တုံးကြီးမှာ ပေ ၉၀ ခန့်မြင့်၍ ထိုရုပ်ကြွများသည် အာရှတိုက်တွင် အီဂျစ်တို့ စစ်ခင်းခဲ့ပုံကို ဖော်ပြလေသည်။

ထိုဘုရားရှိခိုးကျောင်းများ၏ ပရဝုဏ်များ အတွင်းတွင် ယခင်က ဘုန်းကြီးများနေထိုင်ခဲ့ကြ၍ ယင်းတို့သည် တိုင်းသူပြည်သား များက လှူဒါန်းသော ပစ္စည်းများဖြင့် ချမ်းသာလာပြီးလျှင် ရွှေငွေရတနာ လယ်ယာခြံမြေများကို ပိုင်ဆိုင်ကြ၏။ သူတို့သာ ပညာတတ် လူတန်းစားမျိုး ဖြစ်သည်။ တန်ခိုး ဣဒ္ဓိပါဒ် အမျိုးမျိုးနှင့် ပြည့်စုံသည်ဟုယူဆကြ၏။ သို့ဖြင့်လည်း ဘုန်းကြီးများ တန်ခိုးအလွန်ကြီးလာ၍ သြဇာ တိက္ကမနှင့် ပြည့်စုံခဲ့ကြလေသည်။

သီးဗီး လွင်ပြင်ဒေသ၌ အီဂျစ် ဘုရင်နှင့် မိဖုရားသင်းချိုင်းဂူအချို့မှာ ယနေ့တိုင်အောင် မဖွင့်ရသေးပဲရှိနေ၏။ ကျောက်ဂူကြီးများအတွင်းတွင် အိမ်ထောင်ပရိဘောဂများ ခြံရံကာ ကျောက်ခေါင်းဖြင့် ထည့်ထားသော ဆေးစီရင်ထားသည့် အလောင်းကြီးများ ရှိသည့်နေရာသို့ အခန်း အမျိုးမျိုး လမ်း အသွယ် သွယ် ဖြင့် ဝင်ကြရ၏။

၁၉၀၅ ခုနှစ်က သဲများအတွင်း တူးဖော်ရာ၌ အီဂျစ်သမိုင်းတွင် ဘီစီ ၁၅၀၀ ခန့်လောက်က အုပ်စိုး၍ ထင်ရှားခဲ့သော ဟက်ရှက်စွတ် အမည်ရှိ ဘုရင်မ၏ သင်းချိုင်းဂူနှင့် ဝတ်ကျောင်းတို့ကို တွေ့ရလေသည်။ ဝတ်ကျောင်း၏ နံရံတွင် သူ၏ အတ္ထုပ္ပတ္တိကို ရေးထား၍ သူလက်ထက်က နိုင်ငံခြားသို့ စွန့်စား စေလွှတ်ပုံများ၊ ကျောက်တိုင်ကြီးများကို နိုင်းမြစ်တလျှောက်မှ ရေတပ်မတော်၏ ဖောင်ကြီးများဖြင့် သယ်ဆောင်လာပုံများကို ဆေးရေးအရုပ်များဖြင့် ဖော်ပြထားလေသည်။ ကျောက်တိုင်ကြီးများမှာ ပေ ၁၀၀ ခန့်ရှည်၍ ထိပ်ဝကား ရှစ်ပေခန့်မျှကျယ်၏။

ထိုထက် အံ့သြဖွယ်ကောင်းသော တွေ့ရှိခြင်းမှာ အောက်ပါအတိုင်းဖြစ်၏။

ဘီစီ ၁၃၅၀ ခန့်က အီဂျစ်နိုင်ငံကို တူတန်ခမန်ဆိုသူဘုရင်တပါး အုပ်စိုးဘူးရာ သူ၏ အကြောင်းသည် နှစ်ပေါင်း ၃,၀၀၀ ကျော်ခန့်မျှ အမှတ်မထင် တိမ်မြုပ်နေခဲ့ပြီးနောက် တူတန်ခမန်၏ သင်းချိုင်း ဂူနှင့်တကွအတွင်းမှ အဖိုးထိုက်တန်၍ ထူးဆန်းအံ့သြဖွယ်ကောင်းသော ပစ္စည်းများကို တွေ့ရပြီ ဟူသော သတင်းကို ကမ္ဘာက အံ့သြစွာ ကြားသိရ၏။

ထိုအချိန်မှာ ၁၉၂၂–၁၉၂၄ ခုနှစ်ဖြစ်၍လော့ ကာနာဗွန်နှင့် ဟောင်းဝပ် ကာတာတို့ ခေါင်း ဆောင် သောရှေးဟောင်းပစ္စည်း ရှာဖွေ တူးဖော်သော လူတစုသည် ရှစ်နှစ်တိုင်တိုင် ဇွဲနှင့်ရှာဖွေပြီးနောက် ဤသို့ တူးဖော်တွေ့ရှိခြင်း ဖြစ်သည်။

သင်းချိုင်းဂူ၏ အတွင်းဆုံးအခန်းတွင် တောက်ပစွာသော ရတနာ ကျောက်မျက်ရွဲအမျိုးမျိုးဖြင့် မွမ်းမံစီခြယ်ထားသော တူတန်ခမန် ဘုရင်၏ ဆေးစိမ်ထားသည့် ရုပ်အလောင်းကို တွေ့ရ၏။ အပြင်ခန်းများ၌တွေ့ရသည့် ပစ္စည်းများမှာ အလွန်ကောင်းသော လက်ရာဖြင့် ထုလုပ်ထားသော ရွှေ၊ ဆင်စွယ်နှင့် ရောင်စုံမှန်များ တပ်စီထားသည့် ရထားလေးစီး၊ သလွန်များ၊ ကုလားထိုင်များ၊ ထိုင်ခုံများ၊ ကျောက်မျက်ရတနာများစီခြယ်ထားသည့် ရာဇပလ္လင်တခု၊ သေတ္တာအမျိုးမျိုးနှင့် ထိုအထဲတွင် နှစ်ပေါင်းများစွာ ခံလေအောင် ဆေးဖြင့်စီရင်ထားသည့် အစားအစာများနှင့် အခြားပစ္စည်းများ ဖြစ်လေသည်။

ဤသို့တွေ့ခြင်းဖြင့် အီဂျစ်နိုင်ငံ ရှေးဟောင်းခေတ်ယဉ်ကျေးမှုနှင့် အနုပညာရပ်များသည် မည်မျှလောက်အဆင့်အတန်း မြင့်ခဲ့သည်ကို သိသာနိုင်ပေသည်။

၁၉၀၅ ခုနှစ်တွင် တွေ့ခဲ့သော သင်းချိုင်း ဂူရှင်ဟက်ရှက်စွတ်ဘုရင်မ မရှိသည့်နောက်၊ တတိယ တော့တမီးဆိုသူက ထီးနန်းကို ဆက်ခံ၍ နှစ်ပေါင်း ၅၀ ကျော်ကျော် အုပ်စိုးခဲ့ပြီးလျှင် အာရှတိုက် အနောက်ပိုင်းများကိုပင် တိုက်ခိုက်အောင်မြင်ခဲ့၏။ ထိုဘုရင်ကို ရှေးအီဂျစ်နပိုလီယန်ဟုလည်း အမည်မှည့်သားလေသည်။

ထိုခေတ်က အီဂျစ်လူမျိုးများသည် ဘုရားအမျိုးမျိုးကို ကိုးကွယ်ကြရာ အက်ခနာတန် ဆိုသူ ဘုရင်တပါးသည် ဘုရားအများ ကိုးကွယ်ယုံကြည်မှုကို ဖျက်သိမ်း၍ ဘုရားတဆူတည်းကိုသာ ကိုးကွယ် ကြရန် စီမံခဲ့ဘူးလေသည်။ ထိုအက်ခနာတန်ဘုရင်ကား တူတန်ခမန် ဘုရင်၏ ယောက္ခမ ဖြစ်၏။

အဆိုပါ အက်ခနာတန်ဘုရင်သည် အားလုံးသော ဘုရင်များအနက် သိန်းငှက်၏ ဦးခေါင်းရှိသော ရားခေါ်နေဘုရားတဆူတည်းကိုသာ အားလုံး ကိုးကွယ်ရန် စီမံခြင်း ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် ထိုအခါက နွား၊ မိကျောင်း၊ ကြောင်၊ အိမ်မြှောင်စသည်တို့ကို ကိုးကွယ်ကြ၍၊ အမြတ် တနိုး ဆေးစိမ် ထားသော ထိုသတ္တဝါ အကောင်များကိုပင် အချို့နေရာ၌ တွေ့ရှိရလေသည်။

ထိုဘုရင်သည် သူ၏မြို့တော်ကို ကာနက် အရပ်မှ အမားနားအရပ်သို့ ရွှေပြောင်းခဲ့၏။ အမားနားအရပ်၌ တယ်လ - အယ်လ - အမားနား စာချုပ်များကို တွေ့ရ၏။

ယင်းတို့မှာ ကျူနီးဖောင်းစာပါသည့် မီးဖုတ် ရွှံပြားများ ဖြစ်၍ အာရှတိုက်အနောက်ပိုင်းနေ ဘုရင်တပါးက ဆက် လိုက်ခြင်း ဖြစ်ပေမည်။ (ကျူနီးဖောင်းစာ — လည်းရှု။) ဤအချက်ကို ထောက်ခြင်းဖြင့် ဆီးရီးယားမြောက်ပိုင်းကို အာရှမိုင်းနားရှိ ဟစ်တိုက်လူမျိုးတို့က တိုက်ခိုက်အောင်မြင် ကြောင်းနှင့် တောင်ပိုင်းကို သဲကန္တာရအတွင်းမှ ဟီဗြူး တို့က သိမ်းယူခဲ့ကြောင်း သိရလေသည်။ ဟစ်တိုက်လူမျိုး၌ သံဖြင့်ပြုလုပ်သော လက်နက်များရှိပြီးလျှင် အီဂျစ်လူမျိုး တွင်မူ ကြေးညိုဖြင့် ပြုလုပ်သောလက်နက်များ ရှိသည်။

ပဥ္စမ ဆေတီးနှင့် သူ၏သား ဒုတိယ ရမ်မီဆီးဘုရင်တို့ အုပ်ချုပ်စဉ်က အီဂျစ် နိုင်ငံကြီးသည် တန်ခိုး အာဏာ အလွန်ကြီးခဲ့၏။ ရမ်မီဆီးဘုရင်သည် နှစ်ပေါင်း ၆၀ ကျော် အုပ်စိုးခဲ့၍၊ အဆောက် အအုံပေါင်း များစွာကို တည် ဆောက်ခဲ့၏။ အာရှတိုက်ဖက်သို့ပင် ချီတက်တိုက်ခိုက်ကာ နယ်ချဲ့ခဲ့လေသည်။



အီဂျစ်ဘုရင်မ ကလီယိုပါးထရား၏ ရုပ်ကြွပုံ

ထိုနောက် အီဂျစ် နိုင်ငံကြီးကား တဖြည်းဖြည်း ပျက်စီးခြင်းသို့ ရောက်ရတော့၏။ ဘီစီ ခုနှစ်ရာစုနှစ်တွင် အဆီးရီးယန်းလူမျိုးတို့က နှိမ်နင်းခြင်းခံရ၍ ခြောက်ရာစု နှစ်တွင် ပါးရှင်းတို့က နှိမ်နင်းခြင်းခံရလေသည်။ ထိုနောက် ဘီစီ ၃၃၂ ခုနှစ်တွင် မက်ဆီဒိုးနီးယန်း ဘုရင် အယ်လက် ဇန္ဒာက တခါတည်း သိမ်းပိုက်ခဲ့ရာ သူ၏ လက်ဆက်တွင် ခေတ်သစ် ထူထောင်သကဲ့သို့ ဖြစ်လာခဲ့လေသည်။

ဘီစီ ၃၂၃ ခုနှစ်တွင်အယ်လက်ဇန္ဒာဘုရင် ကွယ်လွန်၍ သူ၏ စစ်ဗိုလ်ကြီး တဦးသည် ပဥ္စမ တော်လမီ ဟူသော ဘွဲ့ဖြင့် ဘီစီ ၃၀၅ ခုနှစ်တွင် ထီးနန်းကို ဆက်ခံပြီး နောက် တော်လမီမင်းဆက်သည် နောက်ဆုံး ကလီယို ပါးထရား ဘုရင်မ ကွယ်လွန်သည့်အချိန် (ဘီစီ ၃၀)တိုင် ရောက်မှ အဆုံးသတ် လေသည်။ (တော်လမီ။ ကလီယို ပါးထရားဘုရင်မ — လည်းရှု။)

တော်လမီဘုရင်များသည် မိမိတို့၏မြို့တော်ဖြစ်သော အယ်လက်ဇန္ဒြီးယား ဆိပ်ကမ်းမြို့မှနေ၍ အုပ်ချုပ်ခဲ့၏။ ယင်းတို့၏ သင်္ဘောတပ်များသည် အိန္ဒိယသမုဒ္ဒရာမှသည် ဟယ်လက်စပွန့်အထိ ဖြစ်သော ပင်လယ်ပြင်များကိုကြီးစိုး ခဲ့သည်။ သူတို့သည် ပယ်လက်စတိုင်နှင့် ဆီး ရီး ယား တောင်ပိုင်းကို ပြန်လည်သိမ်းပိုက်ခဲ့၍ အယ်လက်ဇန္ဒြီးယား မြို့တော်ကိုလည်း ကမ္ဘာပေါ်တွင် စီးပွားရေးရာ၊ စာပေ ရေးရာနှင့် သိပ္ပံ ပညာရေး ဆိုင်ရာ မြို့တော် အဖြစ်သို့ ရောက်အောင် စွမ်းဆောင် ပေးခဲ့လေသည်။ ဦးစွာ၌ အယ်လက်ဇန္ဒြီးယားမြို့တွင် ခရစ်ယန်များကို နှိပ်ကွပ်ခဲ့ သော်လည်း နောင်သော အခါ အယ်လက်ဇန္ဒြီးယားမြို့ သည် ခရစ်ယန် အယူဝါဒ ရေးရာတွင် ဦးဆောင်မှုပေးရာ ဌာနကြီးတခု ဖြစ်ခဲ့လေသည်။

သို့သော် ဘီစီ ၃၀ ပြည့်နှစ်တွင် ကလီယိုပါးထရား ဘုရင်မ မရှိသည့်နောက် အီဂျစ် နိုင်ငံသည် ရောမတို့ လက်အောက်ခံ ပြည်နယ်တခု ဖြစ်ခဲ့ရ၏။ ရောမတို့သည် အီဂျစ်နိုင်ငံမှ အခွန်အမျိုးမျိုးကို ထုခွဲ ကောက်ခံခဲ့၏။ ဤသို့ဖြင့် ရောမတို့လက်အောက်မှ တဖန်၊ ဗိုင်ဇင်းတိုင် ဘုရင်များ လက်အောက်တွင် နှစ်ပေါင်း ၃၀၀ မျှ ညှဉ်း ပန်းနှိပ်စက် အုပ်စိုးခြင်း ခံခဲ့ရ၍ ခရစ်နှစ် ၆၄၁ ခုနှစ်တွင် ဆာရာဆင်တို့လက်အောက်သို့ ကျရောက်ပြီးလျှင် အရှေ့ တိုင်း ယဉ်ကျေးမှုများ လွှမ်းမိုးခဲ့ရာ နှစ်ပေါင်း ၁,၂၀၀ ခန့်မျှ ကြာမြင့်ခဲ့၏။ ထိုအချိန်မှစ၍ အီဂျစ်နိုင်ငံတွင်းသို့ အစ္စလာမ်အယူဝါဒ ဝင်ရောက်ခဲ့လေသည်။ ၁၅၁၇ ခုနှစ် တွင် တူရကီတို့သည် အီဂျစ်နိုင်ငံကို အော်တိုမန် အင် ပိုင်ယာထဲသို့ သိမ်းသွင်းလိုက်ရာ ၁၈၁၄ ခုနှစ်အထိ အ နည်းဆုံး အမည်ခံအားဖြင့် တူရကီနိုင်ငံ၏ လက်အောက်ခံ ဖြစ်ခဲ့ရလေသည်။

**အီဂျစ်နိုင်ငံ။** ။အီဂျစ် ဟူသောအမည်မှာ "မထင်မရှားသော"ဟု အနက်ထင်သည့် "အီဂျစ်တပ်"ဟူသော ဂရိစကားမှ ဆင်းသက်လာ၏။ သို့သော် ရှေးအီဂျစ်လူမျိုးများကမူ သူတို့၏ တိုင်းပြည်ကို "ခါမီ"ဟူ၍ ခေါ်ဝေါ်ခဲ့သည်ကို တွေ့ရလေသည်။ ခါမီ၏အနက်မှာ မြေနက်ဟူ၍ဖြစ်ရာ နိုင်းမြစ်ဝှမ်းတလျှောက်ရှိ နုံးတင်မြေနု အရောင်ကို အစွဲပြု၍ ခေါ်ဝေါ်ခြင်း ဖြစ်ပေမည်။

အီဂျစ်နိုင်ငံသည် အာဖရိကတိုက်၏ အရှေ့မြောက်ပိုင်း၌ နိုင်းမြစ်၏ တဖက်တချက်တွင် မြောင်လျက် တည်ရှိပေသည်။ နိုင်းမြစ်သည် ထိုနိုင်ငံ၏ ကျောရိုးမကြီးသဖွယ် ဖြစ်နေ၍ ထိုမြစ်သာ အီဂျစ်နိုင်ငံကို ဖြတ်သန်းမစီးဆင်းလျှင် အရှေ့ဖက်ရှိ အာရေဗျ သဲကန္တာရ၊ အနောက်ဖက်ရှိ လစ်ဗျ သဲကန္တာရများနှင့် အီဂျစ်နိုင်ငံမှာ မည်သို့မျှ ခြားနားခြင်း ရှိမည် မဟုတ်ချေ။ နိုင်းမြစ်ကြီး ဖြတ်သန်းစီးဆင်းပြီးလျှင် တနှစ်တခါ ရေလွှမ်းမိုးကာ မြစ်ဝှမ်းမြေများကို မြေသြဇာ ထက်သန်စေ သောကြောင့် အီဂျစ်နိုင်ငံကို "နိုင်းမြစ်၏ မေတ္တာလက်ဆောင်နိုင်ငံ" ဟူ၍ပင် အချို့က ခေါ်ဆိုကြလေသည်။

အီဂျစ်နိုင်ငံ၏ အကျယ်အဝန်းမှာ ၃၈၆,၁၉၈ စတုရန်းမိုင်ရှိ၍ အကြီးဆုံး အလျား ၆၇၅ မိုင်၊ အကြီးဆုံး အနံမိုင် ၇၆၀ မျှရှိ၏။ အီဂျစ်နိုင်ငံ၏ အနေအထားမှာ လေးထောင့်ပုံသဏ္ဍာန်ဖြစ်၍ နိုင်းမြစ်၏ အောက်ဖက်ပိုင်းတွင် နံဘေးနှစ်ဖက်ရှိ သဲကန္တာရများအတွင်းသို့ပင် ပျံ့နှံ့တည်ရှိပြီးလျှင် ဆိုင်နိုင်းကျွန်းဆွယ်လည်း ပါဝင်လေသည်။ ပင်လယ်ကမ်းရိုးတန်းမှာ အကွေ့အကောက် မရှိလှပဲ၊ ထင်ရှားသည့် တောင်တန်းမှာ အာရေဗျ၊ သို့မဟုတ် အရှေ့ဖက်တောင်ကုန်းဟုခေါ်သည့် တောင်တန်းများ ဖြစ်သည်။ အီဂျစ်နိုင်ငံ၏ အကြီးဆုံးနှင့် အသုံးအဝင်ဆုံးမြစ်မှာ နိုင်းမြစ်ဖြစ်၏။

အီဂျစ်နိုင်ငံ၏ မြေမျက်နှာပြင်မှာ နိုင်းမြစ်ဝှမ်းတဝိုက်တွင်သာ ညီညာပျံ့ပျူး၍ အနောက်ဖက် လစ်ဗျသဲကန္တာရဖက်သို့ တဖြည်းဖြည်း မြင့်တက်သွားသည်။ ထိုသဲကန္တာရမှာ ပင်လယ်ပြင်ထက် ပေ ၁,၀၀၀ မြင့်၏။ အရှေ့ဖက်တွင်ရှိသော အာရေဗျ သဲကန္တာရသည် တဖြည်းဖြည်း မြင့်တက်သွားရာ ပင်လယ်နီအနီးရှိ တောင်ကုန်းဒေသမှာ ပေ ၇,၀၀၀ ခန့်မြင့်သည်။ အီဂျစ်နိုင်ငံတွင် မြေသြဇာ ထက်သန်ကောင်းမွန်ဆုံးသော ဒေသမှာ နိုင်းမြစ်၏ အနောက်ဖက်၌ အီဂျစ်နိုင်ငံ၏ မြို့တော် ကိုင်ရိုမြို့၏မြောက်ဖက် မိုင် ငါးဆယ်မျှအကွာတွင်ရှိသော ဖေယွမ်နယ် ဖြစ်သည်။

အီဂျစ်နိုင်ငံရှိ အချို့ဒေသတို့မှာ ပူပြင်း ခြောက်သွေ့လှသဖြင့် လူတို့ နေထိုင်ခြင်းငှါ မပြုနိုင်ကြချေ။ လူနေ များပြားသော ဒေသမှာ နိုင်းမြစ်တဝိုက်တွင် ဖြစ်၍ အထက်အီဂျစ်နှင့် အောက်အီဂျစ်ဟု နှစ်ပိုင်း ခွဲခြားထားသည်။ အထက်အီဂျစ်မှာ ကိုင်ရိုမြို့မှ အီဂျစ်နိုင်ငံ တောင်ဖက် နယ်နိမိတ်အထိရှည်၍ ကျဉ်းမြောင်းသော မြစ်ဝှမ်းဒေသ ဖြစ်၏။ အောက်အီဂျစ်မှာ အီဂျစ်နိုင်ငံ မြောက်ပိုင်းရှိ နိုင်းမြစ်၏ မြစ်ဝကျွန်းပေါ် ဒေသတခုလုံး ပါဝင်လေရာ မြေထဲ ပင်လယ်မှ ကိုင်ရိုမြို့အထိ ရှည်လျားသော အပိုင်း ဖြစ်သည်။

အီဂျစ်နိုင်ငံ၏ ရာသီဥတုမှာ ပူပြင်း ခြောက်သွေ့လှ၍ တနှစ်လုံးတွင် လေးကြိမ်ငါးကြိမ်မျှသာ မိုးရွာသွန်းတတ်ပြီးလျှင် အချို့အရပ် ဒေသတွင်ကား မိုးရွာသည်ကိုပင် မမြင်ဘူးကြချေ။ မြေထဲပင်လယ်ကမ်းခြေ တလျှောက်တွင်ကား တနှစ်လျှင် မိုးရေချိန် ရှစ်လက်မခန့် ရွာသွန်းလေသည်။ ဤမျှ ခြောက်သွေ့သော ဒေသဖြစ်သော်လည်း မြောက်ဖက်မှ လေမှန်မှန် တိုက်ခတ်နေခြင်းကြောင့်သာလျှင် လူတို့ နေထိုင်၍ ဖြစ်နိုင်လေသည်။ တောင်ဖက်မှ လေတိုက်သည့်အခါတွင်ကား သဲမှုန်တိုင်းများ ကျရောက်တတ်၍ ယင်းသည့်တောင်လေကို ခမ်ဆင်ဟု ခေါ်ကြ၏။

အီဂျစ်နိုင်ငံ နေရာအနှံ့အပြားတွင် အလွန်တရာ ရေရှားပါးသည်။ နိုင်းမြစ်ကြီးသာ မရှိပါက အီဂျစ်နိုင်ငံမှာ ဆဟာရာသဲကန္တာရကြီး၏ အစိတ်အပိုင်းတခု အဖြစ်ဖြင့်သာ ရှိနေပေလိမ့်မည်။ အောက် အီဂျစ်ပြည်တွင် နိုင်းမြစ်မှ သွယ်ယူဖောက်လုပ်ထားသော တူးမြောင်းများ ရှိ၏။ ထိုတူးမြောင်းများမှာ ရေသွင်း စိုက်ပျိုးရေးအတွက်ငှင်း၊ ကူးသန်းသွားလာရေးအတွက်ငှင်း အသုံးပြုရန် ဖြစ်လေသည်။ မြေသြဇာ ကောင်းမွန်သည့် ဖေယွမ်ဒေသမှာလည်း




အီဂျစ်နိုင်ငံ တည်နေရာပြ မြေပုံ

ရေသွင်းစိုက်ပျိုး လုပ်ကိုင်ရ၏။ အီဂျစ်နိုင်ငံ၏ တူးမြောင်းများထဲတွင် ဆူးအက်တူးမြောင်းသည် အရေးအပါဆုံးနှင့် အသုံးဝင်ဆုံး ဖြစ်သည်။ ထိုတူးမြောင်းသည် အီဂျစ်နိုင်ငံ၏ အရှေ့မြောက်ပိုင်းရှိ ဆိုင်နိုင်းကျွန်းဆွယ်ကို ဖြတ်သန်းကာ မြေထဲပင်လယ်နှင့် ပင်လယ်နီတို့ကို ဆက်သွယ်ထားသည်။ (ဆူးအက်တူးမြောင်း — ရှု။)

အီဂျစ်နိုင်ငံမှ ပူပြင်းခြောက်သွေ့သော ဒေသအချို့တွင် စိမ်းလန်းစိုပြေသော နေရာကလေးများ ရှိတတ်ရာ ယင်းတို့ကို အိုအေးဆစ်ဟု ခေါ်သည်။ ထိုအိုအေးဆစ်များတွင် သစ်ပင်များပေါက်နိုင်ခြင်းမှာ မြေအောက်ရှိ အောက်ခံမြေပြင်မှ ရေသည် ထိုဒေသများတွင် မြေမျက်နှာပြင်သို့ တက်ကာ စိမ့်စမ်းများ ဖြစ်ပေါ်စေသောကြောင့် ဖြစ်၏။

အီဂျစ်နိုင်ငံ၏ လူဦးရေမှာ ၃၄,၇၃၉,၀၀၀ (၁၉၇၂) ဖြစ်၍ လယ်ယာစိုက်ပျိုး၍ ဖြစ်ထွန်းသော နိုင်းမြစ်၏ တဖက်တချက် ကျဉ်းမြောင်းသော ဒေသတွင် လူများ ပြွတ်သိပ်၍ နေထိုင်ကြသည်။ မြစ်ဝကျွန်းပေါ် ဒေသနှင့် မြစ်ဝှမ်းဒေသအချို့တွင် စတုရန်း တမိုင်အတွင်း လူပေါင်း ၁,၅၀၀ ခန့်ပင် နေထိုင်ကြသည်။ နိုင်းမြစ်ဝှမ်းမှ အပ ဖြစ်သော ဒေသများတွင် လူတို့မှာ ရေရနိုင်သော နေရာများ၌ ဟိုတစု သည်တစု နေထိုင်ကြရ၏။

အီဂျစ်လူမျိုးများ၏ ရှေးအဆက်အနွယ်များမှာ အရပ်တကာမှ လာရောက်ကြသော လူမျိုးပေါင်းစုံ ဖြစ်၍ အီဂျစ်လူမျိုးမှာ ထိုလူအမျိုးမျိုးတို့ သွေးရောနှောကာ ပေါက်ဖွားလာသူများ ဖြစ်လေသည်။ နေထိုင်ပုံနှင့် အလုပ်အကိုင်သို့လိုက်၍ အီဂျစ်လူမျိုးများကို အတန်းအစား သုံးမျိုး ခွဲခြားနိုင်၏။ ဖယ်လာဟင်းခေါ် တောင်သူလယ်သမားများမှာ အရိုးအခြင်ကြီးမား၊ မျက်နှာသွယ်ကာ နဖူးကျယ်၍ အရပ်အမောင်းမှာ ခပ်ပြတ်ပြတ် ဖြစ်၏။ အီဂျစ်လူမျိုး သုံးပုံနှစ်ပုံမှာ ဖယ်လာဟင်းများ ဖြစ်သည်။ မြောက်ပိုင်းတွင် နေထိုင်သူများမှာ အသားလတ်သော်လည်း တောင်ပိုင်းတွင် နေထိုင်သူများကား အသားညိုသည်။ သူတို့သည် ရိုးသားဖော်ရွေ၍ ဥဇ္ဇာစွမ်းဥဇ္ဇာစ ထက်မြက်ပြီးလျှင်



ကိုင်ရိုမြို့ရှိ ရှေးဟောင်းပစ္စည်းများကို ပြသထားသည့် ပြတိုက်ကြီး

ပျော်ပျော်ရွှင်ရွှင် နေတတ်လေသည်။ သူတို့သည် ရှေး အီဂျစ်လူမျိုးတို့၏ အဆက်အနွယ်များ ဖြစ်သည်ဟု ဆို၏။ အစ္စလာမ်အယူဝါဒီများ ဖြစ်ပြီးလျှင် အယူဝါဒတွင် ကိုင်းရှိုင်းရှိသေကြသူများလည်းဖြစ်၍ အာရေဗစ်ဘာသာစကားကို အသုံးပြုကြလေသည်။ သို့သော် ကော့ပတစ်ခရစ်ယန်ဂိုဏ်းဝင် ဖယ်လာဟင်းအချို့လည်း ရှိပေသေးသည်။

အခြားလူတန်းစားမှာ ဗက်ဒူးအင်းများ ဖြစ်၍ ယင်းတို့သည် အာရေဗစ် ဘာသာစကား ပြောဆိုကြ၏။ သူတို့သည် သဲကန္တာရများတွင် ကျက်စားနေထိုင်သော လူမျိုးများဖြစ်၍ တနေရာမှ တနေရာသို့ လှည့်လည်သွားလာနေထိုင်ကာ သိုးနှင့်မြင်းများကို မွေးမြူကြသည်။ အနည်းအကျဉ်းမျှ လယ်ယာစိုက်ပျိုး လုပ်ကိုင်ကြ၏။ တတိယ လူတန်းစားမှာ မြို့ကြီးများတွင် နေထိုင်ကြသော ကုန်သည်များနှင့် အတတ်ပညာဖြင့် အသက်မွေးသူများ ဖြစ်ကြသည်။ အီဂျစ်နိုင်ငံတွင်း၌ နိုင်ငံခြားသားများလည်း ဝင်ရောက် နေထိုင်ကြရာ ယင်းတို့မှာ ဂရိ၊ တူရကီ၊ ဗြိတိသျှ၊ ပြင်သစ်နှင့် ဣတာလျံ လူမျိုးများ ဖြစ်ကြ၏။ အီဂျစ်နိုင်ငံတွင် အာရေဗစ်ဘာသာစကားကို အသုံးများလေသည်။

လယ်ယာစိုက်ပျိုးရေး လုပ်ငန်းသည် အီဂျစ်နိုင်ငံ၏ အဓိက လုပ်ငန်းတရပ် ဖြစ်သည်။ လယ်ယာများ အများဆုံး တည်ရှိသော နိုင်းမြစ်ဝှမ်းဒေသမှာ ပျမ်းမျှခြင်းအားဖြင့် ၁၂ မိုင်မျှသာ ကျယ်၏။ ထိုကြောင့် အီဂျစ်လူမျိုးတို့သည် စိုက်ပျိုး၍ ရနိုင်မည့် အဖိုးတန်မြေ တပေမျှလောက်ကိုပင် အလဟဿ မဖြစ်စေလိုသဖြင့် သဲကန္တာရ အစပ်များတွင် ရွာများတည်လေ့ရှိကြသည်။

ဝါကို အဓိက စိုက်ပျိုးလုပ်ကိုင်ကြရာ အီဂျစ်နိုင်ငံထွက် ခြည်မျှင်ရှည်ဝါမှာ ထင်ရှားကျော်ကြားလှ၏။ အခြား ကောက်သီးကောက်နှံများမှာ ဂျုံ၊ စပါး၊ ကြံ၊ ပဲ၊ ကြက်သွန်နီ၊ ကန်စွန်းဥနှင့် စွန်ပလွံသီးများ ဖြစ်၍ ယင်းတို့ကို များသောအားဖြင့် ပြည်တွင်းသုံးအတွက် စိုက်ပျိုးလုပ်ကိုင်ကြသည်။ စိုက်ပျိုးလုပ်ကိုင်ရာတွင် မိုးနည်းပါးလှလွန်းသောကြောင့် နိုင်းမြစ်ဝှမ်း၌ စိုက်ပျိုးလုပ်ကိုင်ကြရ၏။

ရှေးအခါက နိုင်းမြစ်ဝှမ်း ရေလျှံပြီးနောက် ရေကျသွားသည့်အခါမှသာ စိုက်ပျိုးလုပ်ကိုင်ကြရသဖြင့် တနှစ်လျှင် တသီးသာ စိုက်ပျိုးနိုင်ခဲ့၏။ ထို့ပြင် မြစ်ရေလျှံသဖြင့် လယ်ကွင်းများထဲသို့ ရေဝင်ပြီးနောက် ရေကျသွားသောအခါ တင်ကျန်ရစ်သော နုံးမြေနှင့်တကွ မြေလွှာစိုစွတ်စဉ် အချိန်လု၍ ကမန်းကတန်း စိုက်ပျိုးလုပ်ကိုင်ကြရ၏။ ယခုအခါတွင်ကား မြစ်ကိုဖြတ်၍ ရေကာတာများ၊ ဆည်များ ပြုလုပ်ထားကာ ရေလိုသည့်အချိန်တွင် ရေလွှတ်၍ လယ်ကွင်းများကို ရေသွင်းစိုက်ပျိုး လုပ်ကိုင်ကြသဖြင့် တနှစ် သုံးသီးမျှပင် စိုက်ပျိုး လုပ်ကိုင်နိုင်ကြလေသည်။

သို့သော် ခေတ်နည်းများဖြင့် ရေသွင်းစိုက်ပျိုးခြင်း၏ ချွတ်ယွင်းချက်တခုမှာ ယခင်က နိုင်းမြစ် အလိုအလျောက် ရေလျှံခြင်းဖြင့် လယ်ကွင်းများတွင် နုံးမြေ တင်ကျန်ရစ်သကဲ့သို့ ယခုအခါ နုံးမြေ တင်ကျန်ရစ်အောင် မပြုလုပ်နိုင်တော့ခြင်းပင် ဖြစ်လေသည်။ နုံးမြေများမှာ ရေကာတာများ အောက်ခြေတွင် အနည်ထိုင် စုပုံရှိနေကာ အလဟဿ ဖြစ်သွားလေသည်။ ထို့ကြောင့် သဘာဝအားဖြင့် မြေသြဇာ ထက်သန်အောင် ပြုပြင်ပေးမှု မရှိတော့သဖြင့် လူတို့၏ ပြုပြင်ပေးမှုကို လိုအပ်လာလေသည်။

အီဂျစ်နိုင်ငံမှ အဖိုးတန် တွင်းထွက်သတ္တု အနည်းငယ်မျှသာ ထွက်၏။ ဆိုင်နိုင်းကျွန်းဆွယ်တွင် မန်ဂနိစ် သတ္တုအနည်းငယ်ထွက်သည်။ ထိုဒေသတွင် ရှေးက ကြေးနီတွင်းများ ရှိခဲ့သည်။ အရှေ့ဖက်တောင်တန်း ဒေသများမှ ရွှေ အနည်းငယ်ထွက်၍ နိုင်းမြစ်ဝကျွန်းပေါ်တွင် ဆားကျင်းများ၊ အရှေ့ဖက်ကမ်းရိုးတန်း တလျှောက်တွင် ရေနံတွင်းများရှိ၏။ နှမ်းဖတ်ကျောက်၊ သဲကျောက်၊ ထုံးကျောက် စသည့် ကျောက်မျိုးများ ထွက်သော ကျောက်ကျင်းများလည်းရှိသည်။ ထိုကျောက်ကျင်းများမှ ကျောက်တုံး၊ ကျောက်ခဲကြီးများကို ပိရမစ်ကြီးများ ဆောက်လုပ်သည့် ခေတ်အခါကပင် တူးဖော်ကာ ပိရမစ်ကြီးများ ဆောက်လုပ်ရာတွင် အသုံးပြုခဲ့ကြသည်။ အီဂျစ်နိုင်ငံတွင် တူးဖော်ရရှိသော အခြားတွင်းထွက် သတ္တုများမှာ ဖော့စဖိတ်၊ ကြေးနီ၊ ကျောက်ချဉ်၊ ဂျစ်ပဆမ်၊ မြ စသည်တို့ ဖြစ်၏။

အီဂျစ်နိုင်ငံသည် ရှေးနှစ်ပေါင်း ငါးထောင် ခြောက်ထောင်ခန့်ကပင် စိုက်ပျိုးရေးနိုင်ငံတခု ဖြစ်ခဲ့၍ စက်မှုလက်မှု လုပ်ငန်းများမှာ လျင်မြန်စွာ တိုးတက်ထွန်းကားခြင်း မရှိလှသေးချေ။ မြို့ကြီးများရှိ စက်ရုံများတွင် ခြည်ထည်၊ ပိုးထည်၊ စောင်ကြမ်းများ၊ စီးကရက်၊ သကြား၊ ဖန်မှန်စီခြယ်ထားသော ကြေးအိုးကြေးခွက်များနှင့် သားရေထည်ပစ္စည်းများ ပြုလုပ်ကြသည်။ ထို့ပြင် ဓာတုဗေဒပစ္စည်းလုပ်ငန်း၊ အုတ်လုပ်ငန်း၊ ဂျုံကြိတ်လုပ်ငန်း၊ ကြိုးလုပ်ငန်းနှင့် မီးဖိုလုပ်ငန်း စသည့် လုပ်ငန်းများလည်း ရှိပေသေးသည်။

ကူးသန်းသွားလာရေးနှင့် သယ်ယူပို့ဆောင်ရေး အတွက် ရေကြောင်းတွင် နိုင်းမြစ်ကြီးမှာ အသုံးဝင်လှ၏။ မီးရထားလမ်းများလည်း ဖောက်လုပ်ထား၍ မီးရထားလမ်း မရှိသည့်အရပ်များတွင် ကုန်းကြောင်းခရီးဖြင့် ကူးသန်းသွားလာရေးအတွက် လမ်းမကြီးများကိုလည်း ဖောက်လုပ်ထားသည်။ သဲကန္တာရ ဒေသများရှိသည့်နိုင်ငံ ဖြစ်၍ အခြားနည်းလမ်းများဖြင့် ခရီးသွားမဖြစ်သော သဲကန္တာရများထဲတွင် ကုလားအုပ်များဖြင့် သွားလာကြလေသည်။

အီဂျစ်နိုင်ငံ၏ အဓိက ထုတ်ကုန်မှာ ဝါဂွမ်း ဖြစ်၍၊ သကြားနှင့် ကြက်သွန်နီကဲ့သို့သော စားကုန်များလည်း နိုင်

င်ခြားသို့ တင်ပို့ရောင်းချလေသည်။ အီဂျစ်နိုင်ငံ၏ ခနအင်အားမှာ ဝါဂွမ်းပေါ်တွင် တည်နေလေသာ ဒုဘိယကမ္ဘာစစ်အတွင်းက ဝါဂွမ်းများ ဝယ်သူမရှိ၍ အီဂျစ်နိုင်ငံမှာ အတော်ပင် အခက်အခဲ ကြုံခဲ့ရသည်။ အီဂျစ်နိုင်ငံ၏ ဝင်ကုန်များမှာ သံနှင့် သံမဏိထည်ပစ္စည်းများ၊ မြေဩဇာများ၊ ဓာတုဗေဒပစ္စည်းများ၊ ခြည်ထည်နှင့် သိုးမွေးထည်များ ဖြစ်၏။အယ်လက်ဇန္ဒြီးယားမြို့ကြီးမှာ အီဂျစ်နိုင်ငံ၏အကြီးဆုံးသော သင်္ဘောဆိပ်မြို့ကြီး ဖြစ်ပေသည်။

၁၅၁၇ ခုနှစ်တွင် တူရကီတို့သည် အီဂျစ်နိုင်ငံကို တိုက်ခိုက် သိမ်းယူပြီးနောက် အော့တိုမန် နိုင်ငံတော် အတွင်း သွတ်သွင်းလိုက်သည်။ ထိုအခါမှ စ၍ အီဂျစ်နိုင်ငံသည် ၁၉၁၄ ခုနှစ်အထိ တူရကီတို့၏ လက်အောက်တွင် ရှိနေခဲ့လေသည်။

နပိုလီယန်သည် ၁၇၉၈ ခုနှစ်တွင် အီဂျစ်နိုင်ငံတွင်းသို့ ချင်းနင်း ဝင်ရောက်ခဲ့၏။ ထိုအခါမှစ၍ ဗြိတိသျှတို့သည် အရှေ့ဖက်နိုင်ငံများသို့သွားရောက်ရေးတွင်အီဂျစ်နိုင်ငံသည် တံခါးပေါက်အဖြစ် အရေးပါပုံကို သိမြင် လာကြသည်။ ၁၈၀၁ ခုနှစ်တွင် ဗြိတိသျှတို့သည် အီဂျစ်နိုင်ငံမှ ပြင်သစ်တို့အား တိုက်ထုတ်ရေးတွင် တူရကီကို ကူညီခဲ့ပေသည်။

၁၈၀၅ ခုနှစ်တွင် အယ်လဗေးနီးယန်း ခေါင်းဆောင်တဦးဖြစ်သူ မိဟီမက် အလီအား တူရကီနိုင်ငံစုလတန်ဘုရင်က အီဂျစ်နိုင်ငံ၏ ဘုရင်ခံအဖြစ် ခန့်အပ်ခဲ့လေသည်။ ထိုပုဂ္ဂိုလ်မှ ခေတ်သစ် အီဂျစ်ဘုရင်တို့ ဆင်းသက်လာ၏။ မိဟီမက်အလီသည် ၁၈၁၁ ခုနှစ်မှစ၍ အီဂျစ်နိုင်ငံအား ခေတ်မီအောင် ပြုပြင်ပေးလေသည်။ သူသည် ပြည်တွင်းဆူပူမှုများကြောင့် ပြုစုစောင့်ရှောက်ခြင်း ကင်းမဲ့သဖြင့် ပျက်စီးယိုယွင်းနေသော တာတမံ ဆည်မြောင်းများကို တိုးတက်ကောင်းမွန်အောင် ပြုပြင် ပြင်ဆင်ပေးခဲ့သည်။ ဝါဂွမ်းလုပ်ငန်းကိုလည်း စတင် ထူထောင်ပေးခဲ့၏။ ထို့ပြင် ဥရောပယဉ်ကျေးမှုအတိုင်း တိုင်းသူပြည်သားတို့ လိုက်နာကျင့်ကြံအောင် စီမံပေးခဲ့လေသည်။ အီဂျစ်နိုင်ငံ၏ ရေတပ်နှင့် ကြည်းတပ်တို့ကိုလည်း ဥရောပနိုင်ငံများမှ စစ်တပ်များကို စံထားကာ ပြုပြင်ပေးခဲ့သည်။ သို့သော် အခွန်ကြီးလေးစွာ ကောက်ခံခြင်းဖြင့်ရင်း၊ အလုပ်သမားများကို အတင်းအဓမ္မစေခိုင်းခြင်းဖြင့်ရင်း ယင်းသို့သော ပြုပြင်မှုများကို ဆောင်ရွက်ခဲ့၏။ သူ၏လက်ထက်တွင် ဆူဒန်နယ်ကို သိမ်းယူခဲ့လေသည်။

၁၈၅၄ ခုနှစ်တွင် မိဟီမက် အလီ၏ သားဖြစ်သူ ဆာအိပါးရှားသည် ပြင်သစ်လူမျိုး ဖာဒီနန်ဒါလက်ဆက်အား ဆူအက်တူးမြောင်း ဖောက်လုပ်ရန် ခိုင်းစေခဲ့၏။ (လက်ဆက်,



ခေတ်မီအဆောက်အအုံများနှင့် ပန်းရလှသော ကိုင်ရိုမြို့တွင်းတနေရာ

ဖာဒီနန် ဒါ — ရှု။) ထိုတူးမြောင်းမှာ ဆယ်နှစ်အတွင်း ဖောက်လုပ် ပြီးစီးသွားလေသည်။ ဆာအီ ပါးရှားအား ဆက်ခံသူ အစ်စမေသည် စူလတန်ဘုရင်ထံမှ မင်းသားဘွဲ့ ကို ရရှိခဲ့၏။ အစ်စမေမှာ တိုင်းပြည်ဘဏ္ဍာတော် ငွေများ ကို အရမ်းမဲ့ သုံးဖြုန်းလေရာ အစိုးရမှာ မွဲပြာကျသော အ ဖြစ်သို့ ရောက်ရှိခဲ့ရ၏။ ထိုကြောင့် ဂရိတ်ဗြိတိန်သို့ ၁၈၇၅ ခုနှစ်တွင် ဆူးအက်တူးမြောင်းကုမ္ပဏီ၌ ထည့်ဝင်ထားသော အီဂျစ်နိုင်ငံ၏ အစုများကို ရောင်းချလိုက်ရလေသည်။ထို အခါမှ စ၍ ဂရိတ်ဗြိတိန်သည် ဆူးအက်တူးမြောင်း အုပ် ချုပ်ရေးတွင် ဩဇာကြီးမားလာ၍ အီဂျစ်အစိုးရအား လည်း ကောင်းစွာ ခြယ်လှယ်နိုင်လာလေသည်။ ထိုပြင် တိုင်းပြည်၏ ဘဏ္ဍာရေး အခြေအနေကြောင့်ပင် ဗြိတိန် နှင့် ပြင်သစ်တို့သည် အီဂျစ်နိုင်ငံအပေါ်တွင် တွဲဖက်ကြီးစိုး နိုင်ခဲ့ကြ၏။

၁၈၇၉ ခုနှစ်တွင် စူလတန်ဘုရင်က အစ်စမေကို ဖြုတ်ချ ခဲ့ပြီးနောက် အစ်စမေ၏သား တူဖစ်ကို ဘုရင်ခံအဖြစ် တင် ခဲ့လေသည်။ ထိုအတောအတွင်း ဥရောပတိုက်သားတို့ အီ ဂျစ်နိုင်ငံအရေးတွင် ဝင်ရောက်စွက်ဖက်နေသည်ကို ရှင်း လင်းပစ်ရန် ရည်ရွယ်သော အာရဗီ ပါးရှား ခေါင်းဆောင် သည့် အမျိုးသားပါတီသည် အင်အားကောင်းလာခဲ့သည်။ ၁၈၈၂ ခုနှစ်တွင် အယ်လက်ဇန္ဒြီးယားမြို့၌ အမျိုးသားရေး စိတ်ဓာတ် တက်ကြွနေသော အီဂျစ်နိုင်ငံသူ နိုင်ငံသားများ ဆူပူထကြွကာ ဥရောပတိုက်သားများကို သတ်ဖြတ်ပြီး သော် ယင်းတို့ပိုင်ပစ္စည်းများကို လုယက်ဖျက်ဆီးပစ်လေ ရာ အီဂျစ်ဘုရင်ခံလည်း ကိုင်ရိုမြို့မှ ထွက်ပြေးရလေသည်။ ထိုအရေးတွင် ပြင်သစ်တို့သည် ဝင်ရောက်စွက်ဖက်ရန် ငြင်း ဆိုလိုက်သော်လည်း ဂရိတ်ဗြိတိန်ကမူအီဂျစ်နိုင်ငံသို့ ကြည်း တပ် ရေတပ်များ စေလွှတ်ကာ အီဂျစ်နိုင်ငံအရေးတွင် ဝင် ရောက်စွက်ဖက်ခဲ့လေသည်။ အီဂျစ်နိုင်ငံတွင် ဗြိတိသျှတို့၏ ကြီးစိုးမှုမှာ ၁၈၈၂ ခုနှစ် စက်တင်ဘာလတွင် အာရဗီ ပါး ရှား၏ အင်အားကို တယ်အယ်ကီဗာတိုက်ပွဲ၌ ချိုးနှိမ်ခဲ့ပြီး သည့်အခါတွင် စတင်ခဲ့သည်ဟု ဆိုနိုင်ပေသည်။

ဗြိတိသျှတို့သည် အီဂျစ်နိုင်ငံအား ကောင်းစွာ အုပ် ချုပ်နိုင်ရန် ကြိုးစားသော်လည်း ဆူဒန်ပြည်နယ်ဖက်မှ သူ ပုန်အရေးမှာ များစွာ အနှောင့်အရှက် ဖြစ်ခဲ့လေသည်။ ၁၈၈၄ ခုနှစ်တွင် မာဒီခေါင်းဆောင်သော သူပုန်များသည် ခါတွမ်မြို့ကို သိမ်းပိုက်ပြီးနောက် နာမည်ကျော် အင်္ဂလိပ် စစ်ဗိုလ်ချုပ်ကြီး ဂေါ်ဒင်ကို သတ်ပစ်လိုက်ကြ၏။ (ဂေါ် ဒင် — လည်းရှု။) ၁၈၉၈ ခုနှစ်တွင်ကား လော့ကစ်ချ နာ ခေါင်းဆောင်သော အီဂျစ်စစ်တပ်က ထိုမြို့နှင့်တကွ ဆူဒန်နယ်ကို ပြန်လည် သိမ်းပိုက်လိုက်လေသည်။ ၁၈၉၉ ခု နှစ်မှ စ၍ ဆူဒန်နယ်ကို အင်္ဂလိပ်နှင့် အီဂျစ်တို့ တွဲဖက် အုပ် ချုပ်လေသည်။ ပြင်သစ်တို့သည် ဆူဒန်နယ်ကို ဝေစား မျှ စား လုပ်လိုသဖြင့် စစ်ကူတပ်တတပ်ကို လွှတ်ခဲ့လေသည်။ သို့သော် နောင်အခါ သဘောတူညီချက်အရ ပြင်သစ်တို့ ကို မိုရော့ကိုနယ်ကို စိုးမိုးခွင့်ပြုခြင်းဖြင့် အီဂျစ်နိုင်ငံနှင့် ဆူ ဒန်နယ်တွင် ဗြိတိန်သည် လွတ်လပ်စွာ ခြယ်လှယ်နိုင်ခွင့် ရခဲ့ လေသည်။ (ကစ်ချနာ,အီပ်၊ အီပ် — လည်းရှု။)

ဂရိတ်ဗြိတိန်သည် အီဂျစ်နိုင်ငံ၏ အရေးများတွင် ဝင် ရောက်ခြယ်လှယ်သည့်အခါမှ စ၍ အီဂျစ်နိုင်ငံမှာ အတော် ပင်ကြီးပွား တိုးတက်လာလေသည်။ သို့သော် အီဂျစ်နိုင်ငံ မှာ အမည်အားဖြင့် တူရကီနိုင်ငံတော်တွင် အပါအဝင် တိုင်းပြည်တပြည် ဖြစ်နေသေး၏။ ၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ် စတင်ဖြစ်ပွား၍ တူရကီနိုင်ငံသည် ဂျာမနီတို့ ဖက် သို့ ပါသွားသောအခါ ဗြိတိန်က အီဂျစ်နိုင်ငံကို သိမ်းယူ လိုက်လေသည်။ အီဂျစ်နိုင်ငံနှင့် ဆူးအက်တူးမြောင်းအား တူရကီတို့ တိုက်ခိုက်ခြင်းမှ ကာကွယ်ရန် ဗြိတိသျှစစ်တပ် များ ပို့မို့ပို့ထားခဲ့၏။

၁၉၂၂ ခုနှစ်တွင် ဂရိတ်ဗြိတိန်က အီဂျစ်နိုင်ငံအား လွတ် လပ်ရေး ပေးခဲ့လေသည်။ သို့သော် အီဂျစ်အစိုးရက ဗြိတိ သျှ ကြည်းတပ် ရေတပ်များကို ဆူးအက်တူးမြောင်းနှင့် ဆူ ဒန်နယ်တို့ကို ကာကွယ်စောင့်ရှောက်ရေးအတွက် အီဂျစ် နိုင်ငံတွင် ထားရှိနိုင်ရန် ခွင့်ပြုခဲ့ရလေသည်။ ထိုကြောင့် အီဂျစ်လူမျိုးအချို့က လုံးဝလွတ်လပ်ရေး ရရှိရန် တောင်း ဆိုလာကြ၏။ ထိုအရေးနှင့် စပ်လျဉ်း၍ ဝဖ် အမည်ရှိ အမျိုး သားပါတီတခုသည် အထူးပင် လှုပ်လှုပ်ရှားရှား ဖြစ်ခဲ့လေ သည်။ ထိုပြင် ဆူဒန်ပြည်နယ်၏အခြေအနေနှင့် စပ်လျဉ်း၍ ဆူပူလှုပ်ရှားမှုများ ပေါ်ပေါက်ခဲ့လေရာ ၁၉၂၄ ခုနိုဝင်ဘာ လ ၁၉ရက်နေ့တွင် ဆူဒန်နယ် ဘုရင်ခံချုပ် ဆာ လီးစတက် မှာ ကိုင်ရိုမြို့တော်၌ လုပ်ကြံခြင်းခံရ၏။ ယင်းသို့ ပြည်တွင်း ဆူပူမှုများဖြစ်ပေါ်နေသဖြင့် အီဂျစ်နိုင်ငံ၏ ၁၉၂၃ ခုနှစ်အုပ် ချုပ်ရေးနှင့် ပါလီမန်ကို ၁၉၃၀ ပြည့်နှစ် အောက်တိုဘာလ ၂၂ ရက်နေ့တွင် ဖျက်သိမ်းပစ်၍ အီဂျစ်ဘုရင် ကိုယ်တိုင် အချုပ်အခြာအာဏာပိုင် အဖြစ် အုပ်ချုပ်ခဲ့လေသည်။ ၁၉၃၄ ခုနှစ်တွင်မှ ယခင် ၁၉၃၀ ပြည့်နှစ် မတိုင်မီက အုပ် ချုပ်သည့်အတိုင်း ပြန်လည်အုပ်ချုပ်၏။ သို့သော် ပြည် တွင်းဆူပူမှုများကား ဆက်လက် ပေါ်ပေါက်ခဲ့လေသည်။ ထိုစဉ်က အီဂျစ်ဘုရင်မှာ ပဌမ ဖူးအက်ဘုရင်ဖြစ်၍ ၁၉၂၂ ခုနှစ်တွင် အီဂျစ်နိုင်ငံ လွတ်လပ်ရေးရစဉ်က စူလတန်အဖြစ် မှ ဘုရင်အဖြစ် ခံယူခဲ့သူ ဖြစ်လေသည်။

၁၉၃၆ ခုနှစ်တွင် ဖူးအက်ဘုရင် ကွယ်လွန်သောအခါ သားတော် ပဌမ ဖာရောက်က အရိုက်အရာကို ဆက်ခံ၏။ သို့သော် မွတ်စလင် ထုံးတမ်းစဉ်လာအရ ထီးနန်းဆက်ခံ ရန် အရွယ်မရောက်သေးသဖြင့် ရင်ခွင်ပိုက် အစိုးရအဖွဲ့က

အုပ်ချုပ်ခဲ့၍ ၁၉၃၇ ခုနှစ်တွင်မှ ဖာရောက်ဘုရင် နန်းတက်ရလေသည်။ ၁၉၃၆ ခုနှစ် ဩဂုတ်လတွင် ချုပ်ဆိုခဲ့သော ဗြိတိန်–အီဂျစ် မဟာမိတ်စာချုပ်အရ အီဂျစ်နိုင်ငံမှာ ရှေးဖုံ့ရိုးဘုရင်များခေတ် ကုန်ဆုံးပြီးနောက် ပဌမဆုံးအကြိမ် လုံးဝလွတ်လပ်၍ ဘုရင်အုပ်ချုပ်သည့် နိုင်ငံတခု ဖြစ်လာလေသည်။ ထို့ပြင် ထိုစာချုပ်အရ ဗြိတိသျှအစိုးရက ယင်း၏ စစ်တပ်အားလုံးကို အီဂျပ်စစ်တပ်များက ဆူးအက်တူးမြောင်း နယ်မြေ ကာကွယ်နိုင်စွမ်းရှိသည့် အခါတွင် ရုပ်သိမ်းပါမည်ဟု ဝန်ခံချက် ပေးခဲ့သည်။ နောက်နှစ်တွင် အီဂျစ်နိုင်ငံသည် ကမ္ဘာ့နိုင်ငံပေါင်းချုပ် အသင်းကြီးသို့ ဝင်ခွင့်ရခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အတွင်းက ဝင်ရိုးတန်းနိုင်ငံများသည် ဆူးအက်တူးမြောင်းကို သိမ်းပိုက်နိုင်ရန် ကြိုးစားခဲ့ကြ၏။ ဗြိတိသျှတို့ အရှေ့ဖျာ်နိုင်ငံများနှင့် ဩစတြေးလီးယားသို့ လက်နက်ရိက္ခာများ မပို့နိုင်အောင် အဆက်ဖြတ်ရန် ဖြစ်လေသည်။ ဗြိတိန်သည် အီဂျစ်နိုင်ငံရှိ ယင်း၏ စစ်တပ်အင်အားကို ဖြည့်ကာ ကာကွယ်ရေး အစီအစဉ်များ ပြုလုပ်ပြင်ဆင်ထားခဲ့၏။ သို့သော် ၁၉၄၀ ပြည့်နှစ်တွင် ဣတာလျံတပ်များသည် အီဂျစ်နိုင်ငံအတွင်းသို့ အတော်ပင် တိုးဝင်နိုင်ခဲ့သည်။ အီဂျစ်နိုင်ငံမှာမူ ကြားနေဝါဒကို လက်ကိုင်ထားယင်း ဗြိတိသျှနှင့် အမေရိကန်တို့ကို လိုအပ်သော အခွင့်အရေးများ ပေးခဲ့၏။ ဝင်ရိုးတန်းနိုင်ငံများနှင့် သံတမန်အဆက်အသွယ် ဖြတ်ထားလေသည်။ ဗြိတိသျှတို့သည် အီဂျစ်နိုင်ငံတွင် စစ်စခန်းများ ထားရှိပြီးလျှင် စစ်ဆင်ခဲ့လေသည်။

၁၉၄၂ ခုနှစ်တွင် ဣတာလျံနှင့် ဂျာမန်တပ်များသည် အယ်လက်ဇန္ဒြီးယားမြို့အနီး မိုင် ၇၀ အကွာ နေရာသို့ ချင်းနင်းဝင်ရောက်နိုင်ခဲ့၏။ သို့သော် အီဂျစ်နိုင်ငံတွင်းသို့ စတင်ဝင်ရောက်သည်မှ လေးလခန့်အကြာတွင် ယင်းတို့ကို နိုင်ငံတွင်းမှ မောင်းထုတ်နိုင်ခဲ့လေသည်။ အယ်လက်ဇန္ဒြီးယား၊ ကိုင်ရိုနှင့် အစ္စမာလီယမြို့များမှာ ဝင်ရိုးတန်းနိုင်ငံ လေတပ်များ၏ ဗုံးကြဲခြင်းကို မကြာခဏ ခံခဲ့ရ၏။ ၁၉၄၅ ခုနှစ်တွင်ကား အီဂျစ်နိုင်ငံသည် ဝင်ရိုးတန်းနိုင်ငံများအား စစ်ကြေညာခဲ့၍ ကုလသမဂ္ဂအဖွဲ့ကြီးတွင် ပါဝင်ခွင့် ရရှိခဲ့၏။ ထိုနှစ်တွင်ပင် အီဂျစ်နိုင်ငံသည် အာရပ်အမျိုးသား အဖွဲ့ကို ထူထောင်ရာ၌ ကူညီခဲ့လေသည်။

၁၉၄၅ ခုနှစ်တွင် အနှစ် ၂၀ တည်ရှိမည်ဟု သတ်မှတ်ထားခဲ့သော ၁၉၃၆ ခုနှစ် စာချုပ်ကို ပြင်ရန် အီဂျစ်လူမျိုးများက တောင်းဆိုခဲ့၏။ တောင်းဆိုသည့်အတိုင်း ဆိုလျှင် ဗြိတိသျှတပ်များကို အီဂျစ်နိုင်ငံမှသာ မဟုတ်ပဲ ဆူဒန်ပြည်နယ်မှလည်း ချက်ခြင်းရုပ်သိမ်းပေးရမည် ဖြစ်လေသည်။ ထိုကိစ္စအတွက် ဗြိတိသျှနှင့် အီဂျစ်အစိုးရတို့နှစ်ဦးနှစ်ဖက် ကြာရှည်လေးမြင့်စွာ စည်းဝေးဆွေးနွေးခဲ့ရသည်။ ထိုအတောအတွင်း ဗြိတိသျှဆန့်ကျင်ရေး အဓိကရုဏ်းများ ကိုင်ရိုနှင့် အယ်လက်ဇန္ဒြီးယားမြို့များတွင် ပေါ်ပေါက်ခဲ့၏။ ၁၉၄၇ ခုနှစ် နွေဦးပေါက်တွင် ထိုမြို့များမှ ဗြိတိသျှတပ်များကို ရုပ်သိမ်းပေးခဲ့ရသည်။ သို့သော် ဆူးအက်တူးမြောင်း နယ်မြေတွင် တပ်စုတစု ကျန်ခဲ့သေးသည်။

ကုလသမဂ္ဂက ပယ်လက်စတိုင်ပြည် တစိတ်တဒေသကို ယဟူဒီများသို့ ပေးရန် ဆုံးဖြတ်ခဲ့သောအခါ အာရပ်အမျိုးသားအဖွဲ့က စစ်ပြင်ခဲ့၏။ ၁၉၄၈ ခုနှစ် မေလတွင် ပယ်လက်စတိုင်သည် ဗြိတိသျှအစောင့်အရှောက်ခံ ပြည်နယ်အဖြစ်မှ လွတ်မြောက်သွားသောအခါ ယခင်ကပင် ပြောက်ကျားစစ်ဆင်ခဲ့သော အာရပ်နှင့် ယဟူဒီတို့သည် အတိအလင်း တိုက်ခိုက်ကြ လေတော့သည်။ အီဂျစ်နိုင်ငံကလည်း ပယ်လက်စတိုင် တောင်ပိုင်းသို့ စစ်ကူများပို့ခဲ့၏။ ၁၉၄၉ ခုနှစ် ဖေဖွာရီလတွင်မှ အီဂျစ်နှင့် အဇ္ဇရီယယ်နိုင်ငံတို့ စစ်ပြေငြိမ်းလိုက်ကြ၏။

၁၉၅၂ ခုနှစ် ဇူလိုင်လ ၂၃ ရက်နေ့တွင် အီဂျစ် တပ်မတော်က တော်လှန်၍ အုပ်ချုပ်ရေးအာဏာကို သိမ်းယူခဲ့ပြီးနောက် ဖာရောက်ဘုရင်ကို နန်းချလိုက်၏။ ၁၉၅၃ ခုနှစ် ဇွန်လ ၁၈ ရက်နေ့တွင် အီဂျစ်နိုင်ငံကို သမတနိုင်ငံအဖြစ် ကြေညာခဲ့၍ ဗိုလ်ချုပ်ကြီး နဂွစ်ကို သမတအဖြစ် တင်မြှောက်ကြသည်။ ၁၉၅၄ ခုနှစ်တွင် ဗိုလ်မှူးကြီး နက်ဆာက အုပ်ချုပ်ရေးအာဏာကို လက်ပြောင်းယူကာ တိုင်းပြည်ကို အုပ်ချုပ်ခဲ့သည်။

၁၉၅၆ ခုနှစ်တွင် သမတအဖြစ် ရွေးကောက် တင်မြှောက်ခြင်းခံရသောနက်ဆာသည် မိမိ၏တိုင်းပြည်၏ ကုန်ထုတ်စွမ်းအား တိုးတက်လာရေးအတွက် အက်ဆွာဝန်ဆည်ရိုးကြီး အသစ်တခု ဆောက်လုပ်ရာတွင် ငွေကြေးထောက်ပံ့ဖို့ အမေရိကန်ပြည်ထောင်စု၊ ဂရိတ်ဗြိတိန်၊ ကုလသမဂ္ဂတို့နှင့် စေ့စပ်ဆွေးနွေးခဲ့၍ တချိန်တည်းမှာပင် ဆိုဗီယက်ရုရှနိုင်ငံနှင့်လည်း စီးပွားရေး အကူအညီအတွက်၎င်း၊ ဥရောပအနောက်ပိုင်း နိုင်ငံများမှ လိုသမျှမရနိုင်ဟု အကြောင်းပြလျက် လက်နက်များ တင်ပို့ရေးအတွက်၎င်း စေ့စပ်ပြောဆိုခဲ့၏။ နောင်အခါ ဆည်ရိုးကြီး ဆောက်လုပ်ရေးအတွက် ငွေကြေးအကူအညီကို အမေရိကန်တို့က ဆိုင်းငံ့ထားခဲ့သဖြင့် ၁၉၅၆ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့တွင် သမတ နက်ဆာက ဆူးအက်တူးမြောင်းကို ပြည်သူပိုင်အဖြစ် သိမ်းယူလျက် ထိုတူးမြောင်းမှ ရရှိသော အမြတ်အစွန်းများကို ဆည်ရိုးကြီး တည်ဆောက်ရေးအတွက် အသုံးပြုမည်ဟု ကြေညာခဲ့လေသည်။

တချိန်တည်းမှာပင် အီဂျစ်နိုင်ငံနှင့် အဇ္ဇရီယယ်နိုင်ငံတို့ အချင်းများခဲ့ကြ၍ ၁၉၅၆ ခုနှစ် အောက်တိုဘာလ ၂၉

ရက်နေ့တွင် အင်္ဂလိပ်ယဉ်နိုင်ငံက စတင်တိုက်ခိုက်လာ၍ ယင်း၏တပ်များသည် အီဂျစ်ပိုင် ဆိုင်နိုင်းကျွန်းဆွယ် အတွင်းသို့ ဝင်ရောက်လာခဲ့၏။ ထိုအခါ ဗြိတိန်နှင့် ပြင်သစ်နိုင်ငံတို့က တိုက်ခိုက်လျက်ရှိသော နှစ်နိုင်ငံလုံးကို စစ်ရပ်စဲရန် နောက်ဆုံးရာဇသံ ပေးခဲ့ရာ အီဂျစ်နိုင်ငံက ငြင်းပယ်လိုက်သည်တွင် ဆူးအက်တူးမြောင်း၏ မြောက်ဖက်ပိုင်းဖြစ်သော ပို့ဆက်ဒေသတွင် စစ်ဇာပ်များ ချထားခြင်းနှင့် အီဂျစ်မြို့ကြီးများကို ဗုံးကြဲချခြင်းတို့ကို ပြုလုပ်ခဲ့သည်။ သို့သော်လည်း အမေရိကန်ပြည်ထောင်စုနှင့် ဆိုဗီယက်ရုရှနိုင်ငံတို့က ကုလသမဂ္ဂမှတဆင့် လျင်မြန်စွာ ကြားဝင်ဆောင်ရွက်ခဲ့သောကြောင့် ဗြိတိသျှ၊ ပြင်သစ်နှင့် အင်္ဂလိပ်ယဉ်တပ်များ ဆုတ်ပေးခဲ့ရ၍ စစ်ပြီးဆုံးသွားသည်။ ကုလသမဂ္ဂ ထိန်းသိမ်းရေးတပ်များ ချထားခဲ့လေသည်။

၁၉၅၈ ခုနှစ် ဖေဖွာရီလ ၁ ရက်နေ့တွင် အီဂျစ်နိုင်ငံနှင့် ဆီးရီးယားနိုင်ငံတို့သည် အာရပ်ပြည်ထောင်စု သမတနိုင်ငံအဖြစ် တည်ထောင်လိုက်ကြောင်း ကျေညာခဲ့ လေသည်။ (ဆီးရီးယားနိုင်ငံ။ အာရပ်ပြည်ထောင်စု သမတနိုင်ငံ — လည်းရှု။)

၁၉၆၁ ခုနှစ် စက်တင်ဘာလတွင် ဆီးရီးယား အာဏာသိမ်းပွဲဖြစ်၍ အာရပ်ပြည်ထောင်စု သမတနိုင်ငံပျက်သည်။ သို့သော် အီဂျစ်က ထိုအမည်ကိုပင် ဆက်လက်ခံယူထားခဲ့လေသည်။ ၁၉၆၃ ခုနှစ် ဧပြီလ ၁၇ ရက်နေ့တွင် အီဂျစ်၊ အီရက်နှင့် ဆီးရီးယားနိုင်ငံတို့ပေါင်း၍ အာရပ်သမတနိုင်ငံ ထပ်မံထူထောင်ရန် ကြိုးပမ်းခဲ့ပြန်သည်။ သို့သော်လည်း ဆီးရီးယားနိုင်ငံတွင်း ဆူပူမှုများကြောင့် လက်တွေ့ အကောင်အထည် ပေါ်မလာခဲ့ပေ။

၁၉၆၇ ခုနှစ်တွင် အီဂျစ်နိုင်ငံ၏ တောင်းဆိုချက်အရ ကုလသမဂ္ဂ ထိန်းသိမ်းရေးတပ်များကို ဆိုင်နိုင်းကျွန်းဆွယ်မှ ရုပ်သိမ်းခဲ့၍ နယ်စပ်တိုက်ပွဲ အများအပြား ဖြစ်ပွားပြီးနောက် ဇွန်လ ၄ ရက်နေ့တွင် အင်္ဂလိပ်ယဉ်တို့ ရှောင်တခင်ဝင်ရောက်တိုက်ခိုက်သဖြင့် အာရပ်–အင်္ဂလိပ်ယဉ်စစ်ပွဲ ထပ်မံဖြစ်ပွားပြန်သည်။အီဂျစ်အပါအဝင် အာရပ်နိုင်ငံများ အရေးနိမ့်ခဲ့သည်။ အီဂျစ် လေကြောင်း အင်အား ပျက်စီးသည်။ အီဂျစ်နိုင်ငံသည် ဂါဇာနှင့် ဆိုင်နိုင်းကျွန်းဆွယ်တို့ကို ဆုံးရှုံးခဲ့ရလေသည်။ အင်္ဂလိပ်ယဉ်တပ်များသည် ဆူးအက်တူးမြောင်း အရှေ့ဖက်ကမ်းအထိ တပ်စွဲမိသည်။

၁၉၇၀ ပြည့်နှစ် စက်တင်ဘာလ ၂၈ ရက်နေ့တွင် အီဂျစ်သမတ နက်ဆာ ရုတ်တရက် ကွယ်လွန်သွားရာ ဒုတိယ



၁၉၇၁ ခုနှစ် ဇန်နဝါရီလ ၁၅ ရက်နေ့တွင် စတင်ဖွင့်လှစ်လိုက်သော အက်ဆွာဝန်ဆည်ရိုးကြီး

သမတ အန်ဝါ ဆာဒတ်က သမတအဖြစ် ဆက်ခံ ဆောင်ရွက်သည်။

၁၉၇၁ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် အီဂျစ်၊ဆီးရီးယားနှင့်လစ်ဗျားနိုင်ငံများ ပူးပေါင်း၍ အာရပ်သမတနိုင်ငံများပြည်ထောင်စုကိုအတည်ပြုလက်မှတ်ရေးထိုးကြသည်။

၁၉၇၃ ခုနှစ် အောက်တိုဘာလ ၆ ရက်နေ့တွင် အာရပ်–အစ္စရီးယယ်စစ်ပွဲ ထပ်မံဖြစ်ပွားသည်။ အီဂျစ်နှင့်ဆီးရီးယားတပ်များက ဆူးအက်တူးမြောင်းဒေသနှင့် ဂိုလန်ကုန်းမြင့်ဒေသများတွင် စစ်မျက်နှာဖွင့်၍ အစ္စရီးယယ်တို့ကို အလုံးအရင်းဖြင့် ဝင်တိုက်သည်။

အီဂျစ်တပ်များသည် လူအင်အား တသောင်းခွဲကျော်ဖြင့် ဆူးအက်တူးမြောင်းကို ဖြတ်ကျော်၍ ဆိုင်နိုင်းကျွန်းဆွယ်ရှိ အစ္စရီးယယ်တို့၏"ဗားလက် ခံကတုတ်ကြောင်း"ကို လျှပ်တပြက် ဖြိုဖျက်နိုင်သည်။ အီဂျစ်တို့၏ စစ်ပြင်ဆင်မှုကို အမေရိကန်နှင့် အစ္စရီးယယ် စစ်စုံထောက်များ မျက်ခြည်ပြတ်သွားသည်။ ထို့ကြောင့် အီဂျစ်တို့၏ တိုးတက်လာသော သေနင်္ဂဗျူဟာကို ကမ္ဘာ့စစ် ပါရဂူကြီးများကပင် ချီးကျူးကြရသည်။ ဤစစ်ပွဲတွင် နောက်ဆုံးပေါ် စစ်လက်နက်ပစ္စည်းများ၊ယာဉ်များကိုသုံး၍ တဖက်နှင့်တဖက် အသေအလဲ တိုက်ခိုက်ခဲ့ကြသည်။ လူသူလက်နက် အမြောက်အမြား သေကြေပျက်စီးခဲ့သည်။ အထူးသဖြင့် တင့်ကားပေါင်း ထောင်သောင်းချီ၍ ပျက်စီးခဲ့လေသည်။

ကမ္ဘာ့ကုလသမဂ္ဂ လုံခြုံရေးကောင်စီတွင် အောက်တိုဘာလ ၂၂ ရက်နေ့၌ ဆိုဗီယက်ယူနီယံနှင့် အမေရိကန်ပြည်ထောင်စုတို့ပူးတွဲတင်ပြသည့် အရှေ့အလယ်ပိုင်းစစ်ပွဲ အပစ်အခတ်ရပ်စဲရေး အဆိုကို လက်ခံအတည်ပြုခဲ့၍ အီဂျစ်နှင့် အစ္စရီးယယ်တို့ကလည်း အပစ်အခတ်ရပ်စဲရန် သဘောတူကြသည်။ နိုဝင်ဘာလ ၁၁ ရက်နေ့တွင် အီဂျစ်နှင့် အစ္စရီးယယ် ဗိုလ်ချုပ်ကြီးများသည် ကိုင်ရို–ဆူးအက်တူးမြောင်း လမ်းကြီးပေါ်ရှိ ကီလိုမီတာ ၁၀၁ စခန်းတွင် ငြိမ်းချမ်းရေး အစီအစဉ်ကို လက်မှတ် ရေးထိုးခဲ့ကြလေသည်။

အီဂျစ်နိုင်ငံသည် ၁၉၅၃ ခုနှစ်မှ အစပြု၍ သမတနိုင်ငံဖြစ်လာခဲ့၏။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရ ခြောက်နှစ်သက်တမ်းရှိသည့် သမတ တဦးကို ရွေးကောက် တင်မြှောက်ရ၏။ အဖွဲ့ဝင် ၃၆၀ ပါဝင်သော အမျိုးသား ဥပဒေပြု လွှတ်တော်က အမည်တင်သွင်း၍ ပြည်သူလူထုက အတည်ပြု ရွေးကောက်တင်မြှောက်ရ၏။ ထိုလွှတ်တော် အမတ်များကို ငါးနှစ်တကြိမ် ရွေးကောက် တင်မြှောက်သည်။ အမျိုးသမီးများသည် မဲပေးခွင့်ရှိ၍ အသက် ၁၈ နှစ်ပြည့်ပြီးသော အမျိုးသားတိုင်းသည် မဲမပေးပဲ မနေရပေ။ ၁၉၇၁ ခုနှစ်တွင် ပုဂ္ဂလိက အခွင့်အရေးများကို အာမခံထားသည့် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသစ်တရပ် မဲဆန္ဒရှင်များက အတည်ပြုပြဋ္ဌာန်းခဲ့လေသည်။ ထို့နောက် ထိုနှစ် စက်တင်ဘာလ ၂ ရက်နေ့တွင် အီဂျစ်အာရပ်သမတနိုင်ငံဟု အမည်ပြောင်းလိုက်လေသည်။

အသက် ခုနစ်နှစ်အရွယ်မှစ၍ ကလေးသူငယ်တိုင်း မသင်မနေရ စာသင်ကျောင်းများသို့ တက်ရောက်ပညာသင်ကြားရမည် ဖြစ်သည်။ အထက်တန်းကျောင်းများအထိ အခမဲ့သင်ကြားခွင့် ရှိလေသည်။ ကိုင်ရိုတက္ကသိုလ်ကို ၁၉၀၈ ခုနှစ်တွင် တည်ထောင်ခဲ့၍ အယ်လက်ဇန္ဒြီးယားတက္ကသိုလ်ကို ၁၉၄၂ ခုနှစ်တွင် တည်ထောင်ခဲ့လေသည်။ ထို့မှတပါး အမေရိကန်တက္ကသိုလ် (၁၉၁၀)၊ အာယင်ရှမ်းတက္ကသိုလ်(၁၉၅၀)၊ အဆယ့်တ်တက္ကသိုလ် (၁၉၅၀)များလည်းရှိသည်။ အစ္စလာမ် သာသနာရေးဆိုင်ရာ တက္ကသိုလ်ကျောင်းတခုဖြစ်သော အယ်အာဇာတက္ကသိုလ်ကို ၁၉၇၀ ပြည့်နှစ်က စတင်တည်ထောင်ခဲ့သည်။ ကျောင်းများတွင် အာရေဗစ်ဘာသာဖြင့် သင်ကြားသော်လည်း ပြင်သစ်နှင့် အင်္ဂလိပ်ဘာသာရပ်များကိုလည်း သင်ကြားလေသည်။

**အီစတာပွဲတော်နေ့။** ။သခင်ယေရှု ရှင်ပြန်ထမြောက်ခြင်းကို အထိမ်းအမှတ် ပြုသောအားဖြင့် ခရစ်ယန်အယူဝါဒ ထွန်းကားသော တိုင်းပြည်များတွင် အီစတာပွဲတော်နေ့ကို ကျင်းပကြသည်။ အီစတာပွဲတော်ကို နှစ်စဉ်နှစ်တိုင်း တခမ်းတနား ကျင်းပကြသည်။ အီစတာပွဲတော်ကို အမြဲတမ်း တနင်္ဂနွေနေ့တွင်ကျင်းပကြသည်။သို့ရာတွင် မည်သည့်နေ့ရက်တွင် ကျသော တနင်္ဂနွေနေ့ဟူ၍ကား အတည်တကျ သတ်မှတ်ထားခြင်းမရှိချေ။အဘယ်ကြောင့်ဆိုသော် မတ်လ ၂၁ ရက်နေ့ လွန်ပြီးသော ပဌမဆုံး လပြည့်နေ့၏ နောက် ပဌမဆုံး တနင်္ဂနွေနေ့တွင် ကျင်းပရသော ထုံးစံ အစဉ်အလာ ရှိသောကြောင့် ဖြစ်သည်။ ထို့ကြောင့် အီစတာပွဲတော် အစောဆုံး ကျရောက်နိုင်သောနေ့မှာ မတ်လ ၂၂ ရက်နေ့ဖြစ်၍ နောက်အကျဆုံးနေ့မှာ ဧပြီလ ၂၅ ရက်နေ့ ဖြစ်လေသည်။

အီစတာပွဲတော်နေ့မှာ ရက်စွဲ အတည်တကျ မဖြစ်ရကား အီစတာပွဲတော် မတိုင်မီနှစ် ပွဲတော် အပြီးတွင် ကျင်းပရသော အခြား အယူဝါဒဆိုင်ရာ ပွဲတော်များမှာလည်း ရက်စွဲ အတည်တကျ မဖြစ်ချေ။ အီစတာပွဲတော်သည် ခရစ်ယန်ပွဲတော်များတွင် ရှေးအကျဆုံး ပွဲတော်ဖြစ်၍ အကြောင်းသုံးမျိုး အရင်းခံသည်။ ယင်းတို့မှာ (၁) ခရစ်တော် ရှင်ပြန် ထမြောက်သောနေ့၊ (၂) ခရစ်ယန် ဝါကျွတ်သောနေ့၊ (၃) နွေကူးရာသီကို ကြိုဆိုသောနေ့များ ဖြစ်လေသည်။ အီစတာပွဲတော်ကို နွေကူးရာသီတွင် ကျင်းပလေ့ရှိကြသည်။အီစတာပွဲတော်နေ့ဟူ၍ မပေါ်ပေါက်မီ လွန်ခဲ့သည့် နှစ်ပေါင်း



အီစတာပွဲတော်ချိန်တွင် ခရစ်ယန်အယူဝါဒအတိုင်း ပျော်ရွှင်မြူးတူးစွာ ပါဝင်ဆင်နွှဲကြသည်။

များစွာက လူများသည် နွေကူးရာသီရောက်ရှိလာသည်ကို ဝမ်းမြောက်ဝမ်းသာ ဖြစ်သောအားဖြင့် နွေဦးပေါက်တွင် ပျော်ပွဲရွှင်ပွဲများကို ကျင်းပခဲ့ကြဘူးလေသည်။ ရာသီမှာလည်း အလွန် သာယာလှသည်။ ဤသို့ ပြုလုပ်ခြင်းမှာ နွေကူးရာသီကို လူ့လောကသို့ ပြန်လည် ပို့ဆောင် ပေးတော်မူသော ဘုရား သခင်အား ဂုဏ်ပြုခြင်း ဖြစ်၏။ ထိုခေတ်က လူများသည် နွေကူးရာသီ ကုန်ဆုံးသွားသော အခါ လွန်စွာဝမ်းနည်း ကြေကွဲခြင်း ဖြစ်ကြပြီးလျှင် ကြည်နူး သာယာလှသော နွေကူးရာသီကလေးသည်ကား ပြန်၍ လာတော့မည် မဟုတ်ပြီ။ စိမ်းလန်း စိုပြည်သော မြက်ခင်းကလေးများကိုလည်း မမြင်ကြရတော့ပြီဟု များစွာ ယူကြုံးမရ ဖြစ်၍ နွေကူးရာသီကို တောင့်တကြသည်။ တခါတရံတွင်လည်း ဆောင်းရာသီ ဘီလူးကြီးသည် လှပသော နွေဦးမယ်ကို အတင်းအဓမ္မလုယူသွားလေပြီဟု ပူဆွေးခြင်းဖြစ်ကြလေသည်။သို့ဖြစ်၍ နွေဦးမယ်ကိုပြန်ပေးပါမည့်အကြောင်း ဆောင်း ဘီလူး ကြီးအား တန်ဆိုး လက်ဆောင် အမျိုးမျိုးပေးကြ၏။နွေဦးမယ်ကို ပြန်လည် ရရှိကြသောအခါတွင်လည်း ဘီလူးကြီးအား ကျေးဇူးတင်သောအားဖြင့် လက်ဆောင်ပဏ္ဏာများပေးကြလေသည်။ ထိုအလေ့အထကို အတုယူ၍ သေခြင်းမှ ပြန်၍အသက်ရှင် သည့်နေ့ကို အထိမ်းအမှတ်ပြုသော အီစတာပွဲတော်နေ့ တွင်လည်း တယောက်မှ တယောက်သို့ လက်ဆောင်များ ပေးကမ်းသော အလေ့ကို ပြုလုပ် ကြသည်ဟု ယူဆရ ပေသည်။

ရှေးအခါက လူများကျင်းပခဲ့ကြသော နွေဦးပွဲတော် မှာ တကြိမ်လျှင် ရက်ပေါင်းများစွာ ကြာလေသည်။ယခု ခေတ်တွင် ပြုလုပ်ကြသော အီစတာပွဲတော်မှာကား ပဋ္ဌမ တွင် တခါကျင်းပလျှင် ခုနစ်ရက်မျှ ကြာ လေ သည်။ အီစတာ ပွဲတော် အချိန်တွင် ခရစ်ယန် အယူဝါဒီတိုင်း ပျော်ရွှင်မြူးတူးကြလေသည်။ရှေးအခါကပင် ပွဲတော်ရက် အတွင်း အလုပ် လုပ်ကိုင်ခြင်းကို တားမြစ် ထားခဲ့ကြလေ သည်။ အီစတာနေ့သည် ခရစ်ယန် အယူဝါဒီ များအဖို့ အလွန်တရာ ထူးမြတ်သောနေ့ ဖြစ်သည့် အားလျော်စွာ ထိုနေ့တွင် ငွေဝယ်ကျွန်များကို ဘေးမဲ့လွှတ်ခြင်း၊ မိမိတို့၏ ဟောင်းနွမ်းသော အဝတ်အစား များကို စွန့်ပစ်၍ သစ်လွင်သော အဝတ်တန်ဆာများကို ဆင်မြန်းခြင်း၊ အိမ် အသုံးအဆောင်ဟူသမျှကို အသစ်လဲလှယ်ခြင်းစသည်တို့ကို ပြုလေ့ရှိကြသည်။

အီစတာပွဲတော်တွင် ကြက်ဥများကို လက်ဆောင်ပေးသော အလေ့မှာလည်း ရှေးအခါကပင် ရှိခဲ့သည်။ ရှေး

အခါက ကြက်မများသည် ဥအနည်းငယ်မျှသာ အုကြလေရာ ကြက်ဥသည် အသက်၏မူလအစဖြစ်သဖြင့် ထိုသဘောကိုဆောင်၍ ကြက်ဥများကိုလက်ဆောင်ရသောသူများမှာ လွန်စွာဝမ်းမြောက်ကြပေသည်။ယခုခေတ်တွင်ကား ကြက်ဥများကို အဖိုးတန် လက်ဆောင် ဖြစ်စေရန် တောက်ပသောအရောင်များကိုဆိုး၍လက်ဆောင်ပေးကြလေသည်။

**အီစွပ်ပုံပြင်။** ။အီစွပ် ပုံပြင် ဟူသည်မှာ အီစွပ်ဆိုသူ ဂရိကျွန်တဦးက ပြောပြခဲ့သော ပုံပြင်များကို ဆိုလိုသည်။ ဆင့်ကဲဆင့်ကဲ အားဖြင့် သိရသည်မှာ အီစွပ်သည် ဂရိလူမျိုးဖြစ်၍ ဘီစီ ၆၂၀ ပြည့်နှစ်မှ ၅၆၀ ပြည့်နှစ်အတွင်းကနေထိုင်ခဲ့သည်။ သူသည် ကျေးကျွန်တဦးဖြစ်ပြီးလျှင် အရုပ်ဆိုး၍ ကိုယ်အင်္ဂါ အချိုးအစား မကျသော်လည်း လွန်စွာဉာဏ်ကောင်းသူတဦး ဖြစ်သည်ဟု ဆို၏။ အီစွပ်သည် ကျွန်ပင်ဖြစ်လင့်ကစား လောကကို ဆင်ခြင်သုံးသပ်ရာတွင် သူမတူအောင် ထက်မြက်သော ဉာဏ်ရှိသည့် ပုဂ္ဂိုလ်ထူးဖြစ်သဖြင့် ဤဒဏ္ဍာရီ ပုံပြင်များကို တီထွင် ပြောဟောကာ လောကကို ဆုံးမနိုင်ခဲ့လေသည်။ သူ၏ ပုံပြင်များမှာ ဥပဒေသပါသော ဆုံးမစာ ပုံပြင်များ ဖြစ်၍ တိရစ္ဆာန်များကို ဇာတ်ကောင်အဖြစ် ပါဝင်စေသည်။ ထိုပုံပြင်များသည် အပျင်းလည်း ပြေစေ၍ အဆုံးအမကိုလည်း ပေးလေသည်။ ထို့ကြောင့် လူကြီးလူငယ်မရွေး နှစ်ခြိုက်ကြ၏။ထိုသို့ လူအများက နှစ်ခြိုက်ကြသောကြောင့်လည်း ကမ္ဘာပေါ်ရှိ ဘာသာမျိုးစုံလိုလိုဖြင့် ဘာသာပြန်ဆိုထားကြလေသည်။

အီစွပ်အား သူ့သခင်က နောင်အခါတွင် ကျေးကျွန်ဘဝမှ လွှတ်လိုက်ရာ မကြာမီပင် လွန်စွာထင်ပေါ် ကျော်ကြားခဲ့သည်။ ထိုသို့ ကျော်ကြားလှသဖြင့် လစ်ဒီးယားပြည့်ရှင် ဘုရင် ကရီးဆပ်က သူ၏ နန်းတော်သို့ လာရောက် နေထိုင်ရန်ပင် ဖိတ်ခေါ်ခြင်း ခံရလေသည်။ ထိုသို့ ဖိတ်ခေါ်ခြင်းခံရသဖြင့် သွားရောက် နေထိုင်ရာမှ တနေ့တွင် ကရီးဆပ်က သူ့အား ဒဲလဖိုင်မြို့ရှိ လူများအား ငွေကြေး ခွဲဝေပေးရန်အတွက် စေလွှတ်ခြင်း ခံရ၏။ သို့သော် ထိုသူတို့မှာ မရိုးဖြောင့်ကြောင်းသိရှိရ၍ ငွေများကို သူတို့အား ခွဲဝေပေးရန် ငြင်းဆန်ခဲ့သည်။ ထိုအခါ သူ့အားဖမ်းဆီးပြီးလျှင် တောင်စောင်းပေါ်မှ ပစ်ချ၍ သတ်လိုက်ကြလေသည်။

အီစွပ်ပုံပြင်များတွင် တနေ့လျှင် ရွှေဥတဥကျ အုပေးသည့် ငန်းအကြောင်းကို လူသိများသည်။ စပျစ်သီးမှည့်များကို ခုန်၍ ဆွတ်ခူးရာ မမှီနိုင်သဖြင့် စပျစ်သီး ချဉ်သည်ဟု ပြောသော မြေခွေး အကြောင်းနှင့် ခြင်္သေ့အရေကိုခြုံ၍ခြင်္သေ့ယောင်ဆောင်သောမြည်းအကြောင်း




ပုံအပြောတွင် နာမည်ကြီးသော အီစွပ်

များလည်း အီစွပ်ပုံပြင်များတွင် ပါဝင်သည်။ ထိုပုံပြင်များကို အကြောင်းခံသည့် ကဗျာ လင်္ကာများ၊ ပန်းချီကားများနှင့် ရုပ်ရှင်များပင် ရှိကြလေသည်။

ပုံပြင်တခုတွင် ဖားများက သူတို့ကိုအုပ်ချုပ်မည့် ဘုရင်မရှိသဖြင့် ဇုနတ်မင်းထံသို့ တမန်လွှတ်ကာ သူတို့အား အုပ်ချုပ်ပေးမည့် ဘုရင်တပါး စေလွှတ်ပေးရန် ပန်ကြားလေသည်။ ဇုနတ်မင်းက ဖားများသည် လွန်စွာ အ-သည့် တိရစ္ဆာန်များဖြစ်သဖြင့် သစ်တုံး တတုံးကို ရေအိုင်တွင်းသို့ ပစ်ချပေးလိုက်လေသည်။ ရေတွင် သစ်တုံးကျလာသည့် အသံကြောင့် ပဌမတွင် ဖားများက အလွန်ကြောက်ကြပြီးလျှင် ရေအိုင်တွင်းသို့ငုပ်လျှိုး၍ သွားကြလေသည်။ အတော်ကြာ၍ ရေမျက်နှာပြင်သို့ တက်လာကြသော အခါတွင် မလှုပ်မရှက်နေသော သစ်တုံးကို တွေ့ကြသဖြင့် အချို့က သစ်တုံးအောက်တွင် ငုပ်လိုငုပ်၊ အချို့က သစ်တုံးပေါ် တက်ထိုင်လိုထိုင် လုပ်ခဲ့ကြလေသည်။ အချိန်အတော်ကြာသောအခါ သစ်တုံးကို အားမရကြသဖြင့် တမန်ကို တဖန်လွှတ်၍ ဘုရင်ကို လဲပေးရန် ပြောသောအခါတွင် ဇုနတ်မင်းက ငရှဉ့်တကောင်ကို ပေးလိုက်ပြန်သည်။ ငရှဉ့်က ဖားများအား မည်သို့မျှ မပြုလုပ်သဖြင့် တဖန် တမန်ကိုစေလွှတ်၍ အခြားဘုရင်တဦးနှင့် လဲလှယ်ပေးရန် ပြောကြားသောအခါ ဇုနတ်မင်းသည် စိတ်မရှည်နိုင်တော့သဖြင့် ငှက်ကျားတကောင်ကို ဖားတို့၏ ဘုရင်အဖြစ် လဲလှယ်ပေးလိုက်လေသည်။ ထိုအခါ ငှက်ကျားက ဖားများကို တကောင်ပြီးလျှင် တကောင် စားပစ်သဖြင့် နောက်ထပ် ငြီးတွားနိုင်မည့် ဖားတကောင်မျှပင် မကျန်တော့ချေ။

ထိုပုံပြင်ကို အီစွပ်က ပြောရခြင်းမှာ အက်သင်း ပြည်သူ ပြည်သားတို့က မိမိတို့၏ ရက်စက် ကြမ်းကြုတ်သည့်

ဘုရင် ပိုင်ဆစ္စထရေးတပ်ကို မကျေနပ်ကြ၍ နန်းမှချရန် ကြံစည်နေကြသဖြင့် နမူနာ ယူစေရန် သတိပေး ပြောကြားခြင်း ဖြစ်သည်ဟု ဆိုလေသည်။

ဤပုံပြင်များကို အီစွပ်သည် နှုတ်ဖြင့်သာ ပြောဟောခဲ့ရာ သူကွယ်လွန်ပြီးနောက် နှစ်ပေါင်း ၂၀၀ ခန့်အကြာတွင်မှ အက်သင်းမြို့မှ ဒီမီထရီးယပ် ဆိုသူက သူပြောဟောခဲ့သည့်အတိုင်း စုဆောင်း ရေးသားထားခဲ့၏။ ထိုနောက်တွင် ဗားဗရီးယပ်ဆိုသူ ဂရိအမျိုးသား တဦးကလည်း စုဆောင်းရေးသားထားခဲ့သည်။အီစွပ်ပုံပြင်များသည် နှစ်ပေါင်းတထောင်ခန့်မျှ ပျောက်ကွယ်နေခဲ့ရာမှ ၁၈၄၄ ခုနှစ်တွင် အက်သော့တောင်ပေါ်ရှိ ဘုန်းကြီးကျောင်းတကျောင်း၌ ဗားဗရီးယပ် စုဆောင်းရေးသားထားသော အီစွပ်ပုံပြင်များ၏ မိတ္တူတစောင်ကို တွေ့ရ လေသည်။ ထိုသို့ တွေ့ရှိပြီးသည့် နောက်တွင်မှ ဘာသာအမျိုးမျိုးသို့ ပြန်ဆိုခြင်းကို ပြုခဲ့ရာ လူသိ များလာခဲ့လေသည်။

**အီထရပ်စကန်လူမျိုး။** ။ဣတလီ ကျွန်းဆွယ်တွင် အီထရူးရီးအား (ယခု တပ်စကန်နီ) ဒေသ ဟူ၍ ရှိခဲ့ရာ၊ ထိုဒေသတွင် နေထိုင်သူများကို အီထရပ်စကန်လူမျိုး ဟုခေါ်သည်။ အကြမ်းအားဖြင့် ထိုအီထရူးရီးအား ဒေသ၏ မြောက်ဖက်တွင် အာနိုမြစ် ရှိ၍၊ တောင်ဖက်တွင် တိုင်ဗာမြစ် ရှိသည်။ အရှေ့ဖက်တွင် အက်ပင်နိုင် တောင်များ ရှိ၍ အနောက်ဖက်တွင် တီရီနီယန် ပင်လယ် ရှိသည်။ ထိုလူမျိုးသည် ဘီ၊စီ ၁၁၀၀ ပြည့်နှစ်လွန်နှစ်များ၊သို့မဟုတ် ၁၀၀၀ ပြည့်နှစ်လွန်နှစ်များတွင် ဖြစ်ပွားခဲ့သော ထရိုဂျန်စစ်ပွဲ ပြီးဆုံးသွား၍ မကြာမီတွင် အရှေ့ဖက်မှ လာရောက်ကာ အီထရူးရီးအားတွင် အခြေစိုက် နေထိုင်ခဲ့ကြသည်ဟု အစဉ်အလာအားဖြင့် ယုံကြည်ခဲ့ကြ လေသည်။ ယခုခေတ်ပညာရှင်များကလည်း ထိုအချက်မှန်ကန်သည် ဟု ယေဘုယျအားဖြင့် လက်ခံကြလေသည်။

အီထရပ်စကန် လူမျိုးတို့သည် အီထရူးရီးအားတွင် အခြေတကျ နေထိုင်မိသောအခါ တိုင်းရင်းသားလူမျိုးဖြစ်သည့် အမ်ဗရီးယန်လူမျိုးတို့ကို ကျေးကျွန်အခြေအနေနီးပါးအထိရောက်အောင် ပြုခဲ့သည်။ ထိုနောက် အီထရပ်စကန်တို့သည် မြောက်ဖက်တွင် အက်ပင်နိုင်တောင်များကို ဖြတ်ကျော်ပြီးလျှင် ပိုးမြစ်ဝှမ်းအထိငင်း၊ တောင်ဖက်သို့မူ တိုင်ဗာမြစ်ကို ဖြတ်ကျော်ပြီးလျှင် လေတီယမ်နှင့် ကမ်ပါနီယာဒေသများအထိငင်း နယ်ချဲ့ခဲ့လေသည်။ ပိုးမြစ်ဝှမ်းတွင် အီထရပ်စကန်လူမျိုးတို့၏ယဉ်ကျေးမှုသည် ဖဲလဆီနာ (ယခုခေတ် ဗိုလိုနျာ) ကို ဗဟိုပြုလျက် ဘီ၊ စီ ၄၀၀ ပြည့်နှစ်လွန်နှစ်များတွင် အထွတ်အထိပ်သို့ ရောက်ရှိခဲ့လေသည်။ အီထရပ်စကန်တို့သည် လေတီယမ် (ရောမမြို့အပါအဝင်) ဒေသကို ဘီ၊ စီ ၅၀၀ ပြည့်နှစ်လွန်နှစ်များတလျှောက်တွင်ငင်း၊ ကမ်ပါနီယာ ဒေသတွင်မူ ထိုအချိန်ကာလထက် နှစ်ပေါင်း ခြောက်ဆယ် ခုနစ်ဆယ်ခန့် ပို၍ကြာညောင်းလျက်ငင်း ကြီးစိုးခဲ့လေသည်။ပိုးမြစ်ဝှမ်းတွင် စိုးမိုးမှုသည်ဘီ၊စီ၄၀၀ပြည့်နှစ်နောက်ပိုင်းတွင်ဂေါလလူမျိုးတို့ကြောင့် အဆက်ပြတ်ခဲ့ရသည်။ ဘီ၊စီ ၂၀၀ ပြည့်နှစ်လွန်နှစ်များ စောစောပိုင်းတွင် အီထရူးရီးအား ပြည်သည်ပင်လျှင် ရောမမြို့၏ လက်အောက်သို့ လုံးဝ ရောက်ရှိ သွားခဲ့လေသည်။

ရှေးရောမမြို့အပေါ်တွင် အီထရပ်စကန် လူမျိုးတို့၏ ဩဇာလွှမ်းမိုးမှုသည် သမိုင်းသဘောအရ အရေးကြီးပေသည်။ သူတို့၏ ယဉ်ကျေးမှုမှာ ကောင်းစွာ တိုးတက်ကြီးပွားပြီး ဖြစ်သော မြို့ယဉ်ကျေးမှုမျိုးဖြစ်၍၊ ရှေးခေတ်လေတီယမ်မှ လယ်ယာလုပ်သား အစုကလေးများသည် ထိုယဉ်ကျေးမှုနှင့် ရင်ဆိုင်ခဲ့ကြရသည်။ ဘီ၊စီ ၅၀၀ ပြည့်နှစ်လွန် နှစ်များတွင် ရောမမြို့ကို အီထရပ်စကန်လူမျိုးဘုရင်များက အုပ်ချုပ်ခဲ့ရာ ရောမရွာကလေးအဖြစ်မှ ရောမ မြို့ကြီးအဖြစ်အထိ တိုးတက် လာခဲ့လေသည်။ ထိုအချိန်များတွင် အစပြုခဲ့သော၊ သို့မဟုတ် လုပ်ဆောင်ပြီးစီးခဲ့သော လမ်းပန်းဆက်သွယ်ရေးစသည့် ပြည်သူ့လုပ်ငန်းများကြောင့် ရောမမြို့သည် နောက်ဆုံး အီထရပ်စကန် လူမျိုးဘုရင်ကို နှင်ထုတ်ပြီးသည့် နောက်တွင် လေတီယမ်ဒေသဘခုလုံး လိုလိုတွင် ဩဇာအာဏာ ပျံ့နှံ့အောင် ပြုနိုင်သည့်အခြေသို့ ရောက်ခဲ့ရလေသည်။

အီထရပ်စကန်လူမျိုးတို့၏ ယဉ်ကျေးမှုသည် များသောအားဖြင့် သူတို့၏မူပိုင်ယဉ်ကျေးမှု ဖြစ်သော်လည်း အချို့ကိစ္စများအဖို့ကား ဂရိလူမျိုးတို့၏ ယဉ်ကျေးမှုကို အတုယူကြရသည်။ ထိုယဉ်ကျေးမှုသည် အာရှမိုင်းနားတွင် စတင်ခဲ့ကောင်း စတင်ခဲ့ပေမည်။ အာရှမိုင်းနား ဟု ဆိုရသော်လည်း လစ်ဒီးယားပြည် ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ ထိုယဉ်ကျေးမှုသည် ဂရိလူမျိုးတို့၏ ယဉ်ကျေးမှုထက် စော၍ အနာတိုလီယာနှင့် အီးဂျီးယန်း ဒေသများတွင် ဘီ၊ စီ ၁၀၀၀ ပြည့်နှစ်မတိုင်မီက ထွန်းကားခဲ့သောယဉ်ကျေးမှု များတွင် အပါအဝင် ဖြစ်ပေ လိမ့်မည်။ အီထရပ်စကန်လူမျိုးတို့သည် အက္ခရာများကို ဂရိလူမျိုးတို့ထံမှ ရယူခဲ့သော်လည်း ယင်းတို့၏ ဘာသာစကားကိုမူ ယခုတိုင် ဘာသာမပြန်နိုင်သေးချေ။ မကြာသေးမီက လေ့လာချက်များအရ ထိုလူမျိုးတို့၏ ဘာသာစကားသည် အနည်းအကျဉ်းမျှသာ အကျိုးအကြောင်း သိရသေးသော အနာတိုလီယန် ဘာသာစကား၊ အထူးသဖြင့် လစ်ဒီယန်ဘာသာစကားနှင့် အဆက်အသွယ်ရှိပုံရသည်ကို တွေ့ရ၏။ မည်သို့ပင်ဖြစ်စေ၊ ထိုလူမျိုးတို့၏

ဘာသာစကားသည် လက်တင်၊ သို့မဟုတ် ဣတလီဒေသဆိုင်ရာ ဘာသာစကားများနှင့်ကား အဆက်အသွယ် မရှိသည်မှာ သေချာသည်။ ထိုမျှမကသေး၊ အင်ဒို–ဥရောပ ဘာသာစကားများနှင့်လည်း အဆက်အသွယ် မရှိချေ။

အီထရပ်စကန်လူမျိုးတို့သည် ဣတလီပြည်၏ အနောက်ဖက်ကမ်းခြေ၊ တီရီနီယန် ပင်လယ်ပြင်တွင် သွားလာနေကြသော သင်္ဘောများကို ကြိုးကိုင်နိုင်ခဲ့ပြီးလျှင်၊ ဂရိလူမျိုးတို့၏ ရန်ကို ခုခံကာကွယ်နိုင်ရန် ကားသေ့လူမျိုးတို့နှင့် မဟာမိတ်ဖွဲ့ကာ ရေတပ်အင်အားကို တိုးတက်ကောင်းမွန်စေခဲ့သည်။ သို့ရာတွင် ဘီ၊ စီ ၄၇၃ ခုနှစ်တွင် စစ္စလီကျွန်းမှ ဆီရာကျူဆန် လူမျိုးတို့က အီထရပ်စကန်လူမျိုးတို့၏ ရေတပ်ကို ဖျက်ဆီးလိုက်ရာမှ ထိုလူမျိုးတို့၏ တန်ခိုးအာဏာသည် လျင်မြန်စွာ ဆုတ်ယုတ်သွားခဲ့လေသည်။ ထိုနောက် ဂေါလလူမျိုးတို့ကလည်း အီထရပ်စကန်လူမျိုးတို့၏ တိုင်းပြည်ကို ချင်းနင်း တိုက်ခိုက် သိမ်းပိုက်လိုက်ကြလေသည်။ ထိုပြင် အီထရပ်စကန် လူမျိုးတို့၏ ခံတပ်မြို့ဖြစ်သော ဗီယီမြို့သည်လည်း ဆယ်နှစ်ကြာမျှ ဝိုင်းဝန်းဆို့ပိတ် တိုက်ခိုက်ခြင်း ခံရသဖြင့် ဘီ၊ စီ ၃၉၆ ခုနှစ်တွင် ရောမလူမျိုးတို့၏လက်တွင်းသို့ ကျဆင်းသွားခဲ့ရလေသည်။

**အီဗော်လျူရှင်။** ။အမျိုးအနွယ်တခုမှ တိရစ္ဆာန်၊ သို့မဟုတ် အပင်တမျိုးမျိုးသည် မျိုးဆက်တဆက်မှတဆက်သို့ ဆင့်ကဲပြောင်းလဲခြင်းကို အီဗော်လျူရှင်ဟု ခေါ်သည်။ ထိုသို့ အမျိုးအနွယ်တခုမှ တခုသို့ အဆက်မပြတ်ပြောင်းလဲခြင်းကြောင့် ရှေးကရှိခဲ့ဘူးသော တိရစ္ဆာန်၊ သို့မဟုတ် အပင်နှင့် ယခုအခါ ရှိနေသော တိရစ္ဆာန်၊ သို့မဟုတ် အပင်သည် မတူနိုင်တော့ချေ။

သိပ္ပံပညာရှင်အများရှိရာ တဦးနှင့်တဦး အီဗော်လျူရှင် ဖြစ်ရာ၌ ဖြစ်သည့်နည်းများတွင် အယူအဆချင်းကွဲပြားကြသော်လည်း အီဗော်လျူရှင် ဖြစ်လာကြသည်ဟု ဆိုရာတွင်မူ အငြင်းမပွားကြချေ။

အလွန်ရှေးကျသောအခါကပင် လူသည် တိရစ္ဆာန်နှင့် အပင်များကို အလှအပအတွက် ဖြစ်စေ၊ ဝါသနာပါ၍ ဖြစ်စေ ပြောင်းလဲယူခဲ့လေသည်။ ရှေးလူများကမူ သဘာဝကိုယ်တိုင်က တိရစ္ဆာန်နှင့် အပင်များကို ပြောင်းလဲပေးခဲ့သည်ဟု ယူဆခဲ့ကြလေသည်။ဘီ၊စီ လေးရာစုနှစ်အတွင်းက နေထိုင်သွားခဲ့သော ဂရိလူမျိုး ဒဿနိကဗေဒပညာရှင်တဦးဖြစ်သည့် အယ်ရစ္စတိုတယ်က တန်းမြင့်သက်ရှိများသည် တန်းနိမ့်သက်ရှိများမှ အီဗော်လျူရှင်ဖြင့် ဖြစ်ပေါ်လာကြခြင်း ဖြစ်သည် ဟု ရှင်းလင်းဖော်ပြခဲ့ဘူးကြောင်း ရှေးအကျဆုံး မှတ်တမ်းများအရ သိရလေသည်။

အီဗော်လျူရှင်သည် နေ့စဉ်နှင့်အမျှ ဖြစ်ပေါ်လျက်ရှိသည် ဟု မမြွက်ဆိုနိုင်ချေ။ လူက တိရစ္ဆာန်ရိုင်းများကို ခိုင်းစေနိုင်သည့် တိရစ္ဆာန်များ အဖြစ်သို့ ဖြစ်စေ၊ အပင်ရိုင်းများကို ဥယျာဉ်၊ သို့မဟုတ် ခြံစိုက်အပင်မျိုးအဖြစ်သို့ ဖြစ်စေ ပြောင်းလဲယူခဲ့သည်မှာ မှန်၏။ သို့သော် ထိုသို့ ပြောင်းလဲယူခြင်းမှာ နှစ်ပေါင်း ထောင်ပေါင်းများစွာ ကြာညောင်းလေသည်။, ယေဘုယျ အီဗော်လျူရှင်ဖြစ်လာခြင်းမှာမူ နှစ်ပေါင်းသန်းပေါင်းများစွာပင် ကြာညောင်းလေသည်။

ထိုသို့နှစ်သန်းပေါင်းများစွာကြာအောင် အီဗော်လျူရှင်ဖြစ်လာကြရာတွင် ဆင့်ကဲပြောင်းလဲလာခဲ့ကြသော အခြေအနေများသည် ယခင်ကရှိခဲ့ဘူးသည့် အခြေအနေများထက် အဆင့်အတန်းတွင်၎င်း၊ရှုပ်ထွေးရာတွင်၎င်း ပိုမို၍ မြင့်မားလာခဲ့လေသည်။

သက်ရှိများ အီဗော်လျူရှင် ဖြစ်လာကြရာတွင်

(၁) မျိုးဆက်တဆက်မှ တဆက်သို့ ဆင့်ကဲပြောင်းလဲလာကြရာ၌ အသစ်ဖြစ်လာသော မျိုးဆက်များတွင် ဝိသေသ ဂုဏ်အသစ်များ ပါရှိလာခြင်း၊

(၂) အီဗော်လျူရှင် ဖြစ်လာသည်မှာ အချိန်ကြာညောင်းလှပြီ ဖြစ်၍ ယခုအခါတွင် အသက်ရှင်၍ နေကြသော သက်ရှိများ ရှိကြသကဲ့သို့ ယခုအခါတွင် မရှိကြတော့သော သက်ရှိများလည်း ရှိကြခြင်းနှင့်၊

(၃) မျိုးကွဲသက်ရှိများ၌ အဆက်အသွယ်များ ရှိကြသကဲ့သို့ သက်ဆိုင်ရာ မျိုးရင်းများ၊ သို့မဟုတ် ထိုထက်ကျယ်ပြန့်သော အဆက်အနွယ်များ၌လည်း အဆက်အသွယ်များ ရှိကြလေသည်။

ကမ္ဘာ့ ကျောက်လွှာများတွင် တွေ့ရလေ့ ရှိသော ကျောက်ဖြစ်ရုပ်ကြွင်းများကို လေ့လာကြည့်ခြင်းဖြင့် အီဗော်လျူရှင် ဖြစ်လာကြသည့် အထောက်အထားများကို ရရှိနိုင်လေသည်။ ရှေးကျသော ကျောက်လွှာများမှ တန်းနိမ့်သက်ရှိများ၏ ကျောက်ဖြစ်ရုပ်ကြွင်းများကိုသာ တွေ့ရ၍ တန်းမြင့်သက်ရှိများ၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို မတွေ့ရချေ။ တွေ့ရသော တန်းနိမ့်သက်ရှိများ၏ ကျောက်ဖြစ်ရုပ်ကြွင်းများ၏ အမျိုးအစားများမှာ များပြား၍ အရေအတွက်မှာလည်း များပြားလေသည်။ ထိုအချိန်က ကျောရိုးရှိသတ္တဝါများ၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို မတွေ့ရသေးချေ။ နောက် နှစ်သန်းပေါင်းများစွာကြာပြီးသော အခါတွင်မှ ကျောရိုးရှိ သတ္တဝါများ၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို တွေ့နိုင်လေသည်။

ပဌမစ၍တွေ့ရသော ကျောရိုးရှိသတ္တဝါများသည် ရှေးငါးများဖြစ်သည်။ နောက် နှစ်သန်းပေါင်းမြောက်မြားစွာကြာသောအခါတွင် ဖားနှင့် ယင်း၏ အနွယ်ကဲ့သို့သော

ရေနေကုန်းနေသတ္တဝါများကို တွေ့ရသည်။ ထိုနောက် နှစ်သန်းပေါင်းများစွာ ကြာပြီးသောအခါတွင် ရှေးကျသော တွားသွားသတ္တဝါများ၊ ရှေးကျသော ငှက်များနှင့် ရှေးကျသော နို့တိုက်သတ္တဝါများကို တွေ့ရလေသည်။ ထိုရှေးကျသော နို့တိုက်သတ္တဝါများမှ နှစ် သန်းပေါင်းများစွာ ကြာသောအခါတွင် ယခုအခါ၌ တွေ့နေကြရသော အမွေးရှိ သတ္တဝါများ အဖြစ်သို့ ဆင့်ကဲပြောင်းလာကြလေသည်။

အီဗော်လျူရှင်စံနစ်ဖြင့် သက်ရှိ အမြောက်အမြားဖြစ်လာကြရာမှ နောင်တွင် ပျောက်ကွယ်သွားသော သက်ရှိများကိုလည်း တွေ့ရသည်။ ထိုအချက်သည် တွားသွားသတ္တဝါတွင် ထင်ရှား၏။ ထိုတွားသွားသတ္တဝါများသည် နှစ် သန်းပေါင်းများစွာအတွင်း၌ အီဗော်လျူရှင် ဖြစ်လာကြလေသည်။ တချိန်တွင် တွားသွားသတ္တဝါ မျိုးစဉ်ပေါင်း နှစ်ဆယ်ထက် ပိုသော တွားသွားသတ္တဝါများကိုပင် တွေ့နိုင်လေသည်။ နှစ်ပေါင်း မြောက်မြားစွာကြာသော တွားသွားသတ္တဝါခေတ် ဟု ခေါ်သည့် ခေတ်အတွင်းက ကမ္ဘာကို လွှမ်းမိုးခဲ့သော ဒိုင်နိုဆောကောင်များ၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို တွေ့ရလေသည်။ နောင်နှစ်သန်းပေါင်းများစွာ ကြာသောအခါတွင် နို့တိုက်သတ္တဝါများ၏ အီဗော်လျူရှင် ဖြစ်ရေးကို အားပေးသော ရာသီဥတု ဖြစ်ပေါ်မှုကြောင့် တွားသွားသတ္တဝါမျိုးများ နည်းပါးလာခဲ့သဖြင့် ယခုအခါတွင် တွားသွားသတ္တဝါမျိုးစဉ်ပေါင်း ငါးခုသာ ကျန်ရှိတော့လေသည်။

ကျောက်ဖြစ်ရုပ်ကြွင်းများကို လေ့လာခြင်းဖြင့် အချို့အမျိုးများ၏ အီဗော်လျူရှင် ဖြစ်ပေါ်လာပုံကို တွေ့နိုင်လေသည်။ ထိုအချက်သည် မြင်း၏ အီဗော်လျူရှင် ဖြစ်လာပုံတွင် ထင်ရှား၏။ ပဌမ စ၍ တွေ့ရရာတွင် မြေခွေးအရွယ်မျှသာရှိသော မြင်းနှင့်တူသည့် တိရစ္ဆာန်များကို တွေ့ရသည်။ယင်းတို့၌ ခြေချောင်းကလေးများငါးချောင်းရှိသည်။ ထိုနောက် အီဗော်လျူရှင် စံနစ်ဖြင့် အလယ်ခြေချောင်းသာ ကျန်ရစ်ရာမှ တဖြည်းဖြည်း အီဗော်လျူရှင် ဖြစ်ခြင်းဖြင့် ခွာ ဖြစ်လာသည်။ ထိုအခြေအနေရောက်ရန် အဆင့်ပေါင်း ၁၂ဆင့် ပြောင်းလာခဲ့ရပြီးလျှင် နှစ်သန်းပေါင်းများစွာ ကြာပြီးသောအခါတွင် ယခုအခါ၌ မြင်ရသော မြင်းအဖြစ်သို့ ပြောင်းလဲလာသည်ကို တွေ့ရလေသည်။

သိပ္ပံပညာရှင်များက ကျောက်ဖြစ်ရုပ်ကြွင်း များ၏ အထောက်အထားများမှာ မပြည့်စုံ ဟု ဝန်ခံကြသည်။ ကျောက်ဖြစ်ရုပ်ကြွင်းများ မကျန်ရစ်သည့် သက်ရှိများ အမြောက်အမြား ရှိသေးကြောင်းယုံကြည်ကြ၏။သို့သော် ထိုသို့ ကျောက်ဖြစ်ရုပ်ကြွင်းအချို့ကို မတွေ့ကြရသော်လည်း ယေဘုယျမှတ်တမ်းများကို ကြည့်ခြင်းဖြင့် သက်ရှိများ၏ သမိုင်းစဉ်တလျှောက်၌ အီဗော်လျူရှင် ဖြစ်လာကြသည်မှာ ထင်ရှားသည် ဟု ဆိုကြသည်။ ရှေးကျသည့် ကျောက်ဖြစ်ရုပ်ကြွင်းများသည် တခုနှင့်တခု တူညီကြသဖြင့် တခုနှင့်တခု အဆက်အသွယ် ရှိကြသည်မှာလည်း ထင်ရှားသည် ဟု ဆိုကြသည်။

တိရစ္ဆာန်များ၏ နှိုင်းရှည့်နိုင်သော အနာတမီကို လေ့လာခြင်းဖြင့် အီဗော်လျူရှင်ဖြစ်လာသည့်အထောက်အထားများကို ပြသနိုင်ပေသည်။ တန်းနိမ့်ငါးများမှ တန်းမြင့်တိရစ္ဆာန်များအထိ ကျောရိုးရှိ သတ္တဝါမှန်သမျှတွင် ဦးနှောက်၏ အနေအထားမှာ အတူတူသာ ဖြစ်ပြီးလျှင် ဦးနှောက်နာဗ်ကြောများသည်လည်း ဦးနှောက်၏ အလားတူ အစိတ်အပိုင်းများနှင့်သာ ဆက်သွယ်လျက်ရှိသည်ကို တွေ့ရလေသည်။ နို့တိုက်သတ္တဝါများ၊ သို့မဟုတ် အမွေးရှိသတ္တဝါများ၏ ခြေလက်အင်္ဂါများကို ကြည့်လျှင်လည်း အနေအထားမှာ အတူတူသာ ဖြစ်သည်ကို တွေ့ရလေသည်။လင်းနို့၏ အတောင်နှင့် ဝေလငါး၏ ရှေ့ရေယက်တို့၏ အခိက အရိုးများမှာ လူ၏ လက်မောင်းနှင့် လက်တို့၏ အခိကအရိုးများနှင့် အတူတူဖြစ်သည်ကို တွေ့ရလေသည်။ သို့သော် အပင်၌ မြင်ရရာတွင်မူ လွန်စွာကွာခြားလှပေသည်။ ထိုနည်းအတိုင်း တိရစ္ဆာန်နှင့် အပင်လောကတို့မှ သာဓကများကိုလည်း တွေ့ရလေသည်။

နို့တိုက်သတ္တဝါတို့တွင် ယေဘုယျအားဖြင့် ဆင်တူသော သွားနှစ်စုံ ရှိ၏။ လူ၌လည်း ထိုနည်းအတူ ရှိလေသည်။ ဝေ့ဗုန်းဝေလငါးတွင်လည်း အလားတူ သွားနှစ်စုံ ရှိသည်။ သို့သော် ထိုသွားများသည် ဝေလငါးငယ်ကလေး မမွေးဖွားမီတွင် တိုးပွားလာပြီးနောက် ပျောက်ကွယ်သွားလေသည်။ ထိုသွားများကို မည်သည့်အခါတွင်မျှလည်း အသုံးပြုလေ့ မရှိချေ။ တဖန် လူ၏ အစာလမ်းကြောင်းအတွင်းရှိ အူအတက်သည် သြဂင်တခု၏ အကြွင်းအကျန်ကလေး ဖြစ်လေသည်။ ထိုသြဂင်သည် အခြား နို့တိုက်သတ္တဝါ အမြောက်အမြားတွင် အသုံးဝင်ကြလေသည်။ အလားတူ အခြေခံဖြစ်သည့် ပစ္စည်း အမြောက်အမြားသည် ရှေးလူများမှ ဆက်ခံရရှိပြီးလျှင် ထိုပစ္စည်းများသည် ရှေးလူများတွင် အသုံးဝင်ခဲ့ကြလေသည်။

တိရစ္ဆာန် အမျိုးမျိုး၏ ဇီဝကိစ္စဗေဒကို လေ့လာသော အခါတွင်လည်း ထူးခြားသော တူညီမှုများကို တွေ့ရလေသည်။ တန်းမြင့်တိရစ္ဆာန်များကို ကြည့်လျှင် ယင်းတို့အားလုံးသည် အသက်ရှူခြင်း၊ အိပ်ခြင်းနှင့် ရွေ့ရှားသွားလာခြင်းများ ပြုလုပ်ကြသည်ကို တွေ့ရပေမည်။ အစာစားရာတွင်လည်း တူညီသော ယေဘုယျ အစာစုများကို စားကြပြီးလျှင် တူညီသည့် အညစ်အကြေးများကို ဖြစ်စေ

ကြသည်ကိုလည်း တွေ့ရပေမည်။ ဗီတာမင်အမျိုးမျိုးသည် လူ၏ ကျန်းမာရေးအတွက် လိုသကဲ့သို့ တန်းမြင့်တိရစ္ဆာန်တို့၏ ကျန်းမာရေးအတွက်လည်း လိုလေသည်။ ထိုဆေးများ၏ စွမ်းပကားများကို သိနိုင်ကြခြင်းမှာ သိပ္ပံပညာရှင်များက ထိုဆေးများကို တန်းမြင့် တိရစ္ဆာန်များတွင် စမ်းသပ်ကြည့်ကြရာမှ သိရှိကြသဖြင့် လူများက အသုံးပြုကြခြင်း ဖြစ်သည်။

အိမ်မွေးတိရစ္ဆာန်များနှင့် လူက စိုက်ပျိုးယူသော အပင်များကို ကြည့်ခြင်းဖြင့်လည်း လူက ကြဲဖန်ရွေးချယ်သည့်နည်း၊ သို့မဟုတ် မျိုးဖောက်ခြင်းဖြင့် ယင်းတို့အား မည်မျှအထိ ပြောင်းလဲပစ်နိုင်သည်ကို တွေ့နိုင်လေသည်။ ထင်ရှားစေရန် သာဓကအဖြစ် ဖော်ပြရလျှင် အိန္ဒိယနိုင်ငံမှ ရရှိသည့် ကြက်တကောင်မှ ၁၀ ပေါင် လေးသော ကြက်နှင့် တပေါင်သာ လေးသည့် ကြက်များဖြစ်လာစေသည်အထိ လူက မျိုးဖောက်၍ ယူနိုင်သည်ကို တွေ့ရလေသည်။ဟင်းသီးဟင်းရွက်များတွင်လည်း အလားတူပင် လူက အပင်ရိုင်းများမှ ကြဲဖန် ရွေးချယ်သည့်နည်းဖြင့် စိုက်ပျိုးယူလေသည်။

အီဗော်လျူရှင် ဖြစ်ပေါ်စေရန် အခြေခံအကြောင်းများကို စဉ်းစားကြရပေမည်။ လူတွင် ဖြစ်စေ၊ တိရစ္ဆာန်တွင် ဖြစ်စေ မတူညီမှုကလေးများကို အမြဲတစေ တွေ့ရလေသည်။ အပင်နှစ်ပင်၊ သို့မဟုတ် လူနှစ်ယောက်သည် မည်သည့်အခါတွင်မျှ အတိအကျ မတူသည်ကို လူတိုင်းသိ၏။

မွေးဖွားသော အရေအတွက်ထက် ကြီးထွားလာပြီးလျှင် အရွယ်ရောက်လာသည်အထိ ကြီးထွားလာသော တိရစ္ဆာန်၊ သို့မဟုတ် အပင်အရေအတွက်က နည်းပါးလေသည်။ တိရစ္ဆာန်နှင့် အပင် မျိုးစိတ် အမြောက်အမြားတွင် မိဖနှစ်ဦးမှ အရေအတွက်များစွာသော တိရစ္ဆာန်နှင့် အပင်များကို ဖြစ်ထွန်းလေသည်။ ဖားပြုပ်အမ တကောင်သည် တနှစ်လျှင် ဥပေါင်း ၂၀,၀၀၀ မျှကို အုပေး၏။ သို့သော် ထိုဥများသည် ဥလိုက်ဖြစ်စေ၊ အကောင်ဖြစ်မှဖြစ်စေ သေကြေပျက်စီးကုန်သော အရေအတွက်မှာ အလွန် များပြားသဖြင့် မှုမှန် အခြေအနေအတွင်း၌ ဖားပြုပ်နှစ်ကောင်မျှသာ မိဖ၏နေရာကို ယူရန် ကျန်ရစ်လေ့ရှိသည်ကို တွေ့ရလေသည်။ ထိုအခါ သဘာဝ ရွေးချယ်ခြင်းသည် ဖြစ်လာလေသည်။ အခြေအနေနှင့် မကိုက်ညီသော အခြေအနေမကောင်းမွန်လှသည့် ဖားပြုပ်များ သေကြေကုန်ကြလေသည်။ တာရှည်တွင် မွေးဖွားသည့် သားသမီးများအနက်အခြေအနေအကောင်းမွန်ဆုံး သားသမီးများသာ ကျန်ရစ်လေ့ရှိသည်။ အခြေအနေယာယီအားဖြင့် ပြောင်းလဲခြင်းကြောင့် ဖားပြုပ်များ ပို၍ အသက်ရှင်ကာ ကျန်ရစ်ပြန်လျှင်လည်း ဖားပြုပ်အရေအတွက် မြောက်မြားလာခြင်းကြောင့် ရောဂါကပ်ဆိုက်ရောက် လာပြီးလျှင် သေကြေကုန်လေ့ ရှိသည်။ ထိုနည်းအားဖြင့် ဖားပြုပ်၏ အရေအတွက်သည် သူ့အခြေအနေနှင့်သူ ကိုက်ညီလျက် ရှိလေ့ ရှိသည်။ အခြေအနေပြောင်းလဲလာလျှင် ထိုပြောင်းလဲလာသည့် အခြေအနေနှင့် အလွန်ကိုက်ညီအောင် အကျိုးပြု လိုက်လျောခြင်းရှိနိုင်သော ဖားပြုပ်များသာ ကျန်ရစ်နိုင်၍ ကျန်ဖားပြုပ်အားလုံးသည် သေကြေကုန်ကြရပေမည်။ အခြားနေရာများရှိ ဖားပြုပ်များသည်လည်း ထိုနေရာမျိုး၌ အခြေအနေများနှင့် ကိုက်ညီအောင် အကျိုးပြု လိုက်လျောမှုများရှိသည့် ဖားပြုပ်များသာ ကျန်ရစ်နိုင် ပေလိမ့်မည်။ ထိုနည်းဖြင့် အီဗော်လျူရှင် ဖြစ်လာသော ဖားပြုပ်များကို တွေ့နိုင်လေသည်။ထိုဖားပြုပ်များသည် ပဌမပေါက်ဖွားပေးခဲ့သောဖားပြုပ်များနှင့်တူနိုင်ကြတော့မည်မဟုတ်ချေ။

သိပ္ပံပညာရှင်များ အချင်းချင်း အငြင်းပွားရဆုံး အချက်များ အနက် တချက်မှာ ပေါက်ဖွားလာသည့် တိရစ္ဆာန်၊ သို့မဟုတ် အပင်များတွင် ကွဲလွဲရသည့် အကြောင်းများနှင့် ထိုအကြောင်းများကြောင့် သက်ဆိုင်ရာ တိရစ္ဆာန်၊ သို့မဟုတ် အပင်များသို့ မည်ကဲ့သို့သော အကျိုးသက်ရောက်မှုများ ရှိလာသည် ဆိုသော အချက်ဖြစ်သည်။ ဒါဝင် ချမှတ်ထားသော စံနစ်အရ ဆိုလျှင် အကျိုး သက်ရောက်စေသော ကွဲလွဲချက် များသည် များသောအားဖြင့် အနည်းငယ်မျှသာ ရှိပြီးလျှင်၊ ထိုကွဲလွဲချက်များသည်လည်း မည်သည့်အကြောင်းကြောင့် ရှိလာသည် ဟု မပြောနိုင်ချေ။ ထိုနည်းဖြင့် တိရစ္ဆာန်တကောင်၊ သို့မဟုတ် အပင်တပင်သည် အခြားတိရစ္ဆာန်၊ သို့မဟုတ် အပင်များကဲ့သို့ မဟုတ်ပဲ ကံအားလျော်စွာ ပြောင်းလဲချက်ကလေးများ ပါလာခြင်းကြောင့် ကျန်တိရစ္ဆာန်များ၊ သို့မဟုတ် အပင်များထက် ပို၍ အသက်ရှည်နိုင်လေသည်။ ထိုပြောင်းလဲချက်ကလေးများကိုသာ သားသမီးများက အမွေဆက်ခံနိုင်ကြလျှင် ထိုအမွေဆက်ခံကြသော တိရစ္ဆာန်၊ သို့မဟုတ် အပင်များသည် အသက်ရှည်နိုင်ရန် ပို၍ အလားအလာ ရှိကြလေသည်။

သိပ္ပံပညာရှင်တဦးကမူ လေ့လာရရှိသော သွင်ပြင်လက္ခဏာကို အမွေဆက်ခံခြင်းကြောင့် ပြောင်းလဲချက်ကလေးများ ရှိသည်ဟု ဆိုသည်။ ထိုပညာရှင်၏ အယူအဆမှာ တိရစ္ဆာန်၊ သို့မဟုတ် အပင်က ယင်းအသက်ရှင်နေစဉ်အတွင်း လေ့လာရရှိခဲ့ခြင်းကို သားသမီးများအား တဆင့်အမွေပေးခဲ့ခြင်းကြောင့် ပြောင်းလဲချက်ကလေးများ ရှိခြင်း ဖြစ်သည်ဟု ဆိုသည်။ သာဓကအဖြစ်ဖော်ပြထားသည်မှာ အားကစားလိုက်စားသော မိဖက

ကိုယ်အင်္ဂါတွင် အခြားကလေးများထက် သန်စွမ်းသော ကလေးများကို မွေးဖွားစေနိုင်ခြင်းနှင့် ဉာဏ်ပညာနှင့် ပြည့်စုံသော မိဖက အခြားကလေးများထက် ပို၍ ဉာဏ်ပညာနှင့် ပြည့်စုံသော ကလေးများကို ပေါက်ဖွားစေနိုင်သကဲ့သို့ ဖြစ်သည်။ အခြား ပညာရှင်တဦးကမူ ထိုအဆိုပြုချက်ကို လက်မခံနိုင် ဟု ဆိုပြီးလျှင် အထက်ဖော်ပြပါ ပညာရှင် ပြောဆိုသကဲ့သို့ ဖြစ်လာသည် ဆိုသည်မှာ အထောက်အထား မရှိဟု ဆိုသည်။ ဒုတိယ ပညာရှင် ပေးသော ဆင်ခြေကို ထင်ရှားစေရန် တရုပ်မများ၏ ခြေထောက်များကို သာဓက အဖြစ် ဖော်ပြလေသည်။ ထိုသို့ဖော်ပြရာတွင် တရုပ်မက ခြေထောက်များ ကိုသာ မပြုပြင်ပဲ ထားလျှင် ထိုခြေထောက်များသည် မူမှန်အရွယ်အထိ ကြီးထွားလာနိုင်သည်ဟု ဖော်ပြသည်။ ထိုသို့ မူမှန်အရွယ်အထိ ကြီးထွားလာနိုင်သော ခြေထောက်များ ရှိသည့် တရုပ်မကလေးကို နှစ်ရာပေါင်းများစွာက သေးငယ်အောင် စည်းနှောင် ထားခဲ့သည့် ခြေထောက်များရှိသော တရုပ်မက မွေးဖွားခဲ့ခြင်း ဖြစ်သည်ဟု ဆိုသည်။

အခြား အမှန်အရေးကြီးသော သီအိုရီတခုကို အခြား သိပ္ပံပညာရှင်တဦးက တင်ပြပြန်သည်။ သူ၏တင်ပြချက်မှာ ပြောင်းလဲချက်များကို သဘာဝက အခွင့်ကောင်း ယူတတ်ခြင်းပင် ဖြစ်သည်။ ထိုပြောင်းလဲချက်သည် အခြား အတူ မွေးဖွားလာသော တိရစ္ဆာန်များ၊ သို့မဟုတ် အပင်များနှင့် မတူပဲ ထူးခြားသော ပြောင်းလဲမှုများ ရှိလာခြင်းကို သာဓကအဖြစ် ဖော်ပြထားသည်။ ထိုသာဓကမှာ တခါတရံတွင် တိရစ္ဆာန်များ၊ သို့မဟုတ် အပင်များ၌ တွေ့ရလေ့ရှိသည်။ တခါတရံတွင် လက်ချောင်းများ၌ ရှိနေကျ အဆစ်သုံးဆစ် အစား နှစ်ဆစ်သာ ပါလေ့ရှိကြောင်းကို ဖော်ပြသည်။ သို့မဟုတ် လက်ချောင်း၊ သို့မဟုတ် ခြေချောင်း ငါးချောင်း အစား လက်ချောင်း၊ သို့မဟုတ် ခြေချောင်း ခြောက်ချောင်းပါလေ့ရှိသည်ကို ဖော်ပြသည်။ ထိုသို့ပြောင်းလဲလာချက်က ပြောင်းလဲလာသည့် တိရစ္ဆာန်၊ သို့မဟုတ်အပင်သစ်အဖို့ အဓိကအချက်ဖြစ်လာနိုင်ကောင်း ဖြစ်လာနိုင်သည်ဟု ဆိုသည်။ ထိုပြောင်းလဲချက်က ပိုင်ရှင်သစ်အား အကျိုးပြုနိုင်လျှင်၊ ကျန် ကလေးများ ပျက်စီးကုန်သည့်တိုင်အောင်ထိုပြောင်းလဲချက် ရှိနေသောကလေးသည် ကျန်ရစ်နိုင်ပေလိမ့်မည်။ ထိုကလေးမှတဆင့် အလားတူ အကျိုးပြုနိုင်သော အချက်ကို အမွေဆက်၍ ပေးနိုင်လျှင် မျိုး စိတ်သစ် တခုပင် ဖြစ်ပေါ် လာနိုင်သည်ဟုဆိုသည်။ ထိုပြောင်းလဲချက်ကသာ ပိုင်ရှင်အား အကျိုးမပြုနိုင်လျှင် ပိုင်ရှင်သည် သေကြေ ပျက်စီး သွားနိုင်သည်ဟု ဆိုသည်။

အီဗော်လျူးရှင်ကို ဖြစ်စေသည် ဆိုသော အခြား အလားတူ သီအိုရီ အမြောက်အမြားလည်း ရှိသေးသည်။ သို့သော် ဖော်ပြခဲ့ပြီးဖြစ်သော အချက်အလက်များနှင့်ပင် သိပ္ပံပညာရှင် အချင်းချင်း အီဗော်လျူးရှင် ဖြစ်စေသည့် အကြောင်းပြချက်များတွင် ကွဲလွဲကြကြောင်းမှာ ထင်ရှားပေပြီ။ ထို့ကြောင့် ဖော်ပြခဲ့ပြီးဖြစ်သော အချက်ကိုပင် တဖန် ပြန်၍ ဖော်ပြရလျှင် သက်ရှိများ အီဗော်လျူးရှင် ဖြစ်လာရာ၌ ဖြစ်လာသည့် နည်းများတွင် သိပ္ပံပညာရှင်ချင်း သဘောကွဲလွဲကြသော်လည်း ယင်းတို့ အီဗော်လျူးရှင် ဖြစ်လာကြသည်ဟု ဆိုရာတွင်မူ သဘောတူညီကြလေသည်။

**အီမာဆန်, အာ ဒဗျူ** (ခရစ် ၁၈၀၃–၁၈၈၂)။ ။ ရပ် ဝါလဒို အီမာဆန်သည် အမေရိကန်စာရေးဆရာ ပညာရှိကြီးတဦးဖြစ်သည်။ ငယ်စဉ်ကပင် တကိုယ်တည်းလွတ်လပ်စွာနေထိုင်၍မိမိကိုယ်ကို မိမိယုံကြည်အားကိုးသူတယောက်ဖြစ်၏။ အီမာဆန်သည် သူများယုံကြည်တိုင်း သူလိုက်၍ မယုံကြည်၊ သူများလုပ်တိုင်းလည်း သူလိုက်၍မလုပ်။ သူ့စိတ်နှင့် သူ့ကိုယ် ဖာသာလဝါ နေခဲ့သူဖြစ်၏။

အီမာဆန်သည် ၁၈၀၃ ခုနှစ်တွင် ဗော့စတန်မြို့၌ မွေးဖွား၍ အသက် ရှစ်နှစ်အရွယ်တွင် ဖခင်ဆုံးသွားရာ ဆင်းရဲ ငြိုငြင်စွာ နေခဲ့ရသည်။ ၁၈၁၇ ခုနှစ်တွင် ဟားဗတ်ကောလိပ်ကျောင်းသို့ သွားရောက်ပညာသင်ပြီးလျှင် သူ့အစ်ကို၏ ကျောင်း၌ ကျောင်းဆရာ လုပ်နေခဲ့၏။ အီမာဆန်သည် စိတ်အေးလက်အေး နေတတ်သူ ဖြစ်ရာ သူတပါးကိုလည်း ဒုက္ခမပေး၊ ဝင်ဝါမောက်ကြွားခြင်းလည်း မရှိချေ။ ကျောင်းတွင် မိန်းခလေးများကို စာပြရလေရာ



အမေရိကန်စာရေးဆရာ အာ ဒဗျူ အီမာဆန်

အီမာဆန်ကဲ့သို့ ရှက်တတ်သူအဖို့ အလွန်ပင် စိတ်မချမ်းသာစရာဖြစ်ခဲ့လေသည်။ထိုစဉ်က အီမာဆန်မှာ အသက် ၁၉ နှစ်သာ ရှိသေး၏။ ကျောင်းဆရာလုပ်ရသည်ကို သူသည် တရွေ့ရွေ့ငြီးငွေ့လာလေသည်။

အီမာဆန်၏ ဘေးဘိုးမျိုးရိုးစဉ်ဆက်မှာ သာသနာ့ဝန်ထမ်းများဖြစ်ကြ၍ ရောင့်ရဲတင်းတိမ်နိုင်သော သူတော်ကောင်းပုဂ္ဂိုလ်များဖြစ်ကြသည်။ ထိုစိတ်ဓာတ်သည် အီမာဆန်၌ ကိန်းဝပ်နေလေသည်။ ကျောင်းဆရာလုပ်ရာမှထွက်၍ သူသည် ဘေးဘိုးစဉ်ဆက်က လုပ်ခဲ့သော သာသနာ့ဝန်ထမ်းအလုပ်ကို ၁၈၂၉ ခုနှစ်တွင် စတင်လုပ်ခဲ့၏။ အီမာဆန်သည် သူ့ဝါဒနှင့်သူ နေသူဖြစ်၏။ သာသနာ့ဝန်ထမ်းလုပ်ရာ၌လည်း ဝတ်ကျောင်းဥပဒေစည်းကမ်းများက များပြားလှသဖြင့် အေးအေးနှင့် ကိုယ်ထင်ရာကိုယ်လုပ်လိုသူ အီမာဆန်အဖို့ စိတ်ကြိုက်မတွေ့ချေ။ အပေါ်ယံအားဖြင့် တည်ကြည် ငြိမ်သက်ဟန် ရှိသော အီမာဆန်၏ စိတ်သည် စင်စစ်အားဖြင့် အမြဲတွေးဆကြံစည်ကာ လူတို့စိတ်ချလက်ချယုံကြည်နေကြသည့် အယူအဆများကို အမြဲတော်လှန်နေခဲ့လေသည်။ ထို့ကြောင့် သာသနာ့ဝန်ထမ်းအလုပ်နှင့်လည်း သူ့အဖို့ သင့်တော်မည် မထင်၍ သုံးနှစ်အကြာတွင် နှုတ်ထွက်လိုက်လေသည်။

အီမာဆန်သည် မိမိ၏အတွေးနှင့် မိမိ မည်သည့်အရာကိုမျှ တိတိကျကျမတွေ့ရပဲ တွေဝေ၍သာနေခဲ့ရာ ၁၈၃၂ ခုနှစ်တွင် ဇနီးသည် အနိစ္စရောက်ပြန်သဖြင့် စိတ်ချိုးကာ မကျန်းမမာဖြစ်လေသည်။ ထို့ကြောင့် ကျန်းမာရေးအတွက်ဥရောပတခွင်သို့ သွားရောက်လည်ပတ်ကာ သူ့ကိုယ်သူ ကုစားလေသည်။ ယင်းသို့ ခရီးလှည့်လည်လိုက်သဖြင့် အီမာဆန်မှာ များစွာအကျိုးထူးခဲ့လေသည်။ ဥရောပနှင့် အင်္ဂလန်ရှိ နာမည်ကြီးစာရေးဆရာများနှင့်၎င်း၊ ပညာရှိများနှင့်၎င်း တွေ့ကြုံ၍ မိတ်ဖြစ်ခဲ့လေသည်။ မိတ်ဆွေအပေါင်းတွင်အင်္ဂလိပ်စာရေးဆရာကြီးတောမတ်ကာလိုင်းနှင့် များစွာအကျွမ်းဝင်ခဲ့၍ အသက်ထက်ဆုံး မိတ်ဆွေအဖြစ် ပေါင်းသင်းသွားနိုင်ခဲ့လေသည်။ ဥရောပမှ ပြန်လာပြီးနောက် ၁၈၃၅ ခုနှစ်တွင် လစ်ဒီယားဆိုသူနှင့် ဒုတိယအကြိမ် အိမ်ထောင်ထူကာ ကွန်ကော့မြို့ လက်ဇင်းတန်လမ်းပေါ်ရှိ အိမ်ကလေး၌အတည်တကျနေထိုင်လေသည်။

အီမာဆန်သည် လူ့လောကနှင့် မစပ်မဟပ်ပဲ အမြဲပင် ဖဲကြဉ်နေသကဲ့သို့ ရှိလေသည်။ သူတယောက်တည်း လွတ်လပ်စွာ တွေးတောယူဆနေခြင်းကိုနှစ်သက်သဖြင့် နောက်ဆုံး၌ သူ့အဖို့အသင့်လျော်ဆုံးသော အလုပ်မှာ စာရေးဆရာအလုပ်ပင် ဖြစ်သည်ဟု ဆုံးဖြတ်လိုက်လေသည်။ ဆောင်းတွင်းချိန် အခါတွင် အီမာဆန်သည် သူ့ဝါဒအယူအဆများကို ဟောပြော၍နွေရာသီတွင်စာရေးလေ့သည်။ ဗောစတန်နှင့် ဟားဗတ်တွင် မကြာခဏ ဟောပြောပွဲများ ကျင်းပသည်။ ၁၈၃၆ ခုနှစ်တွင်အီမာဆန်သည် သူရေးသည့် "သဘာဝ"ဟုအမည်ပေးထားသော စာအုပ်ကို ထုတ်ဝေသည်။ ထိုစာအုပ်၌ တဦးတယောက်တည်း၏ လွတ်လပ်ရေးများကို ရေးသားထားလေသည်။

အီမာဆန်သည် စာမွန်များကိုလည်း ရေးသားခဲ့ရာ "တကိုယ်တည်းနေယင်း အပေါင်းအသင်းများရှိသကဲ့သို့ စိတ်ချမ်းသာစေနိုင်ခြင်း" ဟူသော စာအုပ်မှာ နာမည်အကြီးဆုံးဖြစ်လေသည်။ ၁၈၄၀ ပြည့်နှစ်တွင် ဒိုင်ယယ်ခေါ် လစဉ် မဂ္ဂဇင်း၌ ဆောင်းပါးများကို ရေး၍ အယ်ဒီတာအဖြစ်ဖြင့်လည်း ဆောင်ရွက်ခဲ့လေသည်။ ၁၈၄၆ ခုနှစ်တွင် အင်္ဂလန်သို့သွားရောက်၍ ပလေးတို၊ မွန်တိန်း၊ ရှိတ်စပီးယား၊ နပိုလီယန် စသည့်ပုဂ္ဂိုလ်ကျော်များအကြောင်းကို လှည့်လည်ဟောပြောခဲ့လေသည်။ ထိုဟောပြောချက်များကို ၁၈၅၀ ပြည့်နှစ်တွင် စာအုပ်အဖြစ်ထုတ်ဝေခဲ့၏။ ၁၈၅၆ ခုနှစ်တွင် အင်္ဂလန်ပြည်၌ မြင်တွေ့သည့် အကြောင်းများကို "အင်္ဂလိပ်တို့၏ ဓလေ့များ"ဟူသော အမည်နှင့် စာအုပ်တအုပ်ရေးခဲ့လေသည်။

အီမာဆန်၏ အရေးအသားများကို အစီအစဉ်မရှိဟု ဝေဖန်ပြောဆိုကြလေသည်။အီမာဆန်သည် စာရေးရာတွင် စီစဉ်ခြင်း၊ သူ့နေရာနှင့်သူ ခန့်ခွဲထားခြင်းမရှိ၊ သူ၏စိတ်ထဲ၌ ပေါ်လာသလို ရေးတတ်လေသည်။

အီမာဆန် စာရေးပုံရေးနည်းမှာ စကားတိုတိုနှင့် အဓိပ္ပါယ်အများဆုံးပါအောင် ရေးတတ်လေသည်။ သူ၏ စကားလုံးများမှာ သူ၏စိတ်ကူးဉာဏ်ဖြင့် အရောင်တင်ထားသည်ကိုတွေ့ရသည်။ အီမာဆန်သည် အမှန်တရားကို ပေါ်လွင်အောင်ရေးခြင်း ဖြစ်လေသည်။

"ဘုရားသခင်သည် လူတိုင်း၏ အတွင်း၌ ကိန်းအောင်းသည်"ဟူသော စကားမှာ အီမာဆန်၏ အယူဝါဒအချုပ်အခြာဖြစ်သည်။ဘုရားသခင်ကိုရှာလိုလျှင် အခြား၌မရှာရ၊ မိမိ၏စိတ်တွင်း နှလုံးတွင်း၌ ရှာရမည်ဟု အီမာဆန်ကဆို၏။ မိမိကိုယ်ကို မိမိအမှီပြုရန် အားကိုးရန်လည်း ဟောပြောခဲ့၏။ အီမာဆန်၏ ဝါဒမှာ သူတပါး ပြောစကားကို လည်းမယုံနှင့်၊ဂရုလည်းမစိုက်နှင့်၊သူများပြောသည့်အတိုင်း အလျှင်စလိုမလုပ်နှင့်၊မတွေးနှင့်ဟူ၍ ဖြစ်သည်။ အီမာဆန်၏ အတွေးအဆ အယူဝါဒ စိတ်သဘောအခြေတို့မှာ သူရေးသောစာအုပ်များတွင် ထင်ရှားစွာ ပေါ်လွင်နေပေသည်။

အီမာဆန်သည် အသက်အရွယ်ကြီးရင့်လာသောအခါ ရသေ့ရဟန်းများကဲ့သို့ ရင့်ကျက်သော ဣန္ဒြေကိုဆောင်၏။ အစဉ်သဖြင့်ကား မျက်နှာမှာ ပြုံးရောင်သန်းနေ၏။ သို့ရာတွင် အလွန်လျှင် ရယ်ခဲ၏။ ကြင်နာသနားတတ်၍

ဝတ်တရားကျေပြွန်သူ တဦးဖြစ်သဖြင့် လူချစ်လူခင်လည်း ပေါများပေသည်။ ၁၇၇၂ ခုနှစ်တွင် သူနေသောအိမ် မီးလောင်သွားသဖြင့် အိမာဆန်မှာ အတော်ပင် စိတ်ထိခိုက်သွား၏။ သို့ရာတွင် လူအများ၏ ကူညီမစမှုကြောင့် ပြန်လည်ထူထောင်နိုင်ခဲ့၏။ ၁၈၈၂ ခုနှစ်တွင် အိမာဆန်ကွယ်လွန်၍ သူ့အလောင်းကို နသနီယယ် ဟောသွန်း၏ ဂူအနီး၌ ကောင်းမွန်စွာမြှုပ်နှံသင်္ဂြိုဟ်ကြ၏။

**အီရက်ဇမတ်၊ ဒီ** (ခရစ် ၁၄၆၆–၁၅၃၆)။ ။ဥရောပနိုင်ငံသမိုင်းတွင်ပစ္စုပ္ပန်ခေတ်၏အဦးပိုင်းကို ပညာအရပ်ရပ်ပြန်လည်ထွန်းကား တိုးတက်လာသော ရီနေးဆွန်းခေါ် "ဥာဏ်သစ်အရေးပုံ"ဟု ခေါ်ဝေါ်မှတ်သားကြပေသည်။ ယင်းသည့်ခေတ်အတွင်း မီးရှူးမီးတိုင်ကြီးသဖွယ်ထင်ရှားခဲ့သော ပုဂ္ဂိုလ်ကြီးများတွင် "ဉာဏ်သစ်အရေးပုံကို စတင်ကြွေးကြော်သူ" အဖြစ် ဒီဆီးဒီရီးယတ် အီရက်ဇမတ်သည် အထူးထင်ရှားခဲ့ပေသည်။ သာသနာ အရေးပုံကို ထိရောက်အောင် ခေါင်းဆောင်ခဲ့သူမှာ မာတင်လူသာပင်ဖြစ်သော်လည်း မျိုးစေ့ချပေးခဲ့သူကား အီရက်ဇမတ်ဖြစ်သည်။ နိုင်ငံသမိုင်းဆရာတို့က "အီရက်ဇမတ်၏ ခေတ်သည် အလယ်ပိုင်းခေတ် ကုန်ဆုံးချိန်ပင်တည်း" ဟု မှတ်ချက်ချကြ၏။

အီရက်ဇမတ် မွေးဖွားသည့်ခုနှစ် ဇာတိဇာစ်မြစ်တို့ကို အတိအကျမသိရသော်လည်း ၁၄၆၆ ခုနှစ်တွင်ဟော်လန်နိုင်ငံ ရော့တဒမ်မြို့၌ ဖွားမြင်သည်ဟု ယူဆကြ၏။အချို့သုတေသီများကမူ ဂူဒါမြို့၌ဖွားမြင်သည်ဟု ယုံကြည်ကြသည်။ မိဖိုးဖွားများမှာ ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြ၏။ ငယ်စဉ်က ဂူဒါမြို့သဒ္ဒါကျောင်း၌နေခဲ့ပြီးလျှင် ဒီဗင်တာမြို့ စိန်လေးဗန် ဘုရားရှိခိုးကျောင်းရှိ စာသင်ကျောင်းသို့ ပြောင်းရွှေ့သင်ကြားခဲ့သည်။ထိုကျောင်းသည် ဥာဏ်သစ်အရေးပုံ၏ လင်းရောင်ခြည်ကို ရှေးဦးစွာတွေ့ရသော နေရာဖြစ်၍ အီရက်ဇမတ်၏ ပင်ကိုယ်စိတ်ဓာတ်ကို ဖွံ့ဖြိုးစေသည့် လယ်ယာမြေကောင်းလည်းဖြစ်ပေသည်။

ထိုကျောင်းတွင် ၁၄၅၇ ခုနှစ်မှ ၁၄၇၄ ခုနှစ် အထိ ပညာဆည်းပူးခဲ့ပြီးနောက် တက္ကသိုလ်တွင် ပညာကို ဆက်လက်သင်ကြားလိုသော်လည်း မိဖများ ကွယ်လွန်သဖြင့် အုပ်ထိန်းသူ ဆွေမျိုးများက သူနှင့်သူ၏အစ်ကို ပီတာတို့အား သာသနာ့ဘောင်သို့ ဝင်ရောက်စေရန် ဟာတိုဂျင်ဗိုကျောင်းသို့ ပို့ကြ၏။ ထိုကြောင့် အီရက်ဇမတ်မှာ အသက် ၂၆ နှစ်အရွယ် ၁၄၉၂ ခုနှစ်တွင် ဗရင်ဂျီဘုန်းကြီးတပါးဖြစ်လာလေသည်။

စာပေ၌ရင်း၊ အယူဝါဒဆိုင်ရာ၌ရင်း အပတ်တကုတ်အားထုတ်မှုကြောင့် ပါရမီခံ ရင့်သန်ပြီးဖြစ်သော အီရက်



ဒီဆီးဒီရီးယတ် အီရက်ဇမတ်

ဇမတ်သည် အရာရာတွင် ထူးချွန် ထက်မြက်သူ ဖြစ်ခဲ့ပေသည်။ ၁၄၉၄ ခုနှစ်စတွင် သာသနာပိုင်၏ လက်တင်စာရေးအဖြစ် ခေါ်ယူခန့်ထားခြင်းခံရပြီးလျှင် ၁၄၉၅ ခုနှစ်၌ ပါရစ်မြို့ မွန်တေဂူကောလိပ်သို့ ပညာသင်စေလွှတ်ခြင်းခံရ၏။ ထိုအချိန်တွင် ကဗျာစာအုပ်ကလေးတအုပ်ကို ရေးသားထုတ်ဝေခဲ့သည်။

အီရက်ဇမတ်အား ထောက်ပံ့အားပေးမည့် ပုဂ္ဂိုလ်များစွာပေါ်ပေါက်ခဲ့သည်။ ပါရစ်မြို့တွင်နေစဉ်က အားလပ်ချိန်တွင် စာပို့ချသူဆရာအဖြစ် ဆောင်ရွက်ခဲ့၍ တပည့်များလည်း ပေါများသည်။ ၁၄၉၉ ခုနှစ်တွင် သူ၏ တပည့်တဦးဖြစ်သော မောင့်ဂျွိုင်းမြို့စား စတုတ္ထ ဗယ်ရွန် ဝီလျံဗလောင့်၏ဖိတ်ခေါ်ချက်ဖြင့် အင်္ဂလန်ပြည်အောက်စဖို့မြို့၌ ဆာ တောမတ် မိုး၊ ကောလက် စသည့်ပုဂ္ဂိုလ်ကြီးများနှင့် အကျွမ်းတဝင်ခင်မင်ခဲ့သည်။

၁၅၀၀ ပြည့်နှစ်တွင် ပါရစ်မြို့သို့ ပြန်လာကာ တပည့်အချို့ကို ပညာသင်ပြပေးခြင်း၊ စာအုပ်ရေးသားခြင်းဖြင့် အေးချမ်းစွာ နေထိုင်ခဲ့၏။ သို့သော် လူစုလူဝေးကို စာပေသင်ပြခြင်း၊ တရားဟောပြောခြင်းတို့ကို များစွာ မလိုသားခဲ့ချေ။ ၁၅၀၂ ခုနှစ်မှ ၁၅၀၄ ခုနှစ်အထိ လူးဗိန်းမြို့တွင် တပည့်အနည်းငယ်ကို သင်ကြားပြသနေ၏။ (ထိုသူများတွင် ဆဋ္ဌ အေဒြီယန်ဘွဲ့ဖြင့် ပုပ်ရဟန်းမင်း ဖြစ်လာမည့်သူလည်း ပါဝင်သည်။) အီရက်ဇမတ်သည် ဤသို့အေးချမ်းစွာနေယင်း သူကိုယ်တိုင် ကလည်း အယူဝါဒ၏ အရင်းအမြစ်အစစ်အမှန်ကို လေ့လာ လိုက်စားကာ စာအုပ်စာတမ်းများ ရေးသားထုတ်ဝေခဲ့လေသည်။ ထိုစာအုပ်များတွင် ခရစ်ယန်အယူဝါဒ၏အရင်းအမြစ်ကိုလေ့လာသော "ဓမ္မသစ်ကျမ်းမှတ်စုများ"လည်းပါဝင်လေသည်။

၁၅၀၅ ခုနှစ်တွင် ဗယ်ရှန်မောင့်ကျောင်း က ဖိတ်ခေါ်ပြန်သဖြင့် အင်္ဂလန်ပြည်သို့ သွားရောက်ခဲ့၏။ ထိုမှတဖန် ဣတလီနိုင်ငံသို့သွားရောက်ခွင့်ရ၍၁၅၀၆ခုနှစ်တွင်တျူရင်မြို့၌ သာသနပါရဂူဘွဲ့ကို ဆွတ်ခူးခဲ့လေသည်။ ထိုနောက် ဗိုလိုနျာမြို့တွင် တပည့်များနှင့်အတူ တနှစ်ခန့် နေထိုင်ကာ ရှေးဟောင်း စကားပုံပေါင်းများစွာကို စုဆောင်းခဲ့လေသည်။ သူ၏စုဆောင်းချက်များကို ၁၅၀၈ ခုနှစ်တွင် "ရှေးဟောင်းစကားများ" ဟူသောအမည်ဖြင့် စာအုပ်ထုတ်ဝေလိုက်ရာ အီရက်ဇမတ်၏အမည်သည် အထူးကျော်ကြားလာလေသည်။

၁၅၀၉ ခုနှစ်တွင် တတိယအကြိမ် အင်္ဂလန်ပြည်သို့ ဖိတ်ခေါ်ခြင်းခံရသည်။ ဤအကြိမ်တွင် ဆာ တောမတ် မိုး၏ အိမ်၌ တည်းခိုနေထိုင်လျက် စာအုပ်စာတမ်းများကို ရေးသားသည်။ သူရေးသော စာအုပ်များအနက် "အရူးဂုဏ်ရောင်"ဟု အမည်ပွါယ်ရသော စာအုပ်သည် လူကြိုက်အများဆုံးဖြစ်ခဲ့၏။ ထိုစာအုပ်သည် "ပုထုဇဉ်ဟူသမျှ ရူးရစမြဲ" ဟူသော အချက်များကိုပြဆို၍ ပြက်ရယ်ပြုကာ ရေးသားထားသောစာအုပ်ဖြစ်၏။

၁၅၁၁ ခုနှစ်တွင် ကိမ်းဗရစ် တက္ကသိုလ်တွင် လက်တင်ဘာသာဆိုင်ရာ ပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ထိုအခါတွင်လည်း စာအုပ် စာတမ်းများကို ဆက်လက်ရေးသား၏။ ဂရိဘာသာမူရင်းဖြစ်သော "ဓမ္မသစ်ကျမ်း" ကို လက်တင်ဘာသာဖြင့် ဝေဝေဆာဆာ ဖွင့်ဆို ရေးသားခဲ့သည်။

၁၅၁၄ ခုနှစ်တွင် ဗားလမြို့သို့ ပြောင်းရွှေ့နေထိုင်၍ သူ၏စာအုပ်များကို ရိုက်နှိပ်ရာတွင် ကြီးကြပ်ခဲ့သည်။ ထိုနှစ်တွင် သူ၏ဇာတိအရပ် ဘုန်းကြီးကျောင်းမှ ပြန်ခေါ်သော်လည်းမသွားတော့ချေ။ သူ၏ဓမ္မသစ်ကျမ်းကို ပုပ်ရဟန်းမင်း ဒသမ လီယိုသို့ရည်ညွှန်း၍ ၁၅၁၆ ခုနှစ်တွင် ပုံနှိပ်ပြီးစီးခဲ့သည်။ထိုနှစ်တွင်ပင် သာသနာစောင့် ရောမနိုင်ငံကေရာဇ်ပဉ္စမချားဖြစ်လာမည့် စပိန်ဘုရင်ကလေး ချား၏ အကြီးတော်အဖြစ် ခေါ်ယူသဖြင့် ဗရပ်ဆယ်မြို့သို့ ရွှေ့ခဲ့ရသည်။ ၁၅၁၇ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ နောက်ဆုံးအကြိမ်သွားရောက်နေထိုင်ခဲ့သည်။၁၅၁၈ ခုနှစ်၌ သူ၏"ဓမ္မသစ်ကျမ်း" ကို ထပ်မံပုံနှိပ်ရန် ဗားလမြို့သို့သုံးလခန့်နေ၏။ ထိုနောက် သုံးနှစ်ခန့်မျှ ဥရောပတိုက်တခွင်တွင် လှည့်လည်သွားလာပြီးလျှင် ၁၅၂၁ ခုနှစ်၌ ဗားလမြို့သို့ ပြန်လာ၍ စာအုပ်များကို ကြီးကြပ်ပုံနှိပ်လျက် နေထိုင်သည်။ ထိုအခါတွင် ဗားလမြို့သည် အီရက်ဇမတ် စာပေများ၏ ဗဟိုဌာနတခုဖြစ်လာရုံမျှမက အီရက်ဇမတ်အား ကြည်ညိုသူ စာတတ်ပေတတ်ပုဂ္ဂိုလ်ကြီးများ၏စုဝေးရာဌာနဖြစ်လာလေသည်။

၁၅၂၉ ခုနှစ်တွင် ဂျာမနီနိုင်ငံ ဆက်ဆွန်နီ ပြည်နယ်ရှိ ဖရိုင်းဗူးမြို့သို့ပြောင်းရွှေ့နေထိုင်ပြန်သည်။ သို့ရာတွင် ထိုမြို့၌လည်း အမြဲနေထိုင်သည်မဟုတ်၊ အကြောင်း အားလျော်စွာ ဂျာမနီနိုင်ငံတွင်း၌လှည့်လည်သွားလာ၏။ဖရိုင်းဗူးမြို့ကား အီရက်ဇမတ်၏ စတဲချရပ်နားရာမြို့ဖြစ်သည်။ အီရက်ဇမတ် ရောက်ရာအရပ်တို့တွင် တရားနာမည့် ပုဂ္ဂိုလ်များသည် သူ့ထက်ငါဦးအောင်စုဝေးလာရောက်ကြသည်။ အီရက်ဇမတ်၏ တည်ကြည်သန့်ရှင်းသော ဥပဓိရုပ်ကိုတွေ့မြင်ရသူတိုင်းသူ့အားကြည်ညိုလေးစားကြ၏။ ထို့ကြောင့် ဂျာမနီနိုင်ငံမှ လူများကပေးပို့သော လက်ဆောင် ပဏ္ဏာများသည်တောင်ပုံရာပုံဖြစ်၍နေ၏။ သို့ဖြင့် အီရက်ဇမတ်သည် တခါက ဆင်းရဲခဲ့ဘူးသည်ကိုပင်မေ့ပျောက်လောက်အောင် ကိုယ်စိတ်နှစ်ဖြာ ချမ်းသာခဲ့လေသည်။

ထိုအချိန်တွင် ခရစ်ယန် အယူဝါဒ သန့်ရှင်းရေး လှုပ်ရှားမှုကို ခေါင်းဆောင်သူ မာတင် လူသာသည် ခရစ်ယန်အယူဝါဒတွင် မသန့်ရှင်းသော အချက် အလက်များကို အတိအလင်း ထုတ်ဖော်ရေးသားကာ ပြုပြင်ရေးကို လှုံ့ဆော်လျက် ရှိ၏။ ရဟန်းမင်းက မာတင် လူသာ၏ ရေးသား ချက်များသည် ခရစ်ယန် အယူဝါဒကို ထိပါးသည်ဟု ယူဆပြီးလျှင် တုန့်ပြန်ချေပရေးသားရန် အီရက်ဇမတ်အား တိုက်တွန်းလေသည်။ သို့ရာတွင် အီရက်ဇမတ်သည် မာတင် လူသာ၏ ရေးသားချက်များကို ဝေဖန်ရေးသားခြင်းမပြုခဲ့ချေ။ အဘယ်ကြောင့်ဆိုသော် အယူဝါဒဆိုင်ရာတွင် တဦးနှင့်တဦး ဤသို့အတိုက်အခံ မပြုသင့်ဟု ယူဆသောကြောင့် ဖြစ်၏။ ခရစ်ယန် အယူဝါဒတွင် မသန့်ရှင်းမှုများကို ပြုပြင်ပေးရန် လိုနေသည် ကိုကား ကိုယ်တိုင်ယုံကြည်ခဲ့သည်။ သို့သော် မာတင် လူသာကဲ့သို့ အကြမ်းနည်းဖြင့် ပြုပြင်ရန် မလိုလားပဲ သိမ်မွေ့သော နည်းဖြင့် ဆောင်ရွက်ရန် ရည်ရွယ်ခဲ့၏။

၁၅၃၅ ခုနှစ်တွင် အီရက်ဇမတ်သည် အသက်အရွယ်လည်း ကြီးရင့် အိုမင်းပြီဖြစ်သောကြောင့် ဖရိုင်းဗူး မြို့မှ ဗားလမြို့သို့ပြန်သွားကာ အေးချမ်းစွာနေထိုင်လေသည်။

ထိုသို့နေထိုင်စဉ် ၁၅၃၆ ခုနှစ် ဇူလိုင်လ ၁၂ ရက် နေ့၌ ဥရောပတိုက် တတိုက်လုံး၏ ဆရာတဆူအဖြစ် အသိအမှတ်ပြုခြင်းခံရသော အီရက်ဇမတ်သည် ကွယ်လွန်လေသည်။

**အီရက်နိုင်ငံ။** ။အီရက်နိုင်ငံသည် ရှေးအခါက မက်ဆိုပိုတေးမီးယား ဟုခေါ်သော နယ်မှ ဖွဲ့စည်း တည်ထောင်ခဲ့သော နိုင်ငံသစ်တခု ဖြစ်သည်။ ယူဖရေးတီးမြစ်နှင့် တိုင်ဂရစ်မြစ်တို့သည် အီရက်နိုင်ငံကို ဖြတ်သန်းစီးဆင်းကြရာ ထိုမြစ်နှစ်သွယ် အကြားရှိ မြစ်ဝှမ်းဒေသသည် ရှေးအကျဆုံး ယဉ်ကျေးမှု စတင်ထွန်းကားရာ အရပ် ဖြစ်သည်။ ရှေးခေတ်ယဉ်ကျေးမှုသမိုင်းတွင် ထင်ရှားခဲ့သော ဗက်ဗီ

လုံးမြို့နှင့် နင်းနိဗ မြို့ဟောင်းတို့သည်လည်း ထိုဒေသ၌ပင် တည်ရှိခဲ့သည်။ (ဗက်ဗီလုံးမြို့၊ နင်းနိဗမြို့ — လည်းရှု။) ဥရောပတိုက်သားတို့သည် အိုးအိမ် အတည်တကျ ဟူ၍ မရှိပဲ တောလိုက်မုဆိုးဘဝ၌ ရှိနေကြစဉ် မက်ဆိုပိုတေးမီးယားတွင် လူတို့သည် ရွာတည်၍ ကောက်ပဲသီးနှံပင်များကို စိုက်ပျိုးလျက် ရှိကြပြီး ဖြစ်သည်။ အိုးခွက်များကို၎င်း၊ ကြေးညိုဖြင့် ပြုလုပ်သော ကရိယာ တန်ဆာပလာများကို ၎င်း သုံးစွဲတတ်ကြပြီး ဖြစ်သည်။ ဆည်မြောင်းဖြင့် ရေသွင်းစိုက်ပျိုးခြင်း၊ အဆောက်အအုံများတွင် ခုံးခံဆောက်လုပ်ခြင်း စသော တီထွင်မှုတို့ကိုလည်း ကြံဆတီထွင်ခဲ့ကြသည်။ သို့ရာတွင် ထိုဒေသသည် နှစ်ပေါင်းရာပေါင်းများစွာ လက်နက်နိုင်ငံကြီးများ စစ်ခင်းရာ စစ်တလင်းဖြစ်ခဲ့ခြင်းကြောင့်၎င်း၊ မြစ်ကြောင်း ပြောင်းလဲစီးဆင်းခဲ့ခြင်းကြောင့်၎င်း ဆည်မြောင်းများပျက်၍ ရှေးယခင်က စည်ကားခဲ့သော မြို့ကြီးတို့သည်လည်း ယိုယွင်းပျက်စီးကုန်ပြီ ဖြစ်လေသည်။

အီရက်နိုင်ငံသည် အရှေ့ဖက်တွင် ပါးရှင်းတောင်တန်း၊ မြောက်ဖက်တွင် တူရကီနိုင်ငံ၊ အနောက်ဖက်တွင် ဆီးရီးယားနိုင်ငံနှင့် ဂျော်ဒန်နိုင်ငံ၊ တောင်ဖက်တွင် ဆအူးဒီအာရေဗျနိုင်ငံတို့ အသီးအသီး ခြံရံတည်ရှိသည်။ ယူဖရေးတီးနှင့် တိုင်းဂရစ်မြစ်တို့သည် တူရကီနိုင်ငံတွင် မြစ်ဖျားခံ၍ အီရက်နိုင်ငံကို အနောက်မြောက်မှ အရှေ့တောင်သို့ ဖြတ်သန်းစီးဆင်းသည်။ ထိုမြစ်နှစ်သွယ်တို့သည် ဗာဆရာမြို့အထက်နားတွင် ပေါင်းဆုံကြပြီးနောက် ရှက်-တယ်-အာရပ်မြစ်အမည်ဖြင့် ပါးရှင်းပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။ မြစ်များ စီးဆင်းရာ မြစ်ဝှမ်းတလျှောက်မှ လွဲ၍ ကျန်ဒေသသည် များသောအားဖြင့် သဲကန္တာရနှင့် မြက်ခင်းကုန်းပြင်ဖြစ်သည်။ အီရက်နိုင်ငံသည် ပူပြင်းခြောက်သွေ့၍ ဆောင်းရာသီတွင် မိုးအနည်းငယ်ရွာသည်။ထို့ကြောင့် ယူဖရေးတီးနှင့် တိုင်းဂရစ်မြစ်ဘို့သည် နိုင်ငံ၏ အသက်သွေးကြောများဖြစ်သည်။ မြစ်ကမ်းများသည် စိမ်းစိုလျက်ရှိ၍ မြို့များကိုလည်း ထိုတလျှောက်၌သာ တွေ့ရှိနိုင်သည်။

အီရက်နိုင်ငံအတွက် အကြီးဆုံး ဓနအင်အားမှာ ရေနံဖြစ်သည်။ ခါးကွတ်မြို့သည် ရေနံထွက်ရာ အချက်အခြာဒေသဖြစ်သည်။ ၁၉၂၀ ပြည့်နှစ်တွင် အီရက်နိုင်ငံ၌ ရေနံကို တွေ့ရှိပြီးနောက် တူရကီနိုင်ငံက ပိုင်ဆိုင်ခွင့်အတွက် အရေးဆိုခဲ့သော်လည်း မအောင်မြင်ချေ။ နိုင်ငံပေါင်းချုပ်အဖွဲ့ကြီးက ၁၉၂၆ ခုနှစ်တွင် အီရက်နိုင်ငံအား ရေနံတွင်းများ ပိုင်ဆိုင်ခွင့်ကို ပေးအပ်ခဲ့ရာ ဗြိတိသျှအုပ်ချုပ်သော အီရက်ရေနံကုမ္ပဏီက ရေနံလုပ်ငန်းကို ကြီးကြပ်ဆောင်ရွက် ခဲ့လေသည်။ ၁၉၃၂ ခုနှစ်တွင် ခါးကွတ်မြို့မှ မြေထဲပင်လယ်ဆိပ်ကမ်းမြို့များဖြစ်သော ဆီးရီးယားနိုင်ငံ ထရစ်ပိုလီမြို့သို့၎င်း၊ အဇ္ဇရီယယ်နိုင်ငံ ဟိုက်ဖာမြို့သို့၎င်း မိုင် ၆၀၀ ခန့် ရှည်လျားသည့် ရေနံပြွန်ကို စတင်ဆက်သွယ်ခဲ့သည်။ တဖန် ၁၉၅၂ ခုနှစ်တွင် ခါးကွတ်မြို့မှ ဆီးရီးယားနိုင်ငံ ဗနီယမြို့သို့ အကြီးဆုံး ရေနံပြွန်ကို ဆက်သွယ်ခဲ့လေသည်။ အီရက်နိုင်ငံသည် ကမ္ဘာပေါ်တွင် ရေနံထွက်သော နိုင်ငံများအနက် သတ္တမလိုက်သော နိုင်ငံ ဖြစ်သည်။ ယူဖရေးတီးမြစ်ကမ်းရှိ ဟစ်မြို့အနီးတွင် ဗစ်တျူမင်ကတ္တရာတွင်းများ ရှိသည်။

အီရက်နိုင်ငံတွင် စိုက်ပျိုးရေးသည် အဓိကလုပ်ငန်းဖြစ်သည်။ မိုးနည်းသဖြင့် ရေသွင်းစိုက်ပျိုးရသောကြောင့် စိုက်ခင်းများကို မြစ်ဝှမ်းတလျှောက်၌သာ တွေ့ရှိနိုင်သည်။ စွန်ပလွံသီး အများဆုံးထွက်သော နိုင်ငံ ဖြစ်သည်။ ဂျုံ၊ မုယော၊ စပါး၊ ဝါဂွမ်း၊ ဆေး တို့ကိုလည်း စိုက်ပျိုးသည်။ တိရစ္ဆာန်မွေးမြူရေးကိုလည်း လုပ်ကိုင်ကြသည်။ ရေနံလုပ်ငန်းမှာမူ အထင်ရှားဆုံး စက်မှုလုပ်ငန်း ဖြစ်၏။

ဗဂ္ဂဒက်မြို့သည် အီရက်နိုင်ငံ၏ မြို့တော်ဖြစ်၍ လူဦးရေမှာ ၁,၄၉၀,၇၅၉ (၁၉၇၂) ယောက်ရှိသည်။ (ဗဂ္ဂဒက်မြို့ — ရှု။)

ဗာဆရာမြို့သည် ရှက်-တယ်-အာရပ် မြစ်ပေါ်တွင် တည်ရှိ၍ ပါးရှင်းပင်လယ်ကွေ့မှ မိုင် ၆၀ ခန့် ကွာဝေးသည်။ အီရက်နိုင်ငံအတွက် သင်္ဘောဆိပ်မြို့ ဖြစ်သည်။ လူဦးရေ ၁၆၄,၆၃၂ ယောက် နေထိုင်သည်။ ဗာဆရာမြို့နှင့် ဗဂ္ဂဒက်မြို့တို့သည် ဥရောပတိုက်နှင့် အရှေ့ဖက်နိုင်ငံများအကြားရှိ လေကြောင်းခရီးစခန်းမြို့များ ဖြစ်သည်။

အခြားထင်ရှားသော မြို့မှာ မိုဆူးမြို့ဖြစ်၍ အီရက်နိုင်ငံ မြောက်ပိုင်း တိုင်းဂရစ် မြစ်ကမ်းပေါ်တွင် တည်ရှိသည်။ လူဦးရေ ၂၆၄,၁၄၆ ယောက်နေထိုင်သည်။ မိုဆူးမြို့သည် တောင်ဖက်ပိုင်းတွင် ရှိသော ဗဂ္ဂဒက်မြို့၊ ဗာဆရာမြို့တို့နှင့်၎င်း၊ မြောက်ဖက်ပိုင်းတွင် တူရကီနိုင်ငံနှင့်၎င်း မီးရထားလမ်းဖြင့် ဆက်သွယ်လျက် ရှိသည်။

အီရက်နိုင်ငံသည် စတုရန်းမိုင်ပေါင်း ၁၇၃,၂၅၇ ကျယ်ဝန်း၍ လူဦးရေ ၁၀,၀၇၀,၀၀၀ ယောက်ခန့် (၁၉၇၂ ခုနှစ် ခန့်မှန်းခြေ) နေထိုင်သည်။ ထိုလူဦးရေအနက် ၇၅ ရာခိုင်နှုန်းမှာ အာရပ်လူမျိုးများဖြစ်၍ ကဒ်လူမျိုး၊ တူရကီလူမျိုးနှင့် ပါးရှင်း အီရန် လူမျိုးများလည်း နေထိုင်ကြသည်။ နိုင်ငံသားအများစုသည် အစ္စလာမ်အယူဝါဒီများ ဖြစ်ကြသည်။ အီရက်နိုင်ငံသားတို့သည် လယ်များကို ထွန်ယက်စိုက်ပျိုးရာ၌ ရှေးနည်းစံနစ်အတိုင်းပင် လုပ်ကိုင်လျက်ရှိကြသေးသည်။ တိရစ္ဆာန်ထိန်းကျောင်း မွေးမြူသူများသည်လည်း တဲရှင်များတွင် နေထိုင်၍ ရေကြည်ရာ မြက်နုရာ အရပ်များသို့ အမြဲ ပြောင်းရွှေ့သွားလာလျက် ရှိကြသည်။

ပဌမကမ္ဘာစစ်မတိုင်မီက အီရက်နိုင်ငံသည် တူရကီတို့၏




အီရက်နိုင်ငံ တည်နေရာပြမြေပုံ

လက်အောက်ခံနယ်ဖြစ်၍ စစ်ပြီး သောအခါ ဗြိတိသျှသြဇာခံ နယ် ဖြစ်လာသည်။ ၁၉၂၁ ခုနှစ်တွင် အီရက် နိုင်ငံ သားတို့ သည် အာရပ်အမျိုးသား ဖိုင်ဇယ်အား ဘုရင် အဖြစ် တင် မြှောက် ကြသည်။ ၁၉၃၀ ပြည့်နှစ်တွင်ဗြိတိန်နိုင်ငံနှင့် အီရက် နိုင်ငံ တို့သည် မဟာမိတ် စာချုပ်ကို ချုပ်ဆိုခဲ့သည်။ ၁၉၃၂ ခုနှစ်တွင် အီရက်နိုင်ငံသည် သုံးဝ လွတ်လပ် လာခဲ့ပြီးလျှင် နိုင်ငံပေါင်းချုပ်အသင်းကြီး၏ အသင်းဝင် နိုင်ငံ တခုဖြစ်လာခဲ့သည်။ ၁၉၃၃ ခုနှစ် ၌ ဖိုင်ဇယ်ဘုရင် ကွယ်လွန်၍ သားတော်ဂါဇီက ထီးနန်းကို ဆက်ခံအုပ်စိုးသည်။ တဖန် ဂါဇီ ဘုရင်သည် ၁၉၃၉ ခုနှစ်တွင် ကွယ်လွန်သွားပြန်သဖြင့် သားတော်ဖြစ်သူ ဒုတိယ ဖိုင်ဇယ်ဘုရင်က ဖခင်၏ အရိုက် အရာကို ဆက်ခံ ရရှိလေသည်။

ဒုတိယ ကမ္ဘာစစ် အတွင်းက အီရက် နိုင်ငံသည် မဟာမိတ်နိုင်ငံများ ဖက်မှ နေ၍ ဂျာမနီ၊ ဣတလီနှင့် ဂျပန်နိုင်ငံတို့ကို စစ်ကြေညာခဲ့သည်။ ၁၉၄၅ ခုနှစ်တွင် အာရပ်အမျိုးသား အဖွဲ့ဝင် ဖြစ်လာ ခဲ့ပြီးနောက် ၁၉၄၈ ခုနှစ် အာရပ်နှင့်အဇ္ဇရီယယ်တို့၏ ပဋိပက္ခအရေးတွင် အီရက်နိုင်ငံသည် အာရပ်တို့ဖက်မှ ပါဝင်ကူညီ တိုက်ခိုက်ခဲ့သည်။ အဇ္ဇရီယယ်နိုင်ငံဟိုက်ဖာမြို့သို့အရောက်ဖောက်လုပ်ဆက်သွယ်ထားသော ရေနံပြွန်ကိုလည်း ပိတ်ခဲ့သည်။

ထိုနောက်တွင် အီရက်နိုင်ငံတွင်း၌ နိုင်ငံရေး လှုပ်ရှားမှုများ ပေါ်ပေါက်လာပြီးလျှင် အစိုးရအပေါ်၌ မကျေမနပ်ဖြစ်ကြသည်။ ထို့ကြောင့် ၁၉၅၈ ခုနှစ် ဩဂုတ်လတွင် ဗိုလ်ချုပ် အဗ္ဗဒူ ကရင် ကာစင် ခေါင်းဆောင်သော စစ်တပ်က ဒုတိယ ဖိုင်ဇယ်ဘုရင်နှင့် ဦးရီးတော် အိမ်ရှေ့ဥပရာဇာတို့ကို လုပ်ကြံသတ်ဖြတ်ပြီးနောက် အုပ်ချုပ်ရေးအာဏာကို သိမ်းပိုက်ခဲ့လေသည်။ သို့ရာတွင် ၁၉၆၃ ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်နေ့၌ စစ်တပ်က တဖန် ကာစင်အစိုးရကို ဖြုတ်ချ၍ အမျိုးသားတော်လှန်ရေးကောင်စီ အစိုးရကို ဖွဲ့စည်းခဲ့လေသည်။ ထိုအစိုးရအဖွဲ့တွင် ဗိုလ်ချုပ် အဗ္ဗဒူဆလမ် မိုဟာမဒ် အာရက်(ဖ)က သမတအဖြစ်၎င်း၊ ဗိုလ်မှူးချုပ် အာမက် ဟာဆန် ဗေကာက ဝန်ကြီးချုပ်အဖြစ်၎င်း တာဝန်ယူ ဆောင်ရွက်ခဲ့လေသည်။ ဗေကာ



ဗဂ္ဂဒက်မြို့မှ မိုင် ၆၁ အကွာတွင် ဒု ကန်ဆည်ကြီး တည်ဆောက်ခဲ့စဉ်က

အစိုးရအဖွဲ့သည် ရာထူးကျ ဝန်ကြီးချုပ် ကာစင်နှင့်တကွ အပေါင်းပါတို့ကိုရင်း၊ ကွန်မျူနစ်အဖွဲ့ဝင်တို့ကိုရင်း ကွပ်မျက်ခဲ့လေသည်။ ၁၉၆၃ ခုနှစ်တွင် အီဂျစ်၊ ဆီးရီးယားနှင့် အီရက်နိုင်ငံတို့ ပူးပေါင်း၍ အာရပ်ပြည်ထောင်စု သမတနိုင်ငံထူထောင်ရန် ကြိုးပမ်းမှုသည် ဆီးရီးယား ပြည်တွင်း ဆူပူမှုများကြောင့် အကောင်အထည် ပေါ်မလာခဲ့ချေ။ ပူးတွဲသမတကောင်စီဖွဲ့စည်းရန်အတွက် ၁၉၆၄ ခုနှစ်တွင် အီဂျစ်သမတနက်ဆာနှင့် အီရက်သမတ အာရက်(ဖ)တို့ သဘောတူလက်မှတ်ရေးထိုးခဲ့သည်။

၁၉၆၆ ခုနှစ်တွင် သမတ မိုဟမ္မဒ် အာရက်(ဖ)သည် ဝန်ကြီးအဖွဲ့ဝင်နှစ်ဦး၊ နောက်လိုက်အချို့နှင့်အတူ ရဟတ်ယဉ်ပျက်ကျသေဆုံးခဲ့ရာ သူ၏ညီဖြစ်သူ ဗိုလ်ချုပ် အဗ္ဗဒယ် ရာမန် အာရက်(ဖ)က သမတအဖြစ် ဆက်ခံခဲ့သည်။ ၁၉၆၇ ခုနှစ်တွင် အာရပ်–အဇ္ဇရီယယ် စစ်ပွဲအတွင်း အမေရိကန်တို့သည် အဇ္ဇရီယယ်တို့ဖက်မှ ကူညီသည်ဟုဆိုကာ အမေရိကန်နိုင်ငံနှင့် သံတမန် အဆက်အသွယ် ဖြတ်ခဲ့၏။ ထိုအတူ ဗြိတိန်နိုင်ငံနှင့်လည်း သံတမန် အဆက်အသွယ် ဖြတ်ခဲ့သော်လည်း ၁၉၆၈ ခုနှစ် မေလတွင် ပြန်လည်ဆက်သွယ်ခဲ့သည်။

ထိုနောက်တွင် တော်လှန်မှုအဆက်ဆက် ဖြစ်ပွားခဲ့ပြန်၍ ဗိုလ်ချုပ် အာမက် ဟာဆန် အယ် ဗေကာခေါင်းဆောင်သည့်အဖွဲ့က ၁၉၆၈ ခုနှစ် ဇူလိုင်လ ၁၇ ရက်နေ့တွင် အာဏာသိမ်းယူခဲ့ရာ ဗိုလ်ချုပ် အယ် ဗေကာသည် သမတဖြစ်လာခဲ့လေသည်။

အီရက်နိုင်ငံသည် ၁၉၆၉ ခုနှစ်တွင် အီရန်နိုင်ငံနှင့် နယ်ခြားမြစ်ဖြစ်သော ရှက်-တယ်-အာရပ်မြစ်အတွင်း ကူးသန်းသွားလာခွင့်များနှင့် စပ်လျဉ်း၍ အငြင်းပွားခဲ့ ရသည်။ အီရက်နိုင်ငံသည် အဇ္ဇရီယယ်နိုင်ငံနှင့် အာရပ်တို့ ရင်ဆိုင်နိုင်ရန်အတွက် ဂျော်ဒန်နိုင်ငံသို့ တပ်သား ၁၂,၀၀၀ ပို့ထားခဲ့၏။ သို့သော် ၁၉၇၁ ခုနှစ်တွင် ပြန်လည်ရုပ်သိမ်းခဲ့၏။ ၁၉၇၂ ခုနှစ်တွင် အီရန်နိုင်ငံနှင့် နယ်စပ်အရေးအခင်းများ ဖြစ်ပွားခဲ့ပြန်သည်။ ထိုနှစ်တွင်ပင် အီရက်နိုင်ငံသည် ဆိုဗီယက်ယူနီယံနှင့်မဟာမိတ်စာချုပ် ချုပ်ဆိုခဲ့၏။ဆိုဗီယက်ယူနီယံကလည်း စစ်ရေးအကူအညီများ တိုးတက်ပေးခဲ့သည်။

အီရက်အစိုးရအဖွဲ့သည် အီရက်နိုင်ငံ အရှေ့မြောက်ပိုင်းတွင် နေထိုင်လျက်ရှိသော ကဒ်လူမျိုး လူနည်းစုနှင့် နှစ်ပေါင်းများစွာ စစ်မက်ယှဉ်ပြိုင်တိုက်ခိုက်ခဲ့ရာမှ ၁၉၇၀ ပြည့်နှစ်တွင် ထိုဒေသအား ကိုယ်ပိုင်အုပ်ချုပ်ခွင့် အတော်အသင့်ပေးခြင်းဖြင့်ရင်း၊ ဖွဲ့စည်းပုံဥပဒေသစ်အရ ဖွဲ့စည်းရမည့် ဥပဒေပြုလွှတ်တော်တွင် ကိုယ်စားလှယ်များ စေလွှတ်ခွင့်ပေးခြင်းဖြင့်ရင်း ပြေငြိမ်းစေခဲ့သည်။

၁၉၇၃ ခုနှစ်တွင် အစိုးရအဖွဲ့အား တော်လှန်မှုတရပ်ဖြစ်ပွားခဲ့ပြန်ရာ ထိုတော်လှန်မှု မအောင်မမြင် ဖြစ်ခဲ့ပြီးနောက်တွင် အစိုးရခန့် ဥပဒေပြု လွှတ်တော်ကို နှစ်မကုန်မီ ဖွဲ့စည်းပေးမည်ဟု သမတဗေကာက ကြေညာခဲ့လေသည်။

**အီရစ်ထရီးယားပြည်။** ။အီသီအိုးပီးယားနိုင်ငံ— ရှု။

**အီရန်နိုင်ငံ။** ။ယခင်က ပါးရှားနိုင်ငံဟု ခေါ်တွင်ခဲ့သော အီရန်နိုင်ငံသည် ရှေးခေတ် ကမ္ဘာ့သမိုင်းတွင် ကျယ်ပြန့်သော အင်ပိုင်ယာနိုင်ငံကြီးတခုအဖြစ် ထင်ရှားခဲ့လေသည်။ လွန်ခဲ့သော နှစ်ပေါင်း ၂,၅၀၀ ကျော်က ပါးရှားအင်ပိုင်ယာနိုင်ငံသည် အရှေ့ဖက်အိန္ဒိယနိုင်ငံ အိန္ဒုမြစ်မှ အနောက်ဖက် ဥရောပတိုက် ဒန်းညူမြစ်အထိ ကျယ်ပြန့်ခဲ့သည်။ ထိုအခါက ပါးရှားနိုင်ငံတွင် ခိုင်ခံ့သော မြို့ကြီးများ၊ ခမ်းနားတင့်တယ်သော နန်းတော်များ၊ စံနစ်တကျဖောက်လုပ်ထားသော ဆည်မြောင်းများ အစရှိသည်တို့ဖြင့် ကြီးကျယ်ထင်ရှားလေသည်။ ဇိုရိုအက်စတာအယူဝါဒသည်ရင်း၊ အိုမာခယမ်၏ ကဗျာနှင့် မြောက်မြားစွာသော သမိုင်းပုံပြင်၊ ဒဏ္ဍာရီပုံပြင်တို့သည်ရင်း ပါးရှားနိုင်ငံမှ ပေါ်ထွက်လာခဲ့ကြလေသည်။ ကမ္ဘာကျော် ပါးရှင်းကော်ဇောနှင့် စောင်ထွက်ရာ ဒေသလည်း ဖြစ်သည်။

ယခုအခါ အီရန်နိုင်ငံသည် အီရန်ကုန်းပြင်မြင့်အနောက်ပိုင်းဖြစ်၍ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၆၃၆,၂၉၄ ရှိကာ လူဦးရေမှာ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေအရ ၃၀,၅၅၀,၀၀၀ ယောက်ဖြစ်သည်။ အရှေ့ဖက်တွင် အာဖဂနိစတန်နှင့် ပါကစ္စတန်နိုင်ငံ၊ အနောက်ဖက်တွင် အီရက်နှင့် တူရကီနိုင်ငံ၊ မြောက်ဖက်တွင် ရုရှနိုင်ငံ၊ တောင်ဖက်တွင် ပါးရှင်းပင်လယ်ကွေ့နှင့် အိုမန်ပင်လယ်ကွေ့တို့ အသီးအသီး တည်ရှိကြသည်။ အီရန်နိုင်ငံမြောက်ဖက် နယ်နိမိတ်တလျှောက်တွင် အယ်လဗုဇ တောင်တန်းများရှိ၍ ထိုတောင်တန်းရှိ ဒင်မာဗင်တောင်ထိပ်(ပေ ၁၈,၆၀၀)သည် အီရန်နိုင်ငံတွင် အမြင့်ဆုံး တောင်ထိပ်ဖြစ်၏။ ဇာဂရို့တောင်တန်းသည် အီရန်နိုင်ငံနှင့် အီရက်နိုင်ငံတို့ကို ပိုင်းခြားတည်ရှိပြီးလျှင် အနောက်ဖက်မှ တောင်ဖက် ပင်လယ်ကွေ့ ကမ်းခြေတလျှောက်သို့ ကွေး၍ ဆင်းလာသည်။ ထိုတောင်တန်းနှစ်ခုတို့သည် အီရန်နိုင်ငံအနောက်မြောက်ပိုင်းတွင် အာမီးနီးယန်း ကုန်းပြင်မြင့်အဖြစ် ပေါင်းစပ်မိကြသည်။ သို့ဖြစ်၍ အီရန်နိုင်ငံသည် တောင်တန်းများ ရံလျက်ရှိသော ကုန်းပြင်မြင့် ဒေသဖြစ်သည်။ မြေပြန့်ပိုင်းဟူ၍ အနောက်တောင်ထောင့်တွင်ရှိသော ကူးဇစ္စတန်နယ်သာလျှင် ရှိသည်။

အီရန်နိုင်ငံတွင် ကြီးကျယ်ထင်ရှားသောမြစ်ဟူ၍ မရှိချေ။ များသောအားဖြင့် မြစ်များသည် နိုင်ငံတွင်းဖက်သို့




အီရန်နိုင်ငံ တည်နေရာပြမြေပုံ

စီးဆင်းကြပြီးလျှင် သဲကန္တာရထဲ၌ ခန်းခြောက် ပျောက်ကွယ် သွားကြလေသည်။ အိုင်ကြီးများသည်လည်း ရေငန်အိုင်များ ဖြစ်ကြသည်။ အနောက်မြောက်စွန်း အဇာဗိုင်ဂျန်နယ်ရှိ ရီဇာအီးယားအိုင်သည် အကြီးဆုံး ဖြစ်သည်။ အိုင်များသည် နွေဦးပေါက် ရာသီတွင် ရေပြည့်လာပြီး နောက် နွေအခါ၌ ခန်းခြောက်ကုန်ကြသည်။

အီရန်နိုင်ငံရာသီဥတုသည် ခြောက်သွေ့၏။ ဆောင်းရာသီတွင်အေး၍ နွေရာသီတွင် ပူပြင်းသည်။ ဆောင်းရာသီ၌သာ မိုးအနည်းငယ်ရွာသည်။ တောင်များပေါ်တွင် ဆီးနှင်းထူထပ်စွာ ကျသည်။ မိုးအများဆုံးရွာသော ဒေသမှာ အယ်လဗုဇ်တောင် မြောက်ဖက်ပိုင်း ဖြစ်သည်။

အီရန်ကုန်းပြင်မြင့် သုံး ပုံ နှစ် ပုံမှာ ခြောက်သွေ့သော သဲကန္တာရဖြစ်၍ အီရန်နိုင်ငံအရှေ့ပိုင်းသည် ဆားပေါက်လျက်ရှိသော သဲကန္တာရဖြစ်သည်။ ရှေးခေတ်မြို့ကြီးများနှင့် ယခုခေတ်မြို့ကြီးများသည် အနောက်ပိုင်း၌ တည်ရှိကြသည်။ အီရန်နိုင်ငံတွင် စိုက်ပျိုးလုပ်ကိုင်နိုင်သောဒေသ အနည်းငယ်မျှသာရှိသော်လည်း လူဦးရေထက်ဝက်ကျော်တို့သည် တောင်သူလယ်သမားများ ဖြစ်ကြသည်။ အီရန်တောင်သူလယ်သမားတို့အတွက် အကြီးဆုံးအခက်အခဲမှာ စိုက်ခင်းများတွင် ရေရဖို့ပင် ဖြစ်သည်။ ထို့ကြောင့် လယ်ယာများကို ရေသွင်းစိုက်ပျိုးကြရသည်။ သို့ရာတွင် မိုးအလွန်ပါး၍ မြစ်ရေ ချောင်းရေကိုလည်း အားမကိုးရသဖြင့် တောင်ပေါ်မှ ဆီးနှင်းအရည်ပျော်၍ ကျဆင်းသောရေကို မှီခိုအားထားကြရလေသည်။ ထိုရေအငွေ့ပျံ ခန်းခြောက်ခြင်း မရှိရအောင် မြေအောက်ဥမင်များ တူးဖောက်၍ လယ်ကွက်များရှိရာသို့ ခရီးဝေးစွာ ယူဆောင်ကြရသည်။ စိုက်ပျိုးသီးနှံပင်များမှာ ဂျုံ၊ မုယော၊ ဆန်၊ စပါး၊ ဝါ၊ ဆေး၊ သကြားမုန်လာ၊ သစ်သီးတို့ဖြစ်သည်။

လူဦးရေ လေးပုံ တပုံခန့်သည် အိုးအိမ်အတည်တကျမရှိပဲ မိမိတို့၏ တိရစ္ဆာန်အုပ်များဖြင့် တောင်တန်းဒေသ၌ လှည့်လည် နေထိုင်ကြသူများ ဖြစ်သည်။ ကျန်လေးပုံတပုံခန့်သော လူဦးရေတို့သည်ကား မြို့များ၌ နေထိုင်ကြသူများ ဖြစ်သည်။

အီရန်နိုင်ငံ၏အကြီးဆုံး စနအင်အားမှာ ရေနံ ဖြစ်သည်။ အီရန်နိုင်ငံသည်ကမ္ဘာပေါ်တွင် စတုတ္ထမြောက် ရေနံအထွက်ဆုံးနိုင်ငံဖြစ်သည်။ ရေနံတွင်းများကို မြောက်ဖက်ကက်စပျန်ပင်လယ်မှ တောင်ဖက်ပါးရှင်းပင်လယ်ကွေ့အထိကျယ်ပြန့်သောဒေသတလျှောက်တွင် တွေ့ရှိနိုင်သည်။ ပါးရှင်းပင်လယ်ကွေ့မြောက်ဖက်တွင် တည်ရှိသော အာဗာဒန်မြို့၌ ရေနံချက်စက်ရုံကြီး ရှိသည်။ ကူးဇစ္စတန် သဲကန္တာရအနီးရှိ ရေနံတွင်းများမှ ရေနံကို အာဗာဒန်မြို့သို့ ပြွန်များဖြင့် ယူဆောင်လျက် ရှိသည်။ ယခင်က အီရန်နိုင်ငံ ရေနံလုပ်ငန်းသည် နိုင်ငံခြားသား ဗြိတိသျှတို့ အစုပ်အချုပ်ခံ အင်္ဂလို-အီရေးနီးယန်း ရေနံကုမ္ပဏီ၏ လက်ထဲတွင်ရှိခဲ့သော်လည်း ၁၉၅၁ ခုနှစ်၌ အစိုးရက ပြည်သူပိုင်အဖြစ်သိမ်းယူခဲ့ပြီးဖြစ်သည်။ ထို့မှတပါးအီရန်နိုင်ငံသည် ခရိုမိုက်၊ ကြေးနီ၊ သံ၊ ခဲ၊ မန်ဂနိ၊ သွပ်၊ ကန့်နှင့် မီးသွေးစသည့် ဓာတ်သတ္တုတို့ဖြင့်လည်း ပေါကြွယ်ဝသည်။

ကော်ဇော ရက်လုပ်ခြင်းသည်လည်း ထင်ရှားသော လုပ်ငန်းကြီးတခုဖြစ်ပေသည်။ တာဗရိမြို့၊ ကာမန်းမြို့နှင့် ကားရှန်းမြို့တို့သည် ကော်ဇောလုပ်ငန်း၌ ထင်ရှားသည်။

အီရန်နိုင်ငံသားတို့သည် များသောအားဖြင့် အစ္စလာမ်အယူဝါဒကို သက်ဝင်ယုံကြည်သူများ ဖြစ်ကြသည်။ အီရန်နိုင်ငံသည် ရှီအာဂိုဏ်းခေါ် အစ္စလာမ်အယူဝါဒဂိုဏ်း ထွန်းကားရာဒေသ ဖြစ်သည်။ မူလတန်းပညာကို မသင်မနေရအဖြစ် ပြဋ္ဌာန်းထားသည်။ ၁၉၃၅ ခုနှစ်တွင် တဟီရန်းတက္ကသိုလ်ကို တည်ထောင်ခဲ့သည်။

တဟီရန်းမြို့သည် အီရန်နိုင်ငံ၏ မြို့တော်ဖြစ်၍ အယ်လဗုဇ်တောင်ခြေတွင် ပေ ၄,၀၀၀ ကုန်းမြင့်ပေါ်၌ တည်ရှိ



အီရန်နိုင်ငံတွင် တွေ့ရသော ပါဆီပိုလစ်ရှေးဟောင်းမြို့တော်ကြီးမှ နန်းတော်ရာကြီးတခု

သည်။ ကက်စပျန်ပင်လယ်နှင့် မိုင် ၇၀ ခန့်သာ ဝေးသည်။ ၁၂ ရာစုနှစ်အတွင်းက မြို့ကိုတည်ခဲ့ပြီးနောက် ၁၇၈၈ ခုနှစ်တွင် ပါးရှားနိုင်ငံ၏မြို့တော် ဖြစ်လာသည်။

ရှေးအခါက တဟီရန်းမြို့သည် အရှေ့တိုင်း မြို့တမြို့အသွင် ဆောင်ခဲ့သော်လည်း ၁၉၂၅ ခုနှစ်တွင် နန်းတက်သော ရီဇာရှားဘုရင်နှင့် သားတော် လက်ရှိရှားဘုရင်တို့ လက်ထက်၌ ခေတ်မှီမြို့တော်အဖြစ်သို့ ရောက်ရှိစေရန် ပြုပြင်ပြောင်းလဲမှုများကို ဆောင်ရွက်ခဲ့ကြသည်။ ယခုအခါ မြို့တွင်း၌ လမ်းမကျယ်များကို စံနစ်တကျ ဖောက်လုပ်၍ အစိုးရအဆောက်အအုံများကိုလည်း ရှေးပါးရှင်းဗိသုကာပုံစံအရ ဆောက်လုပ်ထားရှိလေသည်။ အီရန်နိုင်ငံရှိ အခြားမြို့ကြီးများနှင့် မီးရထားလမ်း အဆက်အသွယ်ရှိသည်။ လေကြောင်းခရီးအတွက် လေဆိပ်လည်းရှိသည်။ လူဦးရေ ၂,၇၁၉,၇၃၀ ယောက် (၁၉၇၂) နေထိုင်သည်။ ၁၉၄၃ ခုနှစ် ဒုတိယကမ္ဘာစစ်အတွင်းက ရုရှနိုင်ငံဝန်ကြီးချုပ် စတာလင်၊ အမေရိကန်နိုင်ငံ သမတရူးဇဗဲ့နှင့် ဗြိတိန်နိုင်ငံ ဝန်ကြီးချုပ် ချာချီဘိုသည် တဟီရန်းမြို့တော်၌ ပဌမဦးဆုံး ဘွေ့ဆုံဆွေးနွေးပွဲကို ကျင်းပခဲ့ကြသည်။

အခြားထင်ရှားသော မြို့ကြီးများမှာ တာဗရိမြို့၊ အစ္စဖာဟန်းမြို့၊ မားရှတ်မြို့တို့ ဖြစ်ကြသည်။ တာဗရိမြို့သည် အဇာဗိုင်ဂျန်နယ်၏ မြို့တော်ဖြစ်၍ ကုန်သွယ် ရောင်းဝယ်ရေးအတွက် အချက်အခြာဌာနဖြစ်သည်။ လူဦးရေ ၄၀၃,၄၁၃(၁၉၇၂)ယောက်ခန့် နေထိုင်သည်။

အစ္စဖာဟန်းမြို့သည် မြေသြဇာကောင်းသော အိုအေးဆစ်ဒေသ၌ တည်ရှိ၍ ရှေးအခါက ပါးရှားနိုင်ငံ၏ မြို့တော်ဖြစ်ခဲ့ဘူးသည်။ ဆေး၊ ဝါ၊ ဘိန်း၊ ဆန်စပါးနှင့် ကော်ဇောများထွက်သည်။ လူဦးရေ ၄၂၄,၀၄၅ (၁၉၇၂)ယောက်ခန့် နေထိုင်သည်။

မားရှတ်မြို့သည် အီရန်နိုင်ငံ အရှေ့မြောက်ပိုင်း အိုအေးဆစ်ဒေသ၌ တည်ရှိပြီးလျှင် အီရန်အစ္စလာမ်ကိုးကွယ်ဝင်တို့၏ အယူဝါဒနှင့် ဆိုင်၍ အထွတ်အမြတ်ထားသောမြို့ ဖြစ်ပေသည်။ ထိုမြို့တွင် မိုဟာမက်၏ အဆက်အနွယ် ဖြစ်သော အိမ်ရီဇာ၏ သင်္ချိုင်း တည်ရှိသည်။ လူဦးရေ ၄၀၉,၆၁၆ (၁၉၇၂)ယောက်ခန့် နေထိုင်သည်။

၁၉၃၅ ခုနှစ် မတိုင်မီက အီရန်နိုင်ငံသည် ပါးရှားနိုင်ငံဟူ၍ ခေါ်တွင်သည်။ ဘီစီ ၁,၀၀၀ ခန့်မှစ၍ ထိုဒေသတွင်

အဆီးရီးယန်းလူမျိုး၊ မိဒလူမျိုးတို့ ကြီးစိုးနေထိုင်ခဲ့ကြသည်။ ဘီစီ ၅၅၀ ခန့်လောက်တွင် ပါးရှင်းလူမျိုးခေါင်းဆောင် ဆိုင်းရပ်သည် မိဒလူမျိုးတို့ကို အောင်မြင်ပြီးနောက် ပါးရှားအင်ပိုင်ယာကို တည်ထောင်ခဲ့သည်။ (ဆိုင်းရပ် — လည်းရှု။) ဆိုင်းရပ်ဘုရင်ကြီး၏ လက်ထက်တွင် ပါးရှားနိုင်ငံသည် အရှေ့ဖက် အိန္ဒိယပြည်နယ်စပ်မှ အနောက်ဖက် အီးဂျီးယန်းပင်လယ်အထိ ကျယ်ပြန့်လေသည်။ ဆိုင်းရပ်၏မြေးတော် ဒါးရီးယပ်ဘုရင်လက်ထက်သို့ ရောက်လာသောအခါ တောင်ဖက် အီဂျစ်ပြည်သို့ တိုင်အောင် အာဏာပြန့်နှံ့လျက်ရှိသည်။ သို့ရာတွင် ဂရိတို့နှင့်ဖြစ်ပွားသော ပါးရှင်းစစ်ပွဲ၌ ပါးရှင်းတို့ အရေးနိမ့်ခဲ့သဖြင့် အာဏာကျဆင်းခဲ့ရာ နောက်ဆုံး ဘီစီ ၃၃၃ ခုနှစ်တွင် အယ်လက်ဇန္ဒာ–သ–ဂရိတ်သည် ပါးရှားနိုင်ငံ တခုလုံးကို သိမ်းပိုက်အုပ်စိုးလေသည်။ (အယ်လက်ဇန္ဒာ-သ-ဂရိတ် — လည်းရှု။)

ဂရိတို့၏ အအုပ်အချုပ်အောက်တွင် နှစ်ပေါင်း ၁၀၀ ခန့် ကျရောက်ခဲ့ပြီးနောက် ပါးရှားနိုင်ငံသည် ပါးသီယန်ဘုရင်များ လက်အောက်သို့ ရောက်ရှိပြန်သည်။ ထိုနောက် တိုင်းရင်းသား စဆာနစ်မင်းများက အေဒီ ၂၂၆ ခုနှစ်မှ စ၍ ပါးရှားနိုင်ငံကို အုပ်စိုးခဲ့ကြသည်။ တဖန် အေဒီ ၆၄၁ ခုနှစ်တွင် အာရပ်တို့လက်အောက်သို့ ကျရောက်ခဲ့သည်။ ထိုမင်းများ လက်ထက်တွင် ပါးရှားနိုင်ငံသို့ အစ္စလာမ်အယူဝါဒ ရောက်ရှိလာသည်။ ၁၂ ရာစုနှစ်တွင် ပါးရှားနိုင်ငံကို မွန်ဂိုဘုရင်များကရင်း၊ ၁၈ ရာစု နှစ်ဦးပိုင်းတွင် တူရကီနှင့် ရုရှတို့ကရင်း အုပ်စိုးကြသည်။

နောက်ဆုံး ၁၆ ရာစုနှစ်အတွင်း ပါးရှားနိုင်ငံ၌ ဆူဖီမင်းဆက် ပေါ်ပေါက်လာခဲ့ရာ အဗ္ဗ–သ–ဂရိတ်ဘုရင်လက်ထက်တွင် နိုင်ငံသည် စည်ပင်ဝပြော၍ သုခုမပညာရပ်များလည်း တိုးတက်ခဲ့သည်။ ထိုမင်းဆက်တွင် နောက်ဆုံးဘုရင်ဖြစ်သော နဒါးရှားသည် တူရကီနှင့် အိန္ဒိယနိုင်ငံမြောက်ပိုင်းသို့ စစ်ချီ တိုက်ခိုက်ခဲ့သည်။ ထိုနောက် ခါဂျာမင်းဆက်က ၁၇၉၅ ခုနှစ်မှ ၁၉၂၅ ခုနှစ်အထိ အုပ်စိုးသည်။ ၁၉၂၅ ခုနှစ်တွင် ရီဇာခန် ပါးလာဗီက ရှားဘုရင်အဖြစ် ထီးနန်းကို သိမ်းပိုက်ခဲ့လေသည်။ ဒုတိယကမ္ဘာစစ်အတွင်းက အီရန်နိုင်ငံသည် ကြားနေနိုင်ငံအဖြစ် ကျေညာခဲ့သည်။ သို့ရာတွင် ရီဇာခန်ဘုရင်သည် ဝင်ရိုးတန်း နိုင်ငံများဖက်သို့ ယိမ်းယိုင်အားပေးသဖြင့် ၁၉၄၁ ခုနှစ် ဩဂုတ်လ၌ ဗြိတိသျှနှင့် ရုရှတပ်များက အီရန်နိုင်ငံတွင်း ဝင်ရောက်ထိန်းသိမ်း၍ ရှားဘုရင်ကိုလည်း ထီးနန်းမှ ချခဲ့ကြသည်။ သားတော် မိုဟမ္မဒ် ရီဇာ ပါးလာဗီက အီရန်ထီးနန်းကိုဆက်ခံအုပ်စိုးလေသည်။

အီရန်နိုင်ငံသည် ရှားဘုရင် မိုဟမ္မဒ် ရီဇာ ပါးလာဗီ ဦးဆောင်မှုဖြင့် ခေတ်မှီအင်အားထက်မြက်သည့် နိုင်ငံတခုဖြစ်အောင် စီးပွားရေးနှင့် လူမှုရေးတော်လှန်မှုကြီး တရပ်ကို ဆင်နွှဲလျက် ရှိသည်။ ရှားဘုရင်၏ ပြုပြင်မှုများတွင် မြေယာစနစ် ပြုပြင်ရေး၊ မြို့ကြီးများတွင် စက်မှုလုပ်ငန်းများ တည်ထောင်ဖွင့်လှစ်ရေး၊ တိုင်းသူပြည်သားတို့ စာပေတိုးတက် တတ်မြောက်ရေးနှင့် အမျိုးသမီးများ အခွင့်အရေး ပိုမိုရရှိရေးတို့ ပါဝင်သည်။

အီရန်နိုင်ငံသည် ဆိုဗီယက်ယူနီယံက ၁၉၄၅ ခုနှစ်တွင် အာဇာဗိုင်ဂျန်နယ်ကို သိမ်းယူရန် ကြိုးပမ်းမှုကို တွန်းလှန်နိုင်ခဲ့၏။ ၁၉၆၉ ခုနှစ်တွင် အီရက်နိုင်ငံနှင့် နယ်စပ်ဖြစ်သော ရှက်-တယ်-အာရပ်မြစ်ဝကျယ်အတွင်း ကူးသန်း သွားလာခွင့်နှင့် စပ်လျဉ်း၍ ထိုနိုင်ငံနှင့် အငြင်းပွားခဲ့ရ၏။ ၁၉၇၂ ခုနှစ်တွင် နယ်စပ်တိုက်ခိုက်မှုများ ဆက်လက်ဖြစ်ပွားခဲ့ရာ ပါးရှင်းကွေ့အတွင်း ကြီးစိုးရန်အတွက် အင်အားချင်းပြိုင်မှုကို ဖော်ပြလေသည်။ ၁၉၇၁ ခုနှစ်နောက်ပိုင်းတွင်လည်း အီရန်နိုင်ငံသည် အာရပ်စော်ဘွားနယ်ပေါင်းစု နိုင်ငံပိုင် ကျွန်းသုံးကျွန်းကို သိမ်းယူခဲ့၏။

အီရန်နိုင်ငံသည် ၁၉၇၀ ပြည့်နှစ်လွန်နှစ်များတွင် ရေနံတင်ပို့ရောင်းချမှုကို ကာကွယ်ရန်အတွက် အမေရိကန်ပြည်ထောင်စုမှ စစ်လက်နက်၊ အသုံးအဆောင်ပစ္စည်းများ ဝယ်ယူကာ ယင်း၏စစ်တပ်ကို ခေတ်မှီအောင် ပြုပြင်ပေးခဲ့လေသည်။

အီရန်နိုင်ငံ အုပ်ချုပ်ရေးစံနစ်မှာ စည်းမျဉ်းခံ ဘုရင့်အုပ်ချုပ်ရေးဖြစ်၍ ဝန်ကြီးချုပ်ခေါင်းဆောင်သော ကက်ဗီနက်အဖွဲ့၌ အုပ်ချုပ်ရေးအာဏာ တည်ရှိသည်။ ရှားဘုရင်က ဝန်ကြီးချုပ်ကို ခန့်သည်။ ဝန်ကြီးအဖွဲ့သည် လေးနှစ်တကြိမ် ရွေးကောက်တင်မြှောက်ရသော ပါလီမန်လွှတ်တော်ကို တာဝန်ခံရသည်။ အောက်လွှတ်တော်တွင် အမတ်ဦးရေ ၂၀၀ ရှိ၍ လူထုမဲဆန္ဒဖြင့် ရွေးကောက်တင်မြှောက်ရသည်။ အထက်လွှတ်တော်တွင် အမတ်ဦးရေ ၆၀ ရှိသည့်အနက် ထက်ဝက်ကို ရှားဘုရင်က ရွေးချယ်ခန့်ထားသည်။ ရှားဘုရင်တွင် ပါလီမန်လွှတ်တော်ကို ဖျက်သိမ်းခွင့်ရှိ၍ ဘဏ္ဍာရေး ဥပဒေကြမ်းများကို ထပ်မံစဉ်းစားရန် ပါလီမန်သို့ ပြန်လွှဲနိုင်ခွင့်ရှိသည်။ ပါလီမန်က အတည်ပြုပြီးသော အခြား ဥပဒေကြမ်းများကိုကား လက်မှတ်ရေးထိုးကာ ဥပဒေအဖြစ် ထုတ်ပြန်ကျေညာရလေသည်။

**အီလီနွိုင်ပြည်နယ်။** ။အီလီနွိုင်ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု အလယ်ပိုင်းတွင် မြောက်ဖက်ကျသော ပြည်နယ်တနယ် ဖြစ်သည်။ မစ်စစ်စပီမြစ်သည် အနောက်ဖက် နယ်နိမိတ်အဖြစ်၎င်း၊ အိုဟိုင်းအိုးမြစ်သည် တောင်ဖက်နယ်နိမိတ်အဖြစ်၎င်း၊ ဝါဗက်ရှမြစ် တစိတ်တဒေသ



**အီလီနွိုင်ပြည်နယ်၏ မြို့တော်ဖြစ်သော ရှီကာဂိုးမြို့ရှုခင်း**

သည် အရှေ့ဖက်နယ်နိမိတ်အဖြစ်ရင်း စီးဆင်းကြ၍ အရှေ့မြောက်ဖက်တွင် မစ်ရှီဂန် ရေအိုင်ကြီး တည်ရှိသည်။ မစ်စစ်စပီမြစ်၏ လက်တက်ဖြစ်သော အီလီနွိုင်မြစ်သည် ပြည်နယ်တွင်း၌ အကြီးဆုံးမြစ်ဖြစ်သည်။ အခြားထင်ရှားသော မြစ်များမှာ ဖေါက်မြစ်နှင့် ရော့မြစ်တို့ဖြစ်ကြသည်။ အီလီနွိုင်ပြည်နယ်သည် မြေပြန့်လွင်ပြင်ဖြစ်၍၊ မြောက်မှတောင်သို့ ဆင်ခြေလျှော နိမ့်ဆင်းသည်။ ပြည်နယ်သည် စတုရန်းမိုင် ၅၆,၄၀၀ ကျယ်ဝန်း၍၊ လူဦးရေ ၁၁,၁၁၃,၉၇၆ ယောက် (၁၉၇၀) ရှိသည်။

ကုန်းတွင်းကျသောပြည်နယ် ဖြစ်သောကြောင့် ရာသီဥတုသည် နွေအခါ၌ပူ၍ ဆောင်းအခါ၌အေးသည်။ အထူးသဖြင့် ဆောင်းအခါ၌ ရာသီဥတု အပြောင်းအလဲမြန်သည်။ နွေကူးနှင့် နွေရာသီတွင် မိုးအများဆုံးရွာသည်။

ရှေးအခါက အီလီနွိုင်ပြည်နယ်ဒေသသည် တိုင်းရင်းသား ရက်အင်ဒီးယန်းလူမျိုးတို့ အမဲလိုက်ရာ ပရေရီလွင်ပြင်အရပ်ဖြစ်သည်။ ယခုအခါတွင်မူကား အမေရိကန်ပြည်ထောင်စု အလယ်ပိုင်းတွင် စက်မှုလုပ်ငန်းနှင့် စိုက်ပျိုးရေးလုပ်ငန်းများ အထူးပင် ထွန်းကားလျက်ရှိသော ပြည်နယ်ဖြစ်သည်။ လွန်ခဲ့သောနှစ်ပေါင်း ၁၀၀ ခန့်က ပြည်နယ်သားတို့သည် များသောအားဖြင့် စိုက်ပျိုးရေးလုပ်ငန်းကို သာ အဓိကလုပ်ကိုင်ခဲ့ကြသည်။ ယခုအခါ အီလီနွိုင်ပြည်နယ်သည် နယူးယော့ပြည်နယ်နှင့် ပင်ဆီလဗေးနီးယားပြည်နယ်တို့မှ လွဲလျှင် စက်မှု လုပ်ငန်း အကြီးကျယ်ဆုံးပြည်နယ် ဖြစ်သည်။ သံမဏိထည်ပစ္စည်း၊ လယ်ထွန်စက်ကရိယာ၊ အယ်လဂျင်နာရီ၊ အိမ်ထောင် ပရိဘောဂစသည်တို့ကို ထုတ်လုပ်ခြင်း၊ အဝတ်အထည် ရက်လုပ်ခြင်း၊ ရေနံချက်လုပ်ငန်း၊ အသားစည်သွတ်လုပ်ငန်း အစရှိသော လုပ်ငန်းများမှာ ထင်ရှားသော စက်မှုလုပ်ငန်းများ ဖြစ်သည်။ အသားစည်သွတ်လုပ်ငန်းတွင် ပြည်နယ်သည် ဗဟိုအချက်အခြာဌာန ဖြစ်ပေသည်။

အီလီနွိုင်ပြည်နယ်သည် မြေပြန့်၍ မြေဩဇာထက်သန်သည့်အပြင် ရာသီဥတုကလည်း သင့်မြတ်သောကြောင့် စိုက်ပျိုးရေးလုပ်ငန်းကို တွင်ကျယ်စွာ လုပ်ကိုင်နိုင်သည်။ တိရစ္ဆာန်မွေးမြူရေးနှင့် ကြက်ငှက် မွေးမြူရေး လုပ်ငန်းတို့ကိုလည်း အကြီးအကျယ် လုပ်ကိုင်သည်။ ပြောင်းကို အဓိကစိုက်ပျိုးသည်။ အခြားသီးနှံပင်များမှာဂျုံ၊မြင်းစားဂျုံ၊ မုယော၊ ရိုင်းစပါးနှင့် ဆိုယာပဲတို့ဖြစ်သည်။ သစ်သီးခြံများကိုလည်း စိုက်ပျိုးသည်။

တွင်းထွက်ပစ္စည်း ကြွယ်ဝသော ပြည်နယ် ဖြစ်၍ ကျောက်မီးသွေးနှင့် ရေနံစိမ်း အများဆုံး ထွက်သည်။

ထုံးကျောက်၊ သဲကျောက်၊ ဖိုလတ်မြေ၊ မြေခါတ်ငွေ၊ ဖလူအိုရိုက်၊ ဖူလာမြေမှုန့်စသည်တို့ကိုလည်း တူးဖော်ရရှိသည်။

အီလီနွိုင်ပြည်နယ်၏ မြို့တော်သည် စပရင်းဖီးမြို့ ဖြစ်၍ လူဦးရေ ၉၁,၇၅၃ ယောက်ရှိသည်။ အမေရိကန်နိုင်ငံသမိုင်းတွင်ထင်ရှားသော သမတ အေဗရာဟမ် လင်းကွန်းသည် ထိုမြို့တွင် နေထိုင်ခဲ့ဘူးရာ၊ သမတကြီး နေထိုင်ခဲ့သော အိမ်၊ သင်္ချိုင်းဂူနှင့် ကျောက်တိုင်တို့ကို တွေ့နိုင်လေသည်။

ရှီကားဂိုးမြို့သည် ပြည်နယ်တွင်း၌ အကြီးဆုံးမြို့ဖြစ်၍ မစ်ရှီဂန်ရေအိုင်၏ အနောက်တောင်ဖက် ကမ်းပေါ်တွင် တည်ရှိသည်။ ရှီကားဂိုးမြို့သည် ရေကြောင်းဖြင့် အနောက်ဖက်ရှိ မစ်စစ်စပီမြစ်သို့ ခရီးလမ်းပေါက်သည်။ မီးရထားလမ်းဆုံမြို့လည်းဖြစ်သည်။ စက်မှုလုပ်ငန်းများ ထွန်းကားသော မြို့ဖြစ်သည့်အပြင်၊ ကုန်ကူးသန်း ရောင်းဝယ်ရေး ဗဟိုဌာနကြီးလည်း ဖြစ်သည်။ လူဦးရေ ၃,၅၅၀,၄၀၄ ယောက်ရှိ၍၊ အမေရိကန်ပြည်ထောင်စုတွင် နယူးယော့မြို့မှလွဲလျှင် အကြီးဆုံးဖြစ်သည်။ (ရှီကားဂိုးမြို့—လည်းရှု။)

အခြားထင်ရှားသော မြို့ကြီးများမှာ ရော့ဖို့မြို့၊ ပီအိုရီးယားမြို့နှင့် အီ(စ) စိန်လူဝီမြို့တို့ဖြစ်သည်။

အီလီနွိုင်ပြည်နယ်ဒေသသို့ ဦးစွာ ရောက်ရှိလာသော ဥရောပတိုက်သားများမှာ ပြင်သစ်အမျိုးသားတို့ဖြစ်သည်။ ပြင်သစ်တို့က ကုန်သွယ်ရေးစခန်းများ ဖွင့်၍ အခြေစိုက်နေထိုင်ခဲ့ကြသည်။ ထိုနောက် ဗြိတိသျှတို့လက်သို့ ရောက်ရှိလေသည်။ အမေရိကန်တော်လှန်ရေးစစ်ပွဲ ပြီးဆုံးသောအခါ အီလီနွိုင်နယ်မြေဒေသသည် အမေရိကန်အစိုးရလက်အောက်သို့ ကျရောက်ခဲ့သည်။ ၁၈၁၈ ခုနှစ် ဒီဇင်ဘာလ ၃ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စုအဝင် ၂၁ ခုမြောက် ပြည်နယ် ဖြစ်လာလေသည်။ အေဗရာဟမ် လင်းကွန်းသည် အမေရိကန်သမတအဖြစ် ရွေးကောက်တင်မြှောက်ခြင်း မခံရမီ အီလီနွိုင်ပြည်နယ်ရှိ နယူးဆလမ်မြို့နှင့် စပရင်းဖီးမြို့တို့တွင် နေထိုင်ခဲ့သည်။ ၁၉၅၂ ခုနှစ်တွင်သမတရာထူးအတွက် အိုင်ဆင် ဟောင်းဝါးနှင့် ယှဉ်ပြိုင်အရွေးခံခဲ့သော နိုင်ငံရေးခေါင်းဆောင် အက်ဒလေ စတီဗင်ဆင်သည်လည်း အီလီနွိုင်ပြည်နယ်သားပင် ဖြစ်သည်။

**အီလက်ထရိုကင်မစ္စတြီ။** ။လျှပ်စစ်ဓာတုဗေဒ—ရှု။

**အီလက်ထရိုလစ်ဆစ်။** ။လျှပ်စစ်ဖြင့်ခါတ်ခွဲခြင်း—ရှု။

**အီလက်ထရွန်။** ။ရှေးအခါက ဒြပ်စင်တို့၏ အသေးငယ်ဆုံးသော အစိတ်အပိုင်းသည် အက်တမ်ပင်ဖြစ်၍၊ ထိုထက်ငယ်သော အစိတ်အပိုင်းမရှိနိုင်ဟု ယူဆလာခဲ့ကြလေသည်။ သို့သော် ဆာ ဂျေ၊ဂျေ၊သွန်မဆင်ဆိုသူ ကိမ်းဗရစ်တက္ကသိုလ်ပါမောက္ခကြီးတဦးက အက်တမ်အောက် အလွန်ငယ်သော အစိတ်အပိုင်းတို့ရှိကြောင်းကို ခရစ် ၁၈၉၇ ခုနှစ်တွင် ရှင်းလင်းပြသ၍ ထိုအစိတ်အပိုင်းတို့ကို အီလက်ထရွန်ဟု အမည်ပေးခဲ့လေသည်။

ဟိုက်ဒြိုဂျင်သည် ဓာတုဒြပ်စင်တို့တွင် အပေါ့ဆုံးဖြစ်၍ ယင်း၏အက်တမ်အလေးဆသည် ၁.၀၀၈ မျှသာရှိ၏။ အီလက်ထရွန်တခု၏ အလေးချိန်မှာ ထိုဟိုက်ဒြိုဂျင်အက်တမ်၏ အလေးချိန်ကို အပုံ တထောင့် ရှစ်ရာ လေးဆဲ့ငါးပုံ ပုံလျှင် တပုံ ( $\frac{၁}{၁၈၄၅}$ ) ခန့်သာရှိလေသည်။

**အီလက်ထရွန်းနစ်။** ။အီလက်တရွန်များကို လေဟာပြွန်ဖြင့် မည်သို့ထိန်းနိုင်ပုံကို သိရှိပြီးသည့် နောက်တွင် အီလက်ထရွန်များကို အသုံးချပုံ သိပ္ပံ ပညာသစ် တရပ်သည် ယခုခေတ်တွင် ပေါ်ပေါက်လာလေသည်။ ထိုပညာရပ်သည် ရူပဗေဒတွင် တစိတ်တဒေသ ဖြစ်သော သိပ္ပံပညာရပ်တခု ဖြစ်ပြီးလျှင် ထိုပညာရပ်ကို အီလက်ထရွန်းနစ် ဟုခေါ်သည်။

အီလက်ထရွန်းနစ်ဟု ဆိုရာ၌ အီလက်ထရွန်များ၏ ပြုမူပုံ အကြောင်းကို ဆိုလိုခြင်းဖြစ်၏။ အထူးသဖြင့် ထိုပညာရပ်တွင် ဓာတ်ငွေ့၊ သို့မဟုတ် ပလာနယ်အတွင်း အီလက်ထရွန်များ ဖြတ်သန်းသွားရာ၌ ပြုမူပုံအကြောင်းနှင့် ထိုသို့ ပြုမူနိုင်ရန် စီမံထားသော ကရိယာအကြောင်းတို့ ပါဝင်သည်။ ထို့ပြင် အင်ဖရာရက် ရောင်ခြည်၊ အာလတြာဝိုင်အိုလက် ရောင်ခြည် စသည့် ခါတ်ရောင်ခြည်များ အပေါ်တွင် အခြေခံထား၍ ပြုလုပ်သော ကရိယာများ၏ အကြောင်းလည်း ပါဝင်လေသည်။

အီလက်ထရွန်သည် အလင်း၏ အသွားနှုန်း အတိုင်း တစက္ကန့်လျှင် ၁၈၆,၀၀၀ မိုင်ခန့် သွားနိုင်သည်။ အီလက်ထရွန်းနစ် ကရိယာသည် ပကတိ မျက်စိဖြင့် ကြည့်ရန် မတတ်နိုင်သော ရုတ်ခြည်း ဖြစ်ပျက်သည့် အဖြစ်အပျက်များကို မှတ်သားကြည့်ရှုနိုင်ရုံမက၊ လူတို့၏ မျက်စိဖြင့်၎င်း၊ လက်ဖြင့်၎င်း ရေတွက်၍ မရနိုင်သော အလုပ်များကို ရေတွက်ခြင်း၊ ရွေးကောက်ခြင်း စသည်တို့ကို အံ့သြဖွယ် ရေတွက်နိုင်၊ ရွေးကောက်နိုင်စွမ်း ရှိပေသည်။ ထိုသို့ပြုလုပ်ရာ၌ လူထက် ပို၍ တိကျမှန်ကန်ပြီးလျှင် ပို၍ လျှင်မြန်သည်ကိုလည်း တွေ့ရပေသည်။

အီလက်ထရွန်းနစ် ကရိယာများကို စက်ရုံများတွင် အသုံးပြုခြင်းဖြင့် လူ့မျက်စိဖြင့်၎င်း၊ လက်ဖြင့်၎င်း မမြင်နိုင် မစမ်းသပ်နိုင်သော စက်၏ ချွတ်ယွင်းချက်များကို ချက်ခြင်း သိနိုင်ပေသည်။ စက်မှုလုပ်ငန်းတွင် ဖြစ်သော အနည်းငယ် ပြောင်းလဲချက် ကလေးကိုပင် မှတ်သားယူ

နိုင်ပေသည်။ မကြာသေးမီက တီထွင်လိုက်သော ဖိုတို အီလက်ထရစ်ဆဲ(အလင်းလျှပ်စစ်အိမ်)ခေါ် အီလက်ထရွန်းနစ် ကရိယာသည် စက်မှုလက်မှုလုပ်ငန်းတွင် အထူးအသုံးဝင်၍ အရေးပါ အရာရောက်သော ကရိယာ ဖြစ်သည်။ ဖိုတိုအီလက်ထရစ်ဆဲသည် ပုံသဏ္ဌာန်နှင့်အရွယ်အစားတို့ကို စစ်ဆေးရန်နှင့် ရေတွက်ရန်အတွက် အသုံးဝင်၏။ ဖိုတိုအီလက်ထရစ်ဆဲကို ရေတွက်ရန်အတွက် အသုံးပြုပုံမှာ ထိုကရိယာကိုရေတွက်သော မီတာနှင့် ဆက်သွယ်ပြီးနောက် ဖိုတိုအီလက်ထရစ်ဆဲ အပေါ်သို့ အလင်းတန်းကျစေသည်။ ထိုသို့ အလင်းတန်းကျနေသည့်အခါတွင် လျှပ်စစ် ဆာကစ်သည် ပွင့်၍နေသည်။ ထိုအလင်းတန်းကို ထောင့်မတ်ကျဖြတ်၍သွားသော ခါးပတ်ပေါ်တွင် သယ်ဆောင်သော ပစ္စည်းများကိုထား၏။အလင်းတန်းသည် ခါးပတ်ပေါ်တွင် ပါလာသမျှ ပစ္စည်းတို့၏ အဖြတ်ကို အကြိမ်ကြိမ်ခံရသည်။ ထိုသို့ အဖြတ်ခံရတိုင်း ဖိုတို အီလက်ထရစ်ဆဲ အပေါ်သို့ တဆက်တည်း အလင်းရောင်မကျနိုင်တော့ပဲ ပြတ်တောင်းပြတ်တောင်းသာ ကျနိုင်ပေသည်။ ဖိုတို အီလက်ထရစ်ဆဲရှိ လျှပ်စစ်ဆာကစ်သည် အလင်းတန်း အဖြတ်ခံရတိုင်း ပိတ်၍သွားပြီးလျှင် ရေတွက်သည့်မီတာသည်လည်း "ကလစ်" ဟူသော အသံမြည်၍ အရေအတွက်ကို မှတ်သားလိုက်သည်။ ထိုကြောင့် ပစ္စည်းများသည် အလင်းတန်းကိုဖြတ်သွားတိုင်း ဆဲအပေါ်သို့ အရိပ်ကျကာ ဆာကစ်သည် ပိတ်သွား၍ ပစ္စည်း၏အရေအတွက်ကို အလိုအလျောက် ရေတွက်ပြီးသားရရှိလေသည်။ (အလင်းလျှပ်စစ်အိမ် — ရှု။)

စက်ဖြင့် အထည်ချောကိုလုပ်ရာ၌ ထိုအထည်သည် လိုအပ်သော အရွယ်အစားနှင့် ပုံသဏ္ဌာန်အရ ညီ မညီကို စစ်ဆေးကြည့်ရှုရန် စက်ရုံများတွင် ဖိုတိုအီလက်ထရစ်ဆဲကို အသုံးပြုသည်။ ဖိုတိုအီလက်ထရစ်ဆဲ သည် မျက်စိ၊ လက်တို့ဖြင့် စမ်းသပ်စစ်ဆေးကြည့်ခြင်းထက် ပို၍မှန်ကန်တိကျသည့်အပြင်၊ မှားယွင်းသည့် နေရာကိုလည်း ချက်ခြင်း သိနိုင်ပေသည်။ စက်မှု လက်မှု လုပ်ငန်းများတွင် အရေးကြီးသော ရေတွက်ခြင်းနှင့် စစ်ဆေးခြင်း လုပ်ငန်းများကို ဆောင်ရွက်ပေးနိုင်သည့် ဖိုတိုအီလက်ထရစ်ဆဲမှာ ပလာပြွန်အတွင်း၌ အီလက်ထရွန်များကို အသုံးပြုသည့် ကရိယာ ဖြစ်၏။ ပလာပြွန် ထဲတွင် အီလက်ထရုတ်ကို ထည့်ထား၏။ ထိုအီလက်ထရုတ်ကို ဆီဇီယမ်ကဲ့သို့သော ပစ္စည်းမျိုးဖြင့်သုတ်လိမ်းထားသည်။ ဆီဇီယမ်သည် အလင်းရောင် ရှိလျှင် အီလက်ထရွန်များကို ထိုးထွက်သွားစေနိုင်သော သတ္တိရှိသည့် ပစ္စည်းမျိုးဖြစ်သည်။ အီလက်ထရွန်များ၏ လှုပ်ရှားမှုမှရရှိသည့် သေးငယ်သော လျှပ်စစ် ဓာတ်စီးအားကို အခြားပြွန်တခုတွင် အားပိုများစေရန် ပြုလုပ်ယူသည်။ ယင်းသို့ပြုလုပ်ထားသော ဖိုတိုအီလက်ထရစ်ဆဲကို အချက်ပေးကရိယာ အမျိုးမျိုး အဖြစ်ဖြင့် အသုံးပြုနိုင်ပေသည်။

ဆိုင်ကြီးများ၊ ဘဏ်တိုက်ကြီးများနှင့် အရေးကြီးသော နေရာများ၌ ဖိုတိုအီလက်ထရစ်ဆဲကို ခိုးသားများ၏ ဘေးမှ ကြိုတင် သိရှိကာကွယ်နိုင်ရန်၎င်း၊ အသက်အန္တရာယ်ဖြစ်စေမည့် အရာများမှ ကြိုတင်ကာကွယ်နိုင်ရန်၎င်း တပ်ဆင်ထားကြသည်။

အီလက်ထရွန်းနစ်နည်းများသည် ဆေးနှင့် ကျန်းမာရေးတို့တွင်လည်း အသုံးဝင်၏။ ယခုခေတ် ဆရာဝန်သည် လူနာ၏ ကိုယ်တွင်းရှိ ချွတ်ယွင်းချက် များကို တွေ့ရှိနိုင်ရုံမက၊ အီလက်တြို ကာဒီယို ဂရပ် ခေါ် အီလက်ထရွန်းနစ် ကရိယာကို အသုံးပြုခြင်းဖြင့် နှလုံးခုန်ခြင်းကို အသေးစိတ် စစ်ဆေးနိုင်ပြီ ဖြစ်သည်။ မကြာမီ ဆေးဖက်ဌာနများတွင် အသုံးပြုလာနိုင်စရာ အကြောင်း ရှိသော အီလက်ထရွန်းနစ် ဓာရိယာတမျိုးမှာ အီလက်တြို အင်ဆက်ဖာလို ဂရပ် ဖြစ်သည်။ အတိုကောက် အားဖြင့် အီး၊ အီး၊ ဂျီ ဟုခေါ်၏။ ထို အီလက်တြို အင်ဆက်ဖာလိုဂရပ် ကရိယာသည် လျှပ်စစ်ဓာတ်ကို ပြန်လှန်တွန်းကန်သည့် ဦးနှောက်အား၏ ပြောင်းလဲချက်များကို မှတ်သားနိုင်သော ကရိယာဖြစ်သည်။

အီလက်တြို အင်ဆက် ဖာလို ဂရပ်သည် စိတ်နှင့် သက်ဆိုင်၍ ဖြစ်ပေါ်သော နှောင့်ရှက်မှုများ အတွက် ဦးနှောက်ကို စစ်ဆေးရန် အသုံးဝင်၏။ ထို့ပြင် ရာဇဝတ်မှုစုံစမ်း ထောက်လှမ်းရေး၌ ထွက်ဆိုချက် မှန် မမှန်ကို စစ်ဆေးရန်အတွက်လည်း အသုံးဝင်သေးသည်။ ထိုကရိယာကို "စိတ်လှုပ်ရှားမှုတိုင်း ကရိယာ"ဟုလည်း ခေါ်နိုင်သည်။ လွန်ခဲ့သော နှစ်အနည်းငယ်လောက်မှ စ၍ ကူးစက် တတ်သော ရောဂါ ကာကွယ်သည့် နေရာတွင် အီလက်ထရွန်းနစ် ကရိယာများကို အသုံးပြုလာနိုင်ခဲ့၏။ ထိုကရိယာတို့ကို ကိုယ်ပေါ်ရှိ အစိတ်အပိုင်း အမျိုးမျိုး ပေါ်တွင် တင်၍ အလင်းရောင်ခြည် ကျရောက်စေကာ၊ ဝေဒနာများကို ပျောက်ကင်းစေနိုင်ပေသည်။

အိမ်များတွင်လည်း ခြင်၊ ယင်နှင့် ဖုန်တို့မှ ကင်းရန်အတွက် အီလက်ထရွန်းနစ် ကရိယာ များကို အသုံးချနိုင်သည်။ အီလက်ထရွန်းနစ် ကရိယာကို ဖုန်များကင်းစင်စေရန်အတွက် အသုံးပြုပုံမှာ ဤသို့ဖြစ်၏။ ဆန့်ကျင်ဖက် ဓာတ်အား ရှိသော အမှုန်များသည် တခုကိုတခု ဆွဲငင်သော သတ္တိ ရှိကြ၏။ အထူးသီးသန့် ပြုလုပ်ထားသော ပလာပြွန်အတွင်းမှ အီလက်ထရွန်တို့သည် လေထဲ၌ လွင့်နေသော ဖုန်များဆီသို့ သေးငယ်သော လျှပ်စစ်ဓာတ်အားတို့ကို သယ်ဆောင်သွားကြ၏။ တနေရာတွင် လေထဲက ဖုန်များတွင် ရှိသော လျှပ်စစ်ဓာတ်အားနှင့် ဆန့်

ကျင်ဖက် ခဲတံအားရှိသော သတ္တုပြားတခုကို တပ်ဆင်ထားသည်။ ဖုန်များရှိ ခဲတံအားသည် သတ္တုပြားရှိခဲတံအား၏ ဆွဲငင်မှုကို ခံရ၍ ဖုန်များသည် အောက်သို့ပြန်ကျခွင့်မရပဲ သတ္တုပြားရှိရာသို့ ပြေးကပ် ကြသည်။ ဖုန်များကိုသာကင်းစင်အောင်ပြုလုပ်နိုင်သည် မဟုတ်၊ မီးဖိုခန်းမှ မလိုလားအပ်သော မီးခိုးမှိုင်းများကိုလည်း ကင်းစင်အောင် ထိုနည်းတူ ပြုလုပ်နိုင်ပေသည်။ ဖုန်စုအီလက်ထရွန်းနစ် ကရိယာကို အိမ်နံရံ၊ သို့မဟုတ် မျက်နှာကြက်တွင် တပ်ဆင်ထားခြင်းဖြင့် ဖုန်နှင့်မီးခိုးတို့ကို စုယူ၍ ကင်းစင်သွားအောင် ပြုလုပ်နိုင်ပေသည်။ အိမ်များ၊ စက်ရုံအလုပ်ရုံများ စသည်တို့တွင် ဖုန်စု အီလက်ထရွန်းနစ်ကရိယာကို အသုံးပြုလျှင် တံမြက်လှည်းခမျာ သက်သာမည့်အပြင် ဖုန်လည်းအစဉ်ကင်းစင်၍နေမည်ဖြစ်သည်။

ယခုခေတ်တွင် လျှပ်စစ် ခဲတံမီးလုံးများ အစားလျှပ်စစ် ခဲတံမီးချောင်း များ ကို ကုန်တိုက် ကြီးများ၊ ပျော်ပွဲရုံများနှင့် ရုံးများ၊ အိမ်များတွင် သုံး နေ ကြပေပြီ။ ထိုခဲတံမီးချောင်းကို ဖလူအိုရက်ဆင့် ခဲတံမီးဟုခေါ်သည်။ ရိုးရိုး ခဲတံမီးလုံးတွင် အလင်းဖြစ်ပေါ်ပုံနှင့် ခဲတံမီးချောင်းတွင် အလင်းဖြစ်ပေါ်ပုံမှာမတူပေ။ ခဲတံမီးလုံးတွင် အလင်းဖြစ်ပေါ်သည်မှာ ဝိုင်ယာမျှင်ကိုအလင်းရောင် ထွက်လာအောင် လျှပ်စစ်ခဲတံဖြင့် အပူတိုက်ပေးသောကြောင့် ဖြစ်ပေါ်သည်။ ခဲတံမီးချောင်းတွင် အလင်း ဖြစ်ပေါ်သည်မှာ ခဲတံရည်သုတ် အကာပေါ်တွင် အီလက်ထရွန် များကို တိုက်ခိုက် စေသောကြောင့် ဖြစ်ပေါ်သည်။ ဇင့်ဆီလီကိတ်၊ ကယ်လဆီယမ်တန်စတိတ်နှင့် ကက်ဒမီယမ် ဗိုရိတ် စသည့် ခဲတံတို့ဖြင့်ပြွန်ကို သုတ်ထားခြင်းဖြင့် အလင်းရောင် အမျိုးမျိုးကိုထွက်စေနိုင် လေသည်။ ဖလူအိုရက်ဆင့် ခဲတံမီးသည်လျှပ်စစ်ခဲတံစွမ်းအင်ကို အနည်းငယ်သာ ကုန်စေသောကြောင့် စရိတ်အကုန်အကျ အထူးသက်သာသည်။ ပြွန်၏အလျားတလျှောက်မှ တညီတညာတည်း ထွက်လာသောအလင်းသည် အရိပ်ကို အထူးမှိန်စွာ ကျစေ၍ မျက်စိကိုအေးစေသည်။ ခွဲစိတ်ကုသသည့် အခန်းများတွင် ဖလူအိုရက်ဆင့် ခဲတံမီးလုံးကို အသုံးပြု၍ အရိပ် လုံးဝမထင်အောင် ပြုလုပ်နိုင်ပေသည်။

အီလက်ထရွန်းနစ် ကရိယာများသည် စက်မှုလက်မှုလုပ်ငန်းဖက်တွင် အထူးအသုံးဝင်၏။ စားကုန်လုပ်ငန်းတွင်အပူခဲတံပေးရန်အတွက် အီလက်ထရွန်းနစ် ကရိယာများကို အသုံးပြုကြသည်။ အီလက်ထရွန်းနစ် မီးဖိုတွင်သတ္တုပြားနှစ်ချပ် ရှိ၍ ထိုသတ္တုပြားတို့တွင် လိုအပ်သလောက် တုန်ကြိမ်များသော လျှပ်စစ်ခဲတံစီးကို သွင်းထားသည်။ ထိုလျှပ်စစ် ခဲတံစီးကို အီလက်ထရွန်းနစ်ကရိယာဖြင့် ဖြစ်ပေါ်စေရန် ထိုကရိယာဖြင့်ပင် အုပ်ထိန်းထားသည်။ ချက်ယူပုံမှာ အစာကို သတ္တုပြား နှစ်ချပ်အကြားတွင် ထားကာ ထိုအစာထဲသို့ လျှပ်စစ်ခဲတံ အပူလိုသလို သွင်းပေး၍ ချက်ယူသည်။ ထိုသို့ချက်ယူခြင်းသည် အပူခဲတံကို ညီညာစွာ ဖြစ်စေနိုင်သည့် အပြင်၊ လိုသလို အပူခဲတံကို ထိန်း၍ ပေးနိုင်သဖြင့် ဟင်းအကျက်မှာ ညီညာပေသည်။ ပေါင်မုန့်၊ ကာဖီစေ့နှင့် ကကေးအိုးစေ့များကို ဖုတ်ခြင်း၊ လှော်ခြင်းပြုရန် အတွက်လည်း အီလက်ထရွန်းနစ် မီးဖိုများသည် အထူးပင် သင့် လျော်ပေသည်။

အီလက်ထရွန်းနစ် မီးဖိုတွင် လျှပ်စစ်ခဲတံ မီးဖိုထက် ပို၍ကောင်းသော အချက်များ ရှိ၏။ ထိုအချက်များမှာ လျှပ်စစ်ခဲတံအား အကုန်နည်းခြင်း၊ အစာကျက်လွယ်ခြင်း၊ အစာ၏ အရသာမပျက်ပဲ ရေငွေ့ကိုထုတ်ပစ်နိုင်ခြင်း စသည်တို့ဖြစ်သည်။ သို့ရာတွင် အီလက်ထရွန်းနစ် မီးဖိုသည် လျှပ်စစ်ခဲတံ မီးဖိုထက် အတပ်ဆင်ရ ရှုပ်ထွေးပြီးလျှင်၊ တန် ဖိုး မှာ လည်း မနည်းလှသောကြောင့် တောရုံနှင့် အိမ်သုံးပစ္စည်း ဖြစ်နိုင်မည်မဟုတ်ပေ။

စက်ရုံများတွင် သတ္တုဆက်ရန်အတွက် တုန်ကြိမ်များသော လျှပ်စစ်ခဲတံစီးကို ပေးနိုင်သည့် အီလက်ထရွန်းနစ် ဂျင်နရေတာကို အသုံး များလာကြပေပြီ။ အီလက်ထရွန်းနစ်ဂျင်နရေတာဖြင့်သတ္တုဆက်ရာတွင် အလဟဿကုန်ဆုံးသော အပူနှင့်အလင်းမှာ အလွန်နည်းပါးသည်၊သတ္တုများကိုဆက်မည့်နေရာနှင့် တလက်မဝေးသောနေရာမှ နေ၍ လက်ဖြင့် ကိုင်တွယ် ထားနိုင် ပေသည်။ တုန်ကြိမ်များသော လျှပ်စစ်ခဲတံစီးဖြင့် အပူကို သတ္တုအတွင်း၌ ဖြစ်ပေါ်စေနိုင်၍ ထိုအပူကို နေရာကျဉ်းကျဉ်းတနေရာတည်း၌သာ ကန့်သတ်၍ ပေးထားနိုင်ပေသည်။ တုန်ကြိမ် များသော လျှပ်စစ် ခဲတံစီးသည် သတ္တုအတွင်းရှိ မော်လီကျူး တခုနှင့်တခုကို ထိခိုက်စေခြင်းဖြင့် အလွန်ပြင်းသော အပူကို ဖြစ်ပေါ်စေသည်။အီလက်ထရွန်းနစ်နည်းဖြင့်သတ္တုဆက်ခြင်းသည် စစ်အတွင်းက လေယာဉ်ပျံ ဆောက်လုပ်ရေးတွင် အထူးအရေးပါ အရာရောက်ခဲ့၏။ အလွန်ပါးသော အလျူမီနီယမ် သတ္တုပြားများကိုဆက်ရာတွင် သတ္တုပြားများကို မလောင်ကျွမ်းစေပဲ ဆက်ယူနိုင်ခဲ့လေသည်။ ပလပ်စတစ် အမျှင်များကို ဆက်သည့် အီလက်ထရွန်းနစ် ကရိယာ တမျိုးလည်း ရှိသေးသည်။ ထိုကရိယာသည် ဆက်ရာမထင်ပဲ တသားတည်းနေအောင် ဆက်နိုင်သောကြောင့် ဆေးတံဆေးထည့် အိတ်ကလေးများ၊ မိုးကာအင်္ကျီ စသည့် ပလပ်စတစ်ထည် များကို ချုပ်လုပ်ရာ၌ များစွာအသုံးဝင်လေသည်။

ဒုတိယကမ္ဘာစစ်အတွင်းက လျှို့ဝှက်စွာ အသုံးပြုခဲ့သော ရေဒါသည်လည်း အီလက်ထရွန်းနစ် ကရိယာပင်ဖြစ်သည်။ နောက်ဆုံး တိုးတက် တီထွင်သော အီလက်ထရွန်းနစ် ကရိယာတခုမှာ အီလက်ထရွန် မိုက္ကရိုစကုပ်ဖြစ်၏။ အီလက်ထရွန် မိုက္ကရိုစကုပ်ကြောင့် ရှေးကသာမန် အနီးကြည့် မှန်ဘီလူးဖြင့် ကြည့်၍ မမြင်ရသောပိုးမွှားနှင့် ဗက်ဘီးရီးယားတို့ကို ယခုအခါ မြင်လာနိုင်ပြီဖြစ်သည်။ အီလက်ထရွန် မိုက္ကရိုစကုပ်ဖြင့် ယခုအခါအဆပေါင်း ၅၀,၀၀၀ နှင့် ၁၀၀,၀၀၀ အထိ အကြီးချဲ့နိုင်ပြီဖြစ်၏။ အီလက်ထရွန် မိုက္ကရိုစကုပ်သည် အလင်းတန်းအစား အီလက်ထရွန်တန်းကို အသုံးပြုသည်။ မိုက္ကရိုစကုပ်မှာ ကဲ့သို့ပင် အီလက်ထရွန်တန်းများကို စုဆုံအောင်ငင်း၊ ယိုင်သွားအောင်ငင်း ပြုလုပ်နိုင်ပေသည်။ အသုံးပြုသော မှန်ဘီလူးများမှာမူ သာမန် မိုက္ကရိုစကုပ်မှာကဲ့သို့ ဖန်မဟုတ်ပဲ၊ သံလိုက်များဖြစ်သည်။ အီလက်ထရွန်တန်းသည် ကြည့်သော အရာဝတ္ထုပေါ်သို့ ကျသောအခါ အီလက်ထရွန်အချို့သည် ရပ်နေကြပြီးလျှင်၊ အချို့ကားဖြတ်ကျော်သွားကြ၏။ ထိုကဲ့သို့ အရာဝတ္ထု၏ အရိပ်ထင်စေခြင်းကို သာမန် မျက်စိဖြင့် ကြည့်၍ မမြင်နိုင်ပေ။ မြင်နိုင်ရန် အီလက်ထရွန်တန်းကို ဓာတ်ရည်ဖြင့် စိမ်ထားသော ကားချပ်ပေါ်သို့ ကျရောက်စေရ၏။ အီလက်ထရွန်တို့သည် တခုနှင့်တခု ထိခိုက်ကြရာမှ အလင်းရောင်ကိုတခဏမျှထွက်ပေါ်လာစေ၏။ ထိုအခါ သာမန် မျက်စိဖြင့်ကြည့်လျှင် အရာဝတ္ထု၏ အရိပ်ကို မြင်နိုင်ပေသည်။

အီလက်ထရွန် မိုက္ကရိုစကုပ် ပြုမူပုံ သဘောအတိုင်းပြုလုပ်ထားသော အခြား အီလက်ထရွန်းနစ် ကရိယာမှာ အီလက်ထရွန်းနစ် ဓာတ်ခွဲကရိယာဖြစ်သည်။ ထိုကရိယာသည် ဓာတုဗေဒဆရာများအား များစွာ အကူအညီပေးနိုင်ပေသည်။ ထိုကရိယာဖြင့် အလွန်ရှုပ်ထွေးစွာ ပေါင်းစပ်နေသော ဓာတ်ငွေ့များကို ခွဲထုတ်ယူနိုင်သည်။ ကျွမ်းကျင်သော ဓာတုဗေဒဆရာတစု ဓာတ်ခွဲရာ၌ ၁၅ နာရီခန့်ကြာသော အလုပ်ကို ထိုကရိယာက ၁၅ မိနစ်ခန့်အတွင်း ပြီးစီးအောင် လုပ်နိုင်သည်။ အီလက်ထရွန်းနစ် ဓာတ်ခွဲကရိယာကို စပက်တြိုမီတာ ဟုလည်း ခေါ်သည်။

အမှန်အားဖြင့် အီလက်ထရွန်းနစ် သိပ္ပံပညာသည် စက်မှုလက်မှုလုပ်ငန်းများ၊ သယ်ယူပို့ဆောင်ရေးလုပ်ငန်းများ၊ အိမ်မှုရေးရာလုပ်ငန်းများ၊ ကျန်းမာရေးလုပ်ငန်းများ စသည်တို့တွင် အသုံးအသုံးဝင်၍ အကျိုးထူးများကို ပေးစွမ်းနိုင်သည်။ အနာဂတ်ကာလတွင် အီလက်ထရွန်းနစ် ကရိယာ အများအပြား အသုံးချလာနိုင်လျှင် လုပ်အား၊ အချိန်၊ ကုန်ကျစရိတ်တို့သည် အံ့ဩဖွယ် သက်သာခွင့်ရရှိလာမည်မှာ အမှန်ပင် ဖြစ်လေသည်။

**အီသာ**။ ။လူသာမန်တို့၏ အမြင်တွင် ကျွန်ုပ်တို့၏ကမ္ဘာနှင့်တကွ နေ လ ကြယ် ဂြိုဟ် စသည့် ကောင်းကင်တန်ဆာများ သွားလာတည်ရှိလျက် ရှိသော ဤအာကာသ(စပေ့) ကြီးသည် အရာဝတ္ထုဆို၍ လုံးဝကင်းမဲ့သော ပလာသက်သက် လဟာပြင်အတိသာလျှင် ဖြစ်လေသည်။ သို့ရာတွင် သိပ္ပံပညာရှင်ကြီးများကမူ လဟာပြင်ဟု ထင်ရသော အာကာသ (စပေ့)ကြီး တခုလုံးကို အီသာဟု ဆိုအပ်သော ပစ္စည်းတခုက နေရာအနှံ့အပြား ပြည့်နှက်ဖုံးလွှမ်းထားသည်ဟု ယုံကြည်ယူဆခဲ့ကြလေသည်။

ဤယူဆချက်သည် ဗိုင်ဂင်းခေါ် ဒပ်ချလူမျိုး သိပ္ပံပညာရှင်ကြီးတဦး၏ အလင်းနှင့်သက်ဆိုင်သောအဆိုတရပ်မှပေါက်ဖွား လာခဲ့လေသည်။ ပုံပမာ–ကြိုးခပ်ရှည်ရှည်ကိုလူနှစ်ယောက်သည် ကြိုးစတဖက်စီကိုင်ပြီး ရပ်နေကြသည်ဆိုပါစို့၊ အကယ်၍ တယောက်က ကြိုးစကို ကိုင်ရုံကိုင်ထားပြီးလျှင် ကျန်တယောက်က မိမိလက်ထဲရှိ ကြိုးစကို လှုပ်ခါပေးလိုက်မည် ဆိုပါက ကြိုးသည် လှုပ်ပေးလိုက်သည့်ကြိုးစဖက်မှ အခြားတဖက်သို့ လှိုင်းကဲ့သို့ ကွေ့ကောက်လှုပ်ရှားသွားသည့် အခြင်းအရာကို သတိထား ကြည့်သူတိုင်း တွေ့ကြရပေလိမ့်မည်။ ဤနေရာတွင် တဖက်မှတဖက်သို့ ရွေ့သွားသည်မှာ လှိုင်းများသာလျှင်ဖြစ်၍ ကြိုးမှာမူပို့နေမြဲ ကျားနေမြဲပင် ဖြစ်သည်။ လှိုင်းများ ရွေ့သွားခြင်းကြောင့်သာ တဖက်က လှုပ်ခါပေးမှုကို အခြားတဖက်မှ သိရှိခံစားရခြင်း ဖြစ်၍ အကယ်၍ ကြားခံပစ္စည်း ဖြစ်သော ကြိုးသာ မရှိခဲ့ပါက မည်သည့်နည်းနှင့်မျှ ဤသို့သိရှိခံစားနိုင်မည် မဟုတ်ချေ။ ဤအတိုင်းပင် နေမှ ထွက်ပေါ်လာသော အလင်းလှိုင်းများသည်လည်း အလွန်ကျယ်ပြောသည့် အာကာသ (စပေ့) ကြီးကို ကျော်ဖြတ်၍ ကျွန်ုပ်တို့၏ ကမ္ဘာပေါ်သို့ ရောက်လာကြရသည်။ ဤသို့ရောက်လာနိုင်ခြင်းမှာ အာကာသထဲတွင် ကြားခံပစ္စည်းတခုခု ရှိသောကြောင့် ဖြစ်၏ဟု ဗိုင်ဂင်းက ယူဆပြီးလျှင် ထိုပစ္စည်းကို အီသာ ဟူ၍ မှည့်ခေါ် ခဲ့လေသည်။

သိပ္ပံပညာရှင်ကြီးတို့သည် အာကာသ (စပေ့) ကြီးအတွင်း၌ အလင်းတခုသာမဟုတ်၊အပူ၊ဂရက်ဗစ်ဘီဆွဲအား စသည့် အရာများလည်း ကူးသန်း နေကြ သောကြောင့်ဗိုင်ဂင်း၏အဆိုမှာ အလွန် ယုတ္တိရှိတန်သည်ဟု ယူဆကြလေသည်။ ထိုကြောင့် အာကာသ(စပေ့)ကြီး အတွင်းတွင် အီသာဖြင့် ပြည့်နှက်လျက် ရှိသည်ဟူသော အဆိုကိုအစဉ်အဆက် လက်ခံယုံကြည်လာခဲ့လေသည်။

သို့ရာတွင် ကမ္ဘာကျော် သိပ္ပံပညာရှင်တဦး ဖြစ်သူအိုင်းစတိုင်း၏ ရီလေးတစ်ဗစ်တီး သီအိုရီ တရပ် ထွက်ပေါ်လာသောအခါ အာကာသ (စပေ့)အတွင်း၌ အီသာရှိမရှိကိစ္စမှာအရေးမဟုတ်တော့ဟုယူဆကာ သိပ္ပံပညာရှင်

ကြီး အများကပင် အီသာ ရှိသည် ဟူသော အဆိုကို ပစ်ပယ် လာကြလေသည်။ တဖန် အီသာကိစ္စနှင့် စပ်လျဉ်း၍ တခုစဉ်းစားစရာ ရှိပြန်သည်မှာ အကယ်၍ အာကာသကြီးအတွင်း၌ အီသာဆိုသည့် ပစ္စည်း ရှိရိုးမှန်ပါက အစဉ်တစိုက် ရွေ့သွားလျက်ရှိသော ကမ္ဘာကို တိုးဝှေ့နေသည့် အီသာဟူ၍ ရှိဖို့ကောင်း၏။ သို့ရာတွင် ခဲရာခဲဆစ် နည်းအမျိုးမျိုးတို့ဖြင့် အကြိမ်ကြိမ် စမ်းသပ် ကြည့်ခဲ့ကြသော်လည်း ယင်းသို့ တိုးဝှေ့နေသည့် အီသာကို မတွေ့ရပေ။ ထို့ကြောင့် ယခုအခါတွင် သိပ္ပံပညာရှင်ကြီးအချို့က အီသာဆိုသည့် ဝေါဟာရကို အဓိပ္ပာယ်တမျိုးဖြင့် ဆက်လက်၍ အသုံးပြုဆဲ ဖြစ်ကြသော်လည်း အချို့ကမူ ဤဝေါဟာရကို လုံးဝ အသုံး မပြုကြတော့ပဲ အာကာသ (စပေ့) ဟူ၍သာ ခေါ်ဆို သုံးစွဲကြလေတော့သည်။

**အီသာ (ဒိုင်အက်သဲအောက်ဆိုက်)။** ။ဓာတုဗေဒသဘောအရ အီသာမှာ ဒိုင်အက်သဲ အောက်ဆိုက် ဖြစ်သည်။ ယင်း၏ ဓာတုဗေဒအမည်မှာ အက်သဲအီသာဖြစ်၍ ဓာတုပုံသေရေးနည်းမှာ $(C_2H_5)_2$ ဖြစ်သည်။ အီသာသည် အရောင်မရှိသော အရည်ဖြစ်သည်။ အငွေ့ပျံ၍ နှစ်သက်ဖွယ် ကောင်းသော အနံ့ ရှိသည်။ ထိုအငွေ့ကိုသာ ဆက်၍ ရှူလျှင် ရှူသူသည် မေ့သွားသဖြင့် ခွဲစိတ်မှုကိစ္စများတွင် အသုံးပြုနိုင်လေသည်။ ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းတခုခုတွင် ခွဲစိတ်လိုလျှင်လည်း အီသာကို အသုံးပြုနိုင်လေသည်။ အစိတ်အပိုင်းတခုခုကို ခွဲစိတ် လိုသောအခါ ထိုအစိတ်အပိုင်းကို အီသာဖြင့် ပက်ဖြန်းပေးရသည်။ကြာလျှင် အီသာအငွေ့ပျံသွားသဖြင့် အလွန်အေးလာပြီးလျှင် ထိုအစိတ် အပိုင်းသည် ထုံ၍ သွားလေသည်။ ထိုအခါ ထိုအစိတ်အပိုင်းတွင် ခွဲစိတ်ကုသမှုကို ပြုလုပ်နိုင်လေသည်။ အီသာသည် ၃၅ စင်တီဂရိတ်တွင် ဆူသဖြင့် အရည်ဆူချိန်နည်းပါးလေသည်။

အီသာကို ထုတ်လုပ်လိုလျှင် ဆာလဖျူရစ် အက်ဆစ်အပြင်းနှင့် အယ်လကိုဟောကို ရော၍ အပူတိုက် ပေးရသည်။ ဆာလဖျူရစ် အက်ဆစ်အပြင်းကို အယ်လကိုဟောထက်ပို၍ များများရောစပ်ပေးရသည်။ အပူချိန်မှာ ၁၄၀ စင်တီဂရိတ်ခန့်အထိ လိုသည်။

အီသာကို အစာကြေစေရန်နှင့် နှလုံးရောဂါအတွက် ဆေးများဖော်စပ်ရာတွင် အသုံးပြုခဲ့ကြ၏။ယခုအခါတွင်မူ အီသာကို အသုံးနည်းပါးကြသည်။ အီသာသည် အိုင်အိုဒင်းနှင့် ဩဂဲနစ်ပစ္စည်း အမြောက်အမြားကို ပျော်ဝင်စေနိုင်၏။ ထိုဩဂဲနစ် ပစ္စည်းများတွင် ဆီနှင့် အဆီများလည်း ပါဝင်သည်။

အီသာဟုဆိုလျှင် ဒိုင်အက်သဲအီသာကိုသာ ဆိုလိုသော်လည်း ဒိုင်မက်သဲအီသာဟုလည်းရှိသေးရာ ယင်းမှာ ဓာတ်ငွေ့ဖြစ်သည်။ တဖန် မက်သဲအက်သဲအီသာ၊ အက်သဲ ပရိုပဲအီသာနှင့် ဗိုင်နဲအီသာများလည်း ရှိသေးသည်ကို သတိပြုသင့်သည်။

အီသာကို အသုံးပြု၍ ခွဲစိတ်ကုသခြင်းသည် ၁၈၄၂ ခုနှစ်ကဖြစ်၍ အသုံးပြုသူမှာ ဒေါက်တာ ကရော့ဖို့ဒ်လောင်း ဖြစ်သည်။ ထိုဆရာဝန်သည် အမေရိကန်ပြည်ထောင်စု၊ ဂျော်ဂျီယားပြည်နယ်မှ ဖြစ်၏။ ၁၈၄၆ ခုနှစ်ကလည်း အမေရိကန်လူမျိုး သွားဖက်ဆိုင်ရာ ဆရာဝန်တဦးဖြစ်သူ ဝီလျံ တောမတ် ဂရင်းမော်တင်က အီသာကို ထုံဆေးအဖြစ်နှင့် အသုံးပြုခဲ့သေးသည်။

**အီသီအိုးပီးယားနိုင်ငံ။** ။အာဖရိကတိုက် အရှေ့မြောက်ပိုင်းရှိ သီးခြားလွတ်လပ်သော အချုပ်အချာအာဏာပိုင်နိုင်ငံတနိုင်ငံ ဖြစ်သည့် အီသီအိုးပီးယားအား ပေါ်တူဂီတို့၏ အခေါ်အဝေါ်ကိုလိုက်၍ အက်ဗီဆီးနီးယားဟုလည်း ခေါ်သည်။ သို့သော် အီသီအိုးပီးယား ဟူသော အမည်ကိုသာလျှင် အသိအမှတ် အပြုများသည်။ ထိုအမည်ဖြင့်လည်း ထိုနိုင်ငံသည် ရှေးရှေးအခါကပင် ထင်ရှားခဲ့သည်။ အီသီအိုးပီးယားသည် ခေတ်ပေါ် တိုင်းပြည်တပြည် မဟုတ်ချေ။ အာဖရိကတိုက် နိုင်ငံများအနက် အရေအတွက်အားဖြင့် နည်းပါးလှသော ရှေးသမိုင်းဝင်နိုင်ငံများတွင် အပါအဝင် ဖြစ်သည်။ ခရစ်တော်မပေါ်မီ နှစ်ပေါင်းရာနှင့်ချီသည့် ခေတ်အခါကပင် အီသီအိုးပီးယားသည် ထီးနှင့်နန်းနှင့် ကြွင့်နန်းဖြင့် တင့်တောင့်တင့်တယ် ရပ်တည်နိုင်ခဲ့သည်။ ဆော်လမွန်ဘုရင်နှင့် ရှီဗာဘုရင်မတို့မှ ဆင်းသက်ဆက်နွှယ်သည့် တိုင်းရင်းသား ဘုရင်စိုးမင်းတို့ အုပ်ချုပ်မင်းလုပ်ခဲ့ကြသော နိုင်ငံဟုလည်း ဆိုကြသည်။ ဂရိစာဆိုကြီး ဟိုးမားနှင့် ဟီရောဒိုးတပ်တို့သည် ယင်းတို့၏ စာပေ၌ ရှေးခေတ် အီသီအိုးပီးယား နိုင်ငံအကြောင်းကို ဖော်ပြကြသည်။ သမ္မာကျမ်းစာ၌ပါသော ကုရှနိုင်ငံသည် အီသီအိုးပီးယားနိုင်ငံဖြစ်သည်ဟု ဆိုကြလေသည်။

အီသီအိုးပီးယားနိုင်ငံသည် မြောက်ဖက်၌ ပင်လယ်နီ၊ အရှေ့ဖက်၌ ဆိုမာလီယာနိုင်ငံနှင့်အဖားနှင့် အိုက်ဆားနယ် (ပြင်သစ်ပိုင် ဆိုမာလီလန်နယ်)၊ တောင်ဖက်၌ ကင်ညာနိုင်ငံနှင့် ဆိုမာလီယာနိုင်ငံ၊ အနောက်ဖက်၌ ဆူဒန်သမတနိုင်ငံတို့ဖြင့် ဝန်းရံလျက်ရှိသည်။ ယင်း၏ တည်နေရာသည် မြောက်လတ္တီတွဒ် ၄ ဒီဂရီနှင့် ၁၈ ဒီဂရီ၊ အရှေ့လောင်ဂျီတွဒ် ၃၃ ဒီဂရီနှင့် ၄၈ ဒီဂရီတို့အကြား၌ တည်ရှိသည်။ ရှေးက သီးခြားပြည်ထောင်များ ဖြစ်ခဲ့ကြသော တီဂရေ၊ ဂိုဂျမ်၊ အမ်ဟားရ၊ ဂွန်ဒါ၊ ရှိုအတို့သည် အီသီအိုးပီးယားနိုင်ငံ၏ နယ်ကြီးများဖြစ်ကြ၍ ၁၉၅၂ ခုနှစ်တွင် ပေါင်း




အီသီအိုးပီးယားနိုင်ငံ တည်နေရာပြ မြေပုံ

ထည့်ခဲ့သော အီရစ်ထရီးယားပြည်သည်လည်း အီသီအိုးပီးယား၏ ပြည်နယ်တခု ဖြစ်သည်။

နိုင်ငံတခုလုံး၏ အကျယ်အဝန်းသည် ၄၅၇,၂၅၆ စတုရန်းမိုင် ဖြစ်သည်။ လူဦးရေ ၂၅,၉၃၀,၀၀၀ (၁၉၇၂)ဟု ခန့်မှန်းသည်။ အီသီအိုးပီးယားနိုင်ငံသည် လူမျိုးအတော်အတန်စုံသောနိုင်ငံ ဖြစ်လည်။ မူလတိုင်းရင်းသားတို့သည် ဟမ်းမိုက်လူမျိုး အဆက်အနွယ်များ ဖြစ်ကြသော်လည်း အာရှမိုင်းနားဖက်မှ ဆီးမိုက်အဆက်အနွယ် လူမျိုးများသည် အီသီအိုးပီးယားနိုင်ငံတွင်းသို့ ဝင်ရောက်လာခဲ့ကြလေသည်။ ယခုအခါ အရေးအပါဆုံးသော လူမျိုးသည် အမ်ဟာရလူမျိုးများ ဖြစ်ကြသည်။ သို့သော် ယင်းတို့၏ စုစုပေါင်း အရေအတွက်သည် နှစ်သန်းကျော်ခန့်သာရှိ၍ အလယ်ကုန်းမြင့်ဒေသများ၌ နေထိုင်ကြသည်။ ယင်းတို့ထက် မြောက်ဖက်ကျသော ဒေသများ၌ နေထိုင်ကြသော တီဂရေလူမျိုးတို့သည်လည်း အမ်ဟာရတို့နှင့် အမျိုးချင်းနီးစပ်၍ အမ်ဟာရတို့ကဲ့သို့ပင် အီဂျစ်ကော့ပတစ် ခရစ်ယန်များ ဖြစ်ကြသည်။ ပြောဆိုသော ဘာသာစကားချင်း မတူကြသော်လည်း နှစ်မျိုးလုံးပင် ဟမ်းမိုက်နှင့် ဆီးမိုက်ကပြားများမှ ဆင်းသက်ဆက်နွယ်လာကြသည်။ ယင်းတို့နှစ်မျိုးလုံးသည်ပင် ဂါလလူမျိုးများနှင့် အမျိုးချင်း ရောနှောကြပြန်သည်။ ဂါလတို့သည် ဟမ်းမိုက်အဆက်အနွယ်များ ဖြစ်ကြ၍ အီသီအိုးပီးယား တနိုင်ငံလုံး၏ လူဦးရေထက်ဝက်ခန့်ရှိသည်။ မွတ်စလင်များလည်းရှိသည်။ ခရစ်ယန်များလည်းရှိသည်။ ရုပ်တုကိုးကွယ်သူများလည်း ရှိသည်။ အိုဂါးဒန်၊ အိုက်ဆားနှင့် အခြားသော ဆိုမာလီများသည် ဟာရာနယ်၊ ဆိုမာလီလန်ကုန်းပြင်မြင့်နှင့် အရှေ့တောင်ဖက်ဒေသများတွင် နေထိုင်ကြသည်။ ဆိုခဲ့သောလူမျိုးများသည် ၎င်း၊ ဒန်းအကီးလူမျိုး အများစုသည်၎င်း မွတ်စလင်များ ဖြစ်ကြသည်။ အခြား တိုင်းရင်းသားလူမျိုးစုများအပြင် နှစ်ပေါင်း ရာနှင့်ချီသောခေတ်အခါကပင် အီသီအိုးပီးယားနိုင်ငံ အတွင်းသို့ တဖြည်းဖြည်း ဝင်ရောက်နေထိုင်ခဲ့ကြသော ဂရိလူမျိုး၊ယဟူဒီ၊အာရပ်နှင့်အိန္ဒိယလူမျိုးများလည်း ရှိကြပြီးလျှင် လူမျိုးတမျိုးနှင့်တမျိုး ရောရှက်နေကြရာ နိုင်ငံတွင်း ပြောဆိုလျက်ရှိကြသော ဘာသာစကားပေါင်း ၇၀ ကျော်ရှိသည်။ သို့သော်လည်း ရုံးသုံး အဓိကဘာသာစကားမှာ အမ်ဟာရစ် ဘာသာစကား ဖြစ်လေသည်။

အီသီအိုးပီးယားနိုင်ငံ၏ မြေမျက်နှာ သွင်ပြင်သည် ကုန်းပြင်မြင့် ပေါများသည်။ အချို့ကုန်းပြင်မြင့်များသည် အတော်ပင် မြင့်မားသည်။ တောင်ရိုးတောင်တန်းများသည်လည်း ကန့်လန့်တမျိုး၊ ထောင်လိုက်တသွယ် ရှိနေကြသည်။ အဓိကအားဖြင့် သုံးပိုင်းခွဲခြားနိုင်ရာ မြေနိမ့်ဒေသ၊ အလယ်ပိုင်းကုန်းပြင်မြင့်နှင့် (တနိုင်ငံလုံး၏ သေးငယ်သော အစိတ်အပိုင်းဖြစ်သည့်) ကုန်းမြင့်ဒေသဟူ၍ ဖြစ်သည်။ အီသီအိုးပီးယား၏ အမြင့်ဆုံးအပိုင်းသည် ဆီတက် (တာကာဇေ)မြစ်၏ အနောက်ဖက်ရှိ ဆီမြန်တောင်တန်းဖြစ်ရာ ရတ်ဒါရှန်း တောင်ထွတ်သည် ပေ ၁၄,၉၆၀ ကျော်မြင့်၍ ဆီးနှင်းများဖြင့် အမြဲတစေ ဖုံးလွှမ်းလျက်ရှိသည်။ နိုင်ငံ၏ အရှေ့ပိုင်းတွင် ပေ ၇,၀၀၀ မှ ၈,၀၀၀ အထိ မြင့်သော စောက်နက်လျှောကြီး ရှိသည်။

မြေနိမ့်ပိုင်းသည် များသောအားဖြင့် ခြောက်သွေ့ပူပြင်းရာ အရှေ့တောင်ပိုင်း ဒေသတခုလုံးလိုလို ပါဝင်သော အိုဂါးဒန်ဒေသသည် သဲကန္တာရဆန်သော အပိုင်းဖြစ်သည်။ မြောက်ပိုင်းတွင် ဒန်းအကီး သဲကန္တာရသည် ပင်လယ်နီနှင့် အီရစ်ထရီးယား ကမ်းရိုးတန်း တောင်ခြေရင်းတိုင်အောင် ကျယ်ပြန့်သွားသည်။

အီသီအိုးပီးယားနိုင်ငံ၏ အဓိကမြစ်သည် ဆီတက်ဖြစ်၍ လက်စတာတောင်တန်းတွင် မြစ်ဖျားခံသည်။ ယင်းသည် မြောက်ဖက်နှင့် အနောက်ဖက်သို့ စီးသွားရာ အီသီအိုးပီးယားနိုင်ငံ နယ်နိမိတ်မှ ကျော်လွန်သည့်အခါ အတ္တဗားရား

မြစ်ဟု ခေါ်တွင်၍ နောက်ဆုံးတွင် နိုင်းမြစ်အတွင်းသို့ စီးဝင်သည်။ အခြားမြစ်များအနက် နိုင်ငံ၏ အလယ်ပိုင်းတွင် စီးဆင်းသော အဗ္ဗဗိုင်းမြစ်သည် နိုင်ငံ၏အကြီးဆုံးအိုင် ဖြစ်သော တားနားရေအိုင်ကို ဖြတ်သန်း၍ တောင်ဖက်သို့ စီးရာမှ အနောက်မြောက်သို့ မြစ်ကြောင်းပြောင်းပြီး နောက်တွင်ဗလူးနိုင်းမြစ် ဖြစ်လာသည်။ အရှေ့ဖက်သို့စီးဆင်းသော မြစ်များအနက် အားဝပ်ရှ၊ သို့မဟုတ် ဟားဝပ်ရှမြစ်သည် အကြီးဆုံး ဖြစ်လေသည်။

တောင်ရိုးတောင်တန်းတို့မှ မြစ်ချောင်းကြီးငယ်များ စွာတို့ စီးဆင်းကြပေရာ ရေလုံး အလွန်ကောင်းကြပေသည်။ ထိုမြစ်ချောင်းတို့မှ ရေအယဉ်တို့သည် မြစ်ဝှမ်းဒေသနှင့် မြေနိမ့်ဒေသများကို မြေသြဇာ ထက်သန်ကောင်းမွန်စေသည်။ ဗလူးနိုင်းမြစ်မှ ရေတို့ကို ထိန်းသိမ်း၍ နွေရာသီအခါတွင် နိုင်းမြစ်ဝှမ်းဒေသရှိ လယ်ယာများအားရေပေးသွင်းရလေသည်။

မြေမျက်နှာသွင်ပြင် အထူးထူးအထွေထွေ ဖြစ်သည့်အလျောက် နေရာဒေသလိုက်၍ ခြားနားသော ရာသီဥတုရှိသည်။ နိုင်ငံကို ဝန်းရံလျက်ရှိသော မြေနိမ့်ဒေသသည် ပူပြင်းသည်။ အလယ်ပိုင်း ကုန်းပြင်မြင့်သည် အီကွေတာနှင့် နီးစပ်သော်လည်း ပင်လယ်ရေပြင်ထက် ပေ ၁၀,၀၀၀ ကျော်မြင့်သဖြင့် တနှစ်ပတ်လုံး သင့်တင့်မျှတသော ရာသီဥတုရှိသည်။ ကုန်းမြင့်ဒေသတွင်မူ ရာသီဥတု ချမ်းအေးသည်။ ဇွန်လမှ စက်တင်ဘာလအတွင်း မိုးသည်းထန်သည်။ ထိုကာလအတွင်း ပင်လယ်ဖက်မှ မုတ်သုန်လေသည် ကုန်းပြင်ဖက်သို့ တိုက်ခတ်ခြင်းကြောင့် မိုးအများအပြားရွာသွန်းခြင်း ဖြစ်လေသည်။

ခရစ် ၁၈၉၂ ခုနှစ်မှစ၍ မြို့တော်ဖြစ်လာသော အဒစ်အဗားဗားမြို့တွင် လူဦးရေ ၆၈၃,၅၃၀ (၁၉၇၂)ရှိသည်။ နိုင်ငံရေးအရရင်း၊ ကုန်သွယ်စီးပွားရေးအရရင်း အရေးပါသော အခြားမြို့များမှာ ဒီရေဒဝါး (လူဦးရေ ၅၀,၀၀၀) နှင့် လူဦးရေ ၂၅,၀၀၀ မှ ၃၅,၀၀၀ ရှိကြသော ဂျင်မား၊ ဒေစီယေ၊ ဂွန်ဒါနှင့် ဟာရာတို့ ဖြစ်ကြလေသည်။



အီသီအိုးပီးယားနိုင်ငံမှ စည်ကားသောဈေးကွက်တနေရာ

အီသီအိုးပီးယားနိုင်ငံသည် မြေတွင်းသယံဇာတပစ္စည်းများဖြင့် ကြွယ်ဝလှသည်။ တောင်ပိုင်းရှိ အဒိုလာမြို့အနီးမှ ရွှေထွက်သည်။ သံ၊ ကျောက်မီးသွေး၊ ပလက်တီနမ်တို့လည်း ထွက်သော်လည်း လမ်းပန်းဆက်သွယ်ရေး အခက်အခဲများကြောင့် ထိထိရောက်ရောက် တူးဖော်လုပ်ကိုင်နိုင်ခြင်း မရှိသေးချေ။ နိုင်ငံအတွင်း ရေနံရှာဖွေခွင့်ကို အမေရိကန်နှင့် ဂျာမန်ကုမ္ပဏီများအား ပေးအပ်ထားသည်။ ဆိုခဲ့သော သတ္တုများအပြင် ဗောက်ဆိုက်၊ ငွေ၊ ကန့်၊ ကြေးနီ၊ ဆုန်း (ဟသ်ာပြဒါးရိုင်း)၊ ခနောက်စိမ်းတို့လည်း ထွက်သည်။ ဆားကိုလည်း နေရာဒေသများစွာမှ အတော်အသင့်ရရှိ၍ ပိုတက်ဆားကိုမူ အက္ကအဗ္ဗလွင်ပြင်များမှ ရရှိသည်။ တောင်ရိုးတောင်တန်းများမှ စီးဆင်းသော မြစ်ချောင်းကြီးငယ်တို့မှ ရေအားလျှပ်စစ်ကိုလည်း ပေါပေါများများရရှိလေသည်။

စိုက်ပျိုးရေးသည် အီသီအိုးပီးယားနိုင်ငံ၏ အဓိကလုပ်ငန်းဖြစ်သည်။ တက်ခေါ် ကောက်နှံတမျိုးသည် တိုင်းရင်းသားတို့၏ ပဓာနအစာဖြစ်၍ မုယောစပါး၊ ဂျုံ၊ ပြောင်းနှင့် ဒါရာတို့အပြင် ဝါဂွမ်း၊ ကြံ၊ စွံပလွန်၊ ငှက်ပျော၊ ပဲအမျိုးမျိုးနှင့် ဆီထွက်စေ့များကိုလည်း စိုက်ပျိုးလုပ်ကိုင်ကြရာ များသောအားဖြင့် ပြည်တွင်းသုံးအတွက်မျှသာ ဖြစ်သည်။ ကော်ဖီအကောင်းစား အညံ့စား အမျိုးမျိုးစိုက်ပျိုးဖြစ်ထွန်း၍ နွား၊ သိုး၊ ဆိတ်စသည်တို့ မွေးမြူရေးကိုလည်း လုပ်ကိုင်ကြသည်။

နိုင်ငံခြားသို့ တင်ပို့နိုင်သော ထွက်ကုန်များမှာ ကော်ဖီ၊ သားရေ၊ ဖယောင်း၊ ပဲအမျိုးမျိုးနှင့် ဆီထွက်စေ့များအပြင် ထောပတ်တို့ဖြစ်သည်။ နိုင်ငံခြားမှ ကုန်ချောများအထူးသဖြင့် အထည်အလိပ်များကို ပြည်တွင်းသုံးအတွက် တင်သွင်းရသည်။ အီသီအိုးပီးယားနိုင်ငံသည် တွင်းထွက်ပစ္စည်းများဖြင့် ကြွယ်ဝသော်လည်း အကျိုးဖြစ်အောင် တူးဖော်လုပ်ကိုင်ခြင်း မရှိသဖြင့် နိုင်ငံခြားသို့ ပြောပလောက်အောင် မတင်ပို့နိုင်ချေ။

ကုန်သွယ် စီးပွားရေးသည် လမ်းပန်းအဆက်အသွယ်ကောင်းပါမှ ဖွံ့ဖြိုးတိုးတက်နိုင်ပေရာ အီသီအိုးပီးယားနိုင်ငံတွင် လမ်းပန်းဆက်သွယ်ရေးသည် ချွတ်ယွင်းချက်တရပ်ဖြစ်သည်။ ဣတာလျံတို့ အီသီအိုးပီးယားနိုင်ငံအား သိမ်းပိုက်ထားစဉ်က လမ်းပန်းအဆက်အသွယ်များကို တိုးတက်ပြုပြင်ခဲ့သည်။ ၁၉၇၄ ခုနှစ်တွင် နန်းကျသွားခဲ့သော ဘုရင်ကြီး ဟိုင်လေဆီလာဆီးသည်လည်း နိုင်ငံခြားငွေများဖြင့် လမ်းပန်း အဆက်အသွယ် တိုးတက်ကောင်းမွန်အောင် ပြုပြင်ခဲ့သည်။ သို့သော်လည်း နိုင်ငံ၏ မြေမျက်နှာသွင်ပြင် အနေအထားကြောင့် လမ်းပန်းဆက်သွယ်ဖောက်လုပ်ရေး မလွယ်ကူခဲ့ချေ။

အီသီအိုးပီးယားနိုင်ငံ၏ တခုတည်းသော မီးရထား လမ်းကို ၁၈၉၆ ခုနှစ်က ဖရန်ကို–အီသီအိုးပီးယန်းကုမ္ပဏီက ဆောက်လုပ်ခဲ့သည်။ ယင်းသည် ပြင်သစ် ဆိုမာလီလန်ရှိ ဂျီဗူတီမြို့နှင့် အဒစ်အဗားဗားမြို့ကို ဆက်သွယ်ထား၍ ၄၈၆⅔ မိုင်ရှည်လျားသည်။ တပတ်လျှင် သုံးကြိမ် အစုန်အဆန်ထွက်၍ တဖက်မှတဖက်သို့အရောက် တနေ့နှင့်တညဦး မီးရထားစီးရသည်။

မော်တော်ကားလမ်းများမှာ စုစုပေါင်း ကီလိုမီတာ ၆,၀၀၀ ကျော် ရှိသည်။ ယင်းတို့အနက် အရေးပါသော လမ်းများမှာ မဆားဝ–အက္ကမားရာ–ဆူဒန်တလမ်း၊ အက္ကမားရား–ဒေစီယေ–အဒစ်အဗားဗားတလမ်း၊ အက္ကမားရာ–ဂွန်ဒါ–ဂေါ်ဂိုရာတလမ်း၊ အဒစ်အဗားဗား–ဂျင်မာတလမ်း၊ အဒစ်အဗားဗား–လီကင်မတီတလမ်း၊ အဒစ်အဗားဗား–နက်ဇရက်တလမ်း၊ ဒီရေဒဝါး–ဟားရေဆာ တလမ်း၊ ဒေစယေ–အက္ကအဗ္ဗတလမ်း၊ အဒစ်အဗားဗား–အဒိုလာတလမ်းတို့ ဖြစ်ကြလေသည်။

ပြည်တွင်းလေကြောင်း ဆက်သွယ်ရေးများကို တိုးချဲ့ဆောင်ရွက်လျက်ရှိသည့်ပြင် ကမ္ဘာ့ပတ် လေကြောင်းကုမ္ပဏီကြီးများနှင့်လည်း ဆက်သွယ်ထားသဖြင့် ကမ္ဘာ့နိုင်ငံကြီးများ၏ မြို့ကြီးများနှင့်လည်း လေကြောင်းအဆက်အသွယ် ရှိလေသည်။

အီသီအိုးပီးယားဟူသော အမည်သည် ဂရိဘာသာဖြင့် နေလောင်ထားသကဲ့သို့ မျက်နှာရှိသော (ဝါ) အသားမည်းသူများကို ခေါ် ဝေါ်သော ဝေါဟာရမှ ဆင်းသက်လာခြင်းဖြစ်သည်။ ရှေး ပုံပြင်ဒဏ္ဍာရီများ၏ အလိုမှာ သမ္မာကျမ်းပါ ကုရှဆိုသူ၏သား အီသီအော့၏ အမည်ကို အစွဲပြုခေါ် ဝေါ်ခြင်းဟု ဆိုသည်။ အီသီအော့သည် အက္ကဆွမ်းနိုင်ငံကို တည်ထောင်သူများ၏ ဖခင်ဟုဆိုသည်။ အက်ဗီဆီးနီးယားဟူသော အမည်မှာမူ အက္ကဆွမ်းနိုင်ငံ၌ နေထိုင်ခဲ့သော အာရပ်အဆက်အနွယ် လူမျိုးစုနှစ်စုအနက်မှ ဟာဗက်စတက်လူမျိုးတို့၏ အခေါ်အဝေါ် ဖြစ်လေသည်။ ယင်းတို့၏ အခေါ်အားဖြင့် အယ်ဟက်ဗက်ရှဟူ၍ ဖြစ်သည်။ ထိုဒေသသို့ နောင်ရောက်ရှိလာကြသည့် ပေါ်တူဂီတို့၏ အသံထွက်ဖြင့်ထိုအမည်သည် အက်ဗီဆီးနီးယားဟု တွင်ခဲ့သည်။

အီသီအိုးပီးယားနိုင်ငံ ဖြစ်လာမည့် ဒေသ၌ လာရောက်အခြေစိုက်ကာ ရွာတည်ရာမှ မြို့ပြပြည်ထောင် ထူထောင်ကြသူများသည် ပင်လယ်နီကို ဖြတ်ကျော် လာကြသော အာရေဗျကျွန်းဆွယ် တောင်ပိုင်းသားများတည်း။ ယင်းတို့တည်ထောင်သော တိုင်းပြည်ကို အက္ကဆွမ်းဟု ခေါ်သည်။ ရှေးအီသီအိုးပီးယားနိုင်ငံသည် ယင်း၏ တစိတ်တဒေသလည်း ပါဝင်၍ သမ္မာကျမ်းစာ၌မူ ကုရှပြည်ဟု ဖော်ပြသည်။

ရှေးအီသီအိုးပီးယားနိုင်ငံနှင့် အီဂျစ်နိုင်ငံတို့သည် ပထဝီအနေအထားအရရှင်း၊စီးပွားကုန်သွယ်ရေးအရရှင်း ဆက်စပ်နေခဲ့၍ အီသီအိုးပီးယားနိုင်ငံအား အီဂျစ်မင်းများက လွှမ်းမိုးကြီးစိုးခဲ့ရာ မင်းဆက် ၁၁ ဆက်ခေတ်မှ ၂၃ ဆက်ခေတ်(ဘီစီ ၁၆ ရာစုမှ ၈ ရာစုခန့်) တိုင်အောင် ဖြစ်သည်။ ထိုနောက်တွင်မူ အီသီအိုးပီးယားမင်းများက အီဂျစ်ကို လွှမ်းမိုးကြပြန်သည်။ ထိုစဉ်က မြို့တော်သည် နက်ပတဖြစ်သည်။ ဘီစီ ၅၂၄ ခုနှစ်တွင် ပါးရှင်းဘုရင် ဒုတိယကမ်ဗိုင်ဆီးသည် အီသီအိုးပီးယားအား လာရောက်တိုက်ခိုက်သဖြင့် မြို့တော်ကို မာရိုအီသို့ ပြောင်းရွှေ့ရလေသည်။

အီသီအိုးပီးယားနိုင်ငံအား ဆော်လမွန်ဘုရင်နှင့် ရှီဗာဘုရင်မတို့၏ သားတော်ဖြစ်သူ မင်းနလစ်နှင့် အဆက်အနွယ်များက မင်းလုပ် အုပ်ချုပ်ခဲ့ကြသည်။ ယဟူဒီတို့လွှမ်းမိုးခဲ့ရာမှ ခရစ် လေးရာစုနှစ်တွင် ဂိုဏ်းအုပ် ဖရူးမင်းရှိယပ်၏ ကြိုးပမ်းသာသနာပြုမှုကြောင့် အီသီအိုးပီးယားသည် ခရစ်ယန်နိုင်ငံ ဖြစ်လာခဲ့လေသည်။

ခြောက်ရာစုနှစ်တွင် အီသီအိုးပီးယားသည် ကြွယ်ဝသော ယေမင်ပြည်အား တိုက်ခိုက်သိမ်းပိုက်ပြီးနောက်တွင် နှစ်ပေါင်း ၅၀ ခန့် နိုင်ငံရပ်ခြားများနှင့် အဆက်အသွယ်ရှိခဲ့လေသည်။ ခုနစ်ရာစုနှစ်တွင် မွတ်စလင်တို့သည် အီဂျစ်ကို အောင်နိုင်၍ အနီးအနားဝန်းကျင်တဝိုက်ကိုလည်း တိုက်ခိုက်သိမ်းသွင်းခဲ့ရာ အီသီအိုးပီးယားနိုင်ငံသည်မူ မွတ်စလင်တို့အား ကြံ့ကြံ့ခံနိုင်ခဲ့သည်။ ထိုကြောင့် အာဖရိကတိုက်အရှေ့မြောက်ပိုင်းတွင် မွတ်စလင်တိုင်းပြည်များ အလယ်မှ တခုတည်းသော ခရစ်ယန်တိုင်းပြည်အဖြစ် ထီးထီးကြီး ကျန်နေခဲ့သည်။ ဘေးဝန်းကျင်မှ မွတ်စလင်တိုင်းပြည်များ ဝန်းရံနေသဖြင့် အီသီအိုးပီးယားသည် ပြင်ပနှင့် နှစ်ပေါင်းရာနှင့်ချီ၍ အဆက်အသွယ် ပြတ်နေခဲ့ပြန်သည်။

ထိုအတောအတွင်း နိုင်ငံတွင်း၌ ဆူပူလှုပ်ရှားမှုများလည်း ဖြစ်ပေါ်၍ ပြည်ပမှ မွတ်စလင်နှင့် ဂါလတို့ကလည်း မကြာခဏ တိုက်ခိုက်လာကြသည်။ ထိုကြောင့် ၁၆ ရာစုနှစ် ကုန်ဆုံးလု အချိန်ကာလတွင် ထိုစဉ်က အီသီအိုးပီးယား ဧကရာဇ်သည် ထိုစဉ်က ပေါ်တူဂီပြည့်ရှင်အား မွတ်စလင်တို့၏ရန်မှ ကာကွယ်ပေးရန် စစ်ကူတောင်းခဲ့ရသည်။ ပေါ်တူဂီဘုရင်က စစ်ကူပို့၍ ရန်သူတို့အား တွန်းလှန်ဖယ်ရှားနိုင်ခဲ့သော်လည်း ပေါ်တူဂီတို့က နိုင်ငံတွင်း၌ ရောမကက်သလစ်ဂိုဏ်း ထွန်းကားရန် ကြိုးပမ်းခဲ့ကြသည်။ ထိုကြောင့် ပြည်တွင်း၌ မငြိမ်မသက် ရှိနေခဲ့ရာ ၁၈ ရာစုနှစ်အလယ်ခန့်တွင်အီသီအိုးပီးယားနိုင်ငံတွင်း၌ မင်းမဲ့တိုင်းပြည်ပမာ ဖြစ်နေခဲ့လေသည်။ နိုင်ငံအတွင်းပြည်ထောင်အများကွဲပြားနေလျက် သူတလူငါတမင်း မင်းမူနေကြပြီးလျှင် ပြင်ပနိုင်ငံများနှင့်လည်း အဆက်ပြတ်နေခဲ့လေသည်။

တဆဲ့ကိုးရာစုနှစ် အလယ်ခန့်တွင် အကွဲကွဲအပြားပြားဖြစ်နေသော ပြည်ထောင်အများကို ပြန်လည်စုစည်း၍ ရှေးအီသီအိုးပီးယား နိုင်ငံတော်ကို ပြန်လည် ထူထောင်ကာ ဧကရာဇ်ဘွဲ့ခံယူနိုင်ရန် ကြိုးပမ်းခဲ့သူမှာ သီအိုဒိုဘုရင် ဖြစ်သည်။ ထိုမင်းသည် အနောက်နိုင်ငံများနှင့်လည်း အဆက်အသွယ်ပြု၍ နိုင်ငံတော်တိုးတက်ပြုပြင်ရေးများကို ဆောင်ရွက်ခဲ့သည်။ သို့သော် ဂရိတ်ဗြိတိန်နှင့် မသင့်မတင့်ဖြစ်၍ ဗြိတိသျှတပ်များနှင့် အခင်းဖြစ်ပွားရာ သီအိုဒိုဘုရင်၏ မြို့တော် မဂ္ဂဒါလာအဖျက်အဆီးခံရပြီးလျှင် ထိုမင်းလည်း ထိုအရေးအခင်းတွင် ကျဆုံးလေသည်။ ဗြိတိသျှတပ်များသည် ဆုတ်ခွာသွားကြလေရာ နိုင်ငံတွင်း၌ ပဒေသရာဇ်မင်းငယ်များသည် တန်ခိုးအာဏာ လုကြကာ အချင်းချင်း တိုက်ခိုက်ကြသဖြင့် နိုင်ငံသည်လည်း အကွဲကွဲအပြားပြား ဖြစ်ပြန်လေသည်။

ထိုအခါ အီဂျစ်သည်ရှင်း၊ ဣတလီသည်ရှင်း အီသီအိုးပီးယားနိုင်ငံ၏ ယိုယွင်းပျက်ပြားနေသော အခြေအနေကို အခွင့်ကောင်းယူလျက် ပင်လယ်နီ ကမ်းခြေဒေသများကို တိုက်ခိုက်လာသည်။ယင်းသို့ အကွဲကွဲအပြားပြား ဖြစ်၍ဆိုးရွားနေသော အခြေအနေကိုပြန်လည်ထိန်းသိမ်းနိုင်သူကား ဒုတိယ မင်းနလစ်ဘုရင် ဖြစ်ပေသည်။ ထိုမင်းသည် မူလက ပဒေသရာဇ် မင်းငယ်တဦးမျှသာတည်း။ ထိုမင်းသည် ဣတာလျံတို့နှင့် ခေတ္တစစ်ပြေငြိမ်းကာ ဣတာလျံတို့၏ ကြီးစိုးမှုကို တဖက်တွင်ခံယူ၍ တဖက်တွင်မူ နိုင်ငံ၏အင်အားကို ပြန်လည်စုစည်းသည်။ အင်အား တောင့်တင်းလာသောအခါ ဣတာလျံတို့အား တွန်းလှန်တိုက်ခိုက်ရာ ဣတာလျံတို့သည် အီသီအိုးပီးယားနိုင်ငံအား လက်လွှတ်ခဲ့ရသည်။ ဒုတိယ မင်းနလစ်သည် ဂရိတ်ဗြိတိန်နှင့် ချစ်ကြည်စွာ ဆက်ဆံ၍ ဗြိတိသျှဆိုမာလီလန်၊ဆူဒန်နှင့် အီသီအိုးပီးယားနိုင်ငံတို့၏ နယ်နိမိတ်တို့ကို သတ်မှတ်ပိုင်းခြားစေခဲ့သည်။

ထိုမင်းလွန်သည့်နောက် မြေးတော် လက်ဂျယာစုသည် ၁၉၁၃ ခုနှစ်တွင် ထီးနန်းဆက်ခံသည်။ ထိုမင်းသည် အစ္စလာမ်အယူဝါဒသို့ကူးပြောင်း၍ အစ္စလာမ်သာသနာကို ချီးမြှင့်ခဲ့သည်ကတကြောင်း၊ တူရကီနှင့် ဂျာမနီတို့၏ ဩဇာကိုခံယူကာ မိမိနိုင်ငံအား ပဌမကမ္ဘာစစ်အတွင်း ဝင်ရောက်ရန် အားထုတ်ခဲ့သည်က တကြောင်းတို့ကြောင့် ၁၉၁၆ ခုနှစ်တွင် နန်းချခံရပြီးလျှင် မင်းနလစ်၏ သမီးတော် ဇောဒိတူအား ၁၉၁၇ ခုနှစ်တွင် နန်းတင်ကြသည်။ မင်းနလစ်၏ မြေးတော်ဝမ်းကွဲ ရတ်စ တဖာရီ မကုန်နင်သည် နန်းစောင့်မင်းသားကြီး ဖြစ်လေသည်။

ရတ်စ တဖာရီသည် အနောက်တိုင်းစံနစ်များဖြင့် နိုင်ငံကိုပြုပြင်လို၍ ဧကရီဘုရင်မနှင့် မသင့်လှချေ။ ရတ်စ တဖာရီ၏ ကြိုးပမ်းမှုကြောင့် အီသီအိုးပီးယားနိုင်ငံသည် နိုင်ငံ

ပေါင်းချုပ် အသင်းကြီးသို့ ၁၉၂၃ ခုနှစ်တွင် ဝင်ခွင့်ရခဲ့သည်။ ၁၉၂၈ ခုနှစ်တွင် ရတ်စ တဖာရီသည် နန်းစောင့်ဘုရင်အဖြစ် ဘိသိက်ခံပြီးနောက်တွင် ကေမီဘုရင်မသည် အမည်ခံမျှသာ တိုင်းပြည်၏ အထွတ်အထိပ် ဖြစ်ခဲ့ပေသည်။ ၁၉၃၀ ပြည့်နှစ်၌ ကေမီဘုရင်မ လွန်သောအခါ ရတ်စ တဖာရီသည် ဟိုင်လေဆီလာဆီး ဘွဲ့ဖြင့် ကေရာဇ်အဖြစ် ခံယူလေသည်။ (ဟိုင်လေဆီလာဆီးဘုရင် — ရှု။)

ဣတလီနိုင်ငံသည် အီသီအိုးပီးယားနိုင်ငံအား လက်လွှတ်ခဲ့ရသည်ကို မကျေနပ်နိုင်ခဲ့ပေ။ ထို့ကြောင့် အီသီအိုးပီးယားအား ရန်စတိုက်ခိုက်မှုကို ပြုလာသည်။ ဟိုင်လေဆီလာဆီးသည် နိုင်ငံပေါင်းချုပ် အသင်းကြီးအား တိုင်တမ်းသော်လည်း ထိုအသင်းကြီးက ထိထိရောက်ရောက်ဆောင်ရွက်မပေးနိုင်ခဲ့ချေ။ ၁၉၃၅ ခုနှစ် ဣတလီ အာဏာရှင် မူဆိုလီနီ၏ လက်ထက်တွင် အီသီအိုးပီးယားနိုင်ငံအား ဣတာလျံတပ်များက ခေတ်မှီလက်နက်များဖြင့် တိုက်ခိုက်လာရာ ဟိုင်လေဆီလာဆီးသည် မိမိနိုင်ငံမှ ထွက်ခွာရှောင်တိမ်း၍ အင်္ဂလန်ပြည်၌ သွားရောက် ခိုလှုံနေခဲ့ရသည်။ ဒုတိယကမ္ဘာစစ်အတွင်း ဣတလီနှင့် စစ်ပြိုင်ဖက်ဖြစ်နေသော ဗြိတိသျှတပ်များက အီသီအိုးပီးယားမြေပေါ်ရှိ ဣတာလျံတပ်များကို တိုက်ခိုက်နှင်ထုတ်ပေးသဖြင့် ဟိုင်လေဆီလာဆီးသည် မိမိနိုင်ငံရင်းသို့ ပြန်၍ အုပ်စိုးနိုင်ခဲ့သည်။ ဗြိတိသျှအစိုးရက ဟိုင်လေဆီလာဆီး အစိုးရကို ၁၉၄၁ ခုနှစ် ဖေဖွာရီလတွင် အသိအမှတ်ပြုခဲ့သည်။ အီသီအိုးပီးယားနိုင်ငံသည် ၁၉၄၂ ခုနှစ် ကုန်ဆုံးခါနီးတွင် ဒုတိယကမ္ဘာစစ်အတွင်းသို့ ပါဝင်၍ ဂျာမနီ၊ ဣတလီနှင့် ဂျပန်နိုင်ငံတို့အား စစ်ကြေညာခဲ့လေသည်။

ဒုတိယကမ္ဘာစစ် ပြီးဆုံးပြီးနောက်တွင် ဂရိတ်ဗြိတိန်နှင့် အမေရိကန်ပြည်ထောင်စုတို့၏ ငွေကြေးအကူအညီ၊ စက်မှုလက်မှု အကူအညီ၊ အတတ်ပညာရှင် အကူအညီ၊ အုပ်ချုပ်ရေး အကူအညီတို့ဖြင့် ဟိုင်လေဆီလာဆီးသည် မိမိ၏နိုင်ငံတွင်း ပြုပြင်ရေးများကို ဆောင်ရွက်ခဲ့သည်။ ဣတလီသည် ၁၉၃၅ ခုနှစ်က အီသီအိုးပီးယားနိုင်ငံအား စစ်ဆင်ရာ၌ အခြေခံပြုခဲ့သော ဒေသများတွင် ပြန်လည်လွှမ်းမိုးရန် အစီအစဉ်များ ပြုလုပ်လာသဖြင့် ဟိုင်လေဆီလာဆီးက ကုလသမဂ္ဂသို့ ၁၉၄၆ ခုနှစ်တွင် တိုင်တမ်းရပြန်သည်။ ထို့ကြောင့် နိုင်ငံကြီးလေးနိုင်ငံမှ ကိုယ်စားလှယ်များ ပါဝင်သော ကော်မီရှင်အဖွဲ့သည် အီရစ်သရီးယားနှင့် ဆိုမာလီလန်ပြည်နယ်တို့သို့ သွားရောက်၍ ပြည်သူလူထု၏ဆန္ဒကို လေ့လာသုံးသပ်စေပြီးနောက် ဣတလီကို ဆိုမာလီလန်ပြည်နယ်အား ထိန်းသိမ်းစောင့်ရှောက်ခွင့်ပြု၍ အီရစ်ထရီးယားပြည်နယ်ကိုမူ အီသီအိုးပီးယားနိုင်ငံတွင်းသို့ ပူးပေါင်းထည့်သွင်းရန် ဆုံးဖြတ်ပေးခဲ့လေသည်။

အီသီအိုးပီးယားနိုင်ငံ အထွတ်အထိပ်သည် ကေရာဇ်မင်းမြတ်ဖြစ်ခဲ့၍ ဘုရင်မင်းမြတ်အား တာဝန်ခံရသော ဝန်ကြီးများကောင်စီက နိုင်ငံကို အုပ်ချုပ်ခဲ့သည်။ အထက်နှင့်အောက် လွှတ်တော်နှစ်ရပ်ပါဝင်သော ပါလီမန်ရှိခဲ့သည်။ ဟိုင်လေဆီလာဆီးသည် ၁၉၅၅ ခုနှစ်တွင် ပြည်သူလူထုအား အခွင့်အရေးပိုပေးသော အုပ်ချုပ်ရေးစနစ်ကို ပြဋ္ဌာန်းခဲ့သဖြင့် အီသီအိုးပီးယန်းတို့သည် အောက်လွှတ်တော်သို့ မိမိတို့၏မဲဆန္ဒဖြင့် ကိုယ်စားလှယ်စေလွှတ်နိုင်ခွင့်ရရှိခဲ့သည်။ ထို့ပြင် ပို၍ ခေတ်မှီသော တရားမနှင့် ရာဇဝတ်ဥပဒေကျင့်ထုံးတရပ်ကိုလည်း ပြဋ္ဌာန်းပေးခဲ့သည်။

၁၉၆၀ ပြည့်နှစ်အတွင်းက စစ်တပ်မှ ထိပ်တန်းအရာရှိကြီးအချို့သည် အာဏာသိမ်းယူရန် ကြိုးပမ်းခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။

ထိုနောက်တွင် ဟိုင်လေဆီလာဆီးသည် ဝန်ကြီးအဖွဲ့ကို အသစ်ခန့်ထား၍ ပြုပြင်မှုများကို ဆောင်ရွက်ပေးခဲ့၏။ သို့သော် ထိုပြုပြင်မှုများကား အဆံမပါ ဟန်သက်သက်မျှသာ ဖြစ်ခဲ့၏။ စင်စစ်သော်ကား သူသည် အီသီအိုးပီးယားနိုင်ငံအား အာဖရိကတိုက်တွင် အဆင်းရဲဆုံး၊ စာတတ်သူ အနည်းဆုံးနှင့် ဖောက်လွဲဖောက်ပြန်မှုအများဆုံးနိုင်ငံအဖြစ်မှ တိုးတက်လာစေမည့် ပြုပြင်ပြောင်းလဲမှုများကိုကားဆောင်ရွက်ပေးနိုင်ခဲ့ခြင်းမရှိခဲ့ပေ။ ထို့သို့စီးပွားရေးလူမှုရေးပြဿနာများနှင့်စပ်လျဉ်း၍ ဆောင်ရွက်ပေးရန်ပျက်ကွက်မှုကြောင့် ၁၉၇၄ ခုနှစ် ဖေဖွာရီလမှအစပြု၍ စစ်တပ်မှ အပြင်းအထန် ဆန္ဒပြမှုများ ပေါ်ပေါက်လာခဲ့ရာ နောက်ဆုံး ၁၉၇၄ခုနှစ် စက်တင်ဘာလ ၁၂ ရက်နေ့တွင် ဟိုင်လေဆီလာဆီးသည် နန်းချခံရသည်။ ထိုနောက်တွင် တပ်မတော်ဦးစီးချုပ် ဗိုလ်ချုပ်ကြီးအာမန်မိုက်ခယ်အန်ဒွမ်သည် ယာယီအားဖြင့် အစိုးရအဖွဲ့ကို ဦးဆောင်ကာ အီသီအိုးပီးယားနိုင်ငံကို အုပ်ချုပ်ခဲ့ရာ ထိုနှစ် နိုဝင်ဘာလ ၂၃ ရက်နေ့တွင် အသတ်ခံရ၍ ဗိုလ်မှူးချုပ် တဖာရီ ဗင်တီက ဆက်ခံအုပ်ချုပ်လေသည်။

**အီရစ်ထရီးယားပြည်။** ။ဒုတိယကမ္ဘာစစ်မတိုင်မီက ဣတလီ၏ ကိုလိုနီတခုဖြစ်ခဲ့၍ ၁၉၅၂ ခုနှစ်တွင် အီသီအိုးပီးယားနိုင်ငံ၏ ပြည်နယ်တခုဖြစ်လာသော အီရစ်ထရီးယားသည် အာဖရိကတိုက်၏ အရှေ့ဖက်ကမ်းရိုးတန်း၌ရှိသည်။ ယင်း၏ ပင်လယ်ကမ်းရိုးတန်းသည် မိုင်ပေါင်း ၆၇၀ ခန့်ရှည်သည်။ ယခင်က ကုန်းတွင်း တိုင်းပြည်တခုဖြစ်ခဲ့သော အီသီအိုးပီးယားသည် ရစ်ထအီရီးယားပြည်၏ ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သော မဆာဝအားဖြင့် ပင်လယ်ဖက်သို့ ထွက်ပေါက်ရခဲ့လေသည်။ အီရစ်ထရီးယားပြည်၏ မြောက်ဖက်နှင့် အနောက်ဖက်တွင် ဆူဒန်နိုင်ငံ၊ တောင်ဖက်နှင့် အနောက်တောင်ဖက်တွင် အီသီအိုးပီးယားနိုင်ငံ၊ တောင်ဖက်

စွန်းတွင် အဖားနှင့်အိုက်ဆားနယ် (ပြင်သစ်ဆိုမာလီလန်) တို့ရှိသည်။ ထိုပြည်၏ အကျယ်အဝန်းသည် ၄၅,၇၅၄ စတုရန်းမိုင်ဖြစ်၍ ပင်လယ်နီအနီးရှိ မြေနိမ့်ဒေသနှင့် ကမ်းရိုးတန်း၏ ကျောဖက်ရှိ ကုန်းမြင့်ဒေသတို့လည်း ပါဝင်သည်။ ကမ်းရိုးတန်းမှ မီးရထားလမ်းအားဖြင့် ၇၅ မိုင် ဝေးကွာသော အက္ကမားရား (လူဦးရေ ၁၉၄၈ ခုနှစ် ၁၁,၆၃၂ ယောက်)သည် မြို့တော်ဖြစ်၍ မဆားဝ (လူဦးရေ ၁၉၄၈ ခုနှစ် ဂဝ,၂၈ ယောက်)သည် ပင်လယ်ဆိပ်ကမ်းမြို့ ဖြစ်သည်။ ဣတလီတို့ အုပ်စိုးခဲ့စဉ်က အီရစ်ထရီးယား၏ တောင်ဖက်စွန်းရှိ အက္ကအဗ္ဗမြို့ကို အီသီအိုးပီးယားနိုင်ငံတွင်းသို့ ဝင်ပေါက်ဆိပ်ကမ်းအဖြစ် ရည်ရွယ်ကာ တိုးတက်ပြုပြင်ခဲ့လေသည်။

အီရစ်ထရီးယား၏ ကမ်းရိုးတန်း မြေနိမ့်ဒေသတွင် အပူချိန်သည် ဖာရင်ဟိုက် ဒီဂရီ ၁၂၀ ခန့်အထိမြင့်၍ မိုးအနည်းငယ်သာ ရွာသည်။ ကမ်းရိုးတန်းမှ ကုန်းတွင်းသို့ မြေပြင်သည် မြင့်တက်သွားရာ ပေ ၆,၀၀၀ ခန့်အထိ အမြင့်ရှိသည်။ ထိုအပိုင်းတွင်မူ ချမ်းအေးသောရာသီဥတုရှိသည်။ ပေ ၉,၀၀၀ ကျော်မြင့်သော အပိုင်းတွင် ရာသီဥတု ပို၍ အေးသည်။ အီရစ်ထရီးယားတွင် မြစ်ချောင်း နည်းပါး၍ ရှိသမျှသော မြစ်ချောင်းတို့သည် မိုးရာသီအခါ၌သာ ရေရှိလေသည်။

၁၉၅၀ ပြည့်နှစ်၌ ခန့်မှန်းခြေ လူဦးရေ ၁,၁၀၃,၆၀၇ ယောက်ရှိရာ ၁၅,၀၀၀ ခန့်သည် ဣတာလျံများ ဖြစ်ကြသည်။ တိုင်းရင်းသားများအနက် ကုန်းပြင်မြင့်မှ တိုင်းရင်းသားများသည် မြောက်ပိုင်း အီသီအိုးပီးယန်းများဖြစ်ကြသည်။ ကမ်းရိုးတန်း၌ နေထိုင်ကြသူများသည် တောင်ပိုင်းတွင် ဆိုမာလီနှင့် အဖားလူမျိုး အဆက်အနွယ်များဖြစ်ကြ၍ မြောက်ပိုင်း၌ အာရပ်နှင့် ဟမ်းမိုက် အဆက်အနွယ်များဖြစ်ကြပြီးလျှင် များသောအားဖြင့် အစ္စလာမ်ဝါဒီများ ဖြစ်ကြသည်။

အီရစ်ထရီးယားပြည်၌ ဝါဂွမ်း၊ ကော်ဖီ၊ တည်သီး၊ စွန်ပလွံသီး၊ ပြောင်းတို့ကို စိုက်ပျိုးလုပ်ကိုင်ကြ၍ ကုလားအုပ်၊ နွား၊ သိုး၊ ဆိတ်တို့ကို မွေးမြူကြသည်။

ကမ်းရိုးတန်း အချို့ဒေသ၌ ပုလဲလုပ်ငန်းကို လုပ်ကိုင်ကြ၍ အချို့ဒေသမှ ရွှေနှင့်ပိုတက်ဆားထွက်သည်။

မဆားဝမှ အက္ကမားရား အဂေါ်ဒတ်သို့ မီးရထားလမ်းရှိ၍ ၁၉၁ မိုင် ရှည်လျားသည်။ အဂေါ်ဒတ်မှ ဆူဒန်မီးရထားလမ်းပေါ်ရှိကက်ဆလသို့မော်တော်ကားလမ်းရှိသည်။

အီရစ်ထရီးယား၏ ရှေးသမိုင်းသည် အီသီအိုးပီးယား၏ ရှေးသမိုင်းနှင့် ရောသွေးလျက် ရှိသည်။ ၁၆ ရာစုနှစ်တွင် တူရကီတို့သည် မဆားဝနှင့် အခြားကမ်းရိုးတန်းမြို့များကို တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ ၁ဂ၆၅ ခုနှစ်တွင် အီဂျစ်တို့သည် ကုန်းမြင့်ဒေသအချို့ကို သိမ်းပိုက်ခဲ့၍ဣတာလျံတို့သည် အက္ကအဗ္ဗမြို့ကို တိုင်းရင်းသား စူလတန်စော်ဘွားတဦးထံမှ ဝယ်ယူပြီးနောက် တစတစ နယ်မြေချဲ့ထွင်ခဲ့ရာ ၁ဂ၉၀ ပြည့်နှစ်ခန့်တွင် အီရစ်သရီးယားပြည် တပြည်လုံးသည် ဣတလီ၏ ကိုလိုနီတခု ဖြစ်လာခဲ့လေသည်။

ဣတလီသည် အီရစ်ထရီးယား၌ ခြေကုပ်ယူပြီးလျှင် အီသီအိုးပီးယားနိုင်ငံအား သိမ်းပိုက်ခဲ့သည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဗြိတိသျှတပ်များသည် အီရစ်ထရီးယားအား တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ ကုလသမဂ္ဂ၏ အဆုံးအဖြတ် မရသေးမီ အီရစ်ထရီးယားအား ဂရိတ်ဗြိတိန်ကအုပ်ချုပ်ခဲ့သည်။ အီသီအိုးပီးယားနိုင်ငံနှင့် ပူးပေါင်းရန် ကုလသမဂ္ဂ၏ လေးနိုင်ငံကော်မရှင်က ဆုံးဖြတ်ပေးပြီးနောက် ၁၉၅၂ ခုနှစ်၊ စက်တင်ဘာလ ၁၁ ရက်နေ့တွင် အီရစ်ထရီးယားသည် အီသီအိုးပီးယားနှင့် ပူးပေါင်းခဲ့လေသည်။

အီရစ်ထရီးယားသည် ယခုအခါ အီသီအိုးပီးယားနိုင်ငံအတွင်း ကိုယ်ပိုင်အုပ်ချုပ်ရေးရှိသော ပြည်နယ်တခု ဖြစ်သည်။ ပြည်နယ်ဥပဒေပြု လွှတ်တော်ရှိ၍ ပြည်နယ်ဥက္ကဋ္ဌကို ထိုလွှတ်တော်မှ ရွေးကောက်တင်မြှောက်ရသည်။ အီသီအိုးပီးယန်းပါလီမန်သို့ အချိုးကျကိုယ်စားလှယ် လွှတ်ခွင့်ရခဲ့သည်။ ကာကွယ်ရေး၊ နိုင်ငံရေး၊ နိုင်ငံခြားကုန်သွယ်မှု၊ ဘဏ္ဍာရေးနှင့် လမ်းပန်းဆက်သွယ်ရေးတို့ကိုသာလျှင် အီသီအိုးပီးယန်းအစိုးရက ဆောင်ရွက်လေသည်။

**အီးဂျီးယန်းပင်လယ်။** ။မြေထဲပင်လယ်၏ ပင်လယ်ကွေ့၊ သို့မဟုတ် လက်တက်ဖြစ်၏။ ယင်းသည် အနောက်ဖက်နှင့် မြောက်ဖက်တို့၌ ဂရိနိုင်ငံ၊ အရှေ့ဖက်၌ အာရှမိုင်းနားနှင့်တောင်ဖက်၌ ကရိကျွန်းတို့၏အကြားတွင် တည်ရှိသည်။ အီးဂျီးယန်းပင်လယ်သည် မိုင် ၄၀၀ ခန့် ရှည်လျား၍၊ အကျယ်ဆုံးနေရာတွင် ၁၇၅ မိုင်ရှိ၏။ အရှေ့မြောက်ဖက်တွင် မာမာရာပင်လယ်နှင့် ဒါးဒနဲရေလက်ကြားအားဖြင့် ဆက်လျက်ရှိသည်။

အီးဂျီးယန်းပင်လယ်အတွင်း ကျွန်းများ ပေါများလှရကား သင်္ဘောများသည် ယင်းတို့ကို ရှောင်တိမ်းကူးသန်းသွားလာရသည့်အတွက် အတန် အန္တရာယ် ထူပြော၏။ ထိုကျွန်းအများအပြားသည် မီးတောင်များကြောင့် ပေါ်ထွန်းလာသော ကျွန်းများဖြစ်၏။ အချို့ကျွန်းများသည် ဂရိပုံပြင်နှင့် သမိုင်းတို့ဘွင် ထင်ရှား၏။ ဥရောပတိုက်ယဉ်ကျေးမှု စတင် ပေါက်ပွားရာ ဒေသလည်း ဖြစ်၏။ (အီးဂျီးယန်းယဉ်ကျေးမှု — လည်းရှု။) အရေးပါသော ကျွန်းများတွင် ကရိကျွန်း၊ ဒိုဒီကန်နီးကျွန်းများ၊ ဒဲလော့ကျွန်း၊ ဆေးမော့ကျွန်း၊ လက်စဗော့ကျွန်း၊ လင်မနော့ကျွန်း၊ ပတ်တမော့ကျွန်းနှင့် ရှုတ်ကျွန်းတို့ ပါဝင်၏။

(ကရိကျွန်း — လည်းရှု။)၊ ဒိုဒီကန်နီး ကျွန်းများကို ဒုတိယ ကမ္ဘာစစ်အပြီးတွင် ဂရိနိုင်ငံက ပိုင်ဆိုင်လာခဲ့၏။ ၁၀၀၄ စတုရန်းမိုင်ကျယ်ဝန်း၍ လူဦးရေ ၁၂၃,၀၂၂ ခန့်နေထိုင်သည်။

**အီးဂျီးယန်းယဉ်ကျေးမှု။** ။မြေထဲပင်လယ် အရှေ့မြောက်ပိုင်း အီးဂျီးယန်း ပင်လယ်အတွင်းရှိ ကျွန်းများသည် ဥရောပတိုက် ယဉ်ကျေးမှုစတင်ပေါက်ပွားရာဒေသဖြစ်၍ ထိုဒေသမှတဆင့် ပြန့်ပွားလာသောယဉ်ကျေးမှုကို အီးဂျီးယန်း ယဉ်ကျေးမှု ဟု ခေါ်သည်။ ထိုကျွန်းများတွင် ကရိကျွန်းသည် အကြီးဆုံးဖြစ်သည်။ ရှေးအခါက အီးဂျီးယန်းပင်လယ်အတွင်း၌ အီဂျစ်၊ ကရိ၊ ဖီနီရှန်၊ ရောမ၊ ဂေါ်သ၊ အာရပ်စသော လူမျိုးအသီးအသီးတို့၏ ရွက်သင်္ဘောများ ဖြတ်သန်း သွားလာခဲ့ကြသည်။ ယခုအခါ တူရကီ၊ ဂရိ၊ ဣတာလျံ၊ ဂျာမန်၊ ဗြိတိသျှတို့၏ သင်္ဘောများ ဖြတ်သွားလာလျက်ရှိကြသည်။ နှစ်ပေါင်း ၅,၀၀၀ ကျော်မျှ အီးဂျီးယန်းပင်လယ်သည် ဥရောပတိုက်၊ အာရှတိုက်၊ အာဖရိကတိုက်တို့နှင့်ဆိုင်သော ကူးသန်း ရောင်းဝယ်ရေးနှင့်၎င်း၊ သမိုင်းနှင့်၎င်း ဆက်စပ်လျက် ရှိလေသည်။ အီးဂျီးယန်းပင်လယ်အတွင်းရှိ ကျွန်းကြီး ကျွန်းငယ်တို့သည်လည်း အာရှတိုက်နှင့် ဥရောပတိုက်တို့အကြားတွင်သဘာဝပေါင်းကူးတံတားသဖွယ်တည်ရှိကြသည်။

ကရိကျွန်းတွင် ရှေးဦးနေထိုင်သော တိုင်းရင်းသားတို့သည် အရပ်ပု၍ အသားညိုသည်။ ပင်လယ်တွင်း၌ လှေ၊ သင်္ဘောများဖြင့် လှည့်လည် သွားလာလေ့ ရှိကြသည်။ ထို့ကြောင့် ကရိကျွန်းသားတို့သည် ပတ်ဝန်းကျင်ရှိ တိုင်းပြည်များနှင့် ကူးလူးဆက်ဆံမှု ရှိခဲ့ကြသည်။အထူးသဖြင့် အီဂျစ်ပြည်နှင့် ကုန်သွယ်ဆက်ဆံမှု များစွာရှိခဲ့ရာ အီဂျစ်ယဉ်ကျေးမှုသည်လည်း ကရိကျွန်းသို့ရောက်ရှိခဲ့သည်။ ဘီစီ ၃၀၀၀ ပြည့်နှစ်ခန့်ကစ၍ ကရိကျွန်းသားတို့သည် တိုးတက်လျက်ရှိသော အီဂျစ်တို့ထံမှ ယဉ်ကျေးမှုကို လက်ခံ ရရှိသဖြင့် တိုးတက်သော လူမျိုးအဖြစ်သို့ ရောက်ရှိ ကြသည်။ ဘီစီ ၂၀၀၀ ပြည့်နှစ်သို့ရောက်သောအခါ ကရိကျွန်းသားတို့သည် ယဉ်ကျေးမှု အရာ၌ အဆင့်အတန်းမြင့်လျက် ရှိကြပြီဖြစ်သည်။

ကရိကျွန်းသားတို့သည်ဘီစီ ၃၅၀၀ ပြည့်နှစ်ခန့်ကတည်းက ကြေးနီနှင့် ကြေးညိုသတ္တုများကို အသုံးချ တတ်ကြသည်။ အနီးအနားရှိ စိုက်ပရပ်ကျွန်းမှ ကြေးနီကို ရရှိကြသည်။ ကြေးသတ္တုခေတ်သို့ ရောက်လာသောအခါ ကရိကျွန်းသားတို့သည် ကြေးညိုအတွက် လိုအပ်သော သံဖြူကို ဥရောပတိုက်ဖက်မှ ရရှိကြသည်။ ထို့ကြောင့် ကရိကျွန်းသည် သတ္တုကုန်သွယ်ရေး အတွက် ဗဟိုဌာန ဖြစ်လာသည်။ လှော်တက်နှင့် ရွက်နှစ်မျိုးစလုံးကို အသုံးပြုသည့် ဂယ်လီခေါ် သင်္ဘောများကိုလည်း တီထွင် ခဲ့ကြသည်။ မိမိတို့၏ ကုန်သွယ်မှုလုပ်ငန်းကို ကာကွယ်ပေးရန် သင်္ဘောတပ်များကိုလည်း တည်ဆောက်ကြသည်။

ရှေးနှစ်ပေါင်း ၅,၀၀၀ ကျော်က ဥရောပတိုက်ရှိလူမျိုးများသည် လူနေမှုတွင် အောက်ကျနောက်ကျ ရှိနေစဉ် ကရိကျွန်းသားတို့သည် နေလှန်း အုတ်တိုက်၌ နေထိုင်လျက်ရှိကြသည်။ အိမ်တိုင်းတွင် ပြတင်းပေါက်များ ရှိသည်။ ကြီးကျယ်သော အဆောက်အအုံများကို ထုံးကျောက်၊ သို့မဟုတ် ဂျစ်ပဆမ်ကျောက်ဖြင့် ဆောက်လုပ်သည်။ နန်းတော်များတွင် ရေပိုက်များ တပ်ဆင်ခဲ့ကြသည်။ ကရိကျွန်းတွင် အုပ်စိုးသော ဘုရင်များ၏အာဏာသည် မြေထဲ ပင်လယ်အရှေ့ပိုင်းတွင် ပြန့်နှံ့လျက် ရှိရာ၊ အီးဂျီးယန်း ပင်လယ်အတွင်းရှိ ကျွန်းများနှင့် အခြားလက်အောက်ခံနယ်များက ထိုဘုရင်များထံ အခွန်ဘဏ္ဍာဆက်သရသည်။ အထူးသဖြင့် မီနိုဘုရင်များ ခေတ်တွင် ကရိယဉ်ကျေးမှုသည် အီးဂျီးယန်း ပင်လယ် ဒေသတခုလုံး၌ ပြန့်နှံ့လျက် ရှိခဲ့ပေသည်။

ဘီစီ ၁၆၀၀ ပြည့်နှစ်တွင် အီးဂျီးယန်းယဉ်ကျေးမှုသည် ဂရိကျွန်းဆွယ်ပေါ် သို့ စတင်ရောက်ရှိလာလေသည်။ ထိုယဉ်ကျေးမှုကို ပဌမဦးဆုံး ဆက်ဆံရသောဒေသမှာ ကရိကျွန်းမှ နှစ်ရက်ခရီးမျှသာ ဝေးကွာသည့် အားဂေါ့ ပင်လယ်ကွေ့တွင် နေထိုင်ကြသူများ ဖြစ်သည်။ အားဂေါ့၊ မိုင်စီးနီး၊ တိုင်ရင်းစသော ဂရိမြို့များသည် အစ အဦး၌ ကရိကုန်သည်များထံမှ လှပစွာပြုလုပ်ထားသောကုန်ပစ္စည်းများကို ဝယ်ယူခဲ့ကြသည်။ နောင်အခါ၌ ဂရိတို့သည် ကရိတို့ထံမှရသော ကုန်ပစ္စည်းများကို အတုယူကာ မိမိတို့၏ အိုးခွက်မှစ၍ နေအိမ်အဆောက်အအုံ အဆင်အပြင် တို့ကို တိုးတက်အောင် တီထွင်လုပ်ကိုင်ခဲ့ကြသည်။ မိုင်စီးနီးနှင့် တိုင်ရင်းမြို့တည်နေရာတွင် အနုပညာ လက်ရာမြောက်သော ရွှေခွက်၊ ရုပ်လုံး ရုပ်တုနှင့် အခြား ပစ္စည်းများကို တူးဖော်ရရှိခဲ့ကြသဖြင့် ထိုမြို့ နှစ်မြို့ ကြီးပွား စည်ကားခဲ့သော ဘီစီ ၁၅၀၀–၁၂၀၀ အချိန်ကာလကို မိုင်စီးနီးယန်းခေတ်ဟူ၍ ခေါ်ဆိုကြသည်။ ထိုမြို့ နှစ်မြို့တွင် ကရိဘုရင်တို့၏ နန်းတော်ကြီးများကဲ့သို့ နန်းတော်ကြီးများကိုလည်း တည်ဆောက်ခဲ့ကြသည်။ အီးဂျီးယန်း ယဉ်ကျေးမှုသည် ထိုမှတဆင့် ဂရိကျွန်းဆွယ်ရှိ အခြား မြို့များသို့၎င်း၊ အနောက်ဖက် စစ္စလီကျွန်း၊ ဣတလီနှင့် စပိန်နိုင်ငံများသို့၎င်း ရောက်ရှိလေသည်။

အာရှမိုင်းနားဖက်တွင်လည်း အလားတူ ယဉ်ကျေးမှုမျိုးသည် မိုင်စီးနီးနှင့် တိုင်ရင်းမြို့များ၌ နန်းတော်ကြီးများမဆောက်လုပ်မီ နှစ်ပေါင်း ၁,၅၀၀ အထက်က ထွန်း



အနုပညာလက်ရာမြောက်လှသော အီးဂျီးယန်း ယဉ်ကျေးမှုပစ္စည်းများ

ကားခဲ့သည်။ အာရှမိုင်းနား အနောက် မြောက်ထောင့်တွင် တည်ရှိသော ထရွိုင်းမြို့ကြီးသည် အာရှ တိုက်၌ အီးဂျီးယန်းယဉ်ကျေးမှု ထွန်းကားရာ အချက်အခြာ ဌာနဖြစ်ပေသည်။ထရွိုင်းမြို့သည် မူလကရွာသိမ်ရွာငယ်မျှလောက်သာဖြစ်ခဲ့သော်လည်း ဘီစီ ၂၅၀၀ ပြည့်နှစ်သို့ ရောက်သောအခါ ကရိကျွန်း၏ မြို့တော်ဖြစ်သော နော့ဆပ် မြို့နှင့် အပြိုင်စည်ကားသည့်မြို့ကြီးအဖြစ် ထင်ရှားလာလေသည်။ နောင်နှစ်ပေါင်း ၁,၀၀၀ အတွင်း ထရွိုင်းမြို့သည် ကျယ်ပြန့်သောနိုင်ငံကို ကြီးစိုးရသောမြို့တော် ဖြစ်လာလေသည်။

အီးဂျီးယန်းပင်လယ်ဒေသတွင် သံကို အသုံးချတတ်သည့် ဘီစီ ၁၀၀၀ ခန့်၌ မြောက်ဖက်မှ ရှေး ဂရိ လူမျိုးများ တသုတ်ပြီးတသုတ် ဂရိကျွန်းဆွယ်နှင့် အီးဂျီးယန်းကျွန်းများသို့ ဆင်းလာကြသည်။ ထိုသူတို့သည် အရိုင်းအစိုင်းဘဝတွင် ရှိကြသေးရာ ယင်းတို့၏လက်ချက်ကြောင့် အီးဂျီးယန်းယဉ်ကျေးမှုသည်လည်း ပျက်သုန်းရ လေသည်။ မိုင်စီးနီးနိုင်ငံ၊ ထရွိုင်းနိုင်ငံ၊ နော့ဆပ်နိုင်ငံတို့ ကြီးကျယ်ခန်းနားပုံအကြောင်းအရာတို့သည်လည်း မထင်မရှားသာ ကျန်ရစ်ခဲ့လေသည်။

လွန်ခဲ့သောနှစ် ၁၀၀ အတွင်းသို့ ရောက်ခါမှ အီးဂျီးယန်းယဉ်ကျေးမှုကို စတင်ဖော်ထုတ်နိုင်ခဲ့ကြသည်။အေဒီ ၁၈၇၀ ပြည့်နှစ်တွင် ဂျာမန်အမျိုးသား ဟိုင်းနရစ် ရှလီးမန်းဆိုသူသည် ထရွိုင်းမြို့ဟောင်း နေရာ၌ တူးဖော်သည်တွင် အီးဂျီးယန်းယဉ်ကျေးမှု လက်ရာများကို ဖော်ထုတ်နိုင်လေသည်။ ထိုနောက် ဂရိကျွန်းဆွယ်ရှိ မိုင်စီးနီးမြို့၊တိုင်ရင်းမြို့နှင့် အခြားနေရာ တို့တွင်လည်း တူးဖော် ခဲ့သည်။ တဖန် ၁၉၀၀ ပြည့်နှစ်တွင် အင်္ဂလိပ်အမျိုးသား ဆာအာသာ အက်ဗင် ဆိုသူကလည်း ကရိကျွန်းတွင် နော့ဆပ်မြို့တော်နှင့် အခြားနေရာများ၌တူးဖော်ခဲ့လေသည်။နော့ဆပ်မြို့၊ ဖီးစတပ်မြို့နှင့် အခြား ကရိမြို့များကို တူးဖော် ရာ၌ ရုပ်တုများ၊ လက်နက်များ၊ ကရိယာတန်ဆာပလာများ၊ အိုးခွက်များနှင့် ရွှံပြားပေါ်တွင် ရေးထားသော စာတို့ကိုတွေ့ရသည်။ ယခုတိုင် ထိုစာတို့ကို မဖတ်နိုင်သေးချေ။ လူနှင့်နွားယှဉ်ပြိုင်ကစားပုံ၊ ပွဲလမ်းသဘင် ချီတက်ဆင်ယင်ပုံ၊ ဘားဂျမ်းကစားပုံ အစရှိသော ပန်းချီကားများကိုလည်း တူးဖော်ရရှိခဲ့သည်။ ကရိကျွန်း၌ရင်း၊ ထရွိုင်းမြို့နှင့်ဂရိကျွန်းဆွယ်ပေါ်၌ရင်း ကျောက်လမ်းခင်းမြို့ကြီးများကို တွေ့ရှိရသည်။ ထိုမြို့ကြီးများတွင် ခံတပ် များဖြင့် အခိုင်အလုံကာရံထားသည်။ နန်းတော်များကို ကျောက်ဖြင့်ဆောက်လုပ်၍ နံရံများတွင် ပန်းချီကား၊ ရုပ်လုံး ရုပ်တုများဖြင့် ဆင်ပြင်မွမ်းမံထားသည်။ ရေပိုက်၊ ရေဆင်း

မြောင်း၊ ရေချိုးခန်းများလည်း တပ်ဆင်ထားသည်။ သတ္တုအိုးနှင့် အခြား အသုံးအဆောင်များတွင် ထုလုပ်ထားသောပန်းပုလက်ရာတို့သည်လည်း ထိုခေတ်အနုပညာလက်စွမ်းထက်ပုံကိုအထင်အရှား ဖော်ပြလျက်ရှိပေသည်။

**အီးမျိုး။** ။ငှက်ကုလားအုပ် — ရှု။

**အီးရေ၃။** ။ဂရိနတ်များ — မှု။

**အီးအော၃။** ။ဂရိနတ်များ — ရှု။

**ဥ။** ။ငှက်အားလုံးသည် ဥများကို အုကြ၏။ သို့သော် လူအများ နှစ်သက်သော အစာဖြစ်သည့် ကြက်ဥနှင့် ဘဲဥတို့ကိုသာ လူသိများသည်။ ငှက်များသာမက ငါး၊ တွားသွား သတ္တဝါများ၊ပိုးကောင်များနှင့် ဝက်မ၊နွားမစသော နို့တိုက် သတ္တဝါများ အပါအဝင် များစွာသော အခြား တိရစ္ဆာန်များ၌လည်း သားငယ်ကလေးများသည် ဥများမှ တဆင့် ပေါက်ဖွားကြခြင်းသာ ဖြစ်လေသည်။

ဥ၏ အဓိကလုပ်ငန်းမှာ သားငယ်ကို ပေါက်ဖွားပေးရန် ဖြစ်သည်။ ဥတွင် အစဉ်သဖြင့် သားကောင်၏အသက်မျိုးစေ့နှင့် သားကောင်အတွက် အာဟာရဓာတ် ဖြစ်စေသော အနှစ်ကို အကာအကွယ်ပေးထားသည့် အခွံပါစမြဲဖြစ်သည်။ ငှက်၏ဥသည် နို့တိုက်သတ္တဝါ၏ ဥထက်ကြီး၏။ ထိုသို့ ဖြစ်ခြင်းမှာ ငှက်မ၏ ခန္ဓာကိုယ်အတွင်းမှ ထွက်လာသော ဥအတွင်း၌ ကြီးထွားလာမည့် ငှက်ငယ်အတွက် အစာ ပါရှိနေခြင်းကြောင့် ဖြစ်သည်။ နို့တိုက်သတ္တဝါငယ်များကမူ များသောအားဖြင့် မိခင်၏ ခန္ဓာကိုယ်အတွင်း၌သာ ကြီးထွားလာကြပြီးလျှင် မွေးဖွားမည့် အချိန်အထိ မိခင်ထံမှ အစာအာဟာရကို ရရှိနေလေသည်။

ငှက်များ၊ ပိုးကောင်များ၊ တွားသွားသတ္တဝါများနှင့် များသောအားဖြင့် ငါးများသည် အမိ၏ခန္ဓာကိုယ်အတွင်းမှ ပြည့်ဝသော ဥများကို အုပေးကြသည်။ ထိုဥများကို လိုအပ်သည့်အချိန်အထိ သင့်လျော်စွာထားလျှင် ဥများအတွင်း၌ အမိအဖနှင့်တူသော သားငယ်များ ကြီးထွားလာကြလေသည်။ နို့တိုက် သတ္တဝါ အားလုံးလိုလိုတွင်မူ ဥသည် မိခင်၏ ခန္ဓာကိုယ်အတွင်း၌သာ ကြီးထွားပြီးလျှင် အချိန်စေ့သောအခါ သားငယ်ကို ဖွားလေသည်။

ဥအမျိုးမျိုးရှိရာ တိကောင်များသည် အာဟာရဓာတ်ပါရှိသော အိတ်များနှင့် ဥများကို အုပေးကြသည်။ လိပ်ပြာနှင့် ပိုးကောင်တို့၏ ဥများသည် လွန်စွာ သေးငယ်ကြပြီးလျှင် အရောင် အမျိုးမျိုးရှိကြသကဲ့သို့ ပုံသဏ္ဌာန်တွင်လည်း အမျိုးမျိုး ရှိကြသည်။ ထိုဥများကို အတွဲလိုက် မြေကြီးပေါ်၌ဖြစ်စေ၊ သစ်ရွက်ပေါ်၌ဖြစ်စေ၊ ရေပေါ်၌ဖြစ်စေ အုကြသည်။

ကမာသည် တနှစ်လျှင် ဥပေါင်း ၆၀,၀၀၀,၀၀၀ မက အုလေသည်။ ထိုသို့ များပြားစွာ အုခြင်းမှာ ရေထဲ၌ ဥပေါင်း မြောက်မြားစွာ ပျောက်ဆုံးလေ့ရှိသဖြင့် သားငယ်များအဖြစ် ပေါက်စေမည့် ဥများ အဖတ်တင် ကျန်ရစ်စေရန် ဖြစ်သည်။ ငါးများကလည်း များသောအားဖြင့် ဥ အမြောက်အမြားကို အုပေးလေ့ ရှိကြသည်။ အချို့ငါးမျိုး၏ ဥများသည် လေးလံကြသဖြင့် ချောင်း၊ ရေအိုင်၊ သို့မဟုတ် ပင်လယ်၏ အောက်ခြေအထိ နစ်မြုပ်သွားကြ၏။ အချို့ ငါးမျိုး၏ ဥများကမူ ပေါ့ပြီးလျှင် အလင်းပေါက်များ ဖြစ်ကြသည်။ ထိုငါးဥမျိုးသည် အတွဲလိုက် ရေမျက်နှာပြင်ပေါ်တွင် မျောနေလေသည်။

သာမန် ဖားပြုပ်မတကောင်သည် တခါအုလျှင် ဥပေါင်း ၆,၀၀၀ အထိ အုတတ်ပြီးလျှင် အတန်း နှစ်တန်းဖြင့် အုလေ့ရှိသည်။ သာမန် ဖားမတကောင်ကမူ ပလောပီနံဥကို ပြုတ်ဆားသကဲ့သို့ ကော်ကဲ့သို့သော ဥများကို အုလေ့ရှိသည်။

တွားသွား သတ္တဝါများသည် ယင်းတို့၏ ဥများကို များသောအားဖြင့် မြေကြီး၏ အပူဓာတ်ဖြင့် ပေါက်စေလေ့ရှိကြသည်။ အချို့ မြွေမျိုးများကမူ မိမိတို့၏ ဥများကို မိမိတို့၏ ခန္ဓာကိုယ်ဖြင့် ခွေပတ်ကာ စောင့်ရှောက်လေ့ရှိကြသည်။

နို့တိုက်သတ္တဝါများအနက် ဥအုလေ့ရှိသောသတ္တဝါမှာ ဘဲတူ ဖျံတူနှင့် ဆူးရှိသော ပရွက်စားကောင်တို့ဖြစ်သည်။ အချို့မြွေမျိုး၊ ဖွတ်ပုတတ်မျိုးနှင့် ငါးမျိုးများသည် သားကောင်ကလေးများကို မွေးဖွားသော်လည်း များသောအားဖြင့်ကား ဥများကိုသာ အုကြလေသည်။ ဘဲတူ ဖျံတူ ရှိသော ဩစတြေးလီးယား တိုက်တွင် တွားသွား သတ္တဝါများ အုသကဲ့သို့ အုသော ငှက်မျိုးများလည်း ရှိသည်။ ထိုငှက်မျိုးသည် ယင်းတို့၏ ဥများကို ဝပ်ပေးလေ့ မရှိကြချေ။

အချို့ပိုးကောင်များသည် ယင်းတို့၏ဥများကို နည်းအမျိုးမျိုးဖြင့် အကာအကွယ်ပေးကြသည်။ ပျားနှင့် နကျယ်ကောင် များသည် ယင်းတို့၏ ဥများကို အထူး စီမံထားသော အိမ်များတွင် အုကြလေသည်။ ပင့်ကူ များကမူ ယင်းတို့၏ ဥများကို ပိုးမျှင်ကဲ့သို့သော အိတ်ငယ်ကလေးများဖြင့် ရစ်ပတ်၍ထားလေ့ရှိကြပြီးလျှင် ထိုအိတ်ငယ်ကလေးများကို လုံခြုံသည့်တနေရာရာတွင်ဖြစ်စေ၊မိမိနှင့် တပါတည်း သယ်ဆောင်၍ ဖြစ်စေ သွားလေ့ ရှိကြသည်။ ခြင်များသည် ယင်းတို့၏ ဥများကို ရေသေများ၏ မျက်နှာပြင်ပေါ်၌ ဖောင်ကလေးများ သဖွယ် အုလေ့ရှိကြသည်။

ကြက်ဥနှင့် ဘဲဥများအပြင် လူများ စားသောက်သော အခြားဥများလည်း ရှိသေးသည်။ မြန်မာနိုင်ငံကဲ့သို့သော အပူပိုင်းဒေသများတွင် လိပ်ဥများကို ကြက်ဥနှင့် ဘဲဥများသဖွယ် စားသောက်လေ့ ရှိကြသည်။ အထူးသဖြင့် ကမ်းရိုးတန်း ဒေသနေလူများသည် ထိုလိပ်ဥများကို ဟင်းလျာအဖြစ် စားသောက်ကြသည်။ ငါးဥ၊ ဗုဇ္ဇန်ဥ များကိုလည်း ဟင်းလျာအဖြစ် စားသောက် တတ်ကြလေသည်။

**ဥချိုး။** ။ချိုး — ရှု။

**ဥဇဗက်ကစ္စတန်နိုင်ငံ။** ။ဥဇဗက် ဆိုဗီယက် ဆိုရှယ်လစ်သမတနိုင်ငံ၊ သို့မဟုတ် ဥဇဗက်ကစ္စတန်နိုင်ငံသည် ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံ (ရုရှနိုင်ငံ) တွင် ပါဝင်သော ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံဖြစ်သည်။အာရှတိုက်အလယ်ပိုင်းရှိ ဆိုဗီယက်ဆိုရှယ်လစ်သမတနိုင်ငံတို့တွင် လူဦးရေ အများဆုံးနိုင်ငံ ဖြစ်၍၊ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၁၇၃,၅၄၆ ရှိသည်။ မြောက်ဖက်တွင် ကာဇက် ဆိုဗီယက်ဆိုရှယ်လစ်သမတနိုင်ငံ၊ အရှေ့ဖက်တွင် ကီရဂစ် ဆိုဗီယက် ဆိုရှယ်လစ်သမတနိုင်ငံနှင့် တာဂျစ်ဆိုဗီယက်ဆိုရှယ်လစ် သမတနိုင်ငံ၊ အနောက်ဖက်တွင် တူကမင်ဆိုဗီယက် ဆိုရှယ်လစ်သမတနိုင်ငံစသော ဆိုဗီယက် ပြည်ထောင်စုဝင် နိုင်ငံများ နှင့် တောင်ဖက်တွင် အာဖဂနိစတန် နိုင်ငံတို့အသီးအသီးတည်ရှိကြသည်။

အာရှတိုက်အလယ်ပိုင်းတွင် တာကီစတန်ဒေသ ဟူ၍ ရှိရာ ၁ဂ၆ဝ နှင့် ၁ဂ၇ဝ ပြည့်နှစ်များအတွင်းက ရုရှ တို့သည် အနောက်တာကီစတန်ကို သိမ်းယူခဲ့ကြလေသည်။ အရှေ့တာကီစတန်သည် တရုပ်နိုင်ငံ နယ်နိမိတ်ထဲတွင် ကျရောက်လျက်ရှိသည်။ ၁၉၂၄ ခုနှစ် ဒီဇင်ဘာလ ၅ ရက်နေ့တွင် တာကီစတန်၊ ခီဗာနှင့် ဗူခါးရားနယ်မြေများ ပါဝင်စေလျက် ဥဇဗက် ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံကို ဖွဲ့စည်းတည်ထောင်ခဲ့လေသည်။ ၁၉၂၅ ခုနှစ် မေလတွင် ဆိုဗီယက်ပြည်ထောင်စုထဲ၌ သမတနိုင်ငံတခုအဖြစ် ပါဝင်ခဲ့သည်။ (တာကီစတန် — လည်းရှု။)

ဥဇဗက်ကစ္စတန်နိုင်ငံတွင်း၌မြေသြဇာ ထက်သန်သော ဖါးဂါးနား ချိုင့်ဝှမ်း တည်ရှိသည်။ ထိုဒေသတွင် ဆားဒါရယာမြစ်မှ ရေသွင်း၍ ဝါ၊ သစ်သီးနှင့် ဆန်စပါး တို့ကို အကြီးအကျယ်စိုက်ပျိုးသည်။ ဥဇဗက်ကစ္စတန် နိုင်ငံသည် ဆိုဗီယက်ပြည်ထောင်စုနိုင်ငံတွင် ဝါအများဆုံးထွက်သော နိုင်ငံဖြစ်သည်။ ဆိုဗီယက် ပြည်ထောင်စုထွက် ဝါ ၆ဝ ရာခိုင်နှုန်းကို ဥဇဗက်ကစ္စတန်နိုင်ငံမှရရှိသည်။ လူဆန် ပဲပင်၊



ဥဇဗက်ကစ္စတန်နိုင်ငံ၏ အဓိက ထွက်ကုန်ဖြစ်သော ဝါဂွမ်းကို စက်ဖြင့်ကောက်သိမ်းစဉ်

ဆန်စပါး၊ စပျစ်သီးနှင့် ဗင်္ဂလားဆီးသီး တို့ကိုလည်း စိုက်ပျိုးသည်။

နိုင်ငံ၏အနောက်ပိုင်းတွင် မြင်း၊ သိုးစသော တိရစ္ဆာန်များကို မွေးမြူကြသည်။ အထူးသဖြင့် တာရာကား သိုးမျိုးကို အကြီးအကျယ်မွေးမြူသော နိုင်ငံဖြစ်သည်။ ဥဇဗက်ကစ္စတန် နိုင်ငံသည် တွင်းထွက်ပစ္စည်း ကြွယ်ဝသော နိုင်ငံလည်း ဖြစ်၍ ကြေးနီ၊ ရေနံနှင့် ကျောက်မီးသွေး ထွက်သည်။ အာရှတိုက်အလယ်ပိုင်းတွင် စက်မှုလုပ်ငန်း၌ အတိုးတက်ဆုံးနိုင်ငံဖြစ်သည်။ တက်ရှကင့် မြို့တော်တွင် အထည်အလိပ်စက်ရုံ၊ စိုက်ပျိုးရေးကရိယာစက်ရုံ၊သားရေစက်ရုံစသော စက်ရုံများရှိသည်။ နိုင်ငံတွင်း၌ ဓိလတ်မြေစက်ရုံ၊ စက္ကူစက်ရုံ၊သံနှင့် သံမဏိ စက်ရုံ၊ ရေနံချက်စက်ရုံ၊ လျှပ်စစ်ဓာတ်အားပေးစက်ရုံ အစရှိသော စက်ရုံ မြောက်မြားစွာ ရှိသည်။

တက်ရှကင့်မြို့သည် ဥဇဗက်ကစ္စတန်နိုင်ငံ၏ မြို့တော်ဖြစ်၍ အာရှတိုက်အလယ်ပိုင်းရှိ ဆိုဗီယက် ပြည်ထောင်စုမြို့တို့တွင် အကြီးဆုံး မြို့ဖြစ်သည်။ လူဦးရေ ၁,၃၈၅,၀၀၀ (၁၉၇၀) ရှိသည်။ အခြားထင်ရှားသောမြို့များမှာ ဗူခါးရားမြို့၊ ခီဗာမြို့၊ ခိုကန်းမြို့နှင့် ဆမာကန်းမြို့များဖြစ်သည်။ ဆမာကန်းမြို့သည် ၁၉၃၀ ပြည့်နှစ်အထိ ဥဇဗက်ကစ္စတန်နိုင်ငံ၏မြို့တော် ဖြစ်ခဲ့ဘူးသည်။

တဆဲ့ကိုးရာစုနှစ်တွင်ရုရှတို့ဝင်ရောက်မလာမီက ဥဇဗက်လူမျိုးတို့သည် အာရှတိုက်အလယ်ပိုင်းဒေသ၌ ကြီးစိုးခဲ့သည်။ ဥဇဗက်လူမျိုးသည် တူရကီတို့၏ အဆက်အနွယ်ဖြစ်၍ အစ္စလာမ်အယူဝါဒီများဖြစ်သည်။ ဥဇဗက်ကစ္စတန်နိုင်ငံတွင် လူဦးရေ ၁၁၉၆၀,၀၀၀ (၁၉၇၀)ရှိသည်။

**ဥဒေါင်း။** ။ဥဒေါင်းသည် ဥမှ ပေါက်စတွင် သာမန်ငှက်ကဲ့သို့ ရုပ်ဆင်းသဏ္ဍာန် ရှိသော်လည်း နှစ်နှစ်ခန့်ကြာသောအခါ အမြီးအတောင်များ စုံလင်လာကာ ကြည့်၍ တမျိုးကျက်သရေရှိလာသည်။ ထိုအခါမှစ၍ ဥဒေါင်းဖိုများကလည်း ဥဒေါင်းမထက် ပို၍ လှလာကြသည်။ သူတို့ကို ကြည့်ရသည်မှာ ကြွားကြွားဝါဝါ ခန့်ခန့်ညားညားရှိလှသည်။ ထိုကြောင့်ပင် အနောက်နိုင်ငံအသုံးအနှုန်းများ၌ လှပစွာဝတ်ဆင်၍ ကြွားကြွားဝါဝါ ရှိသူတို့ကို ဥဒေါင်းနှင့် နှိုင်း၍ ပြောလေ့ရှိကြသည်။

ဥဒေါင်းသည် ရစ်မျိုးရင်းတွင် အပါအဝင်ဖြစ်၍ အာရှတိုက် အပူပိုင်းတွင် အထူးပေါများသည်။ ဤသို့လှပ၍ ကျက်သရေရှိမှုကြောင့် ကမ္ဘာ့အရပ်ရပ်တွင် အလှမွေးမြူကြသည်။ ခန့်ညားခြင်းနှင့် ကျက်သရေရှိခြင်းအတွက် အထိမ်းအမှတ်အဖြစ် ဥဒေါင်းရုပ်ကို အသုံးပြုကြသည်။ ရှေးမြန်မာမင်း အဆက်ဆက်ကလည်း နိုင်ငံတော်အလံအဖြစ် ဥဒေါင်းတံဆိပ် ခတ်နှိပ်သောအလံကို အသုံးပြုခဲ့ကြသည်။ မြန်မာမင်းများလက်ထက် အလံကိုသာ မဟုတ်၊ သုံးစွဲရန် ထုတ်သော ငွေဒင်္ဂါးများ၌ပင် မြန်မာမင်း၏ အမှတ်အသားအဖြစ် ဥဒေါင်းရုပ်ကို ခတ်နှိပ်ကြလေသည်။

မြန်မာမင်းများသာ မဟုတ်၊ ရှေးက အာရှတိုက်တွင် တန်ခိုးထွားခဲ့သော မွန်ဂိုဘုရင်များပင် ပလ္လင်၏ အမိုးတွင် ရွှေငွေ အဖိုးတန် ကျောက်သံပတ္တမြားတို့ဖြင့် ပြုလုပ်စီခြယ်ထားသော ကဒေါင်းပုံသဏ္ဍာန် ပြုလုပ်ထားလေသည်။ တရုပ်ဘုရင်များလက်ထက်ကမူ တိုင်းကျိုးပြည်ကျိုးဆောင်သော မှူးမတ်သေနာပတိများကို ဂုဏ်ထူးဆောင်အဖြစ် ဒေါင်းမြီးတပ်ခွင့် ပြုခဲ့၏။ ပွဲကြီးလမ်းကြီးများ၌ ဥဒေါင်းသားကိုပင် ဂုဏ်ထူးတခု အနေဖြင့် စားကြလေသည်။ ဥဒေါင်း၏အလှဆုံးအပိုင်းသည် မြီးတံဖြစ်သည်။ ထိုမြီးတံသည် ယပ်တောင်သဖွယ် ဖြန့်လိုက်သောအခါ ဝိုင်းသွား၍ အလွန်လှပလေသည်။ မြီးတံတိုင်း မြီးတံတိုင်း၏ အဖျားတွင် ခရမ်းရောင်၊ အဝါရောင်၊ အပြာရင့် စသည့် ရောင်စုံတို့ဖြင့် ရောပြွမ်းခြယ်လှယ်ထားသကဲ့သို့ အလွန်လှပသော "စ" စာလုံး ပုံသဏ္ဍာန် အကွက်တခုစီ ပါလေသည်။

မြီးတံ၏အမွေးများမှာ အစိမ်းပုပ်ရောင်ဖြစ်၏။ ထိုသို့ အစိမ်းပုပ်ခံတွင် အရောင်မျိုးစုံပြွမ်းသော မြီးတံသည် သူတို့နေထိုင်ရာ အပူပိုင်းသစ်တောများနှင့် ယိုးမှားဖွယ် ဖြစ်သဖြင့် ရန်သူတို့ ဘေးမှလည်း ကင်းဝေးအောင် သဘာဝက ဖန်တီးပေးသကဲ့သို့ ဖြစ်နေ၏။ ယင်းသည် ဒေါင်းမြီးအစစ်မဟုတ်၊ ဤမြီးတံရှည်များ၏အောက်တွင် မြီးတံ၏အောက်ခံသဖွယ် ဖြစ်နေသော ကြက်မအမြီးကဲ့သို့ အမွေးများရှိ၏။ ဥဒေါင်းမြီးတံမှာ နေရောင်ကိုလိုက်၍ အရောင်အမျိုးမျိုး ပြောင်းတတ်သဖြင့် အံ့ဖွယ်ပင်ဖြစ်သည်။ ခေါင်းပေါ်တွင် အမွေးတိုကလေးများဖြင့် လှပသော အမောက်ကလေး ဖြစ်နေလေသည်။ ဇက်ပိုင်းနှင့် ရင်အထက်ပိုင်း အမွေးရောင်သည် စိမ်းပြာပြာဖြစ်ပြီးလျှင် ရင်အောက်ပိုင်းမှာ စိမ်းပြာတွင် ခရမ်းရောင် နှောနေသောကြောင့် တမျိုးတဖုံ လှလေသည်။

ဂျပန်ဒေါင်း ခေါ် ဒေါင်းပြာမျိုး၏ မြီးတံအရောင်ကား အစိမ်းမဟုတ်ပဲ အပြာရောင် ခပ်တောက်တောက်ဖြစ်၏။ ထိုဒေါင်းပြာမျိုးတွင် ဒေါင်းမ၏ အရောင်မှာ တကိုယ်လုံး ဆွတ်ဆွတ်ဖြူဖြစ်လေသည်။ အရွယ်ရောက်ပြီး ဥဒေါင်းသည် နှစ်ပေခန့် မြင့်သည်။ ငှက်များအနက် ဥဒေါင်းသည် မျက်စိအရှင်ဆုံး ဖြစ်သည်။ လွန်စွာလည်း ကြောက်တတ်သည်။ အနီးသို့ချဉ်းကပ်သွားလျှင် လျှင်မြန်စွာ ပြေးသွားလေ့ရှိသည်။ ပျံရာတွင် လျှင်မြန်သော်လည်း တောင်ပံများကို ရိုက်ခတ်ရာတွင်မူ နှေးနှေးနှင့် မှန်မှန်သာ ရိုက်ခတ်သည်။



မြီးတံ၏အမွေးများကို ဖြန့်ကား၍ကပြနေသောဥဒေါင်း

ဥဒေါင်း၏ ထူးခြားချက်မှာ ညနေဖက် စောစောတွင်အရွက် အနည်းငယ်သာရှိသော သစ်ပင်မြင့်ကြီးများပေါ်သို့ အိပ်တန်းတက်၍ နံနက်တွင် အိပ်ရာမှ ဆင်းလေ့ရှိကြသည်။ ထိုသို့အိပ်တန်း တက် ရာနှင့် အိပ်တန်းမှ ဆင်းရာတို့တွင် ဆူညံစွာအော်လေ့ရှိခြင်းဖြစ်သည်။

ဥဒေါင်းသည် စပါးကောက်နှံ၊ ပက်ကျိနှင့် အရည်ရွှမ်းသော အပင်မျိုးကို စားသောက်တတ်ကြသည်။

ဥဒေါင်းသည် သစ်ပင်ပေါ်၌ဖြစ်စေ၊ မြေပြင် ချုံကွယ်၌ ဖြစ်စေ နေတတ်ကြ၏။ အသိုက်ကို မြေကြီးပေါ်၌ရင်း၊ နိမ့်နိမ့်တွင်ရှိသော သစ်ကိုင်းများပေါ်၌ရင်း ခပ် ကြမ်း ကြမ်း ပြု လုပ် လေ့ရှိလေသည်။

ဥ ဒေါင်း မ သည် တ ကြိမ်လျှင် အညိုရောင်အဆင်းရှိသော ဥပေါင်း သုံးဥမှ ငါးဥအထိ ဥလေ့ရှိပြီးလျှင် တခါတရံတွင် ရှစ်ဥအထိ ဥတတ်သည်။

ဥ ဒေါ င် း သ ည် ဂ ယ် လီဖော်မီးမျိုးစဉ်တွင် ဖာဆီယန်နီဒီး မျိုးရင်း၌ ပါဝင်လေသည်။ ယင်း ၏ အ မည် မှာ ပါဏဗေဒအလိုအားဖြင့် ပေဗို မူတီကပ် မူတီကပ် ဟုခေါ်သည်။

ဥဒေါင်းတို့သည် အစုလိုက်အပြုံလိုက် မနေကြချေ။ အများဆုံး ဥဒေါင်းဖိုတကောင်နှင့် ဥဒေါင်းမ သုံးလေးကောင်လောက်သာ စု၍ နေတတ်သည်။ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ မလ္လာယုကျွန်းဆွယ်စသော အရှေ့ပိုင်းရှိ အပူပိုင်းဒေသများတွင် အများအပြား နေထိုင်ကြ၏။ ဒေါင်းငယ်ကလေးများသည် သမပိုင်းဒေသ ရာသီဥတုတွင် မနေနိုင်ကြချေ။ အနည်းငယ်ကြီးမှ သမပိုင်းဒေသတွင် မွေးမြူ၍ရလေသည်။ ဒေါင်း၏ ကိုယ်ဟန်ပုံသဏ္ဌာန်သည် ခန့်ညားဝင့်ဝါသလောက် အသံကား ခန့်ညားခြင်း မရှိချေ။ သာမန်ငှက်များအော်သံနှင့်သာ တူလေသည်။

ဥပကထေရ်။ ။ဥပကထေရ်သည် ဂေါတမမြတ်စွာဘုရားလက်ထက်တော်တွင် ထင်ရှားသော မထေရ်တပါးဖြစ်သည်။ ဥပကထေရ်သည် မြတ်စွာဘုရားနှင့် ရှေးဦးစွာတွေ့ရပါလျက် တရားဦးကို မနာရပဲရှိရသည်။

မြတ်စွာဘုရားသခင်သည် တရားဦးဟောရန်အတွက် ပဉ္စဝဂ္ဂီငါးဦးရှိရာ ဗာရာဏသီပြည်အနီးမှ မိဂဒါဝုန်တောသို့ ကြွတော်မူလတ်သော် မဟာဗောဓိနှင့် ဂယာသီသအကြား၌ ဥပကမည်သော တက္ကတွန်းကို တွေ့၏။ ထိုတက္ကတွန်းက "ငါ့ရှင်၊ သင်၏ဣန္ဒြေတို့သည် နှစ်လိုကြည်ညိုဖွယ် ရှိပေ၏။ သန့်ရှင်းစင်ကြယ် သပ္ပါယ်ပြည့်ဖြိုးလျက် ပြိုးပြိုးပြက်မျ

ထွက်ထွန်းသောအရောင်လည်း ရှိပေ၏။ အဘယ်သူကို ရည်မှန်းလျက် ရဟန်းပြုဘိသနည်း။သင့်ဆရာကား အဘယ်သူနည်း။ သင်ကား အဘယ်အမည်ရှိသနည်း” ဟု မေး၏။ မြတ်စွာဘုရားလည်း “ချစ်သား ဥပက၊ ငါကား ကိလေသာရန်သင်းကို နှိမ်နင်းဖျက်ဆီး၍ တည်သဖြင့် အလုံးစုံ ဘုံသုံးပါး၌ဖြစ်သော တရားအပေါင်းကို သိတော်မူ၍ တေဘူမက ဓမ္မခပ်သိမ်းတို့၌ လိမ်းကျံကပ်ငြိခြင်းမှ ကင်းတော်မူ၏။ အလုံးစုံသော အကုသိုလ်တရားကို ပယ်ရှားစွန့်ခွာ၍ တဏှာ၏ကုန်ရာ နိဗ္ဗုတာအောင်ဘုံကို အာရုံပြုဘိသဖြင့် ကိလေသာအပေါင်းတို့မှ လွတ်၏။ ချစ်သားဥပက၊ စတုဘူမက ဓမ္မအလုံးစုံကို အလိုလိုသာ ငါသိတော်မူရကား လောကသုံးပါး၌ ထင်ရှားပြစရာ ငါ့ဆရာသည် အဘယ်မှာရှိတော့အံ့နည်း။ ငါ့အမည်ကား ငါးပါးသော မာရ်ကို ပယ်လှန်အောင်ဘိ၍ အနန္တဇိန မည်သတည်း” ဟု မိန့်တော်မူသည်။

ထိုအခါ ဥပက က “အရှင်ဂေါတမ၊ ဟုတ်ပေရာ၏။ သို့ရာတွင် သင်ကား ယခု အဘယ်သို့ကြွအံ့နည်း”ဟု မေးပြန်၏။ “ချစ်သားဥပက၊ သမုဒ္ဒရာ ဂင်္ဂါသဲလုံးမျှ ပွင့်ကုန်ကြသော ဗုဒ္ဓတို့ဓမ္မတာ ဓမ္မစကြာ ဟူသော တရားစည်ကြီးကို တီးတော်မူခြင်းငှာ ဗာရာဏသီပြည်၏အနီး မိဂဒါဝုန်တောကြီးသို့ ငါ ကြွတော်မူအံ့” ဟု မိန့်တော်မူလျှင် ငါ့ရှင် ဟုတ်ပေရာ၏ ဟူသောစကားကို ဆိုလျက် ခေါင်းညိတ်ပြီးသော် ခရီးလွှဲ၍ ဝင်္ဂ မည်သော ဇနပုဒ်သို့ သွားလေသည်။

ဥပကသည် ဝင်္ဂဇနပုဒ်၌ ထိုရွာတွင် အကြီးဖြစ်သော မုဆိုးကြီး စဏ္ဍာမိ၏ ကိုးကွယ်လုပ်ကျွေးခြင်းကို ခံလျက် နေထိုင်၏။ တနေ့သောအခါ မုဆိုးကြီး စဏ္ဍာမိသည် တောလိုက်သွားရာ သမီးဆာဝါအား ရဟန်းကြီးကို လုပ်ကျွေးပြုစုရန် မှာကြားထားခဲ့သည်။ ဆာဝါလည်း ရဟန်းကြီးအား ဆွမ်းလုပ်ကျွေးသည်။ ရဟန်းကြီးဥပကသည် ဆာဝါ၏ ရူပါရုံကြောင့် ချစ်ခင်တပ်မက်ခြင်း ဖြစ်၍ ခုနစ်ရက်ပတ်လုံး ဆွမ်းမစားနိုင်၊ မကျိန်းစက်နိုင်ပဲ စိတ်ဒုက္ခ ရောက်ရသည်။

မုဆိုးကြီး တောမှ ပြန်လာသောအခါ ရဟန်းကြီး၏ အဖြစ်ကိုသိရ၍ မေးမြန်းပြီးသော် သမီးဆာဝါနှင့် လက်ထပ်ပေးမည်ဟု ကတိပြုသည်။ ဥပကသည် လူထွက်၍ လက်ထပ်ပြီးနောက် မုဆိုးကြီးထံတွင် သားငှက်တို့ကို ထမ်းပိုးရောင်းချခြင်းဖြင့် နေထိုင်သည်။

ကာလကြာသော် သုဘဒ္ဒ မည်သော သားငယ်တယောက်ကို ဖွားမြင်သည်။ ကလေးငယ် ငိုယိုသောအခါ မိခင်ဆာဝါက“ရဟန်းလူထွက် မုဆိုးနောက်လိုက် လူငမိုက်၏သား မငိုနှင့်”ဟု ငေါက်ငန်းလေ့ပြုသည်။ထိုအခါ ဥပက ကြားသဖြင့် ဇနီးဖြစ်သူအား“ငါ့ကို ကိုးကွယ်ရာမရှိဟု သင် မမှတ်လေနှင့်၊ငါ့တွင် အနန္တဇိနမည်သော မိတ်ဆွေရှိသည်” ဟု ပြန်ပြောလေ့ရှိသည်။

ဆာဝါသည် ထိုသို့ ငေါက်ငန်းဖန်များလတ်သော် ဥပကသည် နားငြီးရှက်ရွံ့၍ အိမ်မှထွက်ခွာလျက် ဘုရားရှိရာ မဇ္ဈိမဒေသသို့ ရှေးရှုသွားလေသည်။ သာဝတ္ထိပြည် ဇေတဝန်ကျောင်းသို့ ရောက်လျှင် “ငါ့ရှင်တို့ အနန္တဇိနသည် အဘယ်မှာရှိသနည်း” ဟု မေး၏။ ရဟန်းတို့သည် မြတ်စွာဘုရားက အနန္တနဇိအမည်ဖြင့် မေးလာသူကို ခေါ်ဆောင်ခဲ့ရန် ဦးစွာကပင် မှာကြားထားသည့်အတိုင်း မြတ်စွာဘုရားအထံတော်သို့ ခေါ်ဆောင်သွားသည်။

ဥပကသည် မြတ်စွာဘုရားကို ဖူးတွေ့ရ၍ တရားရကာ ရဟန်းပြုလေသည်။ ရဟန်းဖြစ်ပြီးသော် မြတ်စွာဘုရား ဟောကြားတော်မူသော ကမ္မဋ္ဌာန်းတရားကို ကြိုးစားအားထုတ်သည်။ ဥပကသည် အနာဂါမိဖိုလ်၌ တည်ပြီးနောက် အသက်အတိုင်း နေ၍ စုတေသော် အဝိဟာဗြဟ္မာဘုံ၌ ပဋိသန္ဓေနေသည်။ ထိုဘုံ၌ဖြစ်သော ခဏ၌ပင် အရဟတ္တဖိုလ်သို့ ရောက်လေသည်။

**ဥပဂုတ္တထေရ်။** ။ရာဇဝံသကျမ်း၌ သီရိဓမ္မာသောကမင်းကြီး (ဓမ္မာသောကမင်း၊ အသောကမင်းဟူ၍လည်း တွင်သည်။) သည် စေတီရှစ်သောင်း လေးထောင်တို့ကို အနုမောဒနာပြုသောကာလ ဥပဂုတ္တထေရ် (ရှင်ဥပဂုတ်) သည် မာရ်နတ်ကို ဆုံးမကြောင်း ဖော်ပြပါရှိသည်။

မြတ်စွာဘုရား သက်တော်ထင်ရှား ရှိတော်မူစဉ်က ရာဇဂြိုဟ်ပြည်သို့ ဆွမ်းခံဝင်တော်မူသောအခါ မြေမှုန့်များကို ကစားနေကြသော သူငယ်တို့အနက် ခုနစ်နှစ်အရွယ်ရှိ ပီယဒဿီအမည်ရှိသော သငှေးသားသည် ဘုရားကိုကြည်ညိုလှသဖြင့် လက်၌ရှိသော မြေမှုန့်ကိုလှူအံ့ဟုကြံ၍ အခြေအရံ သူငယ်တို့ကိုခေါ်ပြီးလျှင် လက်၌ရှိသော မြေမှုန့်ကို လှူ၏။ မြတ်စွာဘုရားသည် ထိုလှူသောမြေမှုန့်ကို သပိတ်ဖြင့် ခံတော်မူပြီးလျှင် ပြုံးတော်မူသဖြင့် အာနန္ဒာထေရ်က အကြောင်းကိုလျှောက်ရာ ထိုသူငယ်သည် သာသနာတော် ၂၁၈ နှစ်သို့ ရောက်သောအခါ ပါဋလိပုတ်ပြည်၌ အသောကမည်သောမင်းဖြစ်ပြီးလျှင် သာသနာတော်ကို ကြည်ညိုလှသဖြင့် ခုနစ်လ ခုနစ်ရက်တိုင်တိုင် အလှူကြီးပေးလိမ့်မည်။ ထိုအခါ မာရ်နတ်ဖျက်ဆီးအံ့သည်ကို ဥပဂုတ္တတိဿနာဂမည်သော မထေရ်သည် တန်ခိုးအားဖြင့် တားပေလတ္တံ့ဟု ဗျာဒိတ်စကား ကြားတော်မူကြောင်းနှင့် လောကပညတ္တိပါဠ်၌ လာသည်။

လောကပညတ္တိပါဠ်၌ပင် ဥပဂုတ္တထေရ်(အရှင်ဥပဂုတ်)၏အကြောင်းကို ဤသို့ဖော်ပြပါရှိ၏။ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းကြီး စိုးစံတော်မူနေရာ ထီးဆက်နန်းရံ အမွေ

ခံသားသမီးတယောက်မျှမရ၍ ပညာရှိများနှင့် တိုင်ပင်ဆွေးနွေးသော် မဟာဒါနပြုလုပ်လျှင် အမွေခံသားသမီးပေါ်လာမည့်အကြောင်း ဟောပြောတင်လျှောက်သဖြင့် မင်းကြီးသည် မဟာဒါနကို ပြုတော်မူသည်။ မကြာမီ အတွင်း၌ တင်ငါတို့က ငါး၏ဝမ်းထဲမှရသော လူမိန်းမလေးတယောက်ကို မင်းကြီးအား ဆက်သကြသည်။ မင်းကြီးလည်း ထိုသတို့သမီးငယ်ကို နတ်တို့က ဆက်လာသည်ဟု ထင်မှတ်၍ အထိန်းသယ်များနှင့် ကောင်းစွာထားသည်။ အမည်ကိုလည်း မစ္ဆဒေဝီဟုပေးကာ ရင်သွေးအရင်းကဲ့သို့ ကောင်းစွာ စောင့်ရှောက် ထားလေသည်။ အရွယ်ကြီးမြင့်လာသောအခါ ကိုယ်မှမကောင်းသော အပုပ်နံ့ထွက်သဖြင့် ထိုအပုပ်နံ့မထွက်အောင် ကြံစည်သော်လည်း မရသောကြောင့်. ထိုမစ္ဆဒေဝီကို စားနပ်ရိက္ခာအစုံနှင့် ဖောင်ပေါ်၌ တင်ပြီးလျှင် မြစ်လယ်ကြောသို့ မျှောလိုက်ရလေသည်။ မြို့နှင့် ဝေးကွာသော တောင်ကြီး ကမ်းကြီးရှိရာသို့ ရောက်ရာ တခုသော မြစ်ကွေ့ကမ်းငူက ရှင်ဥပရသေ့သည် မြစ်၏တဖက်ကမ်းသို့ ကူးလို၍ အလံကိုထူပြထားသည်ကို မစ္ဆဒေဝီမြင်သဖြင့် ဖောင်ကို ကမ်းသို့ကပ်ပြီးလျှင် အကြောင်းကိုမေးရာ ရှင်ရသေ့က တဖက်ကမ်းသို့ ကူးလိုသဖြင့် ပို့ပေးရန်တောင်းပန်လေသည်။ ထိုအခါ မင်းသမီးက အကျွန်ုပ်၏ မျက်နှာကို မကြည့်လျှင် ပို့ပေးပါမည်ဟုပြောရာ ရသေ့က ရဲရဲဝန်ခံသဖြင့် တဖက်ကမ်းသို့ ပို့ပေးလေသည်။ ကမ်းသို့ရောက်သောအခါ ရှင်ဥပ ရသေ့သည် အမျိုးသမီးအား မည်သည့်အမျိုးအနွယ်ဖြစ်သည်ကို သိချင်သောကြောင့် အမှတ်မဲ့ ကြည့်လိုက်ရာ မျက်နှာချင်းဆိုင်မိကြ၍ မစ္ဆဒေဝီ၌ ပဋိသန္ဓေတည်ရကြောင်းကို ပြောပြီးလျှင် ကိုယ်ဝန်ကို အစောင့်အရှောက်ခိုင်းရာ ရသေ့က ကျေနပ်စွာ သဘောတူပြီးလျှင် စောင့်ရှောက်ထားလေသည်။ နေ့လစေ့သောအခါ သားကို ဖွားမြင်ရာ ရှင်ဥပရသေ့က နေ့ညဥ့်မပြတ် ကြည့်ရှုစောင့်ရှောက် ကျွေးမွေးသည်ကို အစွဲပြု၍ ဥပဂုတ္တဟုအမည်ပေးလေသည်။ အရွယ်ရောက်သောအခါ ရဟန္တာဖြစ်ပြီးလျှင် တောင်သမုဒ္ဒရာ၌ ကြေးပြာသာဒ်နှင့် နေတော်မူသည်။ ထိုအရှင်သည် ဈာန်သမာပတ်တို့ဖြင့်သာ နေ့ရက်များစွာကို ကုန်လွန်စေ၍ အစာမစားပဲလည်း နေတော်မူလေ့ရှိသည်။

သီရိဓမ္မာသောကမင်းသည် ရာဇဂြိုဟ်ပြည်၌ အဇာတသတ်မင်း ခဲယဉ်းစွာမြှုပ်ထား၍ ကိုးကွယ်တော်မူသော သရီရဓာတ်တော် ခုနစ်စရွတ်ကို ယူဆောင်၍ သရီရဓာတ်တော်ကို ဇမ္ဗူဒိပ်ကျွန်းအလုံး၌ အနှံ့ကိုးကွယ်စေခြင်းငှာ ရှစ်သောင်း လေးထောင်သော မြို့နိုင်ငံတို့၌ တမြို့လျှင် စေတီတဆူ တဆူတည်စေ၏။ တဖို့သော ဓာတ်တော်ကို ပါဋလိပုတ်ပြည် မြစ်နားဝယ် တကောသခွဲအရပ်၌ကို လက်ဝါးပြင်ကဲ့သို့ညီညွတ်စေ၍ အထူးထူးသော ရတနာတို့ဖြင့် တန်ဆာဆင်လျက် မဟာစေတီတည်လေ၏။ တည်ပြီးသော် ခုနစ်ရက်တိုင်တိုင် ကြီးစွာသောပူဇော်ပွဲကို ပြုလေသည်။

စေတီပူဇော်ပွဲတွင် မာရ်နတ်သည် အန္တရာယ်ပြုလာသည်ကို ရှင်ဥပဂုတ်သည် တန်ခိုးတော်ဖြင့် တားမြစ်၏။ ဦးစွာ၌မဟာစေတီ၏ ထက်ဝန်းကျင် ယူဇနာခွဲအရပ်ကို ဆီမီးထွန်းညှိစေရာ မီးအေးစိမ့်သောငှာ မာရ်နတ်သားလည်း ပြင်းစွာသော လေကိုလာစေ၏။ ရှင်ဥပဂုတ်လည်း တန်ခိုးတော်ဖြင့်ယူ၍ အဝေးသို့ လွှင့်လေ၏။ တဖန် မာရ်နတ်သားလည်း သဲမိုး၊ ကျောက်စရစ်မိုး၊ ကျောက်ဖျာမိုး၊ မီးကျီးမိုး၊ ချေးမိုးတို့ကို အစဉ်အတိုင်းရွာစေရာ ရှင်ဥပဂုတ်လည်း အဓိဋ္ဌာန်တန်ခိုးဖြင့် ခံ၍ စကြဝဠာတံတိုင်း အပ၌ စွန့်၏။ ထိုနောက်တဖန် ကြီးစွာသောနွားဥသဘအဟန်ဖန်ဆင်း၍၎င်း၊ ဦးခေါင်းခုနစ်လုံးရှိသော နဂါးအဟန်ဖန်ဆင်း၍၎င်း၊ ထန်းပင်ရှိလောက် ပြောင်ပြောင်တောက်သော သံလှန်ကန်ကိုကိုင်စွဲထားသောဘီလူးကြီးအဟန်ဖန်ဆင်း၍၎င်း အန္တရာယ်ပြုရန်အဆင့်ဆင့်အားထုတ်ပြန်လျှင် ရှင်ဥပဂုတ်လည်း ကျားအဟန်ဖန်ဆင်း၍၎င်း၊ ဂဠုန်အဟန်ဖန်ဆင်း၍၎င်း၊ မာရ်နတ်ဖန်ဆင်းသော ဘီလူးထက် နှစ်ဆကြီး၍ ဝင်းဝင်းငြိသော သံလှန်ကန်ချောင်း ကိုင်စွဲသည့် ဘီလူးကြီးအဟန်ဖန်ဆင်း၍၎င်း မာရ်နတ်ကို နှိမ်နင်းလေသည်။ နောက်ဆုံးတွင် မာရ်နတ်သည် ရှင်ဥပဂုတ်၏ တန်ခိုးတော်ကို ပြိုင်နိုင်စွမ်းမရှိသည်ကို သိသဖြင့် လူ့အသွင်ကို ဖန်ဆင်းပြီးလျှင် ရှင်ဥပဂုတ်၏ ရှေ့တွင် ရပ်လေ၏။ ရှင်ဥပဂုတ်သည်ပိုးလောက်အတိပြည့်သော စက်ဆုပ် ရွံရှာဖွယ်ရှိသော ခွေးသေကောင်ပုပ်ကို မာရ်နတ်၏လည်၌ ဆွဲပြီးလျှင် မိမိမှတပါး အခြားမည်သူတဦးတယောက်ကမျှ ထိုခွေးသေကောင်ပုပ်ကို မချွတ်စေနိုင်သတည်းဟု အဓိဋ္ဌာန်ပြီးလျှင် လွှတ်လိုက်လေသည်။ မာရ်နတ်သည် တန်ခိုးကြီးသော နတ်များနှင့် ဗြဟ္မာများထံသို့ ချဉ်းကပ်ပြီးလျှင် ခွေးသေကောင်ပုပ်ကို ချွတ်ပေးရန် တောင်းပန်သည်။ သို့သော် မည်သူကမျှ ချွတ်၍မပေးနိုင်သဖြင့် ဗြဟ္မာမင်းတို့၏ ဩဝါဒအရ ရှင်ဥပဂုတ်ထံသို့ပင် ပြန်သွားပြီးလျှင် ခွေးသေကောင်ပုပ်ကို ချွတ်ပေးရန် တောင်းပန်လေသည်။

ရှင်ဥပဂုတ်သည်မာရ်နတ်အား တောင်ကြီးတလုံး၏အနီးသို့ ခေါ်ဆောင်သွားပြီးလျှင် မာရ်နတ်၏လည်မှ ခွေးသေကောင်ပုပ်ကို ချွတ်ပေးသည်။ ထိုနောက် ခါးပန်းတော်ကို ရှည်အောင်ဖန်ဆင်း၍ မာရ်နတ်၏ ခါးကို ချည်ပြီးသော် အခြားတဖက်ကို တောင်တွင် ချည်နှောင်ကာ "မာရ်နတ်၊ သင်သည် အခြားတပါးသို့ မသွားလင့်၊ ဓမ္မာသောကမင်းကြီး၏ ပူဇော်ပွဲမပြီးမခြင်း ဤအရပ်၌နေရစ်" ဟု မိန့်တော်မူရာ မာရ်နတ်လည်း မည်သို့မျှ မပြောကြား

နိုင်ပဲ ဆိတ်ဆိတ်သာ နေရလေသည်။ ရှင်ဥပဂုတ်လည်း အလိုရှိရာ၌ချမ်းသာစွာနေလေသည်။ ခုနစ်လ ခုနစ်ရက်လွန်၍ စေတီပူဇော်ပွဲပြီးသောအခါ ရှင်ဥပဂုတ်သည် မာရ်နတ်ရှိရာသို့သွား၍ အသံကိုနားထောင်သောအခါ "ငါသည် မြတ်စွာဘုရားအား အမျိုးမျိုး အနှောင့်အရှက် ပေးခဲ့သော်လည်း သာဝကကဲ့သို့ ငါ့အား မညှဉ်းဆဲချေ။ ထိုကြောင့် ရှေးရှေးသော ဘဝများက ဘုရားရဟန္တာဖြစ်စေနိုင်လောက်သော ကောင်းမှုများကို ပြုလုပ်ခဲ့ဘူးပြီ။ ထိုကုသိုလ်တို့၏ အာနိသင်ကြောင့် နောင်သောအခါ ဘုရားဆုကိုသာရလိုပါ၏။ သနားခြင်းကင်းမဲ့သော သာဝက၏ အဖြစ်ကိုမရလိုပါ"ဟု မာရ်နတ်၏ ညည်းညူမြည်တမ်းသံကို ကြားရသည်။ ရှင်ဥပဂုတ်လည်း မာရ်နတ်ထံသို့အဆောတလျင်သွားပြီးလျှင် ခါးပန်းတော်ကိုဖြေပြီးနောက်"မာရ်နတ်၊ ငါ့အား သည်းခံလော။ ငါသည် သင်၏အကျိုးကိုလည်း ပြီးစေပြီ၊ မင်းကြီး၏ ကောင်းမှုကိုလည်း အန္တရာယ်ကင်းစေပြီ၊ သင်သည် ဘုရားဆုကို ယူပေသောကြောင့် သင့်ကို ပူဇော်ထိုက်ပေသည်"ဟု ဆိုလေသည်။ ထိုနောက် "သင်သည်ဘုရားကို မြင်ဘူးသည်။ငါကား ဘုရားကို မမြင်ဘူးပေ။ ထို့ကြောင့် သာဝကများနှင့်တကွ ဘုရား၏အဖြစ်ကို ဖန်ဆင်း၍ပြပါ"ဟု ရှင်ဥပဂုတ်ကပြောရာ မာရ်နတ်က "ငါ့အား အရှင်ရှိမခိုးလျှင် ဖန်ဆင်း၍ပြအံ့"ဟုဆိုသည်။ ထိုအခါ ရှင်ဥပဂုတ်က ကောင်းပြီဟုဝန်ခံပြီးလျှင် သံဃာများအား ဘုရားဖူးကြွကြရန် ဖိတ်ကြား၍ လူများကိုလည်း ပန်းနံ့သာများ စွဲကိုင်စေကာ သံဃာများနှင့် လာစေသည်။ မာရ်နတ်သည် တောအုပ်တခုသို့ ဝင်ပြီးမှ လက္ခဏာတော်ကြီးငယ်တို့ဖြင့် တင့်တယ်စွာတန်ဆာဆင်အပ်သော တလံမျှလောက်သော ရောင်ခြည်တော်အဝန်းဖြင့် တောက်ထွန်းသောဘုရားအသွင်တော် ဖန်ဆင်းလျက် လက်ဝဲရံ၊ လက်ျာရံ အဂ္ဂသာဝကအစုံ ရှစ်ကျိပ်သော မဟာသာဝကတို့ ခယမ်းပုံနှင့်တကွ အလုံးစုံတောက်ပသော ဘုရားအသရေအဆင်းကို ဖန်ဆင်း၍ ပြပေ၏။

ရှင်ဥပဂုတ်သည် မြတ်စွာဘုရား၏ အသရေတော်ကို ကြည်ညိုလှသဖြင့် မာရ်နတ်အား ကတိပေးထားခဲ့သည်ကို မအောက်မေ့နိုင်ပဲ မြတ်စွာဘုရားအစစ်အား ဖူးမြင်နေရဘိသကဲ့သို့ အောက်မေ့ပြီးလျှင် အနူးအညွတ် ရှိခိုးလေသည်။ ပါလာသမျှသော ရဟန်း၊ မင်း၊ မှူးမတ်ပရိသတ်တို့သည်လည်း အလွန်ဝမ်းမြောက်ဝမ်းသာ ကြည်ညိုစွာဖြင့် ပူဇော်ကန်တော့ကြလေသည်။

ထိုအခါ မာရ်နတ်သည် ဘုရား၏အသွင်ကို ကွယ်စေပြီးလျှင် ရှင်ဥပဂုတ်အား "အဘယ်ကြောင့် ရှိခိုးရသနည်း"ဟု မေးရာ ရှင်ဥပဂုတ်ကလည်း "ငါသည် သင့်အား ရှိမခိုး၊ သာဝကများနှင့်တကွသော မြတ်စွာဘုရားကိုသာ ငါရှိခိုးခြင်းဖြစ်သည်"ဟုဆို၏။ ထိုအခါမှစ၍ မာရ်နတ်သည်လည်း သာသနာ၌ သဒ္ဓါနူးညံ့သော စိတ်ရှိသည်ဖြစ်၍ မိမိနေရာသို့ ပြန်သွားလေသည်။

**ဥပစာစကား။** ။စကားပြောရာ၌ရင်း၊ စာရေးသားရာ၌ရင်း အနက်အဓိပ္ပာယ် ထင်ရှားစေရန် တင်စား၍ ပြောဆို ရေးသားသော စကားကို ဥပစာ စကားဟုခေါ်သည်။ ခိုင်းနှိုင်းပြောဆိုသော စကား၌ နှိုင်းချက်ရှိရသည့်အတူ တင်စားပြောဆိုသော စကား၌လည်း တင်စားချက်ရှိရသည်။တင်စားချက်ရှိသောစကားကိုမှ တင်စားစကား၊ ဥပမာစကားဟု ဆိုထိုက်သည်။ တင်စားခြင်း ဆိုသည်မှာ စကားတခုကို ဝေါဟာရ ပြောရိုး အနက်မှန်၌ မပြောပဲ အနက်မှန်မဟုတ်သော တပါးအနက်၌ ပြောဆိုခြင်းမျိုးဖြစ်သည်။

သဒ္ဒသာရတ္ထဇာလိနီ ကျမ်း၌ ဥပစာစကား ဆယ်ပါးရှိသည်ဟုပြသည်။ ယင်းတို့မှာ(၁)ကာရဏူပစာ(၂) ဖလူပစာ (၃) သဒိသူပစာ (၄) ဌာနူပစာ (၅) ဌာနျူပစာ (၆) ဂုဏူပစာ (၇) ကေဒေသူပစာ (၈) သမီပူပစာ (၉) တဒ္ဓမ္မူပစာ (၁၀) ဘေဒူပစာတို့ ဖြစ်ကြသည်။

(၁) ကာရဏူပစာ ဟူသည်မှာ ပါဠိစကားဖြစ်၍ မြန်မာဘာသာနှင့်ဆိုမူ "အကြောင်းပြော အကျိုးကောက်" ဥပစာဖြစ်သည်။ ဝါကျ၌ အကြောင်းအမည်ကိုသာပြောဆိုသော်လည်း ထိုအကြောင်းနှင့် မကင်းရာ ဖြစ်သော အကျိုး အမည်ကို ကောက်ယူရန် တင်စား ပြောဆိုရေးသားသော စကားမျိုးဖြစ်သည်။ ပုံစံကား "နှုတ်ချို၊ သျှိုတပါး" ဟူသော စကားမျိုး ဖြစ်သည်။ ဤဝါကျ၌ အသား အရေ ဖြစ်သော နှုတ်ခမ်း အနက်ကို မဆိုလို၊ နှုတ်ခမ်းဖြင့် ပြောဆိုသော စကားကိုသာ ဆိုလိုသည်။ နှုတ်ကား စကားသံကို ဖြစ်စေသော အကြောင်းဝတ္ထု၊ စကားသံကား အကျိုးဝတ္ထု၊ နှုတ်နှင့်စကားသံတို့သည် အကြောင်းအကျိုး အားဖြင့် တခုနှင့်တခု မကင်းရာမကင်းကြောင်းဖြစ်ကြသည်။ ဤဝါကျ၌ အကြောင်းဖြစ်သော နှုတ်သဒ္ဒါကို အကျိုးဖြစ်သော စကားအနက်၌ သုံးသောကြောင့် နှုတ်ချိုသျှိုတပါး ဟူသောစကားသည် ဥပစာစကားဖြစ်သည်။

(၂) ဖလူပစာ–ပါဠိ ဘာသာဖြင့် ဖလူပစာ ခေါ်သော ဥပစာစကားကို မြန်မာဘာသာဖြင့် အဓိပ္ပာယ်ကောက်မူ "အကျိုးပြော၊ အကြောင်းကောက်"ဥပစာဟု ခေါ်ရပေမည်။ ဝါကျ၌ အကျိုးအမည်ကိုသာ ပြောဆိုသော်လည်း ထိုအကျိုးနှင့်မကင်းရာဖြစ်သော အကြောင်းကို ကောက်ယူရန် တင်စား ပြောဆိုသော စကားမျိုးဖြစ်သည်။ ပုံစံအားဖြင့်"မခင် ထမင်းချက်သည်" ဟူသော

ဝါကျ၌ မခင်သည် ထမင်းကိုချက်သည်မဟုတ်၊ ထမင်းဖြစ်စေရန် ဆန်ကိုသာ ချက်ခြင်းဖြစ်သည်။ ဆန်ကား အကြောင်း၊ ထမင်းကား အကျိုး ဖြစ်သည်။ အထက်ပါဝါကျ၌ အကျိုးဖြစ်သောထမင်း သဒ္ဒါပါသော်လည်း အနက်ကောက်ရာ၌ ထမင်းကိုဖြစ်စေသော အကြောင်း ဖြစ်သည့် ဆန်ကိုချက်ခြင်းကိုသာ ဆိုလိုခြင်းဖြစ်သည်။ ထို့ကြောင့် ထမင်းသဒ္ဒါသည် ဤဝါကျ၌ အကျိုးပြော အကြောင်းကောက် ဥပစာစကားဖြစ်သည့် ဖလူပစာမည်၏။

(၃) သဒိသူပစာ–သဒိသူပစာသည် ပါဠိ ဘာသာဖြင့် ခေါ်သော ဥပစာစကားတမျိုးဖြစ်၍ မြန်မာဘာသာဖြင့် ဆိုရမူ "အနိုင်းပြော အနိုင်းခံကောက်" ဥပစာဖြစ်သည်။ ဝါကျ၌ အနှိုင်းစကားကိုသာ ဖော်ပြ၍ ယင်းအနှိုင်းအမည်ကို အနှိုင်းခံအနက်၌ တင်စားပြောဆိုသောစကားမျိုးဖြစ်သည်။ ပုံစံအားဖြင့် "သုံးခွင်လုံး မကိုဋ်၊ သုံးတိုက်လုံးမှန်ကူ၊ ကြွတော်မူပါရော့" ဟူသော ဝါကျ၌ မကိုဋ်၊ မှန်ကူတို့ ကြွတော်မူခြင်းမဟုတ် သုံးလောက၏ အထွတ်အထိပ် မကိုဋ်မှန်ကူနှင့် တူသော မြတ်စွာဘုရား ကြွတော်မူသည်ကိုသာ ဆိုလိုရင်းဖြစ်သည်။ မကိုဋ်မှန်ကူကား အနှိုင်းစကား၊ အနှိုင်းဝတ္ထု၊ မြတ်စွာဘုရားကား အနှိုင်းခံစကား၊ အနှိုင်းခံဝတ္ထု ဖြစ်သည်။ အထက်ပါဝါကျ၌ အနှိုင်းခံဝတ္ထုမပါပဲ၊ အနှိုင်းဝတ္ထုကိုသာ ထုတ်ဖော် ပြောဆိုသော်လည်း အနှိုင်းဝတ္ထု ဖြစ်သော မကိုဋ်၊ မှန်ကူကို မြတ်စွာဘုရားကိုယ်စား တင်စားနှိုင်းဆိုပြခြင်း ဖြစ်သဖြင့် အနှိုင်းခံ ဝတ္ထုကိုသာ အဓိပ္ပာယ်ကောက်ယူရသောကြောင့် အနှိုင်းပြော အနှိုင်းခံကောက် ဥပစာစကား (ဝါ) သဒိသူပစာမည်၏။

(၄) ဌာနူပစာ–တည်ရာ အမည်ကိုသာ ဖော်ပြထားသော်လည်း တည်သူကို ကောက်ယူရသော တင်စားစကားမျိုးကို ဌာနူပစာဟု ခေါ်သည်။ မြန်မာအခေါ်ဖြင့်ဟူမူ "တည်ရာပြော တည်သူကောက်" ဥပစာဟုဆိုရပေမည်။ ပုံစံအားဖြင့် "ကန်တော်မင်းကျောင်း၊ မေတ္တာလောင်းမိမ့်" ဟူသောစကား၌ တည်ရာဖြစ်သော ကန်တော်မင်းကျောင်းကို ဖော်ပြထားသော်လည်း အဝိညာဏက အသက်မရှိသောကျောင်းကမေတ္တာလောင်းသည်ဟု ဆိုလိုသည်မဟုတ်၊ ထိုကျောင်းနေ ဘုန်း တော် ကြီး က မေတ္တာလောင်းသည်ကို တည်ရာ ဖြစ်သော ကျောင်း၌ တင်စားဆိုခြင်းသာ ဖြစ်သည်။ ဤတည်ရာကို ပြောသော်လည်း တည်သူကို ကောက်ယူရသောကြောင့် ယင်းစကားကို တည်ရာပြော၊ တည်သူကောက် ဥပစာ (ဝါ) ဌာနူပစာဟု ခေါ်သည်။ ယင်းကို ထွက်ရပ်ပြော ထွက်ရာကောက် ဥပစာဟုလည်း ခေါ်သည်။ ပုံစံအားဖြင့် "ဘန်ကောက်ကို လူကြိုက်များသည်" ဟူသောစကား၌ ဘန်ကောက်မြို့ကို လူကြိုက်သည်ဟု ဆိုလိုသည်မဟုတ်၊ ဘန်ကောက်မြို့မှ ထွက်သော ပိုးပုဆိုးကို လူကြိုက် များသည်ဟု ဆိုလိုခြင်းဖြစ်သည်။ ဤ၌ ထွက်ရပ်ကို ပြောသော်လည်း ထွက်ရာဝတ္ထုကို ကောက်ရသော စကားမျိုးသာ ဖြစ်သည်။

(၅) ဌာနျုပစာ–ဌာနျုပစာဟူသည်မှာ တည်ရာအနက်ကို ကောက်ရန် တည်သူ အမည်သာ ဖော်ပြထားသော တင်စားစကားမျိုးဖြစ်သည်။ မြန်မာ အခေါ်ဖြင့်ဟူမူ"တည်သူပြောတည်ရာကောက်"ဥပစာဟုဆိုရပေမည်။ ပုံစံအားဖြင့် "စူဠဣ ဖြဟ္မဒတ်မင်းသည် ထင်းရေမဝင်ရအောင် ပိတ်လေသည်။" ဆိုရာ၌ ထင်းကို ထမ်းလာသူရေကို ထမ်းလာသူတို့ မဝင်ရအောင် ပိတ်သည်ဟု ဆိုလိုခြင်းသာဖြစ်သည်။ ထင်း၏တည်ရာ ထင်းထမ်းလာသူကို ဆိုလိုလျက်၊ ရေ၏တည်ရာ ရေထမ်းလာသူ ဆိုလိုလျက် တည်သူ ထင်းနှင့်ရေကိုသာ ဤ၌ ပြောဆိုခြင်းမှာ ဌာနျုပစာစကားဖြစ်သည်။ တည်သူပြောလျက် တည်ရာကို ကောက်ရသော ဥပစာစကားဟူလိုသည်။

(၆) ဂုဏူပစာ–ဝတ္ထုဒြပ် တခုခုကို ပြောလိုသည့်အခါ ယင်းဝတ္ထု၏ဂုဏ်ဒြပ်ကိုသာ ပြော၍ ထိုဂုဏ်၏ဝတ္ထုဒြပ်ကိုကောက်ယူရသောစကားကို"ဂုဏ်ပြောဒြပ်ကောက်" ဥပစာ၊ သို့မဟုတ် ဂုဏူပစာဟု ခေါ်သည်။ ပုံစံအားဖြင့် ပေါ်နွေလလျှင် ချီရတုတွင် "စိမ်းဝါမိုးပန်း၊ထွေထွေစွန်းက၊ ရေသွန်းသာကြည်၊ ပျော်ရမည်ကို"ဆိုရာတွင် စိမ်း၊ ဝါသဒ္ဒါသည် စိမ်းဝါသောအဆင်းတည်းဟူသောဂုဏ်ကိုအကြောင်းပဝတ္တိနိမိတ်ပြု၍ ပန်းဒြပ်ကို ဟောသောကြောင့် ဂုဏူပစာဖြစ်သည်။

သို့ရာတွင် အကယ်စိမ်း အကယ်ဝါသော ဝတ္ထုပစ္စည်းကို စိမ်းသည် ဝါသည်ဟု ဆိုခြင်းသည် တင်စား ဆိုခြင်း မဟုတ်၊ အနက်မှန်စကားသာ ဖြစ်သည်။ထို့ကြောင့် ဥပစာစကားဟု ယူခြင်းသည် မသင့်လျော်ဟု အချို့ ပညာရှင်များက ကောက်ချက်ချကြသည်။

(၇) ဧကဒေသူပစာ– ဧကဒေသူပစာ ဟူသည်မှာ အပေါင်း ဖြစ်သော ဒြပ်၏ အမည်ကို အစိတ်ဖြစ်သော ဒြပ်၌ တင်စားခေါ်ဝေါ်ခြင်းဖြစ်သည်။ ဝါကျတခု၌ အစုအပေါင်းအမည်ကို ဖော်ပြပြောဆိုထားသော်လည်း ပြောသည့်အတိုင်း အပေါင်းကို ကောက်ယူရသည် မဟုတ်ပဲ အစိတ် အပိုင်း ကိုသာ အဓိပ္ပာယ် ကောက်ယူ ရသော "အပေါင်းပြော အစိတ်ကောက်" ဥပစာမျိုး ဖြစ်သည်။ ပုံစံအားဖြင့် "ဟိမဝန္တာတောင်ကိုကျွန်ုပ်မြင်သည်"ဆိုရာ၌ ဟိမဝန္တာတောင်ဟူသည် အလွန်ကြီးမား ကျယ်ပြန့်သဖြင့် တတောင်လုံးကို မြင်နိုင်စွမ်းသည်မဟုတ်၊ တစိတ်တဒေသကိုသာ မြင်ခြင်း ဖြစ်သည်။ သို့ရာတွင် တတောင်လုံးကို တင်စား၍ ဆိုထားသဖြင့် ဤ၌ အပေါင်းကို ပြောသော်

လည်း တစိတ်တပိုင်းကို မြင်ရသည်ဟု အနက်ကောက်ရသည်။

(၈) သမီပူပစာ–ဆိုလိုသောအရာဝတ္ထုဒေသစသည်တို့၏ အနီး၌ ရှိသော ထင်ရှားရာ အရာဝတ္ထုဒေသ စသည်ကို ဖော်ပြပြောဆိုသော်လည်း ယင်းထင်ရှားရာကို တိုက်ရိုက်ယူရသည်မဟုတ်၊ ယင်း၏ အနီး၌ရှိသော အရာဝတ္ထုဒေသစသည်ကိုသာ ယူရန် တင်စား၍ပြောဆိုသော ဥပစာစကားကို သမီပူပစာဟု ပါဠိ ဘာသာဖြင့် ခေါ်သည်။ မြန်မာဘာသာဖြင့် အတိုဆိုရမူ "ထင်ရှားရာပြော နီးရာကောက်" ဥပစာဟု ဖြစ်သည်။ အချို့ကလည်း "အနီးပြော တည်ရာကောက်" ဥပစာဟု ခေါ်ကြသည်။ ပုံစံအားဖြင့် "ရွှေကျင်မြို့၌ဆေးစိုက်သည်" ဆိုရာတွင် ရွှေကျင်မြို့တွင်း၌ ဆေးစိုက်ရိုးမဟုတ်သောကြောင့် ယင်းမြို့အနီးဝန်းကျင်၌ စိုက်သည်ဟုအနက်ကောက်ရသည်။ ထို့ကြောင့် ရွှေကျင်မြို့သဒ္ဒါသည် ထင်ရှားရာပြော နီးရာကောက် ဥပစာစကားဖြစ်သည်။

(၉) တဒ္ဓမ္မူပစာ–တကယ်ဟုတ်၊တကယ်ရှိ၊တကယ်ဖြစ်သောအရာကို တကယ်မဟုတ်၊ တကယ်မရှိ၊ တကယ်မဖြစ်သောအရာ၌ တင်စား၍ ဟုတ်လေဟန်၊ ရှိလေဟန်ပြောသည်ကို မဟုတ်၊ မရှိ၊ မဖြစ်ဟု အနက် ကောက်ရသော ဥပစာစကားမျိုးကို တဒ္ဓမ္မူပစာဟု ပါဠိဘာသာဖြင့် ခေါ်သည်။ မြန်မာလို အကျဉ်းဆိုမူ "ဟုတ်ဟန်ပြော၊ မဟုတ်ကောက်" ဥပစာ၊ သို့မဟုတ် "အရှိပြော မရှိကောက်" ဥပစာဟု ခေါ်သည်။ ပုံစံအားဖြင့် "ယုန်ချို၊ လိပ်မွေး၊ ဖုဇ္ဇန်သွေး ပါသော ဆေးကို စားလျှင် သင့်ရောဂါ ပျောက်လိမ့်မည်" ဟူသောစကား၌ ဆိတ်နွားတို့၌ ဦးချိုရှိသဖြင့် ယုန်၌လည်း ဦးချိုရှိလေဟန်ဆိုသော်လည်း ယုန်၌ ဦးချိုမရှိသည့် အနက်ကိုသာ ကောက်ယူရသောကြောင့် ယင်းစကားကို ဟုတ်ဟန်ပြော၊ မဟုတ်ကောက်၊ သို့မဟုတ် အရှိပြော မရှိကောက်ဥပစာ(ဝါ)တဒ္ဓမ္မူပစာဟု ခေါ်သည်။ လိပ်မွေး၊ ဖုဇ္ဇန်သွေးဟူသောစကားများသည်လည်း ထိုနည်းအတိုင်းပင် ဖြစ်သည်။ လိပ်တွင် အမွေးမရှိသည်ကို ရှိသကဲ့သို့၎င်း၊ ဖုဇ္ဇန်တွင် သွေးမရှိသည်ကို ရှိသကဲ့သို့၎င်း တင်စား ဖော်ပြထားခြင်း ဖြစ်သဖြင့် တဒ္ဓမ္မူပစာစကားများပင် ဖြစ်သည်။

(၁၀) ဘေဒူပစာ–ပါဠိ၌ ဘေဒူပစာကို အဘေဒဘေဒူပစာဟုလည်း ခေါ်သည်။ မကွဲပြားသော အရာဝတ္ထုကို ကွဲပြားလေဟန် ပြောသော်လည်း ကွဲပြားခြင်းမရှိဟုသိရ၊ အနက်ကောက်ရသော စကားမျိုး ဖြစ်သည်။ မြန်မာလို အတိုဆိုရသော် "ကွဲဟန်ပြော မကွဲကောက်" (ဝါ) "အကွဲပြော မကွဲကောက်" ဥပစာဟု ဆိုရပေမည်။ ပုံစံအားဖြင့် ငါ၏ကိုယ်ဟူသောစကား၌ ငါဟူသည် တဦး၊ ကိုယ်ဟူသည် တဦးကဲ့သို့ ကွဲပြားလေဟန် ဖြစ်နေသော်လည်း ငါသည်လည်းကိုယ်၊ ကိုယ်သည်လည်းငါပင်ဖြစ်သောကြောင့် ကွဲပြားခြင်းမရှိဟု သိရ အဓိပ္ပာယ်ရသည်။ ဤသို့ မကွဲပြားသည်ကို ကွဲပြားသကဲ့သို့ ပြောခြင်းသည် ကွဲဟန်ပြော မကွဲကောက် (ဝါ) ဘေဒူပ မည်သည်။

အထက်ပါ ဥပစာစကား ဆယ်ပါးသည် ယေဘုယျအားဖြင့် အများသိနေကြသော ဥပစာများ ဖြစ်ကြသည်။ သို့ရာတွင် ပုဒ်စစ်ကျမ်း၌ ဂုဏူပစာကို ထည့်၍မဆို။ သမုဒါယူပစာကိုသာ ထည့်၍ ဥပစာ ဆယ်ပါးပြသည်။

သမုဒါယူပစာ ဆိုသည်မှာ အပေါင်း အဓိပ္ပာယ်ကောက်ယူစေလို၍ အစိတ်ကိုပြောသော ဥပစာစကားမျိုး ဖြစ်သည်။ ပုံစံအားဖြင့် "ရောင်နောက် ဆံထုံးပါ" ဟူသောစကား၌ ရောင်ကား ယောကျ်ား တကိုယ်လုံး၏ အစိတ်အပိုင်းတခုသာ ဖြစ်သကဲ့သို့ ဆံထုံး သည်လည်း မိန်းမတကိုယ်လုံး၏ အစိတ် အပိုင်းသာ ဖြစ်သော်လည်း အနက်အဓိပ္ပာယ်အားဖြင့် ယောကျ်ားနောက် မိန်းမပါရသည်ဟု ပေါင်း၍ကောက်ယူရခြင်းမျိုး ဖြစ်သည်။

မောဂ္ဂလာနပဉ္စိကာကျမ်း၌ အထက်ပါ ဥပစာ ဆယ်ပါးအပြင် ဥပမေယျူပစာ၊ တဗ္ဗဟုလ္လူပစာ၊ သမ္မန္ဓူပစာ ဟူ၍ ဥပစာ သုံးပါးပါထည့်၍ ဥပစာ ၁၃ ပါးဟုပြသည်။ ယင်း ၁၃ ပါးသည် ပါဠိဘာသာစကား၌ တင်စားပြောဆိုပုံ ဖြစ်သည်။

ဥပမေယျူပစာသည် အနှိုင်းခံကို အနှိုင်းနှင့် ထပ်တူပြု၍ တင်စားကာ ဆိုသော စကားမျိုး ဖြစ်သည်။ ပုံစံအားဖြင့် "ဒေါသမြွေဟောက်၊ ပြင်းဆိတ်တောက်" ဟူသောစကားမျိုး ဖြစ်သည်။ ဒေါသအမျက်၏ ပြင်းထန်ခြင်း၊ သတ်ညှဉ်းဆဲတတ်ခြင်းကို မြွေဟောက်၏ အဆိပ်ထန်ခြင်း၊ သတ်ညှဉ်းဆဲတတ်ခြင်းနှင့် ထပ်တူ အနှိုင်းပြု၍ တင်စားပြောဆိုထားခြင်း ဖြစ်သည်။

တဗ္ဗဟုလ္လူပစာ ဟူသည်မှာ များရာကိုပြောသော်လည်း တပါးအရာတို့လည်း အနည်းငယ်ပါဝင်သေးသည်ဟု ကောက်ယူ ရသော "များရာပြော အနည်းပါကောက်" ဥပစာ စကားမျိုး ဖြစ်သည်။ ပုံစံ အားဖြင့် "အစိုးရကရှားတောကို ကြိုးဝိုင်းထားသောကြောင့် ရွာသားတို့ ရှားမချက်နိုင်" ဟူသော စကား၌ ရှားတောဆိုသော်လည်း ရှားပင်ချည့် ရှိသည်မဟုတ်၊ အခြားအပင်မျိုး အနည်းငယ်လည်း ပါဝင်သေးသည်ဟု သိအပ်ကောက်ယူအပ်သကဲ့သို့ ဖြစ်သည်။ များရာကိုစွဲ၍ ပြောဆိုသော ဥပစာစကားမျိုး ဖြစ်သည်။

သမ္မန္ဓူပစာမှကား ပါဠိဘာသာစကား၌သာသုံးလေ့ရှိ၍မြန်မာဥပစာမဟုတ်ဟူ၍ မြန်မာစာတွင်ပယ်ထားသည်။

ဥပစာဆိုနည်းသည် စကားကို ခြုံဆိုသောနည်းဖြစ်သောကြောင့် စကားချဉ်းခြင်း၊ ကျုံ့ခြင်း အကျိုးရှိ၏။ စာစီကုံးနည်း တို့တွင် စကားကျုံ့စီကုံးနည်း တမျိုးပင်ဖြစ်၏။ ဖြစ်ရိုးဖြစ်စဉ်အတိုင်း ဖြောင့်ဖြောင့်ပြောဆိုသော စကားမျိုးမဟုတ်၊ ဆန်းကျင်သော စကားမျိုး ဖြစ်သော်လည်း ဖြစ်ရိုးဆန့်ကျင်အဖြစ် ဖြစ်သည့် ဝိရောဓိ ဒေါသမှ ကင်းလွတ်သည့်အပြင် တင်စားဆိုနည်း ဖြစ်သောကြောင့် သမာဓိဂုဏ်မြောက်သည်ဟု အလင်္ကာကျမ်းဆရာတို့ မိန့်ဆိုကြသည်။

**ဥပဒေ။** ။ဥပဒေ ဆိုသည်မှာ လူတို့ အချင်းချင်း ဆက်ဆံပေါင်းသင်းရာ၌ တရားမျှတခြင်း ရှိစေရန်နှင့် အကွပ်အကဲ အထိန်းအကျောင်းသဖွယ် ဖြစ်စေရန် အုပ်စိုးသူ အစိုးရတို့က သတ်မှတ်ပြဋ္ဌာန်းထားသော စည်းကမ်းစုပင် ဖြစ်သည်။

မည်သည့် အမှုအကျင့်သည် ကောင်းသည်၊ မည်သည့် အမှုအကျင့်သည် မကောင်း ဟူ၍ အများက ယူဆထင်မြင်သော စည်းကမ်းချက်များကို စုပေါင်း၍ အာဏာပိုင် အစိုးရတို့က ပြည်သူအများ လိုက်နာကျင့်သုံးရန် ပြဋ္ဌာန်းထားသည်တို့ကို ဥပဒေ ဟုခေါ်သည်။

ကမ္ဘာလောကကြီးတွင် တရားဥပဒေသာ မရှိပါက လူတို့၏ နေရေးထိုင်ရေးသည် ဘေးအန္တရာယ် ကင်းရှင်းမည် မဟုတ်ချေ။ လုံခြုံမှု ငြိမ်ဝပ်ပိပြားမှု များလည်း ရှိတော့မည် မဟုတ်ချေ။ တရားဥပဒေသည် နိုင်ငံတခု တည်မြဲရေးတွင် အခရာ ဖြစ်သည်။ ဥပဒေ မရှိသော နိုင်ငံတွင် တည်မြဲသော အစိုးရ မရှိနိုင်ချေ။

ယဉ်ကျေးသော နိုင်ငံတိုင်းတွင် မိမိနိုင်ငံနှင့် သင့်တင့်လျောက်ပတ်သော ဥပဒေများကို အများသဘောတူ ပြဋ္ဌာန်းထားကြသည်။ ဥပဒေကို ဖောက်ဖျက်သူများအား အထိုက်အလျောက် အပြစ်ဒဏ် ပေးကြရလေသည်။

ယဉ်ကျေးမှု မပြည့်စုံသေးမီ ရှေးခေတ်က လူများသည် မိမိတို့ နေထိုင်သော အဖွဲ့အစည်းတွင် လူအများ လိုက်နာကျင့်သုံးရန် စည်းကမ်းများ ဥပဒေများကို သတ်မှတ်ထားခြင်း မရှိချေ။ သို့ရာတွင် နှစ်ကာလကြာမြင့်သော်၊ လူတို့၏ နေရေးထိုင်ရေး၊ သာယာမှု၊ ငြိမ်းချမ်းမှုအတွက် အိမ်နားနီးချင်းများသည် တဦး၏အလိုကို တဦးက လေးစားရန် လိုအပ်ကြောင်းကို သိလာကြသည်။ ဤသို့အားဖြင့် ဓလေ့ထုံးစံများ ပေါ်လာသည်။ သို့ရာတွင် ဓလေ့ထုံးစံများမှာ ပုံသေမဟုတ်၊ ရေးမှတ်ထားခြင်းလည်း မရှိ၊ ယင်းတို့ကို အမြဲတမ်းလည်း မလိုက်နာကြချေ။ ဓလေ့ထုံးစံများကို မလိုက်နာသူများအား ကဲ့ရဲ့ သင်္ဂြိုဟ်ခြင်း၊ အပေါင်းအသင်းအဖြစ်မှ ရပ်စဲခြင်းကိုသာ ပြုလုပ်၍ မအောင်မြင်သောအခါမှသာလျှင် အုပ်ချုပ်သူ အစိုးရများက ဝင်ရောက်စွက်ဖက်၍ လူများလိုက်နာရန် ဥပဒေများကို ပြဋ္ဌာန်းပေးလေတော့သည်။

ယခုအခါတွင် ဥပဒေ ဆိုသည်မှာ လူများ လိုက်နာကျင့်သုံးရန်အတွက် အာဏာပိုင်များက ပြဋ္ဌာန်းထားသော စည်းကမ်းများဖြစ်သည် ဟု ယေဘုယျ အားဖြင့် နားလည်ကြသည်။ ဥပဒေ ဟု ဆိုရာ၌ ဥပဒေ အမျိုးမျိုး ရှိသည်ကို သတိထားသင့်သည်။ ရှေးဟောင်းရောမဥပဒေ၊ အင်္ဂလိပ်မိရိုးဖလာဥပဒေ၊ ဥပဒေပြုလွှတ်တော်မှ ပြဋ္ဌာန်းလိုက်သော ဥပဒေ (ဝါ) အက်ဥပဒေ၊ အယူဝါဒဆိုင်ရာ ဥပဒေ၊ အက်ကွိတီ ခေါ် သာတူညီမျှ ဥပဒေ စသည်ဖြင့် ခြားနားလေသည်။

ယခု ကျွန်ုပ်တို့ လက်ထက်တိုင်အောင် တည်ရှိနေသော ဥပဒေများထဲတွင် ရှေးအကျဆုံးသော ဥပဒေမှာ ဘီစီ ၂၁၀၀ ခန့်တွင် နန်းစံခဲ့သော ဗက်ဗီလုံးနီးယား ပြည့်ရှင် ဟမ္မူရာဗီ ပြုလုပ်ခဲ့သော ဥပဒေများ ဖြစ်သည်။

ဟမ္မူရာဗီဘုရင်သည် ရှေးသူဟောင်းတို့ပြုထားခဲ့သော ဥပဒေအမျိုးမျိုးကို စုပေါင်းပြီးလျှင် မိမိဉာဏ်နှင့် ဖြည့်သွင်းသင့်သော ဥပဒေများကို ထပ်လောင်းဖြည့်သွင်းကာ ဥပဒေသစ်ကို ပြု၏။ ဥပဒေများကို အရှည်သဖြင့် တည်တံ့ရန် ရှစ်ပေခန့် မြင့်သော ကျောက်တုံးကြီးတွင် စာကြောင်းရေပေါင်း သုံးထောင့်ခြောက်ရာခန့် ထွင်းထားခဲ့၏။ ဥပဒေတွင် မုဆိုးမများ၊ မိဖမဲ့ကလေးများ၊ ဆင်းရဲသားများကိုလည်း နှိပ်စက်ညှဉ်းပန်းခြင်း မပြုနိုင်ရန် အထူးထည့်သွင်းပြုစုသည်။ လက်ထပ်ရေး ဥပဒေများကိုလည်း အသေအချာ စီစဉ်၏။ မိန်းမများကို အခွင့်အရေးများစွာ ပေးသည်။ မိန်းမများအား ကိုယ်ပိုင် ရောင်းဝယ်ရေး အလုပ်ကို လုပ်ခွင့်ပြုသည်။ လင်နှင့်မယား၊ဆရာနှင့်တပည့်၊ သခင်နှင့်ကျွန်၊ မြေပိုင်ရှင်နှင့် မြေငှါး စသောသူတို့၏ ပေါင်းသင်း ဆက်ဆံရေး တာဝန်ဝတ်တရားများကို အစုံအလင် ညွှန်ကြားထားလေသည်။

ရောမဥပဒေသည် ဥရောပ ဥပဒေစံနစ် နှစ်မျိုးတွင် တမျိုး အပါအဝင်ဖြစ်သည်။ ကျန်တမျိုးမှာ အင်္ဂလိပ် ဥပဒေစံနစ် ဖြစ်သည်။ ရောမလူမျိုးများသည် အုပ်ချုပ်ရေးတွင် အလွန်ကျွမ်းကျင်သူများ ဖြစ်ခဲ့ကြသည့် အားလျော်စွာ နှစ်ရှည်လများ တည်ရှိခဲ့သော ဓလေ့ထုံးစံများ ပေါ်တွင် အခြေခံထား၍ ဥပဒေများကို ပြုစုခဲ့ကြသည်။ ရောမ သမတနိုင်ငံလက်ထက်တွင် ဥပဒေများ စတင်ပေါ်ပေါက်၍ ရောမနိုင်ငံတော် ဖြစ်လာသောအခါ ထွန်းကားလာလေရာ၊ ၁၄၅၃ ခုနှစ်တိုင်အောင်ပင် ဖြစ်တော့သည်။ ချွတ်ယွင်းသော ဥပဒေများကို ပြင်ဆင်ခြင်း၊ တရားစီရင်ချက်များနှင့် ဥပဒေပြုအဖွဲ့မှ ဥပဒေသစ်များကို ပြုလုပ်

ခြင်းများဖြင့် ရောမဥပဒေစံနစ်ကို ခိုင်မြဲအောင် တည်ဆောက်ကြသည်။ ဘီစီ ၄၅၀ ပြည့်နှစ်တွင် ရောမနိုင်ငံ ဓမ္မသတ် ၁၂ စောင်တွဲကို ပဌမဆုံးအကြိမ် ဥပဒေများအဖြစ် စံနစ်တကျ ပြုလုပ်သည်။ အေဒီ ၅၂၈–၅၃၄ ခုနှစ်များတွင် စိုးစံခဲ့သော ရောမ ကေရာဇ်ဘုရင် ဂျပ်စတင်းနီးယန်း လက်ထက်တွင်ကား ရောမနိုင်ငံရှိ ဥပဒေ ဟူသမျှကို ညှိနှိုင်းပြုစုတည်းဖြတ်ရန် ကော်မရှင်အဖွဲ့တခု ခန့်အပ်သည်။ ထိုကော်မရှင်က ရောမနိုင်ငံ ဓမ္မသတ် ၁၂ စောင်တွဲကိုရင်း၊ ရောမနိုင်ငံ ရှေးနေရှေးရပ်၊ ခုံသမာဓိ တရားသူကြီးတို့၏ ဖြတ်ထုံးသခေ်ပကျမ်းကိုရင်း၊ ဥပဒေလေ့လာသူ စာသင်သားတို့အတွက် ဥပဒေပေါင်းချုပ်ကိုရင်း ပြုစုစီရင်သည်။ ယင်းကျမ်းစုကို ကော်ပပ် ဂျူးရစ် စီဗီလစ် ဟုခေါ်၍ အဓိပ္ပာယ်အားဖြင့် ဓမ္မသတ်ပေါင်းချုပ်ပင် ဖြစ်သည်။ ယခုခေတ်မှီ နိုင်ငံတို့၏ တရားဥပဒေများမှာ ယင်းရောမ ဓမ္မသတ်ပေါင်းချုပ်ကို မှီ၍ ပြုသော ဥပဒေများ ဖြစ်သည်။

ယင်း၏ ထူးခြားသော ဂုဏ်အင်္ဂါတရပ်မှာ နိုင်ငံချင်းချင်း ဆက်သွယ်သော ဥပဒေစံနစ် ပါရှိခြင်းဖြစ်သည်။နိုင်ငံသမိုင်း အလယ်ခေတ်နောက်ပိုင်း ဖြစ်သော နှစ်များတွင် ရောမဥပဒေကို ဥရောပတိုက် တက္ကသိုလ် ကျောင်းများ၌ သင်ကြားပို့ချလေသည်။ အင်္ဂလန်ပြည်မှတပါး အနောက်ဥရောပတိုက်ရှိ လူမျိုးများ၏ ဥပဒေများမှာ ရောမဥပဒေ၏ အငွေ့အသက်မှ ကင်းလွတ်ခြင်းမရှိကြချေ။

**အင်္ဂလိပ်ဥပဒေ**

ဥရောပတိုက် ဥပဒေ စံနစ်နှစ်မျိုးတွင် တမျိုး အပါအဝင်ဖြစ်သော အင်္ဂလိပ်ဥပဒေစံနစ်သည် ယခုအခါတွင် အမေရိကန်ပြည်ထောင်စု၊ ကနေဒါ၊ သြစတြေးလီးယားနှင့် နယူးဇီလန်နိုင်ငံများ၌ ပျံ့နှံ့နေလေပြီ။ အိန္ဒိယဥပဒေများမှာလည်း အင်္ဂလိပ်ဥပဒေများ၏ ပုံသွင်းခြင်းကို ခံယူခဲ့ရလေသည်။ အင်္ဂလိပ်ပိုင်နက် အိန္ဒိယနိုင်ငံ၏ နယ်တနယ်အဖြစ် ရောက်ရှိခဲ့သော မြန်မာနိုင်ငံ၌လည်း အင်္ဂလိပ်ဥပဒေ အငွေ့အသက် မကင်းခဲ့ချေ။

အင်္ဂလန်ပြည်ကို နော်မန်လူမျိုးများ ဝင်ရောက်မတိုက်ခိုက်ခင်ကပင် အင်္ဂလန်ရှိ ခရိုင်တိုင်း၊ မြို့တိုင်း၊ မြို့နယ်တိုင်းတွင် ဓလေ့ထုံးစံများပေါ်၌ အခြေခံထားသော ဥပဒေများကို ကျင့်သုံးလိုက်နာလျက်ရှိသည်။ နော်မန်လူမျိုးတို့ သိမ်းပိုက်ပြီးနောက်တွင်ကား ဘုရင်မင်းမြတ်က ခန့်ထားသော တရားသူကြီးများသည် တနေရာမှတနေရာသို့ ရွှေပြောင်းလှည့်လည်ကာ ဒေသဆိုင်ရာ ဥပဒေများ အရ တရားစီရင်ကြသည်။ သို့ဖြင့် တဖြည်းဖြည်း လူအများ နှစ်သက်ဆာကို လိုက်နာသော ထုံးစံကွယ်ပျောက်၍ တရားသူကြီး၏ ဆုံးဖြတ်ချက်ကို လိုက်နာသော ထုံးစံ ရောက်လာသည်။ နှစ်ကာလ ကြာမြင့်သောအခါ၊ ယခင် တရားသူကြီးများ၏ ဆုံးဖြတ်ချက်များကို နောက်တရားသူကြီးများက ပြင်ဆင်သရွေ့ ပြင်ဆင်ပြီးလျှင် ကွန်မွန်းလော ခေါ် နိုင်ငံလုံးဆိုင်ရာ အများသုံးဥပဒေ ဟုအသိအမှတ် ပြုလေသည်။

အင်္ဂလိပ်ဥပဒေစံနစ်တွင် အက်ကွိတီ ခေါ် သာတူညီမျှဥပဒေဟု ဥပဒေတမျိုး ရှိလေသည်။တခါတရံ ရိုးရိုးဥပဒေအရ တသွေမတိမ်း လိုက်နာဆောင်ရွက်ပါက မတရားမှုများ ဖြစ်တတ်လေသည်။ ထိုအခါ သာတူညီမျှ ဥပဒေနှင့် ညှိနှိုင်းဆုံးဖြတ်မှ နှစ်ဦးနှစ်ဖက် ညီမျှမှု ရရှိလေသည်။ ၁၇၇၃ ခုနှစ်တိုင်အောင် အင်္ဂလိပ် အက်ကွိတီတရားဥပဒေခုံရုံးဟူ၍ သီးသန့်ထားရှိခဲ့သည်။ အက်ကွိတီ ခုံသမာဓိရုံးသည် ထိုစဉ်က တရားရေးဝန်ကြီး၏ လက်အောက်ခံဖြစ်သည်။

အထက်ပါ ဥပဒေများအပြင် ဥပဒေပြုလွှတ်တော်မှ ပြဋ္ဌာန်းအတည်ပြုလိုက်သော ဥပဒေသစ်များလည်း ရှိပေသေးသည်။ အများသုံး ဥပဒေများ၊ သို့မဟုတ် စီရင်ချက်များပေါ်တွင် အခြေခံထားသော ဥပဒေများကို မသုံးစွဲနိုင်သော အခြေအနေများ ဖြစ်ပေါ်လာသောအခါ ဥပဒေပြုလွှတ်တော်များ ဖြစ်သော ပါလီမန်၊ကွန်ဂရက်နှင့် ဥပဒေပြုအဖွဲ့များမှ ဥပဒေအသစ်များကို ပြဋ္ဌာန်းပေးလေသည်။

ထို့ပြင် တရားမဥပဒေနှင့် ရာဇဝတ်ဥပဒေ ဟူသော ဥပဒေနှစ်မျိုးကို အသိအမှတ် ပြုလာကြသည်။ တရားမဥပဒေသည် လူများ၏ အခွင့်အရေးများကို ဖော်ပြထားသည်။ အခွင့်အရေးများကို မည်ကဲ့သို့ စောင့်ထိန်းရမည်၊ ဆုံးပါးလက်လွှတ်သွားပါက မည်ကဲ့သို့ ပြန်လည် ရယူရမည်ကို နည်းလမ်းပြထားသည်။ ရာဇဝတ် ဥပဒေမှာမူကား ပြည်သူ့အကျိုး၊ လူတဦးတယောက်၏အကျိုးနှင့် ဆန့်ကျင်သော အပြုအမူများကို တားမြစ်သည်။ အရေးယူသည်။ ပြစ်မှုကျူးလွန်သူများကို အပြစ်ပေးသည်။

အထက်ပါ ဥပဒေများမှာ မြို့ပြဆိုင်ရာ ဥပဒေများဖြစ်ကြသည်။ စစ်ဖက်ဆိုင်ရာ အဖွဲ့အစည်း များကို အုပ်ချုပ်ရန်အတွက် စစ်ဖက်ဆိုင်ရာ ဥပဒေ များလည်း ရှိသေးသည်။ မာရှယ်လော ခေါ် စစ်ဥပဒေမှာကား နိုင်ငံတွင် အရေးတကြီး အခြေအနေများ ပေါ်ပေါက်မှသာ အသုံးပြုရသည်။ ပမာအားဖြင့် နိုင်ငံခြားမှ လာရောက်တိုက်ခိုက်သည့်အခါ၊ သူပုန်ထသည့်အခါ၊ ပြည်တွင်းဆူပူသောင်းကျန်းမှုများရှိသည့် အခါများတွင် စစ်ဥပဒေကို ထုတ်ပြန်ရသည်။

ယဉ်ကျေးသော ကမ္ဘာကြီးတွင် ဥပဒေနယ်ပယ်မှာ အလွန်တရာ ကျယ်ပြန့်လှပေသည်။ အလယ်ခေတ်အတွင်း အယူဝါဒဆိုင်ရာ ကိစ္စများကို ဆုံးဖြတ်ရန် အယူဝါဒဆိုင်ရာ ဥပဒေများ ပေါ်ပေါက်လာသည်။ သာသနာရေး ရုံးများတွင် ပုပ်ရဟန်းမင်းကြီးများက ကြီးမှူး၍ အယူဝါဒဆိုင်ရာ

ကိစ္စများကို စီရင်ဆုံးဖြတ်သည်။ မကြာခဏပင် သာသနာ ရေးရုံးများနှင့် အစိုးရရုံးများသည် မိမိတို့၏ စီရင်ပိုင်ခွင့် နယ်ပယ်နှင့်စပ်လျဉ်း၍ အငြင်းပွားကြသည်။အသစ်ဖွဲ့စည်း ထားသော အယူဝါဒဆိုင်ရာ ဥပဒေများမှာ ရောမကက် သလစ်ဂိုဏ်း၏ သာမန်စည်းကမ်းသေဝပ်မှုဆိုင်ရာ ဥပဒေ များကို စုပေါင်းထားခြင်း ဖြစ်လေသည်။

အဆိုပါ ဥပဒေများအပြင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေနှင့် ပါလီမန်ဆိုင်ရာ ဥပဒေများလည်း ရှိပေသေး သည်။ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံသည် နိုင်ငံ၊သို့မဟုတ် လူမျိုး၏ အခြေခံဥပဒေပင် ဖြစ်သည်။ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ မည်ကဲ့သို့သောအစိုးရမျိုး တည်ထောင် ထားကြောင်းကို ယေဘုယျအားဖြင့် သိသာနိုင်လေသည်။ ပါလီမန်ဆိုင်ရာ ဥပဒေမှာကား စင်စစ်အားဖြင့် ဥပဒေ မဟုတ်ချေ။ ပါလီမန်အတွင်း အခြေအတင်ပြောဆိုကြရာ တွင် လိုက်နာရန် ကျင့်ထုံးများကို စည်းကမ်းသတ်မှတ် ပေးသည့် နည်းဥပဒေများသာ ဖြစ်လေသည်။

**ဥပသမ္ပဒါကံဆောင်ခြင်း။** ။ပဗ္ဗဇ္ဇမင်္ဂလာ — ရှု။

**ဥပါလိထေရ်။** ။ဥပါလိထေရ်ကား ဂေါတမမြတ်စွာ ဘုရားလက်ထက်တော်တွင် ထင်ရှားသော ဧတဒဂ်ရမထေရ် ကြီးတပါးဖြစ်၍ ပဌမသာဝကကြီးလည်း ဖြစ်ပေသည်။

ဥပါလိသည် ငယ်စဉ်က မထင်ရှားသော ဆတ္တာသည် မိဖတို့၏သား ဖြစ်၍၊ ဆတ္တာသည်အဖြစ်ဖြင့်ပင် အသက် မွေးသည်။ သာကီဝင်မင်းသားများထံတွင် ဆံပင်ပြုပြင် ခြင်းကိစ္စကို ဆောင်ရွက်ရသည်။ နောင်အခါသော် အနု ရုဒ္ဓါ၊ အာနန္ဒာ၊ ဘဒ္ဒိယ၊ ကိမိလ၊ ဘဂု၊ ဒေဝဒတ် တည်း ဟူသော သာကီဝင်မင်းသား ခြောက်ပါးနှင့်အတူ တော ထွက်ရာသို့ လိုက်ပါလေသည်။

တောအုပ်ကြီးတခု အတွင်းသို့ ရောက်သောအခါ မင်းသားတို့က ဝတ်စားဆင်ယင်သော တန်ဆာရတနာ တို့ကို ဥပါလိအားပေး၍ ထိုဥစ္စာများဖြင့် အသက်မွေးလော့ ဟု ပြန်၍လွှတ်ကာ မိမိတို့မူ ရဟန်းပြုရန် ဆက်လက်သွား ကြသည်။ ထိုအခါ ဥပါလိသည် မင်းသားတို့နှင့်အတူ လိုက်ပါလိုကြောင်း တောင်းပန်သော်လည်း မင်းသားတို့က ပြန်ခိုင်း၍ ပြန်ခဲ့ရသည်။

လမ်းသို့ ရောက်သောအခါ ဤဆတ္တာသည်သည် မင်းသားတို့ကို သတ်၍ ဆင်အပ်သော တန်ဆာများကို ဆောင်၍လာသည် ဟု ထင်မှတ်ပြီးလျှင် မိမိအား သတ် မည်ကို စိုးရိမ်သည့်အပြင် စည်းစိမ်ချမ်းသာ ကြီးကျယ်စွာ သော သာကီဝင်မင်းသားတို့ပင်လျှင် ရဟန်းပြုနိုင်ပါလျက် မိမိသည် ကျေးကျွန်မျှသာ ဖြစ်၍ အဘယ်ကြောင့် ရဟန်း မပြုနိုင်ရှိအံ့နည်း၊ ဤဥစ္စာတို့ကို မခင်တွယ်တော့ ဟု သစ်ပင် တွင် ဆွဲချိတ်ကာ မင်းသားတို့၏ထံသို့လိုက်ပါ၍ အကြောင်း စုံကို ပြောပြသည်။ ထိုနောက် မင်းသားတို့နှင့်အတူ မြတ်စွာဘုရားထံသို့ သွား၍ရဟန်းပြုသည်။

သာကီဝင်မင်းသားတို့သည် အမျိုးကိုစွဲသည့်ဇာတိမာန် ပြင်းပြလေရကား ၊ ထိုဇာတိမာန်ကို ချိုးနှိမ်နိုင်စေရန် ဥပါလိကိုပင် ရှေးဦးစွာ ရဟန်းပြုလေသည်။ ဘုရား သာသနာတော်အတွင်း၌ ဝါကြီးဝါငယ်ရှိသေရသော အစဉ် ရှိသဖြင့် ရဟန်းတဦးဖြစ်သော ဥပါလိကို ရိုသေလေးစား ခြင်း ပြုရမည်သာ ဖြစ်သည်။ ဥပါလိသည် မြတ်စွာဘုရား ၏ တရားတော်ကို နာကြားရသဖြင့် ရဟန္တာဖြစ်လာသည်။

ဥပါလိထေရ်သည် ဝိနည်းပိဋကတ်ကို တတ်ကျွမ်းလှ သဖြင့် မြတ်စွာဘုရားရှင်က ဝိနယဓရအရာ၌ ဧတဒဂ် ချီးမြှောက်တော်မူသည်။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော် မူပြီးနောက် ပဌမသင်္ဂါယနာတင်ကြရာတွင် ဝိနည်းတရား ကို ရှေးဦးစွာ သင်္ဂါယနာတင်ခဲ့ကြရာ ဥပါလိထေရ်ကို အမှူးထား၍ တင်ကြလေသည်။ ဥပါလိထေရ်သည် ဝါတော် ၇၈ ဝါ ဆောင်တော်မူပြီးမှ ပရိနိဗ္ဗာန်ပြုလေသည်။

**ဥပုသ်။** ။ကမ္ဘာပေါ်ရှိ လူမျိုးတိုင်းလိုလိုပင် ယခုအခါ တွင် ခုနစ်ရက် တပတ်လျှင် တရက်သက်သက်ကို နေ့အား အဖြစ် သတ်မှတ်ထားလေ့ရှိကြသည်။ ထိုသို့ထားရာတွင် အချို့လူမျိုးများအဖို့ကား ထိုနေ့သည် နေ့စဉ်အလုပ်တာဝန် များကို ရပ်ဆိုင်းထားသော အားလပ်ရက်မျှသာမဟုတ်ပဲ လောကုတ္တရာလမ်းစဉ်ဖြစ်သော အယူဝါဒဆိုင်ရာကိစ္စများကို ဆောင်ရွက်ရသော နေ့ထူးနေ့မြတ်လည်း ဖြစ်ပေသည်။ ထိုကြောင့် ထိုကဲ့သို့သောနေ့မျိုးကို သီတင်းနေ့၊ သို့မဟုတ် ဥပုသ်နေ့ဟု ခေါ်လေသည်။

ရှေးနှစ်ပေါင်းများစွာကပင် အီဂျစ်လူမျိုး၊ ဗက်ဗီလုံး နီးယန်းလူမျိုး၊ ဟိန္ဒူလူမျိုး၊ ပါးရှင်းလူမျိုး၊ ဂရိလူမျိုးနှင့် ရောမလူမျိုးများသည် ခုနစ်ရက်တပတ်တွင် တရက်ကို အားလပ်ရက်အဖြစ် သတ်မှတ်ထားခဲ့ကြသည်။ နောက် ခေတ်တွင် ဟီဗြူလူမျိုးများသည် ဗက်ဗီလုံးနီးယန်းလူမျိုး များမှတဆင့် ခုနစ်ရက်တပတ်တွင် တရက်ကို အားလပ်ရက် အဖြစ်ထားသောအလေ့ကို ဆက်ခံရရှိဟန် တူလေသည်။ သို့ရာတွင် ဟီဗြူလူမျိုးတို့၏ အားလပ်ရက်မှာ သူတို့၏ အယူဝါဒဆိုင်ရာ နေ့ထူးနေ့မြတ်လည်း ဖြစ်ပေသည်။ ထို နေ့မှာ အီဂျစ်လူမျိုးများ၏ အညှဉ်းဆဲခံ လက်အောက်ခံ ဘဝမှ ဟီဗြူလူမျိုးများ လွတ်မြောက်သောနေ့ဖြစ်၍ ရက် သတ္တတပတ်တွင် ခုနစ်ရက်မြောက်နေ့ဖြစ်သော စနေနေ့ ဖြစ်လေသည်။

အင်္ဂလိပ် အမေရိကန် စသော ခရစ်ယန်အယူဝါဒီများ၏

ဥပုသ်နေ့မှာ တနင်္ဂနွေနေ့ဖြစ်၏။ ခရစ်ယန်များသည် တနင်္ဂနွေနေ့ကိုဥပုသ်နေ့အဖြစ် သတ်မှတ်ရခြင်းမှာထိုနေ့တွင် ခရစ်တော် ရှင်ပြန်ထမြောက်လာသောကြောင့် ဖြစ်သည်။ ရက်သတ္တတပတ်၏ ပဌမနေ့ဖြစ်သော တနင်္ဂနွေနေ့တိုင်းတွင် ခရစ်ယန်များသည် ခရစ်ယန် ဘုရားရှိခိုးကျောင်းများသို့ သွားရောက်၍ ဝတ်တက်ကြလေသည်။

ဗုဒ္ဓဝါဒီ မြန်မာလူမျိုးများတွင် ဥပုသ်နေ့ဟူ၍ သတ်မှတ်ထားခြင်းရှိလေသည်။ဥပုသ်ဆိုသောစကားသည် ဥပေါသထ ပါဠိဘာသာစကားမှ ဖြစ်ပေါ်လာ၍ အဓိပ္ပာယ်မှာ ရတနာသုံးပါးကိုဆည်းကပ်၍ သီတင်းသုံးခြင်း၊ ရှစ်ပါးသီလကို ထိန်းခြင်း၊သို့မဟုတ် ပါတိမောက်ကိုပြခြင်းဖြစ်သည်။တဖန် ဥပုသ်သုံးမျိုးရှိပြန်ရာ (၁) ဂေါပါလဥပုသ် (၂) နိဂဏ္ဌဥပုသ်နှင့် (၃) အရိယာဥပုသ်ဟူ၍ ဖြစ်သည်။

(၁) ဂေါပါလဥပုသ်ဆိုသည်မှာ ဥပုသ်သီလကိုဆောက်တည်ပြီးနောက် ရတနာသုံးပါး၏ဂုဏ်တော်၊ ကျေးဇူးတော်ကို မအောက်မေ့ မပွားများပဲ ဝတ်ရေးစားရေးမှုအစုစုတို့ကိုသာ ကြံစည်အောက်မေ့နေသော ဥပုသ်မျိုး ဖြစ်သဖြင့် အကျိုးပေးနည်းသည်။

(၂) နိဂဏ္ဌဥပုသ်ဆိုသည်မှာ တိတ္ထိတို့ဆောင်သော ဥပုသ်မျိုးဖြစ်သည်။ပမာအားဖြင့် မိုင်တရာအတွင်း၌ရှိသော သတ္တဝါကိုသာ သတ်ပါမည် စသည့် သိက္ခာပုဒ်မျိုးကို ဆောက်တည်ခြင်းဖြစ်၍ အပြစ်ရှိသည်။

(၃) အရိယာဥပုသ်ဆိုသည်မှာ ဥပုသ်ဆောက်တည်ပြီးလျှင် အနိစ္စ၊ ဒုက္ခ၊ အနတ္တ အသုဘတရားတို့ကို ဆင်ခြင်စဉ်းစားခြင်း၊ ရတနာသုံးပါးတို့၏ ဂုဏ်တော်ကျေးဇူးတော်များကို အောက်မေ့ပွားများခြင်းများပြုလုပ်သဖြင့် များမြတ်သောအကျိုးရှိ၏။

ဥပုသ်ဆောက်တည်ရသောနေ့ကား ပကတိဥပုသ်နေ့၊ ပဋိဇာဂရ ဥပုသ်နေ့၊ ပါဋိဟာရိယပက္ခဥပုသ်နေ့ အားဖြင့် သုံးပါးအပြားရှိ၏။ ထိုသုံးပါးတွင် ပဥ္စမီ–ငါးရက်နေ့၊ အဋ္ဌမီ–ရှစ်ရက်နေ့၊ စတုဒ္ဒသီ–တဆဲ့လေးရက်နေ့၊ ပန္နရသီ–တဆဲ့ငါးရက်နေ့ဟူ၍ လဆန်း လဆုတ် လေးရက်စီအားဖြင့် တလ ရှစ်ရက်သည် ပကတိဥပုသ် မည်၏။

ထိုပကတိဥပုသ်နေ့ကို အကြိုအပို့ပြု၍ ဆောက်တည်သောနေ့သည် ပဋိဇာဂရဥပုသ်နေ့မည်၏။ အကြိုအပို့ပြုဟန်ကား ငါးရက်နေ့ဥပုသ်ကိုကြိုသော် လေးရက်နေ့၊ ပို့သော် ခြောက်ရက်နေ့၊ ရှစ်ရက်နေ့ ဥပုသ်နေ့ကိုကြိုသော် ခုနစ်ရက်နေ့၊ ပို့သော် ကိုးရက်နေ့။ တဆဲ့လေးရက်နေ့ ဥပုသ်ကို ကြိုသော် တဆဲ့သုံးရက်နေ့၊ အပို့မရှိ။ တဆဲ့ငါးရက်နေ့ ဥပုသ်ကို ပို့သော် တရက်နေ့ အကြိုမရှိ။ ဤသို့ အကြိုအပို့ပြု၍ လဆန်း လဆုတ် ခြောက်ရက်စီအားဖြင့် တလလျှင် တဆဲ့နှစ်ရက်သည် ပဋိဇာဂရဥပုသ်နေ့ မည်၏။

ဝါတွင်းသုံးလသည်လည်းကောင်း၊သီတင်းကျွတ်လပြည့်နှင့် တန်ဆောင်မုန်းလပြည့်အကြား တလသည် လည်းကောင်း၊ သီတင်းကျွတ်လပြည့်ကျော် အထွက်တရက်နေ့မှ လကွယ်နေ့တိုင် တပက္ခသည်လည်းကောင်း ပါဋိဟာရိယပက္ခဥပုသ်နေ့ မည်၏။

ဥပုသ်နေ့များတွင် ရတနာသုံးပါးကို ရိုသေကိုင်းရှိုင်းသော ဗုဒ္ဓဝါဒီများသည် ဥပုသ်သီလဆောက်တည်ကြသည်။ ထိုနေ့မျိုးတွင် ပစ္စည်းဥစ္စာ ကုံလုံပြည့်စုံသူများက ရဟန်းသံဃာတော်များအား ဆွမ်းဖွယ်ဝတ္ထုများကို ဆက်ကပ်လှူဒါန်းကြသည်။ အချို့သောသူများကမူ ဘုရားတန်ဆောင်းများနှင့် ဘုန်းတော်ကြီးကျောင်းများသို့ သွားရောက်၍ ကုသိုလ်ကောင်းမှုပြုလုပ်ကြသည်။ ဗုဒ္ဓဝါဒီများသည် ဥပုသ်ဆောက်တည်ရာ၌ မြတ်စွာဘုရားထံတွင် အာရုံပြု၍ဖြစ်စေ၊ သံဃာတော်များထံမှဖြစ်စေ သီလကို ခံယူဆောက်တည်ကြလေသည်။ ဗုဒ္ဓတရားတော်အရ ဥပုသ်စောင့်သုံးသူ တယောက်သည် ဥပုသ်ဆောက်တည်သည့်နေ့တွင် မွန်းလွဲသည့်အချိန်မှစ၍ နက်ဖြန်မိုးသောက်အထိ ဝိကာလဘောဇနာဟူသောသိက္ခာပုဒ်အရ မည်သည့်အစာအာဟာရကိုမျှ မှီဝဲခြင်းမပြုနိုင်တော့ပေ။ ထိုအပြင် နေ့စဉ်ပြုလုပ်နေကျဖြစ်သော အိမ်မှုကိစ္စအလုပ်တာဝန်များနှင့် အခြားလောကီရေးရာလုပ်ငန်းဆောင်တာများကို မပြုလုပ်ကြပဲ ပုတီးစိပ်ခြင်း၊ ဘုရားတရားတော်များကို ဖတ်ကြားနာခံခြင်း၊ ကမ္မဋ္ဌာန်းဘာဝနာစီးဖြန်းခြင်း အစရှိသော လောကုတ္တရာကျင့်စဉ်များကို အားထုတ်ကြလေသည်။

**ဥပန်းငှက်။** ။ဥပန်းငှက်သည် တင်ကျီး ငှက်မျိုးတွင် ပါဝင်သည်။ ကိုယ်အလျားမှာ သုံးပေရှိ၍ ရှည်လျားပြီးလျှင် မြွေကဲ့သို့ တွန့်လိပ်လှုပ်ရှားနိုင်သောလည်တံရှိသည်။ နှုတ်သီးမှာ လှံနှင့်တူသည်။ဥပန်းငှက်၏မေး၊လည်ချောင်းနှင့် ရင်ပတ်တို့သည် ဖြူနေသဖြင့် အခြားတင်ကြီး ငှက်များနှင့် မမှားနိုင်ချေ။

ဥပန်းငှက်၏အော်သံမှာ စူးရှ၍ ဖားအော်သံမျိုးဖြစ်သည်။ ရေချိုကို ကြိုက်နှစ်သက်သောငှက်ဖြစ်သဖြင့် ဥပန်းငှက်သည် ရေနက်သည့်မြစ်နှင့် ထုံးအိုင်များသို့ မကြာခဏ သွားလေ့ရှိသည်။ မြေကြီးနှင့်ငှင်း၊ ရေပြင်နှင့်ငှင်း ကပ်နေသောအခါများတွင် ဥပန်းငှက်သည် ကောင်းစွာ မပျံနိုင်ချေ။ အမြင့်တွင်မူ အခြား တင်ကျီး ငှက်များကဲ့သို့ပင် ကောင်းစွာ ပျံသန်းနိုင်လေသည်။ ဥပန်းငှက်သည် ဆိုခဲ့သောမြစ်နှင့် ထုံးအိုင်မျိုးသို့ ရောက်သွားသောအခါတွင် ရေကူးနေလေ့ရှိသည်။ ရေကူးသောအခါ ကိုယ်ကို ရေတွင်နှစ်၍ ဦးခေါင်းနှင့် လည်ဘက်ကိုသာ ဖော်ထားလေ့ရှိသည်။ ရေကူးနေစဉ် လည်တံရှည်ကြီးကို ကောက်ကာကွေးကာ

တွန့်လိမ်ကာနှင့် ဟိုဖက် သည်ဖက် လှည့်၍ ကြည့်လေ့ ရှိသည်။ ထိုသို့လည်တံကိုလှုပ်ရှားနေစေသောအခါတွင် မြွေနှင့် လွန်စွာတူသောကြောင့် တခါတရံ အင်္ဂလိပ်ဘာသာဖြင့် ထိုငှက်ကို စနိတ်ဗတ် (မြွေငှက်) ဟု ခေါ်လေ့ရှိကြသည်။

ဥပန်းငှက်သည် ရေကူးနေစဉ် ရေဘွင်မကြာခဏ ငုပ်လေ့ရှိသည်။ နားနေရာမှလည်း ရေထဲသို့ ထိုးချပြီးလျှင် ငုပ်သွားလေ့ရှိသည်။ ရေအောက်တွင် အတော်ကြာသည်အထိ နေလေ့ရှိသည်။ ငုပ်ရာတွင်လည်း ကိုက် ၁၀၀ မျှအထိငုပ်သွားလေသည်။ အစာဖြစ်သော ငါးကို လိုက်ရာတွင် ရေအောက်၌ပင် လိုက်သည်။ ငါးကိုမိလျှင်ပေါ်လာကာ ကိုက်ချီထားသောငါးကို ဦးခေါင်းဖက်မှစ၍ မျိုနိုင်စေရန် အပေါ်သို့ မြှောက်တင်လေ့ရှိသည်။

ဥပန်းငှက်သည် အသိုက်များကို သစ်ပင်များပေါ်တွင် ပြုလုပ်သည်။ မြစ်ကျိုးစိမ့်အတွင်း၌ ဥပန်းငှက်အမြောက်အမြားကို တွေ့ရလေ့ရှိရာ တခုသောဩဂုဘ်လ အတွင်းက သစ်ပင်ခပ်နိမ့်နိမ့်ပေါ်တွင် အသိုက်ပေါင်း ၂၀၀ ခန့်ကို တွေ့ခဲ့ရဘူးသည်။ အသိုက်များအတွင်း၌ များသောအားဖြင့် ဥများကိုတွေ့ရပြီးလျှင် အချို့ အသိုက်များ တွင်မူ ရက်အနည်းငယ်အတွင်းကမှ ပေါက်လာခဲ့ကြသော ငှက်ငယ်ကလေးများကို တွေ့ရသည်။ ချင်းတွင်းမြစ်ကမ်းရှိသစ်ပင်များပေါ်တွင်လည်း ဥပန်းငှက်ကလေးများပေါက်လျက်ရှိသည်ကို တွေ့ရသည်။ မြစ်ကြီးနားခရိုင်အဘွင်းရှိ ထုံးအိုင်များတွင်လည်း သားပေါက်လျက်ရှိသော ဥပန်းငှက်အုပ်ကို တွေ့ရလေသည်။ သို့သော် ငှက်ငယ်ကလေးများမပေါက်မီ လူများက ဥပန်းဥများကို စားသောက်ရန် ယူသွားတတ်ကြလေသည်။ အသိုက်များကို သစ်ရွက်များ ရှိနေကြသေးသော သစ်ကိုင်းများဖြင့် အကြမ်းစားမျှသာပြုလုပ်ကြလေသည်။

ဥပန်းငှက်သည် ပယ်လီကန်နီဖေါမီး မျိုးစဉ် တွင် အန်ဟင်ဂီဒီးမျိုးရင်း၌ ပါဝင်ပြီးလျှင် ယင်းကို ပါဏဗေဒ အလိုအရ အန်ဟင်ဂါ အန်ဟင်ဂါ မီလာန်ိုဂက်စတား ဟု ခေါ်လေသည်။

**ဥဗျိုင်း။** ။ဥဗျိုင်းကို ဗျိုင်းဟုလည်း ခေါ်ကြသည်။ ဗျိုင်းကို မြင်ဘူးသူ များသော်လည်း အမြင်ရများသော ဗျိုင်း၏အရောင်မှာ အဖြူ သက်သက်ဖြစ်သည်။ ဗျိုင်း၌ မွဲပြာပြာ ညိုတိုတိုအရောင်များသည်း ရှိသေးသည်ကို သိထားသင့်ပေသည်။ ထိုပြင် ဗျိုင်းသည် ရာသီဥတုကိုလိုက်၍ အရောင်လည်း ပြောင်းလဲတတ်သည်။

ဗျိုင်း၌ ရှည်လျားသော ခြေတံနှင့်လည်ပင်းရှိသည်။ ထိုကြ်ရှည်လျားပြီးလျှင်ချွန်ထက်သောနှုတ်သီးလည်းရှိသည်။

ဗျိုင်း၏ကိုယ်အလျားမှာ ၃၅ လက်မရှိ၍ မိတ်လိုက်ချိန်မဟုတ်သော အခါတွင် နှုတ်သီး၏ အရောင်မှာ အဝါဖြစ်သည်။

ဗျိုင်းသည် ယေဘုယျအားဖြင့် ဆိတ်ငြိမ်စွာ နေလေ့ရှိသော်လည်း စ၍ပျံချိန်တွင်မူ အော်လေ့ရှိသည်။ မိုးတွင်းအခါ၌ စပါးစိုက်ပျိုးထားသော လယ်ကွက်များတွင် ဗျိုင်းများကို အတွေ့ရများ၏။ စပါးများရိတ်ပြီးသောအခါတွင် မြစ်၊ ထုံးအိုင်နှင့် ချောင်းများသို့ ရွှေ့ပြောင်း သွားတတ်ကြသည်။

ဗျိုင်းသည် လယ်ကွက်ထဲတွင် လျှောက်၍ ကနန်း၊ ပိုးတုံးလုံး၊ ပေါက်ဖတ်နှင့် ခူများကို ဖမ်းဆီးစားသောက်၏။ အချို့ဗျိုင်းကမူ လယ်ကွက်ထဲ၌ အစာစားနေသော ကျွဲနွားများ၏နောက်သို့ တကောက်ကောက် လိုက်ပြီးလျှင် ပျံတက်မြူးတူးသော ပိုးမွှားများကို ထိုးဆိတ်စားသောက်သည်။ ထိုပြင် ကျွဲနွား များ၏ အပေါ်တွင် နားနေကာ ကျွဲနွားများ၏မျက်စိနှင့် နားရွက်တို့၏ပတ်ဝန်းကျင်ရှိ ပိုးမွှားများကို ဖမ်းယူစားသောက်သည်။

ဒီရေတက်လာချိန်တွင် ကမ်းနှင့် ကိုက်နှစ်ရာသုံးရာခန့်ဝေးသောရွှံ့နွံများအတွင်း၌ ဗျိုင်းများအုပ်နှင့်ချီ၍ ရှိနေကြသည်ကို တွေ့နိုင်သည်။ အေးသောရာသီဥတုများတွင် ပဲခူးရိုးမဖက်ရှိ သဲချောင်းများတွင် သွားလာ ကျက်စားနေကြသော ဗျိုင်းများကို တွေ့မြင်နိုင်ပေသည်။

ဖြူဖွေးလှပသော ဗျိုင်းမွေးများကို လိုချင်သောအချို့လူများသည် လူ၏ရန်သူမဟုတ်သော ဗျိုင်းများကို သတ်ဖြတ်လေ့ရှိကြသည်။ အမှန်မှာ ဗျိုင်းသည် စပါးပင်များကို ဖျက်ဆီးသော ပိုးမွှားများကို သုတ်သင် ရှင်းလင်းပေးသဖြင့် လူ၏အကျိုးကိုပင် ဆောင်ပေးသေးသည်။ စပါးပေါ်ချိန်တွင် စပါးကွင်းများသို့ ဗျိုင်းများ လာရောက်စေရန်ကိုပင် လယ်သမားများက ဖန်တီးပေးသင့်သည်။

ဗျိုင်းသည် မိုးတွင်း၌ အုပ်ဖွဲ့၍သားပေါက်လေ့ရှိသည်။ ဗျိုင်းကို ကမ္ဘာအနှံ့အပြား၌ တွေ့နိုင်သည်။ မြန်မာနိုင်ငံအနှံ့အပြားတွင်လည်း ဗျိုင်းကိုတွေ့နိုင်သည်။

ဗျိုင်းသည် ဆီကိုနီအီးဖေါမီးမျိုးစဉ်တွင် အာဒီဒီးမျိုးရင်း၌ပါဝင်ပြီးလျှင် ယင်းကို ပါဏဗေဒ အလိုအားဖြင့် အီဂရက်ဘား အယ်လဗားိုဒက်စဘားဟု ခေါ်သည်။

**ဥမင်လိုဏ်ခေါင်း။** ။ဥမင်လိုဏ်ခေါင်းမှာ များသောအားဖြင့် ကူးသန်း သွားလာရေးအတွက် တောင်ကိုဖြတ်၍ဖြစ်စေ၊ မြစ်တဖက်ကမ်းမှ အခြားတဖက်သို့ မြစ်အောက်မှဖြတ်၍ဖြစ်စေ ဖောက်လုပ်ထားသည့် လမ်းဖြစ်သည်။ အဆောက်အအုံဆိုင်ရာ လုပ်ငန်းတွင် ဥမင် လိုဏ်ခေါင်း ဖေါက်လုပ်ခြင်းသည် ရှေးအကျဆုံး အတတ်ပညာတရပ်

တွင်ပါဝင်သည်။ရောမလူမျိုးများကောင်းစားစဉ်က ဥမင်လိုဏ်ခေါင်းများကိုတူး၍ အသုံးပြုခဲ့ကြသည်။ သို့သော် ထိုအခါက ဥမင်လိုဏ်ခေါင်းများကို ရေသယ်ယူရန်အတွက်သာ များသောအားဖြင့် အသုံးပြုခဲ့ကြသည်။

ကူးသန်းသွားလာရေးအတွက် ဖောက်လုပ်သောဥမင်လိုဏ်ခေါင်းများမှာ နည်းပါး၏။ ဥမင်လိုဏ်ခေါင်းတူးရာ၌ ရောမလူမျိုးတို့သည် ကျောက်များကို ပဌမပူလာအောင် အပူတိုက်ပေးပြီးနောက် ရေပက်ဖြန်းပေးခြင်းဖြင့်ကျောက်ကိုလန့်၍ ကွဲစေလေ့ရှိသည်။ တခါတရံတွင်လည်း သူတို့သည် ဗင်နီးဂါး (ရှာလကာရည်)ဖြင့် ပက်၍ ပိုကွဲသွားအောင် ပြုလုပ်ပေးကြသည်။ ဥမင်လိုဏ်ခေါင်းများ တူးရာတွင် အလုပ်တင်ကျယ်စေခြင်းငှါ တူးယူလိုသည့် နေရာတလျှောက်၌ ပြွန်တွင်းများကိုတူးပေး၍ အလုပ်ကို နေရာပေါင်းများစွာမှ တပြိုင်နက်တည်းပြုလုပ်လေ့ရှိကြသည်။

ဥမင် လိုဏ်ခေါင်းများသည် ယခုခေတ်၌ အလွန်ပင်အသုံးဝင်ကြပေသည်။ ကျွန်ုပ်တို့သည် တောင်၊မြစ်စသောသဘာဝ အတားအဆီးများကို ဖြတ်ကျော်ရန် အတွက် ဥမင်လိုဏ်ခေါင်းများကိုလို၏။ လူဦးရေ ထူထပ်ပေါများ၍ အသွားအလာ ရှုပ်ထွေးသော မြို့ကြီးပြကြီးများတွင် ရေပြွန်၊မိလ္လာပြွန်နှင့် လျှပ်စစ်ဓာတ်ကြိုးများ သွယ်ရန်အတွက်ရှင်း၊ မြေအောက် လူသွားလမ်းနှင့် ဓာတ်ရထား မီးရထား လမ်းများအတွက်ရှင်း ဥမင် လိုဏ်ခေါင်းများကို ဖောက်လုပ်အသုံးပြုကြရပေသည်။ အချို့မြို့ကြီးများတွင် အပေါ်မှမမြင်ရသော်လည်း မြေအောက်၌အဆိုပါဥမင်လိုဏ်ခေါင်းအမျိုးမျိုးဖြင့် ရှုပ်ရှက်ခတ်နေတော့၏။ ဥမင်လိုဏ်ခေါင်းများကား များသောအားဖြင့် သိပ္ပံပညာ၏ အံ့သြဖွယ်ကောင်းသောတိုးတက်မှုကိုပြသည့် လုပ်ငန်းများပင်ဖြစ်ကြပေသည်။

ဥမင်လိုဏ်ခေါင်းများကို မတူးမီ ရှေးဦးစွာ တူးဖော်မည့်နေရာတဝိုက်တွင် ဘူမိဗေဒ ဆရာတို့သည် အမျိုးမျိုးစမ်းသပ်ပြီးနောက် မြေအောက်အနေအထားပုံကို ရေးဆွဲကြရသည်။ ဤသို့မြေအနေအထားပုံ ရေးဆွဲခြင်း အလုပ်သည် အလွန်အရေးကြီး၏။ အဘယ်ကြောင့်ဆိုသော် ဤပုံကိုကြည့်၍ မြေအောက် အတွင်းသား ဖွဲ့စည်းပုံ အနေအထားနှင့်တကွ ရေထွက်မည့်နေရာ စသည်တို့ကိုပါ မှန်းဆသိရှိပြီးမှ ဖောက်လုပ်မည့် ဥမင်လိုဏ်ခေါင်းလမ်းကြောင်းကို ရွေးချယ်သတ်မှတ်နိုင်သောကြောင့် ဖြစ်သည်။ ထို့နောက် ဥမင်လိုဏ်ခေါင်း အစအဆုံး နှစ်ဖက်၏အနိမ့်အမြင့် ဥမင်လိုဏ်ခေါင်း၏ အကျယ်အဝန်းများကို တွက်ချက် ဆုံးဖြတ်ရပြန်သည်။ ဤသို့ အတိအကျ ကြိုတင်ပြင်ဆင်မှုများပြီးစီးသွားသောအခါ ဥမင်လိုဏ်ခေါင်းတူးဖော်ရေး လုပ်ငန်းကို စတင်လေတော့၏။

ဥမင်လိုဏ်ခေါင်းတူးဖော်ရာတွင်ကျောက်များကိုတူးဆွဖောက်ခွဲရန် စက်လွှန်များ၊ ယမ်းဘီလူးများကို အသုံးပြု



ပြင်သစ်နိုင်ငံမှ ခုနစ်မိုင်ရှည်လျားသည့် မောင့်ဗလန်ဥမင်လိုဏ်ခေါင်းလမ်းမကြီးကို ၁၈၅၇ ခုနှစ်တွင် စတင်ဖေါက်လုပ်စဉ်

